بَلْ قَالُوٓا۟ أَضْغَٰثُ أَحْلَٰمٍۭ بَلِ ٱفْتَرَىٰهُ بَلْ هُوَ شَاعِرٌ فَلْيَأْتِنَا بِـَٔايَةٍ كَمَآ أُرْسِلَ ٱلْأَوَّلُونَ ۝٥

၅။ ထိုသို့မဟုတ်၊ စင်စစ်မှာကား ယင်း(မိစ္ဆာဝါဒီ)တို့က (ဤသို့)ပြောဆိုကြကုန်၏။ (ဤကုရ်အာန်ကျမ်းသည်) *ဂယောင်ချောက်ချား မြင်မက်သော အိပ်မက်မျှသာ ဖြစ်သည်။* [၁] ထိုမျှမက စင်စစ်မှာကား ယင်း(မုဟမ္မဒ်)သည် ဤ(ကုရ်အာန်ကျမ်းတော်)ကို ကြံဖန်(သီကုံး)ခဲ့သည်။ ထိုမျှသာမက စင်စစ်မူကား ယင်း(မုဟမ္မဒ်)သည် လင်္ကာဆရာတစ်ဦးပင် ဖြစ်ပေသည်။ ထိုသို့မဟုတ်ခဲ့လျှင် ရှေးသူဟောင်းများ (ရစူလ်တမန်တော်အဖြစ်) စေလွှတ်ခြင်း ခံခဲ့ရသကဲ့သို့ပင် ယင်း(မုဟမ္မဒ်)သည်လည်း ကျွန်ုပ်တို့ထံ တန်ခိုးပြာဋိဟာ တစ်စုံတစ်ရာကို ယူလာသင့်၏။

---

(၁) မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များသည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကြား၍ မည်သို့မျှ ပြန်လည် မချေပနိုင်ကြသည့်အဆုံးတွင် သွေဖည်ငြင်းဆန် မနာခံလိုသောစိတ်ဖြင့် ဖွတ်မိုတ်ပြီး ဂယောင်ချောက်ချား ပြောဆိုခဲ့ကြလေသည်။

ဤကုရ်အာန်ကျမ်းလာ အာယတ်တော်များနှင့် စပ်လျဉ်း၍ တစ်ခါတစ်ရံ ပဋ္ဌလက်အတတ်ဖြစ်သည် ဟူ၍လည်းကောင်း၊ တစ်ခါတစ်ရံ ဂယောင်ဂယက် အိပ်မက်ဖြစ်သည် ဟူ၍လည်းကောင်း၊ တစ်ခါတစ်ရံ ဤကုရ်အာန်သည် သူ(မုဟမ္မဒ်)ကိုယ်တိုင် ကြံစည် လီဆယ်ထားသောအရာ ဖြစ်သည်ဟူ၍လည်းကောင်း၊ တစ်ခါတစ်ရံ ဤသူ(မုဟမ္မဒ်)သည် လင်္ကာဆရာ ဖြစ်သည်ဟူ၍လည်းကောင်း လျှာတွင် အရိုးမရှိတိုင်း ထင်မိထင်ရာ ပြောဆိုခဲ့ကြလေသည်။

နောက်ဆုံးတွင် ယင်းကာဖိရ်၊ မုရှ်ရစ်က်များက အကယ်၍ ဤသို့မဟုတ်လျှင် ဤသူ(မုဟမ္မဒ်)သည် အတိတ်ခေတ် တမန်တော်များကဲ့သို့ တန်ခိုးတစ်ပါးပါးကို ကျွန်ုပ်တို့ထံ ယူဆောင်လာသင့်သည်ဟု မလိုမုန်းတီးသောစိတ်ဖြင့် ဖွတ်မိုတ်၍ ပြောဆိုခဲ့ကြလေသည်။

အမှန်မှာ တမန်တော်မြတ်သည် အတိတ်ခေတ် တမန်တော်များ၏ တန်ခိုးများနှင့် မခြား၊ များစွာသော တန်ခိုးများကို ပြသတော်မူခဲ့ပေပြီ။ အထူးသဖြင့် ကမ္ဘာတစ်သက် တည်ရှိမည့် ကုရ်အာန်ကျမ်းမြတ်ကိုလည်း တန်ခိုးအဖြစ် ပြသခဲ့ချေပြီ။ စိတ်စေတနာ ဖြူစင်စွာဖြင့် အမှန်တရားကို နာယူလိုသူများအဖို့ ဤသည့် တန်ခိုးများသည် လိုသည်ထက်ပင် ပို၍နေပေသည်။

ယင်း ကာဖိရ်၊ မုရှ်ရစ်က်များ ကိုယ်တိုင်ကလည်း ဤကုရ်အာန်သည် ပဋ္ဌလက်မဟုတ်၊ ဂယောင်ဂယက် အိပ်မက်မဟုတ်၊ လင်္ကာမဟုတ်သည်ကို စိတ်အတွင်းမှ သိကြပေသည်။ သို့တစေလည်း "ကျားကျား-မီးယပ်" ဟု ဆိုသူများအဖို့ကား အကျိုးရှိမည်မဟုတ်ပေ၊ ၎င်းတို့အဖို့ ငရဲမီးမှအပ အခြားဆေး မရှိတော့ပေ။

مَآ ءَامَنَتْ قَبْلَهُم مِّن قَرْيَةٍ أَهْلَكْنَٰهَآ ۖ أَفَهُمْ يُؤْمِنُونَ ⑥

၆။ ၎င်းတို့အလျင် ငါအရှင်မြတ် ပျက်စီးစေတော်မူခဲ့သောမည်သည့်မြို့ရွာ(မှ မြို့သူရွာသားများ)မျှပင် (တန်ခိုးများကို တွေ့မြင်ကြပါလျှက်နှင့်ပင်) သက်ဝင်ယုံကြည်ခဲ့ကြသည်မဟုတ်ပေ။ သို့ဖြစ်ပေရာ ဤသူတို့သည် သက်ဝင်ယုံကြည်ကြဦးမည်လော။ [၁]

وَمَآ أَرْسَلْنَا قَبْلَكَ إِلَّا رِجَالًا نُّوحِىٓ إِلَيْهِمْ ۖ فَسْـَٔلُوٓا۟ أَهْلَ ٱلذِّكْرِ إِن كُنتُمْ لَا تَعْلَمُونَ ⑦

၇။ စင်စစ် ငါအရှင်မြတ်သည် အသင့် အလျင်ကလည်း ယောကျ်ားများကိုသာလျှင် (ရစူလ်တမန်တော်များအဖြစ်) စေလွှတ်တော်မူခဲ့၏။ ငါအရှင်မြတ်သည် ၎င်းတို့ထံ "ဝဟ်ယ်" အမိန့်တော်ကို ပို့တော်မူလေသည်။ သို့ဖြစ်ပေရာ အကယ်၍ အသင်တို့သည် (မိမိကိုယ်တိုင်)မသိကြလျှင် (ရှေး)ကျမ်းဂန်ရရှိသူများအား မေးမြန်း(၍ ကြည့်)ကြလေကုန်။ [၂]

---

(၁) အလ္လာဟ်အရှင်မြတ်သည် အတိတ်ခေတ်ရှိ အမျိုးသားတို့အား ၎င်းတို့ တောင်းဆိုခဲ့ကြသော တန်ခိုးများကို ထင်ရှားစွာ ပြသတော်မူခဲ့သည်။ ထိုအမျိုးသားများသည် ယင်းသည့်တန်ခိုးများကို မျက်ဝါးထင်ထင် တွေ့မြင်ကြရသောအခါ သွေဖည်မြဲ သွေဖည်သွားခဲ့ကြပေသည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ စွန္နတ်တော်အတိုင်း ယင်းအမျိုးသားတို့အား ကွပ်မျက် ဖျက်ဆီးပစ်တော်မူခဲ့လေပြီ။

ဤ မုရှိရစ်က်များသည်လည်း ၎င်းတို့အား ၎င်းတို့တောင်းဆိုသော တန်ခိုးများကို ပြသတော်မူပါက အတိတ်ခေတ် အမျိုးသားများကဲ့သို့ပင် ယုံကြည်ကြမည် မဟုတ်ပေ၊ သို့မယုံကြည်ကြပါက အတိတ်ခေတ် အမျိုးသားများကဲ့သို့ပင် ကွပ်မျက်ဖျက်ဆီးခြင်း ခံကြရပေမည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ "ဟိကမတ်" ရွှေဉာဏ်တော်အရ ၎င်းတို့အား လောလောဆယ် ကွပ်မျက်ဖျက်ဆီးတော် မမူလိုသေးပေ။ ထို့အတွက် ၎င်းတို့အား ခေတ္တ လျစ်လျူပြုထားတော်မူခြင်းသာ ဖြစ်ပေသည်။

(၂) ကာဖိရ်၊ မုရှိရစ်က်များက တမန်တော်နှင့် ပတ်သက်၍ "ဤသူ(မုဟမ္မဒ်)သည် အသင်တို့ကဲ့သို့ သာမန်လူသားတစ်ဦးသာ ဖြစ်သည်" ဟု ဆိုခဲ့ကြသည်။

ဤအာယတ်တော်တွင် ၎င်းတို့၏ အဆိုပါ ပြောဆိုချက်နှင့် စပ်လျဉ်း၍ ဖြေကြားတော်မူသည်မှာ တမန်တော်မြတ်အလျင် အလ္လာဟ်အရှင်မြတ် စေလွှတ်တော်မူခဲ့သမျှသော တမန်တော်များသည်လည်း လူသားယောကျ်ားများသာ ဖြစ်ခဲ့ကြပေသည်။ ယင်းတမန်တော်များသည် ကောင်းကင်တမန်များ မဟုတ်ခဲ့ကြပေ။

ဤမျှ ထင်ရှားကျော်ကြားသော သတင်းစကားကိုပင် ဤကာဖိရ်၊ မုရှိရစ်က်များ မသိရှိကြပါက ၎င်းတို့နှင့် အဆက်အသွယ်ရှိသော အတိတ်ခေတ်ကျမ်းဂန်ရ လူမျိုးများ ဖြစ်ကြသော ယဟူဒီ၊ နဆွာရာနီများအား မေးကြည့်သင့်ကြပေသည်။

**၈။** ၎င်းပြင် ငါအရှင်မြတ်သည် ယင်း (ရစူလ်တမန်တော်)တို့အား အစာအဟာရ စား(သောက်)ခြင်း မပြုကြသောခန္ဓာကိုယ်များ(အဖြစ်) ပြုလုပ်(ဖန်ဆင်း)တော်မူခဲ့သည်လည်း မဟုတ်ပေ။ ထို (ရစူလ်တမန်တော်)များသည် (အသက်သေဆုံးခြင်းမရှိဘဲ) အမြဲထာဝရ (အသက်ရှင်)နေသူများလည်း မဖြစ်ခဲ့ကြချေ။

وَمَا جَعَلْنَٰهُمْ جَسَدًا لَّا يَأْكُلُونَ ٱلطَّعَامَ وَمَا كَانُوا۟ خَٰلِدِينَ ﴿٨﴾

**၉။** ထို့နောက် ငါအရှင်မြတ်သည် ထို (ရစူလ်တမန်တော်)များအဖို့ (၎င်းတို့နှင့်ထားရှိတော်မူခဲ့သော) ကတိကို တည်စေတော်မူခဲ့လေသည်။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ယင်း(ရစူလ်တမန်တော်)များအားလည်းကောင်း၊ မိမိတို့ အလိုရှိတော်မူသောသူတို့အားလည်းကောင်း၊ ကယ်ဆယ်တော်မူခဲ့လေသည်။ သို့ရာတွင် ငါအရှင်မြတ်သည် စည်းကမ်းကျူးလွန်သူတို့အား ပျက်စီးစေတော်မူခဲ့၏။ [၁]

ثُمَّ صَدَقْنَٰهُمُ ٱلْوَعْدَ فَأَنجَيْنَٰهُمْ وَمَن نَّشَآءُ وَأَهْلَكْنَا ٱلْمُسْرِفِينَ ﴿٩﴾

---

(၁) ပွင့်လေသမျှသော တမန်တော်များသည် ကောင်းကင်တမန်များ မဟုတ်ခဲ့ကြပေ။ လူသားများသာ ဖြစ်ခဲ့ကြပေသည်။ လူ့သဘာဝအလျောက် အစာအဟာရများကို စားသုံးမှီဝဲကြသည်သာ ဖြစ်ပေသည်။ ယင်းတမန်တော်များသည် (ဤပစ္စက္ခတွင်) သင်္ခါရတရားနှင့် ကင်းကွာ၍ ထာဝရ တည်ရှိနေကြသည်လည်း မဟုတ်ပေ။

သို့ရာတွင် ယင်းတမန်တော်များ၏ ထူးခြားချက်တစ်ရပ်မှာ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်ထံမှ လူသားတို့အား တရားဓမ္မ ဟောညွှန်ပြရန်အတွက် စေလွှတ်ခြင်း ခံကြရသော ပုဂ္ဂိုလ်မွန်၊ ပုဂ္ဂိုလ်မြတ်များ ဖြစ်ကြပေသည်။ ၎င်းတို့ထံသို့ အလ္လာဟ်အရှင်မြတ်ထံတော်မှ အချိန်အခါ အားလျော်စွာ (ဝဟီ) အမိန့်တော်များ ကျရောက်လာပေသည်။ အလ္လာဟ်အရှင်မြတ်သည် အခြေအနေအရ သက်သေလက္ခဏာတော်အဖြစ် ယင်းတမန်တော်များမှ တစ်ဆင့် အချို့တန်ခိုးပြာဋိဟာများကိုလည်း ပြသတော်မူပေသည်။

အမြင်အားဖြင့် တမန်တော်များသည် သာမန်လူသားများနည်းတူ အားအင်ချည့်နဲ့ကြသည်သာ ဖြစ်ပေသည်။ ထိုအရှင်မြတ်သည် ယင်းတမန်တော်များအား ကာကွယ်ထိန်းသိမ်း ကူညီတော်မူမည့်အကြောင်း၊ ရန်သူများအား အချိန်တန်လျှင် ပြစ်ဒဏ် ခတ်တော်မူမည့်အကြောင်း ကတိပေးတော်မူသည့်အတိုင်း၊ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ယင်းတမန်တော်များနှင့် ၎င်းတို့၏ နောက်လိုက် တပည့်သားတို့အား ကယ်တင်၍ ရန်သူတို့အား ကွပ်မျက်တော်မူသည်သာ ဖြစ်သည်။ ဤကား ကမ္ဘာ့သမိုင်းတွင် အထင်အရှားပင်။ သို့ဖြစ်ပေရာ ကာဖိရ်၊ မုရှ်ရစ်က်များသည် အတိတ်ခေတ် လူမျိုးတို့၏ ဖြစ်စဉ်ဖြစ်ရပ်များမှ သင်ခန်းစာယူ၍ အချိန်မီ မိမိတို့ကိုယ်ကို ပြုပြင်ပြောင်းလဲသင့်ကြပေပြီ။

لَقَدْ أَنزَلْنَآ إِلَيْكُمْ كِتَٰبًا فِيهِ ذِكْرُكُمْ ۖ أَفَلَا تَعْقِلُونَ ﴿١٠﴾

၁၀။ မလွဲဧကန် ငါအရှင်မြတ်သည် အသင်တို့ထံ အကြင်ကဲ့သို့သော ကျမ်းဂန်တစ်စောင်ကို ပေးသနားတော်မူခဲ့ပြီးဖြစ်၏။ ယင်းကျမ်းဂန်တွင် အသင်တို့အား သတိပေး နှိုးဆော်ချက်(များ)ပါရှိ၏။ သို့ပါလျက် အသင်တို့သည် မသိ နားမလည်ကြလေသလော။

وَكَمْ قَصَمْنَا مِن قَرْيَةٍ كَانَتْ ظَالِمَةً وَأَنشَأْنَا بَعْدَهَا قَوْمًا ءَاخَرِينَ ﴿١١﴾

၁၁။ စင်စစ် ငါအရှင်မြတ်သည် များစွာသော ကျူးလွန်လျက်ရှိခဲ့သောမြို့ရွာများကို ပျက်စီးစေတော်မူခဲ့၏။ ၎င်းပြင် ယင်းမြို့ရွာများ (ပျက်စီးသွားပြီး) နောက်တွင် ငါအရှင်မြတ်သည် အခြားသောလူမျိုးများကို ပေါ်ထွန်းစေတော်မူခဲ့၏။

فَلَمَّآ أَحَسُّوا۟ بَأْسَنَآ إِذَا هُم مِّنْهَا يَرْكُضُونَ ﴿١٢﴾

၁၂။ သို့ဖြစ်ပေရာ ယင်းမြို့ရွာသားတို့သည် ငါအရှင်မြတ်၏ ပြစ်ဒဏ် (သက်ရောက်လာသည်)ကို သိမြင်ကြသောအခါ ရုတ်တရက် ၎င်းတို့သည် ယင်းမြို့ရွာများမှ ထွက်ပြေးကြကုန်၏။

لَا تَرْكُضُوا۟ وَٱرْجِعُوٓا۟ إِلَىٰ مَآ أُتْرِفْتُمْ فِيهِ وَمَسَٰكِنِكُمْ لَعَلَّكُمْ تُسْـَٔلُونَ ﴿١٣﴾

၁၃။ (ထိုအခါ ကောင်းကင်တမန်များက ၎င်းတို့အားပြက်ရယ်သောအားဖြင့်) "အသင်တို့သည် မပြေးကြကုန်လင့်။ အသင်တို့သည် စည်းစိမ်အဖြစ် ချီးမြှင့်ပေးသနားခြင်းခံခဲ့ကြရသော ဥစ္စာပစ္စည်းများ(ရှိရာ)သို့လည်းကောင်း၊ မိမိတို့ နေအိမ်များသို့လည်းကောင်း၊ ပြန်ခဲ့ကြလေကုန်၊ အသင်တို့သည် မေးမြန်းခြင်းခံကြရသည်၊" (ဟု ပြောဆိုခဲ့ကြကုန်၏)။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ်၏ တရားဒေသနာတော်များကို သွေဖည်ငြင်းဆန် မနာခံဘဲ၊ ကျူးကျော်စော်ကားလျက်ရှိခဲ့သော မြို့ရွာသားများသည် ပြစ်ဒဏ်တော် သက်ရောက်လာသည်ကို တွေ့မြင်ကြသောအခါ၊ မိမိတို့၏မြို့ရွာများမှ ထွက်ပြေးတိမ်းရှောင်ခဲ့ကြသည်။

ယင်းသို့ ထွက်ပြေးတိမ်းရှောင်သူတို့အား အလ္လာဟ်အရှင်မြတ်၏ ဘက်တော်မှ ပြောကြားမည်မှာ- အသင်တို့ အဘယ်သို့ ထွက်ပြေးကြသနည်း။ ထွက်မပြေးကြနှင့်၊ မိမိတို့ စည်းစိမ်နှင့် နေထိုင်ခဲ့ကြသော မြို့ရွာများသို့ ပြန်သွားကြ၊ ထိုမြို့ရွာများတွင် အသင်တို့ စုဆောင်းထားသော ဥစ္စာပစ္စည်း အမြောက်အမြား ➤➤

قَالُوا يَوَيْلَنَا إِنَّا كُنَّا ظَلِمِينَ ﴿١٤﴾

**၁၄။** (ထိုအခါ) ယင်းမြို့သူရွာသားတို့က "သြော်- ဖြစ်မှ ဖြစ်ရလေခြင်း၊ ဧကန်စင်စစ် ကျွန်ုပ်တို့သည် သာလျှင် မတရားမှုကို ကျူးလွန်သူများ ဖြစ်ခဲ့ကြသည်တကား" ဟု ပြောဆို (ညည်းညူမြည်တမ်း) ခဲ့ကြကုန်၏။

فَمَا زَالَت تِّلْكَ دَعْوَلهُمْ حَتَّى جَعَلْنَهُمْ حَصِيدًا خَمِدِينَ ﴿١٥﴾

**၁၅။** ၎င်းတို့၏ ထို ဟစ်အော်မြည်တမ်းမှုသည် (ဆက်လက်၍) ရှိမြဲအတိုင်းပင်ရှိနေခဲ့၏။ နောက်ဆုံးတွင် ငါအရှင်မြတ်သည် ၎င်းတို့အား ရိတ်သိမ်းပြီးဖြစ်သော လယ်ယာကို ငြိမ်းသွားသော မီး(ကဲ့သို့) ပြုလုပ်တော်မူခဲ့ပေသတည်း။

وَمَا خَلَقْنَا السَّمَاءَ وَالْأَرْضَ وَمَا بَيْنَهُمَا لَعِبِينَ ﴿١٦﴾

**၁၆။** စင်စစ် ငါအရှင်မြတ်သည် မိုးကောင်းကင်ကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်း(မိုးကောင်းကင်နှင့်ပထဝီမြေ) နှစ်ခု၏အကြား၌ ရှိသည်တို့ကို လည်းကောင်း၊ ကစားသူအဖြစ် (အပျင်းပြေ) ဖန်ဆင်းထားတော်မူသည် မဟုတ်ပေ။ [၁]

---

➤➤ ရှိပေသည်။ ထိုမြို့ရွာများတွင် အသင်တို့အား အချို့က "လူကြီးမင်းများ မည်သို့မည်ပုံ ဖြစ်ကြပါသနည်း။ လူကြီးမင်းများ၏ အိုးအိမ်တိုက်တာ ဂေဟာပစ္စည်း ခြွေရံသင်းပင်းများ အသို့ဖြစ်သွားကြသနည်း။ အလ္လာဟ်အရှင်မြတ် ပြုထားတော်မူသော ကျေးဇူးတော်များကို အဘယ်မျှ ကျေးဇူးဆပ်နိုင်ခဲ့ကြပါသနည်း။ သို့မဟုတ် လူကြီးမင်းများသည် ကျွန်ုပ်တို့၏အကြီးအကဲများ ဖြစ်ကြပါသည်။ ကျွန်ုပ်တို့သည် အရေးကိစ္စ အဝဝတွင် လူကြီးမင်းများအား မှီခိုအားထားကြရပါသည်။ မိမိတို့၏ မြို့ရွာများကို စွန့်ခွာပြီး အရပ်တစ်ပါးသို့ ရွှေ့ပြောင်းမသွားကြပါနှင့်။ မိမိတို့ စည်းစိမ်နှင့်နေထိုင်ခဲ့ကြသော မိမိတို့၏ မြို့ရွာများသို့ ပြန်ကြွကြပါ"ဟု မေးကောင်းမေးကြပါလိမ့်မည်။

အမှန်မှာ ထိုမြို့ရွာများသည် ပြစ်ဒဏ်တော်သင့် ပျက်စီးခြင်းကြီးမလှ ပျက်စီးသွားချေပြီ။ ထိုမြို့ရွာများတွင် အိုးအိမ်တိုက်တာ ဂေဟာပစ္စည်းဥစ္စာဟူ၍ စိုးစဉ်းမျှ မရှိတော့ပြီ။ ခြွေရံသင်းပင်းဟူ၍လည်း တစ်ဦးတစ်ယောက်မျှ မရှိတော့ပြီ။ ဤသည် စောင်းချိတ်နာကျည်း ထိခိုက်စေသည့် သဘောဖြင့် မိန့်ဆိုထားတော် မူခြင်းသာ ဖြစ်သည်။

(၁) **ဤစကြာဝဠာကြီးကို အချည်းနှီး ဖန်ဆင်းတော်မူသည် မဟုတ်။**

ဤထူးထွေ၊ ဆန်းပြား၊ ခန့်ညားလှသော စကြာဝဠာကြီးသည် မိမိလိုအလျောက် ဖြစ်ပေါ်ခဲ့သည်လော။ မည်သူ ဖန်ဆင်းထားသနည်း။ ယင်းသို့ ဖန်ဆင်းရာတွင် ရည်ရွယ်ချက်ရှိသလော။ အချည်းနှီးလော၊ ➤➤

لَوْ اَرَدْنَآ اَنْ نَّتَّخِذَ لَهْوًا لَّاتَّخَذْنٰهُ مِنْ لَّدُنَّآ ۖ اِنْ كُنَّا فٰعِلِيْنَ ﴿١٧﴾

၁၇။ အကယ်၍သာ ငါအရှင်မြတ်သည် အပျင်းပြေ ကစားစရာကိုသာ ပြုလုပ်ရန် ရည်စူးတော်မူခဲ့ပါလျှင် ငါအရှင်မြတ်သည် ယင်း ကစားစရာကို ဇကန်မုချ မိမိအထံတော်၌ ရှိသည်တို့အနက်မှပင် ပြုလုပ်ထား တော်မူပေမည်။ အကယ်၍သာ ငါအရှင်မြတ်သည် ပြုလုပ်တော်မူမည့်အရှင် ဖြစ်တော်မူခဲ့ပါလျှင်။

بَلْ نَقْذِفُ بِالْحَقِّ عَلَى الْبَاطِلِ فَيَدْمَغُهٗ فَاِذَا هُوَ زَاهِقٌ ۚ وَلَكُمُ الْوَيْلُ مِمَّا تَصِفُوْنَ ﴿١٨﴾

၁၈။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ်မှာကား ငါ အရှင်မြတ်သည် အမှန်ကို အမှားပေါ်၌ပစ်ပေါက်တော် မူ၏။ ထိုအခါ ယင်းအမှန်သည် ထိုအမှား၏ဦးနှောက် ကို ထွက်စေ၏။ ထိုအခါ ယင်းအမှားသည် ရုတ်တရက် ပျောက်ပျက် သွားလေ၏။ စင်စစ် အသင်တို့၌ မိမိတို့ ၏ ကြံဖန်စွပ်စွဲချက်များကြောင့် ပျက်စီးခြင်းသည် ရှိပေမည်။

وَلَهٗ مَنْ فِى السَّمٰوٰتِ وَالْاَرْضِ ۗ وَمَنْ عِنْدَهٗ لَا يَسْتَكْبِرُوْنَ عَنْ عِبَادَتِهٖ وَلَا يَسْتَحْسِرُوْنَ ﴿١٩﴾

၁၉။ စင်စစ်သော်ကား မိုးကောင်းကင်များ၌လည်း ကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ ရှိသူအားလုံး တို့သည် ထိုအရှင်မြတ် ပိုင်ဆိုင်တော်မူသောသူများပင် ဖြစ်ကြကုန်၏။ ၎င်းပြင် ထိုအရှင်မြတ်၏အပါးတော်၌ ရှိနေသူတို့သည် ထိုအရှင်မြတ်အား ခဝပ်ခြင်းမှ မာန် ထောင်လွှားကြသည် မဟုတ်ပေ။ မောပန်းကြသည် လည်း မရှိပေ။

---

➤➤ အမှန်မှာ ဤစကြာဝဠာကြီးသည် မိမိအလိုအလျောက် ဖြစ်ပေါ်လာခဲ့သည်မဟုတ်။ တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသော၊ တစ်ဆူတည်း ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်က ဖန်ဆင်းထားတော်မူသော စကြာဝဠာကြီးသာဖြစ်သည်။

ထိုအရှင်မြတ်သည် ဤစကြာဝဠာကြီးကို ရည်ရွယ်ချက်မပါ၊ အကြောင်းမဲ့ အကျိုးမဲ့ အချည်းနှီး ဖန်ဆင်းထားတော် မူသည်မဟုတ်။ အမှန်မှာ ဤပစ္စက္ခဘဝသည် အကြောင်းဖြစ်သည်။ နောင်တမလွန်ဘဝသည် အကျိုးဖြစ်သည်။ ဤပစ္စက္ခဘဝတွင် ရှိနေကြစဉ် ပြုမူကျင့်ကြံခဲ့ကြသော အရေးကိစ္စအဝဝနှင့် စပ်လျဉ်း၍ နောင်တမလွန် ဘဝတွင် စစ်ကြောမေးမြန်းခြင်း ခံကြရမည်။ ကောင်းကျိုး ဆိုးကျိုးများကို တရားသဖြင့် ခံစံကြရမည်။ ကြည့်-ကုရ်အာန် (၁၆း၈၅။၃၈း၂၇။ ၄၆း၃။ ၂၃း၁၁၅)

يُسَبِّحُونَ الَّيْلَ وَالنَّهَارَ لَا يَفْتُرُونَ ﴿٢٠﴾

၂၀။ ယင်း (အပါးတော်၌ ရှိသူတို့သည်) (ထိုအရှင်မြတ်) စင်ကြယ် သန့်ရှင်းတော်မူကြောင်းကို နေ့ညဥ့်မပြတ် မြွက်ဆိုဘာဝနာ စီးဖြန်းလျက်ရှိကြကုန်၏။ ရပ်တန့်ကြသည်ဟူ၍လည်း မရှိပေ။ [၁]

أَمِ اتَّخَذُوٓا۟ ءَالِهَةً مِّنَ الْأَرْضِ هُمْ يُنشِرُونَ ﴿٢١﴾

၂၁။ သို့ပါလျက်ငင်း(မုရှိရစ်က်)တို့သည် ပထဝီမြေမှ ဖြစ်သောအရာများကို ကိုးကွယ်ရာများ ပြုလုပ်ထားကြလေသလော၊ ယင်းအရာများသည် ရှင်ပြန်စေနိုင်ကြသည်(လော)။

لَوْ كَانَ فِيهِمَآ ءَالِهَةٌ إِلَّا اللَّهُ لَفَسَدَتَا ۚ فَسُبْحَٰنَ اللَّهِ رَبِّ الْعَرْشِ عَمَّا يَصِفُونَ ﴿٢٢﴾

၂၂။ အကယ်၍သာ ယင်း(မိုးကောင်းကင်နှင့်ပထဝီမြေ)နှစ်ခုတွင် အလ္လာဟ်အရှင်မြတ်အပြင် အခြား (ထာဝရတည်ရှိသော) ကိုးကွယ်ရာများ ရှိခဲ့ကြပါမူ (မိုးကောင်းကင်နှင့် ပထဝီမြေ) *နှစ်ခုစလုံးမှာ မလွဲဧကန် ပျက်စီးခဲ့ပြီးဖြစ်ကြပေမည်။* [၂] စင်စစ်သော်ကား "အရ်ရှ်" ပလ္လင်တော်ကို စိုးပိုင်တော်မူသော အလ္လာဟ်အရှင်မြတ်သည် ငင်းတို့ ကြံဖန် စွပ်စွဲကြသည်တို့မှ (လုံးဝ) စင်ကြယ်သန့်ရှင်း အပြစ်ကင်းတော်မူ၏။

---

(၁) မိုး၊မြေ၊စကြာဝဠာအဝှမ်းရှိ သက်ရှိသက်မဲ့ အားလုံးတို့ကို အလ္လာဟ်အရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူသည်။ ခပ်သိမ်းကုန်သော အရာအားလုံးတို့သည် ထိုအရှင်မြတ် သတ်မှတ်ထားတော်မူသော သဘာဝဓမ္မကို လိုက်နာလျက်ရှိကြပေသည်။ ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ထံတော်ပါးတွင် အမြဲတစေ ခစားခွင့်ချီးမြှင့်ထားတော်မူခြင်း ခံကြရပါလျက် မောက်မာပလွှားခြင်း အလျှင်းမရှိဘဲ ထိုအရှင်မြတ်အား အမြဲတစေ ခဝပ်ကြပေသည်။ မပျင်းကြပေ၊ မမောကြပေ၊ မဆိုင်းကြပေ။ အခါခပ်သိမ်း ထိုအရှင်မြတ်အား ခဝပ်လျက်ရှိကြပေသည်။

လူသားတို့သည် အခြားလုပ်ငန်းဆောင်တာများကို လုပ်ဆောင်ကြသော်လည်း အသက်ရှူမပျက်ကြပေ။ ထို့အတူ ကောင်းကင်တမန်တော်များသည် မည်သည့်တာဝန်ကိုပင် ထမ်းဆောင်နေကြရလင့်ကစား အလ္လာဟ်အရှင်မြတ်ကိုမူ တစ်စက္ကန့်မျှပင်မမေ့ကြပေ။ အခါခပ်သိမ်း အလ္လာဟ်အရှင်မြတ်အား ခဝပ်လျှက်၊ တတ်စ်ဗီဟ်ဘာဝနာစီးဖြန်းလျှက် ရှိကြပေသည်။ တစ်နည်းအားဖြင့် တတ်စ်ဗီဟ် ဘာဝနာသည် ကောင်းကင်တမန်တို့၏ အာဟာရပင်ဖြစ်လျှက် ရှိချေသည်။ ထိုသို့သော ကောင်းကင်တမန်များသည်ပင် အလ္လာဟ်အရှင်မြတ်အား အခါခပ်သိမ်း အာရုံပြုကြလျက်ရှိကြပေရာ အပြစ်မကင်းသော လူသားတို့သည် ထိုအရှင်မြတ်အား မေ့နေရန် အကြောင်းပင်မရှိပေ။

## ၂ ကိုးကွယ်ရာနှစ်ပါး မဖြစ်နိုင်၊

အမှန်တကယ် မှချကိုးကွယ်ရာ အရှင်သခင်သည် တစ်ပါးတည်းသာလျှင် ဖြစ်နိုင်ပေသည်။ နှစ်ပါး မဖြစ်နိုင်၊ အများအပြား မဖြစ်နိုင်။ အဘယ်ကြောင့်ဆိုသော် ဆည်းကပ်ကိုးကွယ်မှုသည် အဘက်ဘက်တွင် ပြည့်ဝစုံလင်သော အရှင်သခင်အဖို့သာ ဖြစ်နိုင်ပေသည်။ ထိုအရှင်မြတ်သခင်သည် ချို့တဲ့မှုအပေါင်းမှ လုံးဝ ကင်းစင်ရပေမည်။ တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံရပေမည်။

ထိုအရှင်သခင်၌ ချို့တဲ့မှု၊ မပြည့်စုံမှု၊ မပြုစွမ်းနိုင်မှု၊ သူတစ်ပါး၏လွှမ်းမိုးမှု၊ နှောင့်ယှက်မှု၊ ဟန့်တားမှု၊ ယှဉ်ပြိုင်မှုဟူ၍ အလျှင်းမရှိရပေ။ ထိုသို့ ချို့တဲ့မှုအပေါင်းမှ ကင်းစင်၍ တန်ခိုးတော် အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသော အရှင်သခင်အား ကျွန်ုပ်တို့သည် "အလ္လာဟ်" ဟူ၍ ခေါ်ဝေါ်သတကြသည်။

အကယ်၍ ဤစကြာဝဠာတွင် ကိုးကွယ်ရာနှစ်ပါးရှိသော်၊ ထိုကိုးကွယ်ရာနှစ်ပါးသည် ဂုဏ်ရည်တူ ဖြစ်ကြရပေမည်။ သို့ဖြစ်လျှင် တွေးတောဆင်ခြင်အပ်သည်မှာ ထိုကိုးကွယ်ရာနှစ်ပါးသည် ဤစကြာဝဠာကြီးကို ဖန်ဆင်းမှု၊ စီမံခန့်ခွဲမှုများတွင် အချင်းချင်း ညီညွတ်ကြသလော၊ သို့မဟုတ် သဘောကွဲလွဲကြသလော။

အချင်းချင်း ညီညွတ်ကြသည်ဆိုပါက စဉ်းစားဆင်ခြင်အပ်သည်မှာ

(က) အဆိုပါ ကိုးကွယ်ရာ တစ်ပါးတိုင်းသည် ဤစကြာဝဠာကြီးကို မိမိတစ်ပါးတည်း မဖန်ဆင်းနိုင်၍ နှစ်ပါးပူးပေါင်းပြီး ဖန်ဆင်းကြသလော။ သို့ဆိုလျှင် အဆိုပါကိုးကွယ်ရာအနက် မည်သူမျှ လုံးဝပြည့်စုံသော ကိုးကွယ်ရာမဖြစ်နိုင်ပေ။

(ခ) အကယ်၍ အဆိုပါ ကိုးကွယ်ရာနှစ်ပါးအနက် တစ်ပါးတိုင်း တစ်ပါးတိုင်းသည် ဤစကြာဝဠာကြီးကို မိမိတစ်ပါးတည်း ဖန်ဆင်းနိုင်ပါက စီမံခန့်ခွဲနိုင်ပါက အခြားတစ်ပါးသည် အလုပ်မဲ့၊ တာဝန်မဲ့၊ အချည်းနှီး ဖြစ်ရပေမည်။ အပိုသက်သက်ဖြစ်နေပေမည်။ မရှိမဖြစ်သော ကိုးကွယ်ရာသာလျှင် ကိုးကွယ်ရာ ဖြစ်နိုင်ပေသည်။ အချည်းနှီးဖြစ်သော၊ အပိုသက်သက်ဖြစ်သော ကိုးကွယ်ရာသည် အမှန်တကယ် မှချကိုးကွယ်ရာ အသို့လျှင် ဖြစ်နိုင်အံ့နည်း။

အကယ်၍ အဆိုပါ ကိုးကွယ်ရာနှစ်ပါးသည် အချင်းချင်း သဘောထားကွဲလွဲကြသော် အချင်းချင်း ယှဉ်ပြိုင်ကြပေမည်။ သို့ယှဉ်ပြိုင်ရာတွင် တစ်ပါးပါးသည် ရှုံးနိမ့်ချေမည်။ရှုံးနိမ့်သော ကိုးကွယ်ရာသည်အမှန်တကယ် မှချကိုးကွယ်ရာ အသို့လျှင်ဖြစ်နိုင်အံ့နည်း။

အကယ်၍ ယှဉ်ပြိုင်ရာတွင် နှစ်ပါးစလုံးသည် သူမနိုင်၊ ငါမရှုံးဖြစ်နေပြီး၊ အချင်းချင်း အင်အားချင်း လုံးဝတူညီနေကြပါသော် တစ်ပါးတိုင်း တစ်ပါးတိုင်းသည် မိမိအသာဆန္ဒအလျောက် ခြယ်လှယ်နိုင်ရန်အတွက် အခြားတစ်ပါးကို တိုက်ဖျက်ချေမှုန်းရန် ကြိုးစားပေမည်။ စကြာဝဠာကြီးသည် ကိုးကွယ်ရာနှစ်ပါးတို့၏ စစ်တလင်း ဖြစ်သွားပေမည်။

ယင်းသို့ ကိုးကွယ်ရာ နှစ်ပါးအချင်းချင်း စစ်တလင်းခင်းနေကြလျှင် ပထမသော် တစ်စုံတစ်ခုမျှ ဖြစ်ထွန်းနိုင်မည် မဟုတ်ပေ။ ဖြစ်ထွန်းပြီးသော အရာများသည်လည်း ကျွဲနှစ်ကောင်ခတ်သည့်ကြား မြေဇာပင်မခံနိုင်သကဲ့သို့ အရာခပ်သိမ်းတို့သည် လုံးဝပျက်ပြုန်း ဆိတ်သုဉ်းသွားပေမည်။ (ယခုသော်ကား ကမ္ဘာစက်ယန္တရားကြီးသည် စနစ်တကျ လှုပ်ရှားသွားလာ လည်ပတ်လျက်ရှိပေသည်)။

لَا يُسْـَٔلُ عَمَّا يَفْعَلُ وَهُمْ يُسْـَٔلُوْنَ ﴿٢٣﴾

၂၃။ ထိုအရှင်မြတ်သည် မိမိပြုလုပ်တော်မူသောကိစ္စများနှင့် စပ်လျဉ်း၍ စစ်ဆေးမေးမြန်းခြင်း ခံရတော်မူမည် မဟုတ်ပေ။ သို့ရာတွင် ၎င်းတို့မှုကား (မိမိတို့ပြုလုပ်ကြသော အမှုကိစ္စတို့နှင့် စပ်လျဉ်း၍) စစ်ဆေးမေးမြန်းခြင်းကို ခံကြရပေမည်။

اَمِ اتَّخَذُوْا مِنْ دُوْنِهٖۤ اٰلِهَةً ؕ قُلْ هَاتُوْا بُرْهَانَكُمْ ۚ هٰذَا ذِكْرُ مَنْ مَّعِىَ وَذِكْرُ مَنْ قَبْلِىْ ؕ بَلْ اَكْثَرُهُمْ لَا يَعْلَمُوْنَ ۙ الْحَقَّ فَهُمْ مُّعْرِضُوْنَ ﴿٢٤﴾

၂၄။ သို့ပါလျက် ယင်း(မုရှ်ရစ်က်)တို့သည် ထိုအရှင်မြတ်အပြင် ကိုးကွယ်ရာများ ပြုလုပ်ထားကြသလော။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့) အသင်တို့သည် *မိမိတို့၏သက်သေသာဓကအထောက်အထားများကို ယူဆောင်ခဲ့ကြလေကုန်။*[၁] ဤသည် ငါနှင့်အတူ ရှိကြသော သူတို့အား သတိပေး နှိုးဆော်ချက်သည်လည်းကောင်း၊ ငါ၏အလျင် ရှိခဲ့ဖူးသောသူတို့အား သတိပေးနှိုးဆော်ချက်သည်လည်းကောင်း၊ ဖြစ်ချေသည်။ သို့ပါလျက် ထိုသူတို့အနက် အများဆုံးသော သူတို့မှာမူကား အမှန်ကို မသိကြချေ။ သို့ဖြစ်ပေရာ ၎င်းတို့သည် မျက်နှာလွှဲ၍ နေကြကုန်၏။

وَمَاۤ اَرْسَلْنَا مِنْ قَبْلِكَ مِنْ رَّسُوْلٍ اِلَّا نُوْحِىْۤ اِلَيْهِ اَنَّهٗ لَاۤ اِلٰهَ اِلَّاۤ اَنَا فَاعْبُدُوْنِ ﴿٢٥﴾

၂၅။ စင်စစ် ငါအရှင်မြတ်သည် အသင့်အလျင် စေလွှတ်တော်မူခဲ့သော မည်သည့် ရစူလ်တမန်တော်၏ထံသို့မဆို ဧကန်အမှန် ငါအရှင်မှတစ်ပါး ခဝပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိပြီ။ သို့ဖြစ်ပေရာ အသင်တို့သည် ငါအရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ကြလေကုန်ဟူ၍ အမိန့်တော် ထုတ်ပြန်ချမှတ်တော်မူခဲ့သည်သာ ဖြစ်သည်။ [၂]

---

(၁) အထက်တွင် အမှန်တကယ် မှချ ကိုးကွယ်အပ်သော အရှင်သည် တစ်ပါးတည်းသာ ရှိကြောင်းနှင့် ပတ်သက်၍ ခိုင်လုံသော အထောက်အထားကို မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် ဘုရားအများအပြားကိုးကွယ်ကြသော မုရှ်ရစ်က်တို့အား ဘုရားအများအပြားရှိကြောင်းနှင့် စပ်လျဉ်း၍ အထောက်အထား တစ်စုံတစ်ရာရှိက တင်ပြရန် တောင်းဆိုထား တော်မူသည်။ ➤➤

وَقَالُوا اتَّخَذَ الرَّحْمٰنُ وَلَدًا سُبْحٰنَهٗ ؕ بَلْ عِبَادٌ مُّكْرَمُوْنَ ﴿٢٦﴾

၂၆။ ထိုမှတစ်ပါး ၎င်းတို့က "ရဟ်မာန်" အနန္တကရုဏာတော်ရှင်သည် (မလာအိကဟ် ကောင်းကင်တမန်များအား) သားသမီး ပြုလုပ်တော်မူခဲ့သည်ဟု (စွပ်စွဲ)ပြောဆိုကြကုန်၏။ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား(ကောင်းကင်တမန်သည် ထိုအရှင်မြတ်၏သားသမီးများ မဟုတ်ကြချေ။ ထိုအရှင်မြတ်၏) မြင့်မြတ်သော ကျွန်များပင် ဖြစ်ကြကုန်၏။

لَا يَسْبِقُوْنَهٗ بِالْقَوْلِ وَهُمْ بِاَمْرِهٖ يَعْمَلُوْنَ ﴿٢٧﴾

၂၇။ ယင်း(ကောင်းကင်တမန်)တို့မူကား ထိုအရှင်မြတ်၏ရှေ့တော်သို့ကျူး၍ စကားပြောဆိုနိုင်ကြသည် အလျှင်း မဟုတ်ပေ။ ထို့ပြင် ၎င်းတို့သည် ထိုအရှင်မြတ်၏ အမိန့်တော်ကိုသာ (တစ်သွေမတိမ်း) လိုက်နာ ဆောင်ရွက်ကြကုန်၏။

يَعْلَمُ مَا بَيْنَ اَيْدِيْهِمْ وَمَا خَلْفَهُمْ وَلَا يَشْفَعُوْنَ ۙ اِلَّا لِمَنِ ارْتَضٰى وَهُمْ مِّنْ خَشْيَتِهٖ مُشْفِقُوْنَ ﴿٢٨﴾

၂၈။ ထိုအရှင်မြတ်သည် ၎င်းတို့၏ ရှေ့နောက်အကြောင်းကိစ္စ အလုံးစုံတို့ကို (အကြွင်းမဲ့) သိတော်မူ၏။ ထိုမှတစ်ပါး၎င်းတို့သည် ထိုအရှင်မြတ် ကျေနပ်နှစ်သက်တော်မူသော သူမှတစ်ပါး မည်သူ့အဖို့မျှ ကြားဝင် အသနားခံနိုင်ကြမည် မဟုတ်ပေ။ စင်စစ်သော်ကား ၎င်းတို့သည် ထိုအရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားမှုကြောင့် (အမြဲတစေ) ကြောက်ရွံ့လျှက်ပင် ရှိကြကုန်၏။

---

➤➤ ဘုရား အများအပြားရှိသည်ဟု မုရှ်ရစ်က်တို့က ပြောဆိုခြင်းမှာ ၎င်းတို့၏ အတွေးအထင်နှင့် မိဘရိုးရာ ထုံးတမ်းစဉ်လာကို မျက်စိမှိတ်၍ လိုက်နာခြင်းသာဖြစ်သည်။ဤအကြောင်းနှင့် စပ်လျဉ်း၍ ၎င်းတို့ထံတွင် အသိပညာနှင့်ယှဉ်သော အထောက်အထား လည်းမရှိ၊ စာပေကျမ်းဂန် အထောက်အထားလည်းမရှိ၊ အထောက်အထားဟူ၍ အလျှင်းမရှိ။

(၂) ပွင့်လေသမျှသော တမန်တော်အားလုံးတို့သည် "တောင်ဟီဒ်" ကိုပင် အခြေခံ၍ အသီးသီး တညီတညွတ်တည်း ဟောကြားခဲ့ကုန်၏။ တမန်တော်မြတ်၏ အွမ္မတ် နောက်လိုက်တပည့်သားများနှင့် အတိတ်ခေတ် တမန်တော်များ၏ နောက်လိုက်တပည့်သားများ သည်လည်း ဤသည့် "တောင်ဟီဒ်"ကိုပင် လက်ခံနာယူ ကျင့်မူခဲ့ကြသည်။

وَمَنْ يَّقُلْ مِنْهُمْ اِنِّيْٓ اِلٰهٌ مِّنْ دُوْنِهٖ فَذٰلِكَ نَجْزِيْهِ جَهَنَّمَ ۭ كَذٰلِكَ نَجْزِي الظّٰلِمِيْنَ ۝٢٩

၂၉။ စင်စစ် ၎င်းတို့အနက် မည်သူမဆို ကျွန်ုပ်သည်လည်း ထိုအရှင်မြတ်အပြင် ကိုးကွယ်ရာအရှင် (တစ်ပါး)ဖြစ်သည်ဟု ပြောဆိုပါမူ ငါအရှင်မြတ်သည် ၎င်းအားဂျဟန္နမ်ငရဲဘုံ၏ပြစ်ဒဏ်ကို ပေးတော်မူမည်။ ငါအရှင်မြတ်သည် ကျူးလွန်သူတို့အား ဤနည်းအတိုင်းပင် ပြစ်ဒဏ်ပေးတော်မူသည်သာ ဖြစ်သည်။

اَوَلَمْ يَرَ الَّذِيْنَ كَفَرُوْٓا اَنَّ السَّمٰوٰتِ وَالْاَرْضَ كَانَتَا رَتْقًا فَفَتَقْنٰهُمَا ۭ وَجَعَلْنَا مِنَ الْمَاۗءِ كُلَّ شَيْءٍ حَيٍّ ۭ اَفَلَا يُؤْمِنُوْنَ ۝٣٠

၃၀။ စင်စစ် မိုးကောင်းကင်များသည်လည်းကောင်း၊ ပထဝီမြေသည်လည်းကောင်း၊ ပိတ်လျက်ရှိခဲ့သည်။ ထို့နောက် ငါအရှင်မြတ်သည် ယင်း*(မိုးကောင်းကင်နှင့် ပထဝီမြေ)နှစ်ခုစလုံးကိုဖွင့်ပေးတော်မူခဲ့သည်။* [၁] (ဤသည်ကို) ကာဖိရ်များ မသိမမြင်ခဲ့ကြလေသလော။ ထို့ပြင် ငါအရှင်မြတ်သည် *ရေဖြင့် သက်ရှိသတ္တဝါ ခပ်သိမ်းကိုဖန်ဆင်းတော်မူခဲ့၏။* [၂] သို့ပါလျက် ၎င်းတို့သည် သင်ဝင်ယုံကြည်ခြင်း မရှိကြလေသလော။

---

(၁) **မိုးနှင့်မြေများသည် အသို့ရှိခဲ့ကြသနည်း၊**

ဤအာယတ်တော်တွင် ပါရှိသော "ရတ်က်" ဟူသောပုဒ်ကို အချို့က "ဆက်စပ်လျက်ရှိသောအရာ" ဟူ၍လည်းကောင်း၊ အချို့က "ပိတ်လျက်ရှိသော အရာ" ဟူ၍လည်းကောင်း၊ အဓိပ္ပာယ် နှစ်မျိုးနှစ်စား ပြန်ဆိုကြသည်။ အဓိပ္ပာယ်ကွဲပြားရာမှ အနက်သဘောလည်း ကွဲပြားလာခဲ့ပေသည်။ ဤအာယတ်တော်၏ အဖွင့်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း အဆိုများ တွေ့ရှိရပေသည်။

(က)မိုးနှင့် မြေများသည် မူလအစက ဆက်စပ်လျက် ရှိခဲ့ကြပေသည်။ ထို့နောက်တွင်မှ အလ္လာဟ်အရှင်မြတ်သည် ခွဲခြားတော်မူလိုက်ခြင်း ဖြစ်သည်ဟူ၏။

(ခ) မူလအစက မိုးသည်လည်း တစ်ခုတည်း ဖြစ်ခဲ့၏။ မြေသည်လည်း တစ်ခုတည်း ဖြစ်ခဲ့၏။ ထို့နောက်မှ အလ္လာဟ်အရှင်မြတ်သည် မိုးအထပ်ထပ်၊ မြေအထပ်ထပ် ပြုလုပ်တော်မူခြင်း ဖြစ်သည်ဟူ၏။

(ဂ) အစမူလက မိုးနှင့်မြေသည် ပိတ်လျက်ရှိခဲ့ကြသည်။ (ဝါ) မိုးမှ မိုးရေရွာသွန်းခြင်း မရှိခဲ့ပေ။ မြေမှ ကောက်ပဲသီးနှံများ ပေါက်ရောက်ခြင်း မရှိခဲ့ပေ။ ထို့နောက်သော်မှ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကျေးဇူးတော်ဖြင့် မိုးနှင့် မြေများကို ဖွင့်ပေးတော် မူလိုက်ခြင်း ဖြစ်သည်။ (ဝါ) မိုးမှ မိုးရေကို ရွာသွန်းချစေတော်မူခဲ့လေသည်။ မြေမှ ကောက်ပဲသီးနှံများကို ပေါက်ရောက်စေတော်မူခဲ့လေသည်။

ကြည့်- ခါဇင်န်။ အိဗ်နုဂျရီရ်။

အိဗ်နုဂျရီရ်သည် တတိယအဆိုကို ပိုမိုနှစ်သက်သည်။ ဤအာယတ်တော်နှင့် စပ်လျဉ်း၍ အခြားအဆိုများကို သိလိုပါက အိဗ်နုဂျရီရ်ကျမ်းကို ရှုပါကုန်။

وَجَعَلْنَا فِي الْأَرْضِ رَوَاسِيَ أَنْ تَمِيدَ بِهِمْ وَجَعَلْنَا فِيهَا فِجَاجًا سُبُلًا لَعَلَّهُمْ يَهْتَدُونَ ﴿٣١﴾

၃၁။ ထို့မှတစ်ပါး ငါအရှင်မြတ်သည် ပထဝီမြေ၌ ယင်းပထဝီမြေသည် ၎င်းတို့နှင့်တကွ လှုပ်ရှား(ယိမ်းယိုင်သွား)ခြင်းမရှိနိုင်ရန် တောင်များကို (ကျောက်ဆူးများအဖြစ်) ချထားတော်မူခဲ့လေသည်။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့လိုရာသို့ ရောက်ရှိနိုင်ကြအံ့သောငှာ ယင်းတောင်များ၌ တောင်ကြားလမ်းများကို လမ်းများအဖြစ် ပြုလုပ်ထားတော်မူခဲ့လေသည်။

وَجَعَلْنَا السَّمَاءَ سَقْفًا مَحْفُوظًا وَهُمْ عَنْ آيَاتِهَا مُعْرِضُونَ ﴿٣٢﴾

၃၂။ ၎င်းပြင် ငါအရှင်မြတ်သည် မိုးကောင်းကင်ကို (ပြိုပျက်ခြင်းမှ) ထိန်းသိမ်းပြီးဖြစ်သော အမိုးပြုလုပ်တော်မူခဲ့လေသည်။ သို့ပါလျက် ၎င်းတို့သည် ယင်းမိုးကောင်းကင်ရှိ သက်သေလက္ခဏာများမှ မျက်နှာလွှဲလျက် ရှိကြကုန်၏။

وَهُوَ الَّذِي خَلَقَ اللَّيْلَ وَالنَّهَارَ وَالشَّمْسَ وَالْقَمَرَ كُلٌّ فِي فَلَكٍ يَسْبَحُونَ ﴿٣٣﴾

၃၃။ စင်စစ် ထိုအရှင်မြတ်သည်ပင် ညဉ့်ကိုလည်းကောင်း၊ နေ့ကိုလည်းကောင်း၊ နေကိုလည်းကောင်း၊ လကိုလည်းကောင်း၊ ဖန်ဆင်းတော်မူခဲ့သော အရှင်ဖြစ်တော်မူ၏။ (ထိုဂြိုဟ်နက္ခတ်) အသီးသီးတို့သည် (မိမိတို့သက်ဆိုင်ရာ) ဂြိုဟ်နက္ခတ်လမ်း အသီးသီးတွင် လှည့်ပတ် သွားလာ လှုပ်ရှားလျက်ပင် ရှိကြကုန်သတည်း။ [၁]

---

(၂) ဤအာယတ်တော်တွင်ရှိသည့် "အလ်မာအ်" ဟူသောပုဒ်သည် မိုးရေ၏ အနက်၌လည်း ဖြစ်နိုင်ပေသည်။ ကလလရေကြည်၏ အနက်၌လည်း ဖြစ်နိုင်ပေသည်။ မိုးရေဟု ယူဆပါက သက်ရှိသတ္တဝါအားလုံးတို့သည် မိုးရေဖြင့် တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ အကျိုးခံစားလျက် ရှိကြသည်မှာ ထင်ရှားလှပေသည်။ ကလလရေကြည်ဟု ယူဆပါက သတ္တဝါအပေါင်းတို့သည် ကလလရေကြည်မှ ဖြစ်ပေါ်လာကြသည်မှာလည်း အထင်အရှားပင်။

(၁) မိုး၊ မြေ၊ နေ၊ လ၊ နေ့၊ ညဉ့် အစရှိသည့် ကမ္ဘာ့တန်ဆာများ တည်နေပုံ၊ သွားလာလှုပ်ရှားနေပုံများကို စဉ်းစားဆင်ခြင် မြော်မြင်ပါက တောင်ဟီဒ်ကို ကောင်းစွာ သဘောပေါက် နားလည်နိုင်ပေသည်။

وَمَا جَعَلْنَا لِبَشَرٍ مِّنْ قَبْلِكَ الْخُلْدَ ۖ أَفَإِن مِّتَّ فَهُمُ الْخَالِدُونَ ﴿٣٤﴾

၃၄။ စင်စစ် ငါအရှင်မြတ်သည် အသင့်အလျင် မည်သည့် လူသားတစ်ဦး တစ်ယောက်၌မျှပင် သေခြင်းကင်းသည့်အနေကို ပြုလုပ်တော်မမူခဲ့ချေ။ သို့ဖြစ်ပေရာ အကယ်၍ အသင်သည် သေဆုံးခဲ့ပါလျှင် ၎င်းတို့သည် အစဉ်ထာဝရ နေကြမည့်သူများ ဖြစ်ကြလေသလော။ [၁]

كُلُّ نَفْسٍ ذَائِقَةُ الْمَوْتِ ۗ وَنَبْلُوكُم بِالشَّرِّ وَالْخَيْرِ فِتْنَةً ۖ وَإِلَيْنَا تُرْجَعُونَ ﴿٣٥﴾

၃၅။ သက်ရှိသတ္တဝါတိုင်းသည် မရဏ သေခြင်း တရား(၏ရသာ)ကို မြည်းစမ်းရမည့်သူများသာ ဖြစ်ကြကုန်၏။ စင်စစ် ငါအရှင်မြတ်သည် အသင်တို့အား ဆိုးသောအခြေအနေဖြင့်လည်းကောင်း၊ ကောင်းသောအခြေအနေဖြင့်လည်းကောင်း၊ (ကောင်းစွာ) စမ်းသပ်တော်မူ၏။ ၎င်းပြင် ငါအရှင်မြတ်အထံတော်သို့ပင် အသင်တို့သည် ပြန်လည် ရောက်စေခြင်းကို ခံကြရပေမည်။

وَإِذَا رَآكَ الَّذِينَ كَفَرُوا إِن يَتَّخِذُونَكَ إِلَّا هُزُوًا أَهَٰذَا الَّذِي يَذْكُرُ آلِهَتَكُمْ وَهُم بِذِكْرِ الرَّحْمَٰنِ هُمْ كَافِرُونَ ﴿٣٦﴾

၃၆။ ၎င်းပြင် ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့သည် အသင့်အား မြင်ကြသောအခါ ပြက်ရယ်ပြောင်လှောင်သမှုပြုကြ၏။ အသင်တို့၏ကိုးကွယ်ရာ ဘုရားများကို (ကဲ့ရဲ့)ပြောဆိုသူသည် ဤသူပင်လော။ စင်စစ်သော်ကား ၎င်းတို့သည် "ရဟ်မာန်" အနန္တကရုဏာတော်ရှင်နှင့် ပတ်သက်၍ ပြောဆိုခြင်းကိုပင် ငြင်းပယ်သူများ ဖြစ်ကြကုန်၏။

---

(၁) တမန်တော်မြတ်၏တရားများကို ကြားရသောအခါ အရဗ်ကာဖိရ်များက "ဤဂယက်သည် မိုဟမ္မဒ် အသက်ရှင်နေသည်အထိသာ ဖြစ်မည်။ သူသေသွားသည့်အခါ ဤဂယက်လည်း သေသွားမည်"ဟု ပြောဆိုခဲ့ကြလေသည်။

ဤသို့ ပြောဆိုခြင်း၏ အလိုမှာ နှစ်မျိုးဖြစ်နိုင်သည်။

(က) သေခြင်းသည် (နုဗူဝါတ်) တမန်တော်ဖြစ်ခြင်းနှင့် ဆန့်ကျင်သည်ဟု ဆိုလိုကြပါက အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အလျင် ပွင့်လေသမျှသော တမန်တော်များအနက် မည်သည့် တမန်တော်ကိုမျှ ဤပစ္စက္ခဘဝတွင် ထာဝရရှင်ခြင်းကို ချီးမြှင့်တော်မူခဲ့သည် မဟုတ်ပေ။ ▷▷

خُلِقَ الْإِنْسَانُ مِنْ عَجَلٍ سَأُورِيكُمْ آيَاتِي فَلَا تَسْتَعْجِلُونِ ﴿٣٧﴾

၃၇။ မနုဿလူသားသည်အလျင်လိုမှုဖြင့် ဖန်ဆင်းခြင်း ခံခဲ့ရလေသည်။ မကြာမြင့်မီပင် ငါအရှင်မြတ်သည် မိမိသက်သေလက္ခဏာတော်များကို အသင်တို့အား ပြသတော်မူမည် ဖြစ်ပေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် ငါအရှင်မြတ် အထံတော်တွင် အလျင်မလိုကြကုန်လင့်။

وَيَقُولُونَ مَتَىٰ هَٰذَا الْوَعْدُ إِنْ كُنْتُمْ صَادِقِينَ ﴿٣٨﴾

၃၈။ ထို့ပြင် ၎င်းတို့က "အကယ်၍ အသင်တို့သည် မှန်ကန်စွာ ပြောဆိုသူများ ဖြစ်ကြပါလျှင် ဤ ချိန်းဆိုချက်သည် မည်သည့်အခါ၌ ပြီးမြောက်ပါမည်နည်း" ဟု ပြောဆိုကြကုန်၏။

لَوْ يَعْلَمُ الَّذِينَ كَفَرُوا حِينَ لَا يَكُفُّونَ عَنْ وُجُوهِهِمُ النَّارَ وَلَا عَنْ ظُهُورِهِمْ وَلَا هُمْ يُنْصَرُونَ ﴿٣٩﴾

၃၉။ အကယ်၍သာ ကာဖိရ်သွေဖည်ငြင်းပယ်သောသူတို့သည် အကြင်အချိန်အခါကို သိကြပါမူ (ယင်းကဲ့သို့ ပြောဆိုကြမည် မဟုတ်ပေ)။ ထိုအချိန်အခါတွင် ယင်းသူတို့သည် မိမိတို့၏မျက်နှာများမှလည်းကောင်း၊ မိမိတို့၏ကျောက်ကုန်းများမှ လည်းကောင်း၊ မီးကို တားဆီးနိုင်ကြမည် မဟုတ်ပေ။ ထိုမှတစ်ပါး ၎င်းတို့သည် (မည်သည့်)အကူအညီကို(မျှ)လည်း ရရှိကြမည် မဟုတ်ပေ။

بَلْ تَأْتِيهِمْ بَغْتَةً فَتَبْهَتُهُمْ فَلَا يَسْتَطِيعُونَ رَدَّهَا وَلَا هُمْ يُنْظَرُونَ ﴿٤٠﴾

၄၀။ စင်စစ်မှာကားယင်းမီးသည် ၎င်းတို့၌ ရုတ်တရက် သက်ရောက်ပြီးလျှင် ၎င်းတို့အား တွေဝေသွားစေမည် ဖြစ်သည်။ ထိုအခါ ၎င်းတို့သည် ထိုမီးကို တွန်းလှန်နိုင်ကြမည်လည်းမဟုတ်ပေ။ ထို့ပြင် ၎င်းတို့သည် ရွှေ့ဆိုင်းခွင့်ကိုလည်း ရရှိကြမည် မဟုတ်ပေ။

➢➢ (ခ) အကယ်၍ တမန်တော်မြတ် တစ်ရက် ကွယ်လွန်သေဆုံးတော်မူမည်ကို တွေး၍ ဝမ်းသာနေကြသည်ဆိုပါက ဤကားအဓိပ္ပာယ် မရှိပေ။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ် ကွယ်လွန် သေဆုံးတော်မူပါက ယင်းကာဖိရ်များသည် ထာဝရ အသက်ရှင်၍ နေကြရမည်လော။ သတ္တဝါတိုင်းသည် အချိန်ကျလျှင် သေကြရမည်သာ ဖြစ်ပေရာ သူတစ်ပါး၏ သေခြင်းကြောင့် ဝမ်းသာရန် အကြောင်းမရှိပေ။ (လူတိုင်းသည် ကိုယ့်ဝန်ကိုယ်ထမ်း ကိုယ့်လမ်းကိုယ်သွားကြရမည်သာ ဖြစ်သည်။ မှတ်ကျောက်အတင်ခံနိုင်ရန်သာ အရေးကြီးသည်)။

၄၁။ ၎င်းပြင် မချွတ်ဧကန် အသင့်အလျင်လည်း ရစူလ်တမန်တော်များသည် ပြက်ရယ်သမှုပြုခြင်းကို ခံခဲ့ကြရလေ၏။ သို့ဖြစ်ပေရာ ထိုရစူလ်တမန်တော်များအား ပြက်ရယ်သမှု ပြုကြသူတို့အား ထိုပြက်ရယ်သမှုပြုခြင်း၏ ပြစ်ဒဏ်သည် ဝိုင်းဝန်းခဲ့လေသည်။

وَلَقَدِ اسْتُهْزِئَ بِرُسُلٍ مِّنْ قَبْلِكَ فَحَاقَ بِالَّذِيْنَ سَخِرُوْا مِنْهُمْ مَّا كَانُوْا بِهٖ يَسْتَهْزِءُوْنَ ﴿٤١﴾

၄၂။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့အား ညဥ့်၌လည်းကောင်း၊ နေ့၌လည်းကောင်း၊ "ရဟ်မာန်" အနန္တကရုဏာတော်ရှင်(၏ ပြစ်ဒဏ်)မှ မည်သူသည် ကာကွယ်စောင့်ရှောက်၍ထားပါသနည်း။ စင်စစ်မှာကား ၎င်းတို့သည် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား အောက်မေ့တသသတိရခြင်းမှ မျက်နှာလွှဲ၍ နေသူများပင် ဖြစ်ကြကုန်၏။

قُلْ مَنْ يَّكْلَؤُكُمْ بِالَّيْلِ وَالنَّهَارِ مِنَ الرَّحْمٰنِ ؕ بَلْ هُمْ عَنْ ذِكْرِ رَبِّهِمْ مُّعْرِضُوْنَ ﴿٤٢﴾

၄၃။ ၎င်းတို့၌ ငါအရှင်မြတ်အပြင် မိမိတို့အား ကာကွယ်အံ့သောကိုးကွယ်ရာများ ရှိကြလေသလော။ (စင်စစ်) ယင်းကိုးကွယ်ရာများသည် မိမိတို့ကိုယ်ကိုပင် ကူညီရန် တတ်စွမ်းနိုင်ကြသည် မဟုတ်ပေ။ ထိုနည်းတူစွာ ၎င်းတို့သည် ငါအရှင်မြတ်(၏ ပြစ်ဒဏ်မှ) ကာကွယ်စောင့်ရှောက်ခြင်းကို ခံကြရမည်လည်း မဟုတ်ပေ။

اَمْ لَهُمْ اٰلِهَةٌ تَمْنَعُهُمْ مِّنْ دُوْنِنَا ؕ لَا يَسْتَطِيْعُوْنَ نَصْرَ اَنْفُسِهِمْ وَلَا هُمْ مِّنَّا يُصْحَبُوْنَ ﴿٤٣﴾

၄၄။ စင်စစ်မှာကား ငါအရှင်မြတ်သည် ယင်းတို့အားလည်းကောင်း၊ယင်းတို့၏အဘ၊ အဘိုး၊ ဘေးတို့အား လည်းကောင်း၊ (လောကီ စည်းစိမ်များကို ချီးမြှင့်တော်မူခြင်းအားဖြင့်) အသက်တာ ရှည်လျားသွားသည်အထိ စံစားစေတော်မူခဲ့၏။

بَلْ مَتَّعْنَا هٰٓؤُلَآءِ وَاٰبَآءَهُمْ حَتّٰى طَالَ عَلَيْهِمُ الْعُمُرُ ؕ

أَفَلَا يَرَوْنَ أَنَّا نَأْتِي الْأَرْضَ نَنْقُصُهَا مِنْ أَطْرَافِهَا ۚ أَفَهُمُ الْغَالِبُونَ ﴿٤٤﴾

ငါအရှင်မြတ်သည် (မက္ကာမြို့၏) မြေကို ဘေးပတ်ဝန်းကျင်များမှ (တဖြည်းဖြည်း) ယုတ်လျော့ (ကျဉ်းမြောင်း)အောင် ပြုလုပ်လာတော်မူသည်ကို ၎င်းတို့သည် မမြင်ကြလေသလော။ သို့ဖြစ်ရာ ၎င်းတို့သည်အောင်မြင်သောသူများ ဖြစ်ကြမည်လော။[၁]

قُلْ إِنَّمَا أُنْذِرُكُمْ بِالْوَحْيِ ۚ وَلَا يَسْمَعُ الصُّمُّ الدُّعَاءَ إِذَا مَا يُنْذَرُونَ ﴿٤٥﴾

၄၅။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့၊) ငါသည် အသင်တို့အား "ဝဟ်ယ်" အမိန့်တော်ဖြင့် သတိပေးနှိုးဆော်ခြင်းသာဖြစ်သည်။ သို့ရာတွင် နားပင်းသူများမှာမူကား သတိပေး နှိုးဆော်ခြင်း ခံကြရသောအခါ ဟစ်ခေါ်ခြင်းကိုပင် မကြားကြချေ။

وَلَئِنْ مَسَّتْهُمْ نَفْحَةٌ مِنْ عَذَابِ رَبِّكَ لَيَقُولُنَّ يَا وَيْلَنَا إِنَّا كُنَّا ظَالِمِينَ ﴿٤٦﴾

၄၆။ ထို့ပြင် စင်စစ် အကယ်၍သာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ပြစ်ဒဏ်မှ အငွေ့မျှပင် ၎င်းတို့၌ သက်ရောက်ခဲ့မူ အမှန်ပင် ၎င်းတို့က "သြော်-ကျွန်ုပ်တို့ ဖြစ်မှဖြစ်ရလေခြင်း၊ ကျွန်ုပ်တို့သည်သာလျှင် မတရားမှုကို ကျူးလွန်သောသူများဖြစ်ကြသည်" ဟု (ညည်းညူမြည်တမ်း) ပြောဆိုကြပေမည်။

---

(၁) ဆိုလိုသည်ကား အရပ်နိုင်ငံတွင် အစ္စလာမ်သည် တဖြည်းဖြည်း တိုးတက်ပြန့်ပွား ထွန်းကားလာချေပြီ။ ကုဖ်ရ်၊ ရှရစ်က် မိစ္ဆာတရားသည် တိမ်ကောလာချေပြီ။ ကာဖိရ်၊ မုရှ်ရစ်က်တို့အပေါ်၌ အရပ်နိုင်ငံ မြေကြီးသည်လည်း တဖြည်းဖြည်း ကျဉ်း၍ကျဉ်း၍ လာချေပြီ။ ၎င်းတို့၏ အစိုးရများနှင့် အာဏာစက်၊ အရှိန်အဝါများသည်လည်း ပျက်စီးမှေးမှိန်လာချေပြီ။ အစ္စလာမ်နယ်နိမိတ် ကြီးမားလာခဲ့သည်နှင့်အမျှ ကုဖ်ရ်၏ နယ်နိမိတ်သည်လည်း ကျဉ်း၍ လာခဲ့ချေပြီ။ ဤသည့် ဖြစ်ရပ်များ၊ နိမိတ်လက္ခဏာများကို တွေ့မြင်နေကြပါလျက် ကာဖိရ်၊ မုရှ်ရစ်က်တို့သည် ၎င်းတို့၏ နောင်ရေးကို မတွေးမိကြပေ။ ၎င်းတို့သည် တမန်တော်မြတ်နှင့်တကွ မွတ်စ်လင်မ်တို့အား လွှမ်းမိုးကြရမည်ဟူ၍ ထင်မှတ်နေကြလေသလော။

အကယ်၍ ကာဖိရ်၊ မုရှ်ရစ်က်များ၌ အသိဉာဏ်အမြော်အမြင်ရှိပါလျှင် ၎င်းတို့သည် မိမိတို့၏ဉာဏ်ကို အသုံးပြုသင့်ကြပေသည်။ အခြေအနေများကို ဆင်ခြင်၍ မိမိတို့၏ နောင်ရေးကို ဆင်ခြင်သင့်ကြလေသည်။ ၎င်းတို့၏ ပတ်ဝန်းကျင် မြို့ရွာသားများသည် တမန်တော်များအား သွေဖည်ငြင်းဆန်ခဲ့ကြသည့်အတွက် ➤➤

وَنَضَعُ الْمَوَازِيْنَ الْقِسْطَ لِيَوْمِ الْقِيٰمَةِ فَلَا تُظْلَمُ نَفْسٌ شَيْـًٔا ؕ وَاِنْ كَانَ مِثْقَالَ حَبَّةٍ مِّنْ خَرْدَلٍ اَتَيْنَا بِهَا ؕ وَكَفٰى بِنَا حٰسِبِيْنَ ﴿٤٧﴾

၄၇။ စင်စစ်ငါအရှင်မြတ်သည် ကိယာမတ် ရှင်ပြန်ထမည့်နေ့တွင် မျှတသောချိန်ခွင်များကို ထားရှိတော်မူသည်။ သို့ဖြစ်ပေရာ မည်သူတစ်ဦးတစ်ယောက်မျှ အနည်းငယ်စိုးစဉ်းမျှပင် မတရားသဖြင့် နှိပ်စက်ခြင်းကို ခံရမည်မဟုတ်ပေ။ စင်စစ် အကယ်၍ (တစ်ဦးတစ်ယောက်၌) မုန်ညင်းစေ့ တစ်စေ့မျှ အလေးချိန်ရှိသော(ကောင်းမှုပင်) ရှိငြားသော်လည်း ငါအရှင်မြတ်သည်ယင်းမုန်ညင်းစေ့တစ်စေ့ကိုလည်း (ရှေ့တော်မှောက်သို့) ယူလာတော်မူမည်သာဖြစ်သည်။ စင်စစ်ငါအရှင်မြတ်နှင့်ပင် စစ်ဆေးတော်မူသောအရှင်အဖြစ်လုံလောက်ပေသတည်း။

وَلَقَدْ اٰتَيْنَا مُوْسٰى وَهٰرُوْنَ الْفُرْقَانَ وَضِيَآءً وَّذِكْرًا لِّلْمُتَّقِيْنَ ﴿٤٨﴾

၄၈။ ဧကန်စင်စစ် ငါအရှင်မြတ်သည် မူစာနှင့်ဟာရူန်အား အမှားနှင့်အမှန်ကို ကွဲပြား ခြားနားစေသော အလင်းရောင်တစ်ခုဖြစ်သော ပြစ်မှုဒုစရိုက်များမှ ကြဉ်ရှောင်ကြကုန်သော မွတ္တကီ သူတော်စင်တို့အဖို့ ဆုံးမစာတစ်စောင်ဖြစ်သော (တောင်ရာတ်)ကျမ်းကို ချီးမြှင့် ပေးသနားတော်မူခဲ့လေသည်။

الَّذِيْنَ يَخْشَوْنَ رَبَّهُمْ بِالْغَيْبِ وَهُمْ مِّنَ السَّاعَةِ مُشْفِقُوْنَ ﴿٤٩﴾

၄၉။ အကြင်သူ(တော်)တို့သည် မိမိတို့အားဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ကို မမြင်ကြပါဘဲလျက်ကြောက်ရွံ့ရိုသေကြကုန်၏။ ထို့ပြင် ၎င်းတို့သည်ကိယာမတ် ရှင်ပြန်ထမည့်နေ့ကို ကြောက်ရွံ့စိုးရိမ်သူများလည်း ဖြစ်ကြကုန်သည်။

➤➤ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သင့်၍ ပျက်စီးခြင်းကြီးမက ပျက်စီးသွားခဲ့ကြချေပြီ။ ထိုအရှင်မြတ်၏ အမိန့်တော်များကို နာယူကျင့်မူကြကုန်သော တမန်တော်များနှင့် မွတ်စ်လင်မ်များသည် အောင်မြင်ခဲ့ကြပေပြီ။ ကြည့်-ကုရ်အာန်- (၄၆:၂၇)။ သို့ဖြစ်ပေရာ ယင်း ကာဖိရ်၊ မုရှ်ရစ်က်များသည် တမန်တော်အပေါင်းတို့၏ အချုပ်ဖြစ်တော်မူသော တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား အသို့လျှင် လွှမ်းမိုးနိုင်ကြအံ့နည်း။

وَهٰذَا ذِكْرٌ مُّبٰرَكٌ اَنْزَلْنٰهُ ۚ اَفَاَنْتُمْ لَهٗ مُنْكِرُوْنَ ۞٥٠

၅၀။ စင်စစ် ဤ(ကုရ်အာန်ကျမ်းတော်မြတ်)သည်ကား ကျက်သရေမင်္ဂလာနှင့်ပြည့်စုံသော ဆုံးမစာ တစ်စောင်ဖြစ်ပေသည်။ ငါအရှင်မြတ်သည် ယင်းဆုံးမစာကိုချပေးသနားတော်မူခဲ့လေသည်။ သို့ပါလျက် အသင်တို့သည် ယင်းဆုံးမစာကို ငြင်းပယ်သူများပင် ဖြစ်ကြပေသလော။

وَلَقَدْ اٰتَيْنَآ اِبْرٰهِيْمَ رُشْدَهٗ مِنْ قَبْلُ وَكُنَّا بِهٖ عٰلِمِيْنَ ۞٥١

၅၁။ ၎င်းပြင် ဧကန်မလွဲ ငါအရှင်မြတ်သည် (တမန်တော်)အီဗ်ရာဟီမ်အား *ရှေးဦးမဆွကပင်* [၁] *၎င်း၏ဆင်ခြင်တုံတရားကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။* [၂] စင်စစ် ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်အား ကောင်းစွာ သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

اِذْ قَالَ لِاَبِيْهِ وَقَوْمِهٖ مَا هٰذِهِ التَّمَاثِيْلُ الَّتِيْٓ اَنْتُمْ لَهَا عٰكِفُوْنَ ۞٥٢

၅၂။ အကြင်အခါဝယ် ထိုအီဗ်ရာဟီမ်သည် မိမိဖခင်အားလည်းကောင်း၊ မိမိအမျိုးသားတို့အားလည်းကောင်း၊(အချင်းတို့၊)အသင်တို့ စွဲလမ်းကိုးကွယ်လျက်ရှိကြကုန်သော ဤရုပ်တုများကား အဘယ်သို့သော အရာများနည်း၊ ဟု ပြောဆို(မေးမြန်း)ခဲ့လေသည်။

---

(၁) ဤအာယတ်တော်တွင်ပါရှိသည့် (မင်န်ကဗ်လု) "အလျင်"ဟူသည် တမန်တော်မူစာနှင့် တမန်တော်ဟာရူန်တို့ အလျင်ဟူ၏။ အချို့ကမူ အလ္လာဟ်အရှင်မြတ်သည် တမန်တော် အီဗ်ရာဟီမ်အား ငယ်ရွယ်စဉ်၌ပင် အဆိုပါ "ရုရှ်ဒ်" ကို ချီးမြှင့်တော်မူခဲ့ခြင်း ဖြစ်သည်ဟု ဆိုကြ၏။

(၂) "ရုရှ်ဒ်" ဟူသောပုဒ်သည် ဖြောင့်မတ်မှန်ကန်သောလမ်းရရှိခြင်း၊ ရှေ့နောက် မြော်မြင်ဆင်ခြင် သိမြင်နိုင်သော အသိအလိမ္မာဉာဏ်၊ အကောင်းအဆိုး ခွဲခြားသိမြင်နိုင်သော ဉာဏ်၏အနက်၌ ဖြစ်သည်။

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က တမန်တော် အီဗ်ရာဟီမ်အား ချီးမြှင့်တော်မူခဲ့သော 'ရုရှ်ဒ်'ကား အဘယ်နည်း၊ ဤတွင် အဆိုပြားလျက်ရှိသည်။

(က) အချို့က ဤအာယတ်တော်တွင် လာရှိသော "ရုရှ်ဒ်" ဟူသောပုဒ်သည် "နဗုဝါတ်" ၏ အနက်၌ဖြစ်သည်ဟု ဆိုကြသည်။

(ခ) အချို့က ဤပုဒ်သည် သာသနာရေးတွင် တော်တည့် ဖြောင့်မတ် မှန်ကန်စွာ ကျင့်သုံးနိုင်ရန် အတွက် အမှန်တရား ရရှိခြင်းဟူသော အနက်၌ဖြစ်သည်ဟု ဆိုကြသည်။ ➤➤

قَالُوْا وَجَدْنَآ اٰبَآءَنَا لَهَا عٰبِدِيْنَ ﴿٥٣﴾

၅၃။ ထိုအမျိုးသားတို့က ကျွန်ုပ်တို့သည် မိမိတို့၏အဘ၊ ဘိုးဘေးတို့အား ဤရုပ်တုများကို ကိုးကွယ်သူများအဖြစ် တွေ့ရှိခဲ့ကြသည်ဟု ပြောဆို(ဖြေကြား)ခဲ့ကြလေသည်။

قَالَ لَقَدْ كُنْتُمْ اَنْتُمْ وَاٰبَآؤُكُمْ فِيْ ضَلٰلٍ مُّبِيْنٍ ﴿٥٤﴾

၅၄။ ထို အီဗ်ရာဟီမ်က အသင်တို့သည် လည်းကောင်း၊ အသင်တို့၏ အဘ၊ ဘိုး၊ ဘေးတို့သည် လည်းကောင်း၊ ထင်ရှားစွာသော မှောက်မှားမှု၌ပင် ရှိခဲ့ကြကုန်သည်ဟု ပြောကြားခဲ့၏။

قَالُوْٓا اَجِئْتَنَا بِالْحَقِّ اَمْ اَنْتَ مِنَ اللّٰعِبِيْنَ ﴿٥٥﴾

၅၅။ ၎င်းတို့က (အို-အီဗ်ရာဟီမ်) အသင်သည် ကျွန်ုပ်တို့ထံ အမှန်ကို ယူဆောင်လာခဲ့လေသလော၊ သို့တည်းမဟုတ် အသင်သည် ပြက်ချော်ပြောင်လှောင်သူတစ်ဦးပင် ဖြစ်လေသလောဟု ပြောဆိုခဲ့ကြကုန်၏။

قَالَ بَلْ رَّبُّكُمْ رَبُّ السَّمٰوٰتِ وَالْاَرْضِ الَّذِيْ فَطَرَهُنَّ ۖ وَاَنَا عَلٰى ذٰلِكُمْ مِّنَ الشّٰهِدِيْنَ ﴿٥٦﴾

၅၆။ ထိုအီဗ်ရာဟီမ်က ထိုသို့အလျှင်းမဟုတ်၊စင်စစ် အသင်တို့၏အရှင်သခင်သည်ကား မိုးကောင်းကင်များနှင့်ပထဝီမြေကို စိုးပိုင်တော်မူသော အကြင်အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် ယင်း မိုးကောင်းကင်များနှင့် ပထဝီမြေကို ဖန်ဆင်းတော်မူခဲ့လေသည်။ ၎င်းပြင် ငါသည် ဤသည်နှင့်စပ်လျဉ်း၍ သက်သေများတွင် တစ်ဦး အပါအဝင်ဖြစ်သည်ဟု ပြောဆို(ဖြေကြား)ခဲ့လေသည်။

وَتَاللّٰهِ لَاَكِيْدَنَّ اَصْنَامَكُمْ بَعْدَ اَنْ تُوَلُّوْا مُدْبِرِيْنَ ﴿٥٧﴾

၅၇။ ၎င်းပြင်အလ္လာဟ်အရှင်မြတ်၏ကစမ်၊ ငါသည် အသင်တို့၏(ကိုးကွယ်ရာဖြစ်သော) ရုပ်ပွား ဆင်းတုများနှင့်စပ်လျဉ်း၍ အသင်တို့ပြန်သွားကြပြီးနောက် လှို့ဝှက်ကြံစည်မည် ဖြစ်သည်။

➤➤ (ဂ) အချို့ကမူ အဆိုပါအနက်သဘော နှစ်ရပ်စလုံးသည် ဤပုဒ်တွင် အကျုံးဝင်လျက် ရှိသည်ဟု ဆိုကြသည်။

فَجَعَلَهُمْ جُذٰذًا اِلَّا كَبِيْرًا لَّهُمْ لَعَلَّهُمْ اِلَيْهِ يَرْجِعُوْنَ ﴿٥٨﴾

၅၈။ ထို့နောက် ထိုအီဗ်ရာဟီမ်သည် ယင်းရုပ်ပွားဆင်းတုတော်များကို အစိတ်စိတ်အပိုင်းပိုင်းဖြစ်အောင် ပြုလုပ်ခဲ့လေသည်။ သို့ရာတွင် ယင်းတို့အနက် အကြီးဆုံးကိုမူကားချန်၍ထားခဲ့လေ၏။ သို့မှသာလျှင် ၎င်းတို့သည် ထိုတမန်တော်အီဗ်ရာဟီမ်ထံသို့ (စုံစမ်းရန်) ပြန်လာကြပေမည်။

قَالُوْا مَنْ فَعَلَ هٰذَا بِاٰلِهَتِنَآ اِنَّهٗ لَمِنَ الظّٰلِمِيْنَ ﴿٥٩﴾

၅၉။ ယင်းအမျိုးသားတို့ကကျွန်ုပ်တို့၏ ကိုးကွယ်ရာများကို မည်သူသည် ဤသို့ပြုလုပ်ခဲ့ပါဘိသနည်း။ ဧကန်မလွဲ ထိုသူသည် ကျူးကျော်စော်ကားသူ တစ်ဦးပင်ဖြစ်သည်ဟု ပြောဆိုခဲ့ကြကုန်၏။

قَالُوْا سَمِعْنَا فَتًى يَّذْكُرُهُمْ يُقَالُ لَهٗٓ اِبْرٰهِيْمُ ﴿٦٠﴾

၆၀။ ယင်းအမျိုးသားတို့(အနက် အချို့)က ကျွန်ုပ်တို့သည် အီဗ်ရာဟီမ်ဟုခေါ်တွင်သော လူငယ်တစ်ဦးအား ဤ(ကျွန်ုပ်တို့၏ကိုးကွယ်ရာ)တို့ကို (ပြစ်တင်) ပြောဆိုသည်ကို ကြားဖူးခဲ့ကြသည်ဟု ပြောကြကုန်၏။

قَالُوْا فَاْتُوْا بِهٖ عَلٰٓى اَعْيُنِ النَّاسِ لَعَلَّهُمْ يَشْهَدُوْنَ ﴿٦١﴾

၆၁။ (ထိုအခါ) ယင်းအမျိုးသားတို့က သို့ဖြစ်လျှင် အသင်တို့သည် အီဗ်ရာဟီမ်အား လူအပေါင်းတို့၏ မျက်မှောက်သို့ ၎င်းတို့(အားလုံး အီဗ်ရာဟီမ်)အား မြင်နိုင်ကြအံ့သောငှာ ခေါ်ဆောင်ခဲ့ကြလေကုန် ဟု ပြောဆိုကြလေ၏။

قَالُوْٓا ءَاَنْتَ فَعَلْتَ هٰذَا بِاٰلِهَتِنَا يٰٓاِبْرٰهِيْمُ ﴿٦٢﴾

၆၂။ (အီဗ်ရာဟီမ်သည် ၎င်းတို့ ရှေ့မှောက်သို့ ရောက်သောအခါ) ၎င်းတို့က အို-အီဗ်ရာဟီမ် အသင်သည်ပင်လျှင် ကျွန်ုပ်တို့၏ ကိုးကွယ်ရာများကို ဤသို့ ပြုလုပ်ခဲ့လေသလောဟု ပြောဆို(မေးမြန်း)ခဲ့ကြကုန်၏။

قَالَ بَلْ فَعَلَهُ ۖ كَبِيرُهُمْ هَٰذَا فَاسْأَلُوهُمْ إِن كَانُوا يَنطِقُونَ ﴿٦٣﴾

၆၃။ ထို(အခါ) အီဗ်ရာဟီမ်က (ဤသို့) ပြောဆို (ဖြေကြား)ခဲ့၏။ အချင်းတို့၊ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာကား ၎င်းတို့၏ အကြီးအကဲဖြစ်သော ဤ (ရုပ်ပွားဆင်းတုကြီး)ကသာလျှင် ဤသို့ပြုလုပ်(ဟန် လက္ခဏာရှိ)သည်။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုရုပ်တုများကိုပင် အကယ်၍ ၎င်းတို့သည် စကား ပြောဆိုနိုင်ကြပါလျှင် (မေးမြန်း၍ကြည့်)ကြလေကုန်။

فَرَجَعُوا إِلَىٰ أَنفُسِهِمْ فَقَالُوا إِنَّكُمْ أَنتُمُ الظَّالِمُونَ ﴿٦٤﴾

၆၄။ ထိုအခါ ယင်းအမျိုးသားတို့သည် မိမိတို့၏ စိတ်ထဲတွင် တွေးတောစဉ်းစားခဲ့ကြလေသည်။ ထို့ နောက် ၎င်းတို့သည် (မိမိတို့အချင်းချင်း) "အသင်တို့ သည်သာလျှင် အမှားကိုကျူးလွန်သူများဖြစ်ကြသည်" ဟု (ထုတ်ဖော်)ပြောဆိုခဲ့ကြကုန်၏။

ثُمَّ نُكِسُوا عَلَىٰ رُءُوسِهِمْ لَقَدْ عَلِمْتَ مَا هَٰؤُلَاءِ يَنطِقُونَ ﴿٦٥﴾

၆၅။ ထိုနောက်၎င်းတို့သည် မိမိတို့၏ ဦးခေါင်းများ ကို အောက်သို့စိုက်လျက် (အို-အီဗ်ရာဟီမ်) ဤရုပ်ပွား ဆင်းတုများ (အလျှင်း) စကားပြောဆိုနိုင်ကြသည် မဟုတ်ကြောင်းကို အသင်သည်အသိပင် ဖြစ်သည်ဟု ပြောဆိုခဲ့ကြကုန်၏။

قَالَ أَفَتَعْبُدُونَ مِن دُونِ اللَّهِ مَا لَا يَنفَعُكُمْ شَيْئًا وَلَا يَضُرُّكُمْ ﴿٦٦﴾

၆၆။ ထို(အခါ) အီဗ်ရာဟီမ်က သို့ပါလျက် အသင် တို့သည် အလ္လာဟ်အရှင်မြတ်အပြင် အကြင်အရာကို ခဝပ်ကိုးကွယ်ကြလေသလော။ ထိုအရာသည် အသင် တို့အား လုံး၀ အကျိုးဖြစ်ထွန်းစေနိုင်သည်လည်း မဟုတ်ပေ။ အသင်တို့အား အကျိုးယုတ်စေနိုင်သည် လည်း မဟုတ်ပေ။

أُفٍّ لَّكُمْ وَلِمَا تَعْبُدُونَ مِن دُونِ اللَّهِ ۖ أَفَلَا تَعْقِلُونَ ﴿٦٧﴾

၆၇။ ထွီ၊ အသင်တို့သည် ၎င်းအလ္လာဟ်အရှင်မြတ် အပြင် အသင်တို့ကိုးကွယ်ကြသော အရာများသည် လည်းကောင်း၊ စက်ဆုပ်ဖွယ်ကောင်းလှပေသည်။ အသင်တို့သည် မသိနားမလည်ကြလေသလော။

قَالُوا حَرِّقُوهُ وَانصُرُوا آلِهَتَكُمْ إِن كُنتُمْ فَاعِلِينَ ﴿٦٨﴾

၆၈။ ယင်းအမျိုးသားတို့က (အချင်းတို့၊) အကယ်၍ အသင်တို့သည် (တစ်စုံတစ်ရာကို) ပြုလုပ်မည့်သူများပင်ဖြစ်ကြပါမူ ထိုအီဗ်ရာဟီမ်အား မီးတင်ရှို့လျက် မိမိတို့၏ ကိုးကွယ်ရာ ဘုရားများကို ဝိုင်းမကူညီကြလေကုန်ဟု ပြောဆိုကြကုန်၏။

قُلْنَا يَا نَارُ كُونِي بَرْدًا وَسَلَامًا عَلَىٰ إِبْرَاهِيمَ ﴿٦٩﴾

၆၉။ (ထိုအခါ) ငါအရှင်မြတ်က "အို-မီး၊ သင်သည် အီဗ်ရာဟီမ်အပေါ်၌ အေးမြစွာလည်းကောင်း၊ သာယာစွာလည်းကောင်း ရှိလော့"ဟု မိန့်ကြားတော်မူခဲ့၏။

وَأَرَادُوا بِهِ كَيْدًا فَجَعَلْنَاهُمُ الْأَخْسَرِينَ ﴿٧٠﴾

၇၀။ စင်စစ်သော်ကား ၎င်းတို့သည် ထိုအီဗ်ရာဟီမ်နှင့်ပတ်သက်၍ မကောင်းသော အကြံအစည်ကို ကြံရွယ်ခဲ့ကြကုန်၏။ သို့ရာတွင် ငါအရှင်မြတ်သည် ၎င်းတို့အား အကြံမအောင်သောသူများပင် ဖြစ်စေတော်မူခဲ့၏။

وَنَجَّيْنَاهُ وَلُوطًا إِلَى الْأَرْضِ الَّتِي بَارَكْنَا فِيهَا لِلْعَالَمِينَ ﴿٧١﴾

၇၁။ ထို့အပြင် ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်အားလည်းကောင်း၊ လူတ်အားလည်းကောင်း၊ အကြင်နယ်မြေသို့ (စေလွှတ်တော်မူခြင်းအားဖြင့်) ကယ်တင်တော်မူခဲ့၏။ ငါ အရှင်မြတ်သည် ယင်းနယ်မြေ၌ ကမ္ဘာသူ ကမ္ဘာသားတို့အဖို့ ကျက်သရေမင်္ဂလာ၊ သုခချမ်းသာများ၊ ရှိစေတော်မူခဲ့၏။

وَوَهَبْنَا لَهُ إِسْحَاقَ وَيَعْقُوبَ نَافِلَةً ۖ وَكُلًّا جَعَلْنَا صَالِحِينَ ﴿٧٢﴾

၇၂။ ထိုမှတပါး ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်အား အစ္စဟာက်ကို (သားတော်အဖြစ်)လည်းကောင်း၊ ယအ်ကူးဗ်ကို မြေးတော်အဖြစ်လည်းကောင်း၊ ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ထိုမှတပါး ငါအရှင်မြတ်သည် (၎င်းတို့အနက်) အသီးသီးအား သူတော်စင်များပင် ဖြစ်စေတော်မူခဲ့၏။

وَجَعَلْنٰهُمْ اَئِمَّةً يَّهْدُوْنَ بِاَمْرِنَا وَاَوْحَيْنَآ اِلَيْهِمْ فِعْلَ الْخَيْرٰتِ وَاِقَامَ الصَّلٰوةِ وَاِيْتَآءَ الزَّكٰوةِ ۚ وَكَانُوْا لَنَا عٰبِدِيْنَ ﴿٧٣﴾

၇၃။ ထိုနည်းတူစွာ ငါအရှင်မြတ်သည် ၎င်းတို့အား ငါအရှင်မြတ်၏အမိန့်တော်နှင့် (ဝေနေယျသတ္တဝါများအား)တရားလမ်းမှန်ကို ညွှန်ပြကြလေသော ရှေ့ဆောင်ရှေ့ရပ်များအဖြစ်သို့ ချီးမြှင့်တော်မူခဲ့၏။ တဖန် ငါအရှင်မြတ်သည် ထိုသူတို့ထံ ကောင်းမြတ်သော အကျင့်အမူများကို ကျင့်မူ ဆောက်တည်ကြရန်လည်းကောင်း၊ ဆွလာတ် ဝတ်ပြုမှုကို ဆောက်တည်ရန်လည်းကောင်း၊ ဇကာတ် ပေးဆောင်ရန်လည်းကောင်း၊ "ဝဟ်ယ်" အမိန့်တော်ကိုထုတ်ပြန်တော်မူခဲ့၏။ စင်စစ် ၎င်းတို့သည် ငါအရှင်မြတ်အား ခဝပ်ကိုးကွယ်သူများပင် ဖြစ်ခဲ့ကြကုန်သတည်း။

وَلُوْطًا اٰتَيْنٰهُ حُكْمًا وَّعِلْمًا وَّنَجَّيْنٰهُ مِنَ الْقَرْيَةِ الَّتِىْ كَانَتْ تَّعْمَلُ الْخَبٰٓئِثَ ؕ اِنَّهُمْ كَانُوْا قَوْمَ سَوْءٍ فٰسِقِيْنَ ﴿٧٤﴾

၇၄။ ထိုမှတပါးငါအရှင်မြတ်သည် လူတ်အား[၁] ဆင်ခြင်တုံတရားကို လည်းကောင်း၊ အသိပညာကို လည်းကောင်း၊ ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုလူတ်အား အကြင်မြို့ရွာမှ ကယ်တင်တော်မူခဲ့၏။ ယင်းမြို့(သူ) ရွာ(သားတို့) သည် စက်ဆုပ်ရွံ့ရှာဖွယ်များကို ကျူးလွန်လျက် ရှိခဲ့ကြကုန်၏။ ဧကန်မလွဲ ၎င်းတို့သည် အလွန် ယုတ်မာသော အမျိုးသားများ၊ ကာမဂုဏ် လိုက်စား ကျူးလွန်သောသူများပင် ဖြစ်ခဲ့ကြကုန်၏။

وَاَدْخَلْنٰهُ فِىْ رَحْمَتِنَا ؕ اِنَّهٗ مِنَ الصّٰلِحِيْنَ ﴿٧٥﴾

၇၅။ ၎င်းပြင် ထို လူတ်အား ငါအရှင်မြတ်သည် မိမိကရုဏာတော်အတွင်း ဝင်ရောက်စေတော်မူခဲ့၏။ စင်စစ်ဧကန် ထို လူတ်ကား သူတော်စင်တို့တွင် ပါဝင်ခဲ့ပေသတည်း။

---

(၁) **မှတ်ချက်။ တမန်တော်လူတ်။**

တမန်တော် လူတ် အကြောင်း ကုရ်အာန် (၆း၈၇။ ၇း၈၀။ ၁၁း၇၇-၈၃) များတွင် အကျယ် ရေးသားခဲ့ပေပြီ။ ပြန်လည် ရှုပါကုန်။

وَنُوحًا إِذْ نَادَىٰ مِن قَبْلُ فَاسْتَجَبْنَا لَهُ فَنَجَّيْنَاهُ وَأَهْلَهُ مِنَ الْكَرْبِ الْعَظِيمِ ﴿٧٦﴾

**၇၆။** ထို့ပြင် (အို-နဗီတမန်တော်)နူဟ်[၁] (၏ အတ္ထုပ္ပတ္တိအကြောင်း)ကိုလည်း (ပြန်လည်သတိရပါလေ။ တမန်တော် အီဗ်ရာဟီမ်မပွင့်မီ) ရှေးကာလကပင် ထိုနူဟ်သည် (ငါအရှင်မြတ်အား) ဟစ်ခေါ်ပန်ကြားခဲ့လေသည်။ ထိုအခါ ငါအရှင်မြတ်သည် ထိုနူဟ်၏ ဟစ်ခေါ်ပန်ကြားချက်ကို သဘောတူလက်ခံတော်မူခဲ့ပေသည်။ ထို့နောက် ငါအရှင်မြတ် ထိုနူဟ်အားလည်းကောင်း၊ ထိုနူဟ်၏ဘက်တော်သားတို့အားလည်းကောင်း၊ ကြီးစွာသော ပူပင်သောကဖြစ်ခြင်းမှ ကယ်တင်တော်မူခဲ့၏။

وَنَصَرْنَاهُ مِنَ الْقَوْمِ الَّذِينَ كَذَّبُوا بِآيَاتِنَا ۚ إِنَّهُمْ كَانُوا قَوْمَ سَوْءٍ فَأَغْرَقْنَاهُمْ أَجْمَعِينَ ﴿٧٧﴾

**၇၇။** ထိုမှတပါး ငါအရှင်မြတ်သည် ထိုနူဟ်အား ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြသော အမျိုးသားတို့ (၏ ဘေးအန္တရာယ်)မှ ကာကွယ်စောင့်ရှောက်တော်မူခဲ့၏။ ဧကန်မလွဲ ၎င်းတို့သည် အလွန်ဆိုးရွားသော အမျိုးသားများပင် ဖြစ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့အားလုံးကို နစ်မြုပ်စေတော်မူခဲ့ပေသတည်း။

وَدَاوُودَ وَسُلَيْمَانَ إِذْ يَحْكُمَانِ فِي الْحَرْثِ إِذْ نَفَشَتْ فِيهِ غَنَمُ الْقَوْمِ وَكُنَّا لِحُكْمِهِمْ شَاهِدِينَ ﴿٧٨﴾

**၇၈။** ထိုမှတပါး (အို-နဗီတမန်တော်)ဒါဝူဒ် (၏ အတ္ထုပ္ပတ္တိအကြောင်း)ကို လည်းကောင်း၊ စုလိုင်မာန် (၏ အတ္ထုပ္ပတ္တိ အကြောင်းကို လည်းကောင်း၊ ပြန်လည်၍ သတိရပါလေ)။ တစ်ရံရောအခါဝယ် ထို(သားအဖ)နှစ်ပါးတို့သည် လယ်ယာနှင့်စပ်လျဉ်း၍ စီရင်ဆုံးဖြတ် ကြကုန်၏။

---

(၁) **မှတ်ချက်။**

တမန်တော် နူဟ်(အလိုင်ဟစ္စလာမ်)အကြောင်း ကုရ်အာန် (၃း၃၂)တွင် အကျယ်ရေးသားခဲ့ပေပြီ။ ကုရ်အာန် (၆း၈၅)တွင်လည်း သက်ဆိုင်ရာ အရေးကြီးသော အချက်များကို ဖြည့်စွက်ရေးသားခဲ့ပြီးဖြစ်သည်။

အကြင်အခါဝယ် အမျိုးသားတို့၏ ဆိတ်များသည် ယင်းလယ်ယာ၌ ညဥ့်အချိန်တွင် ဝင်ရောက်(ဖျက်ဆီး)ခဲ့ကြကုန်၏။ စင်စစ် ငါအရှင်မြတ်သည် ၎င်းတို့၏ စီရင်ဆုံးဖြတ်မှုကို ရှုစားလျက်ပင် ရှိနေတော်မူခဲ့၏။ [၁]

ففهمنها سليمن ۚ وكلا اتينا حكما وعلما ۖ وسخرنا مع داود الجبال يسبحن والطير ۚ وكنا فعلين ﴿٧٩﴾

၇၉။ ထိုရောအခါဝယ်ငါအရှင်မြတ်သည် စုလိုင်မာန်အား ယင်းအမှု(၏အဆုံးအဖြတ်)ကို သိနားလည်စေတော်မူခဲ့၏။ စင်စစ်သော်ကား ငါအရှင်မြတ်သည် (ဒါဝူဒ်နှင့် စုလိုင်မာန်တမန်တော် နှစ်ပါးအနက်) အသီးသီးအား ဆင်ခြင်တုံတရားကို လည်းကောင်း၊ အသိပညာကို လည်းကောင်း ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ထိုမှတပါး ငါအရှင်မြတ်သည် ဒါဝူဒ်နှင့်အတူ တောင်များကို လိုက်နာစေတော်မူခဲ့ရာ ထိုတောင်များသည်(ဒါဝူဒ်နှင့်အတူ) ငါအရှင်မြတ် သန့်ရှင်းစင်ကြယ်တော်မူကြောင်း ဘာဝနာပွားလျက် ရှိကြပေသည်။ ထိုနည်းတူစွာ ငှက်တိရစ္ဆာန်များကိုလည်း (ဒါဝူဒ်နှင့်အတူလိုက်နာစေတော်မူခဲ့သည်။) စင်စစ် ငါအရှင်မြတ်သည် (ယင်းကဲ့သို့) ပြုလုပ်တော်မူသော အရှင်ဖြစ်တော်မူပေသည်။

---

(၁) **တမန်တော်ဒါဝူဒ်နှင့် တမန်တော် စုလိုင်မာန်၏ အဆုံးအဖြတ်။**

တမန်တော် ဒါဝူဒ်(အလိုင်ဟစ္စလာမ်)၏ အကြောင်း ကုရ်အာန် (၂:၂၅၁)တွင်လည်းကောင်း၊ (၄:၁၆၃)တွင်လည်းကောင်း၊ (၆:၈၅)တွင်လည်းကောင်း ရေးသားခဲ့ပေပြီ။

တမန်တော် စုလိုင်မာန်(အလိုင်ဟစ္စလာမ်)၏ အကြောင်း ကုရ်အာန် (၂:၁၀၂)တွင်လည်းကောင်း၊ (၄:၁၆၃)တွင်လည်းကောင်း၊ (၆:၈၅)တွင်လည်းကောင်း ရေးသားခဲ့ပေပြီ။

တမန်တော် ဒါဝူဒ်(David)သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်တစ်ပါးဖြစ်သည်။ တမန်တော် စုလိုင်မာန်(Solomon)သည် တမန်တော်ဒါဝူဒ်၏သားတော်ဖြစ်သည်။ တမန်တော် တစ်ပါးလည်းဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် ယင်း သားအဘ နှစ်ပါးတို့အား အုပ်ချုပ်မှု၊ ဆုံးဖြတ်မှု၊ အသိပညာ၊ အမြော်အမြင်များကို အထူးတလည် ချီးမြှင့်ထားတော်မူခဲ့သည်။ ➤➤

وَعَلَّمْنٰهُ صَنْعَةَ لَبُوْسٍ لَّكُمْ لِتُحْصِنَكُمْ مِّنْۢ بَاْسِكُمْ ۚ فَهَلْ اَنْتُمْ شٰكِرُوْنَ ۝٨٠

၈၀။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုဒါဝူဒ်အား အသင်တို့အကျိုးငှာ သံချပ်အင်္ကျီ ပြုလုပ်သော အတတ်ပညာကို သင်ပေးတော်မူခဲ့၏။ သို့မှသာလျှင် ယင်းသံချပ်အင်္ကျီသည် အသင်တို့အား အသင်တို့ စစ်တိုက်ခိုက်ရာတွင် ကာကွယ်နိုင်မည်ဖြစ်ပေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် ကျေးဇူးတော်ကို သိတတ်သူများ ဖြစ်ကြလေသလော။

---

➤➤ ဤအာယတ်တော်များတွင် အဆိုပါ သားအဘ နှစ်ဦးတို့၏ အဆုံးအဖြတ် တစ်ရပ်ကို ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။ တစ်ခါသော် တမန်တော် ဒါဝူဒ်ထံသို့ အဆုံးအဖြတ်နာယူရန်အတွက် အမှုတစ်ခု ရောက်ရှိလာခဲ့၏။ ပုဂ္ဂိုလ်တစ်ဦး၏ လယ်ယာတွင် အချို့ပုဂ္ဂိုလ်များ၏ ဆိတ်များသည် ညဥ့်အချိန်၌ ဝင်ရောက်ဖျက်ဆီးသွားခဲ့၏။ လယ်ယာသည် အတော်ပင် ပျက်စီးသွားခဲ့၏။ ပျက်စီးသွားသော လယ်ယာ၏ တန်ဖိုးမှာ ဝင်ရောက်ဖျက်ဆီးသွားသော ဆိတ်များ၏ တန်ဖိုးနှင့် ညီမျှနေ၏။ တမန်တော်ဒါဝူဒ်သည် တရားလို တရားခံတို့၏ စကား၊ အမှုသွားအမှုလာ၊ အဖြစ်အပျက်အခြေအနေ အရပ်ရပ်တို့ကို ကြားနာလေ့လာ၍ လယ်ရှင်၏ ဆုံးရှုံးနစ်နာမှုမှာ ဝင်ရောက်ဖျက်ဆီးသွားသော ဆိတ်များ၏ တန်ဖိုးနှင့် ညီမျှနေသည်ကို စဉ်းစားဆင်ခြင်မြော်မြင်ပြီး၊ အဆိုပါဆိတ်များကိုပင် လျော်ကြေးအဖြစ် သက်ဆိုင်ရာလယ်ရှင်အား ပေးအပ်ရန် အဆုံးအဖြတ် ပေးလိုက်လေသည်။

အဆိုပါ အဆုံးအဖြတ်နှင့် စပ်လျဉ်း၍ သားတော် တမန်တော်စုလိုင်မာန်က ဖြည့်စွက်အကြံပေးခဲ့သည်မှာ-ဖခင်ကြီး၏ အဆုံးအဖြတ်မှာ တရားတော်အရ မှန်ကန်ပါသည်။ အဆုံးအဖြတ်ပေးရာတွင် တရားလို တရားခံတို့၏ ကျေနပ်နှစ်သက်မှုကို ထောက်ထားရန်လည်း မလိုပါ။ သို့ရာတွင် ဤအဆုံးအဖြတ်အရဆိုလျှင် ဆိတ်ရှင်များသည် လုံးဝအရှုံးဘက်တွင် ရောက်ရှိနေကြပါသည်။ ထို့အတွက် ဖျန်ဖြေသည့်သဘောဖြင့် နှစ်ဦးနှစ်ဘက်အား ထောက်ထားရလည်းကျ၊ နှစ်ဦးနှစ်ဘက်၏ ကျေနပ်မှုလည်းရ၊ လွယ်ကူမှုလည်း ရှိစေရန်အလို့ငှာ ဆိတ်ရှင်များသည် မိမိတို့၏ ဆိတ်များကို သင့်တော်သည့်အချိန်အထိ လယ်ရှင်အား ပေးအပ်ထားကြရမည်။ လယ်ရှင်သည် ထိုဆိတ်များ ထိန်းကျောင်း၍ ထိုဆိတ်များမှ နို့ရည်၊ အမွေး စသည်များကို အကျိုးခံစားခွင့်ရှိစေရမည်။ လယ်ရှင်သည် မိမိ၏ ပျက်စီးနေသော လယ်ယာကို ဆိတ်ရှင်များအား သင့်တော်သည့်အချိန်အထိ ပေးအပ်ထားရမည်။ ဆိတ်ရှင်များသည် ပျက်စီးနေသော လယ်ယာများကို ယခင်မူလအတိုင်း ပြန်လည်ဖြစ်ရှိလာသည်အထိ ပြုစုပျိုးထောင်ပေးကြရမည်။ လယ်ရှင်၏ လယ်ယာများသည် ယခင်မူလအတိုင်း ပြန်လည်ဖြစ်ရှိလာသည့်အခါ ဆိတ်များနှင့် လယ်ယာများကို သက်ဆိုင်ရာပိုင်ရှင် အသီးသီးတို့အား ပြန်လည်အပ်ကြရမည်။ ဤသည် သားတော် တမန်တော်စုလိုင်မာန်၏ အကြံပေး ဆုံးဖြတ်ချက်တည်း။

တမန်တော်ဒါဝူဒ်သည် သားတော် စုလိုင်မာန်၏ အကြံပေးဆုံးဖြတ်ချက်ကို ကြားသိသောအခါ ကျေနပ်နှစ်သက်စွာနှင့် လက်ခံအတည်ပြုလိုက်လေသည်။ တမန်တော် သားအဖ နှစ်ပါးလုံး၏ အဆုံးအဖြတ်သည် မှန်ကန်သည်။ သို့ရာတွင် သားတော် တမန်တော်စုလိုင်မာန်၏ အဆုံးအဖြတ်သည် ပိုမိုလျော်ကန် သင့်မြတ်လှပေသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်၏ အကျိုးပင်။ (မာဂျိဒီ)

وَلِسُلَيْمٰنَ الرِّيْحَ عَاصِفَةً تَجْرِيْ بِاَمْرِهٖٓ اِلَى الْاَرْضِ الَّتِيْ بٰرَكْنَا فِيْهَا ۭ وَكُنَّا بِكُلِّ شَيْءٍ عٰلِمِيْنَ ﴿٨١﴾

**၈၁။** ထိုမှတပါး (ငါအရှင်မြတ်သည်) စုလိုင်မာန်အား *ပြင်းထန်စွာတိုက်ခတ်သောလေကို နိုင်နင်းစေတော်မူခဲ့၏။* [၁] ယင်းလေသည် ထိုစုလိုင်မာန်၏အမိန့်နှင့် ငါအရှင်မြတ်ကျက်သရေမင်္ဂလာ၊ သုခချမ်းသာနှင့်ပြည့်စုံစေတော်မူသော နယ်မြေသို့ တိုက်ခတ်သွားလာလေ၏။ စင်စစ်သော်ကား ငါအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသောအရှင်မြတ်ပင်ဖြစ်တော်မူပေသတည်း။

وَمِنَ الشَّيٰطِيْنِ مَنْ يَّغُوْصُوْنَ لَهٗ وَيَعْمَلُوْنَ عَمَلًا دُوْنَ ذٰلِكَ ۚ وَكُنَّا لَهُمْ حٰفِظِيْنَ ﴿٨٢﴾

**၈၂။** ထိုမှတပါးရှိုင်တွာန်မိစ္ဆာကောင်တို့တွင် အကြင်ရှိုင်တွာန် မိစ္ဆာကောင်များလည်း ရှိခဲ့ကြ၏။ ယင်း*ရှိုင်တွာန် မိစ္ဆာကောင်များသည် ထိုစုလိုင်မာန်၏ အကျိုးငှာ (သမုဒ္ဒရာပင်လယ်၌) ရေငုပ်ခြင်းကိုလည်းကောင်း၊ အခြားအလုပ်ကိစ္စ ဆောင်ရွက်ခြင်းကိုလည်းကောင်း၊ ပြုလုပ်ကြကုန်၏။* [၂] စင်စစ်သော်ကား ငါအရှင်မြတ်သည်ပင် ယင်းရှိုင်တွာန် မိစ္ဆာကောင်တို့အား ထိန်းသိမ်းစောင့်ရှောက်တော်မူသောအရှင်မြတ်ဖြစ်တော်မူပေသတည်း။

---

(၁) **တမန်တော် စုလိုင်မာန်၏ ပလ္လင်ပျံ။**

တမန်တော် စုလိုင်မာန်သည် အလ္လာဟ်အရှင်မြတ် အထံတော်၌ "အို-ကျွန်တော်မျိုး၏ အရှင်သခင်၊ ကျွန်တော်မျိုးအား ချမ်းသာခွင့်ပေးတော်မူပါ။ ကျွန်တော်မျိုးအား ကျွန်တော်မျိုး၏နောက်တွင် မည်သူ တစ်ဦးတစ်ယောက်အဖို့မျှ မထိုက်တန်သော အုပ်စိုးမှုကို ချီးမြှင့်တော်မူပါ" ဟု ဆုပန်ကြားခဲ့ရာ အလ္လာဟ်အရှင်မြတ်သည် လေနှင့်ဂျင်န်များကို တမန်တော် စုလိုင်မာန်၏ အာဏာစက်အောက်တွင် ထားရှိပေးတော်မူခဲ့လေသည်။

ကြည့်-ကုရ်အာန် (၃၈း၃၀-၃၉)။

တမန်တော် စုလိုင်မာန်သည် ပလ္လင်တစ်ခု ပြုလုပ်ထား၏။ ခရီးသွားသည့်အခါ ထိုပလ္လင်ပေါ်တွင် မိမိနှင့်တကွ မှူးမတ်များကိုလည်း ထိုင်စေ၏။ လိုရာပစ္စည်းများကိုလည်း တင်ဆောင်စေတော်မူ၏။ ထို့နောက် တမန်တော် စုလိုင်မာန်၏ အမိန့်ဖြင့် လေသည်ရောက်ရှိလာပြီး ထိုသည့်ပလ္လင်ကို အဟုန်ပြင်းစွာ တိုက်ခတ်၍ ကောင်းကင်သို့ မ,ယူပြီး လိုရာဌာနသို့ ဖြည်းညှင်းသာယာစွာ ပို့ဆောင်ပေးလေသည်။ တမန်တော် စုလိုင်မာန်သည် ယမန်ပြည်မှ ဆီးရီးယားပြည်၊ ဆီးရီးယားပြည်မှ ယမန်ပြည်သို့ တစ်လခရီးကို နေ့ဝက်အတွင်း ပလ္လင်ပျံဖြင့် သွားလာလေ့ရှိခဲ့သည်။ ကြည့်-ကုရ်အာန် (၃၄း၁၂)။

وَأَيُّوبَ إِذْ نَادَىٰ رَبَّهُۥٓ أَنِّى مَسَّنِىَ ٱلضُّرُّ وَأَنتَ أَرْحَمُ ٱلرَّٰحِمِينَ ﴿٨٣﴾

၈၃။ ၎င်းပြင် (အို-နဗီတမန်တော်၊ အသင်သည် နဗီတမန်တော်)အိုက်ယူးဗ်(၏ အတ္ထုပ္ပတ္တိအကြောင်း) ကို(လည်း ထုတ်ဖော်ပြောကြားပါလေ)။ တစ်ရံသော အခါဝယ် ထိုအိုက်ယူးဗ်သည် မိမိအား ဖန်ဆင်းမွေးမြူ တော်မူသောအရှင်မြတ်အား (အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊) ဧကန်မလွဲ ကျွန်တော်မျိုး၌ ဘေးဥပဒ်သက်ရောက်ပါပြီ။ စင်စစ် သော်ကား အရှင်မြတ်သည် သနားကရုဏာ ပြုတတ် သူတို့တွင် သနား ကရုဏာ ပြုတော်မူဆုံးသော အရှင်မြတ်ပင် ဖြစ်တော်မူပါသည်ဟု ဟစ်ခေါ်တသ ပန်ကြားခဲ့လေ၏။

فَٱسْتَجَبْنَا لَهُۥ فَكَشَفْنَا مَا بِهِۦ مِن ضُرٍّ وَءَاتَيْنَٰهُ أَهْلَهُۥ وَمِثْلَهُم مَّعَهُمْ رَحْمَةً مِّنْ عِندِنَا وَذِكْرَىٰ لِلْعَٰبِدِينَ ﴿٨٤﴾

၈၄။ ထိုအခါ ငါအရှင်မြတ်သည် ထိုအိုက်ယူးဗ်၏ အသနားခံပန်ကြားချက်ကို သဘောတူ လက်ခံတော် မူခဲ့၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထိုအိုက်ယူးဗ် ၌ သက်ရောက်ခဲ့သော ဘေးဥပဒ်ကို ပျောက်ကင်းစေ တော်မူခဲ့၏။ ထိုမှတပါး ငါအရှင်မြတ်သည် ထို အိုက်ယူးဗ်အား ၎င်း၏အိမ်ထောင်စုသား၊ သားမယား၊ သားသမီးများ(ကို ချီးမြှင့်ပေးသနားတော်မူခဲ့သည့်) အပြင် ထိုသူတို့နှင့်အတူ ထိုသူတို့ကဲ့သို့ အလားတူ

---

(၂) **တမန်တော် စုလိုင်မာန်၏ "ဂျင်န်" အလုပ်သမားများ၊**

အလ္လာဟ်အရှင်မြတ်သည် တမန်တော် စုလိုင်မာန်၏ ဆုပန်ကြားချက်အရ၊ တမန်တော် စုလိုင်မာန်၏ အာဏာစက်အောက်တွင် လေကို ထားသကဲ့သို့ ဦးခေါင်းမာသော ဆိုးသွမ်းသော ဂျင်န်များကိုလည်း ထားပေးတော်မူခဲ့သည်။ ယင်း ဂျင်န်များသည် တမန်တော် စုလိုင်မာန် စေခိုင်းသည့်အတိုင်း အလွန်ကြီးလေး ပြင်းထန်သော လုပ်ငန်းများကို ကျေပွန်စွာ လုပ်ဆောင်ပေးခဲ့ကြရသည်။

ဥပမာ-ဂျင်န်များသည် တမန်တော် စုလိုင်မာန်အဖို့ သမုဒ္ဒရာ ပင်လယ်များတွင် ရေငုပ်၍ ပုလဲများကို ကောက်ယူပေးကြရသည်။ ကြီးမားသော ဝတ်ကျောင်းများ၊ တိုက်တာ ဂေဟာများကို ဆောက်လုပ်ပေးကြရသည်။ ရေကန်ကြီးများတမျှ ကြီးမားသော သံဒယ်အိုးကြီးများကို သွန်းလောင်း ပြုလုပ်ပေးကြရသည်။ လိုရာသို့လည်း ပို့ဆောင်ပေးကြရသည်။ ဤအကြောင်း ကုရ်အာန် (၃၄း၁၂-၁၃။ ၃၈း၃၇-၃၈) တွင်လည်း မိန့်ဆိုထားတော်မူသည်။

ကိုလည်း မိမိအထံတော်မှ ကရုဏာတော်အဖြစ်လည်း ကောင်း၊ ဝတ်ပြုကိုးကွယ်သူများအဖို့ သတိရစေသော အထိမ်းအမှတ်အဖြစ်လည်းကောင်း ချီးမြှင့်ပေးသနားတော်မူခဲ့ပေသတည်း။

وَإِسْمَٰعِيلَ وَإِدْرِيسَ وَذَا ٱلْكِفْلِ ۖ كُلٌّ مِّنَ ٱلصَّٰبِرِينَ ﴿٨٥﴾

၈၅။ ၎င်းပြင် (အို- နဗီတမန်တော်၊ အသင်သည် နဗီတမန်တော်)အီစ်မာအီလ်၊ (နဗီတမန်တော်)အိဒ္ဒရီစ်၊ (နဗီတမန်တော်)ဇူလ်ကီဖ်လ်တို့(၏ အတ္ထုပ္ပတ္တိအကြောင်းများ)ကိုလည်း (ထုတ်ဖော်ပြောကြားပါလေ။ ထိုနဗီတမန်တော်)အသီးသီးတို့သည် ခန္တီတရားရှိသူတို့တွင် ပါဝင်ခဲ့ကြကုန်၏။

وَأَدْخَلْنَٰهُمْ فِى رَحْمَتِنَآ ۖ إِنَّهُم مِّنَ ٱلصَّٰلِحِينَ ﴿٨٦﴾

၈၆။ ထိုမှတပါး ငါအရှင်မြတ်သည် ၎င်း(နဗီတမန်တော်)တို့အားမိမိကရုဏာတော်အတွင်း ပါဝင်စေတော်မူခဲ့၏။ ဧကန်စင်စစ် ထို နဗီတမန်တော်တို့ကား သူတော်စင်တို့တွင် ပါဝင်ခဲ့ကြကုန်သတည်း။

وَذَا ٱلنُّونِ إِذ ذَّهَبَ مُغَٰضِبًا فَظَنَّ أَن لَّن نَّقْدِرَ عَلَيْهِ

၈၇။ ထို့ပြင် (အို-နဗီတမန်တော်၊ အသင်သည်) "ဇွန်နွန်" ငါးရှင် [၁] (နဗီတမန်တော် ယူနွတ်စ်၏ အတ္ထုပ္ပတ္တိအကြောင်း)ကိုလည်း (ပြောကြားပါလေ)။ တစ်ရံရောအခါဝယ် ထိုငါးရှင် (နဗီတမန်တော် ယူနွတ်စ်)သည် (မိမိ၏ အမျိုးသားတို့အပေါ်ဝယ်) ဒေါသအမျက်ထွက်ကာ (မိမိမြို့ရွာဒေသမှထွက်ခွာ၍) သွားခဲ့လေသည်။ [၂]

---

① **တမန်တော် ယူနွတ်စ်။**

**မှတ်ချက်။** တမန်တော် ယူနွတ်စ် (အလိုင်ဟစ္စလာမ်)၏အကြောင်း ကုရ်အာန် (၄း၁၆၃။ ၆း၈၇။ ၁၀း၉၈။ ၂၁း၈၇-၈၈။ ၃၇း၁၃၉-၁၄၈။ ၆၈း၄၈-၅၀)တွင် ပါရှိသည်။ တမန်တော် ယူနွတ်စ်၏ အကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၄း၁၆၃။ ၆း၈၇။ ၁၀း၉၈)၏ အဖွင့်များတွင် အကျယ်ရေးသားခဲ့ပါပြီ။

② တမန်တော် ယူနွတ်စ် (အလိုင်ဟစ္စလာမ်)သည် ဇနနိဝါ မြို့သူမြို့သားများ၏ စိတ်ဓာတ်ခဲယဉ်းမှု၊ ဆိုးသွမ်းမှု၊ သွေဖည်ငြင်းဆန် မနာခံမှုများကြောင့် ဒေါသထွက်ကာ အလ္လာဟ်အရှင်မြတ်ထံမှ ဝဟီအမိန့်တော်ကို မစောင့်မိတော့ဘဲ မြို့သူမြို့သားများကိုစွန့်ပြီး မြို့မှထွက်ခွာလာခဲ့လေသည်။ ဤသို့ ပြုမူသည့်အတွက် ➤➤

فَنَادٰى فِى الظُّلُمٰتِ اَنْ لَّآ اِلٰهَ اِلَّآ اَنْتَ سُبْحٰنَكَ ۖ اِنِّىْ كُنْتُ مِنَ الظّٰلِمِيْنَ ۚ ﴿٨٧﴾

တဖန် ထိုငါးရှင်က ငါအရှင်မြတ်သည် ၎င်း၏အပေါ်၌ အလျှင်း ကျပ်တည်းစေတော်မူသည် မဟုတ်ဟူ၍ထင်မြင်ခဲ့လေသည်။ ထို့နောက် ၎င်းသည် အမှောင်များအတွင်းဝယ် [၁]*(အို-အလ္လာဟ်အရှင်မြတ်၊) အရှင်မြတ် မှတပါး ခဝပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိပါ။ အရှင်မြတ်သည် စင်ကြယ် သန့်ရှင်းတော်မူပါ၏။ ကေန်မလွဲ ကျွန်တော်မျိုးသည် သာလျှင် အပြစ်ကျူးလွန်သူဖြစ်ပါ၏တကား* [၂] ဟု ဟစ်ခေါ်တသ အသနားခံ ပန်ကြားခဲ့လေသည်။

---

➤➤ အလ္လာဟ်အရှင်မြတ်သည် မိမိအား အလျှင်း အရေးယူတော်မူမည်မဟုတ်၊ (တစ်နည်း) အကျပ်ကိုင်တော်မူမည် မဟုတ်ဟူ၍ လည်း ထင်မှတ်ခဲ့လေသည်။ ဤသည်တမန်တော် ယူနွတ်စ်၏ "အိဂျ်တိဟာဒီ ဃလတီ" အယူအဆ အဆင်ခြင် ဝေဖန်ပိုင်းခြားခြင်း၏ တိမ်းစောင်းမှုပင်ဖြစ်သည်။ ဤသို့ တိမ်းစောင်းမှုသည် သာမန်နောက်လိုက်တပည့်သားတို့အဖို့ ခွင့်လွှတ်နိုင်သော ကိစ္စဖြစ်သော်လည်း တမန်တော်တစ်ပါးအဖို့မှာကား တာဝန်ရှိပေသည်။ တမန်တော်များကား သာမန်ပုဂ္ဂိုလ်များ မဟုတ်ကြပေ။ တမန်တော်ဂုဏ်ဖြင့် ချီးမြှင့်တော်မူခြင်းခံကြရသော အလ္လာဟ်အရှင်မြတ်၏ တမန်တော်များဖြစ်ကြပေသည်။ အလ္လာဟ်အရှင်မြတ်နှင့် အလွန်နီးစပ်ကြပေသည်။ ၎င်းတို့ထံသို့ အလ္လာဟ်အရှင်မြတ်ထံတော်မှ အကြောင်းအားလျော်စွာ (ဝဟီ) အမိန့်တော်များလည်း ကျရောက်လာပေသည်။ ၎င်းတို့၏ တာဝန်ကား ကြီးလေးလှပေသည်။

အလ္လာဟ်အရှင်မြတ် အထံတော်မှ (ဝဟီ) အမိန့်တော် ကျရောက်လာနိုင်ဖွယ်ရာ ဖြစ်သော ကိစ္စမျိုးတွင် အမိန့်တော်ကို မစောင့်မျှော်ဘဲ မိမိ၏အမျိုးသားများအား စွန့်၍ မြို့မှထွက်ခွာလာခဲ့ခြင်းသည် တမန်တော်တစ်ပါးအဖို့မသင့်လျော်ပေ။ ထို့အတွက်ကြောင့်လည်း အလ္လာဟ်အရှင်မြတ်သည် တမန်တော်ယူနွတ်စ်အား အရေးယူတော်မူခဲ့ခြင်း ဖြစ်သည်။ တမန်တော် ယူနွတ်စ်သည်လည်း နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ထိုအရှင်မြတ်ထံတော်၌ ဝန်ချတောင်းပန်ပြီး လွတ်မြောက်၍ မိမိ၏အမျိုးသားများထံသို့ ကောင်းမွန်စွာ ပြန်လည်ရောက်ရှိလာခဲ့ပေသည်။

အလ္လာဟ်အရှင်မြတ်သည် အချို့သာမန် အသေးအဖွဲ ကိစ္စကလေးများနှင့် စပ်လျဉ်း၍ တာဝန်မရှိသော လူသာမန်တို့အား အရေးယူတော်မူလေ့ မရှိသော်လည်း မိမိနှင့် အလွန်နီးစပ်သော၊ တာဝန်ရှိသော ပုဂ္ဂိုလ်များကိုကား ပြင်းထန်စွာ အရေးယူတော်မူလေ့ရှိသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်နှင့် နီးစပ်သော၊ တာဝန်ရှိသော ရှေ့ဆောင်ရှေ့ရပ်တို့ကား တာဝန်ကြီးသည်နှင့်အမျှ အနေအထိုင်၊ အပြောအဆို၊ အပြုအမူ၊ အယူအဆ ဟူဟူသမျှတွင် သာမန်တိမ်းစောင်းမှုကိုပင် မကျူးလွန်မိကြရန် သတိဝီရိယကြီးစွာ ထားရှိကြရမည် ဟူသတည်း။

[၁] ဤအာယတ်တော်တွင် "တမန်တော်ယူနွတ်စ်သည် အမှောင်များတွင် ဟစ်ခေါ်ပန်ကြားခဲ့သည်" ဟူ၍ လာရှိသည်။ "အမှောင်များ" ဟူသည် ရေထု၏အမှောင်၊ ငါး၏ ဝမ်းဗိုက်၏အမှောင်နှင့် အချို့အဆိုအရ ညဥ့်၏အမှောင်များကို ဆိုလိုသည်။ ကြည့်-ထာနဝီ။

فَاسْتَجَبْنَا لَهٗ ۙ وَنَجَّيْنٰهُ مِنَ الْغَمِّ ؕ وَكَذٰلِكَ نُـْۨجِى الْمُؤْمِنِيْنَ ﴿٨٨﴾

၈၈။ ထိုအခါဝယ် ငါအရှင်မြတ်သည် ၎င်း၏ (အသနားခံပန်ကြားချက်)ကို သဘောတူလက်ခံတော်မူ၍ ၎င်းအား(ပူပင်သောကဖြစ်ခြင်းမှ)ကယ်တင်တော်မူခဲ့၏။ စင်စစ်သော်ကားငါအရှင်မြတ်သည် မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အားဤနည်းနှင်နှင် ကယ်တင်လေ့ရှိတော်မူပေသတည်း။

وَزَكَرِيَّآ اِذْ نَادٰى رَبَّهٗ رَبِّ لَا تَذَرْنِىْ فَرْدًا وَّاَنْتَ خَيْرُ الْوٰرِثِيْنَ ﴿٨٩﴾

၈၉။ ထို့ပြင် (အို-နဗီတမန်တော်၊ အသင်သည် နဗီတမန်တော်)ဇကရီယာ(၏ အကြောင်း)ကိုလည်း (ပြောကြားပါလေ)။ အခါတပါး၌ ထို(နဗီတမန်တော်) ဇကရီယာသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ကို "အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ကျွန်တော်မျိုးအား (အမွေစားအမွေဆက်ခံသူ မရှိသောသူအဖြစ်) တစ်ဦးထီးတည်းစွန့်ထားတော်မမူပါနှင့်။ စင်စစ်သော်ကား အရှင်မြတ်သည် အကောင်းဆုံးသော အမွေစားအမွေခံ ဖြစ်တော်မူပါသည်"ဟု ဟစ်ခေါ်တသ ပန်ကြားခဲ့လေ၏။

فَاسْتَجَبْنَا لَهٗ ۫ وَوَهَبْنَا لَهٗ يَحْيٰى وَاَصْلَحْنَا لَهٗ زَوْجَهٗ ؕ

၉၀။ ထိုရောအခါဝယ် ငါအရှင်မြတ်သည် ထို (နဗီတမန်တော်) ဇကရီယာ(၏ ပန်ကြားချက်)ကို သဘောတူ လက်ခံတော်မူ၍ ၎င်းအား (သားတော် နဗီတမန်တော်)ယဟ်ယာကို ချီးမြှင့် ပေးသနားတော်မူခဲ့၏။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုဇကရီယာ၏ ဇနီးကြင်ရာ(၏)မြုံခြင်းဝေဒနာကို ပျောက်ကင်းစေတော်

(၂) ဤသည် ငါး၏ဝမ်းဗိုက်တွင် တမန်တော်ယူနွတ်စ်(အလိုင်ဟစ္စလာမ်) တောင်းဆိုပန်ကြားခဲ့သော ဆုမွန်ပင်ဖြစ်သည်။ ဒုက္ခဖြစ်သည့်အချိန် မည်သူမဆို စိတ်စေတနာဖြူစင်စွာဖြင့် တမန်တော်ယူနွတ်စ်၏ ဆုမွန်ကို ရွတ်ဖတ်ပန်ကြားပါက ဆုတောင်းပြည့်သည်သာ ဖြစ်သည်။

တမန်တော်မြတ်က "မည်သူမဆို တမန်တော်ယူနွတ်စ်၏ ဆုမွန်ကို ရွတ်ဖတ်ပန်ကြားပါက ထိုသူသည် ဆုတောင်းပြည့်သည်" ဟု မိန့်ကြားတော်မူခဲ့လေသည်။ အိဗ်နူကဆီရ်။ (အ-၃၊ စ-၁၉၃)။

إِنَّهُمْ كَانُوا يُسَٰرِعُونَ فِى ٱلْخَيْرَٰتِ وَيَدْعُونَنَا رَغَبًا وَرَهَبًا ۖ وَكَانُوا لَنَا خَٰشِعِينَ ﴿٩٠﴾

မှု၍သန္ဓေတည်နိုင်သောအခြေအနေသို့) နေသားတကျ ဖြစ်အောင် ပြုပြင်၍ ပေးတော်မူခဲ့၏။

ဧကန်အမှန် ထို(နဗီတမန်တော်)တို့သည် ကောင်းမှုသုစရိုက်များကို ဆောလျင်စွာ ပြုလုပ်တတ်သူများ ဖြစ်ခဲ့ကြကုန်၏။ ထို့ပြင် ငါအရှင်မြတ်အား စိတ်ပါဝင်စားစွာလည်းကောင်း၊ ကြောက်ရွံ့စွာလည်းကောင်း၊ ဟစ်ခေါ်တသလေ့ရှိခဲ့ကြကုန်၏။ ထိုမှတပါး ၎င်းတို့သည် ငါအရှင်မြတ်အား ကျိုးနွံသူများလည်း ဖြစ်ခဲ့ကြကုန်သတည်း။

وَٱلَّتِىٓ أَحْصَنَتْ فَرْجَهَا فَنَفَخْنَا فِيهَا مِن رُّوحِنَا وَجَعَلْنَٰهَا وَٱبْنَهَآ ءَايَةً لِّلْعَٰلَمِينَ ﴿٩١﴾

**၉၁။** ၎င်းပြင် (အို-နဗီတမန်တော်၊ အသင်သည်) အကြင်အမျိုးသမီး၏ အတ္ထုပ္ပတ္တိအကြောင်းကိုလည်း (ပြောကြားပါလေ)။ ထို(အမျိုးသမီး)သည် မိမိဂုဏ်အသရေကို စောင့်စည်းထိန်းသိမ်းခဲ့လေ၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထို(အမျိုးသမီး)၌ မိမိအထံတော်မှ အသက်ဇီဝိန်ကို မှုတ်သွင်းတော်မူခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် ထို(အမျိုးသမီး)အားလည်းကောင်း၊ ထို(အမျိုးသမီး)၏ သားတော်အားလည်းကောင်း၊ ကမ္ဘာသူကမ္ဘာသားခပ်သိမ်းတို့အဖို့သက်သေလက္ခဏာတော်တစ်ရပ် ပြုလုပ်တော်မူခဲ့ပေသတည်း၊)

إِنَّ هَٰذِهِۦٓ أُمَّتُكُمْ أُمَّةً وَٰحِدَةً وَأَنَا۠ رَبُّكُمْ فَٱعْبُدُونِ ﴿٩٢﴾

**၉၂။** ဧကန်မလွဲ ဤ(အစ္စလာမ်သာသနာတော်ပင်) အသင်တို့၏ တစ်ခုတည်းသော သာသနာတော်ဖြစ်ပေသည်။ [၁] ၎င်းပြင် ငါအရှင်မြတ်သည်ပင် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင် ဖြစ်တော်မူပေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် ငါအရှင်မြတ်အားသာလျှင် ခဝပ်ကိုးကွယ်ကြလေကုန်။

---

(၁) **တစ်ဆူတည်းသောကိုးကွယ်ရာ၊ တစ်ခုတည်းသောသာသနာနှင့် တစ်စုတည်းသောတမန်တော်များ**

အထက်တွင် ကုရ်အာန်(၂၁း၄၈-၉၁)၌ တမန်တော်မူစာ၊ တမန်တော်ဟာရူန်၊ တမန်တော် ➤➤

وَتَقَطَّعُوٓا أَمۡرَهُم بَيۡنَهُمۡۖ كُلٌّ إِلَيۡنَا رَٰجِعُونَ ﴿٩٣﴾

၉၃။ သို့ရာတွင် လူတို့သည် မိမိတို့ အချင်းချင်းပင် မိမိတို့၏(သာသနာ့)အရေးကိစ္စကို အပိုင်းပိုင်း ပြုလုပ်ခဲ့ကြကုန်၏။ (စင်စစ်သော်ကား) အားလုံးတို့သည် ငါအရှင်မြတ်အထံတော်သို့သာလျှင် ပြန်လည်၍ လာကြရမည့်သူများပင် ဖြစ်ကြကုန်၏။

فَمَن يَعۡمَلۡ مِنَ ٱلصَّٰلِحَٰتِ وَهُوَ مُؤۡمِنٞ فَلَا كُفۡرَانَ لِسَعۡيِهِۦ وَإِنَّا لَهُۥ كَٰتِبُونَ ﴿٩٤﴾

၉၄။ သို့ဖြစ်ပေရာ မည်သူမဆို ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူအံ့။ ၎င်းပြင် ထိုသူသည် "မုအ်မင်န်" သက်ဝင် ယုံကြည်သူလည်း ဖြစ်အံ့။ သို့ဖြစ်လျှင် ထိုသူ၏ ကြိုးပမ်းအားထုတ်မှုသည် ပယ်ရှားခြင်းခံရမည် မဟုတ်ပေ။

---

➤➤ အီဗ်ရာဟီမ်၊ တမန်တော်လူတ်၊ တမန်တော်အစ္စဟာက်၊ တမန်တော်ယအ်ကူးဗ်၊ တမန်တော်နူဟ်၊ တမန်တော်ဒါဝူဒ်၊ တမန်တော်စုလိုင်မာန်၊ တမန်တော်အိုင်ယူးဗ်၊ တမန်တော်အစ္စမာအီလ်၊ တမန်တော်အိဒ္ဒရီစ်၊ တမန်တော်ဇုလ်ကိဖ်လ်၊ တမန်တော်ယူနွတ်စ်၊ တမန်တော်ဇကရီယာ၊ တမန်တော်ယဟ်ယာ၊ မရ်ယမ်သခင်မနှင့် သားတော် တမန်တော်အီစာတို့၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်များတွင် ၎င်းတို့နှင့်ပတ်သက်၍ ၎င်းတို့၏ကိုးကွယ်ရာ၊ ၎င်းတို့၏သာသနာ၊ ၎င်းတို့ တညီတညွတ်တည်း ရှိခဲ့ကြပုံ၊ လူသားတို့ အချင်းချင်း သဘောကွဲလွဲလာခဲ့ကြပုံနှင့် လွတ်မြောက်ရာလမ်းစဉ်ကို အချုပ်အားဖြင့် မိန့်ဆိုထားတော်မူသည်။

ဆိုလိုသည်ကား အမှန်တကယ် ကိုးကွယ်ရာ အရှင်သည်လည်း တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။ နာယူကျင့်မူရာ မူလ၊ အဓိက အခြေခံ သာသနာသည်လည်း တစ်ခုတည်းပင် ဖြစ်ပေသည်။ ပွင့်လေသမျှသော တမန်တော်အပေါင်းတို့သည်လည်း ထိုသည့်တစ်ခုတည်းသော အခြေခံသာသနာ အပေါ်၌ တညီတညွတ်တည်း၊ တပေါင်းတစည်းတည်းပင် တည်ရှိခဲ့ကြပေသည်။ အချုပ်အားဖြင့် ဆိုရသော် အလ္လာဟ်အရှင်မြတ်လည်း တစ်ပါးတည်း၊ သာသနာလည်း တစ်ခုတည်း၊ တမန်တော် အပေါင်းသည်လည်း တညီတညွတ်တည်း ဖြစ်ခဲ့ကြကုန်၏။

ခေတ်၊ ပတ်ဝန်းကျင်၏ ကွဲပြားမှုကြောင့် 'ရှရီအတ်' သာသနာရေးဆိုင်ရာ နည်းဥပဒေများသည်သာ ကွဲပြားခဲ့ပေသည်။ သာသနာရေးဆိုင်ရာ အခြေခံသဘောတရားများတွင်ကား ကွဲပြား ခြားနားမှု အလျှင်းမရှိပေ။ သတိသမ္ပစဉ် ဉာဏ်အမြော်အမြင်နှင့် ယှဉ်ကြည့်ပါကလည်း ဤအတိုင်းပင် ဖြစ်ရပေမည်။ သို့ဖြစ်ပေရာ လူသားအားလုံးတို့သည်လည်း တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်၍ တမန်တော်အပေါင်းတို့ တညီတညွတ်တည်း နာယူကျင့်မူခဲ့ကြကုန်သော တစ်ခုတည်းသော သာသနာကို စွဲမြဲစွာ ဆုပ်ကိုင်ပြီး လိုက်နာကျင့်သုံးကြရပေမည်။

မချွတ်ဧကန် ငါအရှင်မြတ်သည် ယင်းအားထုတ်မှုကို ရေးသားတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ [၁]

وَحَرَامٌ عَلَىٰ قَرْيَةٍ أَهْلَكْنَاهَا أَنَّهُمْ لَا يَرْجِعُونَ ﴿٩٥﴾

**၉၅။** စင်စစ်သော်ကား မည်သည့်မြို့ရွာမဆို ငါအရှင်မြတ်သည် ဖျက်ဆီးတော်မူခဲ့ပါလျှင် ထိုမြို့သူမြို့သားတို့အား (ဤလောကသို့ ၎င်းတို့ ပြန်လာကြရန် မဖြစ်နိုင်ပေ)။ [၂]

حَتَّىٰ إِذَا فُتِحَتْ يَأْجُوجُ وَمَأْجُوجُ وَهُم مِّن كُلِّ حَدَبٍ يَنسِلُونَ ﴿٩٦﴾

**၉၆။** နောက်ဆုံးတွင် 'ယအ်ဂျူဂျ်'နှင့်'မအ်ဂျူဂျ်' [၃] (လူမျိုးတို့သည် လွတ်လပ်ခဲ့ကြပြီ)၊ (ဖွင့်ပေးခြင်းခံရသောအခါ) (ကမ္ဘာမြေဝယ်ရှိ) ကုန်းမြင့်တိုင်းမှ လျင်မြန်စွာ (ဆင်း၍) လာကြပေမည်။

---

**(၁) လွတ်မြောက်ရာ လမ်းစဉ်။**

လွတ်မြောက်ရာလမ်းစဉ်ကား အခြားမဟုတ်၊အီမာန် ယုံကြည်မှုနှင့် ကောင်းမြတ်သော အကျင့်သီလ ဆောက်တည်မှုပင်ဖြစ်သည်။ မည်သူပင်ဖြစ်စေ လူမျိုးမရွေး၊ ခေတ်မရွေး၊ ဖြူ-မည်းမခြား အလ္လာဟ်အရှင်မြတ်အား အီမာန်ယုံကြည်၍ တရားတော်နှင့်အညီ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ပါက ထိုသူသည် လွတ်မြောက်မည်သာဖြစ်သည်။ မိမိ ဆောက်တည်ခဲ့သော ကုသိုလ်အကျိုးများကို မုချ ခံစားရမည်သာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်၏ မှတ်တမ်းတော်တွင် အားလုံး ရေးသားထားပြီးဖြစ်ပေသည်။

**(၂) ကာဖိရ်များ၏ ဖြစ်အင်။**

အထက်တွင် လွတ်မြောက်ကြသည့် မုအ်မင်န်များ၏ အကြောင်းပါရှိ၏။ ယခု ဤအာယတ်တော်တွင် ၎င်းတို့နှင့် ဆန့်ကျင်ဘက်ဖြစ်သော ပြစ်ဒဏ်သင့်သော ကာဖိရ်များ၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ကာဖိရ်များသည် သေကြေပျက်စီးပြီးနောက် မိမိတို့ ကျူးလွန်ခဲ့ကြသော အပြစ်များနှင့် စပ်လျဉ်း၍ ဝန်ချတောင်းပန်ပြီး ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်နိုင်ရန်အတွက် ကိယာမတ်မဖြစ်မီအလျင် ဤပစ္စက္ခဘဝသို့ ပြန်လာလိုကြသော်လည်း ပြန်လာနိုင်ကြမည် မဟုတ်ပေ။ ၎င်းတို့အဖို့ လမ်းတစ်ခုသာရှိသည်။ ၎င်းတို့သည် ကိယာမတ်နေ့တွင် ရှင်ပြန်ထကြသည့်အခါ ဝမ်းနည်းကြေကွဲကာ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်သို့ ရောက်ရှိလာကြရပေမည်။ ထိုအချိန်ကျမှ ဝမ်းနည်းကြေကွဲခြင်းကား အကျိုးမရှိတော့ပြီ။ အခါနှောင်းချေပြီ။

(၃) ကုရ်အာန်ကျမ်းမြတ်တွင် ယအ်ဂျူဂျ်နှင့် မအ်ဂျူဂျ်တို့ အကြောင်းနှစ်နေရာတွင် လာရှိသည်။

ကြည့်-ကုရ်အာန် (၁၈း၉၄။ ၂၁း၉၆)။

ယအ်ဂျူဂျ်နှင့် မအ်ဂျူဂျ်တို့၏ အကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၁၈း၉၄)တွင် အကျယ်ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

၉၇။ ၎င်းပြင် မှန်ကန်စွာ ချိန်းချက်ထားသောအချိန်ကာလ (ကိယာမတ်နေ့)သည် နီးကပ်၍ လာခဲ့သောအခါ ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့၏မျက်လုံးများကား ပြူးကျယ်လျက် ရှိကြပေမည်။

(ထိုအခါ ၎င်းတို့သည်) ဩော်-ဖြစ်မှဖြစ်ရလေခြင်း၊ မချွတ်ဧကန် ကျွန်ုပ်တို့သည် ဤ(ကိယာမတ်နေ့)ကို ဂရုမထား မေ့လျော့၍သာ နေခဲ့ကြလေသည်။ စင်စစ်မှာကား ကျွန်ုပ်တို့သည်သာလျှင် အပြစ်ကျူးလွန်သူများ ဖြစ်ကြသည်ဟု ညည်းညူမြည်တမ်းကြပေမည်။

وَاقْتَرَبَ الْوَعْدُ الْحَقُّ فَإِذَا هِيَ شَاخِصَةٌ أَبْصَارُ الَّذِينَ كَفَرُوا يَا وَيْلَنَا قَدْ كُنَّا فِي غَفْلَةٍ مِّنْ هَٰذَا بَلْ كُنَّا ظَالِمِينَ ﴿٩٧﴾

၉၈။ ဧကန်စင်စစ် အသင်တို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်မှတပါး အသင်တို့ ကိုးကွယ်ကြသည်များသည် လည်းကောင်း၊ ဂျဟန္နမ်ငရဲဘုံ၏လောင်စာများပင် ဖြစ်ကြကုန်၏။ အသင်တို့အားလုံးပင် ယင်းဂျဟန္နမ်ငရဲဘုံတွင်းသို့ ဆိုက်ရောက်ရမည့်သူများသာ ဖြစ်ကြကုန်၏။

إِنَّكُمْ وَمَا تَعْبُدُونَ مِن دُونِ اللَّهِ حَصَبُ جَهَنَّمَ أَنتُمْ لَهَا وَارِدُونَ ﴿٩٨﴾

၉၉။ အကယ်၍သာ ဤသည်တို့သည် ကိုးကွယ်ရာများ ဖြစ်ကြပါလျှင် ယင်းဂျဟန္နမ် ငရဲဘုံတွင်းသို့ ဆိုက်ရောက်ကြမည်မဟုတ်ပေ။ သို့ရာတွင် (ယခုသော်ကား) ၎င်းတို့အားလုံးပင် ယင်းဂျဟန္နမ် ငရဲဘုံ၌ အမြဲထာဝရ နေထိုင်ကြရမည့်သူများ ဖြစ်ကြချေပြီ။

لَوْ كَانَ هَٰؤُلَاءِ آلِهَةً مَّا وَرَدُوهَا وَكُلٌّ فِيهَا خَالِدُونَ ﴿٩٩﴾

၁၀၀။ ၎င်းတို့၌ ယင်းဂျဟန္နမ်ငရဲဘုံတွင်း ညီးညည်းညည်းတွားခြင်းသာလျှင် ရှိပေမည်။ ထို့ပြင် ၎င်းတို့သည် ယင်းဂျဟန္နမ် ငရဲဘုံ၌ (မည်သည့်စကား၊ မည်သည့်အသံကိုမျှ) ကြားကြလိမ့်မည် မဟုတ်ပေ။

لَهُمْ فِيهَا زَفِيرٌ وَهُمْ فِيهَا لَا يَسْمَعُونَ ﴿١٠٠﴾

إِنَّ الَّذِينَ سَبَقَتْ لَهُم مِّنَّا الْحُسْنَىٰ أُولَٰئِكَ عَنْهَا مُبْعَدُونَ ﴿١٠١﴾

၁၀၁။ ကေန်မလွဲ အကြင်သူတို့သည် ငါအရှင် မြတ်အထံတော်မှ မူလကပင် ထိုသူတို့အဖို့ ကောင်းကျိုးပြဋ္ဌာန်းပြီးဖြစ်၏။ ထိုသူတို့သည် ယင်းဂျဟန္နမ်ငရဲဘုံမှ ဝေးစေခြင်းကို ခံကြရမည့်သူများပင် ဖြစ်ကြပေမည်။

لَا يَسْمَعُونَ حَسِيسَهَا ۖ وَهُمْ فِي مَا اشْتَهَتْ أَنفُسُهُمْ خَالِدُونَ ﴿١٠٢﴾

၁၀၂။ ၎င်းတို့သည် ယင်းဂျဟန္နမ်ငရဲဘုံ၏ လေသံကို သဲ့သဲ့မျှပင် ကြားကြရလိမ့်မည်မဟုတ်ပေ။ စင်စစ် ၎င်းတို့သည် မိမိတို့ စိတ်ကြိုက် စည်းစိမ်များတွင် ထာဝစဉ် မွေ့လျော်ခံစားသူများပင် ဖြစ်ကြပေမည်။

لَا يَحْزُنُهُمُ الْفَزَعُ الْأَكْبَرُ وَتَتَلَقَّاهُمُ الْمَلَائِكَةُ هَٰذَا يَوْمُكُمُ الَّذِي كُنتُمْ تُوعَدُونَ ﴿١٠٣﴾

၁၀၃။ ၎င်းတို့အား ထိုအကြီးဆုံးသော ထိတ်လန့်ဖွယ် (ဖြစ်သော ကိယာမတ်နေ့)သည်ပင်လျှင် စိတ်ဒုက္ခရောက်စေမည်မဟုတ်။ ၎င်းပြင်(ထိုနေ့တွင်) မလာအီကဟ် ကောင်းကင်တမန်တော်များက ၎င်းတို့အား "ဤနေ့သည်ကား ချိန်းချက်ထားသောနေ့ ဖြစ်သည်" ဟူ၍ပင် ကြိုဆို ဧည့်ခံကြအံ့သတည်း။

يَوْمَ نَطْوِي السَّمَاءَ كَطَيِّ السِّجِلِّ لِلْكُتُبِ ۚ كَمَا بَدَأْنَا أَوَّلَ خَلْقٍ نُّعِيدُهُ ۚ وَعْدًا عَلَيْنَا ۚ إِنَّا كُنَّا فَاعِلِينَ ﴿١٠٤﴾

၁၀၄။ (အို-နဗီတမန်တော်)အကြင်(နေ့၏အကြောင်းကိုလည်း ပြောကြားပါလေ။ထို) နေ့တွင် ငါအရှင်မြတ်သည်မိုးကောင်းကင်ကို ရေးသားထားသော မှတ်တမ်းစာရွက်ကို လိပ်ဘိသကဲ့သို့ပင် ခေါက်လိပ်တော်မူမည်။

ငါအရှင်မြတ်သည်အရာခပ်သိမ်းတို့ကို ပထမအကြိမ် စတင် ဖန်ဆင်းတော်မူဘိသကဲ့သို့ ထိုအရာကိုပင် ထပ်မံ၍ ပြုလုပ်(ဖန်ဆင်း)တော်မူပေမည်။ (ဤသည် ငါအရှင်မြတ်) မိမိအပေါ်၌ ကတိပြု(တာဝန်ယူ)တော်မူခြင်းပင် ဖြစ်ပေရာ ဧကန်အမှန် ငါအရှင်မြတ်သည် (မိမိကတိတော်အတိုင်း) ပြုလုပ်တော်မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَلَقَدۡ كَتَبۡنَا فِی الزَّبُوۡرِ مِنۡۢ بَعۡدِ الذِّكۡرِ اَنَّ الۡاَرۡضَ يَرِثُهَا عِبَادِیَ الصّٰلِحُوۡنَ ﴿۱۰۵﴾

၁၀၅။ မချွတ်မလွဲ ငါအရှင်မြတ်သည် "လောက်ဟ်မဟ်ဖူဇ်" သင်ပုန်း(၌ ရေးသားတော်မူပြီး)နောက် ကောင်းကင်ကျမ်းများတွင်(လည်း)ကေန်စင်စစ် မြေကို ငါအရှင်မြတ်၏ *သူတော်စင် ကျွန်များပင် အမွေဆက်ခံကြမည်ဟု ရေးသားတော်မူခဲ့ပြီး ဖြစ်ပေသတည်း။* [၁]

اِنَّ فِیۡ هٰذَا لَبَلٰغًا لِّقَوۡمٍ عٰبِدِيۡنَ ﴿۱۰۶﴾

၁၀၆။ မလွဲကေန် ဤ(ကုရ်အာန်ကျမ်းတော်)၌ ခဝပ်ကိုးကွယ်သူတို့ အဖို့ အမှန်ပင် (ရှင်းလင်းသော) အကြောင်းကြားချက်သည် ရှိပေသည်။ [၂]

وَمَاۤ اَرۡسَلۡنٰكَ اِلَّا رَحۡمَةً لِّلۡعٰلَمِيۡنَ ﴿۱۰۷﴾

၁၀၇။ စင်စစ်သော်ကား(အို-နဗီတမန်တော်)ငါအရှင်မြတ်သည်အသင့်အား ကမ္ဘာခပ်သိမ်းတို့အဖို့ ကရုဏာ *တော်အဖြစ်နှင့်သာလျှင်စေလွှတ်တော်မူခဲ့ပေသည်။* [၃]

---

① **<u>အလ္လာဟ်အရှင်မြတ်၏ ကတိတော်။</u>**

အလ္လာဟ်အရှင်မြတ်သည် ကတိတည်သော မုအ်မင်န် သူတော်စင်တို့အား ကတိပြုထားတော်မူသည်မှာ ထိုအရှင်မြတ်သည်၊ ယင်းမုအ်မင်န် သူတော်စင်တို့အား ဤပစ္စက္ခဘဝတွင် လည်းကောင်း၊ နောင်တမလွန်ဘဝတွင်လည်းကောင်း၊ အောင်မြင်မှုကို ချီးမြှင့်တော်မူမည်။၎င်းတို့အား ဤကမ္ဘာမြေကြီး၏ အမွေစားများအဖြစ်လည်းကောင်း၊ဂျန္နတ် အမတသုခဘုံ၏ အမွေစားများအဖြစ် လည်းကောင်း မြှောက်စားတော်မူမည်။ ဤသည့်သဘောကို ကုရ်အာန်ကျမ်းမြတ် (၇း၁၂၈။ ၂၄း၅၅။ ၄၀း၅၁) တွင်လည်း မိန့်ဆိုထားတော်မူသည်။

② ဤအာယတ်တော်ကို အောက်ပါအတိုင်း အမျိုးမျိုး အနက်ဖွင့်ကြပေသည်။

(က) တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်ကြသော မုအ်မင်န်သူတော်စင်များသည် ဤမည်သော ကောင်းချီးသတင်းကို ကြားနာပြီး မိမိတို့၏ လိုအင်ဆန္ဒအဝဝကို ရရှိနိုင်ကြပေသည်။

(ခ) ဤကုရ်အာန်ကျမ်းမြတ်တွင် ဤသို့မြင့်မြတ်လှသော တရားဓမ္မများ ကောင်းချီးသတင်းများ ပါရှိနေပေရာ ဤကုရ်အာန်ကျမ်းမြတ်သည် မုအ်မင်န်သူတော်စင်များအား ပြည့်ဝစုံလင် လုံလောက်သော အကျိုးနှင့် အောင်မြင်မှုကို ပေးမည်သာဖြစ်သည်။

③ **<u>တမန်တော်မြတ်၏ ကရုဏာနှင့် စကြာဝဠာ။</u>**

မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား စကြာဝဠာအဝှန်းအဖို့ ကရုဏာတော်ရှင်အဖြစ်နှင့် စေလွှတ်တော်မူခဲ့လေသည်။ သို့စေလွှတ်တော် မူခဲ့သည့်အတိုင်း တမန်တော်မြတ်သည်လည်း အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် စကြာဝဠာအဝှန်းအား ကရုဏာတရား ပွားများစေတော်မူခဲ့လေသည်။ တမန်တော်မြတ်၏ ➤➤

قُلۡ إِنَّمَا يُوحَىٰٓ إِلَيَّ أَنَّمَآ إِلَٰهُكُمۡ إِلَٰهٞ وَٰحِدٞۖ فَهَلۡ أَنتُم مُّسۡلِمُونَ ١٠٨

**၁၀၈။** (အို-နဗီတမန်တော်)အသင်သည်(၎င်းတို့အား အချင်းတို့) တစ်ဆူတည်းသောကိုးကွယ်ရာအရှင်မြတ်သည်သာလျှင် အသင်တို့၏ ကိုးကွယ်ရာအရှင် ဖြစ်တော်မူကြောင်း ငါ့ထံသို့ "ဝဟ်ယ်" အမိန့်တော်ပေးပို့ခြင်းခံရသည်။ သို့ဖြစ်ပေရာ အသင်တို့သည် (အမိန့်တော်ကိုနာခံသူ) *မွတ်စ်လင်မ်များ ဖြစ်ကြမည်လောဟု ပြောဆို(မေးမြန်း)ပါလေ။* [၁]

---

➤➤ ကရုဏာတရားသည် အတိတ်တွင် ပွားများလျက်ရှိသကဲ့သို့ ယခုလည်း ပွားများလျက်ရှိပေသည်။ နောင်အနာဂတ်တွင်လည်း "ကိယာမတ်" တိုင် ပွားများလျက်ပင် ရှိပေမည်။

တမန်တော်မြတ်၏ ကရုဏာတရားသည် စကြာဝဠာအဝှန်းအဖို့ ဖြစ်ပါလျက်၊ စကြာဝဠာအဝှန်းအား အကျိုးပြုနေပါလျက်၊ တစ်ဦးတစ်ယောက်သောသူသည် တမန်တော်မြတ်၏ ကရုဏာတော်မှ အကျိုးမခံစားပါသော် အကျိုးမခံစားသူ၏ အပြစ်သာဖြစ်ပေမည်။ နေသည် ကမ္ဘာ့အဝှန်းအား အလင်းရောင်ပေးသည်၊ အပူဓာတ်ပေးသည်။ ကမ္ဘာ့အဝှန်းရှိ သက်ရှိသက်မဲ့ အားလုံးတို့သည် အလင်းရောင်နှင့် အပူဓာတ်ကို နေမှ ခံစားလျက် ရှိကြသည်။ သို့ပါလျက် တစ်ဦးတစ်ယောက်သည် မိမိ၏အိမ်ကို အဘက်ဘက်မှ ပိတ်ထားသော်၊ ပိတ်ထားသူ၏ အပြစ်သာ ဖြစ်ပေမည်။ အလင်းရောင်နှင့် အပူဓာတ် မရရှိရန်အတွက် ယင်းသို့ အဘက်ဘက်မှ ပိတ်ထားသောသူ၏အိမ်ကိုပင် နေသည် အလင်းရောင်နှင့် အပူဓာတ်ပေးလျက် ရှိပေသည်။ ထို့အတူ တမန်တော်မြတ်၏ ကရုဏာတရားသည် မိမိအား လက်ခံသူကိုလည်းကောင်း၊ လက်မခံသူကိုလည်းကောင်း စကြာဝဠာအဝှန်းအား အကျိုးပြုလျက်ရှိပေသည်။

တမန်တော်မြတ်၏ ကရုဏာတရား၏ နယ်နိမိတ်ကား အတိုင်းအတာမရှိ၊ ကျယ်ဝန်းလှ၏။ တမန်တော်မြတ်၏ ကရုဏာတော်ကို မခိုလှုံလိုသူ တစ်ဦးသည်ပင်လျှင် တစ်နည်းတစ်ဖုံ တမန်တော်မြတ်၏ ကရုဏာတော်ကို ခံစားလျက်ရှိပေသည်။ ယနေ့ကမ္ဘာတွင် တမန်တော်မြတ်၏ ဒေသနာတော်များသည် ပြန့်ပွားထွန်းကားလျက် ရှိပေသည်။ လူ့အဆောက်အအုံကြီး တစ်ခုလုံးကို အဘက်ဘက်မှ အကျိုးပြုလျက်ရှိပေရာ မွတ်စ်လင်မ်၊ ကာဖိရ်မရွေး အားလုံးတို့သည် မိမိတို့၏ အရည်အချင်းနှင့်အမျှ တမန်တော်မြတ်၏ ကရုဏာတော်ကို ခံစားလျက်ရှိကြပေသည်။ ထို့ပြင်တစ်ဝ၊ အလ္လာဟ်အရှင်မြတ်သည် အတိတ်ခေတ် အုပ်စုများနှင့်မတူ၊ တစ်မူထူးခြားစွာဖြင့် တမန်တော်မြတ်၏နောက်လိုက်တပည့်သား မုအ်မင်န်များကို မဆိုထားဘိ။ ကာဖိရ်များကိုပင် (ဤပစ္စက္ခတွင်) လုံးဝ ချေမှုန်းဖျက်ဆီးပစ်သော ဒဏ်ခတ်ခြင်းမျိုးမှ ဖယ်ရှားထားတော်မူမည်ဟူ၍ ကတိပြုထားတော်မူလေသည်။ ဤကား တမန်တော်မြတ်၏ကျေးဇူးပင်။ ကုရ်အာန်ကျမ်းလာ အာယတ်တော်(၂၁:၁၀၇)နှင့် စပ်လျဉ်း၍ သာဝကကြီး အိဗ်နုအာဗ္ဗာ့စ်က ဖွင့်ဆိုပြောကြားခဲ့သည်မှာ-

"တမန်တော်မြတ်အား ယုံကြည်သူအဖို့မှာကား ကရုဏာသည် နှစ်ဘဝစလုံးတွင် ပြည့်စုံသွားချေပြီ။ တမန်တော်မြတ်အား မယုံကြည်သူသည်ပင် (ဤပစ္စက္ခ၌) အတိတ်ခေတ် အုပ်စုများခံစားခဲ့ကြရသည့် ပြစ်ဒဏ်များမှ လွတ်ငြိမ်းခွင့် ရရှိသွားလေပြီ"။ အိဗ်နုဂျရီရ် အ-၁၇။ စ-၈၇။

(၁) တမန်တော်မြတ်သည် ကရုဏာရှင်အဖြစ်နှင့် ပွင့်လာတော်မူပြီး စကြာဝဠာအဝှန်းအား ကရုဏာတရားဟောကြားသွားတော်မူခဲ့လေသည်။ ယင်းသည့် ကရုဏာတရား၏ အချုပ်မှာ ပွင့်လေသမျှသော ➤➤

فَإِنْ تَوَلَّوْا فَقُلْ آذَنْتُكُمْ عَلَىٰ سَوَاءٍ ۖ وَإِنْ أَدْرِي أَقَرِيبٌ أَمْ بَعِيدٌ مَا تُوعَدُونَ ﴿١٠٩﴾

**၁၀၉။** သို့ပါလျက်အကယ်၍၎င်းတို့သည် မျက်နှာလွှဲ ငြင်းဆန်ခဲ့ကြပါလျှင်အသင်သည် (၎င်းတို့အား အချင်းတို့) ငါသည် အသင်တို့အား တိလင်းထင်ရှားစွာ အသိပေး(ကြေညာ)ခဲ့ပြီးဖြစ်သည်။ အသင်တို့ ချိန်းချက် ခြင်းခံကြရသော ကိစ္စသည် နီးသည် ဝေးသည်ကိုမူ ငါမသိဟု ပြောကြားပါလေ။ [၁]

إِنَّهُ يَعْلَمُ الْجَهْرَ مِنَ الْقَوْلِ وَيَعْلَمُ مَا تَكْتُمُونَ ﴿١١٠﴾

**၁၁၀။** ဧကန်မလွဲ ထိုအရှင်မြတ်သည် (အသင်တို့၏) ထင်ရှားစွာ ပြောဆိုချက်ကိုလည်း သိရှိတော်မူ၏။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် အသင်တို့ လျှို့ဝှက်ထားကြသည်ကိုလည်း သိရှိတော်မူပေသည်။

وَإِنْ أَدْرِي لَعَلَّهُ فِتْنَةٌ لَكُمْ وَمَتَاعٌ إِلَىٰ حِينٍ ﴿١١١﴾

**၁၁၁။** ထို့ပြင် ယင်းချိန်းချက်မှု (ကို ဆောလျင်စွာ ပြုတော်မမူဘဲဆိုင်းငံ့၍ထားတော်မူခြင်း)သည် အသင်တို့အား စမ်းသပ်ခြင်း ဖြစ်တန်ရာသည်။ သတ်မှတ်ထားသော အချိန်ကာလတိုင်အောင် အကျိုးကျေးဇူး ခံစားခွင့် ပေးထားခြင်းလည်း ဖြစ်တန်ရာသည်။ ငါသည် အတိအကျမသိပေ။

---

➤➤ တမန်တော်များ အသီးသီး ဟောကြားသွားခဲ့ကြကုန်သော 'တောင်ဟီဒ်'ပင် ဖြစ်သည်။ တောင်ဟီဒ်တရားကား ရှင်းလင်းလှ၏။ အသိပညာ၊ စာပေကျမ်းဂန် နှစ်လီသော အထောက်အထားနှင့် ပြည့်စုံလှ၏။ လက်မလွတ်တန်း လက်ခံနာယူသင့်လှ၏။ အကြင်သူသည် တောင်ဟီဒ်ကို နာယူအံ့၊ ထိုသူသည် နှစ်ဘဝစလုံးတွင် ကောင်းစားအံ့။ အကြင်သူသည် တောင်ဟီဒ်ကို ငြင်းပယ်အံ့။ ထိုသူသည် နှစ်ဘဝစလုံးတွင် ပျက်စီးအံ့။

(၁) ဆိုလိုသည်ကား တမန်တော်မြတ်က ကျွန်ုပ်သည် အမိန့်တော်အရ မိမိ၌ တာဝန်ရှိသည်နှင့်အညီ ဟောကြားအပ်သည်တို့ကို အတိအကျ ပွင့်လင်းစွာ ဟောကြားပြီးပြီ။ မိမိသည် တာဝန်ကျေပွန်ပြီး မိမိ၌ တာဝန်မရှိပြီ။ နာယူခြင်း၊ မနာယူခြင်းသည် အသင်တို့၏ အရေးသာဖြစ်သည်။ မနာယူကြပါက ပြစ်ဒဏ်သည် မုချ သက်ရောက်မည်သာဖြစ်သည်။ ထိုသည့် ပြစ်ဒဏ်သည် နီးသည်၊ ဝေးသည်၊ မြန်မည်၊ နှေးမည်ကို ကျွန်ုပ် မသိ။ အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။ ပြစ်ဒဏ်တော် သက်ရောက်ရာတွင် အနည်းငယ် ကြန့်ကြာခြင်းမှာ အသင်တို့အား စမ်းသပ်တော်မူရန်နှင့် သတ်မှတ်ထားတော်မူသည့် အချိန်အထိ အကျိုးပြုထားတော်မူရန် ဖြစ်ပေမည်။ သို့ဖြစ်ရာ အချိန်မီ နောင်တတရားရကြကုန်ဟု ဟောကြားတော်မူခဲ့လေသည်။

قٰلَ رَبِّ احۡكُمۡ بِالۡحَقِّ ؕ وَرَبُّنَا الرَّحۡمٰنُ الۡمُسۡتَعَانُ عَلٰى مَا تَصِفُوۡنَ ﴿١١٢﴾

**၁၁၂။** (နဗီတမန်တော်မြတ်သည် ဤသို့)လျှောက်ထားပန်ကြားခဲ့လေသည်။ အို-ကျွန်တော်မျိုးအား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ် အရှင်မြတ်သည် *မှန်ကန်စွာ စီရင်ဆုံးဖြတ်၍ ပေးသနားတော်မူပါ၊* [၁] စင်စစ် ငါတို့အားဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် "ရဟ်မာန်" အနန္တကရုဏာတော်ရှင် ဖြစ်တော်မူပေသည်။ ထိုအရှင်မြတ်သည် အသင်တို့ ထုတ်ဖော် ပြောဆိုကြကုန်သော အကြောင်းအရာများနှင့် စပ်လျဉ်း၍ အကူအညီတောင်းခြင်းကို ခံရတော်မူသော အရှင်လည်း ဖြစ်တော်မူပေသတည်း။

---

(၁) **တမန်တော်များ၏ နောက်ဆုံးဆုတောင်းပတ္ထနာ။**

တမန်တော်များသည် မိမိတို့၏မှန်ကန်မှုနှင့် အလ္လာဟ်အရှင်မြတ်၏ တရားမျှတသော စီရင်ဆုံးဖြတ်မှုကို လေးလေးနက်နက် နှစ်နှစ်ကာကာ ယုံကြည်ကြကုန်သည်။ အရေးကိစ္စအဝဝတွင် ထိုအရှင်မြတ်အားသာလျှင် ယုံပုံမှီခိုအားထားကြကုန်သည်။ မိမိတို့၌ တာဝန်ရှိသည်နှင့်အညီ ဟောကြားအပ်သည်တို့ကို စ-လယ်-ဆုံး ဟောကြားကြကုန်သည်။ သို့ဟောကြသော်လည်း အချို့ လူယုတ်မာများသည် တမန်တော်များ၏ တရားကို မနာယူကြသည်သာမက တမန်တော်များနှင့်တကွ တမန်တော်များ၏ တရားနာယူကြသော နောက်လိုက်တပည့်သားတို့အား ခြိမ်းခြောက်လာကြသည်။ ထိုအခါမျိုးတွင် တမန်တော်များသည် အလ္လာဟ်အရှင်မြတ် ထံတော်၌ မိမိတို့နှင့် ဤသူယုတ်တို့၏ စပ်ကြားတွင် အမှန်နှင့်အမှား လုံးဝကွဲပြားခြားနား ထင်ရှားသွားရန်အလို့ငှာ တရားသဖြင့် အဆုံးအဖြတ် ပေးတော်မူပါမည့်အကြောင်း ဆုပန်ကြားလေ့ရှိခဲ့ကြသည်။ ကြည့်-ကုရ်အာန် (၇း၈၉)။ ဤအာယတ်တော်တွင် တမန်တော်မြတ်သည်လည်း ဤအတိုင်းပင် ဆုပန်ကြားတော် မူခဲ့လေသတည်း။

# ဟဂ်ျပြုခြင်းကဏ္ဍ



ဤကဏ္ဍသည် 'ဟဂ်ျ' အကြောင်း ပါဝင်သော ကဏ္ဍဖြစ်သည်။
ဤကဏ္ဍသည် မဒီနာမြို့တော်၌ ထုတ်ပြန်ချမှတ်တော်မူသော ကဏ္ဍ ဖြစ်သည်။
ဤကဏ္ဍတွင် အာယတ်တော်(၇၈)ပါး၊ ရကူအ်အပိုဒ် (၁၀)ပိုဒ်ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ အနန္တ ဂရုဏာတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

يَا أَيُّهَا النَّاسُ اتَّقُوا رَبَّكُمْ ۚ إِنَّ زَلْزَلَةَ السَّاعَةِ شَيْءٌ عَظِيمٌ ①

၁။ အို...လူခပ်သိမ်းတို့၊ အသင်တို့သည် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား ကြောက်ရွံ့ရှိသေကြလေကုန်။ စေန်စင်စစ် *ကိယာမတ်၏ မြေငလျင်လှုပ်ခြင်းသည်* [၁] အကြီးအကျယ် ကြောက်မက်ဖွယ် ကိစ္စတစ်ရပ်ပင် ဖြစ်ချေသည်။

يَوْمَ تَرَوْنَهَا تَذْهَلُ كُلُّ مُرْضِعَةٍ عَمَّا أَرْضَعَتْ وَتَضَعُ كُلُّ ذَاتِ حَمْلٍ حَمْلَهَا وَتَرَى النَّاسَ سُكَارَىٰ وَمَا هُمْ بِسُكَارَىٰ وَلَٰكِنَّ عَذَابَ اللَّهِ شَدِيدٌ ②

၂။ ယင်းမြေငလျင်လှုပ်ခြင်းကို အသင်တို့တွေ့မြင်ကြသောနေ့တွင် နို့တိုက်သော မိခင်တိုင်းသည် မိမိနို့တိုက်လျက်ရှိသော ကလေးကို (လုံးဝ) မေ့လျော့၍ သွားပေမည်။ ၎င်းပြင် သန္ဓေရှိသူတိုင်းသည်လည်း (ကြောက်ရွံ့ထိတ်လန့်ကာ) မိမိ၌ရှိသော သန္ဓေလျှော ကျပေမည်။ ထိုမှတပါးအသင်သည်လူတို့အား မူးယစ်တွေဝေ မိန်းမောနေသူများအဖြစ် တွေ့မြင်ပေမည်။ စင်စစ်၎င်းတို့သည် မူးယစ်တွေဝေမိန်းမောနေသူများ (အလျင်း)မဟုတ် သို့ရာတွင် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ကား ပြင်းထန်လှပေသတည်း။

---

(၁) **ကိယာမတ်နှင့် မြေငလျင်။**

ကိယာမတ်၏ မြေငလျင်လှုပ်ခြင်းသည် နှစ်ကြိမ်ရှိသည်။

(၁) ကိယာမတ်ဖြစ်သည့် အချိန်တွင် သို့မဟုတ် ဒုတိယအကြိမ် တံပိုးမှုတ်ပြီးနောက်တွင် လှုပ်မည့်မြေငလျင်။

➤➤

وَمِنَ النَّاسِ مَنْ يُّجَادِلُ فِى اللّٰهِ بِغَيْرِ عِلْمٍ وَّيَتَّبِعُ كُلَّ شَيْطٰنٍ مَّرِيْدٍ ۝٣

၃။ စင်စစ် လူတို့အနက် အကြင်သို့သောသူလည်း ရှိ၏။ ထိုသူသည် အသိပညာမရှိဘဲလျက် အလ္လာဟ် အရှင်မြတ်နှင့်ပတ်သက်၍ အငြင်းအခုံပြုသည်။ [၁] ၎င်းပြင် ထိုသူသည် ဆိုးသွမ်းပုန်ကန်သော "ရှိုင်တွာန်" မိစ္ဆာကောင် အသီးသီး၏ နောက်သို့လိုက်သည်။

---

➤➤ (၂) ကိယာမတ် မဖြစ်မီ ကိယာမတ်၏ ရှေ့ပြေး နိမိတ်လက္ခဏာတစ်ရပ်အဖြစ် လှုပ်မည့်မြေငလျင်။

ဤအာယတ်တော်တွင် လာရှိသည့် မြေငလျင်သည် အထက်ဖော်ပြပါ မြေငလျင်နှစ်ကြိမ်အနက် မည်သည့်အကြိမ်ကို ရည်ညွှန်းပါသနည်း။ အကယ်၍ ဤအာယတ်တော်လာ မြေငလျင်သည် ဒုတိယအကြိမ်(ဝါ) ကိယာမတ်မဖြစ်မီ ကိယာမတ်၏ ရှေ့ပြေး နိမိတ်လက္ခဏာအဖြစ် လှုပ်ရှားမည့် မြေငလျင်ကို ရည်ညွှန်းသည် ဆိုပါက ဤအာယတ်တော်သည် 'မုချ' ဖြစ်မည်။ (ဝါ) မိမိ၏ ပေါ်လွင်ထင်ရှားသည့် အနက်၌ပင်ဖြစ်မည်။ အကယ်၍ ဤအာယတ်တော်သည် အထက်ဖော်ပြပါ မြေငလျင် နှစ်ကြိမ်အနက် ပထမအကြိမ် (ဝါ) ကိယာမတ် ဖြစ်သည့်အချိန်တွင် လှုပ်ရှားမည့် မြေငလျင်ကို ရည်ညွှန်းသည်ဆိုပါက ဤအာယတ်တော်၏ အနက်သဘောမှာ နှစ်မျိုးဖြစ်နိုင်ပေသည်။

(က) ဤအာယတ်တော်သည် 'မုချ' လည်း ဖြစ်နိုင်သည်။ (ဝါ) မိမိ၏ ပေါ်လွင်ထင်ရှားသည့် အနက်၌ပင်ဖြစ်မည်။ ကိယာမတ်နေ့တွင် သားသည်မိခင်များသည် သားငယ်အား နို့တိုက်ကျွေးလျက် ရှင်ပြန်ထကြရမည်၊ ကိုယ်ဝန်ဆောင် အမျိုးသမီးများသည် ကိုယ်ဝန်ဆောင်လျက် ရှင်ပြန်ထကြမည်။ မြေငလျင် လှုပ်သည့်အခါ မြေငလျင်၏ ပြင်းထန်မှုကြောင့် အကြောက်ကြီး ကြောက်ကာ နို့တိုက်ကျွေးလျက်ရှိသော သားသည်မိခင်များသည် မိမိတို့၏ ရင်သွေးများကိုပင် မေ့လျော့သွားကြပေမည်။ ကိုယ်ဝန်ဆောင်လျက်ရှိသော အမျိုးသမီးများသည် အချိန်မစေ့မီပင် ကိုယ်ဝန် ပျက်ကျသွားကြပေမည်။

(ခ) ဤအာယတ်တော်သည် ဥပစာလည်း ဖြစ်နိုင်ပေသည်။(ဝါ) ကိယာမတ်၏ မြေငလျင်ဟူသည် ကိယာမတ်နေ့၏ ကြောက်မက်ဖွယ်ရာ အဖြစ်အပျက်များကို ဆိုလိုသည်။ ဆိုလိုသည်ကား ကိယာမတ်နေ့၏ အဖြစ်အပျက်များကား အဘယ်မျှ ထိတ်လန့်ကြောက်မက်ဖွယ် ဖြစ်မည်ဆိုသော် အကယ်၍များ ထိုနေ့တွင် နို့တိုက်ကျွေးလျက်ရှိသော သားသည် မိခင်များနှင့် ကိုယ်ဝန်ဆောင် အမျိုးသမီးများ ရှိနေကြပါက ကိယာမတ်၏ ကြောက်မက်ဖွယ်ရာ အဖြစ်အပျက်များကို တွေ့မြင်ပြီး အကြောက်ကြီးကြောက်၊ အထိတ်ကြီး ထိတ်ကာ မိခင်များသည် မိမိတို့၏ ရင်သွေးများကိုပင် မေ့လျော့သွားကြပေမည်။ ကိုယ်ဝန်ဆောင် အမျိုးသမီးများသည်လည်း အချိန်မစေ့မီ ကိုယ်ဝန်များ ပျက်ကျကြပေမည်ဟူ၏။

**(၁) ရှင်ပြန်ထရမည့်အရေးနှင့် စပ်လျဉ်း၍ ငြင်းခုံသူများ၊**

အချို့သောသူများသည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍သော်လည်းကောင်း၊ ထိုအရှင်မြတ်၏ တန်ခိုးတော်၊ ဂုဏ်တော်များနှင့် စပ်လျဉ်း၍သော်လည်းကောင်း၊ ထိုအရှင်မြတ်၏ ပြုစီရင်မှုများနှင့် စပ်လျဉ်း၍သော် လည်းကောင်း၊ ထိုအရှင်မြတ်၏ဒေသနာတော်၊ အမိန့်တော်များနှင့် စပ်လျဉ်း၍သော်လည်းကောင်း၊ အသိပညာ၊ အမြော်အမြင် အဆင်ခြင် အထောက်အထား တစ်စုံတစ်ရာမရှိဘဲလျက် ငြင်းခုံကြသည်။ စောဒနာဝင်ကြသည်။ သူတစ်ပါးတို့အား ထင်ယောင်ထင်မှား ဖြစ်စေကြသည်။ ထိုသို့သောသူများသည် ကိယာမတ်၊ ➤➤

كُتِبَ عَلَيۡهِ أَنَّهُۥ مَن تَوَلَّاهُ فَأَنَّهُۥ يُضِلُّهُۥ وَيَهۡدِيهِ إِلَىٰ عَذَابِ ٱلسَّعِيرِ ④

၄။ (အမှန်သော်ကား) ထို"ရှိုင်တွာန်" မိစ္ဆာကောင်နှင့်ပတ်သက်၍ စီရင်ပြဋ္ဌာန်းပြီးဖြစ်သည်မှာ မည်သူမဆို ယင်း"ရှိုင်တွာန်" မိစ္ဆာကောင်အား အဆွေခင်ပွန်းပြုလုပ်ခဲ့မူ ယင်း"ရှိုင်တွာန်"မိစ္ဆာကောင်သည်ထိုသူအားလမ်းမှားစေခြင်းကိုလည်းကောင်း၊ ထိုသူအားအလျှံပြောင်ပြောင် တောက်လောင်သောငရဲမီး၏ ပြစ်ဒဏ်သို့လမ်းညွှန်ခြင်းကိုလည်းကောင်း၊ ဧကန်မလွဲ ပြုလုပ်မည်ဖြစ်သည်ဟု စီရင်ပြဋ္ဌာန်းပြီး ဖြစ်ချေသတည်း။

يَٰٓأَيُّهَا ٱلنَّاسُ إِن كُنتُمۡ فِي رَيۡبٖ مِّنَ ٱلۡبَعۡثِ فَإِنَّا خَلَقۡنَٰكُم مِّن تُرَابٖ ثُمَّ مِن نُّطۡفَةٖ ثُمَّ مِنۡ عَلَقَةٖ ثُمَّ مِن مُّضۡغَةٖ مُّخَلَّقَةٖ وَغَيۡرِ مُخَلَّقَةٖ لِّنُبَيِّنَ لَكُمۡ

၅။ အို-လူခပ်သိမ်းတို့၊ အကယ်၍အသင်တို့သည် ရှင်ပြန်ထခြင်းနှင့်စပ်လျဉ်း၍ ဒွိဟသံသယ ဖြစ်နေကြပါလျှင် (အသင်တို့သည် မိမိတို့နှင့် မိမိတို့၏ ပတ်ဝန်းကျင်ကို လေးနက်စွာ စဉ်းစား၍ ကြည့်ကြလေကုန်)။ ဧကန်အမှန် ငါအရှင်မြတ်သည် အသင်တို့ရေ့ဝယ် (မိမိတန်ခိုးတော်ကို) ထင်ရှားစေခြင်းငှာ အသင်တို့အား (ပဌမသော်)မြေကြီးဖြင့်လည်းကောင်း၊ ထို့နောက် သုတ်ရည်ဖြင့်လည်းကောင်း၊ ထို့နောက် သွေးခဲဖြင့်လည်းကောင်း၊ ထို့နောက်အင်္ဂါစုံလင် ပုံကျသော အသားတုံးဖြင့်လည်းကောင်း၊ အင်္ဂါမစုံ ပုံမကျသော အသားတုံးဖြင့်လည်းကောင်း၊ (အဆင့်ဆင့်) ဖန်ဆင်းတော်မူခဲ့၏။

---

➤➤ ရှင်ပြန်ထကြရမည့်အရေး၊ ကျိုးပြစ်ခံစံကြရမည့်အရေးများကို ငြင်းခုံပြောဆိုကြသည်။ "လူတစ်ဦးသည် သေ၍ အရိုးများ ဆွေးမြည့်ကာ အပိုင်းပိုင်းအစစ ပျံ့လွင့်ပျောက်ကွယ်သွားပြီးနောက် အဘယ်သို့လျှင် ရှင်ပြန်ထနိုင်အံ့နည်း။ အဘယ်သို့လျှင် မိမိ၏မူလဘဝသို့ ပြန်လည်ရောက်ရှိနိုင်အံ့နည်း"ဟု စောဒနာဝင်ကြသည်။ ထိုသို့သော အမြော်အမြင် အဆင်ခြင် ကင်းမဲ့သောသူများအား ရှိုင်တွာန်သည် အထူးဖြားယောင်းနေရန်ပင် မလိုပေ။အဘယ်ကြောင့်ဆိုသော် ထိုသို့သောသူများသည် ရှိုင်တွာန်၏ ကျော့ကွင်းထဲသို့ မိမိတို့ အလိုအလျောက်ပင် အလွယ်တကူ ဆင်းကြပေသည်။ ရှိုင်တွာန်၏ဖိတ်ခေါ်ချက်ကို လက်ခံရန် အမြဲတစေ အသင့်ရှိနေကြပေသည်။ ရှိုင်တွာန်ကား မိမိနှင့် အဆွေခင်ပွန်းဖွဲ့သူတို့အား လမ်းမှားစေပြီး ငရဲသို့အရောက် ပို့ဆောင်သည်သာတည်း။ ဤသည်ကို အဆင်ခြင်ကင်းမဲ့သော ယင်းသူမိုက်တို့သည် မသိကြလေသလော။ ယင်းသို့ ရှင်ပြန်ထကြရမည့်အရေးနှင့် စပ်လျဉ်း၍ ဒွိဟဖြစ်နေသူတို့အား ရည်ညွှန်း၍ ရှေ့လာလတ္တံ့ သောအာယတ်တော်များတွင် မိန့်ဆိုထားတော်မူသည်။

وَنُقِرُّ فِي الْأَرْحَامِ مَا نَشَاءُ إِلَىٰ أَجَلٍ مُّسَمًّى ثُمَّ نُخْرِجُكُمْ طِفْلًا ثُمَّ لِتَبْلُغُوا أَشُدَّكُمْ ۖ وَمِنكُم مَّن يُتَوَفَّىٰ وَمِنكُم مَّن يُرَدُّ إِلَىٰ أَرْذَلِ الْعُمُرِ لِكَيْلَا يَعْلَمَ مِن بَعْدِ عِلْمٍ شَيْئًا ۚ وَتَرَى الْأَرْضَ هَامِدَةً فَإِذَا أَنزَلْنَا عَلَيْهَا الْمَاءَ اهْتَزَّتْ وَرَبَتْ وَأَنبَتَتْ مِن كُلِّ زَوْجٍ بَهِيجٍ ⑤

ငင်းပြင် ငါအရှင်မြတ်သည် သားအိမ်များတွင် မိမိအလိုရှိတော်မူသည်ကို (သုတ်ရည်ကို) သတ်မှတ်ပိုင်းခြားအပ်သော အချိန်ကာလတိုင်အောင် တည်စေတော်မူပြီးနောက် အသင်တို့အား (အမိဝမ်းတွင်းမှ အပြင်သို့ နို့စို့အရွယ်)ကလေးသူငယ်အဖြစ် ထွက်စေတော်မူ၏။ ထို့နောက် အသင်တို့သည် မိမိတို့၏ လူလားမြောက်သောအရွယ်သို့ ရောက်ရှိနိုင်ကြရန် (ငါအရှင်မြတ်သည် မွေးမြူတော်မူပြန်၏။) ငင်းပြင် အသင်တို့အနက် (အရွယ်မရောက် လူလားမမြောက်မီပင်) အသက်သေဆုံးရသူလည်းရှိ၏။ ထိုနည်းတူစွာ အသင်တို့တွင် အယုတ်ညံ့ဆုံးသော အသက်အရွယ်သို့ ပြန်ရောက်ရသောသူလည်းရှိ၏။ ထို့ကြောင့် ငင်းသည် (အရာရာကို) သိရှိပြီး နောက်သော်မှပင် မည်သည့် တစ်စုံတစ်ရာကိုမျှ မသိနိုင်တော့ချေ။

ထို့မှတပါး အသင်သည် ပထဝီမြေကို သွေ့ခြောက်လျက် တွေ့မြင်လေသည်။ တစ်ဖန် ငါအရှင်မြတ်သည် ယင်းပထဝီမြေပေါ်ဝယ် (မိုး)ရေကို (ရွာသွန်း၍) ကျစေတော်မူသောအခါ ယင်းမြေ(မှ သစ်ပင်ဝါးပင်များ) ပေါက်ရောက် လှုပ်ရှားလာလေသည်။ ထို့ပြင် တိုးတက်မြင့်မားလာလေသည်။ ထို့ပြင် အထူးနှစ်မြို့ဖွယ်ဖြစ်သော (သစ်သီးသစ်ဥ ကောက်ပဲသီးနှံ) အမျိုးအစား အသီးသီးတို့ကို ပေါက်ရောက်စေလေသည်။ [၁]

(၁) လူသားသည်မိမိ၏ဘဝဖြစ်စဉ်နှင့် မြေထွက်သီးနှံများကို ဆင်ခြင်ပါက ရှင်ပြန်ထရမည့်အရေးကို အလွယ်တကူ သဘောပေါက်လာပေမည်။ သေပြီးနောက် ရှင်ပြန်ထရမည့်အရေးနှင့် စပ်လျဉ်း၍ ဒွိဟသံသယဖြစ်နေသူများအား မိမိတို့၏ ဘဝဖြစ်စဉ်နှင့် မြေသေမှပေါက်ပွားလာသော သီးနှံတို့၏ဖြစ်စဉ်ကို စဉ်းစားဆင်ခြင်တွေးခေါ် မြော်မြင်ကြည့်ရန် ဤအာယတ်တော်များတွင် ညွှန်ပြမိန့်ဆိုထားတော်မူသည်။ ➤➤

➤➤ **လူဖြစ်စဉ်။**

အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏ မူလအစ ကမ္ဘာဦးဖခင်ကြီး အာဒမ်အား မြေဖြင့် ဖန်ဆင်းတော်မူခဲ့သည်။ ထို့နောက်လူသားတို့အား ကလလရေကြည် တစ်စက်ဖြင့် ဖန်ဆင်းတော်မူခဲ့သည်။ ဆိုလိုသည်ကား ထိုအရှင်မြတ်သည် မြေမှ လူသားတို့အဖို့ အစာအာဟာရများကို ပေါက်ရောက်စေတော်မူသည်။ လူသားတို့က ထိုသည့် အစာအာဟာရများကို စားသုံးကြသည်။ ထို့သည့် အစာအာဟာရများအနက် အချို့သည် အဆင့်ဆင့် ပြောင်းလဲတိုးတက်လာပြီး သုတ်ရည်ဖြစ်လာသည်။ သုတ်ရည်သည်လည်း အဆင့်ဆင့် ပြောင်းလဲ တိုးတက်လာပြီး နောက်ဆုံးတွင် လူသားဖြစ်လာလေသည်။ ရှင်းပြဦးအံ့။

လူသားတို့ မှီဝဲစားသုံးသော မြေထွက် အာဟာရများသည် အဆင့်ဆင့် ပြောင်းလဲတိုးတက်လာပြီး သွေးဖြစ်လာသည်။ ထိုမှတစ်ဆင့် သုတ်ရည်ဖြစ်လာသည်။ ထိုမှတစ်ဆင့် သွေးခဲဖြစ်လာသည်။ ထိုမှတစ်ဆင့် အသားတုံးဖြစ်လာသည်။ ထိုမှတစ်ဆင့် အချို့အသားတုံးမှာ လူအင်္ဂါများပြည့်စုံစွာ ဖြစ်ပေါ်လာပြီး လူသားပြကတေ့ ဖြစ်လာလေသည်။ အချို့မှာ လူအင်္ဂါများ ပြည့်စုံစွာ ဖြစ်ပေါ်မလာဘဲ လျှောကျပျက်စီးသွားလေသည်။ သို့တည်းမဟုတ် အချို့အသားတုံးမှာ အင်္ဂါပြည့်စုံသော လူသားဖြစ်လာလေသည်။ အချို့မှာ အင်္ဂါချို့တဲ့သော လူသားဖြစ်လာလေသည်။

လူသားသည် မြေထွက်အစာ အာဟာရအဖြစ်မှ လူသားဖြစ်လာသည်အထိ မည်သို့မည်ပုံ အဆင့်ဆင့် ပြောင်းလဲတိုးတက်လာခဲ့သည်။ (အဘ၏ ကျောက်ကုန်းကို မည်သို့မည်ပုံ ရောက်ရှိလာခဲ့သည်၊ အဘ၏ ကျောက်ကုန်းမှ အမိဝမ်းဗိုက်သို့ မည်သို့မည်ပုံ ရောက်ရှိလာခဲ့သည်။ အမိ ဝမ်းဗိုက်၌ မည်သို့မည်ပုံ နေထိုင်ခဲ့သည်) အချိန်မည်မျှ ကြာခဲ့သည်၊ မည်သည့်မည်ပုံ အဆင့်ဆင့် ပြောင်းလဲ တိုးတက်လာခဲ့သည်။ နောက်ဆုံးတွင် မည်သို့မည်ပုံ အမိဝမ်းဗိုက်မှ အံ့ဖွယ်သရဲ လူသားကလေးအဖြစ်နှင့် သန့်စင် ဖွားမြင်လာခဲ့သည်များကို စဉ်းစားဆင်ခြင် တွေးခေါ်မြော်မြင်ပါက အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်အနန္တနှင့်၊ သေပြီးနောက် ရှင်ပြန် ထရမည့်အရေးကို လွယ်ကူစွာ သဘောပေါက် ယုံကြည်လက်ခံလာပေမည်။

လူသားသည် သုတ်ရည်တစ်စက်မှ လူသားကလေးအဖြစ် သန့်စင်ဖွားမြင်လာသည်အထိ အမိဝမ်းဗိုက် အတွင်း၌ အဆင့်ဆင့် ပြောင်းလဲတိုးတက် ကြီးထွားလာသကဲ့သို့ ဖွားမြင်ပြီးသည့် နောက်ပိုင်းတွင်လည်း တဖြည်းဖြည်း ဘဝအဆင့်ဆင့်ကို ကူးပြောင်းကျော်လွန်ရပေသည်။ လူသားသည် အမိဝမ်းဗိုက်မှ သန့်စင်ဖွားမြင် လာသည့်အခါ နို့စို့အရွယ် လူမမယ်ကလေးလေးပင် ဖြစ်ပေသည်။ အားအင်နနယ် သေးငယ်လှပေသည်။ ထိုမှတစ်ဆင့် ပြေးလွှားနိုင်သည့် လူငယ်ဘဝသို့ ရောက်ရှိလာပေသည်။ ထိုမှတစ်ဆင့် ပျိုရွယ်သန်စွမ်းလာပြီး လူတစ်လုံး သူတစ်လုံး ဖြစ်လာလေသည်။ အချို့မှာ ငယ်ရွယ်စဉ်မှာပင် သေဆုံးသွားကြလေသည်။ အချို့မှာ လုံးဝအိုမင်းရင့်ယော်ကာ အားအင်ပြန်လည်ဆုတ်ယုတ် ချည့်နဲ့သွားကြလေသည်။ သူငယ်ပြန်သည်အထိ အသက်နှင့် နေကြရလေသည်။ ဤသည် လူ့ဘဝဖြစ်စဉ် အကျဉ်းတည်း။

ဤသည့် ဖြစ်စဉ်ဖြစ်ရပ်များကိုပင် လူသားတို့သည် စဉ်းစားဆင်ခြင် တွေးမြင်ပါက အလ္လာဟ်အရှင်မြတ် ၏ တန်ခိုးတော်အနန္တနှင့် သေပြီးနောက် ရှင်ပြန်ထကြရမည့်အရေးကို လွယ်ကူစွာ သဘောပေါက် လက်ခံ ယုံကြည်လာကြပေမည်။

**မြေထွက်သီးနှံ**

ထို့အတူ လူသားတို့ စဉ်းစားဆင်ခြင်အပ်သည့် အချက်တစ်ချက်မှာ မြေသည်သေလျက်ရှိသည်။ သွေ့ခြောက်လျက်ရှိသည်။ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့် မိုးရွာလာသည်။ မိုးရေနှင့် ➤➤

ذٰلِكَ بِاَنَّ اللّٰهَ هُوَ الْحَقُّ وَاَنَّهٗ يُحْيِ الْمَوْتٰى وَاَنَّهٗ عَلٰى كُلِّ شَیْءٍ قَدِيْرٌ ﴿٦﴾

၆။ ဤသည်တို့ ဖြစ်ရခြင်း အကြောင်းကား ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည်သာလျှင် အမှန်တည်ရှိတော်မူသော အရှင်ဖြစ်တော်မူခြင်းကြောင့်လည်းကောင်း၊ ဧကန်အမှန် ထိုအရှင်မြတ်သည်ပင် သေသူအပေါင်းကို ရှင်စေတော်မူမည့်အရှင် ဖြစ်တော်မူခြင်းကြောင့်လည်းကောင်း၊ မလွဲဧကန် ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသောအရှင် ဖြစ်တော်မူခြင်းကြောင့် လည်းကောင်းဖြစ်ချေသည်။

وَّاَنَّ السَّاعَةَ اٰتِيَةٌ لَّا رَيْبَ فِيْهَا ۙ وَاَنَّ اللّٰهَ يَبْعَثُ مَنْ فِی الْقُبُوْرِ ﴿٧﴾

၇။ ထိုမှတပါးဧကန်မလွဲ ကိယာမတ်သည်လည်း (မုချ) ဆိုက်ရောက်မည်ဖြစ်သည်။ ယင်းကိယာမတ်နှင့် စပ်လျဉ်း၍ ယုံမှားသံသယဖြစ်ဖွယ်ရာ အလျင်းမရှိပြီ။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် သင်္ချိုင်းများတွင် ရှိသူတို့ကို ဧကန်စင်စစ် ရှင်ပြန်ထစေတော်မူမည်ဖြစ်သတည်း။

➤➤ ထိတွေ့သည့်အခါ အဆိုပါမြေသေမှပင် အလွန်စိမ်းစိုသာယာ စိုပြည်သော သီးနှံမျိုးစုံ ပေါက်ရောက်လာကြပေသည်။ ဤကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင် မျက်ဝါးထင်ထင်ပင်။

လူ့ဖြစ်စဉ်နှင့် မြေမှပေါက်ရောက်လာသော သီးနှံတို့၏ ဖြစ်စဉ်များကို ထောက်ရှုခြင်းအားဖြင့်။

(၁) တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်တစ်ပါး ရှိတော်မူကြောင်း။

(၂) ထိုအရှင်မြတ်သည် သေနေသော အရာများကို ပြန်လည်ရှင်စေတော်မူကြောင်း။

(၃) ထိုအရှင်မြတ်သည် အရာရာကို ပြုစွမ်းတော်မူနိုင်ကြောင်း။

(၄) ထိုအရှင်မြတ်သည် အရာရာ၌ အကြောင်းနှင့်အကျိုးကို ဒွန်တွဲ၍ ဖန်ဆင်းထားတော်မူပေရာ၊ ဤပစ္စက္ခ၌ လူသားတို့ ကျင့်မူဆည်းပူးထားကြသော ကောင်းမှု၊ မကောင်းမှုအစုစုတို့၏ ကောင်းကျိုး ဆိုးကျိုးများကို ခံစံကြရန်အတွက် ဤပစ္စက္ခဘဝ ကုန်ဆုံးပြီးနောက်တွင် နောင်တမလွန်ဘဝကား မုချရှိရပေမည်ဖြစ်ကြောင်း။

မြေထွက်အာဟာရများတွင် ဖုံးအုပ်လျက်ရှိသော အရည်အချင်းများသည် သုတ်ရည်၊ သွေးခဲ၊ အသားတုံးစသည်ဖြင့် အဆင့်ဆင့် တိုးတက်ကာ လူသားအဖြစ် ပေါ်ထွန်းလာသကဲ့သို့ လူသားတို့၌ ဖုံးအုပ်လျက်ရှိသော ကောင်းကျိုး၊ မကောင်းကျိုးဆိုင်ရာ အရည်အချင်းများသည်လည်း အဆင့်ဆင့် တိုးတက်ကာ ပြည့်ဝစုံလင်သော အကောင်အထည်များ၊ သရုပ်သဏ္ဌာန် မုချပေါ်ထွန်းလာရပေဦးမည်။ ထိုအချိန်ကား အခြားမဟုတ်၊ ရှင်ပြန်ထကြရမည့် နောင်တမလွန်ဘဝပင် ဖြစ်ကြောင်း ကောင်းစွာသိရှိရပေသည်။

وَمِنَ النَّاسِ مَنْ يُّجَادِلُ فِي اللّٰهِ بِغَيْرِ عِلْمٍ وَّلَا هُدًى وَّلَا كِتٰبٍ مُّنِيْرٍ ﴿٨﴾

၈။ စင်စစ် လူတို့တွင် အသိပညာ လုံး၀ မရှိဘဲ လျက်လည်းကောင်း၊ မည်သည့် သက်သေထင်ရှား တင်ပြချက်မျှမရှိဘဲလျက်လည်းကောင်း၊ မည်သည့် ရှင်းလင်းစေသော ကျမ်းဂန်မျှ မရှိဘဲလျက်လည်း ကောင်း၊ အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ *အငြင်း အခုံ ပြုတတ်သူလည်း ရှိပေသည်။* [၁]

ثَانِيَ عِطْفِهٖ لِيُضِلَّ عَنْ سَبِيْلِ اللّٰهِ ۗ لَهٗ فِي الدُّنْيَا خِزْيٌ وَّنُذِيْقُهٗ يَوْمَ الْقِيٰمَةِ عَذَابَ الْحَرِيْقِ ﴿٩﴾

၉။ (မာန်မာနထောင်လွှားကာ) မိမိလည်ပင်းကို လိမ်လျက် (သူတပါးတို့အားလည်း) အလ္လာဟ်အရှင် မြတ်၏လမ်းတော်မှ လွဲမှားစေခြင်းငှာ ထိုသူ၌(ဤ) ပစ္စုပ္ပန်လောကတွင်လည်း ကျိုးယုတ်ရှက်ရဖြစ်ခြင်း သည်ရှိ၏။ "ကိယာမတ်" ရှင်ပြန်ထမည့် နေ့တွင် လည်း ငါအရှင်မြတ်သည် ထိုသူအား (ကျွမ်းလောင်စေ သော ငရဲ)မီး၏ ပြစ်ဒဏ်ကို မြည်းစမ်းစေတော်မူ မည် ဖြစ်ပေသည်။

ذٰلِكَ بِمَا قَدَّمَتْ يَدٰكَ وَاَنَّ اللّٰهَ لَيْسَ بِظَلَّامٍ لِّلْعَبِيْدِ ﴿١٠﴾

၁၀။ ဤသို့ဖြစ်ရခြင်းမှာ အသင်၏ လက်နှစ်ဖက် သည် တင်ကူး၍ပို့ခဲ့သော (ပြစ်မှုဒုစရိုက်များ) ကြောင့် ပင်။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် (မိမိ)ကျွန်များအား နှိပ်စက်ကလူ ပြုတော်မူသောအရှင် မဟုတ်ပြီ။

---

(၁) **ကျားကျား-မီးယပ်ဆိုသူများ။**

အထက်ပါ အာယတ်တော်များတွင် ကိယာမတ် ရှင်ပြန်ထကြရမည့်အကြောင်း၊ ကျိုးပြစ်ခံစံကြရမည့် အကြောင်းများနှင့် စပ်လျဉ်း၍ ကျိုးကြောင်းပြကာ အထင်အရှား မိန့်ဆိုထားတော်မူသည်။ သို့ပါသော်လည်း အချို့သူမိုက်များသည် ယင်းသို့ ထင်ရှားသော အထောက်အထားများကို ကြားသိကြရပြီးသည့်နောက်သော်မှပင် သူတစ်ပါးတို့အား လွဲမှားစေရန်အတွက် တစ်စုံတစ်ရာ အသိပညာ အထောက်အထား၊ ကောင်းကင်ကျကျမ်းချက် အသိပညာအထောက်အထား၊ စာပေကျမ်းဂန် အထောက်အထား မရှိဘဲလျက် မောက်မာပလွှားကာ "ကျားကျား မီးယပ်" ဆိုသကဲ့သို့ ဇွတ်မိုက်၍ အငြင်းအခုံပြုကြသည်။ ထိုသို့သော သူများသည် ဤပစ္စက္ခဘ၀တွင်လည်း ကျိုးယုတ်ရှက်ရဖြစ်ကြရပေမည်။ နောင်တမလွန်ဘ၀တွင်လည်း ငရဲမီးဒဏ် ခံကြရပေဦးမည်။ ဤကား မည်သူမပြု မိမိမှုပင်။

وَمِنَ النَّاسِ مَنْ يَّعْبُدُ اللّٰهَ عَلٰى حَرْفٍ ۚ فَإِنْ اَصَابَهٗ خَيْرُ اِطْمَاَنَّ بِهٖ ۚ وَاِنْ اَصَابَتْهُ فِتْنَةُ اِنْقَلَبَ عَلٰى وَجْهِهٖ ۚ خَسِرَ الدُّنْيَا وَالْاٰخِرَةَ ۗ ذٰلِكَ هُوَ الْخُسْرَانُ الْمُبِيْنُ ⑪

**၁၁။** ၎င်းပြင် လူတို့တွင် ဘေးအစွန်းဖျား၌ (ရပ်တည်၍)အလ္လာဟ်အရှင်မြတ်အား ခ၀ပ်ကိုးကွယ်သူလည်းရှိပေသည်။ တဖန် အကယ်၍ ထိုသူ့၌အကျိုးကျေးဇူး တစ်စုံတစ်ရာ သက်ရောက်ခဲ့သည်ရှိသော် ထိုသူသည် ထိုအခြေအနေကို နှစ်သိမ့်ကျေနပ်ခဲ့လေသည်။ သို့ရာတွင် အကယ်၍ ထိုသူ့၌ စမ်းသပ်မှု တစ်စုံတစ်ရာသက်ရောက်ခဲ့မှု ထိုသူသည် မိမိမျက်နှာလှည့်၍ ပြန်သွားခဲ့လေသည်။ ထိုသူသည် (ဤ)ပစ္စက္ခ လောကီဘ၀ကိုလည်းကောင်း၊ နောင်တမလွန်ဘ၀ကိုလည်းကောင်း၊ (နှစ်ခုစလုံးကိုပင်) လက်လွတ် ဆုံးရှုံးခဲ့လေသည်။ ဤသည် ထင်ရှားသော ပျက်စီးဆုံးရှုံးမှုပင်တည်း။ [၁]

يَدْعُوا مِنْ دُوْنِ اللّٰهِ مَا لَا يَضُرُّهٗ وَمَا لَا يَنْفَعُهٗ ۗ ذٰلِكَ هُوَ الضَّلٰلُ الْبَعِيْدُ ⑫

**၁၂။** (စင်စစ်သော်ကား) ထိုသူသည် အလ္လာဟ် အရှင်မြတ်အားစွန့်၍ မိမိအား အကျိုးယုတ်စေနိုင်ခြင်း မရှိသောအရာကိုလည်းကောင်း၊ မိမိအား အကျိုးဖြစ်ထွန်းစေနိုင်ခြင်း မရှိသော အရာကိုလည်းကောင်း၊ ဟစ်ခေါ်လျက်ရှိပေသည်။ ဤကား (အမှန်တရားနှင့်) အလွန်ဝေးလံသော လမ်းမှားခြင်းပင်။

---

(၁) **ကိုယ်ကျိုးရှာအချောင်သမား၊ ခြံခုန်အယောင်ဆောင်များ။**

အချို့သူများသည် အစ္စလာမ်ကို နှစ်နှစ်ကာကာ ယုံကြည်ကြသည်မဟုတ်၊ အစ္စလာမ့်အရေးတွင် သို့လောသို့လော ဖြစ်နေကြပေသည်။ ၎င်းတို့သည် လောကီအကျိုးအတွက်သာလျှင် အစ္စလာမ်ကို လက်ခံထားကြပေသည်။ အစ္စလာမ်အတွင်းသို့ဝင်၍ လောကီအကျိုးရလျှင် အစ္စလာမ်ကို အမည်ခံ လက်ခံကြသည်။ ဒုက္ခတွေ့လျှင် အစ္စလာမ်ကိုစွန့်၍၊ ကုဖ်ရ်၊ ရှရ်စ်က်၏ အမိုက်မှောင်အတွင်းသို့ ပြန်လည်ဆင်းသက် သွားကြပြန်သည်။ အမှန်မှာ ထိုသို့သောသူများသည် ယခုခေတ်စကားနှင့် ရေးရမည်ဆိုလျှင် ခြံစည်းရိုးပေါ်တွင် ထိုင်နေသော ကိုယ်ကျိုးရှာ၊ အချောင်သမား၊ ခြံခုန်အရေခြုံ၊ အယောင်ဆောင်များသာ ဖြစ်ကြပေသည်။ ထိုသို့သော အယောင်ဆောင်များသည် နောက်ဆုံးတွင် နှစ်ဘ၀စလုံး၌ ကျိုးယုတ်ရက်ရဖြစ်ကာ အရှုံးကြီး ရှုံးကြရပေသည်။

[တမန်တော်မြတ်က "မုနာဖစ်က်၏ ဥပမာသည်-သားလို၍ ဆိတ်အုပ် နှစ်အုပ်စပ်ကြားတွင် ပြေးလွှားနေသော ဆိတ်မနှင့်တူသည်။ ထိုဆိတ်မသည် တစ်ခါတစ်ရံ ဤဆိတ်အုပ်ထံသို့ ပြေးသည်၊ တစ်ခါတစ်ရံ ထိုဆိတ်အုပ်ထံသို့ပြေးသည်" ဟု ပုံခိုင်းမိန့်ကြားတော် မူခဲ့လေသည်။

ကြည့်-တမန်တော်မြတ်၏ သြဝါဒတော်။ စာမျက်နှာ (၆၈)။]

يَدۡعُوا۟ لَمَن ضَرُّهُۥۤ أَقۡرَبُ مِن نَّفۡعِهِۦۚ لَبِئۡسَ ٱلۡمَوۡلَىٰ وَلَبِئۡسَ ٱلۡعَشِيرُ ⑬

၁၃။ (အမှန်စင်စစ်) ထိုသူသည် အကြင်အရာကို ဟာစ်ခေါ်လျက်ရှိပေသည်။ ထိုအရာ၏ အကျိုးယုတ်စေမှုသည် ၎င်း၏အကျိုးဖြစ်စေခြင်းထက် ပိုမို၍ပင်နီးကပ်လျက်ရှိပေသည်။ စင်စစ် (ထိုသူဟာစ်ခေါ်လျက်ရှိသောအရာမှာမူကား) အလွန်ယုတ်ညံ့သော ကြည့်ရှုထောက်မသူ၊ ၎င်းပြင် အလွန်ယုတ်ညံ့သော အဆွေခင်ပွန်းပင် ဖြစ်ပေသတည်း။

إِنَّ ٱللَّهَ يُدۡخِلُ ٱلَّذِينَ ءَامَنُوا۟ وَعَمِلُوا۟ ٱلصَّٰلِحَٰتِ جَنَّٰتٍ تَجۡرِي مِن تَحۡتِهَا ٱلۡأَنۡهَٰرُۚ إِنَّ ٱللَّهَ يَفۡعَلُ مَا يُرِيدُ ⑭

၁၄။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် သက်ဝင်ယုံကြည်ပြီး ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူဆောက်တည်ကြကုန်သောသူတို့အား အကြင်ဥယျာဉ်များသို့ ဝင်ရောက်စေတော်မူမည်။ ထိုဥယျာဉ်များအောက်မှ စမ်းရေချောင်းများသည် စီးတွေလျက်ရှိကြပေမည်။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် မိမိရည်ရွယ်တော်မူသောကိစ္စကို (ပြီးမြောက်အောင်) ပြုလုပ်တော်မူပေသတည်း။ [၁]

مَن كَانَ يَظُنُّ أَن لَّن يَنصُرَهُ ٱللَّهُ فِي ٱلدُّنۡيَا وَٱلۡأٓخِرَةِ فَلۡيَمۡدُدۡ بِسَبَبٍ إِلَى ٱلسَّمَآءِ ثُمَّ لۡيَقۡطَعۡ فَلۡيَنظُرۡ هَلۡ يُذۡهِبَنَّ كَيۡدُهُۥ مَا يَغِيظُ ⑮

၁၅။ မည်သူမဆို အလ္လာဟ်အရှင်မြတ်သည် ထိုရဆူလ်တမန်တော်(မုဟမ္မဒ်)အား (ဤ)ပစ္စက္ခ မျက်မှောက်လောကတွင်လည်းကောင်း၊ နောင်တမလွန်တွင်လည်းကောင်း၊ အလျင်း အကူအညီပေးတော်မူမည်မဟုတ်ဟု ထင်မြင်ယူဆလျက်ရှိလျှင် ထိုသူသည် ကြိုးတစ်ချောင်းကို မိုးကောင်းကင်အထိ ဆန့်တန်းဆွဲချိတ်ရမည်။ ထို့နောက် ၎င်းသည် (ယင်းအကူအညီကို) ဖြတ်တောက် (ရပ်စဲစေ)ရမည်။

(၁) **ယုံကြည်ချက်ခိုင်မြဲသော မုအ်မင်န် သူတော်စင်များ။**

အထက်တွင် ယုံကြည်ချက် မခိုင်မြဲသော၊ ကိုယ်ကျိုးရှာ အချောင်သမား၊ ခြံခုန်၊ အရေခြုံ၊ အယောင်ဆောင်များ၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် ယုံကြည်ခိုင်မြဲသော သာသနာ့ အဆုံးအမများကို ကိုယ်စွမ်းရှိသမျှ ဉာဏ်စွမ်းရှိသမျှ သက်စွန့် ကြိုးပမ်းကျင့်မူ ဆောက်တည်ကြကုန်သော သာသနာ့ အာဇာနည်ကြီးများ ဖြစ်ကြကုန်သော မုအ်မင်န် သူတော်စင်များ၏အကြောင်းကို မိန့်ဆိုထားတော်မူသည်။

(တစ်နည်း:)

ထိုသူသည် ကြိုးတစ်ချောင်းကို (ယူကာ) မိမိလည်ပင်းကို ချည်၍ (အိမ်)ခေါင်မိုးအထိ ဆွဲငင်ဆန့်တန်းပြီးနောက် (မိမိလည်မျိုကို)ညှစ်သတ်ရမည်။ တစ်ဖန် မိမိကြံစည်ချက်သည် (မိမိအား) အမျက်ထွက်စေသော ကိစ္စကို ပျောက်လွင့်စေသလောဟု စဉ်းစားဆင်ခြင်၍ ကြည့်ရပေမည်။ [၁]

وَكَذٰلِكَ اَنۡزَلۡنٰهُ اٰيٰتٍۢ بَيِّنٰتٍۙ وَّاَنَّ اللّٰهَ يَهۡدِىۡ مَنۡ يُّرِيۡدُ ۝١٦

၁၆။ စင်စစ်သော်ကား ဤနည်းအတိုင်းပင် ငါအရှင်မြတ်သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို ထင်ရှားလှစွာသောသက်သေလက္ခဏာ အာယတ်တော်များအဖြစ်ချပေးသနားတော်မူခဲ့ပေသည်။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် မိမိရည်စူးတော်မူသောသူအား တရားလမ်းမှန်ကို ညွှန်ပြတော်မူပေသတည်း။

---

(၁) **တမန်တော်မြတ်၏ အောင်မြင်မှုကို မမြင်လိုက ကြိုးဆွဲချသေရုံပင်။**

ဤအာယတ်တော်တွင် "လန်ယန်ဆုရဟူ" ဟူသော ဝါကျ၌ပါရှိသော "ဟူ" ဟူသော နာမ်စားသည် တမန်တော်မြတ်အား ရည်ညွှန်းသည်မှာ ထင်ရှားလှပေသည်။ ကုရ်အာန်ကျမ်းမြတ်ကို လေ့လာသူတိုင်း ဤအချက်ကို ကောင်းစွာသိနိုင်ပေသည်။

အထက်တွင် မုအ်မင်န်သူတော်စင်များ၏ နောင်ရေးကို မိန့်ဆိုထားတော်မူသည်။ ဤ အာယတ်တော်တွင် တမန်တော်မြတ်၏နောင်ရေးကို မိန့်ဆိုထားတော်မူသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား လောကီ၊ လောကုတ္တရာ ရေးရာများတွင် အောင်မြင်စေတော်မူမည့်အကြောင်း ကတိပြုထားတော်မူသည်။ ကြည့်-ကုရ်အာန် (၄၀:၅၁)။

ထိုအရှင်မြတ်၏ ကတိတော်များသည် မှန်ကန်သည်သာဖြစ်သည်။ အတည်ဖြစ်သည်သာဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် တမန်တော်မြတ်သည် နှစ်ဘဝစလုံးတွင် အောင်မြင်ချေပြီ။ မလိုမုန်းတီးသော ကာဖိရ်များသည် အဘယ်မျှပင် အမျက်ထွက်ကြသော်လည်း မကျေမချမ်း ဖြစ်ကြသော်လည်း၊ ဒေါသထကြသော်လည်း၊ တမန်တော်မြတ်၏ နှစ်ဘဝအောင်မြင်မှုကို ဟန့်တားလိုကြသော်လည်း အလ္လာဟ်အရှင်မြတ်၏ ကတိတော်နှင့်အညီ တမန်တော်မြတ်သည် နှစ်ဘဝစလုံးတွင် အောင်မြင်ခြင်းကြီးမက အောင်မြင်တော်မူမည်မှာ မလွဲဧကန် အမှန်ပင်။ ယင်းသို့ တမန်တော်မြတ် အောင်မြင်တော်မူသည့်အတွက် မလိုမုန်းတီးသော ကာဖိရ်များသည် အတိုင်းထက်အလွန် ဒေါသအမျက် ထွက်နေကြလျှင် မိမိတို့သည် အလ္လာဟ်အရှင်မြတ်၏ အလိုတော်ကို ပိတ်ပင်တားဆီးနိုင်ကြမည်ဟု ထင်မှတ်နေကြလျှင် ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ ကြိုးစားအားထုတ်၍ ကြည့်သင့်ကြပေသည်။ အမျိုးမျိုး ကြိုးစားအားထုတ်သော်လည်း ➤➤

إِنَّ الَّذِينَ آمَنُوا وَالَّذِينَ هَادُوا وَالصَّابِئِينَ وَالنَّصَارَىٰ وَالْمَجُوسَ وَالَّذِينَ أَشْرَكُوا إِنَّ اللَّهَ يَفْصِلُ بَيْنَهُمْ يَوْمَ الْقِيَامَةِ ۚ إِنَّ اللَّهَ عَلَىٰ كُلِّ شَيْءٍ شَهِيدٌ ﴿١٧﴾

၁၇။ ဧကန်စင်စစ် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့သည်လည်းကောင်း၊ ရေဝတီဘာသာဝင်တို့သည်လည်းကောင်း၊ ဆွာဗီတို့သည်လည်းကောင်း၊ နဆွာရာနီတို့သည်လည်းကောင်း၊ မ ဂျူစီ [၁] (မီးကိုးကွယ်သူ) တို့သည်လည်းကောင်း၊ "မုရှ်ရစ်က်" တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်ကိုးကွယ်သူတို့သည်လည်းကောင်း၊ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် ၎င်းတို့စပ်ကြားဝယ် စီရင်ဆုံးဖြတ်တော်မူမည်ဖြစ်သည်။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည်အရာခပ်သိမ်းတို့ကို(မျက်မြင်ဒိဋ္ဌ) သိမြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ မိမိတို့၏ လိုအင်ဆန္ဒမပြည့်ဝလျှင် နောက်ဆုံးတွင် မိမိတို့၏ ဒေါသအမျက်ကို ဖြေဖျောက်နိုင်ရန်အတွက် အိမ်ခေါင်တွင် ကြိုးချည်ပြီး ကြိုးဆွဲချ၍ သေသင့်ကြပေသည်။

ဤအာယတ်တော်နှင့် စပ်လျဉ်း၍ အခြားအဖွင့်တစ်ရပ်မှာ မလိုမုန်းတီးသော ကာဖိရ်များသည် တမန်တော်မြတ်၏ နှစ်ဘဝ အောင်မြင်ရေးကိုကြည့်ပြီး ဒေါသထွက်နေကြလျှင်၊ တတ်စွမ်းနိုင်ကြပါက မိုးကောင်းကင်၌ ကြိုးချည်၍ အထက်သို့တက်ပြီး တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ်၏ ချီးမြှင့်တော်မူသော ဝဟီကို ဖြတ်တောက် ရပ်ဆိုင်းပစ်သင့်ကြပေသည်။ ကာဖိရ်များသည် ဤသို့ကား အသို့လျှင် ပြုစွမ်းနိုင်ကြအံ့နည်း။

**(၁) <u>လူတိုင်းသည် ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်၏ အဆုံးအဖြတ်ကို ခံကြရမည်သာ ဖြစ်သည်</u>။**

"မဂျူစ်" ဟူသည် အကြင်သူများတည်း။ ၎င်းတို့သည် အရဗ် မဟုတ်ကြပေ။ ၎င်းတို့၏ ပြောဆိုချက်အရ ၎င်းတို့သည် တမန်တော် 'ဇုရ်ဟုရှ်တ်' (Zoiosaster) ၏ နောက်လိုက်တပည့်သားများ ဖြစ်ကြပေသည်။ သို့ရာတွင် ၎င်းတို့သည် (တောင်ဟီဒ်) တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကိုးကွယ်မှုကို စွန့်လွှတ်ကာ (ဆနဝီယတ်) ကိုးကွယ်ရာနှစ်ပါးကို ဆည်းကပ် ကိုးကွယ်ကြပေသည်။

၎င်းတို့၏ ကိုးကွယ်ရာနှစ်ပါးမှာ 'ယာဇ်ဒါန်' နှင့် 'အဟ်ရမန်' ဖြစ်သည်။ ၎င်းတို့၏ ယူဆချက်အရ ယာဇ်ဒါန်သည် အလင်းနှင့် အကောင်းကို ဖန်ဆင်းသော ကိုးကွယ်ရာဖြစ်သည်။ အဟ်ရမန်သည် အမှောင်နှင့် အဆိုးကို ဖန်ဆင်းသော ကိုးကွယ်ရာဖြစ်သည်။ ၎င်းတို့၏ ယူဆချက်အရ ဤစကြာဝဠာကြီး ဖြစ်ပေါ်လာခြင်းမှာ အဆိုပါ ကိုးကွယ်ရာ နှစ်ပါးတို့၏ ပဋိပက္ခမှု၏ အကျိုးပင်ဖြစ်သည်။

ကြည့်-မာဂျိဒီ။ အ-၄။ စ-၆၈၀။ အအ-၂၂။

اَلَمْ تَرَ اَنَّ اللّٰهَ يَسْجُدُ لَهٗ مَنْ فِى السَّمٰوٰتِ وَمَنْ فِى الْاَرْضِ وَالشَّمْسُ وَالْقَمَرُ وَالنُّجُوْمُ وَالْجِبَالُ وَالشَّجَرُ وَالدَّوَآبُّ وَكَثِيْرٌ مِّنَ النَّاسِ ۭ وَكَثِيْرٌ حَقَّ عَلَيْهِ الْعَذَابُ ۭ وَمَنْ يُّهِنِ اللّٰهُ فَمَا لَهٗ مِنْ مُّكْرِمٍ ۭ اِنَّ اللّٰهَ يَفْعَلُ مَا يَشَاۗءُ ۞ ﴿١٨﴾ السجدة

၁၈။ ဧကန်မလွဲ မိုးကောင်းကင်များ၌ ရှိသူတို့သည် လည်းကောင်း၊ ပထဝီမြေ၌ရှိသူတို့သည်လည်းကောင်း၊ နေသည်လည်းကောင်း၊လသည်လည်းကောင်း၊ ကြယ်နက္ခတ်များသည် လည်းကောင်း၊ တောင်များသည် လည်းကောင်း၊ သစ်ပင်များသည် လည်းကောင်း၊ တိရစ္ဆာန်များသည်လည်းကောင်း၊ မြောက်များစွာသော လူတို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား သာလျှင် ဦးချကြသည်ကို အသင်သည် မသိပါသလော။

သို့ရာတွင် (လူတို့အနက်) မြောက်များစွာ သောသူတို့အပေါ်၌ ပြစ်ဒဏ်သည် အတည်ဖြစ်လေပြီ။ စင်စစ်သော်ကား မည်သူအားမဆို အလ္လာဟ်အရှင်မြတ်သည် ဂုဏ်အသရေ ယုတ်ညံ့စေတော်မူပါလျှင်၊ ထိုသူအား (ဂုဏ်အသရေ) ချီးမြှင့်မည့်သူဟူ၍ တစ်ဦးတစ်ယောက်မျှပင် မရှိတော့ပြီ။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသည်ကို ပြုလုပ်တော် မူပေသတည်း။ [၁]

---

(၁) အဖန်ဆင်းခံ သက်ရှိသက်မဲ့ အားလုံးတို့သည် အလ္လာဟ်အရှင်မြတ်အား မိမိတို့၏အခြေအနေနှင့် လျော်ညီစွာ ဦးလည်မသုန် ကျိုးနွံလျက် ရှိကြပေသည်။ နာခံလျက်ရှိကြပေသည်။ လူသားတို့သည် အဖန်ဆင်းခံများတွင် အားလုံးတို့ထက် အသိဉာဏ် အမြော်အမြင် ဆင်ခြင်တုံတရား အထူးတလည် ချီးမြှင့်ခြင်း ခံခဲ့ကြရသည်ဖြစ်ရာ အားလုံးတို့ထက်ပင် ပိုမို၍ အလ္လာဟ်အရှင်မြတ်အား ကျိုးနွံသင့်ကြပေသည်။ ယခုမူကား အချို့ လူသားတို့သည် မိမိတို့၏ အသိဉာဏ်ကို စနစ်တကျ အသုံးမပြုကြသည့်အတွက် အမြင်မှန်မရရှိဘဲ ထိုအရှင်မြတ်အားပင် သွေဖည်လျက် ရှိကြပေသည်။ လွဲမှားလျက် ရှိကြပေသည်။ ယင်းသို့သော သူများအဖို့ ပြစ်ဒဏ်တော်သည်လည်း အတည်ဖြစ်ချေပြီ။

ဤအာယတ်တော်နှင့် အနက်သဘောတူ အာယတ်တော်များသည် ကုရ်အာန် (၁၃း၁၅။ ၁၆း၄၉)တွင် လာရှိခဲ့ချေပြီ။ ယင်းအာယတ်တော်များနှင့် စပ်လျဉ်း၍ အဖွင့်များကိုလည်း အကျယ်တဝင့် ရေးသားခဲ့ပေပြီ။ ထို့အတွက် အကျယ်မရေးပြီ။ သက်ဆိုင်ရာ အဖွင့်များကို ပြန်လည်ရှုပါကုန်။

هٰذٰنِ خَصْمٰنِ اخْتَصَمُوْا فِيْ رَبِّهِمْ ۫ فَالَّذِيْنَ كَفَرُوْا قُطِّعَتْ لَهُمْ ثِيَابٌ مِّنْ نَّارٍ ؕ يُصَبُّ مِنْ فَوْقِ رُءُوْسِهِمُ الْحَمِيْمُ ﴿١٩﴾

၁၉။ ဤအုပ်စုနှစ်စုကားမိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်နှင့် ပတ်သက်၍ အငြင်းပွားခဲ့ကြသောအုပ်စုနှစ်စုပင်။ [၁] သို့ဖြစ်ပေရာ မယုံမကြည်သွေဖည်ငြင်းပယ်ခဲ့ကြသောသူတို့အဖို့ မီးဖြင့်ပြီးသော အဝတ်အထည်များသည် ကိုက်ညှပ် (ချုပ်စပ်)ပြီးဖြစ်ပေမည်။ (ထို့ပြင်) ၎င်းတို့၏ဦးခေါင်းများထက်မှ ကျိုက်ကျိုက်ဆူသောရေ သွန်းလောင်းခြင်းခံရမည်။

يُصْهَرُ بِهٖ مَا فِيْ بُطُوْنِهِمْ وَالْجُلُوْدُ ﴿٢٠﴾

၂၀။ ထိုရေကြောင့် ထိုသူတို့၏ ဝမ်းဗိုက်များ၌ရှိသောအရာ (အူသိမ်အူမ၊ အသည်း၊ နှလုံး) စသည်တို့သည်လည်းကောင်း၊ အသားအရည်တို့သည်လည်းကောင်း၊ အရည်ပျော်၍ သွားကြပေမည်။

---

(၁) **ဤကမ္ဘာမှာ အုပ်စုနှစ်ခုသာ။**

ဤပစ္စက္ခကမ္ဘာ၌ အမြင်အားဖြင့်၊ အမည်အားဖြင့်၊ အရေအတွက်အားဖြင့် အုပ်စု အမြောက်အမြားတွေ့ရှိရပေသည်။ ကုရ်အာန်ကျမ်းမြတ် (၂၂း၁၇) တွင်လည်း အချို့အုပ်စုများ၏ အမည်များကို ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။ ယင်းသည့် အုပ်စုများသည် အမြင်အားဖြင့် အမည်အားဖြင့်၊ အရေအတွက်အားဖြင့် အဘယ်မျှပင် များပြားနေလင့်ကစား၊ မည်သည့်အုပ်စု မှန်သည်၊ မည်သည့်အုပ်စု မှားသည်ဟူသော သဘောအရ မှတ်ကျောက်တင်ကြည့်လိုက်သည့်အခါ အမှန်မှာ ဤကမ္ဘာမှာ မုအ်မင်န်အုပ်စုနှင့် ကာဖိရ်အုပ်စုဟူ၍ အုပ်စုနှစ်ခုသာ ရှိပေသတည်း။

မုအင်မင်န် အုပ်စုသည် အလ္လာဟ်အရှင်မြတ်အား မှန်ကန်စွာ ယုံကြည်သည်။ ထိုအရှင်မြတ်၏ အမိန့်တော်များကို မှန်ကန်စွာ လိုက်နာကျင့်သုံးကြသည်။ ကာဖိရ်အုပ်စုသည် အလ္လာဟ်အရှင်မြတ်အား မယုံကြည်ပေ။ ထိုအရှင်မြတ်၏ အမိန့်တော်များကိုလည်း မနာခံကြပေ။

အဆိုပါ အုပ်စုနှစ်ခုသည် ယုံကြည်ချက်၊ ကျင့်မှုချက်တွင် ကွဲပြားနေကြသည်ဖြစ်ရာ အရေးကိစ္စအဝဝတွင် အချင်းချင်း အတိုက်အခံဖြစ်လျက် ရှိကြပေသည်။ ပြိုင်ဆိုင်လျက် ရှိကြပေသည်။ ဤကား အထင်အရှားပင်။

မုအ်မင်န် အုပ်စုသည် မှန်သော ယုံကြည်မှု၊ မှန်သော အကျင့်သီလများကြောင့် ကောင်းမြတ်သော အကျိုးကို ရရှိပေမည်။ (ဝါ) ဂျန္နတ်သို့ လားရမည်။ ကာဖိရ် အုပ်စုသည် မှားသော ယုံကြည်မှု၊ မှားသောအကျင့်၊ ဒုစရိုက်မှုများကြောင့် ဆိုးရွားသော အကျိုးကို ခံစားရပေမည်။ (ဝါ) ဂျဟန္နမ် ငရဲသို့ လားကြရပေမည်။

ဤအာယတ်တော်များတွင် ငရဲတွင် ကာဖိရ်တို့ ခံစားကြရမည့် ပြစ်ဒဏ်များကို မိန့်ဆိုထားတော်မူသည်။ ရှေ့လာလတ္တံ့သော အာယတ်တော်များတွင် ဂျန္နတ်တွင် မုအ်မင်န်များ ခံစားကြရမည့် အမတသုခများကို မိန့်ဆိုထားတော်မူသည်။

وَلَهُم مَّقَامِعُ مِنْ حَدِيدٍ ﴿٢١﴾

၂၁။ ထိုမှတပါး ၎င်းတို့အဖို့ သံတုတ်များလည်း ရှိကြပေမည်။

كُلَّمَا أَرَادُوا أَن يَخْرُجُوا مِنْهَا مِنْ غَمٍّ أُعِيدُوا فِيهَا وَذُوقُوا عَذَابَ الْحَرِيقِ ﴿٢٢﴾

၂၂။ ၎င်းတို့သည် ဒုက္ခဆင်းရဲမှုကြောင့် ယင်း(ဂျဟန္နမ် ငရဲဘုံ)မှ ထွက်ရန်ကြံရွယ်ကြသည့်အခါ တိုင်း၊ ယင်း(ဂျဟန္နမ်ငရဲဘုံ)ထဲသို့ပင် ပြန်လည်ပို့ ခြင်းကိုခံကြရပေမည်။ ထို့ပြင် (ကောင်းကင်တမန်များ က ၎င်းတို့အား ယခုသော်) အသင်တို့သည် မီး၏ ပြစ်ဒဏ်ကိုပင် မြည်းစမ်းလျက်ရှိကြလေကုန် (ဟု ပြောဆိုကြအံ့သတည်း။)

إِنَّ اللَّهَ يُدْخِلُ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ جَنَّاتٍ تَجْرِي مِن تَحْتِهَا الْأَنْهَارُ يُحَلَّوْنَ فِيهَا مِنْ أَسَاوِرَ مِن ذَهَبٍ وَلُؤْلُؤًا ۖ وَلِبَاسُهُمْ فِيهَا حَرِيرٌ ﴿٢٣﴾

၂၃။ ဧကန်မလွဲအလ္လာဟ်အရှင်မြတ်သည် သက်ဝင် ယုံကြည်ခဲ့ကြသည့်ပြင် ကောင်းမြတ်သော အကျင့် သီလများကိုလည်း ကျင့်မှုဆောက်တည်ခဲ့ကြကုန်သော သူတို့အား အကြင်ဥယျာဉ်များသို့ ဝင်ရောက်စေတော် မူပေမည်။ထိုဥယျာဉ်များအောက်မှ ချောင်းများစီးတွေ လျက်ရှိကြပေမည်။ ထိုသူသည် ယင်းဥယျာဉ်များတွင် ရွှေလက်ကောက် (လက်မောင်းပတ်)များဖြင့်လည်း ကောင်း၊ ပုလဲများဖြင့်လည်းကောင်း တန်ဆာဆင်ယင် ပေးခြင်းကို ခံကြရပေမည်။ ထိုမှတပါး ယင်းဥယျာဉ် များတွင် ၎င်းတို့၏ ဝတ်စားတန်ဆာများသည် ပိုး အဝတ်များပင် ဖြစ်ချေမည်။

وَهُدُوا إِلَى الطَّيِّبِ مِنَ الْقَوْلِ وَهُدُوا إِلَىٰ صِرَاطِ الْحَمِيدِ ﴿٢٤﴾

၂၄။ စင်စစ် ၎င်းတို့သည် (ဤပစ္စက္ခဘဝတွင်) စင်ကြယ်သန့်ရှင်းသောစကား (ကလိမတ် တွိုက်ယိ ဗဟ်)ကိုလည်း ညွှန်ကြားပြသခြင်း ခံခဲ့ကြရလေသည်။ ထိုမှတပါး ချီးမွမ်းထောမနာပြုခြင်းကို ခံယူထိုက် တော်မူသော အရှင်မြတ်၏လမ်းတော်ကိုလည်း ညွှန် ကြားပြသခြင်း ခံခဲ့ကြရကုန်သတည်း။ [၁]

---

(၁) ဆိုလိုသည်ကား "ချီးမွမ်းထောပနာ ပြုခြင်းကို ခံယူထိုက်တော်မူသော အရှင်မြတ်၏ လမ်းတော်" ▷▷

السَّمَآءَ اَنۡ تَقَعَ عَلَى الۡاَرۡضِ اِلَّا بِاِذۡنِهٖ ؕ اِنَّ اللّٰهَ بِالنَّاسِ لَرَءُوۡفٌ رَّحِيۡمٌ ﴿٦٥﴾

ထိုမှတစ်ပါးထိုအရှင်မြတ်သည်ပင် မိုးကောင်းကင်ကို ပထဝီမြေပေါ်သို့ ပြိုကျမသွားရန် တားဆီး (ထိန်းသိမ်း)၍ ထားတော်မူသည်။ (သို့ရာတွင် အချိန်တန်၍)ထိုအရှင်၏အမိန့်တော်ရှိလာက(ပြိုကျသွားမည်ဖြစ်သည်၊) မချွတ်ဧကန် အလ္လာဟ်အရှင်မြတ်သည် လူသားတို့အပေါ်ဝယ် အလွန်နူးညံ့သိမ်မွေ့တော်မူသော၊ အလွန်တရာ သနားကြင်နာညှာတာတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

وَهُوَ الَّذِىۡۤ اَحۡيَاكُمۡ ثُمَّ يُمِيۡتُكُمۡ ثُمَّ يُحۡيِيۡكُمۡ ؕ اِنَّ الۡاِنۡسَانَ لَكَفُوۡرٌ ﴿٦٦﴾

၆၆။ ထိုအရှင်မြတ်သည်ပင်လျှင် အသင်တို့အား အသက်ရှင်ခြင်းကို ချီးမြှင့်တော်မူခဲ့သောအရှင် ဖြစ်တော်မူသည်။ တစ်ဖန် ထိုအရှင်မြတ်သည် အသင်တို့အား အသက်သေစေတော်မူမည်။ ထို့နောက် တစ်ဖန် ထိုအရှင်မြတ်သည်အသင်တို့အား အသက်ရှင်စေတော်မူမည်ဖြစ်သည်။ ဧကန်မလွဲ လူသားသည် အလွန်တရာ ကျေးဇူးကန်းသူ အမှန်ပင် ဖြစ်ချေသတည်း။

لِكُلِّ اُمَّةٍ جَعَلۡنَا مَنۡسَكًا هُمۡ نَاسِكُوۡهُ فَلَا يُنَازِعُنَّكَ فِى الۡاَمۡرِ وَادۡعُ اِلٰى رَبِّكَ ؕ اِنَّكَ

၆၇။ ငါအရှင်မြတ်သည် *သာသနာဝင်အုပ်စုတိုင်းအဖို့ (ကိုးကွယ်ဆည်းကပ်ရန်) ပညတ်တရားတစ်ခုကို သတ်မှတ်ပြဋ္ဌာန်း၍ ပေးတော်မူခဲ့ရာ*[၁] ၎င်းတို့သည် ယင်း ပညတ်တရားနှင့် အညီ ကိုးကွယ်ဆည်းကပ်လိုက်နာသူများ ဖြစ်ခဲ့ကြကုန်၏။

---

(၁) **"ဒီန်" သာသာနာနှင့် "ရှရီအတ်" ကျင့်ထုံး။**

ပွင့်လေသမျှသော တမန်တော်အပေါင်းတို့၏ "ဒီန်" သာသနာသည် တစ်ခုတည်းသာ ဖြစ်သည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် သာသနာဝင်အုပ်စုများအဖို့ ခေတ်အမျိုးမျိုးတွင် ခဝပ်ကိုးကွယ်ရန် နည်းနာနိသျည်း၊ကျင့်ထုံး ကျင့်နည်းများကို ခေတ်ပတ်ဝန်းကျင် အခြေအနေအရ အမျိုးမျိုးအစားစား သတ်မှတ်ပြဋ္ဌာန်းပေးတော်မူခဲ့လေသည်။ ယင်းသည့် သာသနာဝင်အုပ်စု အသီးသီးတို့သည်လည်း ထိုသည်ကျင့်ထုံးကျင့်နည်းများနှင့်အညီ လိုက်နာကျင့်မူခဲ့ကြပေသည်။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်)၏ အုပ်စုအဖို့လည်း ကမ္ဘာတစ်သက် ခဝပ်ကိုးကွယ်ရန်အတွက် ရှရီအတ်ကျင့်ထုံးကို သီးသန့်သတ်မှတ်ပြဋ္ဌာန်းထားတော်မူသည်၊ ➢➢

لَعَلٰى هُدًى مُّسْتَقِيْمٍ ﴿٦٧﴾

သို့ဖြစ်ပေရာ (ဤသူတို့သည်) ယင်းအရေးကိစ္စ၌ အသင်နှင့်ငြင်းခုံခြင်းကို မပြုကြရာချေ။ ၎င်းပြင် အသင်သည်(လည်း) မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ဘက်သို့(၎င်းတို့အား) ဖိတ်ခေါ်လျက်ရှိပါလေ။ ဧကန်မလွဲ အသင်သည် ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်ပေါ်၌ တည်ရှိပေသည်။

وَاِنْ جٰدَلُوْكَ فَقُلِ اللّٰهُ اَعْلَمُ بِمَا تَعْمَلُوْنَ ﴿٦٨﴾

၆၈။ သို့ရာတွင် အကယ်၍၎င်းတို့သည် အသင်နှင့် အငြင်းအခုံပြုခဲ့ကြသည်ရှိသော် အသင်သည် (၎င်းတို့အား ဤသို့)ပြောဆိုပြန်ကြားပါလေ။ (အချင်းတို့၊ ဧကန်စင်စစ်)အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ အပြုအမူတို့ကို ကောင်းစွာ သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

اَللّٰهُ يَحْكُمُ بَيْنَكُمْ يَوْمَ الْقِيٰمَةِ فِيْمَا كُنْتُمْ فِيْهِ تَخْتَلِفُوْنَ ﴿٦٩﴾

၆၉။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အကြားဝယ် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် အသင်တို့ ကွဲလွဲလျက်ရှိခဲ့ကြသော အရေးကိစ္စများနှင့်စပ်လျဉ်း၍ (လက်တွေ့)စီရင် ဆုံးဖြတ်တော်မူအံ့သတည်း။

➤➤ 'ရှရီအတ်'ကျင့်ထုံးသည် အဘယ်မျှပင် ကွဲပြားလင့်ကစား "ဒီန်"သာသနာသည်ကား တစ်ခုတည်းသာ ဖြစ်ခဲ့ပေသည်။ မကွဲပြားခဲ့ပေ။ အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားကို ဝပ်ကိုးကွယ်ရန် မည်သည့် ရှရီအတ်တွင်မျှ သတ်မှတ်ခဲ့သည်မရှိပေ။ ထို့အတွက် ရှရီအတ်တိုင်းတွင် တညီတညွတ်တည်း သတ်မှတ်ပြဋ္ဌာန်းထားသော "တောင်ဟီဒ်" နှင့် အခြား သာသနာရေးရာများတွင် မည်သူမျှ မငြင်းခုံသင့်ပေ။ ငြင်းခုံရန်လည်း အကြောင်းမရှိပေ။ သို့ပါလျက် တမန်တော်မြတ်အား အငြင်းအခုံပြုလာပါက တမန်တော်မြတ်သည် ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်ပေါ်၌ တည်ရှိနေသည်ဖြစ်ပေရာ လူသားတို့အား အလ္လာဟ်အရှင်မြတ်၏ သာသနာတော်ဘက်သို့သာ ဖိတ်ခေါ်လျက်ရှိနေရပေမည်။

အကြောင်းမဲ့ငြင်းခုံနေသောသူများ၏ အရေးကို အလ္လာဟ်အရှင်မြတ်ထံ လွှဲအပ်ထားရန်သာရှိသည်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ပြောဆိုပြုမူသမျှတို့ကို အကြွင်းမဲ့သိတော်မူသည်၊ ကိယာမတ်နေ့တွင် ၎င်းတို့ငြင်းခုံနေကြသောအရာများနှင့် စပ်လျဉ်း၍ လက်တွေ့အဆုံးအဖြတ်ပေးတော်မူမည်ဖြစ်သည်။ တရားဓမ္မဟောကြားရန် တာဝန်ကျေပွန်ပြီးသည့်နောက်ပိုင်းတွင် တမန်တော်မြတ်သည် ၎င်းတို့နှင့်ပတ်သက်၍ စိတ်ဒုက္ခခံနေရန် မလိုပေ။ ၎င်းတို့၏ဆေးသည် အလ္လာဟ်အရှင်မြတ်ထံတော်၌ရှိသည်။ အချို့ မုဖတ်စ်စိရ်များက ဤအာယတ်တော်တွင် လာရှိသော "မန်စတ်က်" ဟူသောပုဒ်ကို "ဇဗ်ဟ်" လှီးဖြတ်ရန်နည်း ဟူ၍ အနက်ကောက်ယူကြသည်။ သို့ရာတွင် အထက်ပါအဆိုမှာ ပိုမိုသင့်မြတ်လှပေသည်။

أَلَمْ تَعْلَمْ أَنَّ اللَّهَ يَعْلَمُ مَا فِي السَّمَاءِ وَالْأَرْضِ ۗ إِنَّ ذَٰلِكَ فِي كِتَابٍ ۚ إِنَّ ذَٰلِكَ عَلَى اللَّهِ يَسِيرٌ ﴿٧٠﴾

၇၀။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်၌ရှိသမျှတို့ကိုလည်းကောင်း၊ ပထဝီမြေ၌ရှိသမျှတို့ကိုလည်းကောင်း၊ (အကြွင်းမဲ့)သိရှိတော်မူသည်ကို အသင်မသိလေသလော။ ဧကန်စင်စစ် ထို(အရာများ)သည် မှတ်တမ်းတွင်ရှိပေသည်။ ဧကန်မလွဲအလ္လာဟ်အရှင်မြတ်အဖို့ ယင်း(အဆုံးအဖြတ်)ကားလွယ်ကူလှပေသတည်း။ [၁]

وَيَعْبُدُونَ مِن دُونِ اللَّهِ مَا لَمْ يُنَزِّلْ بِهِ سُلْطَانًا وَمَا لَيْسَ لَهُم بِهِ عِلْمٌ ۗ وَمَا لِلظَّالِمِينَ مِن نَّصِيرٍ ﴿٧١﴾

၇၁။ စင်စစ်သော်ကား ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အား စွန့်၍ အကြင်အရာများကို ကိုးကွယ်ဆည်းကပ်ကြကုန်၏။ ထိုအရှင်မြတ်သည် ယင်းအရာများ(ကို ကိုးကွယ်နိုင်ခွင့်ရှိကြောင်းနှင့် စပ်လျဉ်း၍) *မည်သည့် သက်သေခံ တစ်စုံတစ်ရာကိုမျှ ချပေးတော်မူခဲ့သည်မရှိပေ။ ယင်းအရာများ(ကို ကိုးကွယ်ဆည်းကပ်မှု)နှင့် စပ်လျဉ်း၍ ၎င်းတို့၌ မည်သည့် အသိပညာ အထောက်အထား တစ်စုံတစ်ရာမျှလည်း မရှိချေ။* [၂] ၎င်းပြင် မတရားသောသူတို့အား *ကူညီစောင့်မမည့်သူ ဟူ၍လည်း တစ်ဦးတစ်ယောက်မျှ ရှိလိမ့်မည် မဟုတ်ပေ။* [၃]

---

(၁) လွန်ခဲ့သော အာယတ်တော်တွင် ကိယာမတ်နေ့၌ အလ္လာဟ်အရှင်မြတ်သည် လက်တွေ့ အဆုံးအဖြတ်ပေးတော်မူမည့် အကြောင်း ပါရှိ၏။ ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်မူသည်သာမက ဖြစ်ပျက်သမျှသော အရာခပ်သိမ်းတို့သည်လည်း မှတ်တမ်းတော်၌ မှတ်သားထားပြီးဖြစ်ရာ အဆုံးအဖြတ်ပေးရန်ကိစ္စမှာ အလ္လာဟ်အရှင်အဖို့ လွယ်ကူလှသည့်အကြောင်းကို အထောက်အထားအဖြစ် မိန့်ဆိုထားတော်မူသည်။

(၂) **<u>ကာဖိရ်များ၏ မိရိုးဖလာ ထုံးတမ်းစဉ်လာ။</u>**

ကာဖိရ်၊ မုရှ်ရစ်က်များသည် မိရိုးဖလာ ထုံးတမ်းစဉ်လာများကိုသာ ဖွတ်မိတ်လိုက်နာ၍ အလ္လာဟ်အရှင်မြတ်အား စွန့်လွှတ်ကာ မိမိတို့ကိုယ်တိုင် ပြုလုပ်ထားသော ကိုးကွယ်ရာများကို ဆည်းကပ်ကိုးကွယ်နေကြပေသည်။ ယင်း ကိုးကွယ်ရာများသည် အမှန်တကယ် ကိုးကွယ်အပ်သော အရာများဖြစ်ကြောင်းနှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်ကလည်း တစ်စုံတစ်ရာ သက်သေခံ အထောက်အထားကို ချပေးတော်မူသည်မရှိ။ ၎င်းတို့ထံ၌လည်း တစ်စုံတစ်ရာ အထောက်အထားမရှိ၊ မိရိုးဖလာထုံးတမ်းစဉ်လာကို ဖွတ်မိတ်လိုက်နာနေကြခြင်းသာ ဖြစ်ပေသည်။

وَإِذَا تُتْلَىٰ عَلَيْهِمْ آيَاتُنَا بَيِّنَاتٍ تَعْرِفُ فِي وُجُوهِ الَّذِينَ كَفَرُوا الْمُنكَرَ ۖ يَكَادُونَ يَسْطُونَ بِالَّذِينَ يَتْلُونَ عَلَيْهِمْ آيَاتِنَا ۗ قُلْ أَفَأُنَبِّئُكُم بِشَرٍّ مِّن ذَٰلِكُمُ ۗ النَّارُ وَعَدَهَا اللَّهُ الَّذِينَ كَفَرُوا ۖ وَبِئْسَ الْمَصِيرُ ﴿٧٢﴾

၇၂။ ထို့ပြင် ၎င်းတို့ရှေ့ဝယ် ငါအရှင်မြတ်၏ ထင်ရှားသော အာယတ်တော်များကို ဖတ်ကြားသော အခါ အသင်သည် ကာဖိရ် သွေဖည်ငြင်းပယ်ကြသောသူတို့၏မျက်နှာများတွင် မနှစ်မြို့မှု၊ သွေဖည်ငြင်းဆန်မှုကို တွေ့မြင်ရပေမည်။ ၎င်းတို့သည် မိမိတို့ရှေ့ဝယ် ငါအရှင်မြတ်၏ အာယတ်တော်များကို ဖတ်ကြားသူတို့အား (ကိုယ်ထိလက်ရောက်) တိုက်ခိုက်လုနီးနီး *ဖြစ်ကုန်ကြပေသည်။* [၁]

(အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့) သို့ဖြစ်မူ ငါသည် အသင်တို့အား ထို့ထက်ပင်ပိုမိုဆိုးရွားလှသောအရာကို ကြားသိစေရမည်လော။ (ထိုအရာကား ငရဲ)မီးပင်။ အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်သွေဖည်ငြင်းပယ်သောသူတို့အား ယင်းမီး(ထဲသို့ လားစေတော်မူမည်)ကို ချိန်းချက်ထားတော်မူခဲ့လေသည်။ စင်စစ်သော်ကား ယင်းငရဲမီးသည် အလွန်ဆိုးရွားလှသော ပြန်လည်ရာဌာနပင် ဖြစ်ချေသတည်း။ [၂]

---

(၃) **ကာဖိရ်များ ခိုကိုးရာမဲ့ဖြစ်ကြရမည်။**

အမှန်မှာ ကာဖိရ်၊ မုရှ်ရက်စ်များသည် အလ္လာဟ်အရှင်မြတ်အား စွန့်လွှတ်၍ အခိုပွါယ်မရှိသော အရာများကို ဆည်းကပ် ကိုးကွယ်ကြပြီး၊ မိမိတို့ကိုယ်ကို မိမိတို့ကိုယ်တိုင် နှိပ်စက်နေသောသူများသာ ဖြစ်ကြပေသည်။ ၎င်းတို့၏ကိုးကွယ်ရာများသည် ၎င်းတို့အား ကူညီနိုင်ရန်ဝေးစွ၊ မိမိတို့ကိုယ်ကိုပင် မိမိတို့ မကာကွယ်နိုင်ကြပေ။ သို့ဖြစ်ရာ ကာဖိရ်၊ မုရှ်ရစ်က်များသည် ခိုကိုးရာမဲ့ဖြစ်ကြရမည်။

(၁) **ကာဖိရ်များ မျက်နှာမသာ။**

ကာဖိရ်များ၊ မုရှ်ရစ်က်များရှေ့မှောက်တွင် အလ္လာဟ်အရှင်မြတ်၏ ထင်ရှားပြတ်သားသော အာယတ်တော်များ ရွတ်ဖတ်သည့်အခါ ကာဖိရ်၊ မုရှ်ရစ်က်များသည် "အနာပေါ်တုတ်ကျ" ဖြစ်ကာ မျက်နှာပျက်ကြပေသည်၊ ဒေါသအမျက် ထွက်ကြပေသည်။ မိမိတို့၏ ဒေါသအမျက်ကို မချုပ်တည်းနိုင်ဘဲ၊ ဤအာယတ်တော် ရွတ်ဖတ်သူများကိုပင် ရိုက်ပုတ်သတ်ဖြတ်လုနီးနီး ဖြစ်သွားကြပေသည်။ တစ်ခါတစ်ရံ ကာယကံမြောက်ပင် ကျူးလွန်ကြပေသည်။

يَاَيُّهَا النَّاسُ ضُرِبَ مَثَلٌ فَاسْتَمِعُوا لَهٗ ۚ اِنَّ الَّذِيْنَ تَدْعُوْنَ مِنْ دُوْنِ اللّٰهِ لَنْ يَّخْلُقُوْا ذُبَابًا وَّلَوِ اجْتَمَعُوْا لَهٗ ۚ وَاِنْ يَّسْلُبْهُمُ الذُّبَابُ شَيْـًٔا لَّا يَسْتَنْقِذُوْهُ مِنْهُ ۚ ضَعُفَ الطَّالِبُ وَالْمَطْلُوْبُ ﴿٧٣﴾

၇၃။ အို-လူခပ်သိမ်းတို့၊ ဥပမာ ပုံဆောင်ချက်တစ်ခုကို ခိုင်းနှိုင်းမည်ဖြစ်ရာ အသင်တို့သည် ယင်းဥပမာပုံဆောင်ချက်ကို (ကောင်းစွာ) နားထောင်ကြလေကုန်။ မုချဧကန် အလ္လာဟ်အရှင်မြတ်အားစွန့်၍ အသင်တို့ဟစ်ခေါ်(တသ ဆည်းကပ် ကိုးကွယ်လျက် ရှိ)ကြသောအရာများမှာ ၎င်းတို့အားလုံး(တစ်စည်း တစ်လုံးတည်း) စုရုံး(ကြိုးပမ်းအားထုတ်)ကြသည့်တိုင်အောင် ယင်ကောင်တစ်ကောင်ကိုမျှပင် အလျှင်း ဖန်ဆင်းနိုင်ကြမည် မဟုတ်ပေ။

ထို့မှတစ်ပါး အကယ်၍ ထိုယင်ကောင်သည် ၎င်းတို့ထံမှ တစ်စုံတစ်ရာကို လုယူပါလျှင်(သုတ်သွားပါလျှင်)၎င်းတို့သည် ယင်းအရာကိုပင် ထိုယင်ကောင်၏ထံမှ ပြန်လုယူနိုင်ကြမည် မဟုတ်ချေ။ ရှာဖွေဆည်းပူး (ကိုးကွယ်ဆည်းကပ်)သောသူနှင့် ရှာဖွေဆည်းပူး (ကိုးကွယ်ဆည်းကပ်)ခြင်း ခံရသောသူတို့သည် အားနည်းချိနဲ့ကြပေတကား။

مَا قَدَرُوا اللّٰهَ حَقَّ قَدْرِهٖ ۗ اِنَّ اللّٰهَ لَقَوِيٌّ عَزِيْزٌ ﴿٧٤﴾

၇၄။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အား ရိုသေကိုင်းရှိုင်းရန်တာဝန်ရှိသည်နှင့်အညီ ရိုသေကိုင်းရှိုင်းကြသည် မဟုတ်ပေ။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ခွန်အားပြည့်စုံတော်မူသော၊ တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၂) ကာဖိရ်၊ မုရှ်ရစ်က်များသည် ၎င်းတို့၏အမှားကို ထောက်ပြကာ အာယတ်တော်များကို ကြားကြရသောအခါ အကြီးအကျယ် ဒေါသဖြစ်ကြသည်။ စိတ်နာကြသည်။ သို့ရာတွင် ၎င်းတို့ သိထားအပ်သည်မှာ ၎င်းတို့အဖို့ ထို့ထက်ပင် ပိုမိုဆိုးရွားသောအရာ ရှိပေသေးသည်။ ထိုအရာကား ငရဲမီးပင်ဖြစ်သည်။ အဆိုးရွားဆုံးသောလားရာဌာနပင်ဖြစ်သည်။ သို့ဖြစ်ရာ ကာဖိရ်များသည် ကုရ်အာန်ကို ငြင်းပယ်၍ ငရဲဒဏ်ခံကြမည်လော၊ သို့တည်းမဟုတ် ကုရ်အာန်ကို လက်ခံ၍ ငရဲဒဏ်မှ လွတ်မြောက်ကြမည်လော၊ ဤသည့်အချက်ကို အချိန်မီ ဆင်ခြင်၍ ကြိုက်နှစ်သက်ရာ လမ်းစဉ်ကို ရွေးချယ်သင့်ကြပေပြီ။

اَللّٰهُ يَصْطَفِيْ مِنَ الْمَلٰٓئِكَةِ رُسُلًا وَّمِنَ النَّاسِ ؕ اِنَّ اللّٰهَ سَمِيْعٌۢ بَصِيْرٌ ۚ﴿۷۵﴾

၇၅။ အလ္လာဟ်အရှင်မြတ်သည် "မလာအိကဟ်" ကောင်းကင်တမန်တို့အနက်မှလည်းကောင်း၊ လူတို့အနက်မှလည်းကောင်း၊ စေတမန်များ(တမန်တော်များ)ကို ရွေးချယ်တော်မူခဲ့၏။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့ကြားတော်မူသော ကောင်းစွာ မြင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။[၁]

يَعْلَمُ مَا بَيْنَ اَيْدِيْهِمْ وَمَا خَلْفَهُمْ ؕ وَاِلَى اللّٰهِ تُرْجَعُ الْاُمُوْرُ ﴿۷۶﴾

၇၆။ ထိုအရှင်မြတ်သည် ၎င်းတို့၏ ရှေ့နောက်အဖြစ်အပျက် အလုံးစုံတို့ကို ( အကြွင်းမဲ့ ) သိရှိတော်မူပေသည်။ စင်စစ်သော်ကား အရေးကိစ္စ အဝဝတို့မှာ အလ္လာဟ်အရှင်မြတ် အထံတော်သို့ပင် ပြန်လည်ရောက်ရှိကြမည်သာတည်း။

يٰۤاَيُّهَا الَّذِيْنَ اٰمَنُوا ارْكَعُوْا وَاسْجُدُوْا وَاعْبُدُوْا رَبَّكُمْ وَافْعَلُوا الْخَيْرَ لَعَلَّكُمْ تُفْلِحُوْنَ ۩﴿۷۷﴾

၇၇။ အို-"မုအ်မင်န်"သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် မိမိတို့ အောင်မြင်ကြအံ့သောငှာ "ရုကုအ်"ဦးညွှတ်(၍ နေ)ကြလေကုန်။ ထို့ပြင် အသင်တို့သည် "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချ(၍ နေ)ကြလေကုန်။ ၎င်းပြင် အသင်တို့သည် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ခဝပ်ကိုးကွယ်(၍ နေ)ကြလေကုန်။ထိုမှတစ်ပါးအသင်တို့သည် ကောင်းမြတ်သော အမှုကိစ္စများကိုလည်း ပြုလုပ်(၍ နေ)ကြလေကုန်။[၂]

---

(၁) **လူသားနှင့်ကောင်းကင်တမန်များအား စေတမန်အဖြစ် ခန့်အပ်တော်မူခြင်း။**

အထက်တွင် "ရှိရ်စ်က်"၏ မှားယွင်းခြင်းနှင့် "တောင်ဟီဒ်"၏ မှန်ကန်ခြင်းအကြောင်းများ ပါရှိ၏။ ဤအာယတ်တော်တွင် "ရိစာလတ်" တမန်တော်ဖြစ်ခြင်း၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။

မုရှ်ရစ်က်များက တမန်တော်တစ်ပါးသည် ကောင်းကင်တမန်သာဖြစ်သင့်သည်။ ယခုမူ (တမန်တော်မြတ်) မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်)သည် လူသားတစ်ဦးဖြစ်နေပေသည်၊ လူသားတစ်ဦးဖြစ်ရာတွင်လည်း တန်ခိုး၊ ဂုဏ်သိမ် မရှိပေရာ၊ အသို့လျှင် တမန်တော် ဖြစ်နိုင်အံ့နည်းဟု ဆိုခဲ့ကြသည်။ဤအာယတ်တော်တွင် ယင်းသို့သော မုရှ်ရစ်က်တို့၏စကားကို ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ အရာရာကို သိမြင်တော်မူသော ➤➤

၇၈။ ၎င်းပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ (သာသနာတော် အရေးတွင်) ထိုအရေးကိစ္စ၌ သက်စွန့်ကြိုးပမ်းဆောင်ရွက်ရန် တာဝန်ရှိသည်နှင့်အညီ *သက်စွန့်ကြိုးပမ်း ဆောင်ရွက်(၍ နေ)ကြလေကုန်။* [၁] ထိုအရှင်မြတ်သည် *အသင်တို့အား ရွေးချယ်တော်မူခဲ့ပေသည်။* [၂] ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့၏ ဖခင် (နဗီတမန်တော်) အီဗ်ရာဟီမ်၏ သာသနာ [၃] နည်းတူအသင်တို့အပေါ်၌လည်း "ဒီန်" သာသနာတော်၌ မည်သည့် ကျပ်တည်းခဲယဉ်းမှု တစ်စုံတစ်ရာကိုမျှပင် ပြုတော်မမူခဲ့ချေ။

وَجَاهِدُوا فِي اللَّهِ حَقَّ جِهَادِهِ ۚ هُوَ اجْتَبَاكُمْ وَمَا جَعَلَ عَلَيْكُمْ فِي الدِّينِ مِنْ حَرَجٍ ۚ مِلَّةَ أَبِيكُمْ إِبْرَاهِيمَ ۚ هُوَ سَمَّاكُمُ الْمُسْلِمِينَ مِنْ قَبْلُ وَفِي هَٰذَا لِيَكُونَ الرَّسُولُ

---

➤➤ အရှင် ဖြစ်တော်မူသည်။ မည်သူမည်ဝါတို့အား မည်သည့်တာဝန် ပေးသင့်ပေးအပ်သည်ကို ထိုအရှင်မြတ် အသိဆုံးပင်။ ကြည့်-ကုရ်အာန်(၆း၁၂၅)။

ထိုအရှင်မြတ် ပြုစီရင်တော်မူသော အရာများနှင့်စပ်လျဉ်း၍ မည်သူ့၌မျှ စေဒနာ တက်ပိုင်ခွင့်လည်း မရှိပေ။ ကြည့်-ကုရ်အာန်(၂၁း၂၃)။

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၆း၁၂၅)၏အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

(၂) အထက်တွင် "တောင်ဟီဒ်"၊ "ရိစာလတ်"၊ "ကိယာမတ်" စသည့် အစ္စလာမ်၏အခြေခံများကို မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် မွတ်စ်လင်မ်များအား နှစ်ဘဝစလုံးတွင် အောင်မြင်နိုင်ကြရန်အလို့ငှာ အမြဲတစေ တစ်ဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်လျက် ရှိကြရမည့် အကြောင်း၊ ထိုအရှင်မြတ်၏ ရှေ့တော်၌သာလျှင် ဦးညွှတ်ခြင်း၊ ဦးချခြင်းများကို ပြုလုပ်လျက်ရှိကြရမည့် အကြောင်းနှင့် အခြားအခြားသော ကောင်းမှုများကိုလည်း ထိုအရှင်မြတ်အားသာ ရည်စူးကာ ပြုလုပ်လျက်ရှိကြရမည့် အကြောင်း၊ မိန့်ဆိုထားတော်မူသည်။

(၁) မွတ်စ်လင်မ်တို့သည် မိမိတို့ကိုယ်ကို ပြုပြင်ရန်အတွက်လည်းကောင်း၊ ကမ္ဘာလူသားတို့အား ပြုပြင်ရန်အတွက်လည်းကောင်း၊ (မုဂျာဟာဒဟ်)ဂျိဟာဒ် ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ သက်စွန့်ကြိုးပမ်းဆောင်ရွက်ကြရမည်။ လူသားတို့သည် ဤသခ်ၤရပစ္စက္ခ အကျိုးငှာ အဘယ်မျှ သက်စွန့်ကြိုးပမ်းဆောင်ရွက်ကြသည်ကို လူတိုင်း အသိပင်။

သို့ဖြစ်ပေရာ အစ္စလာမ့်အရေး၊ နောင်တမလွန်ဘဝ၏ ထာဝရအောင်မြင်ရေးတွင်မူ ပို၍ပင် သက်စွန့်ကြိုးပမ်း ဆောင်ရွက်ကြရပေမည်။

(၂) **<u>အစ္စလာမ်၌ ခဲယဉ်းမှုမရှိ။</u>**

အစ္စလာမ်သည် ကမ္ဘာ့သာသနာဖြစ်သည်။ အစ္စလာမ်၌ ခဲယဉ်းမှုအလျင်းမရှိ။ အသွေးအရောင်ခွဲခြားမှု၊ မျိုးနွယ်ခွဲခြားမှု၊ ပထဝီခွဲခြားမှု၊ ဇာတ်နိမ့်၊ ဇာတ်မြင့် အလျှင်းမရှိ။ ဤသာသနာသည် ခေတ်တိုင်း၊ လူမျိုးတိုင်း၊ လူတိုင်းအဖို့ ဖြစ်သည်။ အခါမရွေး၊ ဌာနမရွေး ကျင့်သုံးနိုင်သည်။ ➤➤

شَهِيدًا عَلَيْكُمْ وَتَكُونُوا شُهَدَاءَ عَلَى النَّاسِ ۚ فَأَقِيمُوا الصَّلَوٰةَ وَآتُوا الزَّكَوٰةَ وَاعْتَصِمُوا بِاللَّهِ هُوَ مَوْلَاكُمْ ۖ فَنِعْمَ الْمَوْلَىٰ وَنِعْمَ النَّصِيرُ ﴿٧٨﴾

ရစူလ်တမန်တော်မြတ်(မုဟမ္မဒ်)သည် အသင်တို့နှင့် ပတ်သက်၍ အသိသက်သေ ဖြစ်အံ့သောငှာလည်းကောင်း၊ အသင်တို့သည်လည်း လူခပ်သိမ်းတို့နှင့်ပတ်သက်၍ *အသိသက်သေများ ဖြစ်ကြအံ့သောငှာလည်းကောင်း၊* [၁] ထိုအရှင်မြတ်သည်ပင် အသင်တို့အား ယခင်ကလည်း (မွတ်စ်လင်မ်များဟူ၍ အမည်ပညတ်တော်မူခဲ့ပေသည်။) (ယခု) ဤ(ကုရ်အာန်ကျမ်းတော်မြတ်)တွင်လည်း *"မွတ်စ်လင်မ်"များဟူ၍ပင် အမည်ပညတ်ထားတော်မူလေသည်။* [၂]

---

➤➤ အလ္လာဟ်အရှင်မြတ်သည် ဤသည့် အစ္စလာမ်ကို ကမ္ဘာအဝှန်းသို့ ပြန့်ပွားစေရန်အတွက် ကမ္ဘာ့အုပ်စုအသီးသီးတို့အနက် တမန်တော်မြတ်လက်ထက်ရှိ မွတ်စ်လင်မ်တို့အား ရွေးချယ်တော်မူခဲ့လေသည်။ဤသည်ယင်း မွတ်စ်လင်မ်တို့အဖို့ ဂုဏ်ယူဖွယ်တစ်ရပ်ပင်။

**၉ အစ္စလာမ်သည် တမန်တော် အီဗ်ရာဟီမ်၏ သာသနာပင်။**

ဤအာယတ်တော်တွင် "အသင်တို့၏ ဖခင် အီဗ်ရာဟီမ်၏ သာသနာ" ဟူသော ဝါကျ၌ပါရှိသော "အသင်တို့"ဟူသော နာမ်စားသည် အသူအား ရည်ညွှန်းသနည်း။

(၁) တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစ္စလ္လမ်)၏ အွမ္မတ်ကို ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်သည်။

(၂) အရဗ်အမျိုးသားတို့အား ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်သည်။

အဘယ်ကြောင့်ဆိုသော် တမန်တော် အီရာဟီမ်သည် တမန်တော်မြတ်၏ ဘိုးဘေးတို့တွင် ပါဝင်နေပေရာ တမန်တော်မြတ်၏ အွမ္မတ်နောက်လိုက်တပည့်သားတို့၏ ဖခင်ကြီးလည်း ဖြစ်နေပေသည်။ သို့ဖြစ်ရာ ဤအာယတ်တော်တွင် လာရှိသည့် "အသင်တို့" ဟူသော နာမ်စားသည် တမန်တော်မြတ်၏ အွမ္မတ်အားရည်ညွှန်းသည်ဟုလည်း ဆိုနိုင်ပေသည်။ တစ်နည်း-အရဗ်လူမျိုးတို့သည် ကုရ်အာန်ကျမ်းမြတ်ကို ဦးစွာပထမကြားနာခဲ့ကြရသည်ဖြစ်ရာ၊ ဤ အာယတ်တော်တွင် ပါရှိသည့် "အသင်တို့" ဟူသော နာမ်စားသည် အရဗ်အားရည်ညွှန်းသည်ဟုလည်း ဆိုနိုင်ပေသည်။

**၁ မွတ်စ်လင်မ်တို့အား ရွေးချယ်မြှောက်စားတော်မူခြင်း၏ ရည်ရွယ်ချက်။**

အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား ယင်းသို့ ရွေးချယ်မြှောက်စားတော်မူခြင်းမှာ တမန်တော်မြတ်က မွတ်စ်လင်မ်တို့အား သင်ကြားပြသတော်မူရန် မွတ်စ်လင်မ်တို့က ကမ္ဘာအဝှန်းအား တစ်ဆင့်သင်ကြားပြသနိုင်ရန်ပင်ဖြစ်သည်။ တစ်နည်းဆိုရသော် မွတ်စ်လင်မ်တို့အား ဤမျှကြီးမားလှသော ဂုဏ်ထူးဆောင်ဘွဲ့နာမည်ဖြင့် ချီးမြှင့်မြှောက်စားတော်မူခြင်းမှာ မွတ်စ်လင်မ်တို့သည် ကမ္ဘာတွင် ကမ္ဘာ့အာစရိယရှေ့ဆောင်လမ်းပြဖြစ်၍ ကမ္ဘာ အိမ်ထောင်စုကြီးအား အစ္စလာမ်၏ အမှန်တရားကို ဟောညွှန်ပြရာတွင် သက်စွန့်ကြိုးပမ်းဆောင်ရွက်ကြရန်ပင်တည်း။

သို့ဖြစ်ပေရာ အသင်တို့သည် "ဆွလာတ်" ဝတ်ပြုမှုကို ဆောက်တည်ကြလေကုန်။ ၎င်းပြင် အသင်တို့သည် "ဇကာတ်" ကိုလည်း ပေးဆောင်ကြလေကုန်။ ၎င်းပြင် အသင်တို့သည် (မိမိတို့ အရေးကိစ္စတို့တွင်) အလ္လာဟ်အရှင်မြတ်အားသာလျှင် စွဲမြဲစွာ ဆုပ်ကိုင်ထားကြလေကုန်။

ထိုအရှင်မြတ်သည်ပင် အသင်တို့၏ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးတော် မူသောအရှင်ဖြစ်တော်မူ၏။ သို့ဖြစ်ပေရာ (ထိုအရှင်မြတ်သည်) အဘယ်မျှလောက် ကောင်းမြတ်လှသော၊ ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးတော်မူသော အရှင်ဖြစ်တော်မူပါဘိသနည်း၊ ၎င်းပြင် အဘယ်မျှလောက် ကောင်းမြတ်လှသော၊ ကူညီစောင်မတော်မူသောအရှင်ဖြစ်တော်မူဘိသနည်း။

## ၂ "မွတ်စ်လင်မ်" ဟူသောအမည်။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်)၏ "အွမ္မတ်" နောက်လိုက်တပည့်သားတို့အား အတိတ်ခေတ် ကျမ်းဂန်များတွင်လည်းကောင်း၊ ဤ ကုရ်အာန်ကျမ်းမြတ်တွင်လည်းကောင်း၊ "မွတ်စ်လင်မ်"ဟူ၍ အမည်ပေးထားတော်မူသည်။

အချို့ပညာရှင်များ၏ယူဆချက်အရ ဤသည့် "မွတ်စ်လင်မ်" ဟူသောအမည်ကို ယခင်က တမန်တော် အီဗ်ရာဟီမ်က ပေးခဲ့ခြင်းဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် တမန်တော် အီဗ်ရာဟီမ်သည် အလ္လာဟ်အရှင်မြတ် အထံတော်၌ ဆုတောင်းရာတွင် "အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော် မူသောအရှင်၊ အရှင်သည် ကျွန်တော်မျိုးတို့အား မိမိ၏အမိန့်တော်ကိုနာခံသူ မွတ်စ်လင်မ်နှစ်ဦး ပြုလုပ်ပေးတော်မူပါ၊ ၎င်းပြင် ကျွန်တော်မျိုးတို့၏ သားစဉ်မြေးဆက်ကိုလည်း မိမိ၏အမိန့်တော်နာခံသော မွတ်စ်လင်မ်အုပ်စု ပြုလုပ်ပေးတော်မူပါ"ဟု အမှတ်တရ ပန်ကြားခဲ့လေသည်။ ကြည့်-ကုရ်အာန်(၂း၁၂၈)။ ယင်းသို့ တမန်တော်အီဗ်ရာဟီမ်က ပန်ကြားခဲ့သည့်အတွက် ဤကုရ်အာန်ကျမ်းမြတ်တွင် ဤမည်သော "မွတ်စ်လင်မ်" ဟူသောအမည်သည် မည်တွင်လာခဲ့ခြင်း ဖြစ်တန်ရာသည်။

အသို့ပင်ဖြစ်စေကာမူ တမန်တော်မြတ်၏နောက်လိုက်တပည့်သားတို့၏အမည်မှာ "မွတ်စ်လင်မ်"ပင် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုး၍ ထိုအရှင်မြတ်၏ အမိန့်တော်များကို နာခံခဲ့သော အတိတ်ခေတ် အုပ်စုအသီးသီးတို့သည်လည်း မွတ်စ်လင်မ်များပင် ဖြစ်ခဲ့ကြပေသည်။ သို့တစေလည်း ဤ"မွတ်စ်လင်မ်" ဟူသောအမည်သည် တမန်တော်မြတ်၏ နောက်လိုက် တပည့်သားတို့အဖို့ သီးသန့်ဂုဏ်ထူးဆောင်ဘွဲ့နာမည် ဖြစ်နေပေရာ၊ မွတ်စ်လင်မ်တို့သည် မွတ်စ်လင်မ်ပီပီ ဤ"မွတ်စ်လင်မ်"ဟူသော ဂုဏ်ထူးကို ရိုသေလေးစားစွာ ထိန်းသိမ်း သင့်ကြပေသတည်း။

# ယုံကြည်သူများကဏ္ဍ



ဤကဏ္ဍသည် မုအ်မင်န် ယုံကြည်သူများအကြောင်း ပါဝင်သောကဏ္ဍဖြစ်သည်။
ဤကဏ္ဍသည် မက္ကာမြို့တော်၌ ထုတ်ပြန်ပို့ချတော်မူခဲ့သော ကဏ္ဍဖြစ်သည်။
ဤကဏ္ဍတွင်အာယတ်တော် (၁၁၈)ပါးနှင့် ရကူအ် အပိုဒ် (၇)ပိုဒ် အသီးသီးပါရှိသည်။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အနန္တဂရုဏာရှင် ဖြစ်တော်မူသော
အစဉ်သနားကြင်နာ ညှာတာတော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

قَدْ اَفْلَحَ الْمُؤْمِنُوْنَ ①

၁။ ဧကန်မလွဲ (အကြင်) "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့သည် အောင်မြင်ခဲ့ကြချေပြီ။

الَّذِيْنَ هُمْ فِيْ صَلَاتِهِمْ خٰشِعُوْنَ ②

၂။ ထို("မုအ်မင်န်" သက်ဝင် ယုံကြည်)သူတို့သည် မိမိတို့ *ဆွလာတ်ဝတ်ပြုရာ၌ ကျိုးနွံသူများဖြစ်ကြကုန်၏။* [၁]

---

① **(က) ဆွလာတ်ဝတ်ပြုရာတွင် ကျိုးနွံခြင်း၊**

"ခုရှုအ်"၏ အဓိပ္ပါယ်မှာ ကြောက်ရွံ့စွာဖြင့် ငြိမ်သက်စွာရှိခြင်း၊ စိတ်နှိမ့်ကျခြင်း၊ နိဝါတ တရားရှိခြင်း၊ နူးညံ့သိမ်မွေ့ခြင်းဟုရသည်။ သာဝကကြီး အစ်ဗ်နုအဗ္ဗားစ်သခင်က ဤအာယတ်တော်လာ "ခါရှိအူန" ဟူသောပုဒ်ကို (ခါအိဖူန၊ စာကိနူန) "ကြောက်ရွံ့သူများ၊ ငြိမ်သက်သူများ" ဟူ၍ အနက်ဖွင့်ဆိုခဲ့သည်။

ဆွလာတ်ဝတ်ပြုရာတွင် စိတ်နှလုံးသည် ကြောက်ရွံ့သော်၊ ကျိုးနွံသော်၊ ငြိမ်သက်သော်၊ စိတ်ပျံ့လွင့်တော့မည် မဟုတ်ပေ။ အပ အတွေးအခေါ်များ ပေါ်ပေါက်တော့မည်မဟုတ်ပေ။ စိတ်အာရုံသည် တည်ငြိမ်ပေမည်။ အလ္လာဟ်အရှင်မြတ်၌သာလျှင် စိတ်အာရုံသည် စွဲကပ်လျက်ရှိပေမည်။ ထိုအခါ ကြောက်ရွံ့ခြင်း၊ ကျိုးနွံခြင်း၊ ငြိမ်သက်ခြင်း၏ အတွင်းသဏ္ဍာန်သည် ကိုယ်ခန္ဓာ၏ အစိတ်အပိုင်း များပေါ်တွင် ထင်ရှားပေါ်လွင်၍ လာပေမည်။ ဥပမာ– ဆွလာတ် ဝတ်ပြုသူ၏ ဦးခေါင်းသည် အလိုအလျောက် ညွှတ်၍လာပေမည်။ မျက်စိသည် အောက်ဘက်သို့ စိုက်၍နေပေမည်။ ရိုသေခန့်ညားစွာ လက်ပိုက်လျက်ရှိနေပေမည်။ ကိုယ်ခန္ဓာသည် ငြိမ်သက်လျက်ရှိပေမည်။ ဟိုဟိုသည်သည်ကို ကြည့်မည်မဟုတ်ပေ။ ဝဿာ ယိမ်းမည်မဟုတ်ပေ။ အင်္ကျီစ၊ ပုဆိုးစ၊ စသည်များကို ကိုင်တွယ်တော့မည် မဟုတ်ပေ။ လက်ချောင်းများကို ချိုးတော့မည်လည်း မဟုတ်ပေ။ တစ်စိတ်တစ်လက်တည်း စိတ်ရောကိုယ်ပါ အလ္လာဟ်အရှင်မြတ်၌သာ အာရုံစိုက်ကာ ကြောက်ရွံ့ကျိုးနွံ ငြိမ်သက်စွာ ဆွလာတ် ဝတ်ပြုပေမည်။ ဤသည်တို့ကား ခုရှုအ်တွင် အကျုံးဝင်သော အချက်များ၊ နိမိတ်လက္ခဏာများ တည်း။

သာဝကကြီးများသည် ဆွလာတ် ဝတ်ပြုရာတွင် အသက်မရှိသော သစ်တုံးကြီးများပမာ ငြိမ်သက်စွာ ဆွလာတ် ဝတ်ပြုလေ့ရှိခဲ့ကြပေသည်။ ဤသည်လည်း ခုရှုအ်၏ နိမိတ်လက္ခဏာတစ်ရပ်ပင်။

وَالَّذِينَ هُمْ عَنِ اللَّغْوِ مُعْرِضُونَ ۝٣

၃။ ၎င်းပြင် ထို("မုအ်မင်န်" သက်ဝင်ယုံကြည်)သူတို့သည် အချည်းနှီး အကျိုးမဲ့ အမှုကိစ္စတို့မှ *ရှောင်ဖယ်သူများလည်း ဖြစ်ကြကုန်၏။* [၁]

وَالَّذِينَ هُمْ لِلزَّكَوٰةِ فَاعِلُونَ ۝٤

၄။ ထို့ပြင် ထို("မုအ်မင်န်" သက်ဝင်ယုံကြည်)သူတို့သည် (မိမိတို့စိတ်နှလုံးများ) စင်ကြယ် သန့်ရှင်းအံ့သောငှာ *(ကောင်းမှုများကို) ပြုလုပ်သူများ ဖြစ်ကြကုန်၏။* [၂]

---

၁ **(ခ) အချည်းနှီး အကျိုးမဲ့ ကိစ္စအဝဝကို ရှောင်ခြင်း၊**

"လဃ်ဝ" ဟူသည် လောကီရေးတွင်သော်လည်းကောင်း၊ လောကုတ္တရာရေးတွင်သော်လည်းကောင်း၊ မည်သို့မျှ အကျိုးမရှိသော၊ အချည်းနှီးသော အပြောအဆို၊ အပြုအမူ၊ ကိစ္စဟူဟူသမျှတို့ကို ဆိုလိုသည်။ လူ၏သက်တမ်း၊ အသက်၊ အချိန်များသည် အဖိုးတန်လှသည်။ အဖိုးမဖြတ်နိုင်ပေ။ ယင်းသို့ အဖိုးထိုက်တန်လှသော သက်တမ်း၊ အသက်၊ အချိန်များကို အချည်းနှီးသော၊ အကျိုးမရှိသောကိစ္စများတွင် အသိ့လျှင် ဖြုန်းတီးရန် ဖြစ်နိုင်အံ့နည်း။ မုအ်မင်န်များသည် အချည်းနှီး အကျိုးမဲ့သော ကိစ္စများကို ဝေးစွာ ရှောင်ကြဉ်ကြပေသည်။ ယင်းသို့သောကိစ္စများတွင် မိမိတို့၏ အဖိုးထိုက်တန်လှသော အချိန်များကို မဖြုန်းတီးကြပေ။ မုအ်မင်န်များသည် အလ္လာဟ်အရှင်မြတ်၏ အဆုံးအမတော်များနှင့်အညီ အခါခပ်သိမ်း လိုက်နာကျင့်သုံး သွားလာနေထိုင်လျက် ရှိကြပေရာ၊ ၎င်းတို့၌ ယင်းသို့သော အချည်းနှီးအကျိုးမဲ့ ကိစ္စများတွင် အချိန်ဖြုန်းရန်အတွက် အဘယ်မှာလျှင် အချိန်ပို ရှိနိုင်အံ့နည်း။ အကျိုးမရှိသောကိစ္စများတွင် နစ်မွန်းနေသည်နှင့်အမျှ အကျိုးရှိသောကိစ္စများကို သယ်ပိုးဆောင်ရွက်နိုင်မည်မဟုတ်။ ဤသို့အကျိုးရှိသော ကိစ္စများကို မဆောင်ရွက်နိုင်ခြင်းမှာ ဆုံးရှုံးမှုပင်ဖြစ်သည်။ ဆုံးရှုံးစေသောအမှုကို ပြုခြင်းသည် မုအ်မင်န်၏အလုပ်မဟုတ်ပေ။

၂ **(ဂ)ဇကာတ် ပေးဆောင်ခြင်း။**

မုအ်မင်န်များသည် အစ္စလာမ်တရားတော်၏စည်းကမ်းချက်နှင့်အညီ ဇကာတ်ကို အမြဲတစေ ကြည်ဖြူစွာ ပေးဆောင်လေ့ရှိကြသည်။ ဇကာတ်ပေးဆောင်ရာတွင် တွန့်တိုခြင်း၊ ပျက်ကွက်ခြင်းအလျှင်းမရှိခဲ့ကြပေ။ အချို့မုဖတ်စ်စိရ်များက ဤအာယတ်တော်တွင်လာရှိသည့် "ဇကာတ်" ဟူသောပုဒ်ကို သန့်ရှင်းစင်ကြယ်စေခြင်း၊ စိတ်ကို သန့်ရှင်းစင်ကြယ်စေခြင်း ဟူသောအနက်၌ မူလအဘိဓာန်ပင် ယူကြသည်။ ဤယူဆချက်အရ ဤအာယတ်တော်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော် ( قَدْ أَفْلَحَ مَن تَزَكَّىٰ ) (၈၇:၁၄)နှင့်လည်းကောင်း၊ ( قَدْ أَفْلَحَ مَن زَكَّاهَا ) (၉၁:၉) နှင့်လည်းကောင်း၊ ဆင်တူ ဖြစ်သွားပေသည်။

ဤယူဆချက်အရ သန့်ရှင်းစင်ကြယ်စေခြင်း ဟူသောသဘောကို ကျယ်ဝန်းစွာ ထားရှိပါက၊ ဤသန့်ရှင်းစင်ကြယ်စေမှုတွင် ကိုယ်ခန္ဓာသန့်ရှင်းမှု၊ စိတ်၏သန့်ရှင်းမှု၊ ဥစ္စာပစ္စည်း၏ သန့်ရှင်းမှုများလည်း အကျုံးဝင်သွားပေမည်။ ဇကာတ်ပေးခြင်းသည် တစ်နည်းအားဖြင့် ဥစ္စာပစ္စည်းကို စင်ကြယ် သန့်ရှင်းစေအောင် ပြုလုပ်ခြင်းပင် ဖြစ်သည်။ ကြည့်-ကုရ်အာန် (၉:၁၀၃)။

وَالَّذِينَ هُمْ لِفُرُوجِهِمْ حَافِظُونَ ﴿٥﴾

၅။ ထိုမှတပါးထို("မုအ်မင်န်" သက်ဝင်ယုံကြည်) သူတို့သည် (ကာမေသုမိစ္ဆာစာရကံ ကျူးလွန်ခြင်းမှ) မိမိတို့၏ *အရှက်အင်္ဂါများကို စောင့်စည်း ထိန်းသိမ်း သူများလည်း ဖြစ်ကြကုန်၏။* [၁]

إِلَّا عَلَىٰ أَزْوَاجِهِمْ أَوْ مَا مَلَكَتْ أَيْمَانُهُمْ فَإِنَّهُمْ غَيْرُ مَلُومِينَ ﴿٦﴾

၆။ မိမိတို့၏ ဇနီးကြင်ယာများ၊ သို့မဟုတ် မိမိတို့ လက်ယာလက်များကပိုင်ဆိုင်သော (တရားဝင်) ကျွန်မိန်းမများမှတပါး၊ အကြောင်းမူကား (မိမိတို့ ဇနီးကြင်ယာများနှင့်သော်လည်းကောင်း၊ တရားဝင် ကျွန်မိန်းမများနှင့်သော်လည်းကောင်း၊ သံဝါသပြုခြင်းအားဖြင့်) ထိုသူတို့သည် ပြစ်တင်ခြင်း ခံထိုက်သူများ မဟုတ်သောကြောင့်ပင်။

فَمَنِ ابْتَغَىٰ وَرَاءَ ذَٰلِكَ فَأُولَٰئِكَ هُمُ الْعَادُونَ ﴿٧﴾

၇။ သို့ရာတွင် မည်သူမဆို ထို(ဇနီးကြင်ယာများ သို့မဟုတ် တရားဝင် ကျွန်မများ)မှ ကျော်လွန်၍ (အခြား အမျိုးသမီးများကို) တောင့်တ ရှာဖွေခဲ့မူ ယင်းကဲ့သို့ သူတို့သည်သာလျှင် စည်းကမ်းကို ကျူးလွန်သူများ ဖြစ်ကြကုန်၏။

---

(၁) **(ဃ) ကာမေသုမိစ္ဆာစာရကံ ရှောင်ခြင်း။**

လူသားတို့၌ သဘာဝအလျောက်၊ ကာမဂုဏ်အာရုံသည် ရှိသည်သာဖြစ်သည်။ ကာမဂုဏ်အာရုံကို စည်းမဲ့ကမ်းမဲ့အသုံးပြုပါက လူ့လောကသည် တိရစ္ဆာန်လောကဖြစ်သွားပေမည်။ ကာမဂုဏ်အာရုံကို ပိတ်ဆို့ထားရန်မှာ လက်တွေ့လည်းမဖြစ်နိုင်၊ သဘာဝကို ဆန့်ကျင်ရာလည်း ကျသည်။ ကာမဂုဏ်အာရုံကို အတင်းအဓမ္မ လုံးဝဖျက်ဆီးပစ်ပါက လူဆက်ပြတ်သွားပေမည်။ လူ့လောကကြီး ဆိတ်သုဉ်းသွားပေမည်။ သို့အတွက် အစ္စလာမ်သည် ကာမဂုဏ်အာရုံကို စည်းမဲ့ကမ်းမဲ့ အသုံးပြုရန်လည်းခွင့်မပြု၊ လုံးဝဖျက်ဆီးပစ်ရန်လည်း ခွင့်မပြု၊ ကာမဂုဏ်အာရုံနှင့်စပ်လျဉ်း၍ စည်းကမ်းချက်များ သတ်မှတ်ပေးထားသည်။ ဘောင်ခတ်ထားပေးသည်။ ထိမ်းမြားပိုင်သည့်အမျိုးသမီးများ၊ မထိမ်းမြားပိုင်သည့်အမျိုးသမီးများကိုလည်း ခွဲခြားပေးထားသည်။ ထိုသည့် စည်းကမ်းချက်များအတွင်း၊ ထိုသည့်ဘောင်အတွင်း၌ ကာမဂုဏ်ကို အသုံးပြုခြင်းသည် အပြစ်မရှိပေ။ သို့ရာတွင် ထိုသည့် စည်းကမ်းချက်နှင့် ဆန့်ကျင်လာပါက၊ ထိုသည့်ဘောင်အပြင်သို့ ထွက်လာပါက အလွန်ကြီးလေးသော ပြစ်ဒဏ်ခတ်ခြင်း ခံရပေမည်။ ထို့အတွက် မုအ်မင်န်များသည် မိမိတို့၏ ကာမဂုဏ်အာရုံများကို ထိန်းသိမ်းကြပေသည်။ အစ္စလာမ်၏ စည်းကမ်းချက်များနှင့် အညီ ဘောင်အတွင်း၌သာ နေထိုင်ကြပေသည်။ မိမိတို့၏ ကာမပိုင်ဇနီးများ၊ တရားဝင် ကျွန်မများမှတစ်ပါး၊ သူတစ်ပါး အိမ်ယာကို မေ့မှား၍မျှ မပြစ်မှားမိကြပေ။ ကာမေသုမိစ္ဆာစာရကံ မကျူးလွန်ကြပေ။ ကာမဂုဏ်အာရုံကို အလွဲသုံးစားလည်း မပြုကြပေ။

وَالَّذِينَ هُمْ لِأَمَٰنَٰتِهِمْ وَعَهْدِهِمْ رَٰعُونَ ⑧

၈။ ၎င်းပြင် ထို ("မုအ်မင်န်" သက်ဝင်ယုံကြည်) သူတို့သည် မိမိတို့ ယုံကြည်လွဲအပ်ခြင်း ခံရသော တာဝန်များကို လည်းကောင်း၊ မိမိတို့၏ ကတိ *ဝန်ခံချက်များကို လည်းကောင်း၊ စောင့်ထိန်းသူများ လည်း ဖြစ်ကြကုန်၏။* [၁]

وَالَّذِينَ هُمْ عَلَىٰ صَلَوَٰتِهِمْ يُحَافِظُونَ ⑨

၉။ ထို့ပြင် ထို("မုအ်မင်န်" သက်ဝင်ယုံကြည်) သူတို့သည် မိမိတို့၏ ဆွလာတ်ဝတ်ပြုမှု(တာဝန်) ကို *ဂရုစိုက်ပြုသူများလည်း ဖြစ်ကြကုန်၏။* [၂]

---

① (င) **ကတိတည်ခြင်း၊ အလွဲသုံးစားမပြုခြင်း၊**

လူ့လောကတွင် တစ်ဦးနှင့်တစ်ဦး ဆက်ဆံရာ၌ တစ်ဦးကိုတစ်ဦး ယုံကြည်စိတ်ချရမှုသည် အလွန်အရေးကြီးလှပေသည်။ ဆက်ဆံရေး တည်တံ့မှု၏ သော့ချက်ပင်ဖြစ်ပေသည်။ သို့ဖြစ်ရာ မိမိထံ ယုံပုံအပ်နှံထားသော ပစ္စည်းကို အလွဲသုံးစားမပြုရ၊ ထားရှိသောကတိကို မချိုးဖောက်ရ၊ မုအ်မင်န်တို့သည် မိမိတို့ထံ ယုံပုံအပ်နှံထားသော ပစ္စည်းကို သစ္စာရှိစွာဖြင့် ထိန်းသိမ်းထားကြပေသည်။ အလွဲသုံးစား မပြုကြပေ။ အလ္လာဟ်အရှင်မြတ်နှင့် ထားရှိသော ကတိများကို လည်းကောင်း၊ လူသားအချင်းချင်း ထားရှိသော ကတိများကို လည်းကောင်း မည်သည့်အခါ၌မျှ မချိုးဖောက်ကြပေ။

② (စ) **ဆွလာတ် ဝတ်ပြုခြင်း၊**

ကမ္ဘာ့အိမ်ထောင်စုကြီးတစ်ခုလုံးသည် အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံဖြစ်သည်။ အလ္လာဟ် အရှင်မြတ်သည် ကမ္ဘာ့အိမ်ထောင်စုကြီးတစ်ခုလုံး၏ အရှင်သခင် ဖြစ်တော်မူသည်။ သို့ဖြစ်ပေရာ လူသားတို့သည် ထိုအရှင်မြတ်အားသာ ကြောက်ရွံ့ရိုသေ ခန့်ညားကြရပေမည်။ ထိုအရှင်မြတ်အားသာလျှင် ဝတ်ပြုကြရပေမည်။ ဝတ်ပြုမှုများတွင် "ဆွလာတ်"သည် အဓိကပင် ဖြစ်သည်။ ထို့အတွက် မုအ်မင်န်များသည် စည်းကမ်းကျနစွာ အချိန်မှန်မှန် ဆွလာတ် ဝတ်ပြုကြပေသည်။ မုအ်မင်န်တို့၏ ဂုဏ်ရည်များကို ဖော်ပြရာတွင် အစ၌လည်း ဆွလာတ်အကြောင်းပါရှိ၏။ အဆုံးတွင်လည်း ဆွလာတ်အကြောင်း ပါရှိ၏။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ဆွလာတ်သည် အဘယ်မျှ အရေးကြီးသည်ကို ကောင်းစွာ သိရှိနိုင်ပေသည်။ မုအ်မင်န်တို့၏ ဂုဏ်ရည်များကို ထုတ်ဖော်မိန့်ကြားရာတွင် အထူးသဖြင့် အောက်ပါဂုဏ်ရည် (၆)ခုကို မိန့်ဆိုထားတော်မူသည်။

(၁) ဆွလာတ်ဝတ်ပြုရာတွင် ကျိုးနွံခြင်း၊

(၂) အချည်းနှီး အကျိုးမဲ့ကိစ္စများကို ရှောင်ကြဉ်ခြင်း၊

(၃) ဇကာတ် ပေးဆောင်ခြင်း၊

(၄) ကာမေသုမိစ္ဆာစာရကံကို ရှောင်ကြဉ်ခြင်း၊

(၅) ကတိတည်ခြင်း၊ အလွဲသုံးစားမပြုခြင်းနှင့်

(၆) အချိန်မှန် ဆွလာတ်ဝတ်ပြုခြင်း တို့ဖြစ်သည်။ ဤသည့် ဂုဏ်ရည်များနှင့် ပြည့်စုံသော မုအ်မင်န်သူတော်စင်များသည် ဂျန္နတ်တွင် "ဖိရဒေါက်စ်" ခေါ် အကောင်းဆုံးဘုံ၌ ထာဝစဉ် စံမြန်းကြရပေမည်။

أُولَٰئِكَ هُمُ الْوَارِثُونَ ⑩

၁၀။ ထို("မုအ်မင်န်" သက်ဝင်ယုံကြည်)သူတို့သည် ပင်လျှင် အမွေခံမည့်သူများ ဖြစ်ကြကုန်၏။

الَّذِينَ يَرِثُونَ الْفِرْدَوْسَ هُمْ فِيهَا خَالِدُونَ ⑪

၁၁။ ၎င်းတို့သည် ဖိရ်ဒေါက်စ်(တည်း ဟူသော ဥယျာဉ်)ကို အမွေခံကြပေမည်။ ၎င်းတို့သည် ယင်း ဖိရ်ဒေါက်စ်တွင် အစဉ်ထာဝရ နေထိုင်မည့်သူများပင် ဖြစ်ကြကုန်သတည်း။

وَلَقَدْ خَلَقْنَا الْإِنسَانَ مِن سُلَالَةٍ مِّن طِينٍ ⑫

၁၂။ မချွတ်မလွဲ ငါအရှင်မြတ်သည် လူသားကို *ရွှံ့မြေ၏ အဆီအနှစ်ဖြင့် ဖန်ဆင်းတော်မူခဲ့၏။*[၁]

ثُمَّ جَعَلْنَاهُ نُطْفَةً فِي قَرَارٍ مَّكِينٍ ⑬

၁၃။ ထို့နောက် ငါအရှင်မြတ်သည် ထိုလူသား(၏ အဆက်အနွယ်)ကို လုံခြုံသောနေရာတစ်ခု (သားအိမ် တွင်း)၌ ကလလရေကြည် ဖြစ်စေတော်မူခဲ့၏။

---

(၁) **လူသား၏ဖြစ်စဉ်၊**

လူသား၏ ဖြစ်စဉ်ကို စဉ်းစားဆင်ခြင်ပါက အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်အနန္တကို သိမြင်နိုင်ပေ သည်။ လူသား၏ ဖြစ်စဉ်ကို နက်နက်နဲနဲ၊ စဉ်းစားဆင်ခြင်လေလေ အလ္လာဟ်အရှင်မြတ်၏ အံ့မဆုံးသော တန်ခိုးတော်များကို တွေ့ရလေလေ ဖြစ်ပေသည်။ လူသား၏ပုံပန်းသဏ္ဌာန်ကား အချိုးအစားကျလှ၏။ ပြေပြစ်လှ၏။ အပြစ်ဟူ၍ စိုးစဉ်းမျှမရှိ၊ လိုလေသေးသော အရာဟူ၍လည်း တစ်စုံတစ်ရာမျှမရှိ။

ဤမျှ ထူးဆန်းအံ့သြဖွယ်ရာ ဖြစ်သော လူသားသည် အိမ်တွင်းဖြစ် ပစ္စည်းလော၊ အလျှင်းမဟုတ်၊ လူသားသည် မိမိကိုယ်ကို မိမိပိုင်ဆိုင်လေသလော။ အလျှင်းမဟုတ်၊ လူသားသည် မိမိကိုယ်ကိုမိမိ ပြုလုပ်ဖန်ဆင်းနိုင် သလော၊ အလျှင်းမဟုတ်၊ လူသားသည် မိမိကိုယ်ကို သေခြင်းတရားမှ လွတ်မြောက်စေနိုင်ပါသလော၊ အလျှင်းမဟုတ်၊ အမှန်မှာလူသားသည် အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံသက်သက်သာ ဖြစ်သည်။

ထိုအရှင်မြတ်၏လက်တော်တွင်း၌သာ ရှိနေပေသည်။ ထိုအရှင်မြတ်သည် လူသား၌ မိမိအလိုတော် အတိုင်း ခြယ်လှယ်တော်မူသည်။ ထိုအရှင်မြတ်သည် ဤသည့်လူသားအား အကြောင်းမဲ့ ဖန်ဆင်းထားတော်မူသည် မဟုတ်ပေ၊ ထိုအရှင်မြတ်သည် လူသားအား စတင်ဖန်ဆင်းတော်မူသကဲ့သို့ သေစေတော်မူမည်။ ထို့နောက် တစ်ဖန် ရှင်ပြန်ထစေတော်မူဦးမည်။

လူသား၌ လျှို့ဝှက်ထားသည့် စွမ်းရည်သတ္တိများ အမြောက်အမြား ရှိပေသေးသည်။ ထိုသည့် စွမ်းရည်သတ္တိများသည် ပေါ်လွင်ထင်ရှားရဦးမည်။ ထို့ပြင်တဝ၊ လူသားအသက်ရှင်နေစဉ် ကျင့်မူခဲ့သောအရာများနှင့် စပ်လျဉ်း၍ ကောင်းကျိုးဆိုးကျိုးများကို ပေးတော်မူဦးမည် ဖြစ်သည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန် (၂၂:၅) ၏အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ၊ ပြန်လည်ရှုပါကုန်။

ثُمَّ خَلَقْنَا النُّطْفَةَ عَلَقَةً فَخَلَقْنَا الْعَلَقَةَ مُضْغَةً فَخَلَقْنَا الْمُضْغَةَ عِظٰمًا فَكَسَوْنَا الْعِظٰمَ لَحْمًا ثُمَّ أَنْشَأْنٰهُ خَلْقًا اٰخَرَ فَتَبٰرَكَ اللّٰهُ أَحْسَنُ الْخٰلِقِيْنَ ﴿١٤﴾

၁၄။ ထို့နောက် ငါအရှင်မြတ်သည် ယင်း ကလလ ရေကြည်ကို သွေးခဲအဖြစ် ဖန်ဆင်းတော်မူခဲ့ပြန်၏။ တစ်ဖန်ငါအရှင်မြတ်သည် ယင်းသွေးခဲကို အသားတုံးအဖြစ်ဖန်ဆင်းတော်မူခဲ့ပြန်၏။ တစ်ဖန် ငါအရှင်မြတ်သည် ယင်းအသားတုံးကို အရိုးများအဖြစ် ဖန်ဆင်းတော်မူခဲ့ပြန်၏။

ထို့နောက်ငါအရှင်မြတ်သည် ယင်း အရိုးများကို အသားဖြင့် တန်ဆာဆင်မြန်း၍ ပေးတော်မူခဲ့၏။ ထို့နောက် ငါအရှင်မြတ်သည် ယင်း(အသားဖြင့် ဆင်မြန်းပြီးဖြစ်သော အရိုးများ)ကို အခြား ဖန်ဆင်းအပ်သော အရာတစ်ခုအဖြစ် ဖြစ်ပေါ်၍ လာစေတော်မူခဲ့၏။ သို့ဖြစ်ပေရာ အကောင်းဆုံးသော ဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ်သည် အဘယ်မျှ ထူးကဲ မြင့်မြတ်လှဘိပါသနည်း။

ثُمَّ إِنَّكُمْ بَعْدَ ذٰلِكَ لَمَيِّتُوْنَ ﴿١٥﴾

၁၅။ တစ်ဖန် ဧကန်အမှန် အသင်တို့သည် ထို (ထူးဆန်းအံ့ဖွယ်ဖြစ်သော အခြေအနေတို့ကို ကျော်လွန်ပြီး)နောက် အမှန်ပင် အသက်သေဆုံးကြရမည့် သူများ ဖြစ်ကြကုန်၏။

ثُمَّ إِنَّكُمْ يَوْمَ الْقِيٰمَةِ تُبْعَثُوْنَ ﴿١٦﴾

၁၆။ တစ်ဖန် ဧကန်မလွဲ အသင်တို့သည် ကိယာမတ်နေ့တွင် ရှင်ပြန်ထကြရအံ့သတည်း။

وَلَقَدْ خَلَقْنَا فَوْقَكُمْ سَبْعَ طَرَآئِقَ وَمَا كُنَّا عَنِ الْخَلْقِ غٰفِلِيْنَ ﴿١٧﴾

၁၇။ ၎င်းပြင် မချွတ်ဧကန် ငါအရှင်မြတ်သည် အသင်တို့၏ထက်ဝယ် (မိုး) ခုနစ်ထပ်ကို ဖန်ဆင်းတော်မူခဲ့၏။ စင်စစ်သော်ကား ငါအရှင်မြတ်သည် အဖန်ဆင်းခံတို့ကို လျစ်လျူရှုထားတော်မူသောအရှင် မဟုတ်ပေ။

وَأَنزَلْنَا مِنَ السَّمَاءِ مَاءً بِقَدَرٍ فَأَسْكَنَّاهُ فِي الْأَرْضِ ۖ وَإِنَّا عَلَىٰ ذَهَابٍ بِهِ لَقَادِرُونَ ﴿١٨﴾

၁၈။ ထို့ပြင် ငါအရှင်မြတ်သည် မိုးကောင်းကင်မှ (မိုး)ရေကို (သင့်တော်သော) အတိုင်းအတာ ချိန်ဆ ချက်နှင့်တကွ ရွာသွန်းစေတော်မူခဲ့၏။ တစ်ဖန် ငါ အရှင်မြတ်သည်ထို(မိုး)ရေကို ပထဝီမြေဝယ် ရပ်တည် စေတော်မူခဲ့၏။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ထို(မိုး)ရေကို ပပျောက်စေခြင်းငှာ တတ်စွမ်းနိုင်တော် မူသောအရှင်လည်း ဖြစ်တော်မူပေသည်။

فَأَنشَأْنَا لَكُم بِهِ جَنَّاتٍ مِّن نَّخِيلٍ وَأَعْنَابٍ لَّكُمْ فِيهَا فَوَاكِهُ كَثِيرَةٌ وَمِنْهَا تَأْكُلُونَ ﴿١٩﴾

၁၉။ ထို့နောက် ငါအရှင်မြတ်သည် ထို(မိုး)ရေဖြင့် အသင်တို့အဖို့ စွန်ပလွံခြံများကို လည်းကောင်း၊ စပျစ်ခြံများကိုလည်းကောင်း၊ ပေါက်ရောက်စေတော် မူခဲ့၏။ အသင်တို့အဖို့ယင်းခြံများတွင် မြောက်မြားစွာ သော သစ်သီးဝလံများသည်ရှိ၏။ ထို့ပြင် အသင်တို့ သည် ယင်းခြံများမှ စားသုံးကြကုန်၏။

وَشَجَرَةً تَخْرُجُ مِن طُورِ سَيْنَاءَ تَنبُتُ بِالدُّهْنِ وَصِبْغٍ لِّلْآكِلِينَ ﴿٢٠﴾

၂၀။ ထိုမှတပါး(ငါအရှင်မြတ်သည်) သံလွင်ပင် ခေါ်သစ်ပင်တစ်မျိုးကိုလည်း (ပေါက်ရောက်စေတော်မူခဲ့ ၏)။ ထိုသစ်ပင်သည်သိနတောင်၌ ပေါက်ရောက်လေ့ ရှိသည်၊ ထိုသစ်ပင်သည် ဆီကိုလည်းကောင်း၊ စားသုံး သူတို့အဖို့ ဟင်းလျာကိုလည်းကောင်း၊ ထွက်စေသည်။

وَإِنَّ لَكُمْ فِي الْأَنْعَامِ لَعِبْرَةً ۖ نُّسْقِيكُم مِّمَّا فِي بُطُونِهَا وَلَكُمْ فِيهَا مَنَافِعُ كَثِيرَةٌ وَمِنْهَا تَأْكُلُونَ ﴿٢١﴾

၂၁။ ထိုမှတပါး ဧကန်စင်စစ်အသင်တို့အဖို့ ခြေ လေးချောင်းတိရစ္ဆာန်(များဖြစ်သောကုလားအုတ်၊ နွား၊ သိုး၊ ဆိတ်တို့)တွင် ဆင်ခြင်သုံးသပ်ရန် အချက်သည် အမှန်ပင်ရှိပေသည်။ငါအရှင်မြတ်သည် အသင်တို့အား ၎င်းတို့၏ဝမ်းတွင်း၌ရှိသော (နို့ရည်)ကို တိုက်ကျွေး တော်မူပေသည်။ ထို့ပြင် အသင်တို့အဖို့ ၎င်းတို့တွင် များစွာသော အကျိုးကျေးဇူးများသည်လည်း ရှိလေ သည်။ ထို့ပြင် တစ်ဝ အသင်တို့သည် ၎င်းတို့အနက်မှ စားသုံးကြလေသည်။

وَعَلَيْهَا وَعَلَى الْفُلْكِ تُحْمَلُونَ ﴿٢٢﴾

၂၂။ ထိုမှတပါးအသင်တို့သည် ယင်းတိရစ္ဆာန်များ ပေါ်၌လည်းကောင်း၊ သင်္ဘောများပေါ်၌လည်းကောင်း၊ စီးနင်း(သွားလာ တင်ဆောင်)ကြကုန်သတည်း။

وَلَقَدْ أَرْسَلْنَا نُوحًا إِلَىٰ قَوْمِهِ فَقَالَ يَا قَوْمِ اعْبُدُوا اللَّهَ مَا لَكُمْ مِنْ إِلَٰهٍ غَيْرُهُ ۖ أَفَلَا تَتَّقُونَ ﴿٢٣﴾

၂၃။ ၎င်းပြင် အမှန်စင်စစ် ငါအရှင်မြတ်သည် (နဗီတမန်တော်)နူဟ်အား ၎င်း၏အမျိုးသားတို့ထံ စေလွှတ်တော်မူခဲ့၏။ ထိုအခါ ထိုနူဟ်က အို-ငါ၏ အမျိုးသားတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ် အားသာလျှင် ခဝပ်ကိုးကွယ်ကြလေကုန်၊

ထိုအရှင်မြတ်မှတပါးအသင်တို့၌ ကိုးကွယ်ရာ အရှင်ဟူ၍အလျှင်းမရှိပြီ၊ သို့ပါလျက် အသင်တို့သည် (အခြားအရာများကို) ထိုအရှင်မြတ်နှင့်တွဲဖက်နိုင်းယှဉ် ကိုးကွယ်ခြင်းမှ မကြောက်ရွံ့ကြလေသလော။

فَقَالَ الْمَلَأُ الَّذِينَ كَفَرُوا مِنْ قَوْمِهِ مَا هَٰذَا إِلَّا بَشَرٌ مِثْلُكُمْ يُرِيدُ أَنْ يَتَفَضَّلَ عَلَيْكُمْ وَلَوْ شَاءَ اللَّهُ لَأَنْزَلَ مَلَائِكَةً مَا سَمِعْنَا بِهَٰذَا فِي آبَائِنَا الْأَوَّلِينَ ﴿٢٤﴾

၂၄။ ထိုအခါ ထိုနူဟ်၏ အမျိုးသားတို့အနက် မယုံမကြည် သွေဖည်ငြင်းပယ်ကြကုန်သော အကြီး အကဲတို့က (အချင်းတို့၊) ဤနူဟ်သည် အသင်တို့ ကဲ့သို့ပင် လူသားတစ်ဦးသာလျှင် ဖြစ်ပေသည်။ ၎င်းသည် အသင်တို့ထက် ကြီးကဲမြင့်မြတ်ရန် ကြံရွယ် နေခြင်းပင် ဖြစ်ချေသည်။

စင်စစ် အကယ်၍သာ အလ္လာဟ်အရှင်မြတ် သည် (ကျွန်ုပ်တို့အား တရားလမ်းမှန်သို့ရောက်စေရန်) အလိုရှိတော်မူခဲ့ပါလျှင် ကောင်းကင်တမန်များကိုသာ စေလွှတ်တော်မူခဲ့ပေမည်။ ကျွန်ုပ်တို့သည် ဤ(တစ်ဆူ တည်းသော ကိုးကွယ်ရာအရှင်ဟူသော) စကားကို မိမိတို့ ရှေးသူဟောင်းများဖြစ်သော ဘိုးဘေး တို့ထံမှ (တစ်ခါဘူးမျှပင်) မကြားခဲ့ဘူးကြချေ။

إِنْ هُوَ إِلَّا رَجُلٌۢ بِهِۦ جِنَّةٌ فَتَرَبَّصُوا۟ بِهِۦ حَتَّىٰ حِينٍ ﴿٢٥﴾

၂၅။ (စစ်စစ်) ဤနူဟ်သည် ရူးသွပ်ခြင်း(ဝေဒနာ စွဲကပ်လျက်)ရှိသော သူ(ရူး)တစ်ဦးမျှပင် ဖြစ်ပေရာ အသင်တို့သည်၎င်းနှင့်ပတ်သက်၍ ကာလအတန်ကြာ သည့်တိုင်အောင်စောင့်မျှော်(၍သာကြည့်နေ)ကြလေကုန်။

قَالَ رَبِّ ٱنصُرْنِى بِمَا كَذَّبُونِ ﴿٢٦﴾

၂၆။ ထို(နဗီတမန်တော်)နူဟ်က အို-ကျွန်တော်မျိုး အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ၎င်းတို့ သည် ကျွန်တော်မျိုးအား မဟုတ်မမှန်ဟူ၍ ငြင်းပယ် ခဲ့ကြသောကြောင့် အရှင်မြတ်သည် ကျွန်တော်မျိုးအား ကူညီစောင်မတော်မူပါဟု လျှောက်ထား အသနားခံ ခဲ့လေသည်။

فَأَوْحَيْنَآ إِلَيْهِ أَنِ ٱصْنَعِ ٱلْفُلْكَ بِأَعْيُنِنَا وَوَحْيِنَا فَإِذَا جَآءَ أَمْرُنَا وَفَارَ ٱلتَّنُّورُ ۙ فَٱسْلُكْ فِيهَا مِن كُلٍّ زَوْجَيْنِ ٱثْنَيْنِ وَأَهْلَكَ إِلَّا مَن سَبَقَ عَلَيْهِ ٱلْقَوْلُ مِنْهُمْ ۖ وَلَا تُخَـٰطِبْنِى فِى ٱلَّذِينَ ظَلَمُوٓا۟ ۖ إِنَّهُم مُّغْرَقُونَ ﴿٢٧﴾

၂၇။ ထိုအခါ ငါအရှင်မြတ်သည် ထို (နဗီတမန် တော်)နူဟ်၏ထံသို့ (ဤသို့) "ဝဟ်ယ်" အမိန့်တော် ထုတ်ပြန်တော်မူခဲ့၏။ (အို-နူဟ်၊) အသင်သည် ငါအရှင်မြတ်၏ အမိန့်တော်အရ ငါအရှင်မြတ်၏ မျက်စိအောက်တွင် သင်္ဘောကို ပြုလုပ် တည်ဆောက် ပါလေ။ ထို့နောက်ငါအရှင်မြတ်၏အမိန့်တော် ရောက် ရှိလာ၍ မုံ့ဖိုသည် ဆူပွက်လာသောအခါ အသင်သည် (တိရစ္ဆာန်) အမျိုးအစား အသီးသီးတို့မှ တစ်စုံစီကို လည်းကောင်း၊ အသင်၏ အိမ်သူအိမ်သားတို့အနက် အမိန့်တော် ထုတ်ပြန်ပြီး ဖြစ်သောသူမှတပါး ကျန် အိမ်သူအိမ်သားတို့ကိုလည်းကောင်း၊ ထိုသင်္ဘော(ပေါ်) တွင်တင်ဆောင်ပါလေ။ သို့ရာတွင်(မိမိတို့ ကိုယ်ကို မိမိတို့ပင်) နှိပ်စက်ကလူပြုကြကုန်သော သူတို့နှင့် ပတ်သက်၍မူကား အသင်သည်ငါအရှင်မြတ် အထံ တော်တွင်(တစ်စုံတစ်ရာကို) လျှောက်ထား ပန်ကြား ခြင်းကိုမပြုလေနှင့်။ ဧကန်မလွဲ၎င်းတို့သည် နစ်မြုပ်စေ ခြင်းခံကြရမည့်သူများပင် ဖြစ်ကြကုန်သည်။

فَإِذَا اسْتَوَيْتَ أَنتَ وَمَن مَّعَكَ عَلَى الْفُلْكِ فَقُلِ الْحَمْدُ لِلَّهِ الَّذِي نَجَّانَا مِنَ الْقَوْمِ الظَّالِمِينَ ﴿٢٨﴾

၂၈။ တစ်ဖန် အသင်နှင့်တကွ အသင်နှင့်အတူ (လိုက်ပါကြကုန်သော)အဖော်များပါ သင်္ဘောပေါ်တွင် ကျနစွာ ထိုင်ပြီးကြသောအခါ အသင်သည် "ချီးမွမ်းထောပနာ အပေါင်းတို့သည် ကျွန်တော်မျိုးတို့အား မတရားသဖြင့် နှိပ်စက်ကြကုန်သော အမျိုးသားတို့(၏ဘေးအန္တရာယ်)များမှ ကင်းလွတ်စေတော်မူသော အလ္လာဟ်အရှင်မြတ်သည်သာလျှင် ခံယူထိုက်တော်မူပါသည်" ဟု ရွတ်ဆိုပါလေ။

وَقُل رَّبِّ أَنزِلْنِي مُنزَلًا مُّبَارَكًا وَأَنتَ خَيْرُ الْمُنزِلِينَ ﴿٢٩﴾

၂၉။ ထို့မှတပါးအသင်သည် (သင်္ဘောပေါ်မှ ဆင်းသောအခါ)"အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊အရှင်မြတ်သည် ကျွန်တော်မျိုးအား ကျက်သရေမင်္ဂလာနှင့်ပြည့်စုံစွာ၊ ပြည့်စုံသောနေရာသို့ ဆင်းသက်စေတော်မူပါ။ စင်စစ် အရှင်မြတ်သည် အကောင်းဆုံးသောဆင်းသက်စေတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပါသည်" ဟု လျှောက်ထားပန်ကြားပါလေ။

إِنَّ فِي ذَٰلِكَ لَآيَاتٍ وَإِن كُنَّا لَمُبْتَلِينَ ﴿٣٠﴾

၃၀။ ဧကန်မလွဲ ဤသည့်(အတ္တုပ္ပတ္တိ အကြောင်း)တွင် (အလ္လာဟ်အရှင်မြတ်၏ များစွာသော)သက်သေလက္ခဏာများသည် ရှိကြပေသည်။ ၎င်းပြင် ဧကန်စင်စစ် ငါအရှင်မြတ်သည် စမ်းသပ်တော်မူမည့်အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

ثُمَّ أَنشَأْنَا مِن بَعْدِهِمْ قَرْنًا آخَرِينَ ﴿٣١﴾

၃၁။ ထို့နောက်ငါအရှင်မြတ်သည် ၎င်းတို့၏နောက်တွင် အခြားမျိုးနွယ်ကို ဖန်ဆင်းတော်မူခဲ့၏။

فَأَرْسَلْنَا فِيهِمْ رَسُولًا مِّنْهُمْ

၃၂။ တစ်ဖန် ငါအရှင်မြတ်သည် ထိုမျိုးနွယ်တွင် ၎င်းတို့အနက်မှပင် ရစူလ် တမန်တော်တစ်ပါးကို စေလွှတ်တော်မူ(၍ ဤသို့မိန့်မှာတော်)မူခဲ့၏။

اَنِ اعْبُدُوا اللّٰهَ مَا لَكُمْ مِّنْ اِلٰهٍ غَيْرُهٗ ۭ اَفَلَا تَتَّقُوْنَ ﴿٣٢﴾

အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား သာလျှင် ခဝပ်ကိုးကွယ်ကြလေကုန်။ ထိုအရှင်မြတ်မှ တပါး အသင်တို့အဖို့ ခဝပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိပြီ၊ သို့ပါလျက် အသင်တို့သည် မကြောက်ရွံ့ ကြလေသလော။

وَقَالَ الْمَلَاُ مِنْ قَوْمِهِ الَّذِيْنَ كَفَرُوْا وَكَذَّبُوْا بِلِقَاۗءِ الْاٰخِرَةِ وَاَتْرَفْنٰهُمْ فِي الْحَيٰوةِ الدُّنْيَا ۙ مَا هٰذَآ اِلَّا بَشَرٌ مِّثْلُكُمْ ۙ يَاْكُلُ مِمَّا تَاْكُلُوْنَ مِنْهُ وَيَشْرَبُ مِمَّا تَشْرَبُوْنَ ﴿٣٣﴾

၃၃။ ၎င်းပြင် ထိုရစူလ်တမန်တော်၏ အမျိုးသားတို့ အနက် အကြင်အကြီးအကဲတို့သည် မယုံမကြည် သွေဖည် ငြင်းပယ်ခဲ့ကြ၏။ ၎င်းပြင် တမလွန်ဘဝနှင့် တွေ့ကြုံ ရင်ဆိုင်ရမည်ကိုလည်း မဟုတ်မမှန်ဟူ၍ ငြင်းဆိုခဲ့ကြသေး၏။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုသူတို့အား (ဤမျက်မှောက်) လောကီဘဝတွင် စည်းစိမ်ချမ်းသာကိုလည်း ပေးတော်မူခဲ့၏။ ၎င်းတို့က (မိမိတို့ အမျိုးသားတို့အား-အချင်းတို့၊) ဤသူသည် အသင်တို့ကဲ့သို့ပင် လူသားတစ်ဦးမျှဖြစ်၏။ ၎င်းသည် အသင်တို့ စားသုံးကြကုန်သောအရာများကို စားသုံး လေသည်။ ၎င်းပြင် အသင်တို့ သောက်ကြကုန်သော အရာများကိုပင် သောက်သုံးလေသည်ဟု ပြောဆိုခဲ့ကြ ကုန်၏။

وَلَئِنْ اَطَعْتُمْ بَشَرًا مِّثْلَكُمْ ۙ اِنَّكُمْ اِذًا لَّخٰسِرُوْنَ ﴿٣٤﴾

၃၄။ အကယ်၍ အသင်တို့သည် မိမိတို့ကဲ့သို့သော လူသားတစ်ဦး(၏အမိန့်ကို လိုက်နာခဲ့ကြသည်ရှိသော် ဧကန်မလွဲ အသင်တို့သည် ဆုံးရှုံးသူများသာလျှင် ဖြစ်ကြပေမည်။

اَيَعِدُكُمْ اَنَّكُمْ اِذَا مِتُّمْ وَكُنْتُمْ تُرَابًا وَّعِظَامًا اَنَّكُمْ مُّخْرَجُوْنَ ﴿٣٥﴾

၃၅။ ၎င်းက အသင်တို့ သေဆုံးကြပြီးနောက် မြေကြီးဖြစ်၍အရိုးများသာကျန်သောအခါ ဧကန်အမှန် အသင်တို့သည် (သင်္ချိုင်းတွင်းမှ) ပြန်ထွက်ကြရမည့် သူများ ဖြစ်ကြသည်ဟု) အသင်တို့အား ပြောဆိုသည် မဟုတ်လော။

هَيْهَاتَ هَيْهَاتَ لِمَا تُوعَدُونَ ﴿٣٦﴾

၃၆။ ဝေးလေစွ၊ ဝေးလေစွ၊ အသင်တို့ ပြောဆိုခြင်း ခံကြရသောကတိစွသည် အလျှင်း မဖြစ်နိုင်ပြီ။

إِنْ هِيَ إِلَّا حَيَاتُنَا الدُّنْيَا نَمُوتُ وَنَحْيَا وَمَا نَحْنُ بِمَبْعُوثِينَ ﴿٣٧﴾

၃၇။ အသက်ရှင်ခြင်းဟူသည်ကျွန်ုပ်တို့၏ လောကီဘဝ၌ အသက်ရှင်ခြင်း မှတစ်ပါး အခြားမရှိပြီ။ ကျွန်ုပ်တို့(အနက် အချို့)သည် သေဆုံးကြလေသည်။ ထိုနည်းတူစွာ ကျွန်ုပ်တို့(အနက် အချို့)မှာ အသက်ရှင်လျက် ရှိနေကြပေသည်။ သို့ရာတွင် ကျွန်ုပ်တို့သည် ရှင်ပြန်ထကြရမည့်သူများ အလျှင်းမဟုတ်ပြီ။

إِنْ هُوَ إِلَّا رَجُلٌ افْتَرَىٰ عَلَى اللَّهِ كَذِبًا وَمَا نَحْنُ لَهُ بِمُؤْمِنِينَ ﴿٣٨﴾

၃၈။ ဤသူသည် အလ္လာဟ် အရှင်မြတ်အပေါ်၌ မဟုတ်မမှန်မုသားစကားကို လီဆယ်ပြောဆိုသူတစ်ဦး မျှဖြစ်ပေရာ ကျွန်ုပ်တို့သည် ၎င်းအား ယုံကြည်မည့်သူ အလျှင်း မဟုတ်ကြချေ။

قَالَ رَبِّ انْصُرْنِي بِمَا كَذَّبُونِ ﴿٣٩﴾

၃၉။ (ထိုအခါ) ထိုရစူလ်တမန်တော်က အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူသောအရှင်မြတ်၊ ၎င်းတို့သည် ကျွန်တော်မျိုးအားမဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြပေရာ၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား ကူညီစောင်မတော်မူပါဟု လျှောက်ထားပန်ကြားခဲ့လေသည်။

قَالَ عَمَّا قَلِيلٍ لَيُصْبِحُنَّ نَادِمِينَ ﴿٤٠﴾

၄၀။ (ထိုအခါ) ထိုအရှင်မြတ်က (အို-နဗီတမန်တော်)၎င်းတို့သည် အမှန်ပင်မကြာမြင့်မီကာလအတွင်း နောင်တရမည့်သူများ ဖြစ်ကြသည်(ဟု မိန့်ကြားတော်မူခဲ့လေ၏။)

فَأَخَذَتْهُمُ الصَّيْحَةُ بِالْحَقِّ فَجَعَلْنَاهُمْ غُثَاءً ۚ فَبُعْدًا لِلْقَوْمِ

၄၁။ ထို့နောက် အလွန်ပြင်းထန် ကျယ်လောင်စွာသောအသံသည် မှန်ကန်သော ချိန်းဆိုချက်နှင့်အညီ ၎င်းတို့အား ဖမ်းဆီးကွပ်မျက်ခဲ့လေသည်။ ထိုအခါငါအရှင်မြတ်သည် ၎င်းတို့အား အမှိုက်သရိုက်များ (ကဲ့သို့) ချေမှုန်းတော်မူခဲ့၏။

الظّٰلِمِيْنَ ﴿٤١﴾

သို့ဖြစ်ပေရာ မတရားကျူးလွန်သော (ထို)အမျိုးသားတို့မှာ(ကရုဏာတော်မှ) ကင်းဝေးခဲ့ကြရကုန်သတည်း။

ثُمَّ اَنْشَاْنَا مِنْۢ بَعْدِهِمْ قُرُوْنًا اٰخَرِيْنَ ﴿٤٢﴾

၄၂။ ထို့နောက် ငါအရှင်မြတ်သည် ၎င်းတို့၏ နောက်တွင် အခြားသော မျိုးနွယ်တို့ကို ဖန်ဆင်းတော်မူခဲ့၏။

مَا تَسْبِقُ مِنْ اُمَّةٍ اَجَلَهَا وَمَا يَسْتَاْخِرُوْنَ ﴿٤٣﴾

၄၃။ မည်သည့်အုပ်စုမျှပင် မိမိတို့နှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော အချိန်ကာလထက် စောနိုင်သည်လည်း မဟုတ်ပေ။ နောက်ကျနိုင်သည်လည်း မဟုတ်ချေ။

ثُمَّ اَرْسَلْنَا رُسُلَنَا تَتْرَا ۗ كُلَّمَا جَآءَ اُمَّةً رَّسُوْلُهَا كَذَّبُوْهُ فَاَتْبَعْنَا بَعْضَهُمْ بَعْضًا وَّجَعَلْنٰهُمْ اَحَادِيْثَ ۚ فَبُعْدًا لِّقَوْمٍ لَّا يُؤْمِنُوْنَ ﴿٤٤﴾

၄၄။ ထို့နောက် ငါအရှင်မြတ်သည် မိမိရစူလ်တမန်တော်များအားတစ်ပါးပြီးတစ်ပါး စေလွှတ်တော်မူခဲ့၏။ မည်သည့်အခါမျိုးမဆို အုပ်စုတစ်စု၏ထံသို့ ၎င်း၏ ရစူလ်တမန်တော်သည် (ပွင့်)ရောက်ခဲ့ပါလျှင် ယင်းအုပ်စုသည်ထိုရစူလ်တမန်တော်အား မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြသည်သာ။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့အား တစ်ဦး၏နောက်သို့ တစ်ဦးကို လိုက်စေတော်မူခဲ့၏။ ထို့ပြင်ငါအရှင်မြတ်သည် ၎င်းတို့အား(တရားရဖွယ်ရာအကြောင်းများ) ပြုလုပ်တော်မူခဲ့၏။ သို့ဖြစ်ပေရာ သက်ဝင်ယုံကြည်ခြင်း မရှိသော သူတို့သည် (ကရုဏာတော်မှ) ကင်းဝေးခဲ့ကြရလေသတည်း။

ثُمَّ اَرْسَلْنَا مُوْسٰى وَاَخَاهُ هٰرُوْنَ ۙ بِاٰيٰتِنَا وَسُلْطٰنٍ مُّبِيْنٍ ﴿٤٥﴾

၄၅။ ထို့နောက်ငါအရှင်မြတ်သည် (နဗီတမန်တော်) မူစာအားလည်းကောင်း၊ ထို (နဗီတမန်တော်)မူစာ၏ နောင်တော်(နဗီတမန်တော်)ဟာရုန်အားလည်းကောင်း၊ မိမိ အမိန့်ပညတ်တော်များနှင့် ထင်ရှားလှစွာသော သက်သေသာဓကနှင့်တကွ စေလွှတ်တော်မူခဲ့၏။

إِلَىٰ فِرْعَوْنَ وَمَلَإِيهِۦ فَٱسْتَكْبَرُوا۟ وَكَانُوا۟ قَوْمًا عَالِينَ ﴿٤٦﴾

၄၆။ ဖစ်ရ်အောင်န်၏ထံသို့လည်းကောင်း၊ ထိုဖစ်ရ်အောင်န်၏မှူးမတ်တို့ထံသို့လည်းကောင်း၊ သို့ရာတွင် ၎င်းတို့သည် မောက်မာခဲ့ကြကုန်၏။ စင်စစ် ၎င်းတို့သည် (ရှေးဦးမဆွကပင်) မောက်မာသူများ ဖြစ်ခဲ့ကြကုန်၏။

فَقَالُوٓا۟ أَنُؤْمِنُ لِبَشَرَيْنِ مِثْلِنَا وَقَوْمُهُمَا لَنَا عَـٰبِدُونَ ﴿٤٧﴾

၄၇။ သို့အတွက်ကြောင့်ပင် ၎င်းတို့သည် (ဤသို့) ပြောဆိုခဲ့ကြကုန်၏။ ကျွန်ုပ်တို့သည် မိမိတို့ကဲ့သို့သော လူသားနှစ်ဦးကိုပင် ယုံကြည်ကြရမည်လော။ စင်စစ်သော်ကား ၎င်းတို့နှစ်ဦး၏ အမျိုးသားတို့မှာ ကျွန်ုပ်တို့၏လက်အောက်ခံ ကျေးကျွန်များပင် ဖြစ်ကြကုန်၏။

فَكَذَّبُوهُمَا فَكَانُوا۟ مِنَ ٱلْمُهْلَكِينَ ﴿٤٨﴾

၄၈။ အချုပ်မှာ ၎င်းတို့သည် ထို(နဗီတမန်တော်) မူစာနှင့် (နဗီတမန်တော်)ဟာရူန်၊ နှစ်ပါးစလုံးကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ယင်း(ဖစ်ရ်အောင်န်နှင့် မှူးမတ်)တို့သည် ပျက်စီးခဲ့ကြရကုန်သည်။

وَلَقَدْ ءَاتَيْنَا مُوسَى ٱلْكِتَـٰبَ لَعَلَّهُمْ يَهْتَدُونَ ﴿٤٩﴾

၄၉။ အမှန်သော်ကား (ဖစ်ရ်အောင်န်နှင့် ၎င်း၏မှူးမတ်များ သေကြေပျက်စီးကြပြီးနောက်) ငါအရှင်မြတ်သည် တမန်တော်မူစာအား တောင်ရာတ်ကျမ်းဂန်ကို ချီးမြှင့်ပေးသနားတော်မူခဲ့လေသည်။ သို့မှသာလျှင် (တမန်တော်မူစာ၏) ယင်းအစ္စရာအီလီအမျိုးသားများ တရားလမ်းမှန်ကိုရရှိကြပေမည်။ [၁]

---

(၁) **တမန်တော်မူစာနှင့် ဖစ်ရ်အောင်န်**

အလ္လာဟ်အရှင်မြတ်သည် တမန်တော် မူစာနှင့် တမန်တော်ဟာရုန် ညီနောင်နှစ်ပါးတို့အား ထင်ရှားသော သက်သေလက္ခဏာနှင့် အမိန့်ပညတ်တော်များကို ချီးမြှင့်၍ ဖစ်ရ်အောင်န်နှင့် ၎င်း၏မှူးမတ်များထံသို့ စေလွှတ်တော်မူခဲ့လေသည်။ ဖစ်ရ်အောင်န်နှင့် ၎င်း၏မှူးမတ်များသည် အာဏာဂုဏ်၊ဥစ္စာဂုဏ် မောက်မာလျက် ရှိခဲ့ကြ၏။ အစ္စရာအီလီမျိုးနွယ်ဝင်များအား အထင်အမြင်သေးလျက် ရှိခဲ့ကြ၏။ အစ္စရာအီလီမျိုးနွယ်ဝင် ➢➢

وَجَعَلْنَا ابْنَ مَرْيَمَ وَأُمَّهُ آيَةً وَآوَيْنَاهُمَا إِلَىٰ رَبْوَةٍ ذَاتِ قَرَارٍ وَمَعِينٍ ﴿٥٠﴾

၅၀။ စင်စစ် ငါအရှင်မြတ်သည် မရ်ယမ်၏သား တော်(အီစာ)နှင့် ထိုသားတော်၏မယ်တော် (မရ်ယမ်) အား ကြီးကျယ်သော သက်သေလက္ခဏာတော်တစ်ပါး ပြုလုပ်တော်မူခဲ့၏။ ထိုမှတပါး ငါအရှင်မြတ်သည် ထိုသားအမိနှစ်ပါးစလုံးကို တည်းခိုရန် သင့်လျော်၍ စိုပြည်သော၊ စီးတွေသောရေများလည်းရှိသော ကမူ၌ ခိုလှုံစေတော်မူခဲ့၏။ [၁]

---

➤➤ ဖြစ်သော တမန်တော်ညီနောင်နှစ်ပါးတို့အားလည်း အထင်အမြင်သေးလျက်ပင် ရှိခဲ့ကြ၏။ တမန်တော်များသည် လူသား မဖြစ်နိုင်ဟူ၍လည်း ယူဆလျက်ရှိခဲ့ကြ၏။

သို့အထင်အမြင်သေး၊ အထင်အမြင်မှားနေခဲ့ကြသည့်အတွက် ဖစ်ရ်အောင်န်နှင့် ၎င်း၏မျိုးမတ်များသည် တမန်တော်မူစာနှင့် တမန်တော်ဟာရုန်တို့အား သွေဖည်ငြင်းဆန်ခဲ့ကြလေသည်။ နောက်ဆုံးတွင် ဖစ်ရ်အောင်န်နှင့်တကွ ၎င်း၏နောက်ပါများသည် ကွပ်မျက်ဖျက်ဆီးခြင်း ခံခဲ့ကြရလေသည်။ ယင်းသို့ ဖစ်ရ်အောင်န်နှင့် ၎င်း၏နောက်ပါများ ကွပ်မျက်ခြင်းခံကြရပြီးနောက် အစ္စရာအီလီ မျိုးနွယ်ဝင်များ လွတ်မြောက်လာကြသည့်အခါ၊ ၎င်းတို့ တရားဓမ္မရကြရန် အလို့ငှာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာအား တောင်ရာတ်ကျမ်းကို ချီးမြှင့်တော်မူခဲ့လေသည်။

ဤအာယတ်တော်တွင် (لعلهم) "လအလ္လဟုမ်"၌ 'ဟုမ်' ဟူသော နာမ်စားသည် ဖစ်ရ်အောင်န်နှင့် မျိုးမတ်များအား ရည်ညွှန်းသည်မဟုတ်၊ အစ္စရာအီလီမျိုးနွယ်များအား ရည်ညွှန်းသည်။ အဘယ်ကြောင့်ဆိုသော် တောင်ရာတ်သည် ဖစ်ရ်အောင်န်နှင့် ၎င်း၏နောက်ပါများ ကွပ်မျက်ခြင်းခံကြရပြီး နောက်တွင်မှ ကျရောက်လာခဲ့ခြင်း ဖြစ်သည်။

**(၁) <u>မယ်တော် မရ်ယမ်နှင့် သားတော်အီစာ ခိုလှုံခဲ့ကြသည့်နေရာ။</u>**

ဤအာယတ်တော်တွင် "ငါအရှင်မြတ်သည် ထိုသားအမိ (နှစ်)ဦးတို့အား တည်းခိုရန် သင့်လျော်သော၊ စိုပြည်သာယာသော မြင့်သောနေရာ (ကမူ)တစ်ခု၌ ခိုလှုံစေတော်မူခဲ့သည်"ဟူ၍ လာရှိသည်။ ထိုမြင့်သောနေရာ (ကမူ)ကား အဘယ်နည်း၊

ဤကမူသည် မရ်ယမ်သခင်မ သားတော်ဖွားမြင်ရန်အတွက် သွားရောက်နေထိုင်ခဲ့သော မြေမြင့်(ကမူ) ပင်ဖြစ်တန်ရာသည်။ မရ်ယမ်သခင်မ၏ သားတော် ဖွားမြင်ခဲ့ခြင်းအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန် ကျမ်းတော်မြတ်တွင် အောက်ပါအတိုင်း လာရှိသည်။

"ထိုအခါ ထိုသူမ (မရ်ယမ်) အား ၎င်းရှိရာအောက်မှ (ထိုစွန်ပလွံပင်အောက်မှ ကောင်းကင်တမန်က) အသံပြုခဲ့သည်မှာ အသင်မသည် စိတ်မပူလေနှင့်။ ဧကန်စင်စစ် အသင်မအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အသင်မ၏အောက်၌ပင် ချောင်းတစ်ခုကို ဖြစ်စေတော်မူပြီ၊ ထိုမှတစ်ပါး အသင်မသည် စွန်ပလွံပင်၏ပင်မကို မိမိဘက်သို့ ဆွဲ၍လှုပ်ပါလေ။ စိမ်းစိုလတ်ဆတ်သော စွန်ပလွံသီးများသည် အသင်မ၏ရှေ့ဝယ် ကြွေကျလာပါလိမ့်မည်"။ ကုရ်အာန်(၁၉:၂၄-၂၅)။

ဤအာယတ်တော်ကို ဆင်ခြင်ပါက၊အဆိုပါနေရာသည် မြင့်သောနေရာဖြစ်ကြောင်း၊ ➤➤

يَآأَيُّهَا الرُّسُلُ كُلُوا مِنَ الطَّيِّبَٰتِ وَاعْمَلُوا صَٰلِحًا ۖ إِنِّي بِمَا تَعْمَلُونَ عَلِيمٌ ﴿٥١﴾

၅၁။ အို-ရစူလ်တမန်တော်အပေါင်းတို့၊ အသင်တို့သည်(ဟလာလ်)စင်ကြယ်သန့်ရှင်းသောအရာများကို စားသုံးကြလေကုန်။ ၎င်းပြင် အသင်တို့သည် ကောင်းမြတ်သောအကျင့်သီလကို ကျင့်မူဆောက်တည်ကြလေကုန်။ ^၁ ဧကန်အမှန် ငါအရှင်မြတ်သည် အသင်တို့ ကျင့်မူကြသည်တို့ကို အကြွင်းမဲ့သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

وَإِنَّ هَٰذِهِۦٓ أُمَّتُكُمْ أُمَّةً وَٰحِدَةً وَأَنَا۠ رَبُّكُمْ فَاتَّقُونِ ﴿٥٢﴾

၅၂။ ၎င်းပြင် ဧကန်မလွဲ ဤသည် အသင်တို့၏ သာသနာပင်။တစ်ခုတည်းသောသာသနာ။ ထိုမှတပါး ငါအရှင်မြတ်သည်အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ပင်ဖြစ်တော်မူပေရာ အသင်တို့သည် ငါအရှင်မြတ်အားသာလျှင် ကြောက်ရွံ့ကြလေကုန်။

---

➤➤ အောက်တွင် ချောင်း စီးတွေလျက်ရှိကြောင်း၊ အနီးတွင် စွန်ပလွံပင်ရှိကြောင်း၊ ကောင်းစွာ သိနိုင်ပေသည်။ အစ်ဗ်နုကဆီရ်ကလည်း ဤအတိုင်းပင် ဖွင့်ဆိုရေးသားထားသည်။

(၁) **ဟလာလ်ကိုစား၊ ဟရာမ်ကိုရှောင်၊ ကောင်းမြတ်သည်ကိုကျင့်။**

အလ္လာဟ်အရှင်မြတ်သည် ပွင့်လေသမျှသော တမန်တော်အပေါင်းတို့အား ဟရာမ် ဟူဟူသမျှတို့ကို ရှောင်ပြီး၊ ဟလာလ် တရားတော်အရစားသုံးပိုင်သော စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည့်အရာများကို ရှာဖွေဆည်းပူးစားသုံး၍ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ကြရန် မိန့်ကြားထားတော်မူသည်။ ပွင့်လေသမျှသော တမန်တော်အပေါင်းတို့သည်လည်း ယင်းအမိန့်တော်နှင့်အညီ အမြဲတစေ ဟလာလ် ပစ္စည်းများကိုသာ စားသုံးခဲ့ကြသည်။ ကောင်းမြတ်သော အကျင့်သီလများကိုသာ ဆောက်တည်ခဲ့ကြသည်။ မိမိတို့၏ အမျိုးသားများအားလည်း ဤအတိုင်းပင် သွန်သင်ဆုံးမသြဝါဒ ပေးခဲ့ကြသည်။

တမန်တော်များအား ညွှန်ကြားထားတော်မူသည့်အတိုင်း မုအ်မင်န်များအားလည်း ရည်ညွှန်းမိန့်ကြားထားတော်မူသည်။ ကြည့်-ကုရ်အာန်(၂း၁၇၂၊ ၅း၈၈၊ ၁၆း၁၁၄)။

တမန်တော်မြတ်၏ သြဝါဒတော်များတွင် ဟရာမ်ကို စားသောက်၊ ဝတ်ဆင်နေထိုင်သူများသည် မိမိတို့ တောင်းဆိုပန်ကြားသော ဆုပန်ကြားချက်များနှင့် စပ်လျဉ်း၍ မျှော်လင့်ချက်မထားအပ်ကြောင်း၊ ဟရာမ်နှင့် ဖြစ်ပေါ်လာသော အသားသည် ငရဲမီးနှင့်သာလျှင် ထိုက်တန်ကြောင်း လာရှိပေသည်။ ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် ဟလာလ်ကို စားသုံးခြင်းသည် ကောင်းမြတ်သောအကျင့်သီလကို ဆောက်တည်ရာတွင် အထောက်အမဖြစ်စေကြောင်း ကောင်းစွာသိရှိရပေသည်။ ကြည့်-အစ်ဗ်နုကဆီရ်၊ ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် အစားကောင်းစားခြင်း၊ အဝတ်ကောင်းဝတ်ခြင်း၊ အနေကောင်းနေခြင်းသည် အစ္စလာမ်နှင့် မဆန့်ကျင်ကြောင်း၊ အစ္စလာမ်၏ လိုလားချက်ဖြစ်ကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

၅၃။ သို့ရာတွင် ထိုနောက်လိုက်များသည် မိမိတို့ အချင်းချင်းတွင် မိမိတို့၏သာသနာကို အပိုင်းပိုင်း ပိုင်းဖြတ်(ကာ အုပ်စုအသီးသီး ဖြစ်သွား)ခဲ့ကြကုန်၏။ အုပ်စုတိုင်းသည် မိမိတို့၌ရှိသော (သာသနာ)နှင့် ပျော်ပိုက်လျက် ရှိကြကုန်၏။ [၁]

فَتَقَطَّعُوٓا۟ أَمْرَهُم بَيْنَهُمْ زُبُرًا ۖ كُلُّ حِزْبٍۭ بِمَا لَدَيْهِمْ فَرِحُونَ ﴿٥٣﴾

၅၄။ သို့ဖြစ်ပေရာ(အို-နဗီတမန်တော်)အသင်သည် ၎င်းတို့အား ၎င်းတို့၏မှောက်မှားမှု၌ပင် သတ်မှတ်ပြီး ဖြစ်သော အချိန်ကာလတိုင်အောင် စွန့်ထားပါလေ။

فَذَرْهُمْ فِى غَمْرَتِهِمْ حَتَّىٰ حِينٍ ﴿٥٤﴾

၅၅။ အသို့ပါနည်း။ ၎င်းတို့သည် ထင်မှတ်ကြလေသလော။ ငါအရှင်မြတ်သည် ၎င်းတို့အား ဥစ္စာပစ္စည်းနှင့် သားရတနာများပေးသနားတော်မူသည်မှာ၊

أَيَحْسَبُونَ أَنَّمَا نُمِدُّهُم بِهِۦ مِن مَّالٍ وَبَنِينَ ﴿٥٥﴾

၅၆။ ၎င်းတို့အား ငါအရှင်မြတ်သည် ကောင်းကျိုးများကို ဆောလျင်စွာ ပေးတော်မူသည်ဟု၊ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား ၎င်းတို့သည် မသိနားမလည်ကြချေ။

نُسَارِعُ لَهُمْ فِى ٱلْخَيْرَٰتِ ۚ بَل لَّا يَشْعُرُونَ ﴿٥٦﴾

၅၇။ ဧကန်စင်စစ် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား ကြောက်ရွံ့ရှိသေခန့်ညားမှုကြောင့် စိုးရိမ်မကင်း ဖြစ်နေကြသူတို့သည်လည်းကောင်း။

إِنَّ ٱلَّذِينَ هُم مِّنْ خَشْيَةِ رَبِّهِم مُّشْفِقُونَ ﴿٥٧﴾

---

(၁) ပွင့်လေသမျှသော တမန်တော်အပေါင်းတို့သည် တညီတညွတ်တည်း လက်ခံနာယူ ကျင့်မှုခဲ့ကြကုန်သော တစ်ခုတည်းသော သာသနာကို လူများသည် အချင်းချင်းသဘောကွဲလွဲကာ မိမိတို့အာသာဆန္ဒအရ စိတ်တိုင်းကျ၊ အစိတ်စိတ်အမြွှာမြွှာပြုလုပ်ပြီး၊ အသီးသီး "ကိုယ့်ငါးချဉ်၊ ကိုယ်ချဉ်" ဆိုသကဲ့သို့ မိမိတို့က ပြောင်းပြန် ပြုလုပ်ထားသည့် ရုပ်ပျက်ဆင်းပျက် သာသနာကို ရင်ဝယ်ပိုက်ထားကြလေသည်။ မိမိတို့၏ သာသနာမှာ အဘယ်မျှပင် မှားယွင်းနေလင့်ကစား၊ အနည်းငယ်စိုးစဉ်းမျှပင် အလျှော့မပေးလိုကြပေ။ ယင်းသို့သော သူများအား ကျိုးကြောင်းပြ၍ သွန်သင်ဆုံးမဩဝါဒ ပေးသော်လည်း ဗူးနားပင်း ရေသွင်းသကဲ့သို့ အကျိုးရှိမည် မဟုတ်ပေ။ ယင်းသို့သော သူများအား ၎င်းတို့၏ မိုက်မဲမှု၊ ဇွတ်တရွတ်မှု၊ သွေဖည်မှုတွင် လျစ်လျူရှုထားရန်သာ ရှိသည်။ [ညွှန်ရာမသွားက သွားရာသို့ ညွှန်ရန်သာရှိသည်။] နောက်ဆုံးတွင် ၎င်းတို့ထံသို့ သေခြင်းတရား ရောက်ရှိလာပေမည်။ သို့မဟုတ် အလ္လာဟ်အရှင်မြတ်ထံတော်မှ ပြစ်ဒဏ်သက်ရောက်လာပေမည်။ ထိုအခါကျမှ မျက်စိပြူးကြမည်။ သို့ရာတွင် အကျိုးရှိတော့မည် မဟုတ်ပေ။

وَالَّذِيْنَ هُمْ بِاٰيٰتِ رَبِّهِمْ يُؤْمِنُوْنَ ﴿٥٨﴾

၅၈။ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ သက်သေလက္ခဏာတော်များကို ယုံကြည်သူတို့သည် လည်းကောင်း၊

وَالَّذِيْنَ هُمْ بِرَبِّهِمْ لَا يُشْرِكُوْنَ ﴿٥٩﴾

၅၉။ မိမိတို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်နှင့် (တစ်စုံတစ်ရာကိုမျှ) တွဲဖက်နှိုင်းယှဉ် (ကိုးကွယ်)မှုကို မပြုကြသောသူတို့သည်လည်းကောင်း၊

وَالَّذِيْنَ يُؤْتُوْنَ مَآ اٰتَوْا وَّقُلُوْبُهُمْ وَجِلَةٌ اَنَّهُمْ اِلٰى رَبِّهِمْ رٰجِعُوْنَ ﴿٦٠﴾

၆၀။ အကြင်သူတို့သည်လည်းကောင်း၊ ထိုသူတို့သည် မိမိတို့ ပေးကမ်း(စွန့်ကြဲ) ကြသည်များကို ပေးကမ်း (စွန့်ကြဲ)လျက် ရှိကြငြားသော်လည်း မိမိတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် အထံတော်သို့ ပြန်သွားကြရမည် ဖြစ်သောကြောင့် ၎င်းတို့၏စိတ်နှလုံးများမှာမူကား ထိတ်လန့် စိုးရိမ်လျက် ရှိကြကုန်၏။ [၁]

اُولٰٓئِكَ يُسٰرِعُوْنَ فِى الْخَيْرٰتِ وَهُمْ لَهَا سٰبِقُوْنَ ﴿٦١﴾

၆၁။ ထိုသူတို့သည် ကောင်းမှုများကို ကြိုးပမ်းဆောင်ရွက်ကြသည် ဖြစ်ပေရာ၊ ၎င်းတို့သည်ပင်ယင်း ကောင်းကျိုးများကို ရှေးဦးစွာ ရရှိကြမည့်သူများ ဖြစ်ကြကုန်သတည်း။

(၁) **မုအ်မင်န်တို့ကား ကာဖိရ်များကဲ့သို့ မိမိတို့ကိုယ်ကို မိမိအထင်မကြီးပေ။**

အလ္လာဟ်အရှင်မြတ်အား ယုံကြည်ခန့်ညားသော၊ ထိုအရှင်မြတ်၏ ဒေသနာတော်များကို ယုံကြည်နာယူသော၊ ရှရစ်က်အမှု အစုစုကို ရှောင်ကြဉ်သော၊ ထိုအရှင်မြတ်၏လမ်းတော်၌ ပေးကမ်းလှူဒါန်းသော မုအ်မင်န်များကား မိမိတို့ကိုယ်ကိုမိမိတို့ အထင်ကြီးသော ကာဖိရ်များကဲ့သို့ မဟုတ်ကြပေ။ ထိုအရှင်မြတ်အား ယုံကြည်မြတ်နိုးပါလျက်၊ ထိုအရှင်မြတ်၏ လမ်းတော်၌ အလှူဒါနပြုကြပါလျက်၊ ငါတို့သည် တစ်ချိန်သော် ထိုအရှင်မြတ်၏ထံတော်သို့ ပြန်လည်ရောက်ကြရမည့်အရေးကိုတွေးကာ ဤပစ္စက္ခတွင် ရရှိထားသော လောကီစည်းစိမ်များ မိမိတို့၏အလှူဒါနများနှင့် စပ်လျဉ်း၍ပင် စိုးရိမ်လျက်ရှိကြပေသည်။ အထင်မကြီးကြပေ။ စိတ်မချကြပေ။ ထိုသို့သော မုအ်မင်န် သူတော်စင်များသာလျှင် ကောင်းမှုများကို သူ့ထက်ငါသာအောင် ဆည်းပူးကြပေသည်။ ဆည်းပူးသည့်အလျောက်လည်း နှစ်ဘက်စလုံးတွင် အောင်မြင်ကြပေသတည်း။ ကြည့်-ကုရ်အာန် (၃:၁၄၇)။

ဟစန်ဘဆွရီသခင်က 'မုအ်မင်န်သည် ကောင်းမှုကုသိုလ်ပြုလုပ်ပြီး နောက်တွင်လည်း စိုးရိမ်လျက်ပင်ရှိသည်။ မုနာဖစ်က်သည် မကောင်းမှုပြုလုပ်ပြီး နောက်တွင်လည်း စိတ်ချလျက်ပင်ရှိသည်' ဟု ဖွင့်ဆိုပြောကြားခဲ့သည်။

وَالَّذِيْنَ يَرْمُوْنَ اَزْوَاجَهُمْ وَلَمْ يَكُنْ لَّهُمْ شُهَدَآءُ اِلَّآ اَنْفُسُهُمْ فَشَهَادَةُ اَحَدِهِمْ اَرْبَعُ شَهٰدٰتٍۭ بِاللّٰهِ ۙ اِنَّهٗ لَمِنَ الصّٰدِقِيْنَ ⑥

၆။ ထို့ပြင် မိမိတို့၏ဇနီးကြင်ရာများအား (ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ပါသည်ဟု) စွပ်စွဲသောသူတို့သည် ၎င်းတို့၌ မိမိတို့အပြင် သက်သေများ မရှိကြလျှင် ထိုစွပ်စွဲသူတို့အနက် တစ်ဦးသည် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ မိမိသည် သစ္စာဝါဒီဖြစ်ကြောင်း လေးကြိမ်တိုင်တိုင် သက်သေထွက်ဆိုရမည်။

وَالْخَامِسَةُ اَنَّ لَعْنَتَ اللّٰهِ عَلَيْهِ اِنْ كَانَ مِنَ الْكٰذِبِيْنَ ⑦

၇။ ၎င်းပြင် ပဉ္စမအကြိမ်တွင် အကယ်၍ မိမိသည် မုသာဝါဒီဖြစ်ခဲ့မှု မိမိအပေါ်၌ အလ္လာဟ်အရှင်မြတ်၏ကျိန်ဆဲချက်သည် ကျရောက်ပါစေဟုဆိုရမည်။

وَيَدْرَؤُا عَنْهَا الْعَذَابَ اَنْ تَشْهَدَ اَرْبَعَ شَهٰدٰتٍۭ بِاللّٰهِ ۙ اِنَّهٗ لَمِنَ الْكٰذِبِيْنَ ⑧

၈။ ၎င်းပြင် ထိုဇနီးကြင်ရာသည် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ဧကန်မလွဲ ထိုယောကျာ်းသည် မုသာဝါဒီဖြစ်ကြောင်း လေးကြိမ်တိုင်တိုင် သက်သေထွက်ဆိုခြင်းသည် ထိုဇနီးကြင်ရာမှ ပြစ်ဒဏ်တော်ကို ဖယ်ရှားမည်ဖြစ်သည်။

---

⑨ **မတရားစွပ်စွဲပြောဆိုမိသူ ဝန်ချတောင်းပန်ကြသော်။**

အကယ်၍ မတရား စွပ်စွဲပြောဆိုသူများသည် ဝန်ချတောင်းပန်ကြသော်၊ မိမိတို့ကိုယ်ကို ပြုပြင်ကြသော်၊ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို သွေဖည်ငြင်းဆန် မနာခံသောသူတို့၏ စာရင်းမှ ပယ်ဖျက်ခြင်း ခံကြရပေမည်။ သို့ပင်တစေလည်း ယခင်က သူတစ်ပါးအား အရှက်တကွဲ အကျိုးနည်းဖြစ်အောင် မတရား စွပ်စွဲ ပြောဆိုမိခဲ့ကြသည့်အတွက် ၎င်းတို့၏ သက်သေထွက်ဆိုချက်များကိုမူ (မုအာမလာတ်) လူသားတို့ အချင်းချင်း ရောင်းဝယ်ရေး၊ ဆက်ဆံရေးများနှင့် အမှုအခင်းများတွင် လက်ခံတော့မည် မဟုတ်ပေ။

ဤသည် ကာသွီရှုရိုင်ဟ်၊ အစ်ဗ်ရာဟီမ်နခအီ၊ စအီဒ်အစ်ဗ်နဂျုဗိုင်ရ်၊ မာက်ဟူလ်၊ အဗ်ဒုရ်ရဟ်မာန် အစ်ဗ်နု ဇိုက်ဒ်၊ အစ်ဗ်နု ဂျာဗိရ်၊ ဟာစန်ဗဆွရီ၊ မုဟမ္မဒ် အစ်ဗ်နု စီရီန်၊ စအီဒ် အစ်ဗ်နု မုစိုင်ယိဗ်တို့၏ အဆိုတည်း။

ဒုရ်ရီမန်ဆူရ်နှင့် အစ်ဗ်နုကဆီရ် ကျမ်းများတွင်လည်း ဤအတိုင်းပင် လာရှိပေသည်။

وَالْخَامِسَةَ أَنَّ غَضَبَ اللَّهِ عَلَيْهَا إِن كَانَ مِنَ الصَّادِقِينَ ⑨

၉။ ထို့ပြင် ပဉ္စမအကြိမ်၌ အကယ်၍ ထိုယောကျ်ားသည် သစ္စာဝါဒီဖြစ်ခဲ့မူ မိမိအပေါ်၌ *အလ္လာဟ်အရှင်မြတ်၏အမျက်တော်သည် ကျရောက်ပါစေဟု ထွက်ဆိုရမည်။* [၁]

---

**(၁) မိမိတို့၏ ဇနီးမိန်းမများအား သက်သေမရှိဘဲ စွပ်စွဲသူများ၏ပြဿနာ။**

အကြင်သူသည် မိမိ၏ ဇနီးမိန်းမအား ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ပါသည်ဟု စွပ်စွဲပြောဆိုအံ့။ ထိုသို့သောသူထံမှ ပထမသော် သက်သေ(၄)ဦး တင်ပြရန်တောင်းဆိုရမည်။ အကယ်၍ ထိုသူသည် သက်သေ(၄)ဦး တင်ပြနိုင်လျှင်၊ ၎င်း၏ အစွပ်စွဲခံဇနီးမိန်းမများအား ကာမေသုမိစ္ဆာစာရမှု၏ ပြစ်ဒဏ် တပ်ရိုက်ရမည်ဖြစ်သည်။ အကယ်၍ ထိုသူသည် သက်သေ(၄)ဦး တင်မပြနိုင်လျှင် ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း (၄)ကြိမ် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ၎င်းသည် မိမိစွပ်စွဲချက်တွင် မှန်ကန်စွာပြောဆိုသူ ဖြစ်ပါသည်ဟု ထွက်ဆိုသက်သေခံရမည်။

[တစ်နည်းအားဖြင့် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ယင်းသို့(၄)ကြိမ် ထွက်ဆိုသက်သေခံခြင်းသည် သက်သေ(၄)ဦး၏အစား ဖြစ်သွားပေသည်] ယင်းသို့ လေးကြိမ်ထွက်ဆို သက်သေခံပြီးနောက် ပဉ္စမအကြိမ်တွင် "အကယ်၍ ၎င်းသည် မိမိထွက်ဆိုချက်တွင် လိမ်လည်သူဖြစ်ပါက ၎င်းအပေါ်၌ အလ္လာဟ်အရှင်မြတ်၏ "လအ်နတ်" ကျိန်ဆဲမှုသက်ရောက်ပါစေ" ဟုဆိုရမည်။

အကယ်၍ ထိုသူသည် အထက်ပါစကားရပ်များကို ဖွင့်ဟပြောဆိုခြင်းမပြုပါက အာဏာပိုင်များသည် ထိုသူအား မိမိလိမ်လည်စွပ်စွဲကြောင်း ဝန်ခံသည်အထိ၊ သို့မဟုတ် အထက်ပါ စကားများကို ပြောဆိုသည်အထိ အကျဉ်းချထားရမည်။ အကျပ်ကိုင်ရမည်။ အကယ်၍ ထိုသူသည် မိမိလိမ်လည်စွပ်စွဲကြောင်း ဝန်ခံပါက ထိုသူအား (ကုရ်အာန်ကျမ်းမြတ် ၂၄:၄ တွင် လာရှိသည့်အတိုင်း) မတရား စွပ်စွဲခြင်း၏ပြစ်ဒဏ် တပ်ရိုက်ရမည်။ အကယ်၍ ထိုသူသည် အထက်ပါစကားရပ်များကို ဖွင့်ဟပြောဆိုပါက ၎င်း၏ဇနီးမိန်းမကို ၄-ကြိမ် အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ ၎င်း၏လင်ယောကျ်ားသည် ဤစွပ်စွဲချက်တွင် လိမ်လည်ပြောဆိုသူဖြစ်ပါသည်ဟု ဖွင့်ဟပြောဆိုရန် ပြောဆိုရမည်။ ပြီးနောက် ပဉ္စမအကြိမ်တွင် အကယ်၍ ၎င်း၏ လင်ယောကျ်ားသည် ၎င်း၏စွပ်စွဲချက်တွင် မှန်ကန်စွာ ပြောဆိုသူဖြစ်ပါက မိမိအပေါ်၌ အလ္လာဟ်အရှင်မြတ်၏ "ဃဿွဗ်" အမျက်တော် သက်ရောက်ပါစေဟု ဆိုရန်ပြောဆိုရမည်။

အကယ်၍ ထိုမိန်းမသည် အဆိုပါ စကားရပ်များကို ဖွင့်ဟပြောဆိုခြင်းမပြုပါက အာဏာပိုင်များသည် ထိုမိန်းမအား မိမိ၏လင်ယောကျ်ား၏ စွပ်စွဲချက်ကို မှန်ကန်ပါသည်ဟု ဝန်ခံသည်အထိ (သို့မဟုတ်) အထက်ပါ စကားရပ်များကို ဖွင့်ဟပြောဆိုသည်အထိ အကျဉ်းချထားရမည်။ အကျပ်ကိုင်ရမည်။ အကယ်၍ ထိုမိန်းမသည် မိမိလင်ယောကျ်ား၏ စွပ်စွဲချက်ကို ဝန်ခံလိုက်သော် ထိုမိန်းမအား ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ခြင်း၏ ပြစ်ဒဏ်တပ်ရိုက်ရမည်။ အကယ်၍ ထိုမိန်းမသည် မိမိလင်ယောကျ်ား၏ စွပ်စွဲချက်ကို မှားသည်ဟု ငြင်းပယ်၍ အထက်ပါ စကားရပ်များကို ဖွင့်ဟပြောဆိုပါက ထိုဇနီးမောင်နှံနှစ်ဦးတို့အပေါ်၌ ဇနီးမောင်နှံအဖြစ် ဆက်ဆံပေါင်းသင်းမှု အစုစုတို့သည် ဟရာမ်ဖြစ်သွားချေသည်။ ထို့နောက် လင်ယောကျ်ားက မိမိ၏ ဇနီးမိန်းမအား တွလာတ် လင်ခန်း မယားခန်း ဖြတ်လိုက်ပါက ပြဿနာ ပြီးဆုံးသွားပေသည်။ သို့မဟုတ်လျှင် ➤➤

وَلَوْلَا فَضْلُ اللّٰهِ عَلَيْكُمْ وَرَحْمَتُهٗ وَاَنَّ اللّٰهَ تَوَّابٌ حَكِيْمٌ ﴿١٠﴾

၁၀။ စင်စစ်သော်ကား အကယ်၍သာ အသင်တို့ အပေါ်ဝယ် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်သည် လည်းကောင်း၊ ထိုအရှင်မြတ်၏ ကရုဏာတော်သည် လည်းကောင်း၊ မရှိခဲ့လျှင် (အမှန်ကိုပေါ်လွင်စေတော်မူခဲ့မည်သာ။) သို့ရာတွင် ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်မှာမူကား တောင်းပန်ဝန်ခံချက်ကို အလွန်တရာ လက်ခံတော်မူသောအရှင်၊ အလွန်တရာ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေရာ အသင်တို့အား ဝန်ချတောင်းပန်နိုင်ကြရန် အလို့ငှာ အခွင့်အရေး ပေးတော်မူခြင်းပင် ဖြစ်ပေသတည်း။ [၁]

---

➤➤ "ကာသျှိ တရားသူကြီး" က ထိုဇနီးမောင်နှံ နှစ်ဦးတို့အား ထိုဇနီးမောင်နှံနှစ်ဦး မနှစ်သက်ကြလင့်ကစား "ကျွန်ုပ်သည် ဤဇနီးမောင်နှံနှစ်ဦးတို့အား တဖိရီက် ခွဲပစ်လိုက်ပြီ" ဟုဆိုကာ ခွဲပစ်လိုက်ရပေမည်။ ယင်းသို့ တရားသူကြီး၏ "တဖိရီက်" ခွဲပေးလိုက်ခြင်းသည် "တွာလာက်ဗာအင်န်" ၏သဘော သက်ရောက်ပေသည်။

**မှတ်ချက်။**

လင်ယောကျ်ားက မိမိ၏ဇနီးအား ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ပါသည်ဟု စွပ်စွဲပြီး သက်သေမထူနိုင်သည့် အဆုံးတွင် ဇနီးမောင်နှံနှစ်ဦး အချင်းချင်း အပြန်အလှန် မင်္ဂလာစကား ပြောဆိုခြင်းကို "လိအာန်" ဟု ခေါ်သည်။ "လိအာန်" သည် မိမိတို့၏ ဇနီးမိန်းမများအား ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ပါသည် ဟူ၍ စွပ်စွဲခြင်းနှင့်သာလျှင် သက်ဆိုင်သည်။ အပြစ်ကင်းသော အခြားအမျိုးသမီးတို့အား စွပ်စွဲခြင်း၏အပြစ်မှာ ကုရ်အာန် (၂၄း၄) တွင်ပါရှိသည့် အတိုင်းပင်ဖြစ်သည်။

(၁) **"လိအာန်"၏ ကျေးဇူး။**

အကယ်၍သာ "လိအာန်" ပြုလုပ်ပိုင်ခွင့်မရှိပါက လင်ယောကျ်ားတစ်ဦးသည် မိမိ၏ဇနီးမိန်းမအား ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ပါသည်ဟု စွပ်စွဲပြောဆိုခဲ့သော်၊ ထို့နောက် သက်သေ(၄)ဦး တင်မပြနိုင်သော် မိမိ၏ စွပ်စွဲချက်မှာ အမှန်ဖြစ်ပါလျက်နှင့်ပင် မတရားစွပ်စွဲခြင်း၏ ပြစ်ဒဏ်တပ်ရိုက်ခြင်း ခံရမည်ဖြစ်သည်။ တစ်ဖန် ဇနီးမိန်းမ၌ ကာမေသုမိစ္ဆာစာရမှု ဖြစ်ပေါ်ခဲ့သည်မှာ အမှန်ဖြစ်ပါလျက်နှင့် သက်သေမရှိသည့်အတွက် ထုတ်ဖော်စွပ်စွဲခြင်းမပြုဘဲ၊ ပြောရအခက်၊ မပြောရအခက် ဆိုသကဲ့သို့ မိမိတစ်သက်တာ မျိုသိပ်နေရမည်သာ ဖြစ်သည်။ သို့ဖြစ်ရပါက လင်ယောကျ်ားအဖို့ နစ်နာဆုံး ရှုံးမှုကြီးတစ်ရပ်ပင်ဖြစ်ရပေမည်။

ပြီးနောက်တစ်ဖန်၊ လင်ယောကျ်ားက အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ စွပ်စွဲပြောဆိုသဖြင့် ဇနီးမိန်းမ၌ ကာမေသုမိစ္ဆာစာရမှု အတည်ဖြစ်သွားပြီး၊ ကာမေသုမိစ္ဆာစာရမှု ကျူးလွန်ခြင်း၏ ပြစ်ဒဏ်တပ်ရိုက်ခြင်း ခံရမည်ဖြစ်ပါက ဇနီးမိန်းမအဖို့လည်း နစ်နာဆုံးရှုံးမှုကြီး တစ်ရပ်ပင်။ အဘယ့်ကြောင့်ဆိုသော် ဤကိစ္စတွင် သက်သေတစ်စုံတစ်ရာ မရှိသည်ဖြစ်ရာ လင်ယောကျ်ား၏ စွပ်စွဲချက်သည် မှားပြီး၊ ဇနီးမိန်းမသည် ➤➤

إِنَّ الَّذِينَ جَاءُو بِالْإِفْكِ عُصْبَةٌ مِّنكُمْ ۚ لَا تَحْسَبُوهُ

၁၁။ ဧကန်အမှန် (ဤ)မုသားစွပ်စွဲချက်ကို ဖြန့်ချိခဲ့သောသူတို့ကား အသင်တို့အနက်မှ *အုပ်စု(ကလေး) တစ်ခုပင်ဖြစ်၏။* ၁

➤➤ အပြစ်ကင်းသူလည်း ဖြစ်နိုင်ပေသည်။ ထို့အတူ ဇနီးမိန်းမက အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ မိမိ၌ လင်ယောကျ်ားက စွပ်စွဲသည့်အတိုင်း အပြစ်တစ်စုံတစ်ရာ မရှိပါဟု ပြောဆိုသဖြင့် ဇနီးမိန်းမအား အပြစ်ကင်းသူဟူ၍ တထစ်ချ ယုံကြည်ယူဆ အဆုံးအဖြတ်ပေးခြင်းခံရပါက လင်ယောကျ်ားသည် မတရားစွပ်စွဲခြင်း၏ ပြစ်ဒဏ်တပ်ရိုက်ခြင်း ခံရမည် ဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် ဤကိစ္စတွင် လင်ယောကျ်ားသည် အမှန်လည်း ဖြစ်နိုင်ပေသည်။

"လိအာန်" ပြုပိုင်ခွင့်သာမရှိပါက ဇနီးမောင်နှံ နှစ်ဦးစလုံးအဖို့ ဆုံးရှုံးမှုကြီး ဖြစ်နိုင်ပေသည်။ ယခုမူ အလ္လာဟ်အရှင်မြတ်က မိမိ၏ကျေးဇူးတော်ဖြင့် "လိအာန်" ပြုပိုင်ခွင့်ပြုထားတော်မူသည့်အတွက် ဇနီးမောင်နှံ နှစ်ဦးတို့အနက် အပြစ်မဲ့သူသည် အကြောင်းမဲ့ ပြစ်ဒဏ်ခံရခြင်းမှ လွတ်မြောက် သွားနိုင်ပေသည်။ အပြစ်ရှိသူအဖို့မှာလည်း ဤပစ္စက္ခတွင် အပြစ်ဖုံးကာ ဝန်ချတောင်းပန်နိုင်ရန် အခွင့်အလမ်း ရရှိသွားပေသည်။

**မှတ်ချက်။**

ဇနီးမောင်နှံနှစ်ဦးတို့၏ ဤအိမ်တွင်းရေးပြဿနာတွင် လင်ယောကျ်ားအား ထောက်ထားခြင်းမှာ လင်ယောကျ်ားတစ်ဦးအဖို့ မိမိ၏ဇနီးမိန်းမ ဖောက်ပြန်သည်ကို သိရှိနေပါလျက် မျိုသိပ်၍နေရမည်မှာ မလွယ်ကူပေ။ အခြားယောကျ်ားများအဖို့မှာကား ၎င်းတို့၏အိမ်တွင်းရေး မဟုတ်သည့်အတွက် သိရှိပါလျက်လည်း မျိုသိပ်နေနိုင်ကြပေသည်။ ထို့အတွက်ကြောင့်ပင် အခြားသူများအား တရားတော်က ထောက်ထားခြင်းမပြုပေ။ ၎င်းတို့သည် သူတစ်ပါးအား စွပ်စွဲပြောဆိုကြပါက တရားဝင်သက်သေ(၄)ဦး တင်ပြကြရမည်ဖြစ်သည်။ သို့ တင်မပြနိုင်ကြပါက မတရားစွပ်စွဲခြင်း၏ အပြစ်ဒဏ် တပ်ရိုက်ခြင်း ခံကြရမည်ဖြစ်သည်။

## ① ကြင်ရာတော် အာအေ့ရှဟ် သခင်မအား လုပ်ကြံစွပ်စွဲခြင်း။

ဤအာယတ်တော်များတွင် ကြင်ရာတော် အာအေ့ရှဟ်သခင်မအား မဟုတ်မမှန် လုပ်ကြံစွပ်စွဲပြောဆိုခဲ့သူ တစ်စုကို ရည်ညွှန်းမိန့်ဆို ထားတော်မူသည်။ဖြစ်ရပ်အကျဉ်းချုပ်မှာ ဤသို့တည်း။ ဟီဂျ်ရီသက္ကရာဇ် (၆)ခုနှစ်တွင် ဗနီမုဆ္ဆတလိက် စစ်ပွဲဖြစ်ပွားခဲ့၏။ တမန်တော်မြတ်ကိုယ်တိုင် ပါဝင်ဆင်နွှဲတော်မူခဲ့၏။ တမန်တော်မြတ်နှင့်အတူ ကြင်ရာတော် အာအေ့ရှဟ်သခင်မလည်း အတူလိုက်ပါခဲ့၏။ ကြင်ရာတော်စီးရန်အတွက် သီးသန့် ကုလားအုတ်တစ်ကောင် ပါရှိခဲ့၏။ ကြင်ရာတော်သည်(Camel Litter) ယာဉ်ပေါင်းတွင်"ပရ်ဒဟ်" ကန့်လန့်ကာများချ၍ ထိုင်ခဲ့၏။ ကုလားအုတ်ဆွဲသူသည် ယာဉ်ပေါင်းကို ကုလားအုတ်ပေါ်တွင် တင်ဆောင်၍ စနစ်တကျထုပ်နှောင်ပြီး ကုလားအုတ်ကို လိုရာဌာနကို ဆွဲသွားခဲ့၏။ တမန်တော်မြတ်သည် စစ်ပွဲပြီးဆုံးသွားသည့်အခါ မဒီနာသို့ ပြန်ကြွလာနေတော်မူခဲ့၏။

တမန်တော်မြတ်နှင့်တကွ စစ်သည်တော်များသည် စခန်းတစ်ခုတွင် ခေတ္တရပ်နားခဲ့ကြ၏။ စစ်တပ်ချီမတက်မီ တစ်ခဏအလိုတွင် ကြင်ရာတော်သည် အပေါ့အပါးသွားရန်အတွက် စစ်တပ်မှ မလှမ်းမကမ်း အကာအကွယ်ရှိရာသို့ သွားခဲ့၏။ အကြောင်းအားလျော်စွာ ကြင်ရာတော် ဆွဲထားသော ဆွဲကြိုးသည် ပြတ်၍ ကျသွားခဲ့လေသည်။ ကြင်ရာတော်သည် ပြတ်ကျသွားသော ဆွဲကြိုးကို ရှာဖွေနေခဲ့၏။ သို့ရှာဖွေ နေရာတွင် အချိန်အနည်းငယ် ကြာသွားခဲ့၏။ ထိုအခိုက်မှာပင် စစ်တပ်သည် ခရီးဆက်ရန်အတွက် ချီတက် ➤➤

➢➢ ထွက်ခွာသွားခဲ့လေသည်။ ကြင်ရာတော်၏ ကုလားအုတ်ဆွဲသူသည်လည်း မိမိ အလေ့အထအတိုင်း ယာဉ်ပေါင်းကို ကုလားအုတ် အပေါ်သို့ တင်ဆောင်ရန် ရောက်ရှိလာခဲ့၏။ ယာဉ်ပေါင်းပေါ်တွင် ကန့်လန့်ကာများ ကျလျက်ရှိသည့်အတွက် ယာဉ်ပေါင်းတွင် ကြင်ရာတော်ရှိသည်ဟု ယူဆကာ ယာဉ်ပေါင်းကို ကုလားအုတ်အပေါ်သို့ တင်ဆောင်လိုက်လေသည်။ ကုလားအုတ်ဆွဲသူသည် ယာဉ်ပေါင်းကို တင်ဆောင်ရာတွင်လည်း ကြင်ရာတော် မပါရှိသည်ကို မရိပ်စားမိခဲ့ပေ။ အဘယ့်ကြောင့်ဆိုသော် ကြင်ရာတော်သည် ထိုအချိန်တွင် အသက်အရွယ်အားဖြင့် ငယ်ရွယ်သူ ဖြစ်ခဲ့သည်။ ကိုယ်ခန္ဓာ၏ အလေးချိန်မှာလည်း ပေါ့ပါးခဲ့သည်။ ထို့အတွက် ကုလားအုတ် ဆွဲသူသည်လည်း မိမိ၏ ကုလားအုတ်ကို ဆွဲကာ စစ်တပ်နှင့်အတူ ခရီးထွက်သွားခဲ့လေသည်။

ကြင်ရာတော်သည် မိမိအစီးအနင်းရှိရာသို့ ပြန်ရောက်သည့်အခါ တစ်ဦးတစ်ယောက်ကိုမျှ မတွေ့ရတော့ပေ။ စစ်တပ်သည် ချီတက်သွားနှင့်ချေပြီ။ ထိုအချိန်တွင် ကြင်ရာတော်သည် 'မိမိမှာ မိန်းမသားတစ်ဦးဖြစ်သည်။ စစ်တပ်နောက်သို့ တစ်ဦးတည်း လိုက်သွားရန်မှာ မသင့်ပေ။ မလွယ်ပေ။ ဒုတိယ စခန်းချရာနေရာတွင် မိမိမပါရှိသည်ကို တွေ့ရှိကြသောအခါ မိမိအားရှာဖွေရန်အတွက် ဤနေရာသို့ ရောက်ရှိလာကြ မည်ပင် ဖြစ်သည်ဟု သတိဝီရိယကြီးစွာဖြင့် စဉ်းစားဆင်ခြင်မြော်မြင်ကာ အဆိုပါနေရာ၌ပင် ဆိုင်းငံ့နေရန် ဆုံးဖြတ်၍ ဆိုင်းငံ့နေခဲ့လေသည်။ ထိုအချိန်မှာ ညဥ့်အချိန်ဖြစ်သည်။ အိပ်စက်လိုသည့်အတွက် ထိုနေရာမှာပင် စောင်ခြုံကာ လဲလျောင်း၍ အိပ်နေခဲ့လေသည်။

သာဝကကြီး ဆွာဖ်ဝါန် အစ်ဗ်နု မုအတ္တာလ်သည် စစ်တပ်ချီတက်သွားရာတွင် စစ်တပ်မှ ကျန်ရစ်ခဲ့သော ပစ္စည်းများကို သိမ်းဆည်းနိုင်ရန်အတွက် တာဝန်အလျောက် စစ်တပ်၏နောက်တွင် မလှမ်းမကမ်းမှ လိုက်ပါခဲ့သည်။ အဆိုပါ သာဝကကြီးသည် မိုးလင်းသည့်အချိန်တွင် ကြင်ရာတော်လဲလျောင်းနေသည့် နေရာသို့ ရောက်ရှိ လာခဲ့လေသည်။ အဆိုပါ သာဝကကြီးသည် လမ်းတွင် လဲလျောင်းနေသူတစ်ဦးကို အဝေးမှ တွေ့မြင်မိလေသည်။ အနီးသို့ ရောက်သောအခါ လဲလျောင်းနေသူမှာ ကြင်ရာတော် အာအေ့ရှဟ်သခင်မ ဖြစ်နေသည်ကို တွေ့မြင်ရသည့် အတွက် အံ့သြ၊ စိုးရိမ်ကြောက်လန့်ပြီး 'အစ်န်နာလိလ္လာဟိ ဝအစ်န်နာအိလိုင်ဟိ ရာဂျိအူန်' ဟူသော အာယတ်တော် ရွတ်ဖတ်လိုက်လေသည်။ ထိုအခါ ကြင်ရာတော်သည် မျက်စိပွင့်သွားပြီး မိမိ၏မျက်နှာကို စောင်ဖြင့် ဖုံးကွယ်ထားလိုက်လေသည်။

ထိုအခါ သာဝကကြီး ဆွာဖ်ဝါန်သည် မိမိ စီးနင်းလိုက်ပါလာခဲ့သော ကုလားအုတ်ကို ကြင်ရာတော် အနီးသို့ ဆွဲယူလာပြီး ကုလားအုတ်ကို ထိုင်စေခဲ့သည်။ ကြင်ရာတော်သည် 'ပရ်ဒဟ်' ခြုံကာ ကုလားအုတ်အပေါ်သို့ တက်စီးခဲ့လေသည်။ သာဝကကြီး ဆွာဖ်ဝါန်သည် မိမိကိုယ်တိုင် ကုလားအုတ်ကို မစီးဘဲ ကုလားအုတ်ကြိုးကိုဆွဲကာ စစ်တပ်နောက်သို့ အမြန်လိုက်လာခဲ့ရာ တစ်ခဏချင်းအတွင်း စစ်တပ်ကိုမီလာပြီး ကြင်ရာတော်အား တမန်တော်မြတ် ထံသို့ ကောင်းမွန်စွာ ပို့ပေးခဲ့လေသည်။ ဖြစ်ရပ်ကား ဤမျှသာတည်း။

သို့ရာတွင် မုနာဖစ်က်တို့၏ ခေါင်းဆောင်ဖြစ်သော၊ တမန်တော်မြတ်၏ရန်သူလည်းဖြစ်သော အဗ်ဒုလ္လာဟ် အစ်ဗ်နုအုဗိုင်ဟ်သည် တမန်တော်မြတ်၏ ဂုဏ်သိက္ခာကို ထိပါးပုတ်ခတ် ပြောဆိုရန်အတွက် အချက်ရကာ ဖော်ပြပါဖြစ်ရပ်ကို ပုံကြီးချဲ့ကာ ကြင်ရာတော် အာအေ့ရှဟ်သခင်မနှင့် ပတ်သက်ပြီး မဟုတ်မလျား စော်စော်ကားကား စွပ်စွဲပြောဆို တီးတိုးဝါဒဖြန့်လေတော့သည်။ အချို့ ရိုးသားသော မွတ်စ်လင်မ်တစ်စု (ဥပမာ- အမျိုးသားများတွင် သာဝကကြီး ဟာစ္စာန်၊ သာဝကကြီး မစ္စတွာဟ်နှင့် အမျိုးသမီးတို့တွင် ဟမ်နဟ်ဗင်န် တိဂျဟ်ရှ်သခင်မတို့) သည်လည်း မုနာဖစ်က်တို့၏ လုပ်ကြံစွပ်စွဲမှုကို ယောင်မှားပြီး သံယောင်ဖမ်းကာ မပြောသင့် မပြောအပ်သည်များကိုပင် ပြောဆိုမိခဲ့ ကြလေတော့သည်။ ➢➢

شَرًّا لَّكُمْ ۖ بَلْ هُوَ خَيْرٌ لَّكُمْ ۚ لِكُلِّ امْرِئٍ مِّنْهُم مَّا اكْتَسَبَ مِنَ الْإِثْمِ ۚ وَالَّذِي تَوَلَّىٰ كِبْرَهُ مِنْهُمْ لَهُ عَذَابٌ عَظِيمٌ ⑪

အသင်တို့သည် မိမိတို့နှင့်ပတ်သက်၍ ယင်းမုသား စွပ်စွဲချက်ကိုဆိုးရွားလှသည်ဟုမယူဆကြကုန်လင့်။ အမှန်စင်စစ်မှာမူကား၊ ယင်းမုသား စွပ်စွဲချက်သည် အသင်တို့နှင့် ပတ်သက်၍ကောင်းလှပေသည်။ *၊ထိုအုပ်စုအနက် အသီးသီး၌ မိမိရှာဖွေဆည်းပူးခဲ့သော ပြစ်မှုသည်ရှိပေသည်။* ထိုမှတပါး*ယင်းမုသား စွပ်စွဲမှု(ကိုဖြန့်ချီရာ၌) (အများဆုံး တာဝန်ယူ ဆောင်ရွက်ခဲ့သော)သူ၌မူ* အလွန်ကြီးလေးလှသောပြစ် ဒဏ်သည် ရှိပေသတည်း။

---

➤➤ ယင်းသို့ ကြင်ရာတော်နှင့်ပတ်သက်၍ မဟုတ်မမှန် စွပ်စွဲပြောဆိုခြင်းခံရသည့်အတွက် တမာန်တော်မြတ်နှင့်တကွ မုစ်လင်မ်များသည် အလွန်တရာမျှပင် စိတ်ထိခိုက်ခဲ့ကြရလေသည်။ တစ်လတိုင်တိုင်ထိုသည့် မတရားစွပ်စွဲမှုကြီးသည် ဖြစ်ပေါ်နေခဲ့သည်။ ၊တမာန်တော်မြတ်သည်ဖြစ်ရပ်မှန်ကို စုံးစမ်းနေတော်မူခဲ့၏။ စိတ်တွင်း၌ အထူးနာကြည်းလျက် ရှိတော်မူခဲ့၏။

ကြင်ရာတော် အာအေ့ရှဟ်သခင်မသည် မိမိနှင့်ပတ်သက်၍ ယင်းသို့မဟုတ်မမှန် လုပ်ကြံပြောဆိုနေကြသည်ကိုပင်၊ ပထမသော် အလျှင်းမသိခဲ့ရှာပေ။ မရိပ်စားမိခဲ့ရှာပေ။ တစ်လကျော်သော အခါကျမှ သိရှိခဲ့ရှာလေသည်။ ထိုအခါ မိမိအား ယင်းသို့မဟုတ်မမှန် လုပ်ကြံ၍ ရက်ရက်စက်စက် စော်စော်ကားကား စွပ်စွဲပြောဆိုရက်ကြသည့်အတွက် အလွန်တရာမျှစိတ်ထိခိုက်ပြီး ဝမ်းနည်းကြေကွဲကာ နေထိုင်မကောင်းပင် ဖြစ်သွားခဲ့ရရှာလေသည်။ ကြားသိရသည့်အချိန်မှစပြီး မျက်စိအစုံမှ မျက်ရည်ပေါက် များသည် မပြတ်မစဲ ယိုစီး၍နေခဲ့လေသည်။ ၊နေ့ရောညဉ့်ပါ ငိုကြွေး၍ နေခဲ့ရှာလေသည်။

နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်ထံတော်မှ ဤအာယတ်တော်များတွင် လာရှိသည့်အတိုင်း ဤစွပ်စွဲချက်မှာ မဟုတ်မမှန် လုပ်ကြံစွပ်စွဲခြင်းမျှသာ ဖြစ်ကြောင်း၊ ကြင်ရာတော် အာအေ့ရှဟ်သခင်မ၌ အပြစ်တစုံတရာ အလျှင်းမရှိကြောင်း အကျယ်တဝင့် 'ဝဟီ' ကျရောက် လာခဲ့ပေသည်။ ထိုအခါကျမှ ကြင်ရာတော် အာအေ့ရှဟ်သခင်မသည် ဝမ်းသာမဆုံး ဖြစ်ခဲ့လေသည်။ ကြင်ရာတော်သည် ဝမ်းသာမဆုံးဖြစ်ခဲ့သည်သာမက မိမိ၌ အပြစ်တစုံတစ်ရာ မရှိကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်တွင် ယင်းသို့ အတိအလင်း အာယသ်တော်များ လာရှိသည့်အတွက် အထူးဂုဏ်ယူပြောဆိုခဲ့လေသည်။ ဂုဏ်ယူဖွယ်ရာလည်း ကောင်းလှပါဘိတည်း။

ဤကြောင်းကို ဗုခါရီ၊မုစ်လင်မ်၊ အစ်ဗ်နဂျရီရ်၊ အစ်ဗ်နကဆီရ်၊ စသည့်ကျမ်းကြီးများတွင် အကျယ်တဝင့် ပါရှိပေသည်။ ၊တရားရယူဖွယ်ရာအချက်များ အမြောက်အများ ပါရှိပေသည်။ ၊ကျမ်းလေးမည်စိုး၍မရေးပြီ။

**(၁) ပြစ်မှုကျူးလွန်ခဲ့သည်နှင့်အမျှပြစ်ဒဏ်ခံ။**

ဤမတရားစွပ်စွဲမှုကြီးတွင် ပါဝင်ကျူးလွန်ခဲ့သူအားလုံးတို့သည် မိမိတို့ ပါဝင်ကျူးလွန်ခဲ့သည်နှင့် အမျှ ပြစ်ဒဏ်ခံကြရမည်ဖြစ်သည်။ ဥပမာ-အချို့သည် ဤစွပ်စွဲမှုကို စတင်ဦးစီး၍ ရှေ့ဆောင်ရှေ့ရပ် ပြုခဲ့သည်။ အချို့သည် ယင်းစွပ်စွဲမှုကို ကြားရသောအခါ မစဉ်းစား မဆင်ခြင်ဘဲ သံယောင်ဖမ်းကာ တစ်ဆင့် ➤➤

لَوْلَآ إِذْ سَمِعْتُمُوهُ ظَنَّ الْمُؤْمِنُونَ وَالْمُؤْمِنَٰتُ بِأَنفُسِهِمْ خَيْرًا وَقَالُوا هَٰذَآ إِفْكٌ مُّبِينٌ ⑫

၁၂။ ယင်းမုသားစွပ်စွဲချက်ကို အသင်တို့ကြားသိခဲ့စဉ်က 'မုအ်မင်န်' ယောကျ်ားတို့သည်လည်းကောင်း၊ 'မုအ်မင်န်' မိန်းမတို့သည်လည်းကောင်း၊ မိမိတို့အချင်းချင်းနှင့်ပက်သက်၍အဘယ်ကြောင့် ကောင်းမွန်သော ထင်မြင်ချက်ကို မထင်မြင်မယူဆခဲ့ကြသနည်း။ ထိုမှတပါး ထို 'မုအ်မင်န်' ယောကျ်ား မိန်းမတို့က *ဤသည် ထင်ရှားလှစွာသော မုသားစွပ်စွဲချက်ပင်ဖြစ်သည်ဟုအဘယ်ကြောင့်မပြောဆိုခဲ့ကြသနည်း။*[၁]

---

➤➤ ပြောဆိုခဲ့ကြသည်။ အချို့သည် ဤစွပ်စွဲချက်ကိုကြားရသည့်အခါ ဤသည် မဟုတ်မမှန် လုပ်ကြံစွပ်စွဲခြင်းမျှသာဖြစ်ကြောင်း ကန့်ကွက်ပြောဆိုရမည့် အစားနှုတ်ပိတ်၍ ဆိတ်ဆိတ်ပင်နေခဲ့ကြသည်။ သို့မဟုတ် စိတ်တွင်သို့လောသို့လော တွေးတောခဲ့ကြသည်။ ဤသို့သောသူအားလုံး၌ အပြစ်ရှိသည်။ သို့ရာတွင် အပြစ်ချင်းကား မတူပေ။ ပြစ်မှုကျူးလွန်သည်နှင့်အမျှ ခံကြရမည်ဖြစ်သည်။

**② ဤစွပ်စွဲမှု၏ တရားခံ။**

ဤစွပ်စွဲမှုကို စတင်ရှေ့ဆောင်ရှေ့ရပ် ပြုလုပ်ခဲ့သူမှာ မုနာဖစ်က်တို့၏ ခေါင်းဆောင်တမန်တော်မြတ်၏ ရန်သူ အဗ်ဒုလ္လာဟ် အစ်ဗ်နူအုဗိုင်ဟ်ဖြစ်သည်။ ၎င်းသည် ကာဖိရ်၊ မုနာဖစ်က် ဖြစ်ခဲ့သည်သာမက တမန်တော်မြတ်၏ ကြင်ရာတော်အား မဟုတ်မမှန် လုပ်ကြံပြောဆိုပြီး တမန်တော်မြတ်၏ သိက္ခာကိုချ၍ အစ္စလာမ့်ဗိမာန်ကြီးကို ဖြိုခွဲချေမှုန်းရန် ကြိုးစားခဲ့သည့်အတွက် ဤပစ္စက္ခတွင်လည်း ကြီးလေးသောပြစ်ဒဏ်ကို ခံသွားခဲ့ရချေပြီ။ နောင်တမလွန်တွင်လည်း ကြီးလေးသောပြစ်ဒဏ်ကို အမှန်ခံရဦးမည် ဖြစ်သည်။

① ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က မွတ်စ်လင်မ်အမျိုးသမီးနှင့် အမျိုးသားတို့အား ဆုံးမထားတော်မူသည်မှာ မွတ်စ်လင်မ်များသည် အချင်းချင်း အတွေးကောင်းတွေးကြရာသည်။ အမြင်ကောင်းမြင်ကြရာသည်။ အကယ်၍ အပြစ်ကင်းမဲ့သူတစ်ဦးအား သက်သေအထောက်အထား တစ်စုံတစ်ရာမရှိဘဲလျက်၊ သွားပုတ်လေလွင့်စွပ်စွဲပြောဆိုသံကြားရလျှင် မွတ်စ်လင်မ်များသည် ယင်းသို့သော သွားပုတ်လေလွင့်စကားကို လက်ခံနားထောင်၍ မနေကြရပေ။ လက်ခံနားမထောင်ရုံသာမက ကြားလျှင်ကြားခြင်း "ဤသည် မဟုတ်မမှန်၊ လုပ်ကြံစွပ်စွဲပြောဆိုမှုသာဖြစ်သည်။" ဟု အတိအလင်း ငြင်းဆိုကန့်ကွက် ပိတ်ပင်ကြရမည်။ မွတ်စ်လင်မ် အချင်းချင်း ကာကွယ်စောင့်ရှောက်ကြရမည်။ ကူညီကြရမည်။'မွတ်စ်လင်မ်တစ်ဦးသည် မိမိ၏ညီနောင်အား နောက်ကွယ်မှ ကူညီလျှင် အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အား နောက်ကွယ်မှ ကူညီတော်မူသည်'ဟု တမန်တော်မြတ် မိန့်ကြားတော်မူခဲ့သည်။

ထို့ပြင်တစ်ဝ၊ သူတစ်ပါး၏ ဂုဏ်သိက္ခာကို မိမိဂုဏ်သိက္ခာနှင့် နှိုင်းစာကြည့်ရာသည်။ မိမိကိုယ်တိုင် မပြစ်မှားနိုင်သော ပြစ်မှုတစ်ရပ်ကို မိမိနှင့် ဂုဏ်ရည်တူတစ်ဦး၊ သို့မဟုတ် မိမိထက်သာသူတစ်ဦးသည် အသို့လျှင် ပြစ်မှားနိုင်အံ့နည်း။ ဤတွင် ကောင်းသော စံနမူနာတစ်ခုတင်ပြအံ့။

ကြင်ရာတော် အာအေ့ရှဟ်သခင်မနှင့်ပတ်သက်၍ မတရားစွပ်စွဲမှု ဖြစ်ပေါ်လာသည့်အခါ သာဝကမကြီး အွန်မ်မိအိုင်ယူဗ်က မိမိ၏ခင်ပွန်းသည် သာဝကကြီး အဗူအိုင်ယူဗ်- အန်ဆွာရီအား အချို့က ကြင်ရာတော်➤➤

لَوْلَا جَآءُوْ عَلَيْهِ بِأَرْبَعَةِ شُهَدَآءَ ۚ فَإِذْ لَمْ يَأْتُوْا بِالشُّهَدَآءِ فَأُولٰٓئِكَ عِنْدَ اللّٰهِ هُمُ الْكٰذِبُوْنَ ﴿١٣﴾

၁၃။ ထို(မုသားစွပ်စွဲခဲ့ကြသော)လူစုသည် အဘယ်ကြောင့် ယင်းစွပ်စွဲချက်နှင့် စပ်လျဉ်း၍ သက်သေ(၄)ယောက် တင်မပြခဲ့ကြသနည်း။ စင်စစ် ၎င်းတို့သည် သက်သေတင်မပြခဲ့ကြသောကြောင့် ၎င်းတို့သည်ပင်လျှင် အလ္လာဟ်အရှင်မြတ်အထံတော်၌ မုသာဝါဒီများဖြစ်ကြကုန်သတည်း။

وَلَوْلَا فَضْلُ اللّٰهِ عَلَيْكُمْ وَرَحْمَتُهٗ فِى الدُّنْيَا وَالْاٰخِرَةِ لَمَسَّكُمْ فِىْ مَآ اَفَضْتُمْ فِيْهِ عَذَابٌ عَظِيْمٌ ﴿١٤﴾

၁၄။ စင်စစ်သော်ကား အကယ်၍သာ အသင်တို့အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်နှင့် ထိုအရှင်၏ ကရုဏာတော်သည် လောကီဘဝ၌လည်းကောင်း၊ တမလွန်ဘဝ၌လည်းကောင်း၊ မရှိခဲ့လျှင် အသင်တို့ နစ်မွန်းလျှက် ရှိခဲ့ကြသောကိစ္စနှင့် စပ်လျဉ်း၍ အသင်တို့၌ အလွန်ကြီးလေးလှစွာသော *ပြစ်ဒဏ်သည် အမှန်ပင်သက်ရောက်ခဲ့ပြီး ဖြစ်ချေသည်။* [၁]

➤➤ အာအေ့ရှာဟ်သခင်မနှင့် ပတ်သက်၍ ဤသို့ ထိုသို့ ပြောဆိုနေကြသည်ဟု ပြောသောအခါ၊ သာဝကကြီး အဗူအိုင်ယူဗ်အန်ဆွာရီက 'ဤသည် မဟုတ်မမှန် လုပ်ကြံစွပ်စွဲခြင်းသာဖြစ်သည်။ ထိုသို့သော အပြုအမူကို သခင်မ ပြုလုပ်နိုင်ပါမည်လော' ဟုဖြေကြား-မေးလိုက်ရာ သာဝကမကြီး အွန်မ်မိအိုင်ယူဗ်က အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ 'အလျှင်း ပြုမည်မဟုတ်' ဟု ဖြေကြားလေသည်။ ထိုအခါ သာဝကကြီး အဗူအိုင်ယူဗ်အန်ဆွာရီက မိမိ၏ ဇနီးသည်အား 'သာဝကကြီး အဗူဗတ်ကရ်၏သမီး တမန်တော်မြတ်၏ ဇနီးကြင်ရာတော် အာအေ့ရှာဟ်သခင်မသည် အသင်မထက် အဆပေါင်းများစွာ ပိုမို စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည်'ဟု ဖြေကြားလိုက်လေသည်။ ကြည့် - အစ်ဗ်နုကဆီရ်။

ဤအာယတ်တော်တွင် မွတ်စ်လင်မ် အမျိုးသား၊ အမျိုးသမီးများသည် မိမိတို့အချင်းချင်း အဘယ်ကြောင့် အထင်ကောင်း မထင်ကြသနည်း'ဟု မိန့်ဆိုထားတော်မူခြင်းမှာ မွတ်စ်လင်မ်များသည် အုပ်စုတစ်ခုတည်းသာဖြစ်သည်။ မွတ်စ်လင်မ်များသည် ကိုယ်ခန္ဓာတစ်ခုတည်း၏ အစိတ်အပိုင်းများဖြစ်သည်။ အချင်းချင်း အညမည ဖြစ်သည်ကို ရည်ညွှန်းထားတော်မူခြင်း ဖြစ်သည်။ မွတ်စ်လင်မ်အုပ်စုကြီးမှ တစ်ဦးတစ်ယောက်ကို စော်ကားခြင်းသည် အုပ်စုတစ်ခုလုံးကို စော်ကားရာ ရောက်သည်။

(၁) ကြင်ရာတော် အာအေ့ရှာဟ်သခင်မနှင့် ပတ်သက်၍ မတရားစွပ်စွဲမှုတွင် ပါဝင်မိခဲ့ကြသော မွတ်စ်လင်မ်တစ်စု၏ အပြစ်မှာ မသေးငယ်ပေ ကြီးမားလှပေသည်။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့သည် မဟုတ်မမှန် လုပ်ကြံစွပ်စွဲမှုကို မစဉ်းစားမဆင်ခြင်ဘဲ ဖောက်သည်ချမိခဲ့ကြသည်။ ဖြစ်ရပ်မှန်ကို မိမိကိုယ်တိုင် အလျှင်းမသိဘဲလျက် သံယောင်ဖမ်းကာ ထုတ်ဖော်ပြောဆိုမိခဲ့ကြသည်။ ယင်းသို့ မဟုတ်မမှန် စွပ်စွဲပြောဆိုခြင်းခံနေရသူမှာ သာမန်အမျိုးသမီးမဟုတ်၊ စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော အမျိုးသမီး၊ တမန်တော်မြတ်၏ကြင်ရာတော်၊ ➤➤

إِذْ تَلَقَّوْنَهُۥ بِأَلْسِنَتِكُمْ وَتَقُولُونَ بِأَفْوَاهِكُم مَّا لَيْسَ لَكُم بِهِۦ عِلْمٌ وَتَحْسَبُونَهُۥ هَيِّنًا وَهُوَ عِندَ ٱللَّهِ عَظِيمٌ ﴿١٥﴾

၁၅။ အကြင်အခါ၌ အသင်တို့သည် ယင်းကိစ္စကို မိမိတို့လျှာများဖြင့် လက်ခံ ပြောဆိုနေခဲ့ကြ၏။ ထို့ပြင် မိမိတို့ အလျှင်းမသိသော အကြောင်းကိစ္စကို မိမိတို့ နှုတ်များဖြင့် မြွက်ဆိုနေခဲ့ကြကုန်၏။ ထိုမှတပါး အသင်တို့သည် ယင်းကိစ္စကို ပေါ့ပေါ့ဆဆ သာမန် ကိစ္စဟု ထင်မှတ်နေကြကုန်၏။ အမှန်စင်စစ်မှာမူကား ယင်းကိစ္စသည် အလ္လာဟ်အရှင်မြတ် အထံတော်၌ အလွန် ကြီးလေးလှသောကိစ္စပင် ဖြစ်ချေသတည်း။

وَلَوْلَآ إِذْ سَمِعْتُمُوهُ قُلْتُم مَّا يَكُونُ لَنَآ أَن نَّتَكَلَّمَ بِهَٰذَا سُبْحَٰنَكَ هَٰذَا بُهْتَٰنٌ عَظِيمٌ ﴿١٦﴾

၁၆။ ၎င်းပြင်အသင်တို့သည် ယင်းမုသားစွပ်စွဲချက်ကို ကြားခဲ့ကြသောအခါ ‘(အို-အလ္လာဟ်အရှင်မြတ်) အရှင်မြတ်သည်စင်ကြယ်သန့်ရှင်းတော်မူပါ၏။ ကျွန်ုပ်တို့သည် ဤသည်ကို (မိမိတို့နှုတ်ဖြင့်) ပြောဆိုကြရန် အလျှင်းမထိုက်။ ဤသည် ကြီးကျယ်လှစွာသော သွားပုပ်လေလွင့် *မတရားပြောဆိုချက်မျှသာဖြစ်ပေသည်*’[၁] ဟု အဘယ်ကြောင့် မပြောဆိုခဲ့ကြသနည်း။

---

➤➤ မွတ်စ်လင်မ်အပေါင်းတို့၏ မိခင်ကြီးဖြစ်ပေသည်။ ယင်းသို့သော အမျိုးသမီးကြီးတစ်ဦးအား မတရား စွပ်စွဲပြောဆိုခြင်းမှာ အဘယ်မျှအပြစ်ကြီးသည်ကို လူတိုင်းသိနိုင်ပေသည်။ သို့ပါလျက် ယင်းမွတ်စ်လင်မ်တစ်စုသည် အဆိုပါ ကြင်ရာတော် အား မတရားစွပ်စွဲမှုတွင် ပါဝင်မိခဲ့ကြပေသည်။ ထို့ပြင်တစ်ဝ ယင်းသို့ပါဝင်ခြင်းကိုပင် သာမန်ဟူ၍ ထင်မှတ်ခဲ့ကြပေသည်။ ဤကားပို၍ပင် ဆိုးဝါးပေသည်။ အကယ်၍သာ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်နှင့် ကရုဏာတော်သာ မရှိခဲ့ပါက ယင်းမွတ်စ်လင်မ်တစ်စုသည်လည်း မုနာဖစ်က်များအလား ကိယာမတ်နေ့တွင် ကြီးလေးသော ပြစ်ဒဏ်ကို ခံကြရမည်သာဖြစ်သည်။ ယခုမူ အလ္လာဟ်အရှင်မြတ်သည် မိမိကရုဏာတော်ဖြင့် အဆိုပါ မတရားစွပ်စွဲမှုတွင် မေ့မှားပါဝင်မိခဲ့ကြသော မွတ်စ်လင်မ် သူတော်စင်များအား ဤပစ္စုပ္ပန်တွင် ဝန်ချတောင်းပန်ခွင့် ပြုတော်မူ၍ နောင်တမလွန်ဘဝတွင် ပြစ်ဒဏ်မှချမ်းသာခွင့် ပြုတော်မူလိုက်လေပြီ။ ဤကားအလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်နှင့် ကရုဏာတော်ပင်။

(၁) ဆိုလိုသည်ကား မွတ်စ်လင်မ်များသည် အချင်းချင်း အမြင်ကောင်း မြင်ကြရသည်ဖြစ်ရာ မတရားစွပ်စွဲချက်ကို ကြားလျှင် စိတ်တွင် သို့လောသို့လော၊ မကောင်းသော အတွေးအတော အလျှင်းမသက်ရောက်ရာ။ အကယ်၍ ရှိုင်တွာန်၏ လှုံ့ဆော်မှုကြောင့် စိတ်တွင်းမကောင်းသော အတွေးပေါ်ပေါက်သော် နှုတ်ဖြင့်ကား၊ ထုတ်ဖော်၍ အလျှင်းမပြောရာ ဤသို့သော အခြေအမြစ်မရှိသော စကားလေစကားလွင့်ကို ကျွန်ုပ်တို့သည် မိမိတို့၏ နှုတ်လျှာများပေါ်တွင်ပင် မတင်သင့်ကြပေ။ အို- အလ္လာဟ်အရှင်မြတ်၊ အရှင်မြတ်သည် စင်ကြယ်သန့်ရှင်း➤➤

يَعِظُكُمُ اللّٰهُ اَنۡ تَعُوۡدُوۡا لِمِثۡلِهٖۤ اَبَدًا اِنۡ كُنۡتُمۡ مُّؤۡمِنِيۡنَ ﴿١٧﴾

၁၇။ အကယ်၍အသင်တို့သည် 'မုအ်မင်န်'သက်ဝင်ယုံကြည်သူများ ဖြစ်ကြပါလျှင် အသင်တို့သည် ယင်းကဲ့သို့သော အပြုအမူမျိုးကို နောက်ထပ်၍ မပြုရန် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား ဆုံးမတော်မူလေသည်။

وَيُبَيِّنُ اللّٰهُ لَـكُمُ الۡاٰيٰتِ ‌ؕ وَاللّٰهُ عَلِيۡمٌ حَكِيۡمٌ ﴿١٨﴾

၁၈။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အဖို့ အမိန့်ပညတ်တော်များကို ရှင်းလင်းစွာ မိန့်ကြားတော်မူပေသည်။ စင်စစ် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသောအရှင်၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော် မူပေသတည်း။

اِنَّ الَّذِيۡنَ يُحِبُّوۡنَ اَنۡ تَشِيۡعَ الۡفَاحِشَةُ فِى الَّذِيۡنَ اٰمَنُوۡا لَهُمۡ عَذَابٌ اَلِيۡمٌ ۙ فِى الدُّنۡيَا وَالۡاٰخِرَةِ‌ ؕ وَاللّٰهُ يَعۡلَمُ وَاَنۡتُمۡ لَا تَعۡلَمُوۡنَ ﴿١٩﴾

၁၉။ ဧကန်စင်စစ် 'မုအ်မင်န်' သက်ဝင် ယုံကြည်သော သူတို့တွင် မဖွယ်မရာ ညစ်ညမ်းသောစကား ပျံ့ပွားခြင်းကို နှစ်သက်လိုလားသောသူတို့၌ (ဤ) မျက်မှောက်လောကီဘဝတွင် လည်းကောင်း၊ တမလွန်ဘဝတွင်လည်းကောင်း၊ *ပြင်းပြနာကျင်ဖွယ် ပြစ်ဒဏ်သည် ရှိပေမည်၊* [၁] စင်စစ် အလ္လာဟ်အရှင်မြတ်သည် သိရှိတော်မူ၏။ အသင်တို့မူကား မသိနားမလည်ကြချေ။

---

➤➤ အပြစ်ကင်းတော်မူပါသည်။ ဤသည် အလွန်ကြီးမားသော မဟုတ်မမှန် လုပ်ကြံစွပ်စွဲမှုသာ ဖြစ်ပါသည်' ဟူ၍သာ အတိအလင်း ငြင်းပယ်သင့်ကြပေသည်။

**(၁) <u>မကောင်းသတင်း ပျံ့ပွားခြင်းကို လိုလားသူတို့သည်၊ နှစ်ဘဝစလုံးတွင် ကြီးလေးသော ပြစ်ဒဏ်ခံကြရမည်။</u>**

ပြဿနာရှင်းသွားပြီး နောက်တွင်လည်း မွတ်စ်လင်မ်တို့တွင် စက်ဆုပ်ဖွယ်ရာအမှုနှင့် စပ်လျဉ်း၍ မကောင်းသတင်း ပျံ့ပွားခြင်းကို လိုလားသောသူများသည် ကာဖိရ်များသာ ဖြစ်ကြပေသည်။ ယင်းသို့သော သူယုတ်မာများသည် ဤပစ္စက္ခဘဝတွင်လည်းကောင်း၊ နောင်တမလွန်ဘဝတွင် လည်းကောင်း နှစ်ဘဝစလုံးတွင် ကြီးမားသောပြစ်ဒဏ် အမှန်ခံကြရမည် ဖြစ်ကြောင်းကို ဤအာယတ်တော်တွင် အတိအလင်း သတိပေးထားတော်မူသည်။ သို့ဖြစ်ရာ မွတ်စ်လင်မ်များသည် ကာဖိရ်တို့၏ ခြေရာကို မလိုက်မှားမိကြရန်နှင့် ကာဖိရ်တို့၏ ကျော့ကွင်းကို မနင်းမိကြရန် အထူးသတိပြု ရှောင်ကြဉ်ကြရပေမည်။ ထာနဝီကိုမှီးသည်။

وَلَوْلَا فَضْلُ اللّٰهِ عَلَيْكُمْ وَرَحْمَتُهٗ وَاَنَّ اللّٰهَ رَءُوْفٌ رَّحِيْمٌ ﴿٢٠﴾

၂၀။ စင်စစ်သော်ကား အကယ်၍သာ အသင်တို့ အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်နှင့် ထို အရှင်မြတ်၏ ကရုဏာတော်မရှိခဲ့မူ (အမှန်ပင် အသင် တို့၌ ပြစ်ဒဏ်ကိုအဆောတလျင် သက်ရောက်စေတော် မူခဲ့ပေမည်)။ သို့ရာတွင် ဧကန်မလွဲ အလ္လာဟ်အရှင် မြတ်သည်အလွန်တရာသနားကြင်နာတော်မူထသော အရှင်၊ အလွန်တရာ ကရုဏာပြုတော်မူထသောအရှင် ဖြစ်တော်မူပေသည်။ (သို့ဖြစ်ပေရာ အသင်တို့အား တောင်းပန် ဝန်ချနိုင်ရန် အခြေအနေကို ဖန်တီး၍ ပေးသနားတော်မူခဲ့ပေသည်။)[၁]

يٰۤاَيُّهَا الَّذِيْنَ اٰمَنُوْا لَا تَتَّبِعُوْا خُطُوٰتِ الشَّيْطٰنِ ؕ وَمَنْ يَّتَّبِعْ خُطُوٰتِ الشَّيْطٰنِ فَاِنَّهٗ يَاْمُرُ بِالْفَحْشَآءِ وَالْمُنْكَرِ ؕ وَلَوْلَا فَضْلُ

၂၁။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူ အပေါင်း တို့ အသင်တို့သည် ရှိုင်တွာန်မိစ္ဆာကောင်၏ ခြေရာ များကို မလိုက်ကြကုန်လင့်။ စင်စစ်သော်ကား မည်သူ မဆို ရှိုင်တွာန်မိစ္ဆာကောင်၏ ခြေရာများကို လိုက်ပါ လျှင် ဧကန်မလွဲ ထိုရှိုင်တွာန်မိစ္ဆာကောင်သည် (ထို သူအား) ရှက်ဖွယ်ကိစ္စနှင့်မကောင်းမှု ဒုစရိုက်ကိုသာ လုပ်ရန် ညွှန်ကြားပေမည်။

---

**(၁) အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကြောင့်သာ. . .**

အကယ်၍သာ မှားယွင်းခဲ့ကြသော မွတ်စ်လင်မ်တို့ပေါ်၌ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်နှင့် ကရုဏာတော် သာ မရှိခဲ့ပါမူ ၎င်းတို့အနက် မည်သူတစ်ဦးတစ်ယောက်မျှ မည်သည့်အခါ၌မျှ စင်ကြယ်သန့်ရှင်း အပြစ်ကင်း နိုင်ကြမည် မဟုတ်ပေ။

ပထမသော် မုနာဖစ်က်များပမာ ဝန်ချတောင်းပန်နိုင်ရန် အခွင့်အလမ်းကိုပင် ရရှိကြမည်မဟုတ်ပေ။

ဒုတိယသော် ဝန်ချတောင်းပန်ရန် အခွင့်အလမ်းရရှိ၍ ဝန်ချတောင်းပန်ကြသော်လည်း၊ ၎င်းတို့၏ ဝန်ချ တောင်းပန်မှုကို အလ္လာဟ်အရှင်မြတ်သည် လက်ခံတော်မူလိုမှ လက်ခံတော်မူမည်။ လက်ခံတော်မမူလိုပါက လက်ခံတော်မူမည်မဟုတ်ပေ။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်အပေါ်၌ မည်သို့မျှတာဝန်မရှိပေ။

ယခုမူကား အလ္လာဟ်အရှင်မြတ်သည် မိမိကျေးဇူးတော်ဖြင့် မွတ်စ်လင်မ်တို့အား ဝန်ချတောင်းပန်နိုင်ရန် အခွင့်အလမ်းကို ဖန်တီးပေးတော်မူသည်သာမက ၎င်းတို့၏ ဝန်ချတောင်းပန်ခြင်းကိုလည်း လက်ခံတော်မူ၍ ၎င်းတို့အား စင်ကြယ်သန့်ရှင်း အပြစ်ကင်းစေတော်မူလေပြီ။ ဤကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်။

اللهِ عَلَيْكُمْ وَرَحْمَتُهُ مَا زَكَىٰ مِنكُم مِّنْ أَحَدٍ أَبَدًا وَلَٰكِنَّ اللَّهَ يُزَكِّي مَن يَشَاءُ ۗ وَاللَّهُ سَمِيعٌ عَلِيمٌ ﴿٢١﴾

စင်စစ် အကယ်၍သာ အသင်တို့အပေါ်ဝယ် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်နှင့် ကရုဏာတော်မရှိခဲ့လျှင် အသင်တို့အနက် မည်သူတစ်ဦးတစ်ယောက်မျှ၊ မည်သည့်အခါမျှပင် (ဝန်ချတောင်းပန်၍) စင်ကြယ်သန့်ရှင်း လွတ်ကင်းခဲ့မည် မဟုတ်ပေ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား (ဝန်ချတောင်းပန်ခွင့် ပြုတော်မူ၍) စင်ကြယ်သန့်ရှင်းလွတ်ကင်းစေတော်မူ၏။စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ကြားတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသောအရှင်၊ဖြစ်တော်မူပေသတည်း။

وَلَا يَأْتَلِ أُولُو الْفَضْلِ مِنكُمْ وَالسَّعَةِ أَن يُؤْتُوا أُولِي الْقُرْبَىٰ وَالْمَسَاكِينَ وَالْمُهَاجِرِينَ فِي سَبِيلِ اللَّهِ ۖ وَلْيَعْفُوا وَلْيَصْفَحُوا ۗ أَلَا تُحِبُّونَ أَن يَغْفِرَ اللَّهُ لَكُمْ ۗ وَاللَّهُ غَفُورٌ رَّحِيمٌ ﴿٢٢﴾

၂၂။ ၎င်းပြင် အသင်တို့အနက် ဂုဏ်အသရေနှင့် ကုံလုံကြွယ်ဝမှုရှိသောသူများသည် ဆွေရင်းမျိုးရင်းများအားလည်းကောင်း၊ သူဆင်းရဲများအားလည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ (မိမိတို့၏ အိုးအိမ်စည်းစိမ်တို့ကို စွန့်၍ မဒီနာမြို့သို့) ရွှေ့ပြောင်းလာခဲ့ကြသော မုဟာဂျိရ်များအားလည်းကောင်း၊ (အကူအညီ အထောက်အပံ့) မပေးကြတော့ပါဟူ၍ ကျိန်ဆိုခြင်းမပြုကြရာ။

စင်စစ် ၎င်းတို့သည် (ထိုသူတို့အား) ခွင့်လွှတ်သင့်ကြပေသည်။ ၎င်းပြင် လျစ်လျူပြုသင့်ကြပေသည်။ အသင်တို့သည် မိမိတို့အား အလ္လာဟ်အရှင်မြတ်က အပြစ်မှ ခွင့်လွှတ်ချမ်းသာ ပေးတော်မူသည်ကို မနှစ်သက် မလိုလားကြလေသလော။ စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင် အလွန်တရာ သနားညှာတာကရုဏာ ပြုတော်မူသော အရှင် ဖြစ်တော်မူပေသတည်း။

إِنَّ الَّذِينَ يَرْمُونَ الْمُحْصَنَٰتِ الْغَٰفِلَٰتِ الْمُؤْمِنَٰتِ لُعِنُوا۟ فِى الدُّنْيَا وَالْءَاخِرَةِ وَلَهُمْ عَذَابٌ عَظِيمٌ ﴿٢٣﴾

၂၃။ ဧကန်စင်စစ် ကာမဂုဏ်ကိုချုပ်တည်းသော၊ ရိုးသားဖြောင့်မတ်၍ သတိမမူသော 'မုအ်မင်န်' အမျိုးသမီးများအား (မဟုတ်မမှန် မတရား)စွပ်စွဲကြကုန်သောသူတို့သည် လောကီဘဝ၌ လည်းကောင်း၊ တမလွန်ဘဝ၌လည်းကောင်း၊ကရုဏာတော်မှကင်းဝေးစေခြင်းကို ခံကြရပေမည်။ ထိုမှတပါး ၎င်းတို့၌ ကြီးလေးလှစွာသော ပြစ်ဒဏ်သည်(လည်း) ရှိပေမည်။

يَوْمَ تَشْهَدُ عَلَيْهِمْ أَلْسِنَتُهُمْ وَأَيْدِيهِمْ وَأَرْجُلُهُم بِمَا كَانُوا۟ يَعْمَلُونَ ﴿٢٤﴾

၂၄။ အကြင်နေ့တွင်(ထိုနေ့တွင်) ထိုသူတို့၏ နှုတ်လျှာများသည်လည်းကောင်း၊ ထိုသူတို့၏ လက်များသည်လည်းကောင်း၊ ထိုသူတို့၏ ခြေထောက်များသည်လည်းကောင်း ထိုသူတို့နှင့်ဆန့်ကျင်ကာ ထိုသူတို့ ကျင့်မူခဲ့သမျှတို့ကို သက်သေခံကြပေမည်။

يَوْمَئِذٍ يُوَفِّيهِمُ اللَّهُ دِينَهُمُ الْحَقَّ وَيَعْلَمُونَ أَنَّ اللَّهَ هُوَ الْحَقُّ الْمُبِينُ ﴿٢٥﴾

၂၅။ ထိုနေ့တွင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့နှင့်ထိုက်တန်သောအစားကို အပြည့်အဝ ပေးတော်မူပေမည်။ ထို့ပြင် ဧကန်မုချ အလ္လာဟ်အရှင်မြတ်သည် တိကျမှန်ကန်စွာ စီရင်ဆုံးဖြတ်တော်မူသောအရှင် (အကြောင်းကိစ္စများကို) ထင်ရှားစေတော်မူသောအရှင် ဖြစ်တော်မူကြောင်းကို ၎င်းတို့ သိရှိကြပေမည်။ [၁]

---

(၁) ကြင်ရာတော် အာအေ့ရှဟ်သခင်မ၌ အပြစ်တစ်စုံတစ်ရာမျှမရှိကြောင်း၊ အာယတ်တော်များ ကျရောက်လာပြီးသည့် နောက်တွင်သော်မှပင် မိမိတို့၏ စွပ်စွဲမှုမှ ဝန်ချမတောင်းပန်ဘဲ စွပ်စွဲရင်းယုံကြည်ချက်အတိုင်း ထင်မှတ်ယုံကြည်နေသောသူများကို ဤအာယတ်တော်များတွင် ရည်ညွှန်းမိန့်ဆို ထားတော်မူသည်။ ထာနဝီ။

မဟုတ်မမှန် လုပ်ကြံစွပ်စွဲခြင်းသည် မည်သူအားပင် ဖြစ်စေကာမူ အပြစ်ကြီးပင်။ စင်ကြယ်သန့်ရှင်းအပြစ်ကင်းသော ရိုးသားဖြူစင်သော မွတ်စ်လင်မ် အမျိုးသမီးများအား မဟုတ်မမှန် လုပ်ကြံစွပ်စွဲခြင်းသည် ပို၍ပင် အပြစ်ကြီးလှသည်။ တမန်တော်၏ ကြင်ရာတော်များ အထူးသဖြင့် ကြင်ရာတော် အာအေ့ရှဟ်သခင်မအား မဟုတ်မမှန် လုပ်ကြံစွပ်စွဲခြင်းမှာကား အဘယ်မျှ အပြစ်ကြီးလေးမည်ကို မတွေးဝံ့စရာပင်။

ယင်းသို့စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော မွတ်စ်လင်မ်အမျိုးသမီးများအား မဟုတ်မမှန် လုပ်ကြံစွပ်စွဲသူများသည် နှစ်ဘဝစလုံးတွင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်နှင့် အဝေးကြီးဝေးကြရပေမည်၊ ➢➢

ٱلۡخَبِيثَٰتُ لِلۡخَبِيثِينَ وَٱلۡخَبِيثُونَ لِلۡخَبِيثَٰتِۖ وَٱلطَّيِّبَٰتُ لِلطَّيِّبِينَ وَٱلطَّيِّبُونَ لِلطَّيِّبَٰتِۚ أُوْلَٰٓئِكَ مُبَرَّءُونَ مِمَّا يَقُولُونَۖ لَهُم مَّغۡفِرَةٞ وَرِزۡقٞ كَرِيمٞ ٢٦

၂၆။ ယုတ်မာသောမိန်းမများသည် ယုတ်မာသောယောကျ်ားများနှင့်သာထိုက်ကြပေသည်။ ထိုနည်းတူစွာ ယုတ်မာသောယောကျ်ားများမှာလည်း ယုတ်မာသောမိန်းမများနှင့် ထိုက်တန်ကြကုန်၏။ ၎င်းပြင် မွန်မြတ်သော မိန်းမများသည် မွန်မြတ်သောယောကျ်ားများနှင့်သာ ထိုက်တန်ကြပေသည်။ ထိုနည်းတူစွာ မွန်မြတ်သောယောကျ်ားများသည်လည်း မွန်မြတ်သော မိန်းမများနှင့် *ထိုက်တန်ကြကုန်၏။* [၁]

---

➤➤ ကိယာမတ်နေ့တွင် ကြီးလေးလှသောပြစ်ဒဏ် ခံကြရပေမည်။ ကိယာမတ်နေ့တွင် ၎င်းတို့ စွပ်စွဲပြောဆိုကျင့်မှုခဲ့ကြသည်များကို ၎င်းတို့၏နှုတ်လျှာများ၊ ခြေများ၊ လက်များက ခရေစေ့တွင်းကျ သက်သေထွက်ဆိုကြပေမည်။ အလ္လာဟ်အရှင်မြတ်သည် ကိယာမတ်နေ့တွင် ၎င်းတို့အား ၎င်းတို့နှင့်ထိုက်တန်သော ပြစ်ဒဏ်ကို အပြည့်အဝ တပ်ရိုက်တော်မူမည်။ သူတစ်ပါးအား မတရား အရှက်တကွဲ အကျိုးနည်းဖြစ်စေခဲ့သော သူများသည် 'ကိုယ့်ရှူး ကိုယ်ပတ်' ဆိုသကဲ့သို့ အရှက်တကွဲ အကျိုးနည်းဖြစ်ကာ ငရဲသို့ လားကြရပေမည်။

ဤအာယတ်တော်များ ကျရောက်လာခဲ့ပြီးနောက် မည်သူမဆို ကြင်ရာတော် အာအွေရှဟ်သခင်မအားသော် လည်းကောင်း၊ အခြားကြင်ရာတော်များအားသော် လည်းကောင်း မတရားစွပ်စွဲပြောဆိုသည်ရှိသော် ထိုသူသည် ကုရ်အာန်ကျမ်းမြတ်ကို လိမ်လည်သူ၊ အစ္စလာမ်ဘောင်အပြင်သို့ ထွက်သွားသူ 'ကာဖိရ်' ဖြစ်သည်ဟူ၍ အာလင်မ်ပညာရှင်ကြီးများက အတိအလင်း တညီတညွတ်တည်း ဓမ္မသတ်အဆုံးအဖြတ် ပေးထားကြသည်။

**(၁) ယုတ်မာသော မိန်းမသည် ယုတ်မာသောယောကျ်ားနှင့်သာ ထိုက်တန်သည်။**

ဆိုလိုသည်ကား၊ ယုတ်မာသော မိန်းမများသည် ယုတ်မာသော ယောကျ်ားနှင့်သာ ထိုက်တန်ကြသည်။ ယုတ်မာသော ယောကျ်ားများသည် ယုတ်မာသော မိန်းမများနှင့်သာ ထိုက်တန်ကြသည်။ ထို့အတူ ကောင်းမြတ်သော အမျိုးသမီးများသည် ကောင်းမြတ်သော အမျိုးသားများနှင့်သာ ထိုက်တန်ကြသည်။ ကောင်းမြတ်သော အမျိုးသားများသည်လည်း ကောင်းမြတ်သော အမျိုးသမီးများနှင့်သာ ထိုက်တန်ကြပေသည်။ သူတော်သူတော်ချင်း၊ မသူတော်မသူတော်ချင်း၊ ဓာတ်ချင်းသင့်ကာ ပေါင်းကြသည်မှာ သဘာဝပင်။

တမန်တော်များသည် စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော ပုဂ္ဂိုလ်မွန်၊ ပုဂ္ဂိုလ်မြတ်များ ဖြစ်ကြပေရာ၊ ၎င်းတို့၏ ကြင်ရာတော်များသည်လည်း စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော အမျိုးသမီးမွန် အမျိုးသမီးမြတ်များသာ ဖြစ်ကြပေသည်။ သို့အတွက် သာဝကကြီး အစ်ဗ်နူအဗ္ဗားစ်က 'မည်သည့် တမန်တော်၏ မည်သည့်ကြင်ရာတော်မှ အကျင့်ပျက်သည်မရှိ' ဟု မိန့်ဆိုခဲ့လေသည်။

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် မိမိ၏တမန်တော်များ၏ အကျင့်သိက္ခာများကို ထိန်းသိမ်းတော်မူသကဲ့သို့ ယင်းတမန်တော်များ၏ ကြင်ရာတော်များ၏ အကျင့်သိက္ခာများကို ထိန်းသိမ်းတော်မူပေသည်။

ထို(မွန်မြတ်သော ယောကျ်ား-မိန်းမ)တို့မှာမူကား ၎င်း(မုနာဖစ်က်)တို့၏ ပြောဆို(စွပ်စွဲ)ချက်များမှ (လုံး၀) ကင်းရှင်းသူများပင် ဖြစ်ကြပေသည်။ ထိုသူတို့အဖို့ (အပြစ်မှ) လွတ်ငြိမ်းချမ်းသာခွင့်သည်လည်းကောင်း၊ မွန်မြတ်လှစွာသော စားနပ်ရိက္ခာသည်လည်းကောင်း၊ ရှိပေသတည်း။ [၁]

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ لَا تَدْخُلُوا۟ بُيُوتًا غَيْرَ بُيُوتِكُمْ حَتَّىٰ تَسْتَأْنِسُوا۟ وَتُسَلِّمُوا۟ عَلَىٰٓ أَهْلِهَا ۚ ذَٰلِكُمْ خَيْرٌ لَّكُمْ لَعَلَّكُمْ تَذَكَّرُونَ ﴿٢٧﴾

၂၇။ အို-'မုအ်မင်န်' သက်၀င်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် မိမိတို့အိမ်များမှတပါး အခြားအိမ်များအတွင်းသို့ (ထိုအိမ်သားများထံမှ) ခွင့်ရယူခြင်း၊ ထိုအိမ်သားများအပေါ်၌ 'စလာမ်' မေတ္တာပို့သခြင်း၊ မပြုသမျှ ကာလပတ်လုံး ၀င်ရောက်ခြင်းကို မပြုကြကုန်လင့်။ [၂] ဤ (ခွင့်ရယူခြင်းနှင့် 'စလာမ်' မေတ္တာ ပို့သခြင်းတို့သည်)ကား အသင်တို့အဖို့ အကောင်းဆုံးပင်ဖြစ်ပေသည်။ သို့မှသာလျှင် အသင်တို့သည် သတိဝီရိယ ပြုကြပေမည်။

---

(၁) **မတရားစွပ်စွဲခြင်း ခံခဲ့ရသူများအဖို့ ကောင်းချီးသတင်း၊**

မုနာဖစ်က်များသည် ကြင်ယာတော် အာအေ့ရှဟ်သခင်မနှင့် ပတ်သက်၍ မဟုတ်မမှန်လုပ်ကြံ၍ စွပ်စွဲပြောဆိုခဲ့ကြသော်လည်း ပတ္တမြားမှန် နွံမနစ်ဆိုသကဲ့သို့ ကြင်ယာတော်၌ တစ်စုံတရာ အစွန်းအထင်း မရှိခဲ့သည်သာမက ကြင်ယာတော်၏ ဂုဏ်သိက္ခာများ နေရောင်၊လရောင်ပမာ ထွန်းပြောင်လာခဲ့လေသည်။ နောက်ဆုံးတွင် ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း၊ ဤပုဂ္ဂိုလ်များသည် ယင်းမုနာဖစ်က်များ စွပ်စွဲပြောဆိုသောစကားနှင့် လုံး၀ စင်ကြယ်သန့်ရှင်း အပြစ်ကင်းကြသည်။ ယင်းပုဂ္ဂိုလ်များအဖို့ ချမ်းသာခွင့်နှင့် (ဂျန္နတ်တွင်) ဂုဏ်အသရေရှိ ရိက္ခာတော်အသင့်ရှိသည်"ဟူ၍ အလ္လာဟ်အရှင်မြတ်က ကောင်းချီးသတင်း ပေးထားတော်မူလေသည်။

ဤတွင် သာ၀ကကြီး ဆွဖ်ဝါန်အစ်ဗ်နူမုအတ္တန် သခင်၌လည်း အဆိုပါစွပ်စွဲမှုနှင့် စပ်လျဉ်း၍ အပြစ် တစ်စုံတစ်ရာမရှိကြောင်း၊ ထို့ပြင်တစ်၀ သာ၀ကကြီး ဆွဖ်ဝါန်သည်လည်း ဤအာယတ်တော်လာ ကောင်းချီးသတင်းတွင် အကျုံး၀င်သည်မှာ ထင်ရှားလှပေသည်။

(၂) **သူတပါး၏နေအိမ်အတွင်းသို့ အခွင့်မရှိမ၀င်ရ။**

မိမိကိုယ်တိုင် နေထိုင်သော နေအိမ်မှတစ်ပါး၊ သူတစ်ပါး နေအိမ်အတွင်းသို့ တစ်စုံတစ်ရာ ခွင့်ပန်ကြားခြင်းမရှိဘဲ အမှုမဲ့ အမှတ်မဲ့ ၀င်မသွားရ၊ အဘယ်ကြောင့်ဆိုသော် ထိုအချိန်တွင် အိမ်၌ အိမ်သူ အိမ်သားများသည် မည်သည့်အခြေအနေမှာ ရှိနေကြသည်၊ ထိုအချိန်တွင် သူတစ်ပါး အိမ်တွင်းသို့ ➤➤

فَإِن لَّمْ تَجِدُوا فِيهَا أَحَدًا فَلَا تَدْخُلُوهَا حَتَّىٰ يُؤْذَنَ لَكُمْ وَإِن قِيلَ لَكُمُ ارْجِعُوا فَارْجِعُوا هُوَ أَزْكَىٰ لَكُمْ وَاللَّهُ بِمَا تَعْمَلُونَ عَلِيمٌ ﴿٢٨﴾

၂၈။ တစ်ဖန် အကယ်၍ အသင်တို့သည် ထိုအိမ်များတွင် တစ်ဦးတစ်ယောက်ကိုမျှ မတွေ့ခဲ့ကြလျှင်၊ အသင်တို့သည် မိမိတို့၌ *အခွင့်မရရှိသမျှ ကာလပတ်လုံး ထိုအိမ်များအတွင်းသို့မဝင်ကြကုန်လင့်။* [၁] ၎င်းပြင် အကယ်၍ အသင်တို့အား *ပြန်ကြကုန်ဟု ပြောဆိုခဲ့လျှင်အသင်တို့သည် ပြန်ခဲ့ကြလေကုန်။* [၂] ထို(သို့ပြန်လာခြင်း)သည် အသင်တို့အဖို့ အစင်ကြယ် အမွန်မြတ်ဆုံးပင် ဖြစ်ချေသည်။ စင်စစ်မူကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို အသိတော်မူဆုံးပင် ဖြစ်တော်မူ၏။

---

➤➤ လာသည်ကို နှစ်ခြိုက်ကြသည်၊ မနှစ်ခြိုက်ကြသည်ကို မသိနိုင်ပေ။ ထို့အတွက် သူတစ်ပါးအိမ်တွင်းသို့ မဝင်မီ အသံပြု၍ ဝင်ခွင့်ပန်ကြားရမည်။ ဝင်ခွင့်ပန်ကြားရန် အကောင်းဆုံးနှင့် မင်္ဂလာအရှိဆုံးအသံမှာ 'စလာမ်' မေတ္တာ၏ အသံပင်ဖြစ်သည်။

တမန်တော်မြတ်၏ ဟဒီးဆ်ဩဝါဒတော်များတွင် တစ်ဦးတစ်ယောက်သည် သူတစ်ပါးအိမ်တွင်းသို့ ဝင်လိုသည့်အခါ သုံးကြိမ် စလာမ်မေတ္တာပို့၍ ဝင်ခွင့်ပန်ကြားရမည်။ အကယ်၍ သုံးကြိမ်တိုင်တိုင် စလာမ်မေတ္တာပို့၍ ဝင်ခွင့်ပန်ကြားပါလျက် အခွင့်မရရှိပါက ပြန်သွားရမည်ဟူ၍ လာရှိပေသည်။

ဤသည့် အဆုံးအမတော်ကို လိုက်နာကျင့်သုံးပါက အိမ်ရှင်အဖို့လည်း အလွန်ကောင်းမြတ်ပေသည်။ ဧည့်သည်အဖို့လည်း အလွန် ကောင်းမြတ်ပေသည်။ သူတစ်ပါးအိမ်သို့ ဝင်ထွက်သွားလာ လည်ပတ်ရာတွင် အလွန်တရာမျှ ယဉ်ကျေးသိမ်မွေ့ရာလည်း ရောက်ပေသည်။ ယခုအခါ မွတ်စ်လင်မ်များသည် ဤသည်အဆုံးအမတော်ကို စွန့်ပယ်ထားကြသည်။ ဝမ်းနည်းဖွယ်ပင်။ အခြား အမျိုးသားများသည် ဤသည့် အဆုံးအမတော်ကို မွတ်စ်လင်မ်များထံမှပင် သင်ယူကျင့်မူ၍ တိုးတက်ယဉ်ကျေးလျက် ရှိကြပေသည်။ အားကျဖွယ်ပင်။

**(၁) <u>အိမ်တွင် လူမရှိက မဝင်ရ။</u>**

အိမ်တစ်အိမ်တွင် တစ်ဦးတစ်ယောက်ကိုမျှ မတွေ့ရှိက ထိုသို့သော အိမ်အတွင်းသို့ အိမ်ရှင်၏ ခွင့်ပြုချက်မရရှိသမျှ မဝင်ရပေ။ သူတစ်ပါးအိမ်ရာတွင် အခွင့်မရှိဘဲ ဝင်ရောက်ခြယ်လှယ်ပိုင်ခွင့် မရှိ။ အခွင့်မရှိဘဲ ဝင်ရောက်ပါက ပြဿနာပေါ်နိုင်သည်။ အထင်မှားစရာ၊ စွပ်စွဲစရာဖြစ်နိုင်သည်။ ပိုင်နက်ကျူးလွန်ရာ ရောက်မည်။ သို့ရာတွင် အတိအလင်းဖြစ်စေ သို့တည်းမဟုတ် သွယ်ဝိုက်သောအားဖြင့်ဖြစ်စေ၊ ခွင့်ပြုချက်ရရှိပါက ထိုသို့သော လူမရှိသော အိမ်တွင်းသို့လည်း ဝင်နိုင်ပေသည်။

**(၂) <u>ပြန်ဆိုက ပြန်ရန်ပင်။</u>**

တစ်ခါတစ်ရံ ပုဂ္ဂိုလ်တစ်ဦးသည် မည်သူနှင့်မျှ မတွေ့လိုပေ။ မည်သူကိုမျှ အတွေ့မခံလိုပေ။ တစ်ခါတစ်ရံ ဧည့်သည်များကို လက်ခံ ဧည့်ခံနေပါက မိမိအလုပ်တွင် အနှောင့်အယှက် ဖြစ်တတ်သည်။ တစ်ခါတစ်ရံ လူသည် သူတစ်ပါးအား အလျှင်းမသိစေလိုသော စကားတစ်ရပ်ကို အထူးလျှို့ဝှက်စွာဖြင့် ➤➤

لَيْسَ عَلَيْكُمْ جُنَاحٌ أَنْ تَدْخُلُوا بُيُوتًا غَيْرَ مَسْكُونَةٍ فِيهَا مَتَاعٌ لَّكُمْ ۚ وَاللَّهُ يَعْلَمُ مَا تُبْدُونَ وَمَا تَكْتُمُونَ ﴿٢٩﴾

**၂၉။** အသင်တို့သည် လူမနေသော အိမ်များတွင် အသင်တို့၏ (ကိုယ်ရေးကိုယ်တာ) အကျိုးကျေးဇူး ဥစ္စာပစ္စည်း တစ်စုံတစ်ရာရှိ၍ ထိုအိမ်များအတွင်းသို့ ဝင်ရောက်ခဲ့ကြသော် အသင်တို့၌ *မည်သို့မျှ အပြစ် မရှိချေ။* [၁] အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ထင်ရှားစေကြသော ကိစ္စများကိုလည်း ကောင်း၊ အသင်တို့ လျှို့ဝှက်သောကိစ္စများကိုလည်း ကောင်း၊ ကောင်းစွာ သိရှိတော်မူပေသတည်း။

قُلْ لِّلْمُؤْمِنِينَ يَغُضُّوا مِنْ أَبْصَارِهِمْ وَيَحْفَظُوا فُرُوجَهُمْ ۚ ذَٰلِكَ أَزْكَىٰ لَهُمْ ۗ إِنَّ اللَّهَ خَبِيرٌ بِمَا يَصْنَعُونَ ﴿٣٠﴾

**၃၀။** (အို-နဗီတမန်တော်)အသင်သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အား *မိမိတို့၏မျက်စိများကို နှိမ့်ချထားရမည်* [၂] ဟူ၍လည်းကောင်း၊ထို့ပြင် မိမိတို့၏ အရှက်အင်္ဂါများကို ထိန်းသိမ်းကြရမည်ဟူ၍ လည်းကောင်း၊ပြောကြားပါလေ။ ဤသည် ၎င်းတို့အဖို့ အစင်ကြယ်ဆုံးပင် ဖြစ်ပေသည်။ ဧကန်မလွဲ အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့ ပြုလုပ်သမျှတို့ကို ကောင်းစွာ သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ တိုင်ပင်ဆွေးနွေး နေတတ်သည်။ ထိုအချိန် ထိုအခါမျိုးတွင် လူသည် မည်သူနှင့်မျှ မတွေ့လိုပေ။ မည်သူ့ကိုမျှ အတွေ့မခံလိုပေ။ ဧည့်သည်လာမည်ကိုပင် စိုးရိမ်နေပေသည်။ ထိုအချိန် ထိုအခါမျိုးတွင် အလိုက်မသိတတ်ဘဲ၊ အားမနာတတ်ဘဲ၊ မထောက်ထားဘဲ တစ်နည်းတစ်ဖုံ မရအရ၊ ဝင်ရောက် တွေ့ဆုံခြင်းသည် သူတစ်ပါးအား တမင်စိတ်ဒုက္ခပေးရာရောက်သည်။ ယင်းသို့ အလိုက်မသိတတ်ဘဲ တစ်ဖက်သားအား စိတ်ဒုက္ခ ပေးခြင်း၊ အနှောင့် အယှက် ပြုခြင်းအားဖြင့် မေတ္တာပြယ်ကာ၊ ဆက်ဆံမှုပင် ပျက်တတ်သည်။ ထို့အတွက် ဆက်ဆံရာတွင် အလိုက်သိရာသည်၊ ထောက်ထား ရာသည်။ တွေ့ခွင့်မရက မအားလပ်၍ အခွင့်မသင့်၍သာ ဖြစ်သည်ဟု ယူဆကာ ကြည်ဖြူစွာ-ပြန်လာရုံသာရှိသည်။ စိတ်ကွက်ရန် မလိုပေ။ ဤသည် အကောင်းဆုံးနှင့် အပြစ် အကင်းဆုံးနည်းပင်။

(၁) **ဝင်ခွင့်တောင်းရန် မလိုသောဌာနများ။**

အချို့ဌာနများသည် ဤသို့ရှိ၏။ ယင်းဌာနများတွင် တစ်ဦးတစ်ယောက်မျှ၊ နေအိမ်ပမာ သီးသန့်နေသည်ဟူ၍ မရှိ၊ အတားအဆီးလည်းမရှိ၊ ဥပမာ-ဇလီကျောင်း၊ ဧည့်ဂေဟာ-စသည်များ၊ ယင်းသို့သော ဌာနများတွင် မိမိ၏အလုပ်အကိုင် သို့မဟုတ် ပစ္စည်းတစ်စုံတစ်ရာရှိနေပါက ထိုသို့သောဌာနများတွင် ဝင်ရာ၌ ဝင်ခွင့်တောင်းရန် မလိုပေ။

وَقُلْ لِّلْمُؤْمِنٰتِ يَغْضُضْنَ مِنْ اَبْصَارِهِنَّ وَيَحْفَظْنَ فُرُوْجَهُنَّ وَلَا يُبْدِيْنَ زِيْنَتَهُنَّ اِلَّا مَا ظَهَرَ مِنْهَا وَلْيَضْرِبْنَ بِخُمُرِهِنَّ عَلٰى جُيُوْبِهِنَّ وَلَا

၃၁။ (အို-နဗီတမန်တော်) အသင်သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူ အမျိုးသမီးတို့အား (ဤသို့)ပြောကြားပါလေ။ ၎င်းတို့သည်မိမိတို့မျက်စိများကို အောက်သို့ နှိမ့်၍စိုက်၍ ထားရှိကြရမည်။ [၁] ထို့ပြင် ၎င်းတို့သည်မိမိတို့၏အရှက်အင်္ဂါများကို (ကာမေသုမိစ္ဆာစာရမှ ကျူးလွန်ခြင်းမှ) ထိန်းသိမ်းကြရမည်။ ထိုမှတပါး ၎င်းတို့သည်ပေါ်၍နေတတ်သောမိမိတို့၏အလှမှတပါး ကျန်အလှအပတို့ကို မပေါ်ကြစေရ။ [၂]

---

**(၂) မရိုးမသား မကြည့်ရ။**

မရိုးမသားသော ကြည့်ခြင်းသည် ကာမေသုမိစ္ဆာစာရကဲ ကျူးလွန်ရန် ပထမခြေလှမ်းပင်ဖြစ်သည်။ ဤသည့် မရိုးသားသော ကြည့်ခြင်းမှာပင် မြောက်မြားစွာသော ဒုစရိုက်မှုများ၏ တံခါးများလည်း ပွင့်လာပေသည်။ ထို့အတွက် ကုရ်အာန်ကျမ်းမြတ်သည် ဒုစရိုက်မှုများကို ပိတ်ပင်ရန်အတွက် ဤသည့် 'မျက်ပေါက်'ကိုပင် ဦးစွာ ပထမပိတ်စေသည်။ (ဝါ) မွတ်စ်လင်မ်အမျိုးသား၊ အမျိုးသမီးတို့အား မရိုးမသားသော ကြည့်ခြင်းကို ရှောင်ကြဉ်ရန်နှင့် ကာမဂုဏ် အာရုံများကို ထိန်းသိမ်းရန် အမိန့်ပေးထားလေသည်။

အကယ်၍ အမျိုးသားတစ်ဦးသည် သူစိမ်းအမျိုးသမီးတစ်ဦးအား စေတနာမပါဘဲ အမှုမဲ့အမှတ်မဲ့ မြင်မိလျှင် သို့တည်းမဟုတ်၊ အမျိုးသမီးတစ်ဦးသည် သူစိမ်းအမျိုးသား တစ်ဦးအား စေတနာမပါဘဲ အမှုမဲ့အမှတ်မဲ့ မြင်မိလျှင် ဒုတိယတစ်ဖန် ထပ်မံ၍ကြည့်လိုသော စေတနာဖြင့်မကြည့်ရ၊ အဘယ့်ကြောင့်ဆိုသော် ပထမအကြိမ် မြင်မိခြင်းတွင် စေတနာမပါချေ။ ခွင့်လွှတ်နိုင်သည်။ ဒုတိယအကြိမ် ကြည့်ရာတွင် စေတနာပါသည်၊ တမင်ကြည့်ခြင်း ဖြစ်သည်။ ခွင့်မလွှတ်နိုင်ပေ။ သို့ဖြစ်ရာ မကြည့်အပ်သည့် အစိတ်အပိုင်းများကို ကြည့်ရန်ဝေးစွ၊ ကြည့်ပိုင်သော အစိတ်အပိုင်းကိုပင် မရိုးသာသောစိတ်ထားဖြင့် မကြည့်ရပေ။

အကယ်၍ အမျိုးသား၊ အမျိုးသမီး များသည် မကြည့်သင့်၊ မကြည့်အပ်သည်များကို မကြည့်ဘဲ မျက်စိများကို အောက်သို့စိုက်ထားသည့် အလေ့အထ ပြုလုပ်ကြလျှင် စိတ်နှလုံးသားများသည် လျင်မြန်စွာ စင်ကြယ်သန့်ရှင်း အပြစ်ကင်းသွားပေမည်။ စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည့် နှလုံးသားများတွင် မကောင်းမှု ကျူးလွန်ရန် မကောင်းသော အတွေးအခေါ်သည် အသို့လျှင် ပေါ်ပေါက်နိုင်အံ့နည်း။

**(၁) အမျိုးသမီးများလည်း မရိုးသားသောကြည့်ခြင်းမျိုး မကြည့်ရ၊ ကာယိန္ဒြေကို ထိန်းသိမ်းရမည်။**

အမျိုးသားများအား သူစိမ်းအမျိုးသမီးများကို မရိုးသားသော ကြည့်ခြင်းမျိုးဖြင့် မကြည့်ကြရန်နှင့် ကာယိန္ဒြေထိန်းသိမ်းကြရန် အမိန့်ပေးထားတော်မူသကဲ့သို့ အမျိုးသမီးများအားလည်း သူစိမ်းယောကျ်ားများကို မရိုးသားသော ကြည့်ခြင်းမျိုးဖြင့် မကြည့်ကြရန်နှင့် ကာယိန္ဒြေကို ထိန်းသိမ်းကြရန် အမိန့်ပေးထားတော်မူသည်။ အဘယ့်ကြောင့်ဆိုသော် စည်းစောင့်ရန်တာဝန်မှာ အမျိုးသား၊အမျိုးသမီး အသီးသီး၏ တာဝန်ဖြစ်သည်။ ဤသည့်သဘောကို ပေါ်လွင်ထင်ရှားစေရန်နှင့် ပိုမိုလေးနက်စေရန် အတွက် အမျိုးသားများအား လည်းကောင်း အမျိုးသမီးများအားလည်းကောင်း၊ အသီးသီး အမည်နာမဖော်ထုတ်၍ မိန့်ကြားတော်မူခြင်းဖြစ်ရာသည်။ ဃာဇီ။

يُبْدِيْنَ زِيْنَتَهُنَّ اِلَّا لِبُعُوْلَتِهِنَّ اَوْ اٰبَآئِهِنَّ اَوْ اٰبَآءِ بُعُوْلَتِهِنَّ اَوْ اَبْنَآئِهِنَّ اَوْ اَبْنَآءِ بُعُوْلَتِهِنَّ اَوْ اِخْوَانِهِنَّ اَوْ بَنِيْٓ اِخْوَانِهِنَّ اَوْ بَنِيْٓ اَخَوٰتِهِنَّ اَوْ نِسَآئِهِنَّ اَوْ مَا مَلَكَتْ اَيْمَانُهُنَّ اَوِ التّٰبِعِيْنَ غَيْرِ اُولِي الْاِرْبَةِ مِنَ الرِّجَالِ اَوِ الطِّفْلِ الَّذِيْنَ لَمْ يَظْهَرُوْا عَلٰى عَوْرٰتِ النِّسَآءِ

ထို့ပြင် ၎င်းတို့သည် မိမိတို့၏အပေါ်ရုံများ (ဦးခေါင်း ခြုံလွှာများ)ကို မိမိတို့၏ ရင်ဘတ်များ အပေါ်သို့ ချထားကြရမည်။ [၁]

ထိုမှတပါး ၎င်းတို့သည် မိမိတို့၏အလှကို မိမိတို့၏လင်ယောကျ်ားများ၊ သို့မဟုတ် မိမိတို့၏ဖခင်များ၊သို့မဟုတ် မိမိတို့၏လင်ယောကျ်ားများ၏ ဖခင်များ၊ သို့မဟုတ်မိမိတို့၏သားများ၊ သို့မဟုတ် မိမိတို့၏လင်ယောကျ်ားများ၏သားများ၊ သို့မဟုတ် မိမိတို့၏အစ်ကိုများ၊ မောင်များ၏သားများ၊ သို့မဟုတ် မိမိတို့၏အစ်မများ၊ ညီမများ၏သားများ၊ သို့မဟုတ် မိမိတို့၏ (သာသနာဝင်)မိန်းမချင်းများ၊ သို့တည်းမဟုတ် မိမိတို့ လက်ယာလက်များက ပိုင်ဆိုင်သောမိန်းမများ(ဝါ)ကျွန်မများ၊ သို့တည်းမဟုတ် ယောကျ်ားများအနက်မှ (မိန်းမများကို) အလိုမရှိသော (မိမိတို့)

---

(၂) **အလှမဖော်ရ။**

'ဇီနတ်' ဟူသောပုဒ်တွင် သဘာဝ ပင်ကိုယ်အလှနှင့် ဝတ်စားဆင်ယင် ခြယ်လှယ်ဖန်တီးထားသော အလှများအားလုံး အကျုံးဝင်သည်။ အမျိုးသမီးများသည် မိမိတို့၏ သဘာဝပင်ကိုယ်အလှနှင့် ဝတ်စားဆင်ယင် ခြယ်လှယ်ဖန်တီး ထားသောအလှ မည်သည့်အလှကိုမျှ ဤအာယတ်တော်တွင်ပါရှိသည့် 'မဟ်ရမ်' များမှတစ်ပါး မည်သူ၏ရှေ့တွင်မျှ မဖော်ကြရ။ သို့ရာတွင် အချို့အစိတ်အပိုင်းများကိုမူ ဤပညတ်တော်မှ ခြွင်းချန်ထားတော်မူသည်။

(၁) **ရင်သားကို ဖုံးအုပ်ထား။**

အမျိုးသမီးတို့၏ သဘာဝပင်ကိုယ်အလှများတွင် အထူးထင်ရှားသော အလှတစ်ခုမှာ ရင်သားမို့မောက်မှုပင် ဖြစ်သည်။ သို့အတွက် ယင်းသည့်ရင်ကို အထူးတလည်ဖုံးအုပ်ထားရန် အမိန့်ပေးထားတော်မူခြင်းဖြစ်သည်။

အရဗ်အမိုက်ခေတ်တွင် အမျိုးသမီးများသည် ဦးခေါင်းရုံသောခြုံလွှာကို ဦးခေါင်းရုံပြီး အဝတ်၏အစွန်းနှစ်ဘက်ကို ကျောဘက်သို့ ချထားလေ့ရှိကြသည်။ ဤသို့ဖြင့် ၎င်းတို့၏ ရင်များသည် ပေါ်နေခဲ့ပေသည်။ (ရင်သားကို တစ်နည်းတစ်ဖုံ ပေါ်လွင်စေခြင်းမှာ ကာမသေုမိစ္ဆာစာရမှုကို နှိုးဆွပေးခြင်းပင်ဖြစ်သည်။ သို့အတွက် ကုရ်အာန် ကျမ်းမြတ်က အမျိုးသမီးများသည် မိမိတို့၏ ဦးခေါင်းခြုံ လွှာများကို ဦးခေါင်းပေါ်မှ တွဲလျားဆွဲလာပြီး ရင်ဘတ်ပေါ်၌ ချထားရမည်ဟု အမိန့်ပေးထားခြင်းဖြစ်သည်။ ဤသို့ဖြင့် အမျိုးသမီးများ၏ ဦးခေါင်း၊ နား၊ လည်ကုပ်၊ လည်ပင်းနှင့် ရင်အုံများသည် အထူးတလည် လုံခြုံသွားပေမည်။

وَلَا يَضْرِبْنَ بِأَرْجُلِهِنَّ لِيُعْلَمَ مَا يُخْفِينَ مِن زِينَتِهِنَّ ۚ وَتُوبُوا إِلَى اللَّهِ جَمِيعًا أَيُّهَ الْمُؤْمِنُونَ لَعَلَّكُمْ تُفْلِحُونَ ﴿٣١﴾

လက်အောက်ခံများ သို့မဟုတ် မိန်းမများ၏ အတွင်းရေး လျှို့ဝှက်ချက်များကို မသိ နားမလည်ကြသေးသော၊ ကလေးသူငယ်များ ရှေ့မှတပါး အခြားမည်သူ၏ရှေ့၌မျှ မဖော်ကြရ။ [၁]

ထိုမှတပါး ၎င်းတို့သည် မိမိတို့လျှို့ဝှက်ထားကြသောတန်ဆာများကို (သူတစ်ပါးတို့) သိရှိရန် မိမိတို့၏ခြေများကို ဆောင့်၍ မနင်းကြရ။ ထို့ပြင် အို-'မုအ်မင်န်' သက်ဝင် ယုံကြည်သူအပေါင်းတို့၊ အောင်မြင်မှုရရှိကြအံ့သောငှာ အသင်တို့အားလုံးတို့သည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်ဝယ် ဝန်ချ တောင်းပန်ကြလေကုန်။

---

၁ **အမျိုးသမီးများသည် မျက်နှာ၊ လက်ဖဝါးနှင့် ခြေဖဝါးများ အထူးဖုံးကွယ်ထားရန် မလိုသော ပုဂ္ဂိုလ်များ**

အထက်တွင် "ဇီနတ်"ကို ဖုံးကွယ်ထားရန် အမိန့်တော်တွင် အချို့အစိတ်အပိုင်းများ (ဝါ) မျက်နှာ၊ လက်ဖဝါး၊ ခြေဖဝါးများကို ခြွင်းချန်ထားတော်မူသည်။ ယခု ဤအာယတ်တော်တွင် ခြွင်းချန်ထားတော်မူသည့် ယင်းအစိတ်အပိုင်းများကို အထူးဖုံးကွယ်ထားရန် မလိုသော အချို့သားချင်းများနှင့် အချို့ပုဂ္ဂိုလ်များကို မိန့်ဆိုထားတော်မူသည်။

အမျိုးသမီးများ မျက်နှာ၊ လက်ဖဝါး၊ ခြေဖဝါး အထူးဖုံးကွယ်ထားရန် မလိုသော ပုဂ္ဂိုလ်များကား ဆက်လက် ဖော်ပြပါအတိုင်းဖြစ်သည်။

(၁) မိမိတို့၏ လင်ယောကျ်ားများ၊
(၂) မိမိတို့၏ အဘများ၊
(၃) မိမိတို့၏ လင်ယောကျ်ားများ၏အဘများ၊
(၄) မိမိတို့၏သားများ၊
(၅) မိမိတို့၏ လင်ယောကျ်ားများ၏သားများ
(၆) မိမိတို့၏ ( မိတူဘတူ၊ မိတူဘကွဲ၊ ဘတူမိကွဲ) အစ်ကိုများ၊ မောင်များ၊ (ဤတွင် ကြာကြာဘကြီး-ဘထွေး၊ မာမူ-ဦးကြီး၊ ဦးလေးတို့၏ သားများ မပါဝင်ချေ။)
(၇) အထက်ဖော်ပြပါ မိမိတို့၏ အစ်ကိုများ၊မောင်များ၏ သားများ၊ (ဝါ-တူအရင်းများ)
(၈) မိမိတို့၏ (မိတူဘတူ၊ မိတူဘကွဲ၊ ဘတူမိကွဲ) အစ်မများ၊ ညီမများ၏ သားများ၊ (ဤတွင် ကြာကြာနှင့် ခါလာတို့၏ သမီးများ၏ သားများမပါဝင်ချေ။)
(၉) မိမိတို့နှင့် ဘာသာတူအမျိုးသမီးများ၊ (ဤတွင်ဘာသာခြား အမျိုးသမီးများ မပါဝင်ချေ။)➤➤

وَأَنكِحُوا الْأَيَامَىٰ مِنكُمْ وَالصَّالِحِينَ مِنْ عِبَادِكُمْ وَإِمَائِكُمْ ۚ إِن يَكُونُوا فُقَرَاءَ

၃၂။ ထို့ပြင်အသင်တို့သည် မိမိတို့အနက် *ကြင်ဖော်ကြင်ဖက်မရှိသော ယောကျ်ား မိန်းမတို့အားလည်းကောင်း၊* [၁] မိမိတို့၏ ကျွန်-ကျွန်မများအနက် (ထိမ်းမြားရန်)*အရည်အချင်းနှင့်ပြည့်စုံကြသော ကျွန်-ကျွန်မများအားလည်းကောင်း၊* [၂]ထိမ်းမြား၍ပေးကြလေကုန်။

---

➤➤(၁၀) မိမိတို့ကျွန်မများ၊ (ယင်းကျွန်မများသည် မွတ်စ်လင်မ်ဖြစ်စေ၊ ကာဖိရ်ဖြစ်စေ၊ မထူးပေ၊ (ဤတွင် ကျွန်ယောကျ်ားများ မပါဝင်ချေ။)

(၁၁) အာရုံများပျက်စီး၍ အမျိုးသမီးများဘက်သို့ ကာမဂုဏ်၊ မစိတ် အလျှင်းမရှိသော၊ စားသောက်ရန် အတွက်သာ ကပ်ယပ်နေသော အူတူတူ၊ အတတ၊ ရူးတူးတူး၊ ပေါတောတော လူစားများ ဤအာယတ်တော်တွင် "ကပ်ယပ်နေသူများ" ဟူ၍ သုံးနှုန်းထားတော်မူခြင်းမှာ ထိုခေတ် ထိုအခါတွင် ထိုသို့သောသူများမှာ ထိုသို့ပင် ဖြစ်ခဲ့ကြသည်။ ဤတွင် ကာမဂုဏ် အာရုံပျက်စီးမှု (မ)စိတ် မရှိမှုသည် အဓိကဖြစ်သည်။ ကပ်ယပ်နေမှုသည် အဓိကမဟုတ်ပေ။

(၁၂) အမျိုးသမီးများ၏ အတွင်းရေးများကို မသိသေးသော (ဝါ) အသက်ငယ်ရွယ်သည့်အတွက် ကာမဂုဏ်အကြောင်းကို မသိနားမလည်သေးသော ယောကျ်ားကလေးများ (ဤတွင် အရွယ်ရောက်ခါနီးဆဲဆဲ ဖြစ်သော ယောကျ်ားကလေးများ မပါဝင်ချေ။) ထာနဝီကိုမှီးသည်။

**မှတ်ချက်။**

(က) အစ်ကို၊ မောင်၊ အစ်မ၊ ညီမ များတွင် နို့စို့ဘက်များလည်း အကျုံးဝင်သည်။ (ခ)အဘများတွင် ဒါဒါ၊ နာနာ၊ အဘဘက်မှ ဘိုး၊ဘေး၊ အမိဘက်မှ ဘိုး၊ ဘေးများလည်း အကျုံးဝင်သည်။ (ဂ) သားများတွင် မြေးမြစ်များလည်းအကျုံးဝင်သည်။ (ဃ) အမျိုးသမီးများအဖို့ ၎င်းတို့၏ ကြာကြာ၊ မာမူ၊ ဘကြီး၊ ဘထွေး၊ ဦးရီး၊ ဦးလေး၊ လည်း 'မဟ်ရမ်' များတွင် ပါဝင်ကြသည်။ မာဂျိဒီ

**သတိပြုဖွယ်။**

ယခုခေတ်တွင် လူတို့၏အကျင့် လွန်စွာပျက်ပြားနေသည့်အတွက် အချို့ဓမ္မသတ်ရှင်များက နို့စို့မှုဖြင့်တော်စပ်သော ဆွေမျိုးများနှင့်သော်လည်းကောင်း၊ ထိမ်းမြားမှုဖြင့် တော်စပ်သော ဆွေမျိုးများနှင့်သော် လည်းကောင်း၊ နှစ်ကိုယ်ထီးတည်း မနေအပ်ဟု တားမြစ်ကြသည်။ ထာနဝီ။

ဤအကြောင်းနှင့်စပ်လျဉ်း၍ အသေးစိတ် ဓမ္မသတ်များကို ထာနဝီသခင်၏ တဖ်စီရ်ကျမ်းတွင် တွေ့ရှိရသည်။ ကျမ်းလေးမည်စိုး၍မရေးပြီ။

**① အခါအခွင့်သင့်က ထိမ်းမြားရေး အမြန်ဆောင်ရွက်ပေး။**

အထက်တွင် အရှက်ကင်းမဲ့မှု ကာယိန္ဒြေကင်းမဲ့မှု၊ မဖွယ်ရာမှု၊ ယုတ်မာညစ်ညမ်းမှုနှင့် ကာမေ သုမိစ္ဆာစာရမှု စသည့်ဒုစရိုက်မှုများ မဖြစ်ပေါ်စေရန်အတွက် သူတစ်ပါးအိမ်သို့ သွားသည့်အခါ ဝင်ခွင့်တောင်းရမည့် အကြောင်း၊ သူစိမ်းမိန်းမများအား တွေ့မြင်သည့်အခါ စူးစိုက်၍မကြည့်ဘဲ မျက်စိများ (မျက်နှာများ)ကို အောက်စိုက် လွှဲဖယ်ထားရမည့်အကြောင်း၊ 'စတ္တရ်' လုံးဝ ဖုံးအုပ်ထားရမည့် အစိတ်အပိုင်းများကို အမြဲတစေ ဖုံးအုပ်ထားရမည့် အကြောင်းများကို မိန့်ဆိုထားတော်မူသည်။ ➤➤

➤➤ ဤအာယတ်တော်တွင် ဇနီးမိန်းမ မရှိသောယောကျ်ားများ၊ လင်ခင်ပွန်းမရှိသော မိန်းမများ၊ ထိမ်းမြားခြင်း အလျှင်းမပြုရသေးသော အပျို၊လူပျိုများ၊ ထိမ်းမြားပြီးနောက် လင်ခန်းမယားခန်း ပြတ်စဲ၍သော် လည်းကောင်း၊ ဇနီးမောင်နှံနှစ်ဦးအနက် တစ်ဦးဦး သေဆုံး၍သော်လည်းကောင်း၊ လင်ကွာ၊ မယားကွာများ၊ မုဆိုးဖို၊ မုဆိုးမများအား အခါအခွင့် အကြောင်းသင့်က နှောင့်နှေးခြင်းမရှိစေဘဲ ဆောလျင်စွာ ထိမ်းမြားပေးရမည့် ကြောင်း၊ မိန့်ဆိုထားတော်မူသည်။

တမန်တော်မြတ်က သာဝကကြီး အလီသခင်အား၊ အို-အလီ၊ သုံးခုသော အလုပ်တွင် နှောင့်နှေးခြင်း မရှိစေရ။

(၁) ဖရသွ်ဆွလာတ်၊ အချိန်ကျရောက်သည့်အခါ၊

(၂) ဂျနာဇာဟ် အသုဘ အသင့်ဖြစ်သည့်အခါ၊

(၃) မုဆိုးမ၊ ဂုဏ်ရည်တူ၊ စုံဘက်ရရှိသောအခါဟု မိန့်ကြားတော်မူခဲ့လေသည်။

ယခုခေတ်တွင် အချို့တိုင်းပြည်များ၌ မုဆိုးမများနှင့် ထိမ်းမြားခြင်းကို စက်ဆုပ်ရွံရှာကြသည်။ ရှောင်ကြဉ်ကြသည်။ ဤသည် အစ္စလာမ်နှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်သည်။

**ဓမ္မသတ်။**

အချို့ အာလင်မ်ပညာရှင်များက ဤအာယတ်တော်လာ အမိန့်ပညတ်တော်သည် 'ဝါဂျိဗ်' တာဝန် ဖြစ်သည် ဟူ၍ပင်ဆိုကြသည်။ ဤတွင် ထိမ်းမြားခြင်းနှင့် စပ်လျဉ်း၍ တမန်တော်မြတ်၏အချို့ ဩဝါဒတော်များကို ရေးသားဖော်ပြလိုပေသည်။

> ထိမ်းမြားခြင်းသည် ကျွန်ုပ်၏ စွန္နတ်လမ်းစဉ်ဖြစ်သည်။ သို့ဖြစ်ရာ အကြင်သူသည် ကျွန်ုပ်၏ လမ်းစဉ်ကို သွေဖည်ကျောခိုင်းသော် ထိုသူသည် ကျွန်ုပ်(၏ အုပ်စုထဲ)မှ မဟုတ်ပေ။ မစ်ရှ်ကာတ်။
>
> အို-လူပျိုများ၊ အသင်တို့အနက် ထိမ်းမြားခြင်း ပြုနိုင်စွမ်းသူသည် ထိမ်းမြားရမည်။ အဘယ်ကြောင့်ဆိုသော်၊ ထိမ်းမြားမှုသည် မျက်စိအောက်သို့ အလွန်စိုက်စေသည်။ အရှက်ကို အလွန်ထိန်းသိမ်းသည်။ ထိမ်းမြားခြင်း မပြုစွမ်းနိုင်သူသည် ဆွိယာမ် ဥပုသ်ဆောက်တည်ရမည်။ အဘယ်ကြောင့်ဆိုရသော် ဥပုသ်ဆောက်တည်မှုသည် ထိုသူအဖို့ သင်းရာရောက်သည်။ အစ်ဗ်နုကဆီရ်။
>
> အကြင်သူသည် ထိမ်းမြားအံ့၊ ထိုသူသည် အီမာန်၏ ထက်ဝက်ကို ပြည့်စုံစေပြီ ဖြစ်အံ့၊ သို့ဖြစ်ရာ ထိုသူသည် ကျန်ထက်ဝက်နှင့် စပ်လျဉ်း၍ အလ္လာဟ် အရှင်မြတ်အား ကြောက်ရပေမည်။

## ⑵ အခါအခွင့်အကြောင်းသင့်က ကျေးကျွန်များကိုလည်း ထိမ်းမြားပေးရမည်။

အထက်တွင် အခါအခွင့် အကြောင်းသင့်က ကျေးကျွန်မဟုတ်သော လွပ်လပ်သော အမျိုးသား၊ အမျိုးသမီးတို့အား ထိမ်းမြားပေးရမည့် အကြောင်း မိန့်ဆိုထားတော်မူသည်။

ယခုဆက်လက်၍ မိမိတို့လက်ဝယ် ရောက်ရှိနေသော ကျေးကျွန်များကိုလည်း အကယ်၍ ယင်းကျေးကျွန်များသည် ဇနီးမောင်နှံတို့ လိုက်နာ စောင့်စည်းအပ်သည့် တာဝန်များကို ထမ်းဆောင်နိုင်စွမ်းရှိကြပါက၊ (ထိမ်းမြားပြီးနောက်၊ မိမိတို့၏ သခင်များ၏ တာဝန်ဝတ္တရားများကို မလစ်ဟင်းကြပါက) ထိမ်းမြားပေးကြရ မည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ ကြည့်-အွတ်ဆ်မာနီ။ ➤➤

يُغۡنِهِمُ ٱللَّهُ مِن فَضۡلِهِۦۗ وَٱللَّهُ وَٰسِعٌ عَلِيمٞ ٣٢

အကယ်၍ ၎င်းတို့သည် သူဆင်းရဲများ ဖြစ်ကြလျှင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား *မိမိကျေးဇူးတော်နှင့် ကြွယ်ဝချမ်းသာစေတော်မူမည်။* [၁] စင်စစ်မူကား အလ္လာဟ်အရှင်မြတ်သည် ကျယ်ဝန်းစွာ ချီးမြှင့်ပေးသနားတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

وَلۡيَسۡتَعۡفِفِ ٱلَّذِينَ لَا يَجِدُونَ نِكَاحًا حَتَّىٰ يُغۡنِيَهُمُ ٱللَّهُ مِن فَضۡلِهِۦۗ وَٱلَّذِينَ يَبۡتَغُونَ ٱلۡكِتَٰبَ مِمَّا مَلَكَتۡ أَيۡمَٰنُكُمۡ

၃၃။ သို့ရာတွင် ထိမ်းမြားရန်အလို့ငှာ (စားရိတ်ငွေကြေး) မရှိကြသောသူတို့မူကား အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ၎င်းတို့အား ကုံလုံကြွယ်ဝစေတော်မူသည်အထိ (မိမိတို့၏)*ကာယိန္ဒြေကို စောင့်စည်း၍ နေကြရမည်။* [၂] ထို့ပြင် အသင်တို့၏ ကျေးကျွန်များအနက် အကြင်သူတို့သည် (ကျွန်ဘဝမှ လွတ်မြောက်ရန်)ကတိစာချုပ်ကို ချုပ်ဆိုလိုကြ၏။

---

➤➤ လွတ်လပ်သူများတွင် ကာမဂုဏ်အာရုံစိတ်ရှိသကဲ့သို့ ကျေးကျွန်များတွင်လည်း ကာမဂုဏ်အာရုံစိတ်ရှိသည်သာဖြစ်သည်။ သို့ဖြစ်ရာ သခင်များသည် မိမိတို့၏ ကျေးကျွန်များအား ထိမ်းမြားပေးလိုက်ခြင်းဖြင့် မိမိတို့အားပြုစုရာတွင် နည်းများမဆို တာဝန်ပျက်ကွက်ကောင်း ပျက်ကွက်မည်ဟူသော စိုးရိမ်မှုကိုအကြောင်းပြုပြီး၊ မိမိတို့၏ ကျေးကျွန်များအား ထိမ်းမြားခြင်းကို မတားဆီးသင့်ကြပေ။ အခါအခွင့် အကြောင်းသင့်က၊ ကိုယ်ချင်းစာနာ၍ ထိမ်းမြားပေးသင့် ကြပေသည်။ မိမိ၏ အကျိုးကိုသာ မကြည့်ရာ၊ သူတစ်ပါး၏ အကျိုးကိုလည်း ကြည့်ရာသည်။

**(၁) ဆင်းရဲမှုသည် ထိမ်းမြားမှုအတွက် အဟန့်အတားမဖြစ်ရာ။**

လွတ်လပ်သူများတွင် ထိမ်းမြားရန် စကားဆိုသောသူ၌ ဥစ္စာပစ္စည်း ရှာဖွေနိုင်စွမ်းရှိက၊ သားမယားကို သားမှတ်မှတ်၊ မယားမှတ်မှတ် ပြုစုနိုင်စွမ်းရှိက ထိုသို့သော သူတစ်ဦး၏ လက်ရှိဆင်းရဲနွမ်းပါးမှုကို ထိမ်းမြားမှုအတွက် အဟန့်အတားဟူ၍ မယူဆရ။ အဘယ်ကြောင့်ဆိုသော် အကယ်၍ ထိမ်းမြားရန် စကားဆိုလာသူများသည် ယခုလက်ရှိ အခြေအနေတွင် ဆင်းရဲနွမ်းပါးသူများ ဖြစ်နေကြသော်လည်း အလ္လာဟ်အရှင်မြတ်သည် အလိုတော်ရှိပါက ၎င်းတို့အား မိမိ၏ ကျေးဇူးတော်ဖြင့် ကုံလုံကြွယ်ဝစေတော် မူမည်ဖြစ်သည်။

သို့ဖြစ်ရာ ဆင်းရဲနွမ်းပါးမှုကိုလည်း ထိမ်းမြားမှုအတွက် အဟန့်အတားဟူ၍ မယူဆရ၊ ထို့အတူ ထိမ်းမြားမှုကိုလည်း ကုံလုံကြွယ်ဝမှုအတွက် အဟန့်အတားဟူ၍ မယူဆရ၊ ချမ်းသာကြွယ်ဝမှု၊ ဆင်းရဲနွမ်းပါးမှုများသည်လည်း အလ္လာဟ်အရှင်မြတ်၏ အလိုတော်နှင့် ဆက်စပ်လျက်ရှိပေသည်။ ကြည့်-ကုရ်အာန် (၉း၂၈)။

တစ်ဦးတစ်ယောက်နှင့် ပတ်သက်၍ အလ္လာဟ်အရှင်မြတ်သည် ဆင်းရဲမှုကို အလိုတော်ရှိပါက ထိုသူသည် မထိမ်းမြားဘဲနေလျက်နှင့်လည်း ဆင်းရဲနွမ်းပါး၍ နေမည်သာဖြစ်သည်။ တစ်ဦးတစ်ယောက်နှင့် ➤➤

**၅၅။** သို့ရာတွင် ထို(မုရှ်ရစ်က်)တို့မှာမူကား အကြင်အရာများကို အလ္လာဟ်အရှင်မြတ်နှင့်ယှဉ်ပြိုင်၍ ဆည်းကပ်ကိုးကွယ်ကြကုန်၏။ ထိုအရာများသည် ၎င်းတို့အား အကျိုးဖြစ်ထွန်းစေနိုင်ကြသည်လည်း မဟုတ်ပေ။ ထိုနည်းတူစွာ ၎င်းတို့အား အကျိုးယုတ်စေနိုင်ကြသည်လည်း မဟုတ်ပေ။ စင်စစ်သော်ကား 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ဘက်မှ ကျော ခိုင်းသူပင် ဖြစ်ပေသည်။

وَيَعْبُدُونَ مِنْ دُونِ اللَّهِ مَا لَا يَنْفَعُهُمْ وَلَا يَضُرُّهُمْ ۗ وَكَانَ الْكَافِرُ عَلَىٰ رَبِّهِ ظَهِيرًا ﴿٥٥﴾

**၅၆။** စင်စစ်သော်ကား (အို-နဗီတမန်တော်၊) ငါ အရှင်မြတ်သည် အသင့်အား သတင်းကောင်း ပြောကြားသူနှင့် သတိပေးနှိုးဆော်သူ အဖြစ်သာ စေလွှတ်တော်မူခဲ့၏။

وَمَا أَرْسَلْنَاكَ إِلَّا مُبَشِّرًا وَنَذِيرًا ﴿٥٦﴾

**၅၇။** (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) မည်သူမဆို အလိုရှိခဲ့လျှင် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် အထံတော်သို့ သွားရာလမ်းကို ရွေးချယ်ရန်မှတပါး ငါသည် ယင်း(အမိန့်တော်များကို ပို့ဆောင်ခြင်း)နှင့် စပ်လျဉ်း၍ အသင်တို့ထံ မည်သည့်အဖိုးအခကိုမျှ တောင်းဆိုသည် မဟုတ်ပေ။

قُلْ مَا أَسْأَلُكُمْ عَلَيْهِ مِنْ أَجْرٍ إِلَّا مَنْ شَاءَ أَنْ يَتَّخِذَ إِلَىٰ رَبِّهِ سَبِيلًا ﴿٥٧﴾

---

**(၂) အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များ (င)**

အလ္လာဟ်အရှင်မြတ်သည် ရေတစ်စက်ဖြင့် လူသားအား ဖန်ဆင်းတော်မူသည်။ လုပသောရုပ်ဆင်းသဏ္ဌာန်နှင့် ပြည့်ဝစုံလင်သော အသိဉာဏ်ကိုလည်း ချီးမြှင့်ထားတော်မူသည်။ ထို့ပြင်တစ်ဝ လူသား၌ သားချင်းပေါက်ဖော်များ၊ (ဃရာဝါသ) အိမ်ထောင်ပြုခြင်းအားဖြင့် တော်စပ်သော ဆွေမျိုးများကိုလည်း တိုးပွားစေတော်မူသည်။ ဤသို့ဖြင့် လူသားသည် ကာယ၊ ဉာဏ၊ မိတ္တအားဖြင့် အဘက်ဘက်တွင်ပြည့်စုံကာ ကမ္ဘာ့အိမ်ထောင်စုတွင် အထွတ်အထိပ်သို့ ရောက်ရှိလျက်ရှိပေသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ပင်။ ကျေးဇူးတော်ပင်။ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်နှင့် ကျေးဇူးတော်ကား အတိုင်းအဆ မရှိပါဘိတကား။ ထိုသို့သော ကြီးမားသော ကျေးဇူးတော်ရှင်အားသာလျှင် ဆည်းကပ် ကိုးကွယ်ရာသတည်း။

وَتَوَكَّلْ عَلَى الْحَيِّ الَّذِي لَا يَمُوتُ وَسَبِّحْ بِحَمْدِهِ ۚ وَكَفَىٰ بِهِ بِذُنُوبِ عِبَادِهِ خَبِيرًا ﴿٥٨﴾

**၅၈။** ၎င်းပြင် (အို-နဗီတမန်တော်၊) အသင်သည် မည်သည့်အခါ၌မျှ သေဆုံးတော်မူမည် မဟုတ်သော အမြဲထာဝရ ရှင်တော်မူသော အရှင်မြတ်အပေါ်၌ သာလျှင် ယုံပုံလွှဲအပ်ပါလေ။ ထိုမှတပါး အသင်သည် ထိုအရှင်မြတ်အား ချီးမွမ်းထောမနာပြုခြင်းကို မြွက်ဆိုပါလေ။ စင်စစ်သော်ကားထိုအရှင်မြတ်သည်ပင် မိမိကျွန်များ၏ ပြစ်မှုတို့ကို သိတော်မူသောအရှင်အဖြစ် လုံလောက်၏။

الَّذِي خَلَقَ السَّمَاوَاتِ وَالْأَرْضَ وَمَا بَيْنَهُمَا فِي سِتَّةِ أَيَّامٍ ثُمَّ اسْتَوَىٰ عَلَى الْعَرْشِ ۚ الرَّحْمَٰنُ فَاسْأَلْ بِهِ خَبِيرًا ﴿٥٩﴾

**၅၉။** အကြင်အရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေနှစ်ခုလုံး၏ အကြား၌ ရှိသည်တို့ကိုလည်းကောင်း၊ ခြောက်ရက်တွင် ဖန်ဆင်းတော်မူခဲ့ပြီးနောက် 'အရ်ရှ်'ပလ္လင်တော်ထက်ဝယ် စံမြန်းတော်မူခဲ့၏။ ထို(အရှင်မြတ်သည်ပင်) 'ရဟ်မာန်' ကြီးမားလှသော ကရုဏာတော်ရှင် ဖြစ်တော်မူပေရာ ထို 'ရဟ်မာန်' ကြီးမားလှသော ကရုဏာတော်ရှင်နှင့် ပတ်သက်၍ သိရှိသူတစ်ဦးတစ်ယောက်အား မေးမြန်းရာ၏။

وَإِذَا قِيلَ لَهُمُ اسْجُدُوا لِلرَّحْمَٰنِ قَالُوا وَمَا الرَّحْمَٰنُ أَنَسْجُدُ لِمَا تَأْمُرُنَا وَزَادَهُمْ نُفُورًا ۩ ﴿٦٠﴾

**၆၀။** စင်စစ်သော်ကား ၎င်းတို့အား အသင်တို့သည် 'ရဟ်မာန်' ကြီးမားလှသော ကရုဏာတော်ရှင်အား 'စဂျီဒဟ်' ပျပ်ဝပ် ဦးချကြလေကုန်ဟု ပြောကြားခဲ့ပါလျှင် ၎င်းတို့က 'ရဟ်မာန်' ဟူသည် အဘယ်နည်း၊ ကျွန်ုပ်တို့သည် အသင်အကျွန်ုပ်တို့အားအမိန့်ပေးသော အရာကို 'စဂျ်ဒဟ်' ပျပ်ဝပ်ဦးချကြရပါမည်လောဟု ဆိုကြကုန်၏။ စင်စစ် (ဤပြောဆို ညွှန်ကြားမှုသည်) ၎င်းတို့၌ စက်ဆုပ်မှုကို ပိုမိုတိုးတက်စေခဲ့ပေသတည်း။

تَبٰرَكَ الَّذِيْ جَعَلَ فِي السَّمَآءِ بُرُوْجًا وَّجَعَلَ فِيْهَا سِرٰجًا وَّقَمَرًا مُّنِيْرًا ﴿٦١﴾

၆၁။ အကြင်အရှင်မြတ်သည် 'ဗရ်ကသ်' မင်္ဂလာနှင့် အလွန်ပြည့်စုံတော်မူ၏။ ထိုအရှင်မြတ်သည် မိုးကောင်းကင်၌ *ဆယ့်နှစ်ရာသီအင်သာစက်များကို* [၁] ဂြိုဟ်နက္ခတ်များကို ပြုလုပ်တော်မူခဲ့၏။ ထို့မှတပါး ထိုအရှင်မြတ်သည် ယင်းမိုးကောင်းကင်၌ ဆီးမီးတစ်ခုကိုလည်းကောင်း၊ လင်းဝင်းတောက်ပသော လစန္ဒာကိုလည်းကောင်း၊ *ပြုလုပ်ဖန်ဆင်းတော်မူခဲ့၏။* [၂]

---

**(၁) အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များ (စ)**

'ဗုရူဂျ်'သည် 'ဗုရ်ဂျ်'၏ ဗဟုဝုစ်ကိန်းဖြစ်သည်။ ဤပုဒ်ကို ကုရ်အာန်တွင် (၄)နေရာ၌ တွေ့ရှိရသည်။ ကြည့်-ကုရ်အာန် (၄း၇၈။ ၁၅း၁၆။ ၂၅း၆၁။ ၈၅း၁)။

'ဗုရူဂျ်' ဟူသည် မိုးကောင်းကင်ရှိ ကြီးမားသော ဂြိုလ်နက္ခတ်များကိုလည်း ဆိုနိုင်၏။ ကောင်းကင်တမန်များ စောင့်ရှောက်နေသော ကောင်းကင်ရှိရဲတိုက် ခံတပ်များကိုလည်း ဆိုနိုင်၏။ နေ သွားလာရာ ၁၂-ခုသော ရာသီအင်သာစက်စခန်း များကိုလည်းဆိုနိုင်၏။ ရှာဟ်ဆွဟိဗ်၏ ယူဆချက်အရ မိုးကောင်းကင်၏ အပိုင်းအစု(၁၂) ကိုလည်းဆိုနိုင်၏။

မည်သည့်အနက်၌ပင် ရှိသည်ဖြစ်စေ၊ အဆိုပါ 'ဗုရူဂျ်'များကို အလ္လာဟ်အရှင်မြတ်သည်ပင် အံ့ဖွယ်သရဲ စီမံထားတော်မူသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်(၁၅း၁၆-၁၇။ ၈၅း၁)၏ အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။

**(၂) အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များ (ဆ)**

ဤကမ္ဘာတွင် အထင်ရှားဆုံးဖြစ်သော နေနှင့်လကိုလည်း အလ္လာဟ်အရှင်မြတ်ပင် အံ့ဖွယ်သရဲ ပြုလုပ်ထားတော်မူသည်။ အချိန်မှန် ဝင်ထွက်သွားလာကာ ကမ္ဘာ့အိမ်ထောင်စုကြီး တစ်ခုလုံးကို အကျိုးပြုလျက်ရှိသည်။

နေနှင့်လ၏ အကျိုးကားမရေတွက်နိုင်ပေ၊ နေနှင့်လသာမရှိပါက ဤကမ္ဘာသည် စက္ကန့်ပိုင်းအတွင်း ဆိတ်သုဉ်း ပျက်စီးသွားပေမည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိ ကြီးမားသော တန်ခိုးတော်နှင့် ကျေးဇူးတော်ပင်။ နေ၊လနှင့်တကွ ဂြိုဟ်အားလုံးတို့သည် အလ္လာဟ်အရှင်မြတ် အမိန့်တော်အရသာ စံနစ်တကျ သွားလာလှုပ်ရှားနေခြင်း ဖြစ်သည်။ ကြည့်-ကုရ်အာန် (၇း၅၄)။

နေနှင့်လသည် ကိုးကွယ်ရာမဟုတ်။ ထိုနေနှင့်လကို ဖန်ဆင်းတော်မူသော အရှင်သခင်သာလျှင် ကိုးကွယ်ရာ ဖြစ်တော်မူပေသည်။ ကြည့်-ကုရ်အာန်(၄၁း၃၇)။

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၁၀း၅)တွင် အကျယ်ရေးသားခဲ့ပေပြီ။

وَهُوَ الَّذِيْ جَعَلَ الَّيْلَ وَالنَّهَارَ خِلْفَةً لِّمَنْ اَرَادَ اَنْ يَّذَّكَّرَ اَوْ اَرَادَ شُكُوْرًا ﴿٦٢﴾

၆၂။ ထိုမှတပါး ထိုအရှင်မြတ်သည်ပင်အကြင်သူ၏အဖို့ ညဥ့်ကိုလည်းကောင်း၊ နေ့ကိုလည်းကောင်း၊ တစ်ခု၏နောက်တစ်ခု အလှည့်ကျသွားလာသောအရာများပင် ပြုလုပ်တော်မူခဲ့၏။ [၁] ထိုသူသည် သိနားလည်ရန် အလိုရှိခဲ့၏။ သို့တည်းမဟုတ် ကျေးဇူးသိတတ်ရန် ရည်စူးခဲ့ပေသတည်း။

وَعِبَادُ الرَّحْمٰنِ الَّذِيْنَ يَمْشُوْنَ عَلَى الْاَرْضِ هَوْنًا وَّاِذَا خَاطَبَهُمُ الْجٰهِلُوْنَ قَالُوْا سَلٰمًا ﴿٦٣﴾

၆၃။ စင်စစ်သော်ကား 'ရဟ်မာန်' ကြီးမားလှသောကရုဏာတော်ရှင်၏ကျွန်များသည် အကြင်သူများပင်။ ထိုသူတို့သည်ပထဝီမြေပေါ်ဝယ် ကျိုးနွံစွာ၊ ဖြည်းညင်းစွာ၊ ဣန္ဒြေသိက္ခာရှိစွာ၊လမ်းလျှောက်ကြကုန်၏။ [၂] ထိုမှတပါး အသိအလိမ္မာ ကင်းမဲ့ကြသောသူများသည် ၎င်းတို့နှင့် စကားပြောဆိုကြသောအခါ ၎င်းတို့သည် ကောင်းမွန်စွာ ပဋိပက္ခ ကင်းငြိမ်းသော စကားကို *အပြစ်မဖြစ်စေသောစကားကို* ပြောဆိုကြကုန်၏။ [၃]

---

**(၁) အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များ (၈)**

အလ္လာဟ်အရှင်မြတ်သည် နေ့နှင့်ညဥ့်ကို စနစ်တကျ အလှည့်ကျ ရှေ့နောက် ဖြစ်ပေါ်စေထားတော်မူသည်။ လူသားတို့၏ လုပ်ငန်းဆောင်တာများသည် နေ့တွင် ပြုလုပ်ရသည်များလည်း ရှိသည်။ ညဥ့်တွင် ပြုလုပ်ရာများလည်း ရှိသည်။ လူသားတို့သည် နေ့တွင်သွားလာလှုပ်ရှား၍ ညဥ့်တွင်အိပ်စက်ကြပေသည်။

အကယ်တန္တ နေ့မရှိ ညဥ့်ချည်းဖြစ်ရှိနေပါကလည်း ဒုက္ခဖြစ်မည်သာ၊ ညဥ့်မရှိ နေ့ချည်းဖြစ်ရှိနေပါကလည်း ဒုက္ခဖြစ်မည်သာ။

ယခုမူ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် နေ့လည်းရှိသည်။ ညဥ့်လည်းရှိသည်။ စနစ်တကျ အလှည့်ကျ ဖြစ်ပေါ်လျက်ရှိပေသည်။ ဤသည်တို့ကား သိနားလည်လိုသူများအဖို့ အလွန်ထင်ရှားသော သက်သေလက္ခဏာတော်များပင်။ ကျေးဇူးသိတတ်သူများအဖို့ ကြီးမားလှသော ကျေးဇူးတော်များပင်။

**(၂) 'အိဗာဒုရ် ရဟ်မာန်' ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များ**

**(၁) သွားလာရာတွင် မမောက်**

ကြီးမားလှသာ ကရုဏာရှင်၏ ကျွန်များသည် အပြောအဆို၊အပြုအမူ၊ အနေအထိုင်၊အသွားအလာတွင် ကျိုးနွံကြသည်၊ သိမ်မွေ့ကြသည်၊ ဣန္ဒြေသိက္ခာ ရှိကြသည်၊ ရိုးသားကြသည်၊ မမောက်ကြပေ။ မပလွှားကြပေ။ ဟန်ဆောင်၍ လူမမာများကဲ့သို့ သွားလာခြင်းသည် ပြစ်မှုသာဖြစ်သည်။ တမန်တော်မြတ်၏ သွားလာပုံနှင့်လည်း လုံးဝဆန့်ကျင်သည်။

وَالَّذِيْنَ يَبِيْتُوْنَ لِرَبِّهِمْ سُجَّدًا وَّقِيَامًا ﴿٦٤﴾

၆၄။ ၎င်းပြင် အကြင်သူများပင် ထိုသူတို့သည် မိမိတို့အားဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ရှေ့တော်မှောက်ဝယ် 'စဂျ်ဒဟ်' ပျပ်ဝပ် ဦးချကြလျက် လည်းကောင်း၊ မတ်တတ်ရပ်ကြလျက်လည်းကောင်း၊ *ညဥ့်ကို ကုန်လွန်စေကြကုန်၏။* [၁]

وَالَّذِيْنَ يَقُوْلُوْنَ رَبَّنَا اصْرِفْ عَنَّا عَذَابَ جَهَنَّمَ ۖ إِنَّ عَذَابَهَا كَانَ غَرَامًا ﴿٦٥﴾

၆၅။ ထို့ပြင် အကြင်သူများပင်။ ထိုသူတို့သည် (ဤသို့)လျှောက်ထားကြကုန်၏။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် ဂျဟန္နမ်ငရဲ၏ပြစ်ဒဏ်ကို ကျွန်တော်မျိုးတို့မှ ဖယ်ရှားပေးတော်မူပါ။ ဧကန်မလွဲ ယင်း ဂျဟန္နမ်ငရဲ၏ ပြစ်ဒဏ်သည်ကား ပျက်စီးမှုပင်၊ ပြင်းထန်လှသောဒုက္ခပင်၊ *အဆက်မပြတ်သက်ရောက်အံ့သော ပြစ်ဒဏ်ပင် ဖြစ်ပါသည်။* [၂]

إِنَّهَا سَاءَتْ مُسْتَقَرًّا وَّمُقَامًا ﴿٦٦﴾

၆၆။ ဧကန်စင်စစ် ယင်း ဂျဟန္နမ် ငရဲသည် စခန်းချရာ နေရာအဖြစ်လည်းကောင်း၊ နေထိုင်ရာ နေရာအဖြစ်လည်းကောင်း၊အလွန်ညံ့ဖျင်းလှပါသည်။

---

**(၃) (၂) လူမိုက်ကို ဝေးစွာရှောင်**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် အသိအလိမ္မာ ဉာဏ်ပညာကင်းမဲ့သော လူမိုက်များနှင့် အကြောင်းအားလျော်စွာ ဆုံစည်းမိကြလျှင်၊ စကားနည်း ရန်စဲ စကားဖြတ်ကြပေသည်။ လျစ်လျူပြုကြပေသည်။ မဖက်ပြိုင်ကြပေ။ 'စလာမ်'ပေး၍ ဝေးစွာရှောင်ကြပေသည်။

**(၁) (၃) ညဥ့်တွင်လည်း ဝတ်ပြု**

ညဥ့်သန်းခေါင်အခါ လူသားတို့ အိပ်မောကျနေကြသည့် အချိန်တွင်လည်း ကြီးမားလှသော ကရုဏာရှင်၏ကျွန်များသည် လုံ့လဝီရိယကြီးစွာဖြင့် အိပ်ရာမှ နိုးထကာ အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုလျက်ရှိပေသည်။ 'အိဗာဒုရ် ရဟ်မာန်'ပီပီ အလ္လာဟ်အရှင်မြတ်၏ 'အိဗာဒတ်'ကို နေ့ညဥ့်မပြတ် အခါမလပ် ပြုကြပေသည်။

**(၂) (၄) ငရဲဒဏ် ကင်းဝေးရန် ဆုပန်**

ကြီးမားလှသာ ကရုဏာရှင်၏ ကျွန်များသည် နေ့ညဥ့်မပြတ် အခါမလပ် အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်၍ နေကြသော်လည်း၊ မိမိတို့၏ အကျင့်သီလများကို အထင်မကြီးကြပေ။ ငရဲမီးဘေးအတွက် စိတ်မအေးနိုင်ကြရှာပေ။ ထိုအတွက် အလ္လာဟ်အရှင်မြတ် ထံတော်၌ 'အို-ကျွန်တော်မျိုးတို့၏ အရှင်၊ အရှင်သည် ကျွန်တော်မျိုးတို့အား ဂျဟန္နမ်၏ပြစ်ဒဏ်မှ ဖယ်ရှားတော်မူပါ'ဟု ဆုပန်ကြလေသည်။

وَالَّذِيْنَ اِذَآ اَنْفَقُوْا لَمْ يُسْرِفُوْا وَلَمْ يَقْتُرُوْا وَكَانَ بَيْنَ ذٰلِكَ قَوَامًا ﴿٦٧﴾

၆၇။ ထိုမှတပါး အကြင်သူများပင်။ ထိုသူတို့သည် သုံးစွဲကြသောအခါ အချည်းနှီး၊ ဖြုန်းတီးကြသည်လည်း မဟုတ်ပေ။ စစ်စီစေးနှဲကြသည်လည်း မဟုတ်ပေ။ စင်စစ်(၎င်းတို့၏သုံးစွဲမှုကား) ယင်း (အချည်းနှီး ဖြုန်းတီးမှုနှင့် စစ်စီစေးနှဲမှု)၏ အကြားတွင် မလွန် မယုတ် *အလယ်(အလတ် သုံးစွဲမှု)သာလျှင် ဖြစ်ပေသတည်း။* [၁]

وَالَّذِيْنَ لَا يَدْعُوْنَ مَعَ اللّٰهِ اِلٰهًا اٰخَرَ وَلَا يَقْتُلُوْنَ النَّفْسَ الَّتِيْ حَرَّمَ اللّٰهُ اِلَّا بِالْحَقِّ وَلَا يَزْنُوْنَ ۚ وَمَنْ يَّفْعَلْ ذٰلِكَ يَلْقَ اَثَامًا ﴿٦٨﴾

၆၈။ ၎င်းပြင် အကြင်သူများပင်။ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်နှင့်(တွဲဖက်၍) *အခြားကိုးကွယ်ရာ တစ်စုံတစ်ရာကိုမျှဟစ်ခေါ်တသ (ကိုးကွယ်ဆည်းကပ်) ကြသည် မဟုတ်ပေ။* [၂] ၎င်းပြင် ထိုသူများသည် အလ္လာဟ်အရှင်မြတ်က 'ဟရာမ်' ဟူ၍ တားမြစ်ထားတော်မူသော အသက်ဇီဝိန်ကိုလည်း *တရားသဖြင့်မှတပါး သတ်ဖြတ်ခြင်း မပြုကြပေ။* [၃] ထိုမှတပါး ၎င်းတို့သည် ကာမေသုမိစ္ဆာစာရကိုလည်း ကျူးလွန်ကြသည်မဟုတ်ပေ။ စင်စစ်သော်ကားမည်သူမဆို ထိုသည့်ပြစ်မှုများကိုကျူးလွန်ပါမူ ထိုသူသည် (အလွန်ကြီးလေးသော) ပြစ်ဒဏ်နှင့်တွေ့ကြုံရမည်သာ။

---

၁ **(၅) မတွန့်တို မဖြုန်းတီး**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် သုံးစွဲရာတွင်၊ စည်းမဲ့ကမ်းမဲ့ ဖြုန်းတီးကြသည်လည်းမရှိ၊ မစားရက်မသောက်ရက် စေးနှဲတွန့်တိုကြသည်လည်း မရှိ၊ သုံးစွဲရာတွင် တဖက်စွန်းသို့ ရောက်ရှိမသွားကြပေ။ မျှတစွာ အလယ်အလတ်သာ သုံးစွဲကြပေသည်။ ကြည့်–ကုရ်အာန် (၁၇:၂၉)။

၂ **(၆) ရှရစ်ကံ အမှု အလျှင်းမပြု**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းအားသာလျှင် ဆည်းကပ်ကိုးကွယ်ကြပေသည်။ ထိုအရှင်မြတ်နှင့်တွဲဖက်၍ မည်သည့်ပတ်ဝန်းကျင်၊ မည်သည့်အခြေအနေတွင်၊ မည်သည့်အဆင့်အတန်း၌မျှ ယှဉ်တွဲကိုးကွယ်ခြင်း အလျှင်းမပြုကြပေ။ ရှရစ်ကံအမှုကို မဆိုထားလင့်၊ ရှရစ်ကံ၏ အသွင်အပြင်၊ ရှရစ်ကံနှင့် ဆင်တူယိုးမှားဖြစ်သော အပြုအမူများကိုပင် ကိုယ်၊နှုတ်၊နှလုံး သုံးပါးလုံးဖြင့် ဝေးစွာ ရှောင်ကြဉ်ကြပေသည်။ ကြည့်–ကုရ်အာန် (၄:၄၈။ ၄:၁၁၆)။

يُّضٰعَفْ لَهُ الْعَذَابُ يَوْمَ الْقِيٰمَةِ وَيَخْلُدْ فِيْهٖ مُهَانًا ﴿٦٩﴾

၆၉။ 'ကိယာမတ်' ရှင်ပြန်ထရမည့်နေ့တွင် ထိုသူ၌ ပြစ်ဒဏ်သည် တိုးတက်(သက်ရောက်)စေခြင်းကို ခံရမည့်ပြင် ထိုသူသည် အမြဲထာဝရ ယင်းပြစ်ဒဏ်၌ပင် ဂုဏ်သရေယုတ်ညံ့စွာ ခံစားနေရမည်သာ။

اِلَّا مَنْ تَابَ وَاٰمَنَ وَعَمِلَ عَمَلًا صَالِحًا فَاُولٰٓئِكَ يُبَدِّلُ اللّٰهُ سَيِّاٰتِهِمْ حَسَنٰتٍ ۗ وَكَانَ اللّٰهُ غَفُوْرًا رَّحِيْمًا ﴿٧٠﴾

၇၀။ သို့ရာတွင်အကြင်သူသည် (ကာဖိရ်ရှုရစ်က်မှ) ဝန်ချတောင်းပန်ပြီးသက်ဝင်ယုံကြည်ခဲ့၍ကောင်းမြတ်သော အကျင့်သီလကို ကျင့်မှုဆောက်တည်ခဲ့လျှင်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်သည် ထိုသို့သော သူတို့အား ၎င်းတို့၏ မကောင်းမှုများကို *ကောင်းမှုများနှင့်လဲလှယ်၍ပေးသနားတော်မူပေမည်။* [၁] စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော အရှင်ဖြစ်တော်မူ၏။

---

② (၇) **<u>မတရားအသက် မသက်</u>**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် အလ္လာဟ်အရှင်မြတ်က ဟရာမ်ဟူ၍ ပိတ်ပင်တားမြစ်ထားတော်မူသော မည်သည့် အသက်ကိုမျှ မသတ်ဖြတ်ကြပေ။ ဝေးစွာ ရှောင်ကြဉ်ကြပေသည်။ သို့ရာတွင် အချို့ အလွန်ကြီးလေးသော ပြစ်မှု ကျူးလွန်သောသူများကိုမူ အစ္စလာမ်၏ ရှရီအတ်တရားဥပဒေအရ အလွှဲမရှောင်သာသည့် အဆုံးတွင် ကွပ်မျက်ပိုင်ခွင့်ရှိသည်။ ဥပမာ–သူတစ်ပါးအား အပြစ်မဲ့၊ အကြောင်းမဲ့ သတ်ဖြတ်လိုသည့်စိတ်ဖြင့် သေစေနိုင်သည့် လက်နက်ဖြင့် သတ်ဖြတ်သူ၊ ကာမပိုင်မယား ရှိပါလျက် သူတစ်ပါးအိမ်ရာကိုပြစ်မှားသူအား ကွပ်မျက်ရမည့်အကြောင်း ဟိဒါယတ်ကျမ်း အခေါင်–၂၊ စာမျက်နှာ(၄၈၆–၄၉၃)တွင် ရှုပါကုန်။

① အဘယ်မျှကြီးလေးသော ပြစ်မှုကို ကျူးလွန်ခဲ့လင့်ကစား၊ အချိန်မီ ဝန်ချတောင်းပန်၍ 'အီမာန်' ယုံကြည်ကာ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ပါက၊ အလ္လာဟ်အရှင်မြတ်သည် ထိုသို့သောသူများအား ပြစ်မှုများအစား ကောင်းမှုများကို ပြုလုပ်နိုင်စွမ်း ပေးသနားတော်မူမည်။ ကာဖိရ်အဖြစ်၌ ပြစ်မှားခဲ့သော အပြစ်များကိုလည်း ချမ်းသာခွင့်ပေးတော်မူမည်။ သို့တည်းမဟုတ် အလ္လာဟ်အရှင်မြတ်သည် ပြစ်မှုများကို ပလပ်တော်မူ၍ ဝန်ချတောင်းပန်မှုနှင့် ကောင်းမြတ်သော အကျင့်သီလများ၏ ကျေးဇူးတော်အဟုန်ကြောင့်၊ ယခင်ကျူးလွန်မိခဲ့သော အပြစ်များ၏ အရေအတွက်နှင့်အမျှ ကုသိုလ်အကျိုးများကို ရေးမှတ်တော်မူမည်တည်း။

وَمَنْ تَابَ وَعَمِلَ صَالِحًا فَإِنَّهُ يَتُوبُ إِلَى اللَّهِ مَتَابًا ﴿٧١﴾

၇၁။ အမှန်သော်ကား မည်သူမဆို (အပြစ်မှ)ဝန်ချတောင်းပန်၍ ကောင်းမြတ်သော အကျင့်သီလကို ကျင့်မှုဆောက်တည်ခဲ့ပါမူ ဧကန်မလွဲ ထိုသူသည် အလ္လာဟ်အရှင်မြတ်ဘက်သို့ အထူးပြန်လှည့်သူပင် ဖြစ်ပေသတည်း။

وَالَّذِينَ لَا يَشْهَدُونَ الزُّورَ وَإِذَا مَرُّوا بِاللَّغْوِ مَرُّوا كِرَامًا ﴿٧٢﴾

၇၂။ ထို့ပြင် အကြင်သူများပင်။ ထိုသူတို့သည် မလျော်ကန်သောနေရာသို့လည်း သွားရောက်ပါဝင်ကြသည်မဟုတ်ပေ။ [၁] (တနည်း:) မုသားသက်သေခံကြသည်လည်း မဟုတ်ပေ။ ထိုမှတပါး ၎င်းတို့သည် အချည်းနှီးသော အမှုကိစ္စ၏အပါးမှ ဖြတ်သန်း၍ သွားကြလေသောအခါ၊ (မျက်နှာအောက်စိုက်၍) ဣန္ဒြေရှိသူများပီပီ ဖြတ်သန်း၍သွားကြကုန်၏။ [၂]

وَالَّذِينَ إِذَا ذُكِّرُوا بِآيَاتِ رَبِّهِمْ لَمْ يَخِرُّوا عَلَيْهَا صُمًّا وَعُمْيَانًا ﴿٧٣﴾

၇၃။ ၎င်းပြင် အကြင်သူများပင်၊ ထိုသူတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အာယတ်တော်များဖြင့် ဆုံးမဩဝါဒပေးခြင်းကို ခံကြရသောအခါ ထိုသူတို့သည် ယင်းအာယတ်တော်များအပေါ်၌ နားပင်းသူများအဖြစ် လည်းကောင်း၊ မျက်စိကန်းသူများအဖြစ်လည်းကောင်း၊ ကျလာကြသည်မဟုတ်ပေ။ [၃]

---

**၁ (၈) မုသားမပြော မုသားသက်သေမထွက်**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် မုသားမပြောကြ၊ မုသားသက်သေ မထွက်ကြ။ အချည်းနှီးသော၊ အဓိပ္ပာယ်ကင်းမဲ့သော၊ ကုဖ်ရ်၊ ရှရစ်က်ကိုအားပေးသော အခမ်းအနားများ၊ သေရည်သေရက်သောက်စားသောနေရာများ၊ တရားတော်နှင့် ဆန့်ကျင်သည့် နေရာများတွင် မပါဝင်ကြပေ။

**၂ (၉) အချည်းနှီးသော ကိစ္စများအနီးမှ ဖြတ်သွားရပါကလည်း ဣန္ဒြေရှိစွာဖြင့် ရှောင်ကွင်းသွားကြပေသည်**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် အချည်းနှီးသော ကိစ္စများတွင် မပါဝင်ကြပေ။ ဝေးစွာ ရှောင်ကြဉ်ကြပေသည်။ အကြောင်းအားလျော်စွာ မလွှဲမရှောင်သာ အချည်းနှီးသောကိစ္စအနီးမှ ဖြတ်သွားကြရပါကလည်း ဣန္ဒြေရှိစွာဖြင့် ရှောင်ကွင်းသွားကြပေသည်။ မော်၍မျှ မကြည့်ကြပေ။ ➢➢

وَالَّذِيْنَ يَقُوْلُوْنَ رَبَّنَا هَبْ لَنَا مِنْ اَزْوَاجِنَا وَذُرِّيّٰتِنَا قُرَّةَ اَعْيُنٍ وَّاجْعَلْنَا لِلْمُتَّقِيْنَ اِمَامًا ﴿٧٤﴾

၇၄။ ထိုမှတပါး အကြင်သူများပင်။ ထိုသူတို့သည် အို–ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်။အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ကျွန်တော်မျိုးတို့၏ ဇနီးကြင်ရာများထံမှလည်းကောင်း၊ *ကျွန်တော်မျိုးတို့၏ သားမြေးတို့ထံမှလည်းကောင်း၊ မျက်စိအေးမြကြည်လင်မှုကိုပေးသနားတော်မူပါ။* [၁] ထိုမှတပါး *အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား 'မွတ္တကီ' သူတော်စင်များ၏ရှေ့ဆောင်ရှေ့ရပ် ပြုလုပ်တော်မူပါဟု* [၂] လျှောက်ထား အသနားခံကြကုန်သတည်း။

---

➤➤ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၂၃း၃)၏ အဖွင့်တွင် အကျယ်ဖွင့်ဆို ရေးသားခဲ့ပေပြီ။

⑨ **(၁၀) တရားတော်များကို အာရုံစူးစိုက်ကာ နားသောတဆင်ကြသည်။**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် အလ္လာဟ်အရှင်မြတ်၏ တရားတော်များကို အာရုံစူးစိုက်ကာ ရိုသေလေးမြတ်စွာ နားသောတ ဆင်ကြပေသည်။ ဦးထိပ်ရွက် ပန်ဆင်ကြပေသည်။ ကာဖိရ်၊ မုရှ်ရစ်က်များကဲ့သို့ နားပင်းများ၊ မျက်စိကန်းများ ပြုလုပ်မနေကြပေ။

ဤအာယတ်တော်တွင် ပါရှိသည့် 'အာယာတ်'ဟူသောပုဒ်သည် 'တရားတော်များ'၏ အနက်၌လည်း ဖြစ်နိုင်ပေသည်။ 'သက်သေလက္ခဏာတော်များ'၏ အနက်၌လည်း ဖြစ်နိုင်ပေသည်။ ကြည့်–မာဂျိဒီ။

① **(၁၁) ဇနီးသားသမီးများအတွက် ဆုပန်ကြသည်။**

ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် အလ္လာဟ်အရှင်မြတ်ထံတော်၌ 'အို–ကျွန်တော်မျိုးတို့၏ အရှင်သခင်၊ ကျွန်တော်မျိုးတို့အား မျက်စိအေးမြစေမည့် ဟာဒယနှလုံးရွှင်ပြုံးစေမည့် ဇနီးကောင်း၊ သားကောင်း၊ သမီးကောင်းများကို ပေးသနားတော်မူပါ'ဟူ၍ ဆုပန်ကြကုန်သည်။

ဇနီး သားသမီးများသည် အလ္လာဟ်အရှင်မြတ်၏ တရားတော်များကို ဆည်းပူး၍ ယင်းတရားတော်များနှင့်အညီ သာသနာ့ကျင့်စဉ် ကျင့်ရပ်များကို လက်တွေ့လိုက်နာ ကျင့်မူနေကြသည့်အဖြစ်ကို တွေ့မြင်ရမှသာလျှင်၊ မုအ်မင်န်တစ်ဦး၏ စိတ်နှလုံးသည် ရွှင်ပြုံးနိုင်ပေမည်။ ဤသည့်အဖြစ်သည် အလွန်ကြီးမားသော ဆုလာဘ်ကြီးရှေ့မှောက်တွင် အခြားသော လောကီစည်းစိမ်များသည် အချည်းနှီးပင်၊ ဖွဲနှင့်သလဲပင်။

② **(၁၂) မိမိတို့ကိုယ်တိုင် တရားရလိုကြသည်သာမက သူတပါးတို့အားလည်း တရားပြလိုကြသည်**

ထိုမျှမက ကြီးမားလှသော ကရုဏာရှင်၏ ကျွန်များသည် အလ္လာဟ်အရှင်မြတ်ထံတော်၌၊ 'အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား သူတော်စင်များ၏ ရှေ့ဆောင်အဖြစ် ပြုလုပ်ပေးတော်မူပါ' ဟူ၍လည်း ဆုပန်ကြကုန်သည်။ ဆိုလိုသည်ကား– မိမိတို့ကိုယ်တိုင် တရားရကြသည်သာမက၊ သူတစ်ပါးတို့အားလည်း တရားပြနိုင်သူများ ဖြစ်ကြရပါစေသတည်းဟူလို။ ဤသည်တို့ကား ကြီးမားလှသောကရုဏာရှင်၏ မွန်မြတ်လှသော ကျွန်များ၏ ဂုဏ်ရည်များတည်း။ ရှေ့တွင် ၎င်းတို့စံစားကြရမည့် အကျိုးဆုလာဘ်များကို မိန့်ဆိုထားတော်မူသည်။

أُولَٰٓئِكَ يُجْزَوْنَ ٱلْغُرْفَةَ بِمَا صَبَرُوا۟ وَيُلَقَّوْنَ فِيهَا تَحِيَّةً وَسَلَٰمًا ﴿٧٥﴾

၇၅။ ထို(ဝိသေသဂုဏ်ထူးနှင့် ပြည့်စုံကြကုန်သော 'ရဟ်မာန်' ကြီးမားလှသော ကရုဏာတော်ရှင်၏ ကျွန်)တို့မှာကား မိမိတို့ တည်တံ့ကြံ့ခိုင်စွာ ရှိခဲ့ကြသည့်အတွက်ကြောင့် (ဂျန္နတ်သုခဘုံ၏) မြင့်မြတ်သော အဆောင်များကိုပင် အစားပေး ချီးမြှင့်ခြင်း ခံကြရပေမည်။ ထိုမှတပါး ထိုသူတို့သည် ယင်းအဆောင်များ၌ ('မလာအိကဟ်' ကောင်းကင်တမန်များ၏) နှုတ်ထောင်းအားရကြောင်း ထုတ်ဖော်ပြောဆိုခြင်းကိုလည်းကောင်း၊ 'စလာမ်' မေတ္တာပို့နှုတ်ခွန်းဆက်သခြင်းကိုလည်းကောင်း၊ (တွေ့ကြုံစေခြင်း)ခံကြရပေမည်။

خَٰلِدِينَ فِيهَا ۚ حَسُنَتْ مُسْتَقَرًّا وَمُقَامًا ﴿٧٦﴾

၇၆။ (၎င်းတို့သည်) ယင်း('ဂျန္နတ်'သုခဘုံ၏) မြင့်မြတ်သောအဆောင်များ၌ပင် အမြဲထာဝစဉ်နေထိုင်ကြပေမည်။ ထို('ဂျန္နတ်' သုခဘုံ၏) မြင့်မြတ်သော အဆောင်များသည် အလွန်မွန်မြတ်လှစွာသော စခန်းချရာ နေရာသည် လည်းကောင်း၊ နေထိုင်ရာ နေရာသည် လည်းကောင်း၊ ဖြစ်ပေသည်။ [၁]

---

(၁) **ကြီးမားလှသော ကရုဏာရှင်၏ကျွန်များ စံစားရာ မြဲသော သုခဗိမာန်။**

ကြီးမားလှသော ကရုဏာရှင်၏ကျွန်များသည် အလ္လာဟ်အရှင်မြတ်၏ တရားတော်များကို မဆုတ်မနစ်သော လုံ့လဥဿဟ ဖွဲ့သတ္တိဖြင့် မယိမ်းမယိုင် ကျောက်တိုင်ပမာ ကြံ့ခိုင်တည်ကြည်စွာ ဦးထိပ်ရွက်ပန်ဆင်နိုင်ခဲ့ကြသည့်အတွက် အလ္လာဟ်အရှင်မြတ်၏ ဂျန္နတ်ဥယျာဉ်တော်တွင် မြင့်စွင့်သော ဗိမာန်များ၌ စံစားကြရပေမည်။

ကောင်းကင်တမန်များသည် ၎င်းတို့အား မေတ္တာပို့သကာ ခရီးဦးကြို ပြုကြပေမည်။ ဂုဏ်ပြုကြပေမည်။ ဤသို့သော ဗိမာန်များတွင် ခေတ္တခဏမျှ ဝင်ရောက်ခိုလှုံရခြင်း သည်ပင် အတိုင်းမသိ အကျိုးများလှဘိ၏။ ယခုမူ ယင်းဗိမာန်များသည် ၎င်းတို့ ထာဝရစံစားရာ ထာဝရဗိမာန်များ ဖြစ်လျက်ရှိချေပြီ။ ဤကား မြဲသော သုခတည်း၊ ဤကား ကြီးမားလှသော ကရုဏာရှင်၏ ကျွန်ပီသမှု၏ အကျိုးတည်း။

قُلْ مَا يَعْبَؤُا بِكُمْ رَبِّي لَوْلَا دُعَاؤُكُمْ فَقَدْ كَذَّبْتُمْ فَسَوْفَ يَكُونُ لِزَامًا ﴿٧٧﴾

၇၇။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အို-အချင်းတို့၊) အကယ်၍ အသင်တို့သည် ဆုတောင်းပတ္တနာမပြုကြလျှင် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အသင်တို့အား လုံး၀ ဂရုစိုက်တော်မူမည် မဟုတ်ပေ။ ယခုသော်ကား ဧကန်မလွဲ အသင်တို့သည် (ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ ကုရ်အာန်ကျမ်းတော်မြတ်ကိုလည်းကောင်း၊) မဟုတ်မမှန်ဟူ၍ စွပ်စွဲပြောဆိုခဲ့ကြပြီးဖြစ်ရာ မကြာမြင့်မီ *ယင်းစွပ်စွဲပြောဆိုမှုသည် (အသင်တို့အပေါ်၌) အန္တရာယ်ပင် ဖြစ်ချေအံ့သတည်း။* [၁]

---

(၁) **ကာဖစ်ရ်များအား သတိပေးတော်မူခြင်း။**

ဆိုလိုသည်ကား - အလ္လာဟ်အရှင်မြတ်က၊ တမန်တော်မြတ်အား လူသားတို့ကို ပြောကြားစေတော်မူသည်မှာ- ကျိုးပြစ် ဖြစ်စေမည့် စကားများကို အကုန်အစင် ပြောကြားပြီးဖြစ်သည်။

လူသားတို့သည် မမောက်မာကြရာ၊ အထင်မကြီးကြရာ၊ အတင့်မရဲကြရာ။ အလ္လာဟ်အရှင်မြတ်သည် တောင့်တမှု၊ ကြောင့်ကြမှု ကင်းစင်တော်မူသောအရှင် ဖြစ်တော်မူသည်။

လူသားတို့သည် ထိုအရှင်မြတ်အား ၀တ်မပြုကြပါက ထိုအရှင်မြတ်ထံ ဆုပန်ကြားကြပါက ထိုအရှင်မြတ်သည် စိုးစဉ်မျှပင် ဂရုမစိုက်တော်မူမည် မဟုတ်ပေ။

သို့ ၀တ်မပြုကြသည့်အတွက်၊ ဆုမပန်ကြသည့်အတွက် ထိုအရှင်မြတ်၌ စိုးစဉ်မျှလည်း ဆုံးရှုံးနစ်နာမှု ရှိသည်မဟုတ်ပေ။ လူသားတို့၏ ၀တ်ပြုခြင်း၊ ဆုပန်ကြားခြင်းသည် ထိုအရှင်မြတ်၏ အကျိုးမဟုတ်၊ လူသားတို့၏အကျိုးသာ။ ဤသည်ကို လူသားတို့ ကောင်းစွာ သိထားကြရာသည်။

ယခုမူ ကာဖိရ်များသည် ထိုအရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ တမန်တော်အားလည်းကောင်း မဟုတ်မမှန်ဟူ၍ပင် စွပ်စွဲပြောဆိုကြပြီးဖြစ်ရာ၊ ယင်းသို့ မဟုတ်မမှန် စွပ်စွဲပြောဆိုခြင်းသည် ပင်လျှင် မကြာမီအတွင်း ဤပစ္စက္ခတွင်လည်းကောင်း၊ နောင်တမလွန်ဘ၀တွင် လည်းကောင်း၊ ဓမ္မန္တရာယ်ဖြစ်လျက်ရှိချေမည်။ မကြာမီ ရင်ဆိုင်ကြရတော့မည်သာတည်း။

## လက်ာသဆရာများကဏ္ဍ




ဤကဏ္ဍသည် 'ရှုအရာ'လက်ာသဆရာများအကြောင်း ပါဝင်သော ကဏ္ဍမည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် (အာယတ်)တော် (၂၂၇)ပါး၊ ရကူအ်အပိုဒ် (၁၁)ပိုဒ် အသီးသီး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အလွန်တရာ သနားကြင်နာညှာတာတော်မူသော ကြီးမားလှသောကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

طٰسٓمّٓ ①

၁။ သွာ၊ စီမ်၊ မီမ်။

تِلْكَ اٰيٰتُ الْكِتٰبِ الْمُبِيْنِ ②

၂။ ဤသည် ထင်ရှားလှစွာသော ကျမ်းဂန်၏ (အာယတ်)တော်များပင်။

لَعَلَّكَ بَاخِعٌ نَّفْسَكَ اَلَّا يَكُوْنُوْا مُؤْمِنِيْنَ ③

၃။ (အို-နဗီတမန်တော်၊) ၎င်း(မက္ကာမြို့သား)တို့သည် သက်ဝင်ယုံကြည်ခြင်းမရှိကြသောကြောင့် အသင်သည် မိမိကိုယ်ကို သတ်သေချင်လုမတတ် ဖြစ်နေဘိ၏။

اِنْ نَّشَاْ نُنَزِّلْ عَلَيْهِمْ مِّنَ السَّمَآءِ اٰيَةً فَظَلَّتْ اَعْنَاقُهُمْ لَهَا خٰضِعِيْنَ ④

၄။ အကယ်၍သာငါအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် မိုးကောင်းကင်မှ သက်သေလက္ခဏာတော်တစ်ပါးကို ၎င်းတို့အပေါ်၌ချပေးတော်မူမည်။ ထိုအခါ ၎င်းတို့၏လည်တိုင်များသည် ယင်းသက်သေလက္ခဏာ၏ရှေ့မှောက်ဝယ် ကိုင်းညွှတ်ရိုကျိုးလာကြပေမည်။

وَمَا يَاْتِيْهِمْ مِّنْ ذِكْرٍ مِّنَ الرَّحْمٰنِ مُحْدَثٍ اِلَّا كَانُوْا عَنْهُ مُعْرِضِيْنَ ⑤

၅။ စင်စစ်သော်ကား 'ရဟ်မာန်' ကြီးမားလှသောကရုဏာတော်ရှင်၏အထံတော်မှ မည်သည့် သစ်လွင်သောဆုံးမဩဝါဒမဆို ၎င်းတို့ထံ ရောက်ရှိလာပါလျှင် ၎င်းတို့သည် ယင်းဆုံးမဩဝါဒဘက်မှ မျက်နှာလွှဲ၍ နေခဲ့ကြသည်သာ။

فَقَدۡ كَذَّبُوا۟ فَسَيَأۡتِيهِمۡ أَنۢبَٰٓؤُا۟ مَا كَانُوا۟ بِهِۦ يَسۡتَهۡزِءُونَ ٦

၆။ ယခုသော်ငင်းတို့သည် (ယင်းဆုံးမညွှန်ကြားချက်ကို) မဟုတ်မမှန်ဟူ၍ပင် စွပ်စွဲ ငြင်းပယ်ခဲ့ကြပေရာ ၎င်းတို့ ပြက်ရယ်သမူပြုလျက် ရှိခဲ့ကြသောအရာ၏ အဖြစ်မှန် သည် မကြာမြင့်မီပင်၎င်းတို့ထံရောက်ရှိလာပေမည်၊[၁]

أَوَلَمۡ يَرَوۡا۟ إِلَى ٱلۡأَرۡضِ كَمۡ أَنۢبَتۡنَا فِيهَا مِن كُلِّ زَوۡجٖ كَرِيمٍ ٧

၇။ ၎င်းတို့သည် ပထဝီမြေကို မမြင်ခဲ့ကြလေ သလော။ ငါအရှင်မြတ်သည် ယင်းပထဝီမြေ၌ တင့်တယ် ကောင်းမြတ်လှစွာသော(သစ်ဥ၊ သစ်ပွင့်၊ သစ်သီးအစရှိသော) အမျိုးအစားတိုင်းမှ အဘယ်မျှ လောက် များပြားစွာ ပေါက်ရောက်စေတော်မူခဲ့ပါ သနည်း။

(၁) တမန်တော်မြတ်သည် ကာဖိရ်များ အစ္စလာမ်အတွင်းသို့ ရောက်ရှိလာရေးကို အလွန်တရာမျှ လိုလားတော်မူ၏။ ကာဖိရ်များ အစ္စလာမ်အတွင်းသို့ ရောက်ရှိမလာကြသည့်အတွက် တမန်တော်မြတ်သည် သေရမလောက်ပင် ပူပင်သောက ယူကျုံးမရ ဖြစ်တော်မူ၏။ ဤအာယတ်တော်တွင် တမန်တော်မြတ်အား သိကြားစေတော်မူသည်မှာ- တမန်တော်မြတ်၏ စေတနာ မေတ္တာကရုဏာမှန်၏။ ပူပန်သောက ယူကျုံးမရဖြစ်မှုကားမှန်၏ သို့ရာတွင် စေတနာမေတ္တာ ကရုဏာထားရာတွင်လည်း အကန့်အသတ်ကား ရှိပေသေးသည်။

အဘယ်ကြောင့်ဆိုသော် ဤပစ္စက္ခဘဝသည် စမ်းသပ်ရာဌာနဖြစ်သည်။ ဤတွင် လူသားတို့၏ နာခံမှု၊ မနာခံမှုကို စမ်းသပ်ရသည်။ ထို့အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား မိမိတို့၏စေတနာအလျောက် လွတ်လပ်စွာ ယုံကြည်ကိုးကွယ်ခွင့် ပြုထားတော်မူသည်။ လူသားတို့သည် မိမိတို့၏ အာသာဆန္ဒအလျောက် ကြိုက်နှစ်သက်ရာလမ်းစဉ်ကို ရွေးချယ်ကျင့်သုံး နိုင်ကြပေသည်။ မကြိုက် မနှစ်သက်သော လမ်းစဉ်ကို ငြင်းပယ်နိုင်ကြပေသည်။ ယင်းသည့် လွတ်လပ်ခွင့်ကို အလ္လာဟ်အရှင်မြတ်သည် ရုပ်သိမ်းတော်မမူလိုပေ။

အလ္လာဟ်အရှင်မြတ်သည် အကယ်၍ လူသားအားလုံးတို့အား မွတ်စ်လင်မ်ဖြစ်စေရန် အလိုတော်ရှိတော် မူပါက၊ လူတိုင်းလူတိုင်းအား ကိုင်းညွတ် ရိုကျိုးစေမည့် သက်သေလက္ခဏာတော်ကြီး တစ်ပါးပါးကို ချပေးတော်မူနိုင် ပေသည်။ ထိုအခါ အလွန့်အလွန် မောက်မာပလွှား၍ သွေဖည်ငြင်းဆန် မနာခံသောသူများပင်လျှင် ဦးညွတ်လာကြ ရပေမည်။ အသို့မျှ သွေဖည်ငြင်းဆန်နိုင်ကြမည် မဟုတ်ပေ။ သို့ပြုလုပ်တော်မူနိုင်သော်လည်း အလ္လာဟ်အရှင်မြတ် သည် ထိုသို့ ပြုတော်မမူချေ။

အလ္လာဟ်အရှင်မြတ်သည် လူသားတို့ထံ အချို့သက်သေ လက္ခဏာတော်များကို ချပေးထားတော် မူသည်။ ထိုသည့် လက္ခဏာတော်များကို တွေးဆ ဆင်ခြင်မြော်မြင်ပါက လူသားတို့သည် အမှန်တရားကို ကောင်းစွာ ရရှိနိုင်ကြပေသည်။

တမန်တော်မြတ် ပူပန်သောက ဖြစ်နေတော်မူသော ကာဖိရ်များကား မဟာကရုဏာတော်ရှင်သည် မိမိ၏ကရုဏာတော်ဖြင့် ၎င်းတို့အကျိုးငှာ ၎င်းတို့ထံသို့ အဆုံးအမတစ်ပါးပါး ပို့ချပေးတော်မူသည့် အခါတိုင်း၌ ➤➤

إِنَّ فِى ذَٰلِكَ لَءَايَةً ۖ وَمَا كَانَ أَكْثَرُهُم مُّؤْمِنِينَ ﴿٨﴾

၈။ ကေန်စင်စစ် ဤသည်၌ ကြီးကျယ်လှစွာသော သက်သေ လက္ခဏာတစ်ရပ်ရှိပေသည်။ သို့ရာတွင် ၎င်းတို့အနက်အများဆုံးသောသူတို့မှာမူကား သက်ဝင် ယုံကြည်ကြသည် မဟုတ်ပေ။ ၁

وَإِنَّ رَبَّكَ لَهُوَ ٱلْعَزِيزُ ٱلرَّحِيمُ ﴿٩﴾

၉။ စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူ တော်မူသောအရှင်မြတ်သည် ကေန်မလွဲ ထိုအရှင်မြတ် သည်ပင် အလွန်တရာ လွှမ်းမိုးတော်မူသော အရှင်၊ အလွန်တရာ သနားကြင်နာညှာတာတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

وَإِذْ نَادَىٰ رَبُّكَ مُوسَىٰٓ أَنِ ٱئْتِ ٱلْقَوْمَ ٱلظَّٰلِمِينَ ﴿١٠﴾

၁၀။ ထိုမှတပါး တစ်ရံရောအခါဝယ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် မူစာအား အသင်သည် (မိမိတို့ကိုယ်ကို မိမိတို့ပင်) နှိပ်စက် ညှဉ်းပန်းသူတို့ထံ သွားပါလေဟု (မိန့်ကြား)တော် မူခဲ့၏။

---

➤➤ ၎င်းတို့သည် ဂရုမမူကြပေ။ ကျောခိုင်းကြသည်သာမက အဆိုပါအဆုံးအမများကို အမှားဟူ၍ပင် ဆိုကြသည်၊ ပြက်ရယ်သမှုပင် ပြုကြပေသည်။

သို့ဖြစ်ပေရာ ၎င်းတို့သည် မကြာမီအတွင်း ဤပစ္စက္ခတွင်လည်းကောင်း၊ နောင်တမလွန်ဘဝတွင် လည်းကောင်း၊ မိမိတို့ မိုက်မှားခဲ့ကြသည့် ပြစ်ဒဏ်ကို ခံကြရပေမည်။ ထိုအခါ၎င်းတို့သည် မိမိတို့ပြက်ရယ်သမှု ပြုခဲ့ကြသည့်အကျိုးကား အသို့ရှိသည်ကို ကောင်းစွာ သိရှိသွားကြပေမည်။

(၁) ကာဖိရ်များသည် မိမိတို့ပတ်ဝန်းကျင်ရှိ လယ်ယာဥယျာဉ်များကို လေ့လာစဉ်းစား ဆင်ခြင်၍ကြည့်ကြပါက မူလအခြေအနေနှင့် တစ်ဖန်ဖြစ်ပေါ်လာသည့် အခြေအနေများကို နားလည်သဘောပေါက်နိုင်ကြပေသည်။

စဉ်းစားဆင်ခြင်အပ်သည်မှာ ဤသည့်သေနေသော သာမန်မြေတစ်ဆုပ်မှ လှပတင့်တယ် ရှုချင်စဖွယ် ကောင်းသော ပန်းမန်အစုံစုံ၊ စားချင်စဖွယ်ကောင်းသော သစ်သီးဝလံ အမျိုးမျိုးတို့သည် စနစ်တကျ အံ့ဖွယ်သရဲ ပေါက်ရောက်လျက်ရှိသည်။

ဤသည်ကို စဉ်းစားဆင်ခြင်ပါက ကြီးမားလှသော တန်ခိုးတော်ရှင်၊ အတိုင်းအဆမရှိသော ဉာဏ်တော် ရှင်တစ်ပါးသည် ဤသည်တို့ကို နောက်ကွယ်ရာမှ ကြိုးကိုင်၍ စနစ်တကျ စီမံဖန်တီးတော်မူလျက် ရှိသည်ကို နားလည်သဘောပေါက် နိုင်ပေသည်။ ထိုအရှင်မြတ်သည် မြေသေမှ ကောက်ပဲသီးနှံများကို စတင်ပေါက်ပွားစေတော် မူနိုင်သကဲ့သို့ ပေါက်ပွားလျက်ရှိသော ကောက်ပဲသီးနှံများကိုလည်း ပြန်လည်ရုပ်သိမ်းတော် မူနိုင်သည်။ ရုပ်သိမ်းထားတော်မူသော ကောက်ပဲသီးနှံများကိုလည်း တစ်ဖန်ပြန်လည် ပေါက်ပွားစေတော်မူနိုင်သည်။➤➤

قَوۡمَ فِرۡعَوۡنَ ۚ أَلَا يَتَّقُونَ ⑪

၁၁။ (မိမိတို့ကိုယ်ကို မိမိတို့ နှိပ်စက်ညှဉ်းပန်းသူများကား) ဖစ်ရိအောင်န်၏ အမျိုးသားပင်တည်း။ ၎င်းတို့သည် မကြောက်ရွံ့ကြလေသလော။

قَالَ رَبِّ إِنِّيٓ أَخَافُ أَن يُكَذِّبُونِ ⑫

၁၂။ (ထိုအခါ) ထိုမူစာသည် (ဤသို့)လျှောက်ထားခဲ့လေ၏။ အိုး-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ဧကန်စင်စစ် ကျွန်တော်မျိုးသည် ၎င်းတို့က ကျွန်တော်မျိုးအား မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ကြမည်ကို စိုးရိမ်မိပါသည်။

وَيَضِيقُ صَدۡرِي وَلَا يَنطَلِقُ لِسَانِي فَأَرۡسِلۡ إِلَىٰ هَٰرُونَ ⑬

၁၃။ ၎င်းပြင် ကျွန်တော်မျိုးသည် စိတ်ကျဉ်းကျပ်သည့်ပြင် ကျွန်တော်မျိုး၏လျှာမှာလည်း သွက်လက်ခြင်းမရှိပါ။ သို့ဖြစ်ပါ၍အရှင်မြတ်သည် (ကျွန်တော်မျိုး၏ နောင်တော်)ဟာရူန်၏ ထံသို့လည်း (ဝဟ်ယ်) အမိန့်တော်ပို့သတော်မူပါ။

وَلَهُمۡ عَلَيَّ ذَنۢبٌ فَأَخَافُ أَن يَقۡتُلُونِ ⑭

၁၄။ ထိုမှတပါး ၎င်းတို့နှင့်ပက်သက်၍ ကျွန်တော်မျိုး၏အပေါ်၌အပြစ်တစ်ခုလည်းရှိနေပါသဖြင့် ၎င်းတို့သည် ကျွန်တော်မျိုးအား သတ်ဖြတ်ကြမည်ကိုလည်း ကျွန်တော်မျိုး စိုးရိမ်မိပါသည်။

قَالَ كَلَّا ۖ فَٱذۡهَبَا بِـَٔايَٰتِنَآ ۖ إِنَّا مَعَكُم مُّسۡتَمِعُونَ ⑮

၁၅။ ထိုအရှင်မြတ်သည် (ဤသို့)မိန့်ကြားတော်မူခဲ့၏။ (အိုး-မူစာ၊ ၎င်းတို့သည် အသင့်အား) အလျှင်း (သတ်ဖြတ်နိုင်ကြမည်) မဟုတ်ပေ။ သို့ဖြစ်ပေရာ အသင်တို့ (ညီနောင်)နှစ်ဦးသည် ငါအရှင်မြတ်၏ အမိန့်တော်များနှင့်တကွ သွားကြလေကုန်။

---

➤➤ ဤသည်ကို စဉ်းစားဆင်ခြင်ပါက လူသားတို့သည် သေဆုံးပြီးနောက် ပြန်လည်ရှင်ပြန်ထကြမည့်အရေးကို နားလည်သဘောပေါက် နိုင်ကြပေသည်။ ဤကား သဘာဝလက္ခဏာတည်း။ သဘာဝလက္ခဏာများကို နားလည်ပြီးနောက်တွင် ဓမ္မလက္ခဏာများကို လက်ခံနာယူကျင့်မူရာတွင် အခက်အခဲ မရှိရာချေ။ သို့တစေလည်း မူလအစကပင် နာခံရန်ဆန္ဒပင်မရှိသူများ အဖို့မှာကား ဆေးမရှိပြီ။

ဧကန်မလွဲ ငါအရှင်မြတ်သည် အသင်တို့နှင့်အတူ (အသင်တို့နှစ်ဦးနှစ်ဖက် ပြောဆိုကြသည်တို့ကို) နားထောင်လျက်ပင် ရှိတော်မူပေမည်။

၁၆။ သို့ဖြစ်ပေရာ အသင်တို့နှစ်ဦးသည် ဖစ်ရ်အောင်န်၏ထံသို့သွား၍ (ဤသို့)ပြောဆိုကြလေကုန်။ ဧကန်စင်စစ် ငါတို့သည် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်း မွေးမြူတော်မူသောအရှင် စေလွှတ်တော်မူသည့် ရစူလ်တမန်တော်(များ)ပင် ဖြစ်ကြသည်။

فَأْتِيَا فِرْعَوْنَ فَقُولَا إِنَّا رَسُولُ رَبِّ الْعٰلَمِينَ ﴿١٦﴾

၁၇။ အသင်သည် အစ္စရာအီလီအမျိုးသားတို့အား ငါတို့နှင့်အတူ သွားခွင့်ပြုပါလေ။ [၁]

أَنْ أَرْسِلْ مَعَنَا بَنِيٓ إِسْرَآءِيلَ ﴿١٧﴾

၁၈။ ထိုဖစ်ရ်အောင်န်က (ဤသို့)ပြောဆိုခဲ့လေ၏။ (အို-မူစာ၊) ကျွန်ုပ်တို့သည်အသင့်အား ကလေးဘဝ၌ မိမိတို့ထံ ကျွေးမွေးစောင့်ရှောက်ခဲ့သည်မဟုတ်လော။ ၎င်းပြင် သင်သည် မိမိသက်တမ်းမှ နှစ်ပေါင်းများစွာ ကျွန်ုပ်တို့ထံတွင် နေထိုင်ခဲ့သည် မဟုတ်လော။

قَالَ أَلَمْ نُرَبِّكَ فِينَا وَلِيدًا وَلَبِثْتَ فِينَا مِنْ عُمُرِكَ سِنِينَ ﴿١٨﴾

၁၉။ ထိုမှတပါး အသင်သည် မိမိပြုခဲ့သောပြစ်မှုကိုလည်း ကျူးလွန်ခဲ့သည်မဟုတ်လော။ စင်စစ် အသင်သည် ကျေးဇူးမသိတတ်သူတစ်ဦးပင် ဖြစ်ပေသည်။

وَفَعَلْتَ فَعْلَتَكَ الَّتِي فَعَلْتَ وَأَنْتَ مِنَ الْكٰفِرِينَ ﴿١٩﴾

---

(၁) အစ္စရာအီလီ မျိုးနွယ်ဝင်များသည် တမန်တော် အီဗ်ရာဟီမ်သခင်၏ လက်ထက်မှစ၍ ဆီးရီးယားပြည်တွင် နေထိုင်ခဲ့ကြပေသည်။ ထို့နောက် အစ္စရာအီလီ မျိုးနွယ်ဝင်များသည် တမန်တော်ယူစုဖ်အား အကြောင်းပြုပြီး အီဂျစ်သို့ ရောက်ရှိလာခဲ့ကြပေသည်။ အီဂျစ်ပြည်တွင် နှစ်ပရိစ္ဆေဒ အတန်ကြာသည်အထိ နေထိုင်ခဲ့ကြပေသည်။ ထို့နောက် မိမိတို့၏ နေရင်းတိုင်းပြည်ဖြစ်သော ဆီးရီးယားသို့ပြန်လိုကြသည့်အခါ ဖစ်ရ်အောင်န်သည် ၎င်းတို့အား ပြန်ခွင့်မပြုခဲ့သည်သာမက၊ အမျိုးမျိုးချုပ်ချယ် ထားခဲ့ပေသည်။ ကျေးကျွန်များသဖွယ် စေခိုင်းထားခဲ့ပေသည်။

တမန်တော် မူစာသည် ဖစ်ရ်အောင်န်ထံ မိမိ၏ အမျိုးသားများ၏ လွတ်မြောက်ရေးကို အရေးဆိုခဲ့ပေသည်။

قَالَ فَعَلْتُهَآ إِذًا وَّأَنَا۠ مِنَ الضَّآلِّينَ ﴿٢٠﴾

၂၀။ ထို(မူစာ)က (ဤသို့)ပြောဆိုဖြေကြားခဲ့၏။ ငါသည် ယင်းအပြုအမူကို မဆင်ခြင် မသိတတ်သော အခါ၌ မေ့မှားပြုမိခဲ့ပေသည်။

فَفَرَرْتُ مِنكُمْ لَمَّا خِفْتُكُمْ فَوَهَبَ لِى رَبِّى حُكْمًا وَجَعَلَنِى مِنَ الْمُرْسَلِينَ ﴿٢١﴾

၂၁။ ထို့နောက် ငါသည်အသင်တို့အား ကြောက်ရွံ့ခဲ့သောအခါ အသင်တို့ထံမှ ထွက်ပြေး၍ တိမ်းရှောင်နေခဲ့၏။ ထို့နောက် ငါ၏အရှင်မြတ်သည် ငါ့အား အထူးဉာဏ်ပညာကိုချီးမြှင့်ပေးသနားတော်မူ၍ ငါ့အား ရစူလ်တမန်တော်တို့တွင် အပါအဝင် ဖြစ်စေတော်မူခဲ့ပေသည်။

وَتِلْكَ نِعْمَةٌ تَمُنُّهَا عَلَىَّ أَنْ عَبَّدتَّ بَنِىٓ إِسْرَٰٓءِيلَ ﴿٢٢﴾

၂၂။ စင်စစ် ဤသည် အကြင်ကျေးဇူးပင်။ အသင်သည် ယင်းကျေးဇူးဖြင့် ငါ၏အပေါ်၌ ဂုဏ်ဖော်၍ အစ္စရာအီလီအမျိုးသားတို့အား ကျွန်ပြုလုပ်ထားခြင်းပင် ဖြစ်ပေသတည်း။

قَالَ فِرْعَوْنُ وَمَا رَبُّ الْعَٰلَمِينَ ﴿٢٣﴾

၂၃။ ဖစ်ရ်အောင်န်က စင်စစ် စကြာဝဠာ ခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်ဟူသည် အဘယ်နည်းဟု မေးမြန်းခဲ့လေ၏။ [၁]

قَالَ رَبُّ السَّمَٰوَٰتِ وَالْأَرْضِ وَمَا بَيْنَهُمَآ إِن كُنتُم مُّوقِنِينَ ﴿٢٤﴾

၂၄။ ထို(မူစာ)က အကယ်၍ အသင်တို့သည် ယုံကြည်သူများဖြစ်ကြလျှင် (ထိုအရှင်မြတ်)သည် မိုးကောင်းကင်များကို လည်းကောင်း၊ ပထဝီမြေကို လည်းကောင်း၊ ယင်းမိုးကောင်းကင်နှင့် ပထဝီမြေ၏ အကြား၌ ရှိရှိသမျှတို့ကိုလည်းကောင်း၊ ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူသည်ဟု ပြောဆိုဖြေကြားခဲ့၏။

---

(၁) တမန်တော်မူစာနှင့် ဖစ်ရ်အောင်န်၏အကြောင်း ကုရ်အာန်(၇း၁၀၃-၁၅၇။ ၂၀း၉-၁၀၄)တွင် အကျယ်တဝင့် ပါရှိခဲ့ပေပြီ၊

قَالَ لِمَنْ حَوْلَهُۥٓ أَلَا تَسْتَمِعُونَ ﴿٢٥﴾

၂၅။ ထို(ဖစ်ရ်အောင်န်)က မိမိအနီးအနား၌ ရှိကြသူတို့အား (မောင်မင်းတို့၊) ကြားကြပါ၏လောဟု ဆိုခဲ့လေ၏။

قَالَ رَبُّكُمْ وَرَبُّ ءَابَآئِكُمُ ٱلْأَوَّلِينَ ﴿٢٦﴾

၂၆။ ထို(မူစာ)က (ထိုအရှင်မြတ်သည်) အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် လည်းကောင်း၊ အသင်တို့၏ ရှေးဟောင်း အဘ၊ ဘိုးဘေးများအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည်လည်းကောင်း၊ဖြစ်တော်မူသည်ဟု ပြောကြားခဲ့ပြန်၏။

قَالَ إِنَّ رَسُولَكُمُ ٱلَّذِىٓ أُرْسِلَ إِلَيْكُمْ لَمَجْنُونٌ ﴿٢٧﴾

၂၇။ ထို(ဖစ်ရ်အောင်န်)က ဧကန်စင်စစ် အသင်တို့ထံ စေလွှတ်ခြင်းခံခဲ့ရသော ရစူလ်တမန်တော်သည် အမှန်ပင် ရူးနှမ်းသူဖြစ်သည်ဟု ဆိုခဲ့ပြန်၏။

قَالَ رَبُّ ٱلْمَشْرِقِ وَٱلْمَغْرِبِ وَمَا بَيْنَهُمَآ ۖ إِن كُنتُمْ تَعْقِلُونَ ﴿٢٨﴾

၂၈။ ထို(မူစာ)က အကယ်၍ အသင်တို့သည် သိနားလည်ကြပါမူ (ထိုအရှင်မြတ်သည်) အရှေ့ဘက် နေထွက်ရာအရပ်ကိုလည်းကောင်း၊ အနောက်ဘက် နေဝင်ရာအရပ်ကိုလည်းကောင်း၊ယင်းအရပ်နှစ်မျက်နှာ၏ကြား၌ ရှိရှိသမျှကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူသည်ဟု ပြောကြားခဲ့ပြန်လေသတည်း။

قَالَ لَئِنِ ٱتَّخَذْتَ إِلَٰهًا غَيْرِى لَأَجْعَلَنَّكَ مِنَ ٱلْمَسْجُونِينَ ﴿٢٩﴾

၂၉။ ထိုဖစ်ရ်အောင်န်က (အို-မူစာ၊) အမှန်ပင် အကယ်၍ အသင်သည် ကျွန်ုပ်မှလွဲ၍ အခြားသော ကိုးကွယ်ရာ တစ်ပါးပါးကို ရွေးချယ်ခဲ့ပါလျှင် ဧကန်မလွဲ ကျွန်ုပ်သည် အသင့်အား အကျဉ်းထောင် ချထားမည်ဟု ပြောဆို ကြုံးဝါးခဲ့လေ၏။

قَالَ أَوَلَوْ جِئْتُكَ بِشَيْءٍ مُّبِينٍ ﴿٣٠﴾

၃၀။ ထိုမူစာက (အို-ဖစ်ရ်အောင်န်၊) ငါသည် အသင့်ထံ ထင်ရှားစွာသော (မုအ်ဂျီဇဟ်)တန်ခိုးတော် တစ်ပါးပါး ဆောင်ကြဉ်းခဲ့သည်ရှိသော် ကျွန်ုပ်အား အကျဉ်းချဦးမည်လောဟု ပြောဆိုမေးမြန်းခဲ့လေ၏။

قَالَ فَأْتِ بِهِ إِن كُنتَ مِنَ الصَّادِقِينَ ﴿٣١﴾

၃၁။ ထိုဖစ်ရ်အောင်န်က (အို-မူစာ၊) သို့ဖြစ်လျှင် အကယ်၍ အသင်သည် အမှန်ဆိုသူတစ်ဦးဖြစ်ပါမူ ထိုအရာ(မုအ်ဂျီဇဟ်)ကို ယူခဲ့ပါဟု ပြောဆိုခဲ့လေ၏။

فَأَلْقَىٰ عَصَاهُ فَإِذَا هِيَ ثُعْبَانٌ مُّبِينٌ ﴿٣٢﴾

၃၂။ ထိုအခါ ထိုမူစာသည် မိမိတောင်ဝှေးကို (မြေကြီးပေါ်သို့) ပစ်ချခဲ့ရာ ထိုတောင်ဝှေးမှာ ရုတ်တရက် ထင်ရှားစွာမြွေ(နဂါးကြီး)တစ်ကောင် ဖြစ်သွားခဲ့လေ၏။

وَنَزَعَ يَدَهُ فَإِذَا هِيَ بَيْضَاءُ لِلنَّاظِرِينَ ﴿٣٣﴾

၃၃။ ထိုမှတပါး ထိုမူစာသည် မိမိလက်ကို (မိမိချိုင်းကြားမှ အပြင်သို့)ဆွဲ၍ ထုတ်လိုက်ရာ ထိုလက်မှာ ကြည့်ရှုသူတို့ရှေ့ဝယ် ထွန်းတောက်လျက်ရှိနေခဲ့၏။

قَالَ لِلْمَلَإِ حَوْلَهُ إِنَّ هَٰذَا لَسَاحِرٌ عَلِيمٌ ﴿٣٤﴾

၃၄။ (ထိုအခါ)ထိုဖစ်ရ်အောင်န်က မိမိအနီးအနား၌ ရှိကုန်သော အကြီးအမှူးတို့အား ပြောကြားခဲ့သည်မှာ (အချင်းတို့၊) ဧကန်မလွဲ ဤသူမှာ ကျွမ်းကျင်သော ပဉ္စလက်ဆရာတစ်ဦးပင် ဖြစ်ပေသည်။

يُرِيدُ أَن يُخْرِجَكُم مِّنْ أَرْضِكُم بِسِحْرِهِ فَمَاذَا تَأْمُرُونَ ﴿٣٥﴾

၃၅။ ၎င်းသည် မိမိပဉ္စလက်အတတ်ဖြင့် အသင်တို့အား အသင်တို့၏ တိုင်းပြည်မှ နှင်ထုတ်ရန် ကြံရွယ်လျက် ရှိပေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် မည်သို့ (အကြံ)ပေးလိုကြသနည်း။

قَالُوا أَرْجِهْ وَأَخَاهُ وَابْعَثْ فِي الْمَدَائِنِ حَاشِرِينَ ﴿٣٦﴾

၃၆။ ထိုအကြီးအမှူးတို့က လျှောက်ထား(အကြံပေး)ခဲ့ကြကုန်၏။ ဘုရင်မင်းမြတ်သည်ထိုမူစာနှင့် ၎င်း၏နောင်တော်(ဟာရူန်)အားရွှေ့ဆိုင်းခွင့်ပေး၍ မင်းစေတို့အား အမြို့မြို့အရွာရွာသို့ စေလွှတ်တော်မူပါ။

يَأْتُوكَ بِكُلِّ سَحَّارٍ عَلِيمٍ ﴿٣٧﴾

၃၇။ ထိုမင်းစေတို့သည် (တစ်ဖက်ကမ်းခပ်) တတ်မြောက် ကျွမ်းကျင်ကြကုန်သော ပဉ္စလက်ဆရာတို့အား ဘုရင်မင်းမြတ်ထံသို့ ခေါ်ဆောင်၍ လာခဲ့ကြကုန်အံ့သတည်း။

فَجُمِعَ السَّحَرَةُ لِمِيقَاتِ يَوْمٍ مَّعْلُومٍ ﴿٣٨﴾

၃၈။ ထို့နောက် ပဉ္စလက်ဆရာတို့သည် သတ်မှတ်ထားသော နေ့တစ်နေ့၏ အထူးချိန်းချက်ထားသော အချိန်တွင် စုဝေးခဲ့ကြရလေသည်။

وَقِيلَ لِلنَّاسِ هَلْ أَنتُم مُّجْتَمِعُونَ ﴿٣٩﴾

၃၉။ ထိုမှတပါး လူတို့အား ဆင့်ဆိုထားသည်မှာ အသင်တို့သည်လည်း စုရုံးကြရပေမည်။

لَعَلَّنَا نَتَّبِعُ السَّحَرَةَ إِن كَانُوا هُمُ الْغَالِبِينَ ﴿٤٠﴾

၄၀။ သို့မှသာလျှင် ကျွန်ုပ်တို့သည် ပဉ္စလက်ဆရာတို့၏ လမ်းစဉ်ကိုပင် အကယ်၍ ၎င်းတို့သည် အောင်နိုင်ကြသည်ရှိသော် လိုက်နိုင်ကြပေမည်။

فَلَمَّا جَاءَ السَّحَرَةُ قَالُوا لِفِرْعَوْنَ أَئِنَّ لَنَا لَأَجْرًا إِن كُنَّا نَحْنُ الْغَالِبِينَ ﴿٤١﴾

၄၁။ ထို့နောက် ပဉ္စလက်ဆရာတို့ ရောက်ရှိလာကြသောအခါ ၎င်းတို့က ဖစ်ရ်အောင်န်အား အကယ်၍ ကျွန်ုပ်တို့သည်အောင်နိုင်သူများဖြစ်ခဲ့ကြပါလျှင် စကန်အမှန် ကျွန်ုပ်တို့သည် (ကြီးကျယ်သော)ဆုလာဘ်ကို အမှန်ပင်ရရှိကြမည်မဟုတ်ပါလောဟု ဆိုခဲ့ကြကုန်၏။

قَالَ نَعَمْ وَإِنَّكُمْ إِذًا لَّمِنَ الْمُقَرَّبِينَ ﴿٤٢﴾

၄၂။ ထိုဖစ်ရ်အောင်န်က ဟုတ်ပေသည်။ ထို့ပြင် တစ်ဝ ထိုသို့ဖြစ်ခဲ့လျှင် အသင်တို့သည် (ငါနှင့်အတူ) လက်ပွန်းတတီး (ချစ်ကျွမ်း) နေထိုင်သူတို့တွင်လည်း အပါအဝင် ဖြစ်ကြပေမည်ဟု ဆိုခဲ့လေ၏။

قَالَ لَهُم مُّوسَىٰ أَلْقُوا مَا أَنتُم مُّلْقُونَ ﴿٤٣﴾

၄၃။ (တမန်တော်)မူစာသည် ထိုပဉ္စလက်ဆရာတို့အား အသင်တို့သည် မိမိတို့ ပစ်ချကြအံ့သော အရာများကို ပစ်ချကြလေကုန်ဟု ပြောကြားခဲ့၏။

فَأَلْقَوْا حِبَالَهُمْ وَعِصِيَّهُمْ وَقَالُوا بِعِزَّةِ فِرْعَوْنَ إِنَّا لَنَحْنُ الْغَالِبُونَ ﴿٤٤﴾

၄၄။ သို့ဖြစ်ပေရာ ထိုပဥ္စလက်ဆရာတို့သည် မိမိတို့၏ကြိုးများကိုလည်းကောင်း၊ မိမိတို့၏တောင်ဝှေးများကိုလည်းကောင်း၊ ပစ်ချခဲ့ကြကုန်၏။ ထို့ပြင် ၎င်းတို့က ဖစ်ရ်အောင်န် (ဘုရင်မင်းမြတ်)၏ ဘုန်းတန်ခိုးကို တိုင်တည်၍ မလွဲဧကန် ကျွန်ုပ်တို့သည် ပင်လျှင် အောင်နိုင်သူများ အမှန်ပင် ဖြစ်ကြပေမည်ဟု ပြောဆိုခဲ့ကြကုန်၏။

فَأَلْقَىٰ مُوسَىٰ عَصَاهُ فَإِذَا هِيَ تَلْقَفُ مَا يَأْفِكُونَ ﴿٤٥﴾

၄၅။ ထို့နောက်မူစာသည် မိမိလှင်ကန် တောင်ဝှေးကို ပစ်ချခဲ့ရာ ထိုလှင်ကန်တောင်ဝှေးမှာ ရုတ်တရက် (မြွေနဂါးကြီးဖြစ်လာပြီး)ထိုပဥ္စလက်ဆရာတို့ လှည့်စားထားကြသောအရာများကို မျိုလေတော့၏။

فَأُلْقِيَ السَّحَرَةُ سَاجِدِينَ ﴿٤٦﴾

၄၆။ ထိုအခါ ပဥ္စလက်ဆရာတို့သည် မှောက်လဲ၍ ပျပ်ဝပ် ဦးချကြကုန်၏။

قَالُوا آمَنَّا بِرَبِّ الْعَالَمِينَ ﴿٤٧﴾

၄၇။ ၎င်းတို့ကပြောဆိုခဲ့ကြသည်မှာ ကျွန်ုပ်တို့သည် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား သက်ဝင်ယုံကြည်ကြပါပြီ။

رَبِّ مُوسَىٰ وَهَارُونَ ﴿٤٨﴾

၄၈။ (ထိုအရှင်မြတ်သည်) မူစာ၏အရှင်မြတ်သည် လည်းကောင်း၊ ဟာရူန်၏အရှင်မြတ်သည် လည်းကောင်း၊ ဖြစ်တော်မူပါ၏။

قَالَ آمَنتُمْ لَهُ قَبْلَ أَنْ آذَنَ لَكُمْ ۖ إِنَّهُ لَكَبِيرُكُمُ الَّذِي عَلَّمَكُمُ السِّحْرَ فَلَسَوْفَ تَعْلَمُونَ ۚ لَأُقَطِّعَنَّ أَيْدِيَكُمْ وَأَرْجُلَكُم

၄၉။ ထို(ဖစ်ရ်အောင်န်)က အသင်တို့အား ကျွန်ုပ်ခွင့်မပြုမီ အသင်တို့သည် ထိုမူစာအား ယုံကြည်ခဲ့ကြလေပြီ။ ဧကန်မလွဲ၎င်းသည် အသင်တို့အား ပဥ္စလက်အတတ်ပညာကို သင်ကြား၍ပေးခဲ့သော (အာစရိယ) အကြီးအကဲပင်ဖြစ်၏။ သို့ဖြစ်ပေရာ ယခုပင် အသင်တို့သည် (အကြောင်း) သိရှိကြပေမည်။

مِّنْ خِلَافٍ وَّلَأُصَلِّبَنَّكُمْ أَجْمَعِينَ ﴿٤٩﴾

မလွဲဧကန် ကျွန်ုပ်သည် အသင်တို့၏ လက်များကိုလည်းကောင်း၊ အသင်တို့၏ခြေများကို လည်းကောင်း၊ (ဝဲယာ) လွှဲ၍ဖြတ်တောက်ပစ်မည်။ ထိုမှတပါး မချွတ်ဧကန် ကျွန်ုပ်သည် အသင်တို့ အားလုံးကိုပင် လက်ဝါးကပ်တိုင်တင်မည်ဟု ပြောဆိုကြုံးဝါးခဲ့၏။

قَالُوا لَا ضَيْرَ إِنَّا إِلَىٰ رَبِّنَا مُنقَلِبُونَ ﴿٥٠﴾

၅၀။ ထိုပဥ္စလက်ဆရာတို့က ပြောကြားခဲ့ကြကုန်၏။ (ကျွန်ုပ်တို့၌) လုံးဝ အကျိုးယုတ်မှုရှိလိမ့်မည်မဟုတ်။ ဧကန်စင်စစ် ကျွန်ုပ်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်သို့ ပြန်သွားကြမည့်သူများပင် ဖြစ်ကြကုန်၏။

إِنَّا نَطْمَعُ أَن يَغْفِرَ لَنَا رَبُّنَا خَطَايَانَا أَن كُنَّا أَوَّلَ الْمُؤْمِنِينَ ﴿٥١﴾

၅၁။ စင်စစ်ဧကန် ကျွန်ုပ်တို့သည် ရှေးဦးမဆွ မုအ်မင်န် သက်ဝင်ယုံကြည်သူများဖြစ်ကြပေရာ ကျွန်ုပ်တို့၏အရှင်မြတ်သည် ကျွန်ုပ်တို့၏ ပြစ်မှုများကို ခွင့်လွှတ် ချမ်းသာပေးတော်မူမည်ဟု ကျွန်ုပ်တို့ မျှော်လင့်ကြပေသတည်း။

وَأَوْحَيْنَا إِلَىٰ مُوسَىٰ أَنْ أَسْرِ بِعِبَادِي إِنَّكُم مُّتَّبَعُونَ ﴿٥٢﴾

၅၂။ ၎င်းပြင် ငါအရှင်မြတ်သည် မူစာ၏ထံသို့ အသင်သည် ငါအရှင်မြတ်၏ (ဤ)ကျွန်တို့အား ညဥ့်အချိန်၌ ခေါ်ဆောင်၍သွားပါလေ။ ဧကန်အမှန် အသင်တို့သည် (မိမိတို့အား) နောက်မှလိုက်လံခြင်းကို ခံကြရမည့်သူများပင် ဖြစ်ကြပေသည်ဟု 'ဝဟ်လ်' အမိန့်တော်ကို ထုတ်ပြန်တော်မူခဲ့၏။

فَأَرْسَلَ فِرْعَوْنُ فِي الْمَدَائِنِ حَاشِرِينَ ﴿٥٣﴾

၅၃။ ထို့နောက် ဖစ်ရ်အောင်န်သည် မင်းစေတို့အား အမြို့မြို့ အရွာရွာသို့ စေလွှတ်ခဲ့လေသည်။

إِنَّ هَٰؤُلَاءِ لَشِرْذِمَةٌ قَلِيلُونَ ﴿٥٤﴾

၅၄။ ဧကန်စင်စစ် ဤသူတို့ကား အနည်းငယ်မျှသော အုပ်စုကလေးပင် ဖြစ်ပေသည်။

وَاِنَّهُمْ لَنَا لَغَآئِظُوْنَ ﴿٥٥﴾

၅၅။ ထို့ပြင်ဇကန်အမှန်၎င်းတို့သည် ကျွန်ုပ်တို့အား အလွန် အမျက်ပွားစေသူများပင် ဖြစ်ကြကုန်၏။

وَاِنَّا لَجَمِيْعٌ حٰذِرُوْنَ ﴿٥٦﴾

၅၆။ ထိုမှတပါး ဇကန်စင်စစ် ကျွန်ုပ်တို့သည် အမှန်ပင် စိုးရိမ်လျက် ရှိကြကုန်၏။

فَاَخْرَجْنٰهُمْ مِّنْ جَنّٰتٍ وَّعُيُوْنٍ ﴿٥٧﴾

၅၇။ ထို့နောက် ငါအရှင်မြတ်သည် ထိုသူတို့အား ဥယျာဉ်များမှလည်းကောင်း၊ စမ်းချောင်းများမှ လည်းကောင်း၊ ထုတ်ပစ်တော်မူခဲ့၏။

وَّكُنُوْزٍ وَّمَقَامٍ كَرِيْمٍ ﴿٥٨﴾

၅၈။ ထိုနည်းတူစွာဘဏ္ဍာများမှလည်းကောင်း၊ ခမ်းနားသိုက်မြိုက်လှစွာသောနေအိမ်များမှလည်းကောင်း၊

كَذٰلِكَ ؕ وَاَوْرَثْنٰهَا بَنِيْٓ اِسْرَآءِيْلَ ﴿٥٩﴾

၅၉။ စင်စစ်ဤနည်းအတိုင်းပင် ငါအရှင်မြတ်သည် ယင်းပစ္စည်းများကို အစ္စရာအီလီ မျိုးနွယ်တို့အား ပိုင်ဆိုင်စေတော်မူခဲ့ပေသတည်း။[၁]

فَاَتْبَعُوْهُمْ مُّشْرِقِيْنَ ﴿٦٠﴾

၆၀။ ထို့နောက် ၎င်း(ဖစ်ရ်အောင်န်နှင့်တကွ အခြွေအရံ)တို့သည် ထိုအစ္စရာအီလီ မျိုးနွယ်တို့အား နေထွက်ချိန်၌ နောက်မှလိုက်၍ မီခဲ့ကြကုန်၏။

فَلَمَّا تَرَآءَ الْجَمْعٰنِ قَالَ اَصْحٰبُ مُوْسٰٓى اِنَّا لَمُدْرَكُوْنَ ﴿٦١﴾

၆၁။ တစ်ဖန် အုပ်စုနှစ်ခုလုံးသည် တစ်ဖက်ကို တစ်ဖက် တွေ့မြင်ကြလေသောအခါ မူစာ၏ အပေါင်းပါတို့က ဇကန်မလွဲ ကျွန်ုပ်တို့သည် အမှန်ပင် အဖမ်းခံကြရပြီဟု (ထိတ်လန့်) ပြောဆိုခဲ့ကြကုန်၏။

---

(၁) ဖစ်ရ်အောင်န်နှင့် ၎င်း၏အခြွေအရံများ ကွပ်မျက်ခြင်း ခံကြရပြီးနောက် အစ္စရာအီလီ မျိုးနွယ်ဝင်များသည် အီဂျစ်ပြည်ကို စိုးမိုးခွင့်ရရှိခဲ့ကြသည်၊ မရရှိခဲ့ကြသည်ဟူသော ပြဿနာတွင် အဆိုပြားလျက် ရှိပေသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်- (၇း၁၃၇)၏ အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။

ဤတွင် အဆိုသစ်တစ်ရပ် ထပ်မံတွေ့ရှိရပြန်သည်။ ထိုအဆိုကား အခြားမဟုတ်။ အစ္စရာအီလီ မျိုးနွယ်ဝင်များသည် ဖစ်ရ်အောင်န်နှင့် ၎င်း၏အခြွေအရံများ ကွပ်မျက်ခြင်းခံကြရပြီးနောက် ချက်ချင်း အီဂျစ်နိုင်ငံကို မစိုးမိုးခဲ့ကြရသော်လည်း၊ တမန်တော်စုလိုင်မာန်သခင်၏ လက်ထက်တွင် အီဂျစ်ပြည်သည်လည်း အစ္စရာအီလီ မျိုးနွယ်ဝင်တို့၏ လက်အောက်သို့ ရောက်ရှိသွားခဲ့ပေသည်။ ကြည့်- ထာနဝီ၊ မာဂျိဒီ။

قَالَ كَلَّا ۖ إِنَّ مَعِيَ رَبِّي سَيَهْدِينِ ﴿٦٢﴾

**၆၂။** (ထိုအခါ) မူစာက အလျှင်း (အဖမ်းခံကြရမည်)မဟုတ်။ မလွဲဧကန် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ငါနှင့်အတူ ရှိတော်မူပေရာ၊ ယခုပင် ထိုအရှင်မြတ်သည် ငါ့အား (ပင်လယ်မှ ထွက်နိုင်ရန်) လမ်းညွှန်တော်မူမည်ဟု ပြန်ကြားခဲ့လေ၏။

فَأَوْحَيْنَا إِلَىٰ مُوسَىٰ أَنِ اضْرِب بِّعَصَاكَ الْبَحْرَ ۖ فَانفَلَقَ فَكَانَ كُلُّ فِرْقٍ كَالطَّوْدِ الْعَظِيمِ ﴿٦٣﴾

**၆၃။** ထိုအခါ ငါအရှင်မြတ်သည် မူစာ၏ထံသို့ 'အသင်သည် မိမိတောင်ဝှေးဖြင့် ပင်လယ်ကို ရိုက်ခတ်ပါလေ'ဟု အမိန့်တော် ထုတ်ပြန်တော်မူခဲ့၏။ သို့ဖြစ်ပေရာ (မူစာသည် အမိန့်တော်အတိုင်း ရိုက်ခတ်လေသော်) ထိုပင်လယ်မှာ ကွဲ၍သွားပြီးလျှင် (ရေ၏) အစုအပုံ အသီးသီးတို့မှာ ကြီးမား လှစွာသော တောင်ကြီးများပမာ ဖြစ်သွားခဲ့ကြလေ၏။ [၁]

وَأَزْلَفْنَا ثَمَّ الْآخَرِينَ ﴿٦٤﴾

**၆၄။** ၎င်းပြင် ငါအရှင်မြတ်သည် အခြားအုပ်စု (ဖြစ်သော 'ဖစ်ရ်အောင်န်' နှင့် ၎င်း၏ အခြွေအရံတို့)ကိုလည်း ထိုနေရာသို့ ပို့တော်မူခဲ့၏။

وَأَنجَيْنَا مُوسَىٰ وَمَن مَّعَهُ أَجْمَعِينَ ﴿٦٥﴾

**၆၅။** ထိုမှတပါး ငါအရှင်မြတ်သည် မူစာအားလည်းကောင်း၊ ထိုမူစာ၏အပေါင်းပါတို့အားလည်းကောင်း၊ အားလုံးကိုပင် ကယ်တင်တော်မူခဲ့၏။

ثُمَّ أَغْرَقْنَا الْآخَرِينَ ﴿٦٦﴾

**၆၆။** ထို့နောက် ငါအရှင်မြတ်သည် အခြားအုပ်စု (ဖြစ်သော 'ဖစ်ရ်အောင်န်' နှင့်၎င်း၏ အခြွေအရံတို့)ကို (ပင်လယ်နီတွင်) နှစ်မြှုပ်တော်မူခဲ့၏။

---

(၁) တမန်တော်မူစာသည် မိမိ၏ အမျိုးသားတို့အား အီဂျစ်ပြည်မှ ခေါ်ဆောင်ထွက်ခွာ၍ ပင်လယ်နီအရောက်တွင် အလ္လာဟ်အရှင်မြတ်က မိမိ၏ ကျေးဇူးတော်ဖြင့် ပင်လယ်နီရေထုကြီးကို ခွဲပေးတော် မူခဲ့သည့်အကြောင်း၊ ဖစ်ရ်အောင်န်နှင့်တကွ ၎င်း၏အခြွေအရံများကို ပင်လယ်နီ၌ပင် နှစ်မြှုပ် ကွပ်မျက်တော်မူခဲ့သည့် အကြောင်း ကုရ်အာန်(၂:၅၀)၏အဖွင့်၊ အကျယ်ဖွင့်ဆို ရေးသားခဲ့ပေပြီ။

إِنَّ فِي ذَٰلِكَ لَآيَةً ۖ وَمَا كَانَ أَكْثَرُهُم مُّؤْمِنِينَ ٦٧

**၆၇။** မလွဲဧကန် ဤသည့်(ဖြစ်ရပ်)၌ ကြီးကျယ်လှစွာသော သင်ခန်းစာသည် ရှိပေသည်။ စင်စစ်သော်ကား ၎င်းတို့အနက် အများဆုံးသော သူတို့မှာ သက်ဝင်ယုံကြည်ကြမည့်သူများ မဟုတ်ခဲ့ကြချေ။

وَإِنَّ رَبَّكَ لَهُوَ الْعَزِيزُ الرَّحِيمُ ٦٨

**၆၈။** စင်စစ်မှာမူကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်၊ ဧကန်အမှန် ထိုအရှင်မြတ်သည်ပင် အလွန်တရာလွှမ်းမိုးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာတော် မူသောအရှင်၊ ဖြစ်တော် မူပေသတည်း။

وَاتْلُ عَلَيْهِمْ نَبَأَ إِبْرَاهِيمَ ٦٩

**၆၉။** (အို-နဗီတမန်တော်၊) အသင်သည် ၎င်း(မက္ကာမြို့သား)တို့၏ရှေ့ဝယ် အိဗ်ရာဟီမ်၏အကြောင်းနှင့် အတ္ထုပ္ပတ္တိကို ပြန်ပြောပါလေ။

إِذْ قَالَ لِأَبِيهِ وَقَوْمِهِ مَا تَعْبُدُونَ ٧٠

**၇၀။** တစ်ရံရောအခါဝယ် ထိုအိဗ်ရာဟီမ်သည် မိမိဖခင်အားလည်းကောင်း၊ မိမိအမျိုးသားတို့အားလည်းကောင်း၊ 'အသင်တို့သည် မည်သည့်အရာကို ကိုးကွယ် ဆည်းကပ်လျက် ရှိကြသနည်း' ဟု ပြောဆိုမေးမြန်း ခဲ့၏။

قَالُوا نَعْبُدُ أَصْنَامًا فَنَظَلُّ لَهَا عَاكِفِينَ ٧١

**၇၁။** ထိုအမျိုးသားတို့က ကျွန်ုပ်တို့သည် အရုပ်များကို ကိုးကွယ်ဆည်းကပ်ကြသည့်ပြင် ထိုအရုပ်များ၏အပါး၌ပင် အခါခပ်သိမ်း စွဲလမ်းတွယ်ကပ်လျက် ရှိကြပေသည်ဟု ပြန်ကြားခဲ့ကြကုန်၏။

قَالَ هَلْ يَسْمَعُونَكُمْ إِذْ تَدْعُونَ ٧٢

**၇၂။** ထိုအိဗ်ရာဟီမ်က မေးမြန်းခဲ့၏။ အသင်တို့ဟစ်ခေါ်ကြသောအခါထိုအရုပ်များသည် အသင်တို့၏ဟစ်ခေါ်သံကို ကြားကြလေသလော။

أَوْ يَنفَعُونَكُمْ أَوْ يَضُرُّونَ ﴿٧٣﴾

၇၃။ သို့မဟုတ်၊ ၎င်းတို့သည် (အသင်တို့အား) အကျိုးပြုကြလေသလော။ သို့တည်းမဟုတ် ၎င်းတို့သည် (အသင်တို့အား) အကျိုးယုတ်စေနိုင်ကြလေသလော။

قَالُوا بَلْ وَجَدْنَا آبَاءَنَا كَذَٰلِكَ يَفْعَلُونَ ﴿٧٤﴾

၇၄။ ထိုအမျိုးသားတို့က ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကားကျွန်ုပ်တို့သည် မိမိတို့၏အဘ၊ ဘိုးဘေးတို့အား ဤအတိုင်း ပြုမူကြသည်ကို တွေ့ရှိခဲ့ကြပါသည်ဟု ဖြေကြားခဲ့ကြကုန်၏။

قَالَ أَفَرَأَيْتُم مَّا كُنتُمْ تَعْبُدُونَ ﴿٧٥﴾

၇၅။ ထိုအီဗ်ရာဟီမ်က အသင်တို့သည်မိမိတို့ ကိုးကွယ်ဆည်းကပ်လျက်ရှိကြသော အရာများ၏ (အခြေအနေ)ကို (လေ့လာသုံးသပ်)တွေ့မြင်ကြပြီလော။[၁]

أَنتُمْ وَآبَاؤُكُمُ الْأَقْدَمُونَ ﴿٧٦﴾

၇၆။ အသင်တို့သည်လည်းကောင်း၊ အသင်တို့၏ ရှေးဟောင်းအဘ၊ ဘိုးဘေးတို့သည်လည်းကောင်း၊

---

(၁) တမန်တော် အီဗ်ရာဟီမ်၏ဖခင်နှင့် အမျိုးသားများသည် တစ်စုံတစ်ရာ ကျိုးကြောင်း စဉ်းစားဆင်ခြင်ခြင်း မရှိဘဲ၊ မိဘ ရိုးရာ အစဉ်အလာတိုင်း တစ်စုံတစ်ရာ ကျိုးပြုစ်မပေးနိုင်သော အရုပ်များကို ဆည်းကပ်ကိုးကွယ်လျက်ရှိခဲ့ကြ၏။

တမန်တော် အီဗ်ရာဟီမ်က ထိုအရုပ်များသည် တစ်စုံတစ်ရာ ကြားလေသလော၊ အကျိုးပြုနိုင်သလော၊ အကျိုးယုတ်စေနိုင်သလောဟု မေးမြန်းရာ၊ အမျိုးသားများက အရုပ်များသည် ကြားလည်း မကြား၊ အကျိုးလည်းမပြုနိုင်၊ အကျိုးယုတ်နိုင် စေသည်လည်းမဟုတ်၊ မိဘရိုးရာ အစဉ်အလာအတိုင်း ဆည်းကပ်ကိုးကွယ်နေကြခြင်းသာ ဖြစ်ကြောင်းဖြင့် ဖြေဆိုကြလေသည်။

ထိုအခါ တမန်တော် အီဗ်ရာဟီမ်က အတိုင်းအဆမရှိသော တန်ခိုးတော်၊ ဉာဏ်တော်၊ ကျေးဇူးတော်များနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ် သည်သာလျှင် အမှန်တကယ် ဆည်းကပ် ကိုးကွယ်ရာ အရှင်သခင် ဖြစ်တော်မူကြောင်း၊ အသင်တို့ ဆည်းကပ်ကိုးကွယ်လျက်ရှိသော အရုပ်များသည် ဓမ္မန္တရာယ်များသာ ဖြစ်ကြောင်း၊ အတိအလင်း ကြေညာခဲ့လေသည်။ ဤသည့်သဘောကို ကုရ်အာန်(၆း၈၀။ ၂၁း၅၇)တွင်လည်း မိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၊ ကျေးဇူးတော်များကို ရှေ့အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

فَإِنَّهُمْ عَدُوٌّ لِّي إِلَّا رَبَّ الْعٰلَمِينَ ﴿٧٧﴾

၇၇။ အကြောင်းမှာမူ ဧကန်မလွဲ ၎င်းတို့သည် ငါ၏ရန်သူများပင် ဖြစ်ကြကုန်၏။ သို့ရာတွင် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်မှာမူကား လောကီဘဝတွင်လည်းကောင်း၊ 'အာခိရတ်' တမလွန်ဘဝတွင်လည်းကောင်း၊ ငါ၏ အဆွေခင်ပွန်းပင် ဖြစ်တော်မူပေသတည်း။

الَّذِي خَلَقَنِي فَهُوَ يَهْدِينِ ﴿٧٨﴾

၇၈။ အကြင်အရှင်မြတ်သည် ငါ့အားဖန်ဆင်းတော်မူခဲ့၏။ တစ်ဖန် ထိုအရှင်မြတ်သည်ပင်လျှင် ငါ့အား လမ်းညွှန်ပြတော်မူ၏။

وَالَّذِي هُوَ يُطْعِمُنِي وَيَسْقِينِ ﴿٧٩﴾

၇၉။ ၎င်းပြင် ထိုအရှင်မြတ်သည်ပင် ငါ့အား ကျွေးမွေးတော်မူ၏။ ထို့ပြင် ထိုအရှင်မြတ်သည်ပင် ငါ့အား တိုက်ကျွေးတော်မူ၏။

وَإِذَا مَرِضْتُ فَهُوَ يَشْفِينِ ﴿٨٠﴾

၈၀။ ထိုမှတပါး ငါသည် နာဖျားသောအခါ ထိုအရှင်မြတ်သည်ပင်လျှင် ငါ့အား (ဝေဒနာ)ပျောက်ကင်းစေတော်မူ၏။

وَالَّذِي يُمِيتُنِي ثُمَّ يُحْيِينِ ﴿٨١﴾

၈၁။ ထို့ပြင် ထိုအရှင်မြတ်သည်ပင် ငါ့အား (သေချိန်တွင်) သေစေတော်မူမည်။ ထို့နောက် ထိုအရှင်မြတ်သည်ပင် ငါ့အား (ကိယာမတ်နေ့တွင်) ရှင်စေတော်မူမည်။

وَالَّذِي أَطْمَعُ أَنْ يَغْفِرَ لِي خَطِيئَتِي يَوْمَ الدِّينِ ﴿٨٢﴾

၈၂။ ထိုမှတပါးထိုအရှင်မြတ်သည်ပင် တရားစီရင်မည့်နေ့တွင် ငါ၏မှားယွင်းချက်များကို ခွင့်လွှတ်တော်မူမည်ဖြစ်ကြောင်းငါမျှော်လင့်လျက်ပင်ရှိပေသတည်း၊[၁]

---

(၁) အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်၊ မုရှ်ရစ်က်များ ဆည်ကပ်ကိုးကွယ်ကြသော အရုပ်များနှင့် လားလားမျှမတူ။ တန်ခိုးတော် ကျေးဇူးတော် အပေါင်းနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူသည်။ တမန်တော်အီဗ်ရာဟီမ်သည် အထက်ပါ အာယတ်တော်များတွင် ပါရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်၏ ကျွန်တော်ရင်း တစ်ပါးပီပီ ထိုအရှင်မြတ်ထံတော်၌ ရှေ့အာယတ်တော်တွင် ပါရှိသည့်အတိုင်း ဆုပန်ကြားခဲ့လေသည်။

رَبِّ هَبْ لِي حُكْمًا وَأَلْحِقْنِي بِالصّٰلِحِيْنَ ﴿٨٣﴾

၈၃။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား ဉာဏ်ပညာကို ချီးမြှင့်ပေးသနားတော်မူပါ။ ထို့ပြင် အရှင်မြတ်သည် ကျွန်တော်မျိုးအား သူတော်စင်များနှင့်အတူ ပေါင်းဖက် ပါဝင်စေတော်မူပါ။

وَاجْعَلْ لِّي لِسَانَ صِدْقٍ فِي الْاٰخِرِيْنَ ﴿٨٤﴾

၈၄။ ၎င်းပြင် အရှင်မြတ်သည် ကျွန်တော်မျိုးအဖို့ နောင်လာနောက်သားများတွင် နာမည်ကောင်းခြင်းကို ပြုလုပ်၍ ပေးတော်မူပါ။ (တနည်း) အရှင်မြတ်သည် ကျွန်တော်မျိုးအဖို့ နောင်လာနောက်သားများတွင် *ကောင်းစွာ ကျော်ကြားမှုကို (ကောင်းစွာ သတိရခြင်းကို) ပြုလုပ်၍ ပေးတော်မူပါ။*[၁]

---

(၁) တမန်တော် အီဗ်ရာဟီမ်သည် အလ္လာဟ်အရှင်မြတ်ထံတော်၌ ဆုအမျိုးမျိုးပန်ကြားခဲ့၏။ ဆုတောင်းပြည့်ခဲ့၏။ ယင်းသည့် ဆုပန်ကြားချက်များတွင် တမန်တော်အီဗ်ရာဟီမ်က မိမိအား ကောင်းမွန်မြင့်မြတ်သော ကုသိုလ်ကောင်းမှုများ ပြုနိုင်စွမ်း ချီးမြှင့်တော်မူ၍ နောင်လာနောင်သားတို့တွင် မိမိ၏နာမည်ကောင်း ကျန်ရစ်နေစေအောင် ပြုလုပ်ပေးတော်မူပါမည့် အကြောင်း၊ နောင်လာနောင်သားတို့သည် မိမိအား အမြဲတစေ ကောင်းသော အမှတ်ရခြင်းမျိုးဖြင့် အမှတ်ရလျက် ရှိနေကြရန်၊ မိမိ၏ သာသနာ့လမ်းစဉ်ကို လိုက်နာကျင့်သုံးလျက် ရှိနေကြရန် ပြုလုပ်ပေးတော်မူပါမည့်အကြောင်း ပါဝင်ခဲ့၏။

ဤဆုပန်ကြားချက်၏ အလိုသဘောမှာ တနည်းအားဖြင့် ကျွန်တော်မျိုး၏ သားချင်းဆွေမျိုးများအနက်မှပင် နောက်ဆုံးခေတ်တွင် ကျွန်တော်မျိုး၏ သာသနာ့လမ်းစဉ်ကို အမြဲတစေ အသစ်အသစ်ဖြစ်နေအောင် ပြုလုပ်ပေးမည့် တမန်တော်တစ်ပါးကို ပွင့်ပေါ်စေတော်မူပါမည့်အကြောင်း ဆုပန်ကြားခဲ့သည်ဟူ၍လည်း ဖြစ်နိုင်ပေသည်။

အသို့ပင်ဖြစ်စေကာမူ အလ္လာဟ်အရှင်မြတ်သည် ဤသည့်ဆုပန်ကြားမှုကိုလည်း ပြည့်ဝစေတော်မူခဲ့ပေသည်။ တမန်တော်အီဗ်ရာဟီမ်၏ ဆွေမျိုးဆက်မှပင် တမန်တော် အပေါင်းတို့၏ နောက်ဆုံးစွန်တွင် ပွင့်တော်မူသော တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား ပွင့်ပေါ်စေတော်မူပြီး၊ တမန်တော် အီဗ်ရာဟီမ်၏ သာသနာ့လမ်းစဉ်ကိုပင် အမြဲတစေ အသစ်အသစ် ဖြစ်စေတော်မူခဲ့သည်။ တမန်တော်မြတ် ကိုယ်တော်တိုင်လည်း 'ကျွန်ုပ်သည် တမန်တော် အီဗ်ရာဟီမ်၏ ဆုပင်ဖြစ်သည်'ဟု ထုတ်ဖော်မြွက်ကြားတော် မူခဲ့ပေသည်။

ထို့ပြင်တစ်ဝ ယနေ့တိုင်လည်း မြောက်မြားစွာသော ဘာသာဝင်များသည် တမန်တော်အီဗ်ရာဟီမ်အား အမှတ်ရလျက် ရှိကြပေသည်။ ချီးမွမ်းလျက် ရှိကြပေသည်။ အထူးသဖြင့် မွတ်စ်လင်မ်များသည် ဆွလာတ်ဝတ်ပြုတိုင်း ဝတ်ပြုတိုင်း တမန်တော် အီဗ်ရာဟီမ်အား မေတ္တာပို့သလျက် ရှိကြပေသည်။ ဤအတိုင်း ကိယာမတ်တိုင် မေတ္တာပို့သလျက် ရှိကြမည်သာတည်း။

وَاجْعَلْنِي مِن وَرَثَةِ جَنَّةِ النَّعِيمِ ﴿٨٥﴾

၈၅။ ထို့ပြင် အရှင်မြတ်သည် ကျွန်တော်မျိုးအား ကျေးဇူးတော်နှင့် ပြည့်စုံသော 'ဂျန္နတ်' သုခဘုံ၏ အမွေစားအမွေခံ ပြုလုပ်တော်မူပါ။

وَاغْفِرْ لِأَبِي إِنَّهُ كَانَ مِنَ الضَّالِّينَ ﴿٨٦﴾

၈၆။ ထိုမှတပါး အရှင်မြတ်သည် ကျွန်တော်မျိုး၏ ဖခင်အား လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူပါ။ ဧကန်စင်စစ် ၎င်းမှာ *လမ်းလွဲသူတို့တွင် အပါအဝင် ဖြစ်ပါသည်။* [၁]

وَلَا تُخْزِنِي يَوْمَ يُبْعَثُونَ ﴿٨٧﴾

၈၇။ ၎င်းပြင် အရှင်မြတ်သည် (လူသတ္တဝါ အပေါင်းတို့) ရှင်ပြန်ထကြရမည့်နေ့တွင် ကျွန်တော်မျိုးအား အရှက်တကွဲ ဖြစ်စေတော်မမူပါနှင့်။

يَوْمَ لَا يَنفَعُ مَالٌ وَلَا بَنُونَ ﴿٨٨﴾

၈၈။ အကြင်နေ့တွင် ပစ္စည်းဥစ္စာသည် လည်းကောင်း၊ သား(သမီး)များသည် လည်းကောင်း၊ အသုံးဝင်မည် မဟုတ်ပါ။

إِلَّا مَنْ أَتَى اللَّهَ بِقَلْبٍ سَلِيمٍ ﴿٨٩﴾

၈၉။ သို့ရာတွင်အကြင်သူသည် အလ္လာဟ်အရှင်မြတ်အထံတော်သို့ စင်ကြယ်သန့်ရှင်းသောစိတ်နှလုံးနှင့်တကွ ရောက်ရှိခဲ့ပါလျှင် (ထိုသူသည် လွတ်ငြိမ်းချမ်းသာခွင့် ရရှိပေမည်)။ [၂]

---

(၁) တမန်တော် အီဗ်ရာဟီမ်သည် မိမိ၏ဖခင်ကြီးအတွက် သံယောဇဉ်ကြီးစွာဖြင့် လွတ်ငြိမ်းချမ်းသာခွင့် ပန်ကြားခဲ့လေသည်။ ယင်းသို့ ဆုပန်ကြားခဲ့ခြင်းမှာ ဖခင်ကြီး အသက်ထင်ရှားရှိစဉ် ပန်ကြားခဲ့ခြင်းသာ ဖြစ်သည်။ ဆိုလိုသည်ကား- အလ္လာဟ်အရှင်မြတ်သည် ဖခင်ကြီးအား အီမာန်ယုံကြည်နိုင်စွမ်း ပေးတော်မူပြီး၊ ကာဖိရ်ဖြစ်ခဲ့စဉ်က ပြစ်မှုများကို လွတ်ငြိမ်းခွင့် ပေးသနားတော်မူသည် ဖြစ်ပါစေသတည်း ဟူ၍။

အကယ်၍ ယင်းသို့ ဆုပန်ကြားခဲ့ခြင်းမှာ ဖခင်ကြီး သေဆုံးပြီးနောက်တွင် ဖြစ်ခဲ့ပါသော်၊ တမန်တော် အီဗ်ရာဟီမ်သည် မိမိထားရှိခဲ့သော ကတိအရ ဆုပန်ကြားခဲ့ခြင်းသာ ဖြစ်မည်။ သို့ရာတွင် နောင်တချိန် မိမိ၏ဖခင်မှာ အလ္လာဟ်အရှင်မြတ်၏ ရန်သူကြီးဖြစ်နေသည်ကို သိရှိသွားသောအခါတွင်မူ၊ တမန်တော် အီဗ်ရာဟီမ်သည် မိမိ၏ဖခင်အတွက် လွတ်ငြိမ်းခွင့် ပန်ကြားခြင်းမှ အတိအလင်း ငြင်းပယ်ခဲ့လေသည်။ ကြည့်- ကုရ်အာန် (၉:၁၁၄)။

(၂) ကိယာမတ်နေ့တွင် ဥစ္စာပစ္စည်း၊သား၊သမီးခြွေရံသင်းပင်းတို့သည်၊ အသို့မျှ အသုံးဝင်ကြမည်မဟုတ်ပေ၊ ➢➢

وَأُزْلِفَتِ الْجَنَّةُ لِلْمُتَّقِينَ ﴿٩٠﴾

**၉၀။** ၎င်းပြင် (ထိုနေ့တွင်) 'ဂျန္နတ်' သုခဘုံသည် ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်ကြကုန်သောသူတော်စင်တို့နှင့် နီးကပ်စွာထားရှိပြီး ဖြစ်ပေမည်။

وَبُرِّزَتِ الْجَحِيمُ لِلْغَاوِينَ ﴿٩١﴾

**၉၁။** ထို့ပြင် 'ဂျဟန္နမ်' ငရဲသည် လမ်းလွဲသူတို့၏ ရှေ့ဝယ် ထင်ရှားစေခြင်းကို ခံရပေမည်။

وَقِيلَ لَهُمْ أَيْنَمَا كُنتُمْ تَعْبُدُونَ ﴿٩٢﴾

**၉၂။** ထိုမှတပါး၎င်းတို့သည် 'အသင်တို့ ဆည်းကပ်ကိုးကွယ်လျက် ရှိခဲ့ကြသော ကိုးကွယ်ရာများသည် (ယခု) မည်သည့်နေရာ၌ ရှိကြသနည်း' ဟု ပြောဆိုမေးမြန်းခြင်းကို ခံကြရပေမည်။

مِن دُونِ اللَّهِ هَلْ يَنصُرُونَكُمْ أَوْ يَنتَصِرُونَ ﴿٩٣﴾

**၉၃။** အလ္လာဟ်အရှင်မြတ်အား စွန့်၍ (အသင်တို့ ကိုးကွယ်လျက်ရှိခဲ့ကြသော) ကိုးကွယ်ရာများသည် (ယခု) အသင်တို့အား ကူညီနိုင်ကြလေသလော။ သို့တည်းမဟုတ် ၎င်းတို့သည် မိမိတို့ကိုယ်ကို ကယ်တင်နိုင်ကြလေသလော။

فَكُبْكِبُوا فِيهَا هُمْ وَالْغَاوُونَ ﴿٩٤﴾

**၉၄။** ထို့နောက် ထိုသူတို့သည်လည်းကောင်း၊ လမ်းလွဲသူတို့သည်လည်းကောင်း၊ 'ဂျဟန္နမ်'ငရဲ၌ စောက်ထိုးပစ်ချခြင်းကို ခံကြရပေမည်။

وَجُنُودُ إِبْلِيسَ أَجْمَعُونَ ﴿٩٥﴾

**၉၅။** ထိုမှတပါး အီဗ်လီစ်၏ ဗိုလ်ခြေအပေါင်းတို့သည်လည်းကောင်း၊

قَالُوا وَهُمْ فِيهَا يَخْتَصِمُونَ ﴿٩٦﴾

**၉၆။** ၎င်းတို့သည် ယင်း('ဂျဟန္နမ်' ငရဲ)၌ ငြင်းခုံလျက်ရှိကြစဉ် ပြောဆိုကြပေမည်။

---

▶▶ အကယ်၍ ကာဖိရ် တစ်ဦးတစ်ယောက်သည် ကိယာမတ်နေ့တွင် မိမိ၏ ဥစ္စာ၊ပစ္စည်း၊သား၊သမီးများကို အစားပေး၍ လွတ်မြောက်နိုင်မည်ထင်ပါက၊ ဤသည် အလျှင်းမဖြစ်နိုင်ပေ။ ဤပစ္စက္ခတွင် လှူဒါန်းခဲ့သော အလှူဒါနနှင့် သားကောင်း သမီးကောင်းများထံမှ တစ်စုံတစ်ရာ အကျိုးခံစားခွင့် ရရှိရန် မျှော်လင့်ချက်မှာလည်း ကုဖ်ရ်၊ ရှိရစ်က်၊ နိဖာက်၊ မမှန်သော ယုံကြည်ချက် စသည့် အညစ်အကြေးများနှင့် လုံးဝစင်ကြယ်သန့်ရှင်း အပြစ်ကင်းသော စိတ်နှလုံး ရှိမှသာလျှင် ဖြစ်နိုင်ပေမည်။

تَاللّٰهِ اِنْ كُنَّا لَفِىْ ضَلٰلٍ مُّبِيْنٍ ﴿٩٧﴾

၉၇။ အလ္လာဟ်အရှင်မြတ်၏ 'ကစမ်'။ စေကန်အမှန် ကျွန်ုပ်တို့သည် အလွန်ထင်ရှားလှစွာသော လမ်းလွဲမှု၌ပင် ရှိခဲ့ကြကုန်၏။

اِذْ نُسَوِّيْكُمْ بِرَبِّ الْعٰلَمِيْنَ ﴿٩٨﴾

၉၈။ အကြင်အခါဝယ် ကျွန်ုပ်တို့သည် အသင်တို့အား စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်နှင့်အတူ ဂုဏ်ရည်တူများ ပြုလုပ်လျက် ရှိခဲ့ကြကုန်၏။

وَمَآ اَضَلَّنَآ اِلَّا الْمُجْرِمُوْنَ ﴿٩٩﴾

၉၉။ စင်စစ်သော်ကား ကျွန်ုပ်တို့အား (ဤအကြီးအကျယ်) ပြစ်မှုကျူးလွန်သူတို့သည်သာလျှင် လမ်းလွဲစေခဲ့ကြကုန်၏။

فَمَا لَنَا مِنْ شٰفِعِيْنَ ﴿١٠٠﴾

၁၀၀။ ယခုသော်ကား ကျွန်ုပ်တို့အဖို့ ကြားဝင်အသနားခံပေးမည့်သူဟူ၍ တစ်ဦးတစ်ယောက်မျှပင် မရှိပြီ။

وَلَا صَدِيْقٍ حَمِيْمٍ ﴿١٠١﴾

၁၀၁။ ထိုနည်းတူစွာ ချစ်ကျွမ်းဝင် ရင်းနှီးသော အဆွေခင်ပွန်းဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် မရှိပြီ။

فَلَوْ اَنَّ لَنَا كَرَّةً فَنَكُوْنَ مِنَ الْمُؤْمِنِيْنَ ﴿١٠٢﴾

၁၀၂။ သို့ဖြစ်ပေရာ အကယ်၍သာ ကျွန်ုပ်တို့သည် (လူလောကသို့) တစ်ဖန် ပြန်လည်သွားခွင့်ရရှိကြပါလျှင် ကောင်းလေစွ။ သို့ ပြန်သွားခွင့်ရရှိကြပါလျှင် ကျွန်ုပ်တို့သည် သက်ဝင် ယုံကြည်ကြရမည်။

اِنَّ فِىْ ذٰلِكَ لَاٰيَةً ۗ وَمَا كَانَ اَكْثَرُهُمْ مُّؤْمِنِيْنَ ﴿١٠٣﴾

၁၀၃။ စေကန်မလွဲ ဤ(သည့်ဖြစ်ရပ်)၌ အမှန်ပင် (ကြီးကျယ်လှသော) သင်ခန်းစာသည် ရှိပေသည်။ စင်စစ်သော်ကား ၎င်းတို့အနက် (မက္ကာမြို့သားကာဖိရ်များအနက်)အများစုမှာ သက်ဝင်ယုံကြည်မည့်သူများ မဟုတ်ကြပေ။

وَإِنَّ رَبَّكَ لَهُوَ الْعَزِيزُ الرَّحِيمُ ﴿١٠٤﴾

**၁၀၄။** စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်မှာမူကား အလွန်တရာ လွှမ်းမိုးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

كَذَّبَتْ قَوْمُ نُوحٍ الْمُرْسَلِينَ ﴿١٠٥﴾

**၁၀၅။** 'နူဟ်'၏အမျိုးသားတို့သည် ရစူလ်တမန်တော်များအားမဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏၊[၁]

إِذْ قَالَ لَهُمْ أَخُوهُمْ نُوحٌ أَلَا تَتَّقُونَ ﴿١٠٦﴾

**၁၀၆။** အကြင်အခါဝယ် ၎င်းတို့အား ၎င်းတို့၏ နောင်တော် 'နူဟ်' က (ဤသို့) ပြောကြားခဲ့၏။ (အချင်းတို့၊) အသင်တို့သည် (အလ္လာဟ်အရှင်မြတ်အား) မကြောက်ရွံ့ကြလေသလော။

إِنِّي لَكُمْ رَسُولٌ أَمِينٌ ﴿١٠٧﴾

**၁၀၇။** ဧကန်မလွဲ ငါသည် အသင်တို့အဖို့ ယုံကြည်စိတ်ချအပ်သော ရစူလ်တမန်တော်တစ်ပါးပင်ဖြစ်၏။

فَاتَّقُوا اللَّهَ وَأَطِيعُونِ ﴿١٠٨﴾

**၁၀၈။** သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ၎င်းပြင် အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

وَمَا أَسْأَلُكُمْ عَلَيْهِ مِنْ أَجْرٍ إِنْ أَجْرِيَ إِلَّا عَلَىٰ رَبِّ الْعَالَمِينَ ﴿١٠٩﴾

**၁၀၉။** စင်စစ် ငါသည် ဤအမိန့်တော်ကို ပို့ဆောင်ခြင်းနှင့်စပ်လျဉ်း၍ အသင်တို့ထံ မည်သည့်အကျိုးတစ်စုံတစ်ရာကိုမျှ တောင်းဆိုသည်မဟုတ်ပေ။ ငါ့အား အကျိုးပေးရန်တာဝန်မှာ စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အပေါ်၌သာ ရှိ၏။

---

(၁) ဤအာယတ်တော်တွင် တမန်တော်နူဟ်၏ အမျိုးသားများသည် ငြင်းဆိုခဲ့ကြသည်ဟူ၍ မိန့်ဆိုထားတော်မူသည်။ အကြောင်းကား တမန်တော် တစ်ပါးအား ငြင်းဆိုခြင်းသည် တမန်တော်အပေါင်းတို့အား ငြင်းဆိုရာ မည်ခြင်းကြောင့်ပင်။

فَاتَّقُوا اللّٰهَ وَاَطِيْعُوْنِ ﴿١١٠﴾

၁၁၀။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ထိုမှတပါး အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

قَالُوْۤا اَنُؤْمِنُ لَكَ وَاتَّبَعَكَ الْاَرْذَلُوْنَ ﴿١١١﴾

၁၁၁။ ထိုအမျိုးသားတို့က ကျွန်ုပ်တို့သည် အသင့်အား ယုံကြည်ကြရမည်လော။ အမှန်စင်စစ် ဂုဏ်အသရေ သေးသိမ်သူတို့သာလျှင် အသင်၏ နောက်လိုက်များ ဖြစ်ကြသည်ဟု ပြောဆိုခဲ့ကြကုန်၏။

قَالَ وَمَا عِلْمِيْ بِمَا كَانُوْا يَعْمَلُوْنَ ﴿١١٢﴾

၁၁၂။ ထိုနူဟ်က(ဤသို့)ပြန်ကြားခဲ့၏၊ (အချင်းတို့၊) ငါသည် ၎င်းတို့၏ အလုပ်အကိုင်နှင့်စပ်လျဉ်း၍ မည်သည်ကို သိရှိရန် လိုပါသနည်း။

اِنْ حِسَابُهُمْ اِلَّا عَلٰى رَبِّيْ لَوْ تَشْعُرُوْنَ ﴿١١٣﴾

၁၁၃။ ၎င်းတို့အား စစ်ဆေးရန်တာဝန်မှာ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်အပေါ်၌သာ ရှိကြောင်း အသင်တို့နားလည်ကြပါလျှင် ကောင်းလေစွ။

وَمَاۤ اَنَا بِطَارِدِ الْمُؤْمِنِيْنَ ﴿١١٤﴾

၁၁၄။ စင်စစ်ငါသည် မုအ်မင်န်သက်ဝင်ယုံကြည်သူတို့အား(မိမိအပါးမှ)နှင်ထုတ်မည့်သူမဟုတ်ပြီ။ [၁]

---

(၁) တမန်တော်နူဟ်၏ အမျိုးသားများအနက် မျက်နှာကြီးများက 'အသင့်အား ယခု ထောက်ခံနေသူများမှာ အလွန်ဂုဏ်သိမ် သေးသိမ်သူများ၊ အဆင့်အတန်း အလွန်နိမ့်ကျသူများသာ ဖြစ်ကြပေရာ၊ ကျွန်ုပ်တို့သည် ၎င်းတို့နှင့် ကြမ်းတပြေးတည်းထိုင်ကာ အသင့်အားအသို့လျှင် ယုံကြည်ထောက်ခံ နိုင်ကြအံ့နည်း။ အသင်သည် ၎င်းတို့အားပထမ မိမိထံမှနှင်ထုတ်ပါ။ ထို့နောက်မှ ကျွန်ုပ်တို့နှင့် စကားပြောပါ'ဟု ဆိုခဲ့ကြ၏။

ထိုအခါ တမန်တော် နူဟ်က- ကျွန်ုပ်သည် ၎င်းတို့၏ အလုပ်အကိုင်ကို မကြည့်ပါ။ ဆင်းရဲမှု၊ ချမ်းသာမှုကိုလည်း မကြည့်ပါ။ ၎င်းတို့၏ အတွင်းရေးကိုလည်း သိရန်မလိုပါ။ ၎င်းတို့အား စစ်ဆေးမေးမြန်း၍ စီရင်ဆုံးဖြတ်ရန် တာဝန်မှာ အလ္လာဟ်အရှင်မြတ် နှင့်သာလျှင် သက်ဆိုင်ပါသည်။ ကျွန်ုပ်သည် ၎င်းတို့၏ ယုံကြည်မှုနှင့် မှန်ကန်မှုကိုသာ ကြည့်ပါသည်။ မျက်နှာကြီးသည်၊ ငယ်သည်၊ ချမ်းသာသည်၊ ဆင်းရဲသည်များကို မကြည့်ပါ။ အသင်တို့ ပြောဆိုကြသည့်အတွက် မျက်နှာကြီးများကို ထောက်ထားပြီး၊ အီမာန် ယုံကြည်ကြကုန်သော မျက်နှာငယ်မုအ်မင်န်တို့အား မည်သည့်နည်းနှင့်မျှ မိမိထံမှ နှင်ထုတ်မည်မဟုတ်ပါ'ဟု တိကျပြတ်သားစွာ ပြန်လည်ဖြေကြားခဲ့လေသည်။

إِنْ أَنَا إِلَّا نَذِيرٌ مُّبِينٌ ﴿١١٥﴾

**၁၁၅။** ငါသည် ရှင်းလင်းထင်ရှားစွာ သတိပေးနှိုးဆော်သူ တစ်ဦးမျှ ဖြစ်၏။

قَالُوا لَئِن لَّمْ تَنتَهِ يَا نُوحُ لَتَكُونَنَّ مِنَ الْمَرْجُومِينَ ﴿١١٦﴾

**၁၁၆။** ထိုအမျိုးသားတို့က အို-နူဟ်။ အကယ်၍ အသင်သည် (မိမိဆုံးမဩဝါဒပေးခြင်းကို) မရပ်တန့်ခဲ့ပါလျှင် ဧကန်မလွဲ အသင်သည် ခဲပစ်ပေါက်(၍ သတ်ဖြတ်)ခြင်းကို ခံရသူတို့တွင် အပါအဝင် ဖြစ်ပေမည်။

قَالَ رَبِّ إِنَّ قَوْمِي كَذَّبُونِ ﴿١١٧﴾

**၁၁၇။** ထိုနူဟ်က (အလ္လာဟ်အရှင်မြတ်အထံတော်၌ ဤသို့) လျှောက်ထားပန်ကြားခဲ့လေ၏။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ ဧကန်စင်စစ် ကျွန်တော်မျိုး၏ အမျိုးသားတို့သည် ကျွန်တော်မျိုးအား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြလေပြီ။

فَافْتَحْ بَيْنِي وَبَيْنَهُمْ فَتْحًا وَنَجِّنِي وَمَن مَّعِيَ مِنَ الْمُؤْمِنِينَ ﴿١١٨﴾

**၁၁၈။** သို့ဖြစ်ပါ၍ အရှင်မြတ်သည် ကျွန်တော်မျိုးနှင့် ၎င်းတို့၏အကြား၌ ထင်ရှားစွာသောအဆုံးအဖြတ်ကိုစီရင်ဆုံးဖြတ်ပေးတော်မူပါ။ ထိုမှတပါး အရှင်မြတ်သည် ကျွန်တော်မျိုးအားလည်းကောင်း၊ ကျွန်တော်မျိုးနှင့်အတူရှိကုန်သော မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အားလည်းကောင်း၊ ကယ်တင်တော်မူပါ။

فَأَنجَيْنَاهُ وَمَن مَّعَهُ فِي الْفُلْكِ الْمَشْحُونِ ﴿١١٩﴾

**၁၁၉။** သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထိုနူဟ်အားလည်းကောင်း၊ ထိုနူဟ်နှင့်အတူ ဝန်အပြည့်တင်ထားသောသင်္ဘော၌ပါလာကြကုန်သော မုအ်မင်န်သက်ဝင်ယုံကြည်သူတို့အားလည်းကောင်း၊ ကယ်တင်တော်မူခဲ့လေ၏။

ثُمَّ اَغۡرَقۡنَا بَعۡدُ الۡبٰقِيۡنَ ﴿١٢٠﴾

၁၂၀။ ထို့နောက် တစ်ဖန် ငါအရှင်မြတ်သည် ကျန်ရှိသူတို့အား နှစ်မြှုပ်တော်မူခဲ့၏။ [၁]

اِنَّ فِىۡ ذٰلِكَ لَاٰيَةً ؕ وَمَا كَانَ اَكۡثَرُهُمۡ مُّؤۡمِنِيۡنَ ﴿١٢١﴾

၁၂၁။ ဧကန်မလွဲ ဤသည့်ဖြစ်ရပ်၌ (ကြီးကျယ်လှသော) သင်ခန်းစာသည်ရှိ၏။ စင်စစ်သော်ကား ၎င်းတို့အနက် (မက္ကာမြို့သား ကာဖိရ်များအနက်) အများဆုံးသောသူတို့မှာ သက်ဝင်ယုံကြည်မည့်သူများ မဟုတ်ကြပေ။

وَاِنَّ رَبَّكَ لَهُوَ الۡعَزِيۡزُ الرَّحِيۡمُ ﴿١٢٢﴾

၁၂၂။ စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်မှာမူကား၊ အလွန်တရာ လွှမ်းမိုးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

كَذَّبَتۡ عَادُ اِۨلۡمُرۡسَلِيۡنَ ﴿١٢٣﴾

၁၂၃။ *'အာဒ်' အမျိုးသားတို့သည်လည်း* [၂] ရစူလ်တမန်တော်တို့အား မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြကုန်၏။

اِذۡ قَالَ لَهُمۡ اَخُوۡهُمۡ هُوۡدٌ اَلَا تَتَّقُوۡنَ ﴿١٢٤﴾

၁၂၄။ အကြင်အခါဝယ် ၎င်းတို့၏နောင်တော် 'ဟူဒ်' က ပြောကြားခဲ့၏။ (အချင်းတို့၊) အသင်တို့သည် (အလ္လာဟ်အရှင်မြတ်အား)မကြောက်ရွံ့ကြလေသလော။

اِنِّىۡ لَـكُمۡ رَسُوۡلٌ اَمِيۡنٌ ۙ ﴿١٢٥﴾

၁၂၅။ ဧကန်မလွဲ ငါသည် အသင်တို့အဖို့ ယုံကြည်စိတ်ချအပ်သော ရစူလ်တမန်တော်တစ်ပါးပင် ဖြစ်သည်။

---

(၁) နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် တမန်တော်နူဟ်နှင့်အတူ သင်္ဘောပေါ်တွင်ပါရှိသော မုအ်မင်န်တို့အား ကယ်တင်၍၊ ကျန်ကာဖိရ်များအား ရေဘေးသင့်စေတော် မူခဲ့လေသည်။ ဤအကြောင်း ကုရ်အာန်(၇:၅၉-၆၄။ ၁၁:၃၆-၄၇)တွင် အကျယ်တဝင့် တွေ့ရှိရပေသည်။

(၂) တမန်တော်ဟူဒ်နှင့် အာဒ်အမျိုးသားများ အကြောင်း ကုရ်အာန်(၇:၆၅-၇၂။ ၁၁:၅၀-၆၀)တွင် အကျယ်တဝင့်ပါရှိခဲ့လေပြီ။ သက်ဆိုင်ရာ အဖွင့်များကို ပြန်လည်ရှုပါကုန်။

فَاتَّقُوا اللّٰهَ وَاَطِيْعُوْنِ ﴿١٢٦﴾

၁၂၆။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ၎င်းပြင် အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

وَمَآ اَسْـَٔلُكُمْ عَلَيْهِ مِنْ اَجْرٍ ۚ اِنْ اَجْرِىَ اِلَّا عَلٰى رَبِّ الْعٰلَمِيْنَ ﴿١٢٧﴾

၁၂၇။ စင်စစ် ငါသည် အသင်တို့ထံ ဤအမိန့်တော်ပို့ဆောင်ခြင်းနှင့် စပ်လျဉ်း၍ မည်သည့်အကျိုးတစ်စုံတရာကိုမျှ တောင်းဆိုသည်မဟုတ်ပေ။ ငါ့အား အကျိုးပေးရန် တာဝန်မှာ စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အပေါ်၌သာ ရှိ၏။

اَتَبْنُوْنَ بِكُلِّ رِيْعٍ اٰيَةً تَعْبَثُوْنَ ﴿١٢٨﴾

၁၂၈။ အသင်တို့သည်ကုန်းမြင့်တိုင်း၌ အထိမ်းအမှတ်တစ်ခု အချည်းနှီး တည်ဆောက်ကြလေသလော။

وَتَتَّخِذُوْنَ مَصَانِعَ لَعَلَّكُمْ تَخْلُدُوْنَ ﴿١٢٩﴾

၁၂၉။ ထိုမှတပါး အသင်တို့သည် မိမိတို့ အမြဲနေထိုင်ကြရမည်ကဲ့သို့ပင် ကြီးကျယ်ခမ်းနားသောတိုက်တာ ဂေဟာများကို ပြုလုပ် တည်ဆောက်ကြကုန်၏။

وَاِذَا بَطَشْتُمْ بَطَشْتُمْ جَبَّارِيْنَ ﴿١٣٠﴾

၁၃၀။ ထိုမှတပါးအသင်တို့သည် ဖမ်းဆီး အရေးယူကြလေသောအခါ ရက်စက်ကြမ်းကြုတ်သူများအဖြစ် ဖမ်းဆီး အရေးယူကြကုန်၏။

فَاتَّقُوا اللّٰهَ وَاَطِيْعُوْنِ ﴿١٣١﴾

၁၃၁။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ထိုမှတပါး အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

وَاتَّقُوا الَّذِيْٓ اَمَدَّكُمْ بِمَا تَعْلَمُوْنَ ﴿١٣٢﴾

၁၃၂။ ၎င်းပြင်အသင်တို့သည် အကြင်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်၊ ထိုအရှင်မြတ်သည် အသင်တို့အား အသင်တို့ သိရှိကြကုန်သောအရာများဖြင့် ကူညီ ဆောင်မတော်မူခဲ့၏။

**၁၃၃**။ ထိုအရှင်မြတ်သည် အသင်တို့အား ကျွဲ၊ နွား၊ ကုလားအုတ် တည်းဟူသော တိရစ္ဆာန်များဖြင့်လည်းကောင်း၊ သားသမီး ရတနာများဖြင့်လည်းကောင်း၊ ကူညီဆောင်မတော်မူခဲ့၏။

أَمَدَّكُم بِأَنْعَامٍ وَبَنِينَ ﴿١٣٣﴾

**၁၃၄**။ ထိုမှတပါး ဥယျာဉ်များဖြင့်လည်းကောင်း၊ စမ်းချောင်းများဖြင့်လည်းကောင်း၊ (ကူညီတော်မူခဲ့၏)။

وَجَنَّاتٍ وَعُيُونٍ ﴿١٣٤﴾

**၁၃၅**။ ဧကန်စင်စစ် ငါသည် အသင်တို့နှင့် ပတ်သက်၍ ကြီးကျယ်လှစွာသော(ကိယာမတ် ရှင်ပြန်ထမည့်)နေ့၏ပြစ်ဒဏ်ကို စိုးရိမ်မိပေသည်တကား။

إِنِّي أَخَافُ عَلَيْكُمْ عَذَابَ يَوْمٍ عَظِيمٍ ﴿١٣٥﴾

**၁၃၆**။ ထိုအမျိုးသားတို့ကပြောဆိုခဲ့ကြကုန်၏။ (အို-ဟူဒ်၊) အသင်သည် ဆုံးမသည်ဖြစ်စေ၊ ဆုံးမခြင်းမပြုသည်ဖြစ်စေ၊ ကျွန်ုပ်တို့အဖို့ အကြောင်းမထူးပေ။

قَالُوا سَوَاءٌ عَلَيْنَا أَوَعَظْتَ أَمْ لَمْ تَكُن مِّنَ الْوَاعِظِينَ ﴿١٣٦﴾

**၁၃၇**။ ဤသည် ရှေးလူဟောင်းတို့၏ ဓလေ့ထုံးစံမျှ ဖြစ်ပေ၏။

إِنْ هَٰذَا إِلَّا خُلُقُ الْأَوَّلِينَ ﴿١٣٧﴾

**၁၃၈**။ စင်စစ် ကျွန်ုပ်တို့သည် ပြစ်ဒဏ်ပေးခြင်း ခံကြ ရမည့်သူများ မဟုတ်ပေ။

وَمَا نَحْنُ بِمُعَذَّبِينَ ﴿١٣٨﴾

**၁၃၉**။ အချုပ်မှာ ၎င်းအမျိုးသားတို့သည် ထိုဟူဒ်အား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြပေရာ ငါ အရှင်မြတ်သည် ထိုအမျိုးသားတို့အား ပြင်းထန်လှစွာသော လေပြင်းမုန်တိုင်းဖြင့် ကွပ်မျက်ဖျက်ဆီးတော်မူခဲ့၏။ ဧကန်မလွဲဤသည့်ဖြစ်ရပ်၌လည်း (ကြီးကျယ်လှစွာသော) သင်ခန်းစာ ရှိပေ၏။ သို့ရာတွင် ၎င်းတို့ (မက္ကာမြို့သား ကာဖိရ်များ)အနက် အများဆုံးသော သူတို့မှာကား သက်ဝင် ယုံကြည်မည့်သူများ မဟုတ်ကြချေ။

فَكَذَّبُوهُ فَأَهْلَكْنَاهُمْ ۗ إِنَّ فِي ذَٰلِكَ لَآيَةً ۖ وَمَا كَانَ أَكْثَرُهُم مُّؤْمِنِينَ ﴿١٣٩﴾

وَإِنَّ رَبَّكَ لَهُوَ الْعَزِيزُ الرَّحِيمُ ﴿١٤٠﴾

၁၄၀။ စင်စစ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်မှာမူကား အလွန်တရာ လွှမ်းမိုးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

كَذَّبَتْ ثَمُودُ الْمُرْسَلِينَ ﴿١٤١﴾

၁၄၁။ *'ဆမူဒ်' အမျိုးသားတို့သည်လည်း* ① ရစူလ်တမန်တော်တို့အား မဟုတ်မမှန် ဟူ၍ ငြင်းပယ်ခဲ့ကြကုန်၏။

إِذْ قَالَ لَهُمْ أَخُوهُمْ صَالِحٌ أَلَا تَتَّقُونَ ﴿١٤٢﴾

၁၄၂။ အကြင်အခါဝယ် ၎င်းတို့အား ၎င်းတို့၏ နောင်တော် တမန်တော်ဆွာလိဟ်က ပြောကြားခဲ့၏။ (အချင်းတို့၊)အသင်တို့သည်(အလ္လာဟ်အရှင်မြတ်အား) မကြောက်ရွံ့ကြလေသလော။

إِنِّي لَكُمْ رَسُولٌ أَمِينٌ ﴿١٤٣﴾

၁၄၃။ ဧကန်မလွဲ ငါသည် အသင်တို့အဖို့ ယုံကြည်စိတ်ချအပ်သော ရစူလ် တမန်တော်တစ်ပါးပင် ဖြစ်ပေ၏။

فَاتَّقُوا اللَّهَ وَأَطِيعُونِ ﴿١٤٤﴾

၁၄၄။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ၎င်းပြင် အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

وَمَا أَسْأَلُكُمْ عَلَيْهِ مِنْ أَجْرٍ إِنْ أَجْرِيَ إِلَّا عَلَىٰ رَبِّ الْعَالَمِينَ ﴿١٤٥﴾

၁၄၅။ စင်စစ် ငါသည် အသင်တို့ထံ ဤအမိန့်တော်ပို့ဆောင်ခြင်းနှင့်စပ်လျဉ်း၍၊ မည်သည့် အကျိုးတစ်စုံတစ်ရာကိုမျှ တောင်းဆိုသည်မဟုတ်ပေ။ ငါ့အား အကျိုးပေးရန်တာဝန်မှာ စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အပေါ်၌သာ ရှိ၏။

---

① တမန်တော်ဆွာလိဟ်နှင့် ဆမူဒ်အမျိုးသားများအကြောင်း အကြိမ်ကြိမ်ပါရှိခဲ့ပေပြီ။
ကြည့်-ကုရ်အာန်(၇:၇၃-၇၉။၁၁:၆၁-၆၈)။

أَتُتْرَكُونَ فِي مَا هَاهُنَا آمِنِينَ ﴿١٤٦﴾

၁၄၆။ အသင်တို့သည် ဤပစ္စက္ခဘဝ၌ရှိသော အရာများတွင် စိတ်အေးချမ်းစွာနေခြင်းကို လျစ်လျူပြု ထားခြင်းကို ခံကြရမည်လော။

فِي جَنَّاتٍ وَعُيُونٍ ﴿١٤٧﴾

၁၄၇။ ဥယျာဉ်များ၌လည်းကောင်း၊ စမ်းချောင်းများ၌ လည်းကောင်း၊

وَزُرُوعٍ وَنَخْلٍ طَلْعُهَا هَضِيمٌ ﴿١٤٨﴾

၁၄၈။ လယ်ယာများ၌လည်းကောင်း၊ အကြင် စွန်ပလွံခြံများ၌လည်းကောင်း၊ ထိုစွန်ပလွံပင်များ၏ အဖူးအညွန့်များမှာ နူးညံ့လျက်ရှိ၏။ (တနည်း) ထိုစွန်ပလွံပင်မှ စွန်ပလွံသီးအခိုင်များမှာ ပြွတ်လျက် ရှိ၏။

وَتَنْحِتُونَ مِنَ الْجِبَالِ بُيُوتًا فَرِهِينَ ﴿١٤٩﴾

၁၄၉။ ၎င်းပြင် အသင်တို့သည် တောင်များကို အိမ်များဖြစ်အောင် ကျွမ်းကျင်စွာ ထွင်းကြကုန်၏။ (တနည်း) ၎င်းပြင် အသင်တို့သည် မော်ကြွားလျက် တောင်များကို အိမ်များဖြစ်အောင် ထွင်းကြကုန်၏။

فَاتَّقُوا اللَّهَ وَأَطِيعُونِ ﴿١٥٠﴾

၁၅၀။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ၎င်းပြင် အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

وَلَا تُطِيعُوا أَمْرَ الْمُسْرِفِينَ ﴿١٥١﴾

၁၅၁။ သို့ရာတွင်အသင်တို့သည် စည်းကမ်းဥပဒေကို ကျူးလွန်ဖောက်ဖျက်သူတို့၏အမိန့်ကို မလိုက်နာကြ ကုန်လင့်။

الَّذِينَ يُفْسِدُونَ فِي الْأَرْضِ وَلَا يُصْلِحُونَ ﴿١٥٢﴾

၁၅၂။ အကြင်သူတို့သည် တိုင်းပြည်တွင် ပျက်စီးရာ ပျက်စီးကြောင်းကို ပြုလုပ်ကြကုန်၏။ သို့ရာတွင် ထိုသူတို့သည် (တိုင်းပြည်ကို သာယာဝပြောအောင်) ပြုပြင်ကြသည်ကား မဟုတ်ကြပေ။

**၁၅၃။** ထို 'ဆမူဒ်' အမျိုးသားတို့က ပြောဆိုခဲ့ကြကုန်၏။ (အို-ဆွာလိဟ်၊) အသင်သည် ပြင်းထန်စွာ စုန်းပြုစားခြင်း ခံရသူတစ်ဦးသာလျှင်ဖြစ်၏။

قَالُوٓا إِنَّمَآ أَنتَ مِنَ ٱلْمُسَحَّرِينَ ﴿١٥٣﴾

**၁၅၄။** အသင်သည်ကျွန်ုပ်တို့ကဲ့သို့ပင် လူသားတစ်ဦးမှတပါး အခြားမဟုတ်ပြီ။ သို့ဖြစ်ပေရာ အသင်သည် သစ္စာဝါဒီ အမှန်ဆိုသူတစ်ဦး ဖြစ်ခဲ့ပါလျှင် သက်သေလက္ခဏာ တစ်စုံတစ်ရာကို ယူဆောင်လာခဲ့ပါလေ။

مَآ أَنتَ إِلَّا بَشَرٌ مِّثْلُنَا فَأْتِ بِـَٔايَةٍ إِن كُنتَ مِنَ ٱلصَّٰدِقِينَ ﴿١٥٤﴾

**၁၅၅။** ထိုဆွာလိဟ်က ပြောကြားခဲ့၏။ ဤသည် ကုလားအုတ်မတစ်ကောင်ဖြစ်၏။ ယင်း ကုလားအုတ်မ၌ ရေသောက်ရန် အလှည့်တစ်လှည့်ရှိ၍ အသင်တို့၌လည်း သတ်မှတ်ထားပြီးဖြစ်သော နေ့တစ်နေ့တွင် ရေသောက်ရန် အလှည့်တစ်လှည့်သည် ရှိ၏။

قَالَ هَٰذِهِۦ نَاقَةٌ لَّهَا شِرْبٌ وَلَكُمْ شِرْبُ يَوْمٍ مَّعْلُومٍ ﴿١٥٥﴾

**၁၅၆။** ၎င်းပြင် အသင်တို့သည် ထိုကုလားအုတ်မကို မကောင်းသော စေတနာနှင့် မထိပါးကြကုန်လင့်။ သို့ထိပါးခဲ့ကြလျှင် ကြီးကျယ်လှစွာသော(ကိယာမတ်ရှင်ပြန်ထမည့်)နေ့၏ပြစ်ဒဏ်သည် အသင်တို့အား ဖမ်းဆီး ကွပ်မျက်မည်ဖြစ်၏။

وَلَا تَمَسُّوهَا بِسُوٓءٍ فَيَأْخُذَكُمْ عَذَابُ يَوْمٍ عَظِيمٍ ﴿١٥٦﴾

**၁၅၇။** သို့တစေ ၎င်း 'ဆမူဒ်' အမျိုးသားတို့သည် ထိုကုလားအုတ်မ၏ ခြေများကို ဖြတ်တောက်ခဲ့ကြကုန်၏။ ထို့နောက် ၎င်းတို့သည် နောင်တရရှိသူများ ဖြစ်သွားခဲ့ကြကုန်၏။

فَعَقَرُوهَا فَأَصْبَحُوا۟ نَٰدِمِينَ ﴿١٥٧﴾

**၁၅၈။** သို့ဖြစ်ပေရာ ပြစ်ဒဏ်သည် ၎င်းတို့အား ဖမ်းဆီးကွပ်မျက်ခဲ့၏။ ဧကန်မလွဲ ဤသည့်ဖြစ်ရပ်၌လည်း (ကြီးကျယ်လှစွာသော) သင်ခန်းစာသည် ရှိပေ၏။ သို့ရာတွင် ၎င်း(မက္ကာမြို့သား ကာဖိရ်များအနက်) အများဆုံးသောသူတို့မှာ သက်ဝင်ယုံကြည်ကြမည့်သူများ မဟုတ်ကြချေ။

فَأَخَذَهُمُ ٱلْعَذَابُ ۗ إِنَّ فِى ذَٰلِكَ لَءَايَةً ۖ وَمَا كَانَ أَكْثَرُهُم مُّؤْمِنِينَ ﴿١٥٨﴾

وَإِنَّ رَبَّكَ لَهُوَ الْعَزِيزُ الرَّحِيمُ ﴿١٥٩﴾

**၁၅၉။** စင်စစ် အသင့်အား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်မှာမူကား အလွန်တရာ လွှမ်းမိုးတော်မူသောအရှင်၊ အလွန်တရာသနားကြင်နာတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

كَذَّبَتْ قَوْمُ لُوطٍ الْمُرْسَلِينَ ﴿١٦٠﴾

**၁၆၀။** *'လူတ်'၏ အမျိုးသားတို့သည်* [၁] (လည်း) ရစူလ်တမန်တော်တို့အား မဟုတ်မမှန် ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။

إِذْ قَالَ لَهُمْ أَخُوهُمْ لُوطٌ أَلَا تَتَّقُونَ ﴿١٦١﴾

**၁၆၁။** အကြင်အခါဝယ် ၎င်းတို့အား၊ ၎င်းတို့၏ နောင်တော်'လူတ်'က ပြောကြားခဲ့လေ၏။ အသင်တို့သည် (အလ္လာဟ်အရှင်မြတ်အား) မကြောက်ရွံ့ကြလေသလော။

إِنِّي لَكُمْ رَسُولٌ أَمِينٌ ﴿١٦٢﴾

**၁၆၂။** ဧကန်မလွဲ ငါသည် အသင်တို့အဖို့ ယုံကြည်စိတ်ချအပ်သော ရစူလ်တမန်တော်တစ်ပါးပင် ဖြစ်ပေသည်။

فَاتَّقُوا اللَّهَ وَأَطِيعُونِ ﴿١٦٣﴾

**၁၆၃။** သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ထိုမှတပါး အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

وَمَا أَسْأَلُكُمْ عَلَيْهِ مِنْ أَجْرٍ إِنْ أَجْرِيَ إِلَّا عَلَىٰ رَبِّ الْعَالَمِينَ ﴿١٦٤﴾

**၁၆၄။** စင်စစ် ငါသည်အသင်တို့ထံ ဤ(အမိန့်တော်ပို့ဆောင်ခြင်း)နှင့်စပ်လျဉ်း၍၊ အကျိုး တစ်စုံတစ်ရာကိုမျှ တောင်းဆိုသည် မဟုတ်ပေ။ ငါ့အား အကျိုးပေးရန်တာဝန်မှာ စကြာဝဠာခပ်သိမ်းတို့ကို မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်အပေါ်၌သာ ရှိပေသတည်း။

---

(၁) တမန်တော်လူတ်နှင့် ၎င်း၏အမျိုးသားများအကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ်ပါရှိခဲ့ပေပြီ။ ကြည့်-ကုရ်အာန်(၇း၈၀-၈၄။ ၁၁း၇၇-၈၃)။

أَتَأْتُونَ الذُّكْرَانَ مِنَ الْعَالَمِينَ ﴿١٦٥﴾

**၁၆၅။** အသင်တို့သည် ကမ္ဘာသူကမ္ဘာသားတို့အနက် ယောကျာ်းများထံ လာရောက်(၍ ကာမဂုဏ် ခံစား) ကြလေသလော။

وَتَذَرُونَ مَا خَلَقَ لَكُمْ رَبُّكُمْ مِنْ أَزْوَاجِكُمْ بَلْ أَنْتُمْ قَوْمٌ عَادُونَ ﴿١٦٦﴾

**၁၆၆။** သို့ရာတွင် အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်က မိမိတို့အဖို့ ဖန်ဆင်းထားတော်မူသော ဇနီး မိန်းမတို့ကိုမူ စွန့်ထား ကြလေသလော။ စင်စစ်မှာမူကား အသင်တို့သည် စည်းကမ်းကျူးလွန် ဖောက်ဖျက်သော အမျိုးသားများ ပင် ဖြစ်ကြကုန်၏။

قَالُوا لَئِنْ لَمْ تَنْتَهِ يَا لُوطُ لَتَكُونَنَّ مِنَ الْمُخْرَجِينَ ﴿١٦٧﴾

**၁၆၇။** ထိုအမျိုးသားတို့က 'အို-လူတ်' အကယ်၍ အသင်သည် (မိမိ ဆုံးမဩဝါဒပေးခြင်းမှ) မရပ်တန့် ပါလျှင် ဧကန်မလွဲ အသင်သည် (တိုင်းပြည်မှ) နှင်ထုတ်ခြင်းခံရသူ တစ်ဦးပင် ဖြစ်ချေလိမ့်မည်ဟု ဆိုခဲ့ကြကုန်၏။

قَالَ إِنِّي لِعَمَلِكُمْ مِنَ الْقَالِينَ ﴿١٦٨﴾

**၁၆၈။** ထို'လူတ်'က(အချင်းတို့၊) ဧကန်အမှန်ပါသည် အသင်တို့၏ အကျင့်အမူကို လွန်စွာစက်ဆုပ်သူ တစ်ဦးပင် ဖြစ်သည်ဟု ပြောကြားခဲ့၏။

رَبِّ نَجِّنِي وَأَهْلِي مِمَّا يَعْمَلُونَ ﴿١٦٩﴾

**၁၆၉။** (ထို့နောက် လူတ်က) အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား လည်းကောင်း၊ ကျွန်တော်မျိုး၏ အိမ်သူအိမ်သားတို့အား လည်းကောင်း၊ (နောက်လိုက် ငယ်သားတို့အားလည်းကောင်း၊) ထိုအမျိုးသားတို့ ကျင့်မူလျက် ရှိကြကုန်သော (ပြစ်မှုဒုစရိုက်၏ ပြစ် ဒဏ်မှ) ကင်းလွတ်စေတော်မူပါ (ဟု လျှောက်ထား ခဲ့၏)။

فَنَجَّيْنٰهُ وَ اَهْلَهٗۤ اَجْمَعِيْنَ ﴿١٧٠﴾

၁၇၀။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထို 'လူတ်' နှင့်တကွ ၎င်း၏အိမ်သူအိမ်သား တပည့်သား အားလုံး ကိုပင် ကယ်တင်တော်မူခဲ့၏။

اِلَّا عَجُوْزًا فِى الْغٰبِرِيْنَ ﴿١٧١﴾

၁၇၁။ သို့ရာတွင်အမယ်အိုတစ်ဦးမှာမူကား နောက်၌ ကျန်ရစ်ခဲ့သူတို့တွင် ကျန်ရစ်ခဲ့လေ၏။

ثُمَّ دَمَّرْنَا الْاٰخَرِيْنَ ﴿١٧٢﴾

၁၇၂။ ထို့နောက်ငါအရှင်မြတ်သည် ကျန်လူအားလုံး တို့ကို ဖျက်ဆီးတော်မူခဲ့၏။

وَاَمْطَرْنَا عَلَيْهِمْ مَّطَرًا ۚ فَسَآءَ مَطَرُ الْمُنْذَرِيْنَ ﴿١٧٣﴾

၁၇၃။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ မိုးတစ်မျိုး(ခဲမိုး)ကို ရွာသွန်းစေတော်မူခဲ့၏။ စင်စစ် သတိပေး နှိုးဆော်ခြင်းခံကြရသူတို့ (အပေါ်၌ ရွာသွန်း ခဲ့သော)မိုးမှာ အဘယ်မျှ ဆိုးရွားလှဘိသနည်း။

اِنَّ فِىْ ذٰلِكَ لَاٰيَةً ۗ وَمَا كَانَ اَكْثَرُهُمْ مُّؤْمِنِيْنَ ﴿١٧٤﴾

၁၇၄။ ကေန်စင်စစ် ဤသည့်(ဖြစ်ရပ်)၌ (ကြီးကျယ် လှစွာသော) သင်ခန်းစာသည် ရှိပေ၏။ သို့ရာတွင် ၎င်းတို့အနက် (မက္ကာမြို့သား ကာဖိရ်များအနက်) အများဆုံးသော သူတို့မှာမူကား သက်ဝင်ယုံကြည် ကြမည့်သူများ မဟုတ်ကြချေ။

وَاِنَّ رَبَّكَ لَهُوَ الْعَزِيْزُ الرَّحِيْمُ ﴿١٧٥﴾

၁၇၅။ စင်စစ်ဧကန် အသင့်အားဖန်ဆင်းမွေးမြူတော် မူသောအရှင်မြတ်သည်ပင်လျှင် အလွန်တရာ လွှမ်းမိုး တော်မူသော၊ အလွန်တရာ သနားကရုဏာပြုတော် မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

كَذَّبَ اَصْحٰبُ لْـَٔيْكَةِ الْمُرْسَلِيْنَ ﴿١٧٦﴾

၁၇၆။ တောအုပ်၌ နေထိုင်ကြကုန်သော အမျိုးသား တို့သည်လည်း ရစူလ်တမန်တော်တို့အား မဟုတ် မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြကုန်၏။

اِذْ قَالَ لَهُمْ شُعَيْبٌ اَلَا تَتَّقُوْنَ ﴿١٧٧﴾

၁၇၇။ အကြင်အခါဝယ် ၎င်းတို့အား 'ရှုအိုက်ဗ်'က ပြောကြားခဲ့၏။ အသင်တို့သည် အလ္လာဟ်အရှင်မြတ် အား မကြောက်ရွံ့ ကြလေသလော။

إِنِّي لَكُمْ رَسُولٌ أَمِينٌ ﴿١٧٨﴾

၁၇၈။ ဧကန်စင်စစ်ငါသည် အသင်တို့အဖို့ ယုံကြည်စိတ်ချအပ်သော ရစူလ်တမန်တော်တစ်ပါးပင်ဖြစ်၏။

فَاتَّقُوا اللَّهَ وَأَطِيعُونِ ﴿١٧٩﴾

၁၇၉။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ၎င်းပြင် အသင်တို့သည် ငါ၏အမိန့်ကို လိုက်နာကြလေကုန်။

وَمَا أَسْأَلُكُمْ عَلَيْهِ مِنْ أَجْرٍ إِنْ أَجْرِيَ إِلَّا عَلَىٰ رَبِّ الْعَالَمِينَ ﴿١٨٠﴾

၁၈၀။ စင်စစ် ငါသည် ဤ(အမိန့်တော် ပို့ဆောင်ခြင်း)နှင့်စပ်လျဉ်း၍ အသင်တို့ထံ မည်သည့်အကျိုးတစ်စုံတစ်ရာကိုမျှ တောင်းဆိုသည် မဟုတ်ပေ။ ငါ့အား အကျိုးပေးရန် တာဝန်မှာ စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ တာဝန်ပင် ဖြစ်ပေသတည်း။

أَوْفُوا الْكَيْلَ وَلَا تَكُونُوا مِنَ الْمُخْسِرِينَ ﴿١٨١﴾

၁၈၁။ အသင်တို့သည် (ခွက်၊စလယ်၊တင်းတောင်း၊စသော) အခြင်အတွယ်ကို အပြည့်(ခြင်၍) ပေးကြလေကုန်။ ၎င်းပြင် အသင်တို့သည် ဆုံးရှုံးအောင်ပြုလုပ်သူများ မဖြစ်ကြကုန်လင့်။

وَزِنُوا بِالْقِسْطَاسِ الْمُسْتَقِيمِ ﴿١٨٢﴾

၁၈၂။ ထို့ပြင် အသင်တို့သည် မှန်ကန်သော ရာဇူချိန်ခွင်ဖြင့် ချိန်တွယ်ကြလေကုန်။

وَلَا تَبْخَسُوا النَّاسَ أَشْيَاءَهُمْ وَلَا تَعْثَوْا فِي الْأَرْضِ مُفْسِدِينَ ﴿١٨٣﴾

၁၈၃။ ၎င်းပြင် အသင်တို့သည် လူတို့အား ၎င်းတို့၏ ဝတ္ထုပစ္စည်းများကို လျှော့၍ မပေးကြကုန်လင့်။ ထိုမှတပါး အသင်တို့သည် တိုင်းပြည်တွင် ဖျက်ဆီးသူများအဖြစ် သွားလာလှုပ်ရှား သောင်းကျန်းခြင်းကို မပြုကြကုန်လင့်။

وَاتَّقُوا الَّذِي خَلَقَكُمْ وَالْجِبِلَّةَ الْأَوَّلِينَ ﴿١٨٤﴾

၁၈၄။ ထို့ပြင် အသင်တို့သည် မိမိတို့အားလည်းကောင်း၊ရှေးဟောင်းအဖန်ဆင်းခံတို့အားလည်းကောင်း၊ ဖန်ဆင်းတော်မူသောအရှင်မြတ်အားကြောက်ရွံ့ကြလေကုန်

قَالُوٓا إِنَّمَآ أَنتَ مِنَ ٱلْمُسَحَّرِينَ ﴿١٨٥﴾

**၁၈၅။** ထိုအမျိုးသားတို့ကပြောဆိုခဲ့ကြကုန်၏။ (အို-ရှုအိုက်ဗ်၊) အသင်သည် ပြင်းထန်စွာ စုန်းပြုစားခြင်း ခံရသူတစ်ဦးပင် ဖြစ်၏။

وَمَآ أَنتَ إِلَّا بَشَرٌ مِّثْلُنَا وَإِن نَّظُنُّكَ لَمِنَ ٱلْكَٰذِبِينَ ﴿١٨٦﴾

**၁၈၆။** စင်စစ် အသင်သည် ကျွန်ုပ်တို့ကဲ့သို့ပင် လူသားတစ်ဦးမှအပ အခြားမဟုတ်ပြီ။ ၎င်းပြင် ဧကန် စင်စစ် ကျွန်ုပ်တို့သည် အသင့်အား မုသာဝါဒီ တစ်ဦးပင်ဖြစ်သည်ဟု ထင်မှတ်ကြကုန်၏။

فَأَسْقِطْ عَلَيْنَا كِسَفًا مِّنَ ٱلسَّمَآءِ إِن كُنتَ مِنَ ٱلصَّٰدِقِينَ ﴿١٨٧﴾

**၁၈၇။** သို့ဖြစ်ပေရာ အသင်သည် သစ္စာဝါဒီတို့တွင် အပါအဝင်ဖြစ်မူ ကျွန်ုပ်တို့အပေါ်၌ မိုးကောင်းကင်၏ အစိတ်အပိုင်းတစ်ခုခု ကျလာအောင် သင်ပြုလုပ်ပါလေ။

قَالَ رَبِّىٓ أَعْلَمُ بِمَا تَعْمَلُونَ ﴿١٨٨﴾

**၁၈၈။** ထိုရှုအိုက်ဗ်က ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အသင်တို့ ပြုမူကြသည်ကို ကောင်းစွာ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူကြောင်း ပြောကြားခဲ့၏။

فَكَذَّبُوهُ فَأَخَذَهُمْ عَذَابُ يَوْمِ ٱلظُّلَّةِ إِنَّهُۥ كَانَ عَذَابَ يَوْمٍ عَظِيمٍ ﴿١٨٩﴾

**၁၈၉။** ၎င်းနောက် ထိုအမျိုးသားတို့သည် ထိုရှုအိုက်ဗ်အား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြလေရာ တိမ်များကျလာသောနေ့၏ ပြစ်ဒဏ်သည် ၎င်းတို့အား ဖမ်းဆီးကွပ်မျက်ခဲ့၏။ ဧကန်မလွဲ ယင်းပြစ်ဒဏ်သည် *ကြီးကျယ်သောနေ့၏ ပြစ်ဒဏ်ပင်ဖြစ်ခဲ့၏။* [၁]

---

(၁) အလ္လာဟ်အရှင်မြတ်သည် 'အဆ္ဟာဗုလ် အိုင်ကဟ်'အား နောက်ဆုံးတွင် သွန်သင်ဆုံးမ၍ မရသည့်အဆုံး၌ ကွပ်မျက်တော်မူခဲ့လေသည်။ ကွပ်မျက်တော်မူပုံမှာ ပထမသော် အပူရှိန်ပြင်းလာခဲ့၏။ ထို့နောက် မိုးတိမ် တက်လာခဲ့၏။ အဆ္ဟာဗုလ်အိုင်ကဟ်သည် အအေးဓာတ် ရလိုကြသည့်အတွက် မိုးတိမ်အောက်သို့ လာရောက် စုရုံးခဲ့ကြ၏။ အဆိုပါမိုးတိမ်သည် မိုးရေ ရွာသွန်းမချဘဲ မီးမိုးရွာသွန်းချခဲ့၏။ အောက်မှ မြေငလျင်လှုပ်လာခဲ့၏။ အလွန်ကြောက်မက်ဖွယ် ကောင်းသော အသံကြီးလည်း ထွက်ပေါ်မြည်ဟည်းလာခဲ့၏။ ဤသို့ဖြင့် 'အဆ္ဟာဗုလ် အိုင်ကဟ်'သည် လောင်ကျွမ်း သေကျေပျက်စီးသွားခဲ့ ကြလေသည်။ကြည့်- မာဂျိဒီ။ ထာနဝီ။

إِنَّ فِي ذَٰلِكَ لَآيَةً ۖ وَمَا كَانَ أَكْثَرُهُم مُّؤْمِنِينَ ﴿١٩٠﴾

**၁၉၀။** ကေန်စင်စစ် ဤသည့်ဖြစ်ရပ်၌ (ကြီးကျယ်စွာသော) သင်ခန်းစာတစ်ရပ်သည် ရှိခဲ့၏။ သို့ရာတွင် ၎င်းတို့အနက် (မက္ကာမြို့သား ကာဖိရ်များအနက်) အများဆုံးသောသူတို့မှာမူကား သက်ဝင်ယုံကြည်မည့်သူများ မဟုတ်ကြပေ။

وَإِنَّ رَبَّكَ لَهُوَ الْعَزِيزُ الرَّحِيمُ ﴿١٩١﴾

**၁၉၁။** စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူသော အရှင်မြတ်သည် အလွန်တရာ လွှမ်းမိုးတော်မူသော၊ အလွန်တရာ ကရုဏာပြုတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَإِنَّهُ لَتَنزِيلُ رَبِّ الْعَالَمِينَ ﴿١٩٢﴾

**၁၉၂။** ၎င်းပြင် မလွဲဧကန် ဤ(ကုရ်အာန်ကျမ်းတော်မြတ်)သည် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသည့် *အရှင်ချပေးတော်မူသော (ကျမ်းဂန်ပင်) ဖြစ်ချေသည်။*[1]

نَزَلَ بِهِ الرُّوحُ الْأَمِينُ ﴿١٩٣﴾

**၁၉၃။** 'အရ်ရူဟုလ်အမီန်' (ယုံကြည်စိတ်ချအပ်သော ဝိညာဉ်တော်)ကောင်းကင်တမန်ဂျစ်ဗ်ရီလ်သည် ယင်း(ကုန်အာန်ကျမ်းတော်မြတ်)ကို ယူဆောင်ချပေးခဲ့လေသည်။

عَلَىٰ قَلْبِكَ لِتَكُونَ مِنَ الْمُنذِرِينَ ﴿١٩٤﴾

**၁၉၄။** အသင်၏ စိတ်နှလုံးပေါ်၌ အသင်သည် သတိပေးနှိုးဆော်သူတို့တွင်အပါအဝင် ဖြစ်အံ့သောငှာ။

---

(၁) **ကုရ်အာန်ကျမ်းမြတ်။**

ဤကဏ္ဍ၏အစတွင် ကုရ်အာန်ကျမ်းမြတ်အကြောင်း၊ ကုရ်အာန်ကျမ်းမြတ်ကို မဟုတ်မမှန် ဟူ၍ စွပ်စွဲ ပြောဆိုသူများအား သတိပေးထားတော်မူသည့် အကြောင်း ပါရှိခဲ့၏။ ထိုသည့်နောက်ပိုင်းတွင် စပ်ကြား၌ အမှန်တရားကို သွေဖည်ငြင်းဆန်ခဲ့ကြသော အချို့အမျိုးသားတို့၏ အကြောင်းများ ပါရှိခဲ့၏။ ယခု ဤမှတစ်ဖန် ကုရ်အာန်ကျမ်းမြတ်၏ အကြောင်းကိုပင် ပြန်လည် မိန့်ကြားထားတော်မူသည်။

ကုရ်အာန်ကျမ်းမြတ်သည် အလွန်ထူးကဲမြင့်မြတ်သော၊ မင်္ဂလာအပေါင်းနှင့် ပြည့်စုံသော၊ အလွန်တန်ခိုးကြီးမားသော ကျမ်းဂန်တစ်ဆူဖြစ်၏။ ထိုသည့်ကျမ်းမြတ်ကို စကြာဝဠာ အဝှန်းကို စတင်ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်သည် ထုတ်ပြန်ချမှတ်တော်မူခဲ့၏။

၁၉၅။ ရှင်းလင်းသော အရဗီဘာသာဖြင့်။

بِلِسَانٍ عَرَبِيٍّ مُّبِينٍ ﴿١٩٥﴾

၁၉၆။ ၎င်းပြင် ဧကန်အမှန် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်၏အကြောင်း)မှာ ရှေးလူဟောင်းတို့၏ ကျမ်းဂန်များ၌(လည်း) ပါရှိ၏။ [၁]

وَإِنَّهُۥ لَفِى زُبُرِ ٱلْأَوَّلِينَ ﴿١٩٦﴾

၁၉၇။ အီစ်ရာအီလီအမျိုးသားတို့အနက်မှ ပညာရှင်များ ယင်း(ကုရ်အာန်ကျမ်းတော်မြတ်)ကို သိရှိကြခြင်းမှာ ၎င်း(ကုရိုက်ရှ်မျိုးနွယ်ဝင်)တို့အဖို့ (လုံလောက်သော) သက်သေသာဓက မဖြစ်ခဲ့လေသလော။

أَوَلَمْ يَكُن لَّهُمْ ءَايَةً أَن يَعْلَمَهُۥ عُلَمَٰٓؤُا۟ بَنِىٓ إِسْرَٰٓءِيلَ ﴿١٩٧﴾

၁၉၈။ စင်စစ် အကယ်တန္တု ငါအရှင်မြတ်သည် ယင်း (ကုရ်အာန်ကျမ်းတော်မြတ်)ကို အရဗ်အမျိုးသားမဟုတ်သူ တစ်ဦးတစ်ယောက်၏ အပေါ်၌ ချပေးခဲ့တော်မူခဲ့အံ့။

وَلَوْ نَزَّلْنَٰهُ عَلَىٰ بَعْضِ ٱلْأَعْجَمِينَ ﴿١٩٨﴾

၁၉၉။ တစ်ဖန် ထိုသူသည် ၎င်း(ကုရိုက်ရှ် မျိုးနွယ်ဝင်)တို့ ရှေ့ဝယ် ထို(ကုရ်အာန်ကျမ်းတော်မြတ်)ကို ဖတ်ကြားခဲ့အံ့။ သို့ပင်တစေလည်း ၎င်းတို့သည် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်)ကို ယုံကြည်ကြမည့်သူများ မဟုတ်ပေတကား။ [၂]

فَقَرَأَهُۥ عَلَيْهِم مَّا كَانُوا۟ بِهِۦ مُؤْمِنِينَ ﴿١٩٩﴾

---

(၁) ကုရ်အာန်ကျမ်းမြတ် အကြောင်းနှင့် ယင်းကျမ်းမြတ် ထုတ်ပြန်ပို့ချတော်မူခြင်း ခံခဲ့ရသော တမန်တော်မြတ်၏ အကြောင်းများသည် အတိတ်ခေတ် ကောင်းကင်ကျကျမ်းများတွင် ပါရှိခဲ့၏။

အတိတ်ခေတ်များတွင် ပွင့်လေကြကုန်သော တမန်တော်များကလည်း ကုရ်အာန်ကျမ်းမြတ်နှင့် တမန်တော်မြတ်၏အကြောင်းကို အသီးသီး ကြိုတင်၍ ဗျာဒိတ်စကား ပြောကြားသွားခဲ့ကြ၏။ ယင်းသည့် ဗျာဒိတ်စကားများကို အတိတ်ခေတ် ကောင်းကင်ကျ ကျမ်းဂန်များအနက် ကပြောင်းကပြန်၊ မှောက်လှန်၊ ထုတ်ပယ်၊ ဖြည့်စွက်ထားသည့် တည်ဆဲ အချို့ကျမ်းများတွင်ပင် ယခုထက်တိုင် တွေ့ရှိရပေသည်။

ဤအာယတ်တော်၏ အနက်သဘောမှာ တနည်း ဤသို့လည်း ဖြစ်နိုင်၏။ ကုရ်အာန်ကျမ်းမြတ်လာ တရားတော်များအနက် များစွာသော တရားတော်များသည် အကျဉ်းအားဖြင့်သော် လည်းကောင်း၊ အကျယ်အားဖြင့်သော် လည်းကောင်း၊ အတိတ်ခေတ် ကောင်းကင်ကျကျမ်းဂန်များတွင် ပါရှိခဲ့၏။ အထူးသဖြင့် 'တောင်ဟီးဒ်'၊ 'ရိစာလတ်'၊ 'ကိယာမတ်'၊ ကောင်းကျိုး ဆိုးကျိုးခံစံရမည့် အကြောင်းများသည် ကောင်းကင်ကျ ➤➤

كَذٰلِكَ سَلَكۡنٰهُ فِىۡ قُلُوۡبِ الۡمُجۡرِمِيۡنَ ۞٢٠٠

لَا يُؤۡمِنُوۡنَ بِهٖ حَتّٰى يَرَوُا الۡعَذَابَ الۡاَلِيۡمَ ۞٢٠١

**၂၀၀။** ငါအရှင်မြတ်သည် ဤနည်းအတိုင်းပင် ပြစ်မှုကျူးလွန်သူတို့၏ စိတ်တွင်းဝယ် ယင်းငြင်းပယ်မှုကို ထည့်သွင်းတော်မူခဲ့၏။ ၁

**၂၀၁။** ၎င်းတို့သည် ပြင်းပြနာကြင်ဖွယ်ဖြစ်သော ပြစ်ဒဏ်ကို မမြင်ကြရလေသမျှကာလပတ်လုံး ယင်း(ကုရ်အာန်ကျမ်းတော်မြတ်)ကို ယုံကြည်ကြမည် မဟုတ်ပေ။

➤➤ ကျမ်းဂန်တိုင်းတွင် ပါရှိခဲ့၏။ ပွင့်လေသမျှသော တမန်တော်များကလည်း ဤသည့်အကြောင်းများကို တညီတညွတ်တည်း ဟောကြားခဲ့ကြ၏။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ် (၇:၁၅၇)၊ အောက်ခြေအမှတ်တွင် အကျယ်ရေးသားခဲ့ပေပြီ။

① တမန်တော်မြတ်သည် အရဗ်မျိုးနွယ်ဝင်ဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ်သည်လည်း အရဗီစာပေဖြင့် ကျရောက်လာခဲ့သည်။ ဤသည်ကိုကြည့်၍ မက္ကာမြို့သား ကာဖိရ်များက ကုရ်အာန်သည်(တမန်တော်မြတ်) မှဟမ္မဟ် မိမိကိုယ်တိုင် ဖန်တီးပြုလုပ်ထားသော ကျမ်းဖြစ်သည်ဟု ဆိုကောင်းဆိုခဲ့ကြပေမည်။

အမှန်မှာ ကုရ်အာန်ကျမ်းမြတ်သည် အနက်အဓိပ္ပာယ်ပြည့်ဝမှု၊ ကျိုးကြောင်းခိုင်လုံမှု၊ မှန်ကန်မှု၊ စာပေဂုဏ်မြောက်မှု စသည်တို့တွင် အတိုင်းမသိ အထွတ်အထိပ်သို့ ရောက်လျက်ရှိပေရာ၊ လူသားနှင့် 'ဂျင်န်'သတ္တဝါအားလုံး စုပေါင်း၍ပင် ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံးကို မဆိုထားနှင့်၊ တစ်စိတ်တစ်ဒေသကိုပင် မပြုစွမ်းနိုင်ကြပေ။ သို့တစေလည်း တမင်အပြစ်ပြောဆိုလိုသူအဖို့မှာ၊ အဘယ်မျှ မှန်ကန်ခိုင်လုံ ထင်ရှားသော အထောက်အထား တင်ပြငြားလည်း 'ကျားကျား မီးယပ်'ဆိုသကဲ့သို့ အချည်းနှီးသာ ဖြစ်ချေမည်။

မက္ကာမြို့သား ကာဖိရ်များသည် အဘယ်မျှ စိတ်ဓာတ်ခဲယဉ်းခဲ့ကြသည်။ အဘယ်မျှ မရှုဆိတ်ရှိခဲ့ကြသည်။ အဘယ်မျှ မိုက်မဲခဲ့ကြသည်ဆိုသော်၊ အကယ်တန္တု အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကို အရဗီစာပေ ကောင်းစွာမတတ်ကျွမ်းသော ပုဂ္ဂိုလ်တစ်ဦး၊ သို့မဟုတ် အရဗ်အမျိုးသား မဟုတ်သော၊ အရဗီစကား တစ်လုံးတစ်ပါဒမျှ မတတ်သော ပုဂ္ဂိုလ်တစ်ဦးအပေါ်သို့ ချပေးတော်မူခဲ့ပါသော်၊ ထိုပုဂ္ဂိုလ်ကလည်း ကုရ်အာန်ကျမ်းမြတ်ကို ၎င်းတို့ရှေ့ဝယ် အံ့ဖွယ်သရဲ စနစ်တကျ မှန်ကန်တိကျစွာ ဖတ်ကြားပြခဲ့သည်ရှိသော်၊ သို့ပင်တစေလည်း ၎င်းတို့သည် ကုရ်အာန်ကို ယုံကြည်ကြမည်မဟုတ်ပေ။ သို့လော သို့လော တွေးတောကာ တနည်းတဖုံ လုပ်ကြံပြောဆိုကြဦးမည်ပင်။

② အချို့သူများသည် အမြဲတစေ ဒုစရိုက်မှုများကို ကျူးလွန်လေ့ရှိကြ၏။ မိမိတို့၏ စွမ်းရည်သတ္တိများကို သွေဖည်ငြင်းဆန်မှု၊ ပုန်ကန်သောင်းကျန်းမှု၊ ပါပညစ်ကျူ မကောင်းမှုအစုစုတွင်သာ အသုံးပြုလေ့ ရှိကြ၏။ ပြစ်မှုကျူးလွန်ခြင်းကိုပင် မိမိတို့၏ဝသီ၊ မိမိတို့၏အလေ့အထ ပြုလုပ်ထားကြ၏။

ထိုရွေ့ထိုမျှ ဆိုးသွမ်းမိုက်မဲလာကြသည့်အခါ၊ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ စွန္နတ်တော်နှင့်အညီ ထိုသို့သော သူယုတ်မာတို့အား လျစ်လျူပြုထားတော်မူလိုက်ပြီး၊ ၎င်းတို့၏ စိတ်နှလုံးများတွင် သွေဖည်ငြင်းဆန်ခြင်း၊ ပုန်ကန်သောင်းကျန်းခြင်း၊ ပြစ်မှုကျူးလွန်ခြင်းတို့၏ အကျိုးဆက်ကို ထည့်သွင်း ထားတော်မူလိုက်လေသည်။ ဤအဖွင့်သည် အထက်ဘာသာပြန်ချက် နှင့်အညီ ဖွင့်ဆိုထားခြင်းဖြစ်သည်။

فَيَأْتِيَهُمْ بَغْتَةً وَّهُمْ لَا يَشْعُرُوْنَ ﴿٢٠٢﴾

၂၀၂။ စင်စစ် ထိုပြစ်ဒဏ်မှာ ၎င်းတို့ထံသို့ ၎င်းတို့ မသိရှိကြခိုက် ရုတ်တရက် ရောက်ရှိ၍လာပေမည်။

فَيَقُوْلُوْا هَلْ نَحْنُ مُنْظَرُوْنَ ﴿٢٠٣﴾

၂၀၃။ ထိုအခါ၎င်းတို့က ကျွန်ုပ်တို့သည် ရွှေ့ဆိုင်းခွင့် ရရှိနိုင်ကြပါမည်လောဟု ဆိုကြပေမည်။

أَفَبِعَذَابِنَا يَسْتَعْجِلُوْنَ ﴿٢٠٤﴾

၂၀၄။ သို့ပါလျက် ၎င်းတို့က ငါအရှင်မြတ်၏ ပြစ်ဒဏ်ကို အလျင်စလို တောင်းဆိုကြလေသလော။

أَفَرَءَيْتَ إِنْ مَّتَّعْنٰهُمْ سِنِيْنَ ﴿٢٠٥﴾

၂၀၅။ အသင်သည်မည်သို့ယူဆပါသနည်း အကယ်၍ ငါ အရှင်မြတ်သည် ၎င်းတို့အား နှစ်ကာလကြာရှည်စွာအကျိုးခံစားခွင့်ပေးတော်မူခဲ့ပါလျှင်။

ثُمَّ جَآءَهُمْ مَّا كَانُوْا يُوْعَدُوْنَ ﴿٢٠٦﴾

၂၀၆။ ထို့နောက် ၎င်းတို့ထံ ၎င်းတို့ ချိန်းချက်ခံကြရသော(ပြစ်ဒဏ်)သည် ၎င်းတို့ထံရောက်ရှိလာခဲ့သော်၊

مَآ أَغْنٰى عَنْهُمْ مَّا كَانُوْا يُمَتَّعُوْنَ ﴿٢٠٧﴾

၂၀၇။ ထိုအခါ ၎င်းတို့အဖို့ ၎င်းတို့ အကျိုးခံစားခွင့်ရရှိခဲ့ကြသောအရာများမှာ မည်သို့မျှ အသုံးဝင်မည်မဟုတ်ပေ။

وَمَآ أَهْلَكْنَا مِنْ قَرْيَةٍ إِلَّا لَهَا مُنْذِرُوْنَ ﴿٢٠٨﴾

၂၀၈။ စင်စစ် ငါအရှင်မြတ် ကွပ်မျက်ဖျက်ဆီးတော်မူခဲ့သော မြို့ရွာတိုင်း၌ သတိပေးနှိုးဆော်သူများ ရောက်ရှိခဲ့ကြသည်သာ ဖြစ်သည်။ [၁]

---

(၁) မတရားပြုမှုခြင်းသည် အလ္လာဟ်အရှင်မြတ်နှင့် လားလားမျှ မပတ်သက်ချေ။ အလ္လာဟ်အရှင်မြတ်သည် မဟာကရုဏာတော်ရှင်၊ တရားမျှတတော် မူသောအရှင် ဖြစ်တော်မူသည်။ လူမျိုးတစ်မျိုးအား အကြောင်းမဲ့၊ အပြစ်မဲ့ ကွပ်မျက်တော်မူသည် မဟုတ်။ အလ္လာဟ်အရှင်မြတ်သည် လူမျိုးအသီးသီးထံသို့ သတိပေးနှိုးဆော်ရန်၊ တရားဓမ္မဟောညွှန်ပြရန် တမန်တော်များကို စေလွှတ်တော်မူသည်။ ပြစ်မှုကျူးလွန်ကြသည့်တိုင်အောင် ချက်ချင်းကွပ်မျက်တော်မမူ။ အချိန်ကြာမြင့်စွာ လျစ်လျူပြုထားတော်မူသည်။ သို့ပါလျက် လူမျိုးတစ်မျိုးသည် တရားမရကြဘဲ ဆိုးမိုက်မြဲတိုင်း ဆိုးမိုက်နေကြသည်ရှိသော်၊ ထိုသို့သော လူမျိုးသည် နောက်ဆုံးတွင် ကွပ်မျက်တော်မူခြင်းကို ခံခဲ့ရသည်သာဖြစ်သည်။ ဤကား မည်သူမပြု မိမိမှုပင်။

ذِكْرَىٰ ۛ وَمَا كُنَّا ظَٰلِمِينَ ﴿٢٠٩﴾

၂၀၉။ (ထိုမြို့သူမြို့သားတို့အား) သတိပေး ဆုံးမ သြဝါဒပေးရန်။ စင်စစ် ငါအရှင်မြတ်သည် မတရား သဖြင့် နှိပ်စက်ညှဉ်းပန်းတော်မူသော အရှင်မဟုတ်ပေ။

وَمَا تَنَزَّلَتْ بِهِ ٱلشَّيَٰطِينُ ﴿٢١٠﴾

၂၁၀။ စင်စစ် ဤ(ကုရ်အာန်ကျမ်းတော်မြတ်)ကို 'ရှိုင်တွာန်' မိစ္ဆာကောင်များ ဆောင်ကြဉ်းခဲ့ကြသည် မဟုတ်ပေ။

وَمَا يَنۢبَغِى لَهُمْ وَمَا يَسْتَطِيعُونَ ﴿٢١١﴾

၂၁၁။ စင်စစ် ထို(ကုရ်အာန်ကို ယူဆောင်လာခြင်း) ကိစ္စမှာ ၎င်းတို့နှင့် (လားလားမျှ) အပ်စပ်ခြင်းလည်း မရှိပေ။ ၎င်းတို့သည် (ယူဆောင်လာရန်) တတ်စွမ်း နိုင်သည်လည်း မဟုတ်ပေ။ [၁]

إِنَّهُمْ عَنِ ٱلسَّمْعِ لَمَعْزُولُونَ ﴿٢١٢﴾

၂၁၂။ ဧကန်အမှန် ထိုရှိုင်တွာန်မိစ္ဆာကောင်များသည် (ဝဟ်ယ် အမိန့်တော်)ကို ကြားနာခြင်းမှ အမှန်ပင် ပယ်ရှားခြင်း ခံခဲ့ကြရပြီး ဖြစ်ကုန်၏။

---

(၁) အချို့ မုရှ်ရစ်က်များက တမန်တော်မြတ်ထံ 'ဂျင်န်' တစ်ဦးဦးလာ၍ ကုရ်အာန်သင်ကြားပေးသည်ဟု ထင်မှတ်ခဲ့ကြသည်။ ဗုခါရီကျမ်းတွင် လာရှိသည်မှာ- တခါသော် တမန်တော်မြတ်ထံ ဝဟီအမိန့်တော် ကျရောက်ရာတွင် အချိန်အနည်းငယ် ကြန့်ကြာသွားသည့်အခါ၊ အမျိုးသမီးတစ်ဦးက တမန်တော်မြတ်အား 'အသင်၏ ရှိုင်တွာန်သည် အသင့်အား စွန့်ပစ်ထားလိုက်ပြီ'ဟု ဆိုခဲ့လေသည်။ ဤသည့် အတွေးအခေါ်များသည် လုံးဝမှားယွင်းကြောင်းကို ဤအာယတ်တော်များတွင် မိန့်ဆိုထားတော်မူသည်။

အမှန်မှာ ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်ထံတော်မှ တမန်တော်မြတ်ထံသို့ ကောင်းကင်တမန် ဂျစ်ဗ်ရီလ် ယူဆောင်လာခဲ့သော ကျမ်းဂန်ဖြစ်သည်။ ရှိုင်တွာန်များ သင်ကြားပြသထားသောကျမ်း အလျှင်းမဟုတ်။ ရှိုင်တွာန်များသည် ကုရ်အာန်ကျမ်းမြတ်နှင့် လားလားမျှ မအပ်စပ်ကြပေ။ ရှိုင်တွာန်များ၏ မူလ ဗီဇမှာ မှောက်မှားခြင်း၊ မှောက်မှားစေခြင်း၊ ဆူပူသောင်းကျန်းခြင်း၊ နှောင့်ယှက် ဖျက်ဆီးခြင်းများသာ ဖြစ်ချေသည်။

ကုရ်အာန်ကျမ်းမြတ်သည် အစမှအဆုံးတိုင် ဖြောင့်မတ်မှန်ကန်သော တရားဓမ္မချည်းသာ ဖြစ်ချေသည်။ ကုရ်အာန်သည် အလင်း၊ ရှိုင်တွာန်သည် အမှောင်၊ ကုရ်အာန်သည် တရား၊ ရှိုင်တွာန်သည် မတရားဖြစ်ပေရာ၊ ကုရ်အာန်နှင့် ရှိုင်တွာန်မှာ ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်ကြပေသည်။

فَلَا تَدْعُ مَعَ اللّٰهِ اِلٰهًا اٰخَرَ فَتَكُوْنَ مِنَ الْمُعَذَّبِيْنَ ﴿٢١٣﴾

၂၁၃။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည်အလ္လာဟ်အရှင်မြတ်နှင့်အတူ မည်သည့်ကိုးကွယ်ရာကိုမျှပင် ဟစ်ခေါ်တသခြင်း မပြုပါလေနှင့်။ သို့ပြုခဲ့ပါလျှင် အသင်သည်လည်း ပြစ်ဒဏ်ပေးခြင်းခံကြရသူတို့တွင် အပါအဝင် ဖြစ်သွားပေမည်။

وَاَنْذِرْ عَشِيْرَتَكَ الْاَقْرَبِيْنَ ﴿٢١٤﴾

၂၁၄။ ၎င်းပြင် အသင်သည် မိမိနီးစပ်သောဆွေမျိုးသားချင်းကို သတိပေးနှိုးဆော်ပါလေ။ [၁]

وَاخْفِضْ جَنَاحَكَ لِمَنِ اتَّبَعَكَ مِنَ الْمُؤْمِنِيْنَ ﴿٢١٥﴾

၂၁၅။ ထို့ပြင်အသင်သည် မိမိ၏နောက်သို့ လိုက်ကြသော မုအ်မင်န်သက်ဝင်ယုံကြည်သူတို့၏ ရှေ့ဝယ် (၎င်းတို့အား ကရုဏာထား ရှိသောအားဖြင့်) ကျိုးနွံပါလေ။ [၂]

فَاِنْ عَصَوْكَ فَقُلْ اِنِّيْ بَرِيْٓءٌ مِّمَّا تَعْمَلُوْنَ ﴿٢١٦﴾

၂၁၆။ သို့ရာတွင် အကယ်၍ ၎င်းတို့သည် အသင်၏အမိန့်ကို ဖီဆန်ခဲ့ကြလျှင် အသင်သည် (၎င်းတို့အား) ဧကန်မလွဲ ငါသည် အသင်တို့၏ အပြုအမူတို့မှ ကင်းလွတ်သည်ဟု ပြောကြားပါလေ။

---

(၁) သတိပေးရာတွင်၊ တရားဓမ္မဟောကြားရာတွင် သူငါအများ အားလုံးတို့အား ခွဲခြားမှုမရှိ၊ တစ်တန်းတစ်စားတည်း ဟောကြားရမည် ဖြစ်သော်လည်း၊ မိမိနှင့်နီးစပ်သော၊ အမြဲတစေဝင်ထွက် သွားလာနေသောသားချင်း၊ လူရင်းများကိုမူ၊ ဦးစွာပထမ ဟောကြားရပေမည်။ 'ဆန်ရင်း နာနာဖွပ်' ဆိုသကဲ့သို့ပင်။

ဤအာယတ်တော် ကျရောက်လာခဲ့သည့်အခါ၊ တမန်တော်မြတ်သည် မိမိ၏သားချင်းများဖြစ်သော ကုရိုက်ရှ် မျိုးနွယ်အား ဖိတ်ခေါ်၍ သတိပေးတော်မူခဲ့လေသည်။ ထို့ပြင်တစ်ဝ မိမိ ဦးရီးအရီး မိမိ၏သမီးကိုလည်း 'အလ္လာဟ်အရှင်မြတ်ထံတော်၌ မိမိတို့၏အရေးကို မိမိတို့ကိုယ်တိုင် တွေးကြ၊ ကျွန်ုပ်သည် အသို့မျှ အကျိုးမပြုနိုင်ပါ' ဟု ဖွင့်ဟပြောကြားတော် မူလိုက်လေသည်။

(၂) ဤအာယတ်တော်တွင် တမန်တော်မြတ်အား အမိန့်နာခံသော မုအ်မင်န်များကို ဖြူနက်မခြား၊ သနားကြင်နာထောက်ထားရမည့် အကြောင်း၊ အမိန့်မနာခံ သွေဖည်ငြင်းဆန်သော သူများနှင့်ပတ်သက်၍မူ ဖြူနက်မခြား မိမိသည်၎င်းတို့နှင့် မည်သို့မျှမပတ်သက်သည်ကို ကြေညာရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ 'ချစ်ခြင်းသည်လည်း အလ္လာဟ်အရှင်မြတ်အတွက်သာ။ မုန်းခြင်းသည်လည်း အလ္လာဟ်အရှင်မြတ်အတွက်သာ' ဟူသော တမန်တော်မြတ်၏ ဩဝါဒတော်၏ သဘောမှာလည်း ဤသည့်သဘောပင်။ ဤကား အစ္စလာမ်၏ မှန်ကန်၊တိကျ၊ပြတ်သားသော မူတစ်ရပ်ပင်။

وَتَوَكَّلْ عَلَى الْعَزِيزِ الرَّحِيمِ ﴿٢١٧﴾

**၂၁၇။** ထိုမှတပါးအသင်သည် အလွန်တရာအားအင် ပြည့်စုံတော်မူသော အလွန်တရာ သနားကရုဏာ ပြုတော်မူသော အရှင်မြတ်အပေါ်၌ ယုံပုံ အားထား ပါလေ။

الَّذِي يَرَاكَ حِينَ تَقُومُ ﴿٢١٨﴾

**၂၁၈။** အကြင်အရှင်မြတ်သည် အသင် မတ်တတ် ရပ်သောအခါ အသင့်အား မြင်တော်မူ၏။

وَتَقَلُّبَكَ فِي السَّاجِدِينَ ﴿٢١٩﴾

**၂၁၉။** ထိုနည်းတူစွာ(ထိုအရှင်မြတ်သည်) ‘ဆွလာတ်’ ဝတ်ပြုသူတို့တွင် အသင်၏ ပါဝင်နေထိုင် သွားလာမှု ကိုလည်း (မြင်တော်မူ၏)

إِنَّهُ هُوَ السَّمِيعُ الْعَلِيمُ ﴿٢٢٠﴾

**၂၂၀။** မလွဲဧကန် ထို အရှင်မြတ်သည်သာလျှင် အလွန်တရာ ကြားတော်မူသော အရှင်၊ အလွန်တရာ သိတော်မူသောအရှင် ဖြစ်တော်မူ၏။

هَلْ أُنَبِّئُكُمْ عَلَىٰ مَنْ تَنَزَّلُ الشَّيَاطِينُ ﴿٢٢١﴾

**၂၂၁။** (အို-နဗီတမန်တော်၊ အသင်သည် မက္ကာမြို့ သား မုရှ်ရစ်က်တို့အား ပြောကြားပါလေ။ အချင်းတို့၊) ငါသည် မည်သူ၏အပေါ်၌ ရှိုင်တွာန် မိစ္ဆာကောင်များ ဆင်းသက်၍ လာကြသည်ကို အသင်တို့အား ပြောပြ ရမည်လော။

تَنَزَّلُ عَلَىٰ كُلِّ أَفَّاكٍ أَثِيمٍ ﴿٢٢٢﴾

**၂၂၂။** ထို ရှိုင်တွာန် မိစ္ဆာကောင်များမှာ ဒုစရိုက် ကျူးလွန်သောမုသာဝါဒီတိုင်း၏အပေါ်၌ ဆင်းသက်၍ လာကြကုန်၏။

يُلْقُونَ السَّمْعَ وَأَكْثَرُهُمْ كَاذِبُونَ ﴿٢٢٣﴾

**၂၂၃။** အကြင်သူတို့သည် (ထိုရှိုင်တွာန်မိစ္ဆာကောင် များဘက်သို့) နားစိုက်၍ နေကြကုန်၏။ စင်စစ် ၎င်းတို့အနက် အများဆုံးသောသူတို့မှာ မုသာဝါဒီ များပင် ဖြစ်ကြကုန်၏။

وَالشُّعَرَآءُ يَتَّبِعُهُمُ الْغَاوُنَ ﴿٢٢٤﴾

၂၂၄။ သို့ရာတွင် လက်ာဆရာတို့မှာမူကား လမ်းလွဲသူတို့သာလျှင် ၎င်းတို့နောက်သို့လိုက်ကြကုန်၏။ ၁

أَلَمْ تَرَ أَنَّهُمْ فِي كُلِّ وَادٍ يَهِيمُونَ ﴿٢٢٥﴾

၂၂၅။ ဧကန်အမှန် ၎င်းတို့သည် ချောင်းလျှိုရိုးတိုင်းတွင် ဦးလှည့်ရာ သွားလာလျက်ရှိကြသည်ကို အသင်သည် မမြင်ပါလော။

وَأَنَّهُمْ يَقُولُونَ مَا لَا يَفْعَلُونَ ﴿٢٢٦﴾

၂၂၆။ ထိုမှတပါး ၎င်းတို့သည် မိမိတို့ မပြုလုပ်ကြသောကိစ္စကို (ပြုလုပ်ကြသည်ဟု) ပြောဆိုလေ့ရှိကြကုန်၏။

---

(၁) ကာဖိရ်များသည် တမန်တော်မြတ်အား တစ်ခါတစ်ရံ 'ရှာအိရ်'လက်ာဆရာ ဟူ၍လည်းကောင်း၊ တစ်ခါတစ်ရံ 'ကာဟင်န်' အနာဂတ်ဟောဆရာ ဟူ၍လည်းကောင်း၊ မဟုတ်မလျား လုပ်ကြံပြောဆိုခဲ့ကြသည်။ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်သာ ဖြစ်သည်။ လက်ာဆရာလည်း မဟုတ်၊ အနာဂတ် ဟောဆရာလည်း မဟုတ်။

အနာဂတ်ဟောဆရာများ၏ စကားများသည် အရမ်းအဆ အတွေးအထင်မျှသာ ဖြစ်သည်။ အမှားချည်းသာ ဖြစ်သည်။

'ကြက်ကန်း ဆန်အိုးတိုး' ဆိုသကဲ့သို့။ တစ်ခွန်းတစ်ပါဒ မှန်သွားခဲ့သည်ရှိသော်လည်း 'အရူးဆယ်ခွန်းပြော၊ တစ်ခွန်းမှန်'သည်ထက် ပို၍ မလေးနက်ချေ။

များစွာသော လက်ာဆရာများ၏ စကားများသည်လည်း အတွေးအထင်မျှသာ ဖြစ်သည်။ အမှန်တရားနှင့် မည်သို့မျှမပတ်သက်ပေ။ လက်ာဆရာများသည် ခေတ္တပရိသတ် စိတ်တက်ကြွအောင် လှုံ့ဆော်မှု တစ်ရပ်သာဖြစ်သည်။

လက်ာဆရာများသည် တစ်ဖက်သားအား ချီးမွမ်းလိုသည့်အခါ၊ မိုးအထိ မြှောက်ပင့်ဖွဲ့နွဲ့ သီကုံးစပ်ဆိုရေးသားကြသည်။

တစ်ဖက်သားအား ကဲ့ရဲ့ ပြစ်တင်လိုသည့်အခါ ကမ္ဘာအဝှန်းရှိ အပြစ်များကိုပင် မဟုတ်မမှန် လုပ်ကြံ၍ စပ်ဆိုရေးသားကြသည်။

လက်ာဆရာများသည် အမှားကိုအမှန်၊ အမှန်ကိုအမှား၊ မရှိကိုအရှိ၊ အရှိကိုမရှိ၊ ကပြောင်းကပြန် ပြုလုပ်ကြပေသည်။ အတွေး၏ ရေယဉ်ကျောတွင် မျောနေကြပေသည်။ အပြောနှင့်အလုပ် လုံးဝမကိုက်ညီကြပေ။ ဤသည်၎င်းတို့၏ အကြီးဆုံးဂုဏ်ရည်ပင်။

တမန်တော်မြတ်၏ အတွေးအခေါ်များနှင့် သြဝါဒများသည် မှန်ကန်တိကျပြတ်သားသည်။ အဟောနှင့်အကျင့် ညီသည်။ အကျိုးလည်း သက်ရောက်သည်။ တရားလည်း ရစေသည်။ တမန်တော်မြတ်ကြီတင် ဟောကြားတော်မူသည့် စကားများလည်း အမှန်ချည်းသာဖြစ်သည်။ မှားသည်ဟူ၍ အလျှင်းမရှိ။ သို့ဖြစ်ရာ တမန်တော်မြတ်သည် လက်ာဆရာ၊ အနာဂတ်ဟောဆရာ အသို့လျှင် ဖြစ်တော်မူနိုင်အံ့နည်း။

ကြည့်-ကုရ်အာန်(၃၆:၆၉။ ၅၂:၂၉။ ၆၉:၄၀-၄၃)။

إِلَّا الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ وَذَكَرُوا اللَّهَ كَثِيرًا وَانتَصَرُوا مِن بَعْدِ مَا ظُلِمُوا ۗ وَسَيَعْلَمُ الَّذِينَ ظَلَمُوا أَيَّ مُنقَلَبٍ يَنقَلِبُونَ ﴿٢٢٧﴾

၂၂၇။ သို့ရာတွင် (ယင်းလက်ာဆရာများအနက်မှ) အကြင်သူတို့သည် အီမာန် သက်ဝင်ယုံကြည်ခဲ့ကြပြီးနောက် ကောင်းမြတ်သောအကျင့်သီလများကိုလည်း ဆောက်တည်ခဲ့ကြကုန်၏။ အလ္လာဟ်အရှင်မြတ်အားလည်း များစွာ တသ သတိရခဲ့ကြကုန်၏။ ထိုမှတပါး ၎င်းတို့သည် မိမိတို့ မတရားသဖြင့် နှိပ်စက်မှုကို ခံခဲ့ရပြီးနောက်တွင် လက်စားချေခဲ့ကြကုန်၏။ [၁] (ထိုကဲ့သို့သော သူတို့မှာ ဤအမိန့်တော်၌ အကျုံးမဝင်ကြပေ)။ စင်စစ်သော်ကား မတရားသဖြင့် နှိပ်စက်ကြကုန်သောသူတို့သည် မိမိတို့မှာ မည်သည့်နေရာသို့ ပြန်လှည့်ကြမည်ကို မကြာမြင့်မီပင် သိရှိကြကုန်အံ့သတည်း။

---

(၁) လက်ာဆရာများတွင် အချို့လက်ာဆရာများသည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကြသည်။ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ကြသည်။ အလ္လာဟ်အရှင်မြတ်အား များစွာ အောက်မေ့တသ သတိရကြသည်။ မိမိတို့၏လက်ာများတွင် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကို အထူးတလည် ထုတ်ဖော်ရေးသားကြသည်။ ကုသိုလ်ကောင်းမှုပွားများရန် လှုံ့ဆော်၍၊ မကောင်းမှုများကို ကဲ့ရဲ့ပြစ်တင်ကြသည်။

# ပရွက်ဆိတ်ကောင်ကဏ္ဍ

سُوْرَةُ النَّمْلِ

ဤကဏ္ဍသည် 'အန္နမလ်'ပရွက်ဆိတ်အကြောင်းပါဝင်သော ကဏ္ဍမည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် (အာယတ်)တော်(၉၃)ပါး၊ (ရုကူအ်)အပိုဒ်(၇)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊ ကြီးမားလှသော ကရုဏာတော်ရှင်ဖြစ်တော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့်အစပြုပါ၏။

طٰسٓ تِلْكَ اٰيٰتُ الْقُرْاٰنِ وَكِتَابٍ مُّبِيْنٍ ①

၁။ 'သွာ၊ စီန်' ဤသည်တို့ကား ထင်ရှားသော ကျမ်းဂန် ကုရ်အာန်၏ အာယတ်တော်များပင်။[၁]

هُدًى وَّبُشْرٰى لِلْمُؤْمِنِيْنَ ②

၂။ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အဖို့ တရား လမ်းညွှန်ရာနှင့် သတင်းကောင်းဖြစ်၏။

الَّذِيْنَ يُقِيْمُوْنَ الصَّلٰوةَ وَيُؤْتُوْنَ الزَّكٰوةَ وَهُمْ بِالْاٰخِرَةِ هُمْ يُوْقِنُوْنَ ③

၃။ အကြင် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့သည် ဆွလာတ်ဝတ်ပြုမှုကိုဆောက်တည်ကြသည့်ပြင် ဇကာတ်လည်း ပေးဆောင်ကြကုန်၏။ 'အာခိရတ်' တမလွန်ဘဝကိုလည်း ယုံကြည်ကြကုန်၏။

اِنَّ الَّذِيْنَ لَا يُؤْمِنُوْنَ بِالْاٰخِرَةِ زَيَّنَّا لَهُمْ اَعْمَالَهُمْ فَهُمْ يَعْمَهُوْنَ ④

၄။ စင်စစ်မလွဲ အာခိရတ် တမလွန်ဘဝကို မယုံကြည်သောသူတို့၏အမြင်တွင် ငါအရှင်မြတ်သည် ၎င်းတို့၏ ပြုမူချက်များကို လှပတင့်တယ်စေတော်မူခဲ့၏။ သို့ဖြစ်ပေရာ ၎င်းတို့မှာ တဝဲလည်လည် ဖြစ်နေကြကုန်၏။

---

(၁) ဤကဏ္ဍ၏အစတွင် ပါရှိသော အာယတ်တော်များသည် ကုရ်အာန်ကျမ်းမြတ် ဂါဝီကဏ္ဍ၏ အစတွင်ပါရှိသော အာယတ်တော်များနှင့် အနက်သဘောချင်း အထူးပင်တူလှပေသည်။ သို့ဖြစ်ရာ ယင်းအာယတ်တော်များနှင့် သက်ဆိုင်ရာ အဖွင့်များကို ပြန်လည်ရှုအပ်ပေသည်။

أُولَٰٓئِكَ ٱلَّذِينَ لَهُمْ سُوٓءُ ٱلْعَذَابِ وَهُمْ فِى ٱلْءَاخِرَةِ هُمُ ٱلْأَخْسَرُونَ ٥

**၅။** ၎င်းတို့သည်ပင်လျှင် အကြင်သူများ ဖြစ်ကြကုန်၏။ ထိုသူတို့အဖို့ (ဤလောက၌လည်း) အလွန်ဆိုးရွားသော ပြစ်ဒဏ်သည် ရှိပေ၏။ 'အာခိရတ်' နောင်တမလွန်ဘဝတွင်လည်း ၎င်းတို့သည် အလွန်ဆုံးရှုံးသူများပင် ဖြစ်ကြပေမည်။

وَإِنَّكَ لَتُلَقَّى ٱلْقُرْءَانَ مِن لَّدُنْ حَكِيمٍ عَلِيمٍ ٦

**၆။** ၎င်းပြင် ဧကန်စင်စစ် အသင်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို အလွန်တရာ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော၊ အလွန်တရာအသိပညာနှင့်ပြည့်စုံတော်မူသောအရှင်မြတ်ထံတော်မှ ရရှိနေပေသတည်း။

إِذْ قَالَ مُوسَىٰ لِأَهْلِهِۦٓ إِنِّىٓ ءَانَسْتُ نَارًا سَـَٔاتِيكُم مِّنْهَا بِخَبَرٍ أَوْ ءَاتِيكُم بِشِهَابٍ قَبَسٍ لَّعَلَّكُمْ تَصْطَلُونَ ٧

**၇။** (ပြန်လည်သတိရရှိပါလေ)။ တစ်ရံရောအခါဝယ် မူစာသည်မိမိအိမ်သူအိမ်သားများအား ပြောကြားခဲ့လေ၏။ ဧကန်စင်စစ်ငါသည် မီးတစ်ခုကို မြင်တွေ့လေပြီ။ ယခုပင် ငါသည် အသင်တို့ထံ ထိုမီးရှိရာမှ သတင်းတစ်စုံတစ်ရာကို ယူခဲ့မည်။ သို့တည်းမဟုတ် ငါသည် အသင်တို့ထံ မီးလှုံနိုင်ကြ အံ့သောငှာ မီးတောက်တစ်ခုကို (ထင်း သို့မဟုတ် အခြား တစ်စုံတစ်ရာဖြင့်)ညှိ၍အသင်တို့ထံဆောင်ကြဉ်းခဲ့ပေမည်၊[၁]

فَلَمَّا جَآءَهَا نُودِىَ أَنۢ بُورِكَ مَن فِى ٱلنَّارِ وَمَنْ حَوْلَهَا وَسُبْحَٰنَ ٱللَّهِ رَبِّ ٱلْعَٰلَمِينَ ٨

**၈။** ထို့နောက် ထိုမူစာသည် ၎င်းမီးရှိရာသို့ ရောက်ရှိခဲ့လေသော်၊ (အို-မူစာ)၊ မီး၌ ရှိသူတို့သည် *လည်းကောင်း။ ထိုမီး၏ ပတ်ဝန်းကျင်၌ ရှိသူတို့သည် လည်းကောင်း၊*[၂] ဗရိကသ် ကျက်သရေ မင်္ဂလာကို ရရှိကြစေသော်ဝ်။

---

⓵ ဤအာယတ်တော်တွင် တမန်တော်မူစာ မဒ်ယန်မှ အီဂျစ်သို့အပြန် 'တုဝါ'အနီး၊ အလွန်အေးသည့်ဥတု၊ မှောင်အတိကျနေသောညဥ့်၌ တွေ့ကြုံခဲ့ရသည့်ဖြစ်အင်ကို ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။ ဤအကြောင်း ကုရ်အာန်(၂၀း၉-၂၄)တွင် အကျယ်ပါရှိခဲ့ချေပြီ။

⓶ 'မီး၌ရှိသူ'ဟူသည် ကောင်းကင်တမန်များကို ဆိုလိုသည်။ 'ထိုမီး၏ပတ်ဝန်းကျင်၌ရှိသူ' ဟူသည် တမန်တော်မူစာကို ဆိုလိုသည်။ ကြည့်-မဒါရိက်၊ ထာနဝီ။ အချို့က 'မီး၌ ရှိသူ' (ဝါ) 'မီးရှိရာဌာန၌ ရှိသူ' ➢➢

စင်စစ် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအလ္လာဟ်အရှင်မြတ်သည် သန့်ရှင်းစင်ကြယ်တော်မူပါပေသည်တကားဟူ၍ အသံပေးခြင်းကို ခံခဲ့ရလေသည်။

يٰمُوْسٰٓى اِنَّهٗٓ اَنَا اللّٰهُ الْعَزِيْزُ الْحَكِيْمُ ۙ ⑨

၉။ အို-မူစာ၊ ငါသည် အလွန်တရာလွှမ်းမိုးတော်မူသော၊ ဆင်ခြင်တုံတရားနှင့် အလွန်တရာပြည့်စုံတော်မူသော ငါအရှင်မြတ်ပင် ဖြစ်တော်မူ၏။

وَاَلْقِ عَصَاكَ ۗ فَلَمَّا رَاٰهَا تَهْتَزُّ كَاَنَّهَا جَآنٌّ وَّلّٰى مُدْبِرًا وَّلَمْ يُعَقِّبْ ۗ يٰمُوْسٰى لَا تَخَفْ ۖ اِنِّىْ لَا يَخَافُ لَدَىَّ الْمُرْسَلُوْنَ ۖ ⑩

၁၀။ ၎င်းပြင် အသင်သည် မိမိတောင်ဝှေးကို (မြေကြီးပေါ်သို့)ပစ်ချပါလေ။ ထို့နောက် ထိုမူစာသည် (ယင်းတောင်ဝှေးကို အမိန့်တော်အတိုင်း ပစ်ချခဲ့ရာ) ထိုတောင်ဝှေးမှာ မြွေကဲ့သို့ တွန့်လိမ်လှုပ်ရှားလျက်ရှိသည်ကို တွေ့မြင်သောအခါ နောက်သို့ ပြန်၍ မကြည့်ဘဲ ကျောခိုင်း၍ လှည့်ထွက်သွားခဲ့လေ၏။

(ထိုအခါ အလ္လာဟ်အရှင်မြတ်က မိန့်ကြားတော်မူခဲ့၏၊)အို-မူစာ၊အသင်သည် မကြောက်ပါလေနှင့်။ ဧကန်မလွဲ ငါအရှင်မြတ်အထံတော်တွင် ရဆူလ်တမန်တော်တို့သည် ကြောက်ရွံ့လေ့မရှိကြချေ။

➤➤ ဟူသည် ကုရ်အာန်(၂၈း၃၀)တွင်ပါရှိသည့် မင်္ဂလာရှိသော တိုင်းပြည်(ဝါ) ဆီးရီယားပြည်ကို ဆိုကြသည်။ ကြည့်- အဗူစုအူဒ်။

**မှတ်ချက်။**

တမန်တော်မူစာ တွေ့မြင်ခဲ့သော မီးသည် သာမန်မီးမဟုတ်။ လောကီဆိုင်ရာမီးမဟုတ်။ အလ္လာဟ်အရှင်မြတ်၏ 'တဂျလ္လီ' ရောင်ခြည်တော် ကွန့်မြူးနေတော်မူခဲ့သည့် အံ့မဆုံးသည့် လင်းရောင်ခြည်တစ်မျိုးပင်။ အဆိုပါမီးသည် အလ္လာဟ်အရှင်မြတ် မဟုတ်။ အလ္လာဟ်အရှင်မြတ်သည် နေရာ၊ ဌာန၊ ဒိသာ အရပ်...စသည့် ကန့်သတ်ချက်များနှင့် လုံးဝကင်းစင်တော်မူသည်။

إِلَّا مَنْ ظَلَمَ ثُمَّ بَدَّلَ حُسْنًا بَعْدَ سُوٓءٍ فَإِنِّي غَفُورٌ رَّحِيمٌ ⑪

၁၁။ သို့ရာတွင်မည်သူမဆို မတရားကျူးလွန်ခဲ့လျှင် တစ်ဖန် ထိုသူသည် မကောင်းမှု၏နောက်တွင် ကောင်းမှုကိုပြောင်းလဲ၍ ပြုခဲ့လျှင် မလွဲဧကန် ငါ အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်တော်မူသော အလွန်တရာသနားကရုဏာပြုတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။ [၁]

وَأَدْخِلْ يَدَكَ فِي جَيْبِكَ تَخْرُجْ بَيْضَآءَ مِنْ غَيْرِ سُوٓءٍ ۖ فِي تِسْعِ ءَايَٰتٍ إِلَىٰ فِرْعَوْنَ وَقَوْمِهِۦٓ ۚ إِنَّهُمْ كَانُوا۟ قَوْمًا فَٰسِقِينَ ⑫

၁၂။ ၎င်းပြင် အသင်သည် မိမိလက်ကို မိမိလက်ကတီးကြားတွင်သွင်းပါလေ။ (ထိုအခါ)ထိုလက်မှာ အပြစ်တစ်စုံတစ်ရာမရှိဘဲ ပကတိ ထွန်းတောက်လျက် ထွက်ပေါ်၍ လာပေမည်။ (ဤသည်) ဖစ်ရ်အောင်န်နှင့်တကွ ၎င်း၏အမျိုးသားတို့နှင့် ယှဉ်ပြိုင်အံ့သော၄၁ တန်ခိုးတော်ကိုးပါးတွင် အပါအဝင်ဖြစ်၏။ ဧကန်စင်စစ်၎င်းတို့မှာ စည်းကမ်းဖောက်ဖျက်ကျူးလွန်ကြသောအမျိုးသားများပင် ဖြစ်ကြပေသည်။

فَلَمَّا جَآءَتْهُمْ ءَايَٰتُنَا مُبْصِرَةً قَالُوا۟ هَٰذَا سِحْرٌ مُّبِينٌ ⑬

၁၃။ ထို့နောက် ၎င်းတို့ထံ ငါအရှင်မြတ်၏ ရှင်းလင်းသော တန်ခိုးတော်များ ရောက်ရှိလာခဲ့လေသော်၊ ၎င်းတို့က ဤသည် ထင်ရှားသော ပဉ္စလက်အတတ်ပညာပင် ဖြစ်သည်ဟု ဆိုခဲ့ကြကုန်၏။

وَجَحَدُوا۟ بِهَا وَٱسْتَيْقَنَتْهَآ أَنفُسُهُمْ ظُلْمًا وَعُلُوًّا ۚ فَٱنظُرْ كَيْفَ كَانَ عَٰقِبَةُ

၁၄။ ထိုမှတပါး ၎င်းတို့၏ စိတ်နှလုံးများသည် ထိုတန်ခိုးတော်များကို ယုံကြည်သော်လည်း ထိုသူတို့မှာ မှုကားမတရားသောအားဖြင့်လည်းကောင်း၊ မောက်မာသောအားဖြင့်လည်းကောင်း၊ ယင်းတန်ခိုးတော်များကို ငြင်းပယ်ခဲ့ကြကုန်၏။

---

(၁) ဤအာယတ်တော်တွင် တစ်ချိန်က မတော်တဆ တမန်တော်မူစာ၏ လက်ချက်ဖြင့် အီဂျစ်နိုင်ငံရင်းသားတစ်ဦး သေဆုံးသွားခဲ့သဖြင့် တမန်တော်မူစာ စိုးရိမ်နေခဲ့ကြောင်း၊ ယခုမူ တမန်တော်မူစာအား လွတ်ငြိမ်းခွင့်ပေးတော်မူလိုက်ပြီဖြစ်ကြောင်း ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

الْمُفْسِدِينَ ⑭

သို့ဖြစ်ပေရာ ပျက်စီးရာ ပျက်စီး ကြောင်းကို ပြုလုပ်ကြကုန်သောသူတို့၏ နောက်ဆုံးအကျိုးဆက်သည် မည်သို့ဖြစ်ခဲ့သည်ကို အသင်ရှုပါလေ။ [၁]

وَلَقَدْ آتَيْنَا دَاوُودَ وَسُلَيْمَانَ عِلْمًا ۖ وَقَالَا الْحَمْدُ لِلَّهِ الَّذِي فَضَّلَنَا عَلَىٰ كَثِيرٍ مِّنْ عِبَادِهِ الْمُؤْمِنِينَ ⑮

**၁၅။** ထိုမှတပါး မလွဲဧကန် ငါအရှင်မြတ်သည် 'ဒါဝူဒ်' အား လည်းကောင်း၊ 'စုလိုင်မာန်' အားလည်းကောင်း၊ (အထူး) အသိပညာတစ်ရပ်ကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ [၂] ထို့ပြင် ထိုဒါဝူဒ်နှင့် စုလိုင်မာန်နှစ်ဦးတို့က 'ကျွန်တော်မျိုးအား မိမိ၏ မြောက်မြားစွာသော မုအ်မင်န်သက်ဝင် ယုံကြည်ကြကုန်သော 'ကျွန်တို့ထက် ထွတ်မြတ်စေတော်မူခဲ့သော အလ္လာဟ်အရှင်မြတ်သည်သာလျှင် ချီးမွမ်း ထောပနာအပေါင်းတို့ကိုခံယူထိုက်တော်မူသည်'ဟု လျှောက်ထားခဲ့ကြကုန်၏။ [၃]

---

(၁) ဖစ်ရ်အောင်န်နှင့်တကွ ၎င်း၏အခြွေအရံများသည် တမန်တော်မူစာမှာ အလ္လာဟ်အရှင်မြတ်၏ တမန်တော်အစစ်အမှန်ဖြစ်ကြောင်း၊ တမန်တော်မူစာ ယူဆောင်ပြသသော တန်ခိုးတော်များမှာလည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များဖြစ်ကြောင်းကို စိတ်နှလုံးအတွင်းမှ ကောင်းစွာယုံကြည်ခဲ့ကြပေသည်။ သို့တစေလည်း ၎င်းတို့သည် စိတ်တွင်းမှ အမှန်ကိုသိပါလျက် တမင်သက်သက် တစ်ဖက်သားအား အထင်သေးခြင်း၊ ကျူးကျော်စော်ကားခြင်း၊ မိမိတို့ကိုယ်ကို မိမိတို့ အထင်ကြီးခြင်းများကြောင့် ဖွတ်မိုတ်၍ သွေဖည်ငြင်းဆန်ခဲ့ကြခြင်းဖြစ်ပေသည်။ ထိုသို့ အမှန်တရားကိုသိပါလျက် သွေဖည်ခဲ့ကြသည့်အတွက်ကြောင့်ပင် ၎င်းတို့သည် ပင်လယ်နီတွင် မရှုမလှ သေကျေပျက်စီးသွားခဲ့ကြရပေပြီ။

(၂) တမန်တော်စုလိုင်မာန်သည် တမန်တော်ဒါဝူဒ်၏ သားတော်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် ထိုသားအဘ၂-ဦးလုံးတို့အား အလွန်ထူးခြားသော အသိပညာကို ချီးမြှင့်တော်မူခဲ့သည်။ ယင်းသည့် အသိပညာတွင် သာသနာရေးဆိုင်ရာအမိန့်၊ ပညတ်တော်များ၊ တရားဥပဒေများ၊ တိုင်းပြည်စီမံအုပ်ချုပ်ပုံဆိုင်ရာ အသိပညာများ၊ အားလုံးအကျုံးဝင်ပေသည်။

(၃) အလ္လာဟ်အရှင်မြတ်သည် တမန်တော်ဒါဝူဒ်နှင့် တမန်တော်စုလိုင်မာန်အား မြောက်မြားစွာသော မုအ်မင်န်များထက် အသာပေးတော်မူခဲ့သည်။ အားလုံးထက်ကား အသာပေးတော်မူခဲ့သည် မဟုတ်ပေ။ တမန်တော်များသည် အချင်းချင်း တစ်ပါးထက်တစ်ပါး တစ်နည်းတစ်ဖုံ သာကြသည်သာ ဖြစ်ကြပေသည်။ ကြည့်-ကုရ်အာန်(၃း၂၅၃)။ ကမ္ဘာအဝှန်းတွင် အဖန်ဆင်းခံ သက်ရှိသက်မဲ့ အရာခပ်သိမ်းတို့ထက် ပိုမို၍ ဂုဏ်အင်ဒြဗ် ချီးမြှင့်တော်မူခြင်းခံရသော ပုဂ္ဂိုလ်မြတ် တစ်ပါးရှိ၏။ ထို ပုဂ္ဂိုလ်မြတ်ကား တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ပင်တည်း။

وَوَرِثَ سُلَيْمٰنُ دَاوٗدَ وَقَالَ يٰٓاَيُّهَا النَّاسُ عُلِّمْنَا مَنْطِقَ الطَّيْرِ وَاُوْتِيْنَا مِنْ كُلِّ شَيْءٍ ۗ اِنَّ هٰذَا لَهُوَ الْفَضْلُ الْمُبِيْنُ ﴿١٦﴾

၁၆။ ၎င်းပြင် စုလိုင်မာန်သည် ဒါဝူဒ်၏ အရိုက်အရာကို ဆက်ခံခဲ့၏။ ၎င်းပြင် ထိုစုလိုင်မာန်သည် (ဤသို့)ပြောကြားခဲ့၏။ အို-လူအပေါင်းတို့၊ ငါတို့သည် ငှက်သတ္တဝါတို့၏ ဘာသာစကားကို သင်ကြားပေးခြင်း ခံခဲ့ကြရလေသည်။ ထိုမှတပါး ငါတို့သည် (စိုးမိုးအုပ်ချုပ်မှုနှင့်စပ်လျဉ်း၍ လိုအပ်သော) အရာခပ်သိမ်းတို့ကို ချီးမြှင့်ပေးသနားတော်မူခြင်း ခံခဲ့ကြရပေသည်။ ဧကန်စင်စစ် ဤသည်ထင်ရှားလှစွာသော ကျေးဇူးတော်ပင် ဖြစ်ချေသည်။

وَحُشِرَ لِسُلَيْمٰنَ جُنُوْدُهٗ مِنَ الْجِنِّ وَالْاِنْسِ وَالطَّيْرِ فَهُمْ يُوْزَعُوْنَ ﴿١٧﴾

၁၇။ ထိုမှတပါးစုလိုင်မာန်၏အဖို့ ထိုစုလိုင်မာန်၏ ဗိုလ်ခြေများကို ဂျင်(န်) သတ္တဝါတို့အနက်မှလည်းကောင်း၊ လူတို့အနက်မှလည်းကောင်း၊ ငှက်သတ္တဝါတို့အနက်မှလည်းကောင်း၊ စုရုံးစေခြင်းကို ခံခဲ့ကြရကုန်၏။ တဖန် ထိုဗိုလ်ခြေတို့မှာ (စနစ်တကျ စီတန်းချီတက်နိုင်ကြအံ့သောငှာ) တားမြစ်ခြင်းကိုပင် ခံကြရကုန်၏။ [၁]

حَتّٰىٓ اِذَآ اَتَوْا عَلٰى وَادِ النَّمْلِ ۙ قَالَتْ نَمْلَةٌ يّٰٓاَيُّهَا النَّمْلُ ادْخُلُوْا مَسٰكِنَكُمْ ۚ لَا يَحْطِمَنَّكُمْ سُلَيْمٰنُ

၁၈။ နောက်ဆုံးတွင် တစ်ရံရောအခါ ထိုဗိုလ်ခြေတို့သည် ပုရွက်ဆိတ်များရှိကြသောချောင်းလျှိုရိုးသို့ ရောက်ရှိခဲ့လေသော် ပုရွက်ဆိတ်တစ်ကောင်က အို-ပရွက်ဆိတ် အပေါင်းတို့၊ စုလိုင်မာန်နှင့်တကွ ထိုစုလိုင်မာန်၏ဗိုလ်ခြေတို့သည်အသင်တို့အား မသိမမြင်

(၁) တမန်တော် ဒါဝူဒ်၏သားများတွင် တမန်တော်စုလိုင်မာန်သည် တမန်တော်ဒါဝူဒ်၏ အရိုက်အရာဆက်ခံသူ အစစ်အမှန် ဖြစ်ခဲ့ပေသည်။ အလ္လာဟ်အရှင်မြတ်သည် တမန်တော် စုလိုင်မာန်အား 'နဗူဝါတ်' တမန်တော်ဖြစ်ခြင်း၏ ဂုဏ်ထူးနှင့် ဘုရင်ဖြစ်ခြင်း၏ ဂုဏ်ထူး ၂-ရပ်လုံးကို ချီးမြှင့်တော်မူခဲ့ပေသည်။ ယခင်က တစ်ဦးတစ်ယောက်မျှ မရရှိခဲ့ဖူးသော၊ နောက်နောင်တွင်လည်း တစ်ဦးတစ်ယောက်မျှ ရရှိမည်မဟုတ်သော၊ စိုးမိုးအုပ်ချုပ်မှုကို ပေးသနားတော်မူခဲ့သည်။ ထိုအရှင်မြတ်သည် 'ဂျင်န်'သတ္တဝါ၊ ငှက်တိရစ္ဆာန်နှင့် လေကိုလည်း တမန်တော် စုလိုင်မာန်၏သြဇာခံ ဖြစ်စေတော်မူခဲ့ပေသည်။ ဤအကြောင်း ကုရ်အာန်(၃၄:၁၂-၁၄)တွင် အကျယ် တွေ့ရှိရပေမည်။

وَجُنُوْدُهٗ وَهُمْ لَا يَشْعُرُوْنَ ﴿١٨﴾

ကြဘဲ (မတော်တဆ) ဖိကြိတ်တက်နင်း ချေမှုန်း မပစ်မိကြရန် အသင်တို့သည် မိမိတို့၏တွင်းများထဲသို့ ဝင်ရောက်လေကုန်ဟု (ဟစ်အော်)ပြောကြားခဲ့လေ၏။

فَتَبَسَّمَ ضَاحِكًا مِّنْ قَوْلِهَا وَقَالَ رَبِّ اَوْزِعْنِيْٓ اَنْ اَشْكُرَ نِعْمَتَكَ الَّتِيْٓ اَنْعَمْتَ عَلَيَّ وَعَلٰى وَالِدَيَّ وَاَنْ اَعْمَلَ صَالِحًا تَرْضٰىهُ وَاَدْخِلْنِيْ بِرَحْمَتِكَ فِيْ عِبَادِكَ الصّٰلِحِيْنَ ﴿١٩﴾

**၁၉။** ထိုအခါ စုလိုင်မာန်သည် ထိုပရွက်ဆိတ်၏ စကားကြောင့် ပြုံးရယ်ခဲ့လေ၏။ [၁] ထို့ပြင် (အလ္လာဟ် အရှင်မြတ်အထံတော်တွင်ဤသို့)လျှောက်ထားပန်ကြားခဲ့လေ၏။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊အရှင်မြတ်သည် ကျွန်တော်မျိုး အပေါ်၌လည်းကောင်း၊ ကျွန်တော်မျိုး၏မိဘနှစ်ပါး တို့အပေါ်၌လည်းကောင်း၊ မိမိပြုတော်မူခဲ့သောကျေးဇူး တော်နှင့်စပ်လျဉ်း၍ ကျွန်တော်မျိုးအား အမြဲကျေးဇူး သိတတ်စေတော်မူပါ။ ထို့ပြင် ကျွန်တော်မျိုးအား အရှင်မြတ် နှစ်သက်တော်မူသော ကောင်းမြတ်သော အကျင့်သီလများကိုလည်း အမြဲကျင့်မှု ဆောက်တည် နိုင်စွမ်းပေးသနားတော်မူပါ။ ထိုမှတပါး အရှင်မြတ် သည် ကျွန်တော်မျိုးအား မိမိ၏ကရုဏာတော်ဖြင့် မိမိ၏သူတော်ကောင်းကျွန်တို့တွင် ဝင်ရောက် ပါဝင် စေတော်မူပါ။

وَتَفَقَّدَ الطَّيْرَ فَقَالَ مَا لِيَ لَآ اَرَى الْهُدْهُدَ ۖ اَمْ كَانَ مِنَ الْغَآئِبِيْنَ ﴿٢٠﴾

**၂၀။** ၎င်းပြင်ထိုစုလိုင်မာန်သည် ငှက်တိရစ္ဆာန်တို့ကို စစ်ဆေးခဲ့ရာ (ဤသို့)ပြောကြားခဲ့၏။ ငါသည် မည် သည့်အတွက်ကြောင့် ဘီးတောင်ပိုငှက်ကို မမြင်ရ ပါသနည်း။ သို့တည်းမဟုတ် ၎င်းသည် ပျောက်ကွယ် နေသလော။

---

(၁) **တမန်တော် စုလိုင်မာန် ပရွက်ဆိတ်ကုန်း တစ်ခုသို့ရောက်စဉ်။**

တစ်ရံရောအခါ တမန်တော်စုလိုင်မာန်သည် မိမိ၏ဗိုလ်ခြေများနှင့် ချီတက်သွားရာ ပရွက်ဆိတ် အမြောက် အမြားနေထိုင်ရာ ဒေသတစ်ခုသို့ ရောက်ရှိသွားခဲ့၏။ ထိုအခါ ပရွက်ဆိတ်တစ်ကောင်က တမန်တော် စုလိုင်မာန်၏ ဗိုလ်ခြေများသည် မိမိတို့အား အမှုမဲ့ နင်းမိကြမည်ကို စိုးရိမ်ကြီးစွာဖြင့် မိမိအုပ်စုအား သတိပေးသည်ကို တမန်တော်စုလိုင်မာန် ကြားသိသောအခါ ပြုံးရယ်မိခဲ့လေသည်။ ယင်းသို့ ပရွက်ဆိတ်၏ သတိပေးစကားကို➢➢

النَّارِ إِنَّ فِي ذَٰلِكَ لَآيَاتٍ لِّقَوْمٍ يُؤْمِنُونَ ﴿٢٤﴾

သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ်အား မီးမှ ကယ်ဆယ်တော်မူခဲ့လေသည်။ [၁] ဧကန်အမှန် ဤသည့်(ဖြစ်ရပ်)၌ သက်ဝင်ယုံကြည်ကုန်သော အမျိုးသားတို့အဖို့ သက်သေသာဓကများရှိပေသည်။ [၂]

وَقَالَ إِنَّمَا اتَّخَذْتُم مِّن دُونِ اللَّهِ أَوْثَانًا مَّوَدَّةَ بَيْنِكُمْ فِي الْحَيَاةِ الدُّنْيَا ۖ ثُمَّ يَوْمَ الْقِيَامَةِ يَكْفُرُ بَعْضُكُم بِبَعْضٍ وَيَلْعَنُ بَعْضُكُم بَعْضًا وَمَأْوَاكُمُ النَّارُ وَمَا لَكُم مِّن نَّاصِرِينَ ﴿٢٥﴾

၂၅။ ၎င်းပြင် ထိုအီဗ်ရာဟီမ်က (မိမိ၏ အမျိုးသားတို့အား) ပြောကြားခဲ့သေး၏။ အသင်တို့သည် ဤမျက်မှောက်လောကီဘဝ၌ မိမိတို့အချင်းချင်း မေတ္တာရှိကြသောကြောင့်သာလျှင် အလ္လာဟ်အရှင်မြတ်အား စွန့်၍ ရုပ်တုများကို ရွေးချယ်ပြုလုပ်ကြခြင်း ဖြစ်ပေသည်။ ထို့နောက် 'ကိယာမတ်' ရှင်ပြန်ထမည့်နေ့တွင်မူကား၊ အသင်တို့အချင်းချင်း အချို့က အချို့ကို ငြင်းပယ်ကြမည်။ အချင်းချင်း အချို့က အချို့ကို ကျိန်ဆဲကြပေမည်။ ၎င်းပြင် ငရဲသည် အသင်တို့၏ ခိုလှုံရာဌာန ဖြစ်မည်။ ထိုမှတပါး အသင်တို့အဖို့ ကူညီစောင်မအံ့သော သူများဟူ၍လည်း တစ်ဦးတစ်ယောက်မျှ ရှိလိမ့်မည် မဟုတ်ပေတကား။

---

(၁) **တမန်တော် အစ်ဗ်ရာဟီမ်နှင့်မီးပုံ။**

တမန်တော်အီဗ်ရာဟီမ် ဟောကြားသော တရားဓမ္မ၊ တင်ပြသော သက်သေသာဓကများနှင့်စပ်လျဉ်း၍ ၎င်း၏အမျိုးသားများသည် မည်သို့မျှ ပြန်လည် မချေပနိုင်ကြသည့် အဆုံးတွင် တမန်တော်အီဗ်ရာဟီမ်အား မီးတင်ရှို့ရန် ကြိုးစားခဲ့ကြလေသည်။ သို့တစေလည်း တမန်တော် အီဗ်ရာဟီမ်သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော် အဟုန်ကြောင့် မီးပုံအတွင်းမှ ဘေးမသီရန်မခဘဲ အေးချမ်းသာယာစွာ လွတ်မြောက်လာခဲ့ပေသည်။ ဤအကြောင်း ကုရ်အာန် (၂၁:၅၁–၇၀)တွင်ပါရှိသည်။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။

(၂) **ဆင်ခြင်ဖွယ်ရာများ။**

တမန်တော်အီဗ်ရာဟီမ်၏ အတ္ထုပ္ပတ္တိကို စဉ်းစားဆင်ခြင်ပါက (တောင်ဟီး'ဒ်)တစ်ဆူတည်း ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ဆည်းကပ် ကိုးကွယ်ခြင်းသာလျှင် မှန်ကန်ကြောင်း၊ ကုဖ်ရ်၊ ရှရစ်က် မိစ္ဆာမှုများသည် မှားယွင်းကြောင်း၊ တမန်တော် အီဗ်ရာဟီမ်သည် နဗီတမန်တော် အစစ်အမှန်ဖြစ်ကြောင်း၊ အလ္လာဟ်အရှင်မြတ်သည် အရာရာကို ပြုစွမ်းတော်မူနိုင်ကြောင်း၊ ထိုအရှင်မြတ်သည် မိမိအား ယုံကြည်မြတ်နိုးသော သူတော်စင်များအား ရန်သူများ၏ လက်တွင်းမှပင် အံ့ဖွယ်သရဲ ကယ်တင်တော်မူကြောင်း၊ အမှန်တရားကို လက်ခံနာယူကျင့်မူသော ပုဂ္ဂိုလ်များသည် နောက်ဆုံးတွင် အောင်မြင်ကြသည်သာ ဖြစ်ကြောင်း၊ ➤➤

فَاٰمَنَ لَهٗ لُوْطٌ ۘ وَقَالَ اِنِّیْ مُهَاجِرٌ اِلٰی رَبِّیْ ؕ اِنَّهٗ هُوَ الْعَزِیْزُ الْحَكِیْمُ ﴿٢٦﴾

၂၆။ ထို့နောက် 'လူတ်' သည် *ထိုအီဗ်ရာဟီမ်အား ယုံကြည် ထောက်ခံခဲ့လေ၏။* [၁] ထိုမှတပါး ထို အီဗ်ရာဟီမ်က 'ဧကန်မလွဲ ငါသည် နေရင်းအရပ် ဒေသကို စွန့်၍ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်(ညွှန်တော်မူရာ)သို့ ထွက်ခွာသွားမည်။ မလွဲဧကန် ထိုအရှင်မြတ်သည်ပင်လျှင် တန်ခိုးတော်ဖြင့် လွှမ်းမိုးတော်မူသောအရှင်၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံ တော်မူသောအရှင်၊ ဖြစ်တော်မူပေသည်' ဟု ပြောဆို ခဲ့လေ၏။

وَوَهَبْنَا لَهٗۤ اِسْحٰقَ وَیَعْقُوْبَ وَجَعَلْنَا فِیْ ذُرِّیَّتِهِ النُّبُوَّةَ وَالْكِتٰبَ وَاٰتَیْنٰهُ اَجْرَهٗ فِی الدُّنْیَا ۚ وَاِنَّهٗ فِی الْاٰخِرَةِ لَمِنَ الصّٰلِحِیْنَ ﴿٢٧﴾

၂၇။ ထို့ပြင် ငါအရှင်မြတ်သည် ထိုအီဗ်ရာဟီမ် အား 'အစ်ဟာက်'ကိုလည်းကောင်း၊ 'ယအ်ကူဗ်' ကို လည်းကောင်း၊ ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် နဗီတမန်တော်ဖြစ်ခြင်းကို လည်း ကောင်း၊ [၂] ကျမ်းဂန်ကိုလည်းကောင်း၊ထိုအင်ဗ်ရာဟီမ် ၏သားမြေးတို့၌တည်စေတော်မူခဲ့၏။ ထိုမှတပါး ငါ အရှင်မြတ်သည် ထိုအီဗ်ရာဟီမ်အား ၎င်း၏အကျိုးကို ဤပစ္စုပ္ပန်ဘဝတွင်(လည်း) ချီးမြှင့်ပေးသနားတော်မူခဲ့ ၏။ ထိုမှတပါး တမလွန်ဘဝ၌လည်း ထိုအီဗ်ရာဟီမ် သည်သူတော်သူမြတ်တို့အနက်မှပင်ဖြစ်ပေအံ့သတည်း၊[၃]

---

➤➤ အမှန်တရားကို သွေဖည်ဆန့်ကျင်သော ပုဂ္ဂိုလ်များမှာမူ နောက်ဆုံးတွင် ဆုံးရှုံးပျက်စီးကြရသည်သာ ဖြစ်ကြောင်း၊ ထို့ပြင်တစ်ဝ အရာရာ၌ရှိသော စွမ်းရည်သတ္တိသည်ပင် အလ္လာဟ်အရှင်မြတ်၏ အလိုတော်ရှိမှသာလျှင် စူးရှကြောင်း။ အလိုတော်မရှိပါက မီးသည်ပင် မလောင်ကျွမ်းနိုင်ကြောင်းများကို ကောင်းစွာသိရှိနိုင်ပေသည်။ ကြည့်-ထာနဝီ၊

(၁) တမန်တော်လူတ်သည် တမန်တော်အီဗ်ရာဟီမ်၏ တူတော်ဖြစ်သည်။ တမန်တော်အီဗ်ရာဟီမ်အား ၎င်း၏ အမျိုးသားများအနက် တမန်တော်လူတ်မှအပ မည်သည့်ယောက်ျား တစ်ဦးတစ်ယောက်ကမျှ မယုံကြည်ခဲ့ပေ။ တမန်တော်လူတ်မှာမူ တမန်တော်အီဗ်ရာဟီမ်အား မဆိုင်းမတွဘဲ ကြည်ဖြူစွာ ယုံကြည်ခဲ့ပေသည်။

(၂) **တမန်တော် အီဗ်ရာဟီမ်၏သား မြေးတို့၏ ထူးခြားချက်။**

တမန်တော်အီဗ်ရာဟီမ် ပွင့်တော်မူပြီးနောက် အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်ကျမ်းဂန်များနှင့် 'နုဗူဝါတ်' တမန်တော်၏ဂုဏ်ကို တမန်တော် အီဗ်ရာဟီမ်၏ သား မြေး မြစ်တို့အားသာလျှင် ချီးမြှင့်တော်➤➤

وَلُوطًا إِذْ قَالَ لِقَوْمِهِ إِنَّكُمْ لَتَأْتُونَ الْفَاحِشَةَ مَا سَبَقَكُم بِهَا مِنْ أَحَدٍ مِّنَ الْعَالَمِينَ ﴿٢٨﴾

၂၈။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) 'လူတ္တ်' အား(လည်း နဗီတမန်တော်အဖြစ် စေလွှတ်တော်မူခဲ့၏။) တစ်ရံရောအခါဝယ် ထို 'လူတ္တ်' က မိမိအမျိုးသားတို့အား (ဤသို့)ပြောကြားခဲ့လေ၏။ ဧကန်စင်စစ် အသင်တို့သည် ကမ္ဘာသူကမ္ဘာသား ခပ်သိမ်းအနက် မည်သူတစ်ဦးတစ်ယောက်မျှပင် အသင်တို့ အလျင် ကျူးလွန်ခဲ့ခြင်းမရှိသော အလွန့်အလွန် ဆိုးယုတ်လှစွာသောအမှုကို ကျူးလွန်ကြကုန်၏။

أَئِنَّكُمْ لَتَأْتُونَ الرِّجَالَ وَتَقْطَعُونَ السَّبِيلَ وَتَأْتُونَ فِي نَادِيكُمُ الْمُنكَرَ فَمَا كَانَ جَوَابَ قَوْمِهِ إِلَّا

၂၉။ အသင်တို့သည် ယောကျ်ားများထံသို့ (ကာမဂုဏ် ခံစားရန်) လာကြလေသလော။ ၎င်းပြင် အသင်တို့သည် လမ်းကို ဖြတ်တောက်ကြလေသလော။ (တနည်း:) အသင်တို့သည် လမ်း(တွင်) လုယက်တိုက်ခိုက်ကြလေသလော။ ထိုမှတပါး အသင်တို့သည် မိမိတို့၏ စုဝေးရာ၌ *စက်ဆုပ်ရွံရှာဖွယ် ကိစ္စများကို ကျူးလွန်ကြလေသလော။*[၁]

---

➤➤ မူခဲ့ပေသည်။ တမန်တော်အီဗ်ရာဟီမ် ပွင့်တော်မူပြီးနောက် ပွင့်လေသမျှသောတမန်တော်အပေါင်းတို့မှာလည်း တမန်တော် အီဗ်ရာဟီမ်၏ သားမြေး၊ စဉ်ဆက်မှပင် ဖြစ်ခဲ့ကြသည်မှာ အထင်အရှားပင်။

ထို့အတွက်ကြောင့်ပင် တမန်တော် အစ်ဗ်ရာဟီမ်အား 'အဗုလ်အန်ဗိယာအိ' တမန်တော်များ၏ဖခင်ဟု ခေါ်ဆိုခြင်း ဖြစ်သည်။

**(၃) တမန်တော် အီဗ်ရာဟီမ် နှစ်ဘဝကောင်းကျိုး။**

အလ္လာဟ်အရှင်မြတ်သည် တမန်တော်အီဗ်ရာဟီမ်အား ဤပစ္စက္ခ မျက်မှောက်ဘဝတွင်လည်း ဥစ္စာပစ္စည်း၊သား၊သမီး၊ ဂုဏ်အင်ဒြဗ်နှင့် အမြဲတစေ နာမည်ကောင်းများကို ချီးမြှင့်တော်မူခဲ့သည်။ နောင်တမလွန်ဘဝတွင်လည်း အမြင့်မြတ်ဆုံးသော သူတော်စင်များတွင် အပါအဝင် ဖြစ်စေတော်မူမည်။ ဤကား အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သူမတူအောင်သက်စွန့်ကြိုးပမ်း ဆောင်ရွက်ခဲ့ခြင်း၏အကျိုးပင်။

(၁) တမန်တော်လူတ္တ် သွားရောက် တရားဓမ္မ ဟောကြားတော်မူခဲ့သော (SODOM) စုဒူမ် နယ်သားများသည် အဘယ်မျှ အရှက်ကင်းမဲ့လာခဲ့ကြသည်ဆိုသော် Sodomy (Homosexuality) [လိင်တူချင်း ကာမစပ်ယှက်မှုကို မိမိတို့ စုဝေးရာဌာနများ၌ပင် အထင်အရှား၊ ကျူး ပွန်နေခဲ့ကြလေသည်] သို့တည်းမဟုတ်၊ ၎င်းတို့သည် အဆိုပါ ယုတ်မာညစ်ညမ်းမှုအပြင် အခြားမြောက်မြားစွာသော ယုတ်မာညစ်ညမ်း ဆိုးသွမ်းမှုများကို သူငါ အများရှေ့မှောက်တွင် အထင်အရှား ကျူးလွန်နေခဲ့ကြပေသည်။

اَنۡ قَالُوا ائۡتِنَا بِعَذَابِ اللّٰهِ اِنۡ كُنۡتَ مِنَ الصّٰدِقِيۡنَ ﴿٢٩﴾

ထိုအခါ လူတ္တ်၏ အမျိုးသားတို့က '(အို-လူတ္တ်)၊ အကယ်၍ အသင်သည် သစ္စာဝါဒီတစ်ဦး ဖြစ်ခဲ့ပါမူ ကျွန်ုပ်တို့ထံအလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ကို ဆောင်ယူခဲ့လော့' ဟု ပြောဆိုခဲ့ကြခြင်းမှတပါး အခြားမည်သည့်အဖြေမျှပင်ပေးနိုင်ခဲ့ကြသည်မရှိချေ။

قَالَ رَبِّ انۡصُرۡنِىۡ عَلَى الۡقَوۡمِ الۡمُفۡسِدِيۡنَ ﴿٣٠﴾

၃၀။ ထိုရောအခါဝယ် ထို 'လူတ္တ်' က 'အို-ကျွန်တော်မျိုးအား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအား ဖျက်ဆီးမှုကို ကျူးလွန်ပြုလုပ်ကြကုန်သောအမျိုးသားတို့အပေါ်၌ အောင်နိုင်မှုကို ပေးသနားတော်မူပါ'ဟု လျှောက်ထား ပန်ကြားခဲ့လေသတည်း။

وَلَمَّا جَآءَتۡ رُسُلُنَاۤ اِبۡرٰهِيۡمَ بِالۡبُشۡرٰى ۙ قَالُوۡۤا اِنَّا مُهۡلِكُوۡۤا اَهۡلِ هٰذِهِ الۡقَرۡيَةِ ۚ اِنَّ اَهۡلَهَا كَانُوۡا ظٰلِمِيۡنَ ﴿٣١﴾

၃၁။ ၎င်းပြင် ငါအရှင်မြတ်၏စေတမန်များသည် ဝမ်းမြောက်ဖွယ်သတင်းကို အီဗ်ရာဟီမ်၏ထံသို့ ဆောင်ကြဉ်းခဲ့ကြလေသောအခါ၊ ၎င်းတို့က 'ဧကန်မလွဲ ကျွန်ုပ်တို့သည် ဤမြို့ရွာသားတို့အား ဖျက်ဆီးမည့်သူများပင် ဖြစ်ကြပေသည်။ ဧကန်စင်စစ် ယင်းမြို့ရွာ၌ နေထိုင်သောသူတို့မှာ အလွန်တရာ ပြစ်မှုကျူးလွန်သူများပင် ဖြစ်ကြကုန်သည်' ဟု ပြောဆိုခဲ့ကြလေ၏။

قَالَ اِنَّ فِيۡهَا لُوۡطًا ؕ قَالُوۡا نَحۡنُ اَعۡلَمُ بِمَنۡ فِيۡهَا ۫ لَنُنَجِّيَنَّهٗ وَاَهۡلَهٗۤ اِلَّا امۡرَاَتَهٗ ۫ كَانَتۡ مِنَ الۡغٰبِرِيۡنَ ﴿٣٢﴾

၃၂။ (ထိုအခါ) ထိုအီဗ်ရာဟီမ်က ထိုမြို့ရွာ၌ (နဗီတမန်တော်) 'လူတ္တ်' သည်(လည်း) ရှိနေပေသည် ဟု ပြောကြားခဲ့လေရာ ထိုစေတမန်တို့က ပြောဆိုဖြေကြားခဲ့သည်မှာ ထိုမြို့ရွာ၌ မည်သူတို့ နေထိုင်ကြသည်ကို ကျွန်ုပ်တို့သည် ကောင်းစွာ သိရှိကြပေသည်။ အမှန်ပင် ကျွန်ုပ်တို့သည် 'လူတ္တ်' ၏ဇနီးမှအပ ထို 'လူတ္တ်' နှင့်တကွ ၎င်း၏အိမ်သူအိမ်သားသက်ဆိုင်သူများကိုပါ ကယ်ဆယ်ကြပေမည်။

ထို('လူတ်')၏ဇနီးမှာမူကား ကျန်ရစ်သူတို့တွင် အပါ အဝင် ဖြစ်ပေမည်ဟု ပြောကြားခဲ့ကြကုန်၏။

၃၃။ တစ်ဖန် ငါအရှင်မြတ်၏ စေတမန်တို့သည် 'လူတ်' ၏ထံသို့ရောက်ရှိ၍ လာခဲ့ကြလေသောအခါ ထို 'လူတ်' မှာရင်းတို့ကြောင့် စိတ်မချမ်းမြေ့ ဖြစ်ခဲ့ ရသည့်ပြင်၊ ၎င်းတို့နှင့်ပက်သက်၍ လွန်စွာ စိတ် ကျဉ်းကျပ်မှုလည်း ဖြစ်ခဲ့လေ၏။ သို့ရာတွင် ထို စေတမန်တို့က (ဤသို့) ပြောဆို(နှစ်သိမ့်စေ)ခဲ့ကြ လေသည်။

('အို-လူတ်'၊) အသင်သည် စိုးရိမ်ခြင်းလည်း မရှိပါလေနှင့်၊ ပူဆွေးခြင်းလည်း မရှိပါလေနှင့်။ ဧကန် မလွဲ ကျွန်ုပ်တို့သည် အသင်၏ဇနီးမှအပ အသင်နှင့် တကွအသင်၏အိမ်သူအိမ်သား သက်ဆိုင်သူ အားလုံး တို့အားကယ်ဆယ်အံ့သောသူများပင် ဖြစ်ကြပေသည်။ ထိုဇနီးမှာမူကား (ပြစ်ဒဏ်ခံစားရန်) ကျန်ရစ်ခဲ့ကြ ကုန်သောသူတို့တွင် တစ်ဦးအပါအဝင် ဖြစ်ချိမ့်မည်။

وَلَمَّآ أَن جَآءَتْ رُسُلُنَا لُوطًا سِىٓءَ بِهِمْ وَضَاقَ بِهِمْ ذَرْعًا وَقَالُوا۟ لَا تَخَفْ وَلَا تَحْزَنْ ۖ إِنَّا مُنَجُّوكَ وَأَهْلَكَ إِلَّا ٱمْرَأَتَكَ كَانَتْ مِنَ ٱلْغَٰبِرِينَ ﴿٣٣﴾

၃၄။ ဧကန်အမှန် ကျွန်ုပ်တို့သည် ဤမြို့သူရွာသား တို့အပေါ်၌ ၎င်းတို့သည် အမိန့်တော်ကိုဖီဆန်လျက် ရှိခဲ့ကြသောကြောင့် မိုးကောင်းကင်မှ ပြစ်ဒဏ် တစ်မျိုးကို ချပေးအံ့သောသူများပင် ဖြစ်ကြပေသည်။

إِنَّا مُنزِلُونَ عَلَىٰٓ أَهْلِ هَٰذِهِ ٱلْقَرْيَةِ رِجْزًا مِّنَ ٱلسَّمَآءِ بِمَا كَانُوا۟ يَفْسُقُونَ ﴿٣٤﴾

၃၅။ သို့ရာတွင်ငါအရှင်မြတ်သည် သိနားလည်ကြ ကုန်သော အမျိုးသားတို့အဖို့ ထိုမြို့ရွာမှ ထင်ရှားစွာ သော သက်သေလက္ခဏာအချို့ကို ချန်လှပ်၍ ထားရှိ တော်မူခဲ့ပေသတည်း။

وَلَقَد تَّرَكْنَا مِنْهَآ ءَايَةًۢ بَيِّنَةً لِّقَوْمٍ يَعْقِلُونَ ﴿٣٥﴾

وَإِلَىٰ مَدْيَنَ أَخَاهُمْ شُعَيْبًا فَقَالَ يَٰقَوْمِ ٱعْبُدُوا۟ ٱللَّهَ وَٱرْجُوا۟ ٱلْيَوْمَ ٱلْـَٔاخِرَ وَلَا تَعْثَوْا۟ فِى ٱلْأَرْضِ مُفْسِدِينَ ﴿٣٦﴾

၃၆။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) မဒ်ယန်မြို့(သားတို့)ထံသို့ ၎င်းတို့၏နောင်တော် ရှုအိုက်ဗ်အား (နဗီတမန်တော်အဖြစ် စေလွှတ်တော်မူခဲ့၏။) သို့ဖြစ်ပေရာ ထို 'ရှုအိုက်ဗ်' က 'အို-ငါ၏အမျိုးသားတို့။ အသင်တို့သည် အလ္လာဟ် အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်ကြလေကုန်။ ၎င်းပြင် အသင်တို့သည် နောက်ဆုံးနေ့ကို စိုးရိမ်ကြလေကုန်။ ထိုမှတပါး အသင်တို့သည် ဖျက်ဆီးသူများအဖြစ် တိုင်းပြည်တွင် သောင်းကျန်းမှုမပြုလုပ်ကြကုန်လင့်'ဟု ပြောကြားခဲ့၏။

فَكَذَّبُوهُ فَأَخَذَتْهُمُ ٱلرَّجْفَةُ فَأَصْبَحُوا۟ فِى دَارِهِمْ جَٰثِمِينَ ﴿٣٧﴾

၃၇။ သို့ရာတွင် ၎င်းတို့သည် ထို'ရှုအိုက်ဗ်'အား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ မြေငလျင်သည် ၎င်းတို့အား ဖမ်းဆီးကွပ်မျက်ခဲ့လေရာ၊ ၎င်းတို့မှာမိမိတို့ နေအိမ်များ၌ မှောက်လျက်လဲနေသူများပင် ဖြစ်ခဲ့ကြကုန်သတည်း။

وَعَادًا وَثَمُودَا۟ وَقَد تَّبَيَّنَ لَكُم مِّن مَّسَٰكِنِهِمْ وَزَيَّنَ لَهُمُ ٱلشَّيْطَٰنُ أَعْمَٰلَهُمْ فَصَدَّهُمْ عَنِ ٱلسَّبِيلِ وَكَانُوا۟ مُسْتَبْصِرِينَ ﴿٣٨﴾

၃၈။ ထိုမှတပါး(ငါအရှင်မြတ်သည်) 'အာဒ်' အမျိုးသားတို့အားလည်းကောင်း၊ 'ဆမူဒ်' အမျိုးသားတို့အားလည်းကောင်း၊ (ကွပ်မျက်ဖျက်ဆီးတော်မူခဲ့၏၊) ထို့ပြင်မချွတ်မလွဲ (၎င်းတို့ကွပ်မျက်ခြင်းခံခဲ့ရသည်မှာ) အသင်တို့အဖို့ ၎င်းတို့၏ နေအိမ်များကို (ကြည့်ရှုလေ့လာခြင်း)ဖြင့် ထင်ရှားခဲ့လေပြီ။

စင်စစ်သော်ကား 'ရှိုင်တွာန်' မိစ္ဆာကောင်သည် ၎င်းတို့၏ လုပ်ကိုင် ဆောင်ရွက်ချက်များကို ၎င်းတို့၏ အမြင်၌ တင့်တယ်လှပအောင် ပြုလုပ်ပြီးလျှင် ၎င်းတို့အား(မှန်ကန်သော တရား)လမ်းမှ တားဆီး ပိတ်ပင်ခဲ့လေ၏။ စင်စစ် ၎င်းတို့မှာ အသိအမြင်ရှိသော သူများပင် ဖြစ်ခဲ့ကြကုန်၏။

وَقَارُوْنَ وَفِرْعَوْنَ وَهَامٰنَ ۙ وَلَقَدْ جَآءَهُمْ مُّوْسٰى بِالْبَيِّنٰتِ فَاسْتَكْبَرُوْا فِى الْاَرْضِ وَمَا كَانُوْا سٰبِقِيْنَ ۚ ﴿٣٩﴾

၃၉။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) 'ကာရူန်' အားလည်းကောင်း၊ 'ဖစ်ရ်အောင်န်' အားလည်းကောင်း၊ 'ဟာမာန်' အားလည်းကောင်း၊ (ဖျက်ဆီးတော်မူခဲ့၏၊) ထိုမှတပါး မုချဧကန်'မူစာ' သည် ၎င်းတို့ထံ ထင်ရှားစွာသော သက်သေ လက္ခဏာတော်များနှင့်တကွ ရောက်ရှိ၍လာခဲ့ပေသည်။ သို့ရာတွင် ၎င်းတို့မှာ တိုင်းပြည်၌ မောက်မာဆိုးသွမ်းခဲ့ကြကုန်၏။ အမှန်မှာ ၎င်းတို့သည်(ငါအရှင်မြတ်၏ပြစ်ဒဏ်မှ) လွတ်မြောက်သွားနိုင်ကြသူများ မဖြစ်ခဲ့ကြချေ။

فَكُلًّا اَخَذْنَا بِذَنْۢبِهٖ ۚ فَمِنْهُمْ مَّنْ اَرْسَلْنَا عَلَيْهِ حَاصِبًا ۚ وَمِنْهُمْ مَّنْ اَخَذَتْهُ الصَّيْحَةُ ۚ وَمِنْهُمْ مَّنْ خَسَفْنَا بِهِ الْاَرْضَ ۚ وَمِنْهُمْ مَّنْ اَغْرَقْنَا ۚ وَمَا كَانَ اللّٰهُ لِيَظْلِمَهُمْ وَلٰكِنْ كَانُوْٓا اَنْفُسَهُمْ يَظْلِمُوْنَ ﴿٤٠﴾

၄၀။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် (၎င်းတို့အနက်) အသီးသီးအား ၎င်း၏ပြစ်မှုကြောင့် ဖမ်းဆီးကွပ်မျက်တော်မူခဲ့၏။ ငါအရှင်မြတ်သည် ၎င်းတို့အနက် အချို့၏အပေါ်၌ ကျောက်ခဲများပါရှိသော လေပြင်းမုန်တိုင်းကို စေလွှတ်တော်မူခဲ့၏။ ထိုနည်းတူစွာ ၎င်းတို့အနက်အချို့ကို ကျယ်လောင်ပြင်းထန်လှသောအသံသည် ဖမ်းဆီးကွပ်မျက်ခဲ့လေ၏။ ထို့ပြင် ၎င်းတို့အနက် အချို့ကို ငါအရှင်မြတ်သည် မြေမျိုစေတော်မူခဲ့၏။ ထိုမှတပါး ၎င်းတို့အနက် အချို့ကို မူကား ငါအရှင်မြတ်သည် ရေနစ်စေတော်မူခဲ့၏။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား မတရားနှိပ်စက်တော်မူခဲ့သည်မဟုတ်ပေ။ သို့ရာတွင် ၎င်းတို့သည် မိမိတို့ကိုယ်တိုင် မိမိတို့ကိုယ်ကို နှိပ်စက်ညှဉ်းပန်းလျက် ရှိခဲ့ကြကုန်သတည်း။ [၁]

---

(၁) အာဒ်၊ ဆမူဒ်၊ ဖစ်ရ်အောင်န်၊ ဟာမာန်နှင့် ကာရူန်တို့သည် အာဏာဂုဏ်၊ ဓနဂုဏ်မောက်၍ အလ္လာဟ်အရှင်မြတ်၏ တရားတော်များကို သွေဖည်ဆန့်ကျင်ကာ တိုင်းပြည်တွင် ဆူပူသောင်းကျန်းလာခဲ့ကြသည့်အခါ ပြစ်ဒဏ်အမျိုးမျိုးသင့်ပြီး မရှုမလှသေကျေ ပျက်စီးသွားခဲ့ကြရလေသည်။ သတိသံဝေဂရဖွယ်ရာပင်၊ ၎င်းတို့၏လမ်းစဉ်ကို လိုက်နာကြသော သူများသည်လည်း နောက်ဆုံးတွင် ၎င်းတို့ကဲ့သို့ပင် မရှုမလှသေကျေ ပျက်စီးသွားကြရမည်သာတည်း။

مَثَلُ الَّذِيْنَ اتَّخَذُوْا مِنْ دُوْنِ اللّٰهِ اَوْلِيَاۤءَ كَمَثَلِ الْعَنْكَبُوْتِ ۚ اِتَّخَذَتْ بَيْتًا ۗ وَاِنَّ اَوْهَنَ الْبُيُوْتِ لَبَيْتُ الْعَنْكَبُوْتِ ۘ لَوْ كَانُوْا يَعْلَمُوْنَ ﴿٤١﴾

၄၁။ အလ္လာဟ်အရှင်မြတ်အားစွန့်၍ အခြား တစ်စုံတစ်ရာကို (မိမိတို့၏) ကိစ္စအဝဝကို ပြီးစီးအောင် ပြုလုပ်ဆောင်ရွက်ပေးသူများဟု ရွေးချယ်ပြုလုပ်ကြကုန်သောသူတို့၏ ဥပမာကား၊ ပင့်ကူ၏ ဥပမာ အလားတူ၏။ ထိုပင့်ကူမှာ အိမ်တစ်ခုကို ပြုလုပ်၏။ သို့ရာတွင် ဧကန်မလွဲ နန့်နဲ့ဆုံး(အားအနည်းဆုံး) သောအိမ်မှာ ပင့်ကူ၏အိမ်ပင်ဖြစ်ကြောင်း၊ ၎င်းတို့ သိရှိကြလျှင် ကောင်းလေစွ။ [၁]

اِنَّ اللّٰهَ يَعْلَمُ مَا يَدْعُوْنَ مِنْ دُوْنِهٖ مِنْ شَيْءٍ ۗ وَهُوَ الْعَزِيْزُ الْحَكِيْمُ ﴿٤٢﴾

၄၂။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် မိမိအားစွန့်၍၊ ၎င်းတို့ ဟစ်ခေါ်လျက်ရှိကြသော မည်သည့် အရာကိုမဆို ကောင်းစွာသိရှိတော်မူ၏။ အမှန်သော်ကား ထိုအရှင်မြတ်သည်တန်ခိုးတော်ဖြင့် လွှမ်းမိုးတော်မူသော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

وَتِلْكَ الْاَمْثَالُ نَضْرِبُهَا لِلنَّاسِ ۚ وَمَا يَعْقِلُهَاۤ اِلَّا الْعٰلِمُوْنَ ﴿٤٣﴾

၄၃။ ငါအရှင်မြတ်သည် ဤဥပမာ ပုံဆောင်ချက်များကို လူတို့၏အကျိုးငှာ ခိုင်းနှိုင်းတော်မူ၏။ သို့ရာတွင် 'အာလင်မ်' ပညာရှင်တို့သည်သာလျှင် ယင်းဥပမာ ပုံဆောင်ချက်တို့ကို သိနားလည်ကြကုန်သတည်း။ [၂]

---

(၁) **မုရှ်ရစ်ကတ်တို့၏ ကိုးကွယ်ရာ ပင့်ကူအိမ်ပမာ။**

အိမ်တည်ဆောက်ခြင်း၏ အဓိကရည်ရွယ်ချက်မှာ အသက်စည်းစိမ်ဥစ္စာ ပစ္စည်းများကို လုံခြုံစွာ သိုလှောင်ထားရန်နှင့် အေးချမ်းသာယာစွာ နေနိုင်ရန် ပင်ဖြစ်သည်။ အိမ်သည် ခိုင်ခံ့ရမည်။ လုံခြုံရမည်။ အပူအအေးဒဏ် ခံနိုင်ရမည်။ ဘေးရန်ကာကွယ်နိုင်ရမည်။ မလုံခြုံသော၊ မခိုင်ခံ့သော၊ ဘေးရန်မကာကွယ်နိုင်သော နန့်နဲ့ချူချာသော ပင့်ကူအိမ်ကဲ့သို့သော အိမ်သည် အိမ်ပင်မဟုတ်ချေ။ ထိုသို့သော နန့်နဲ့ချူချာသော အိမ်ရှိခြင်းမှာ မရှိခြင်းနှင့်မထူးခြားပေ။ ထို့အတူကာဖိရ်၊ မုရှ်ရစ်ကတ်များ အလ္လာဟ်အရှင်မြတ်အား စွန့်၍ မျှော်လင့်ကြီးစွာဖြင့် ဆည်းကပ်ကိုးကွယ်လျက် ရှိကြသော ၎င်းတို့၏အချည်းနှီးသော တစ်စုံတစ်ရာမပြုစွမ်းနိုင်သော ကိုးကွယ်ရာများသည် လည်း ပင့်ကူအိမ်ပမာ နန့်နဲ့ချူချာလှကြပေသည်။ ခိုလှုံရာ၊အားထားရာ၊ မှီခိုရာများကား အလျှင်းမဟုတ်ကြပေ။

خَلَقَ اللّٰهُ السَّمٰوٰتِ وَالْاَرْضَ بِالْحَقِّ ۭ اِنَّ فِيْ ذٰلِكَ لَاٰيَةً لِّلْمُؤْمِنِيْنَ ﴿٤٤﴾

၄၄။ အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ တိကျမှန်ကန်စွာ ဖန်ဆင်းတော်မူခဲ့ပေသည်။ ဧကန်မလွဲ ဤသည်၌ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အဖို့ (ကြီးကျယ်လှစွာသော) သက်သေသည် အမှန်ပင် ရှိချေသတည်း။ [၁]

---

② ဥပမာပုံဆောင်ခြင်း၏သဘော။

အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်တွင် ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ကိုးကွယ်ရာများကို ယင်ကောင်၊ ပင့်ကူကောင်တို့ဖြင့် ပုံဆောင် နှိုင်းယှဉ်မိန့်ဆိုထားတော်မူသည်။ သို့ပုံဆောင် မိန့်ကြားတော်မူလိုက်သည့်အခါ ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ကိုးကွယ်ရာများသည် မည်သို့မျှ တန်ဖိုးမရှိကြောင်း ပို၍ပို၍ ထင်ရှားလာခဲ့ပေသည်။ ထိုအခါ ကာဖိရ်၊ မုရှ်ရစ်က်များသည် မခံမရပ်နိုင်ဖြစ်ကာ၊ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ဂုဏ်သိက္ခာကို မထောက်ထားဘဲ ဤမျှသေးနုပ်သော ပိုးမွှားတိရစ္ဆာန်တို့ဖြင့် အဘယ်ကြောင့် ပုံဆောင်တော်မူပါသနည်းဟု ဝေဖန်ပြောဆိုလာခဲ့ကြပေသည်။

ပုံဆောင်ခြင်း၏ အဓိကရည်ရွယ်ချက်မှာ တင်ပြလိုသော အရာဝတ္ထုတစ်ခု၏ ဖြစ်ရပ်မှန်ကို ပိုမိုထင်ရှားပြရန်ပင်ဖြစ်သည်။ သို့ပုံဆောင်ရာတွင် ဥပမာနှင့် ဥပမေယျ အချင်းချင်း စပ်မိဟပ်မိရန်သာ လိုသည်။ ပုံဆောင်ရာတွင် ကြီးသောအရာကို ကြီးသောအရာဖြင့်လည်းကောင်း၊ ငယ်သောအရာကို ငယ်သောအရာဖြင့် လည်းကောင်း၊ သေးသိမ်သောအရာကို သေးသိမ်သော အရာဖြင့်လည်းကောင်း၊ ပုံဆောင်ရသည်သာ ဖြစ်ပေသည်။ ပုံဆောင်သော ပုဂ္ဂိုလ်၏ ဂုဏ်သိက္ခာကို ထည့်သွင်းစဉ်းစားရန်မလိုပေ။ ဤသည့်သဘောကို ပညာရှင်များ ကောင်းစွာသိကြပေသည်။

③ အလ္လာဟ်အရှင်မြတ်သာ အမှန် ကိုးကွယ်ရာ။

အထက်တွင် ကာဖိရ်၊မုရှ်ရစ်က်တို့ ပြုလုပ်ထားသော ကိုးကွယ်ရာများသည် အမှန်ကိုးကွယ်ရာ မဟုတ်ကြောင်း ပါရှိခဲ့ပြီ။ ယခု ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည်သာ အမှန် ကိုးကွယ်ရာဖြစ်ကြောင်း မိန့်ဆိုထားတော်မူသည်။

အလ္လာဟ်အရှင်မြတ်သည် မိုးနှင့်မြေကို တစ်ပါးတည်း မိမိ၏အတိုင်းအဆမရှိ တန်ခိုးတော်ဖြင့် တော်တည့်လျော်ကန်၊ သင့်မြတ်၊မှန်ကန်၊တိကျစွာ အံ့မဆုံး၊ ဖန်ဆင်းထားတော်မူသည်။ သို့ဖန်ဆင်းတော်မူရာတွင်လည်း မည်သူတစ်ဦးတစ်ယောက်၏ အကူအညီမျှမပါချေ။

ထိုသို့ အတိုင်းအဆမရှိ တန်ခိုးတော်နှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်သည်သာလျှင် တစ်ပါးတည်းသော အမှန်ကိုးကွယ်ရာ အရှင်သခင် ဖြစ်တော်မူသည်။ အဘယ် တစ်စုံတစ်ခုကိုမျှ မပြုစွမ်းနိုင်သော ကာဖိရ်၊ မုရှ်ရစ်က်တို့ ပြုလုပ်ထားကြသည့် အမည်ခံ ကိုးကွယ်ရာများ မှာမူကား၊ အဘယ်မှာလျှင် အမှန်ကိုးကွယ်ရာများ ဖြစ်နိုင်ကြအံ့နည်း။

၄၅။ (အို-နဗီတမန်တော်) အသင်သည် မိမိထံ ထုတ်ပြန်ခြင်းခံရလေသော *ကျမ်းတော်မြတ်(ကုရ်အာန်)ကို ရွတ်ဖတ်ပါလေ။*[၁] ၎င်းအပြင် သင်သည် 'ဆွလာတ်' ဝတ်ပြုမှုကိုဆောက်တည်ပါလေ။ ဧကန်မလွဲ ဆွလာတ် ဝတ်ပြုမှုသည် အလွန် စက်ဆုပ်ဖွယ်ရာသော အမှုကိစ္စများမှလည်းကောင်း၊ မဖွယ်မရာသော အလွန့်အမှုကိစ္စများမှလည်းကောင်း၊ *ပိတ်ပင်တားဆီးလေ၏။*[၂] စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်အား အောက်မေ့ တ,သခြင်းသည် အကြီးကျယ်ဆုံး၊ (အမြင့်မြတ်ဆုံး)ပင်ဖြစ်ပေသည်။[၃] စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ပြုမူသမျှတို့ကို ကောင်းစွာသိရှိတော်မူပေသတည်း။

اُتْلُ مَآ اُوْحِيَ اِلَيْكَ مِنَ الْكِتٰبِ وَاَقِمِ الصَّلٰوةَ ۗ اِنَّ الصَّلٰوةَ تَنْهٰى عَنِ الْفَحْشَآءِ وَالْمُنْكَرِ ۗ وَلَذِكْرُ اللّٰهِ اَكْبَرُ ۗ وَاللّٰهُ يَعْلَمُ مَا تَصْنَعُوْنَ ﴿٤٥﴾

---

(၁) တရားဓမ္မဟောကြားရာတွင် ကုရ်အာန်ကျမ်းမြတ်သည် အချုပ်ဖြစ်သည်။ အဓိကဖြစ်သည်။ သို့ဖြစ်ရာ ကုရ်အာန်ကျမ်းမြတ်ကို မိမိကိုယ်တိုင်လည်း ရွတ်ဖတ်သရဇ္ဈာယ်ရမည်။ သူတပါးတို့အားလည်း ကြားနာစေရမည်။ သို့မှသာလျှင် စိတ်ဓာတ်အင်အား သန်စွမ်းကြီးထွားလာပေမည်။ စိတ်ဓာတ်ကြံ့ခိုင် တည်ကြည်ပေမည်။ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်ခြင်း၏ ကုသိုလ်အကျိုးကိုလည်း ခံစားရပေမည်။ ကုရ်အာန်ကျမ်းမြတ်၏ အနက်သဘောများကိုလည်း ပို၍ပို၍ သဘောပေါက် သိနားလည်လာပေမည်၊ သူတပါးတို့သည်လည်း ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ကြားနာခွင့်ရရှိ၍ အကျိုးအမျိုးမျိုး ခံစားကြရပေမည်။ ဤသို့ဖြင့် မိမိနှင့်တကွ ပတ်ဝန်းကျင်ကိုပါ နှုတ်အားဖြင့် ကောင်းစွာတရားဓမ္မ ဟောကြားနိုင်ပေမည်။ ဤကား **'တဗ်လီဃ်ကောင်လီ'** ပင်။ (ကြည့်-အွတ်ဆ်မာနီ)။

(၂) ဆွလာတ်သည် အလွန့်အလွန် စက်ဆုပ်ရွံရှာဖွယ်ရာ ပြစ်မှုများမှလည်းကောင်း၊ မဖွယ်မရာသော အမှုကိစ္စများမှလည်းကောင်း ပိတ်ပင်တားဆီးပေးသည်။

ဆွလာတ်က ပြစ်မှုများမှ ပိတ်ပင်တားဆီးပေးခြင်း၏ သဘောမှာ နှစ်မျိုးနှစ်စားဖြစ်နိုင်ပေသည်။

(က) အလ္လာဟ်အရှင်မြတ်သည် ဆွလာတ်တွင် သီးသန့်စွမ်းရည်သတ္တိတစ်မျိုးကို ထည့်သွင်းထားတော်မူသည်။ ယင်းစွမ်းရည်သတ္တိကြောင့် ဆွလာတ်သည် ဆွလာတ်ဆောက်တည်သူအား ပြစ်မှုများမှ ပိတ်ပင်တားဆီး ကာကွယ်ပေးသည်။ ဥပမာ-ဆေးဝါးမှီဝဲစားသုံးမှုသည် ရောဂါများကို ပိတ်ပင်တားဆီး ကာကွယ်ပေးသကဲ့သို့ပင်။ ဤတွင် သိထားအပ်သည်မှာ ဆေးတစ်ခွက်တည်း သောက်သုံးရုံမျှဖြင့် ရောဂါများကို ပိတ်ပင်တားဆီး ကာကွယ်နိုင်သည်မဟုတ်။ သက်ဆိုင်ရာသမားတော်၏ ညွှန်ကြားချက်နှင့်အညီ သတ်မှတ်ထားသည့် ဆေးပမာဏကို သတ်မှတ်ထားသည့် အချိန်ကာလအထိ စနစ်တကျ အချိန်မှန်မှန် စွဲမြဲစွာ မှီဝဲသောက်သုံးပါမှ၊ အဆိုပါဆေးကို မှီဝဲစားသုံးချိန်တွင်လည်း သမားတော်က ရှောင်ကြဉ်ရန်ညွှန်ပြထားသော အရာများကို ကောင်းစွာရှောင်ကြဉ်ပါမှ၊ ဆေးသည် မိမိ၏အစွမ်းသတ္တိကို ပြသပေသည်။ ထို့အတူပင် ဆွလာတ်သည် အလွန်ထက်မြက်သော ➤➤

▶▶ ဆေးတစ်လက်ဖြစ်သည်။ ဆွလာတ်ကို တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ညွှန်ပြထားတော်မူသော စည်းကမ်းချက်များနှင့်အညီ စနစ်တကျ အချိန်မှန်မှန်၊ စွဲမြဲစွာဆောက်တည်ပါက ဆွလာတ်နှင့်စပ်လျဉ်း၍ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က ရှောင်ကြဉ်ရန် တားမြစ်ထားတော်မူသော အရာများကိုလည်း ကောင်းစွာရှောင်ကြဉ်ပါက ဆွလာတ်သည် မိမိ၏ စွမ်းရည်သတ္တိများကို မုချပြသသည်သာတည်း။

(ခ) 'ဆွလာတ်သည် ပြစ်မှုများကို ပိတ်ပင်တားဆီးသည်'ဟူသည့် ဆွလာတ်ကို စနစ်တကျ တည်ဆောက်ပါက ဆွလာတ်တည်ဆောက်ခြင်း၏ အကျိုးဆက်မှာ ယင်းသို့ပင်ဖြစ်အပ်သည်ဟူ၏။ လင်းပြဦးအံ့-အမှန်မှာ ဆွလာတ်ဆောက်တည်သူတစ်ဦးသည် အလ္လာဟ်အရှင်မြတ်၏ (ရှေ့တော်မှောက်တွင် ကိုယ်၊နှုတ်၊ နှလုံး၊ သုံးပါးလုံးတို့ဖြင့်–

♦ အရှင်မြတ်သည် စကြာဝဠာအဝှန်း၏ အရှင်သခင်ဖြစ်တော်မူကြောင်း၊
♦ မိမိ၏အရှင်သခင် ဖြစ်တော်မူကြောင်း၊
♦ အရှင်မြတ်သည် တစ်ဆူတည်းသော ကိုးကွယ်ရာအရှင်ဖြစ်တော်မူကြောင်း၊
♦ စကြာဝဠာအဝှန်း၌ အရှင်မြတ်၏ အာဏာစက်သည်သာလျှင် တည်ရှိကြောင်း၊
♦ စကြာဝဠာအဝှန်းသည် အရှင်မြတ်ကိုသာလျှင် မှီခိုအားထားရကြောင်း၊
♦ မိမိသည် အရှင်မြတ်ညွှန်ပြတော်မူသော တရားလမ်းစဉ်ကိုသာ လိုက်နာကျင့်သုံးမည် ဖြစ်ပါကြောင်း

တို့ကို ကျိုးနွံစွာ ဝန်ခံကတိပြု၏။ သစ္စာဆို၏။

သို့ဝန်ခံကတိပြုပြီးနောက်၊ သစ္စာဆိုပြီးနောက် 'မတ်စ်ဂျိဒ်' ဗလီအပြင်သို့ ထွက်လာသည့်အခါတွင်လည်း ဗလီအတွင်း၌ မိမိ၏ ဝန်ခံကတိပြုခဲ့သည့်အတိုင်း ဗလီအပြင်တွင်လည်း နေထိုင်ကျင့်သုံး သွားရပေမည်။ ကတိမဖျက်ရာ၊ သစ္စာမဖောက်ရာ။ အမိန့်တော်ကို မသွေဖည်ရာ။ တစ်နည်းအားဖြင့် ဆွလာတ်ဆောက်တည်ရာတွင် လိုက်နာဆောင်ရွက်ရသော အပြုအမူ၊ အနေအထား၊ ပုံပန်းသဏ္ဌာန်၊ ဟန်ပန်အမူအရာအားလုံးတို့က ဆွလာတ်ဆောက်တည်သူအား...

"အို - ဆွလာတ်ဆောက်တည်သူ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်၌ ဝန်ခံကတိပြုသူ၊ သစ္စာဆိုသူ မိမိသည် အလ္လာဟ်အရှင်မြတ်၏ ကျွန်ဖြစ်ပါသည်ဟု ဝန်ခံသူ အသင်သည် မိမိကတိနှင့်အညီ နေရာမရွေး၊ ချိန်ခါမရွေး ကျွန်ပီပီနေထိုင်ပါလေ၊ အမိန့်တော်များကို နာခံပါလေ၊ ပြစ်မှုအပေါင်းကို ဝေးစွာရှောင်ပါလေ"ဟူ၍ တစ်နေ့လျှင် ငါးကြိမ်တိုင်တိုင် သတိပေးလျက်၊ တောင်းဆိုလျက် ရှိပေသည်။ သို့သတိပေး တောင်းဆိုနေပါလျက် မနာခံပါက မနာခံသူ၏အပြစ်ပင်၊ ဆွလာတ်မူကား ပြစ်မှုအပေါင်းကို ကြဉ်ရှောင်ရန် ပိတ်ပင်တားဆီးလျက်ပင်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က မိန့်ကြားတော်မူခဲ့သည်မှာ 'အကြင်သူအား ၎င်း၏ဆွလာတ်သည် ရှက်ဖွယ်အမှုနှင့် မကောင်းမှုများမှ ပိတ်ပင်တားဆီးခြင်းမရှိသော်၊ ထိုသူသည် ယင်းသို့သော ဆွလာတ်ဖြင့် အလ္လာဟ်အရှင်မြတ်နှင့်ပို၍ပင် ဝေးကွာသွားပေသည်။ (အီဗ်နူကဆီရ်၊ အ-၃၊ စ-၄၁၄)

## ③ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရမှုသည် အမြင့်မြတ်ဆုံးပင်။

ဆွလာတ်သည် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရရန် အကောင်းဆုံးနည်းပင်ဖြစ်သည်။ ဆွလာတ်ဆောက်တည်မှု၏ အဓိကရည်ရွယ်ချက်မှာလည်း အလ္လာဟ်အရှင်မြတ်အား သတိရရန်ပင်ဖြစ်သည်။ (ကြည့်-ကုရ်အာန် ၂၀း၁၄)။

အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရမှုသည် အကြီးကျယ်ဆုံး၊ အမြင့်မြတ်ဆုံးပင် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရမှုကို ဆွလာတ်၊ ဂျိဟာဒ်စသည့် 'အိဗာဒတ်'▶▶

وَلَا تُجَادِلُوٓا۟ أَهْلَ ٱلْكِتَـٰبِ إِلَّا بِٱلَّتِى هِىَ أَحْسَنُ إِلَّا ٱلَّذِينَ ظَلَمُوا۟ مِنْهُمْ ۖ وَقُولُوٓا۟ ءَامَنَّا بِٱلَّذِىٓ أُنزِلَ إِلَيْنَا وَأُنزِلَ إِلَيْكُمْ وَإِلَـٰهُنَا

၄၆။ ၎င်းပြင် အသင်တို့သည် ကျမ်းဂန်ရရှိခဲ့ကြသောသူတို့နှင့် ကောင်းမွန်(ယဉ်ကျေးသိမ်မွေ့)လှသောနည်းဖြင့်သာလျှင် *အချေအတင်ပြောဆိုကြလေကုန်၊* [၁] သို့ရာတွင် ၎င်းတို့အနက် တရားလွန်ပြုမူသောသူတို့နှင့်မူကား ပြတ်သားစွာ အချေအတင်ပြောဆိုနိုင်ခွင့်ရှိ၏။ သို့တစေလည်း အသင့်မြတ်ဆုံးမှာ သိမ်မွေ့သောနည်းပင်ဖြစ်သည်။ ထိုမှတပါး အသင်တို့သည် (ဤသို့) ပြောကြားကြလေကုန်၊ "ကျွန်ုပ်တို့သည် မိမိတို့ထံ ကျရောက်ခဲ့သော (ကျမ်းမြတ်)ကိုလည်းကောင်း၊ အသင်တို့ထံ ကျရောက်ခဲ့ကြသော (ကျမ်းဂန်)တို့ကိုလည်းကောင်း၊ ယုံကြည်ကြကုန်၏။

---

➤➤ ခဝပ်ကိုးကွယ်မှုအပေါင်းတို့၏ အသက်၊ ဝိညာဉ်ဟူ၍ပင် ခေါ်ဆိုနိုင်ပေသည်။ အလ္လာဟ်အရှင်မြတ်အား အောက်မေ့ တသ သတိရမှုမပါရှိသော အိဗာဒတ် ခဝပ်ကိုးကွယ်မှုသည် အသက်၊ဝိညာဉ်မပါသော ကိုယ်ခန္ဓာ၊ အဓိပ္ပာယ်မရှိသော စာလုံးသာဖြစ်မည်။ ဤသည့်သဘောပါရှိသော ဟဒီးစ်သြဝါဒတော်များလည်း အမြောက်အမြားရှိပေသည်။ ယင်းသည့် သြဝါဒတော်များကို ထောက်ချင့်ပြီး 'အာလင်မ်'ပညာရှင်များက **'အလ္လာဟ်အရှင်မြတ်အားအောက်မေ့တသ သတိရမှုထက် မြင့်မြတ်သော 'အိဗာဒတ်' ခဝပ်ကိုးကွယ်မှုမရှိ'** ဟူ၍ပင် အဆုံးအဖြတ်ပေးခဲ့ကြလေသည်။

သာဝကကြီးတစ်ပါးက တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတွင် "တမန်တော်မြတ်၊ အစ္စလာမ်၏ အမိန့်ပညတ်တော်များသည် များပြားလှပါသည်။ သို့ဖြစ်ရာ တမန်တော်မြတ်သည် ကျွန်တော်မျိုးအား အဖက်ဖက်မှ ပြည့်ဝစုံလင်သော အပြည့်စုံဆုံးသော ကျင့်ဝတ်တစ်ရပ်ကို ညွှန်ပြတော်မူပါ"ဟု လျှောက်ထားရာ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ( لايزال لسانك رطبا من ذكر الله ) 'အသင်၏လျှာသည် အမြဲထာဝစဉ် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရခြင်းဖြင့်စို၍ နေပါစေ'ဟု မိန့်ကြားတော်မူလိုက်လေသည်။ (ကြည့်-အွတ်ဆ်မာနီ)။

(၁) **<u>အချေအတင်ပြောဆိုရာတွင် ချောင်ပြေပြစ်ရမည်။</u>**

အထက်တွင် တရားဓမ္မဟောကြားရမည့် အကြောင်းပါရှိ၏။ သို့တရားဓမ္မ ဟောကြားသည့်အခါ သွေးဖည်ငြင်းဆန်သော မနာခံသောသူများသည် အနှောင့်အယှက် ပြုလာကြပေမည်။ အငြင်းအခုံ ပြုလာကြပေမည်။ အချေအတင် ပြောဆိုလာကြပေမည်။ ဤသည် သဘာဝပင်။ ထို့အတွက် ဤအာယတ်တော်များတွင် အချေအတင်ပြောဆိုကြရာ၌ အတိုက်အခံအုပ်စု၏ ပညာရေး၊ သာသနာရေးများကိုထောက်၍ ကျိုးကြောင်းပြကာ၊ ချောင်ပြေပြစ်စွာ ပြောဆိုရမည့်အကြောင်း၊ အချေအတင် ပြောဆိုရာ၌ နိုင်လိုဇောတွင်မျော၍ အလွန်အကျွံ မဖြစ်ရမည့်အကြောင်း၊ အမှန်တရားကို အဘယ်နေရာ၌ အဘယ်သူ၌ အဘယ်မျှပင်ရှိစေ ဝန်ခံရမည့်အကြောင်းများကို မိန့်ဆိုထားတော်မူသည်။

➤➤

وَإِلَٰهُكُمْ وَاحِدٌ وَنَحْنُ لَهُ مُسْلِمُونَ ﴿٤٦﴾

စင်စစ်သော်ကား ကျွန်ုပ်တို့၏ ဆည်းကပ်ကိုးကွယ်ရာ အရှင်မြတ်သည်လည်းကောင်း၊ အသင်တို့၏ ဆည်းကပ်ကိုးကွယ်ရာ အရှင်မြတ်သည်လည်းကောင်း၊ တစ်ဆူတည်းသာဖြစ်တော်မူ၏။ ၎င်းပြင် ကျွန်ုပ်တို့သည် ထိုအရှင်မြတ်၏ အမိန့်တော်ကိုသာ လျှင် လိုက်နာသူများ ဖြစ်ကြပေသတည်း"။ [1]

---

➤➤ မှရှိရစ်ကမျာ:တွင် အသိပညာလည်းမရှိ၊ ၎င်းတို့၏ ဘာသာအယူဝါဒမှာလည်း လုံးဝမှား၏။ (အဟ်လိကိတာဗ်) ကျမ်းဂန်ရသူများတွင်မူ ပညာရှင်များလည်း ရှိခဲ့ကြသည်။ ၎င်းတို့၏ သာသနာသည်လည်း အစမူလ၌ အမှန်ပင်ဖြစ်ခဲ့ပေသည်။ နောက်ပိုင်းတွင်မူ နုတ်ပယ်ဖြည့်စွက်၍ အမျိုးမျိုး ကပြောင်းကပြန် ပြုလုပ်ခဲ့ကြသည့်အတွက် အုတ်အရောရော ကျောက်ရောရော ဖြစ်လာခဲ့ပေသည်။ သို့ဖြစ်၍ အဆိုပါအုပ်စုနှစ်စုနှင့် အချေအတင် ပြောဆိုရာတွင် တမျိုးတစားတည်းမဖြစ်ရာ။ ၎င်းတို့၏ ပညာရေးနှင့်သာသနာရေးများကို ထောက်ထားရမည်သာ။ ကျိုးကြောင်းပြကာ ယဉ်ကျေးသိမ်မွေ့စွာ ပြောဆိုရမည်သာ။ သို့ယဉ်ကျေးသိမ်မွေ့စွာ ပြောဆိုပါလျက်၊ ၎င်းတို့အနက်မှ မလိုမုန်းတီးစိတ်ဖြင့် မတရားကျူးကျော် စော်ကားလာကြသောသူများကိုမူကား အခြေအနေရ တိကျပြတ်သားစွာပင် အချေအတင် ပြောဆိုပိုင်ခွင့်ရှိပေသည်။ သို့တိကျပြတ်သားစွာ ပြောဆိုရာတွင်လည်း ချောင်ပြေပြစ်မှု၊ ယဉ်ကျေးသိမ်မွေ့မှုကိုမူကား လက်မလွှတ်စေရာ။

မည်သို့မည်ပုံ တရားဓမ္မ ဟောကြားရမည့်အကြောင်း ကုရ်အာန် (၁၆:၁၂၅)တွင် ပါရှိခဲ့သည်။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ၊ ပြန်လည်ရှုပါကုန်။

(၁) **"အဟ်လိကိတာဗ်" အား ဖိတ်ခေါ်သံ။**

မုစ်လင်မ်တို့သည် 'အဟ်လိကိတာဗ်'များအား ဖိတ်ခေါ်ရာတွင် ၎င်းတို့၏ပညာရေးနှင့် သာသနာရေးကို ထောက်ထား၍ ကျိုးကြောင်းပြကာ ယဉ်ကျေးသိမ်မွေ့စွာ ပြောကြားကြရမည်မှာ–

"အို–(အဟ်လိကိတာဗ်) ကျမ်းရသူအပေါင်းတို့၊ ငါတို့မုစ်လင်မ်များသည် မိမိတို့ထံ ကျရောက်လာသော ကုရ်အာန်ကျမ်းမြတ်ကိုလည်း ယုံကြည်မြတ်နိုးကြပါသည်။ အသင်တို့ထံ ကျရောက်ခဲ့သော ကျမ်းဂန်များကိုလည်း ယုံကြည်လက်ခံကြပါသည်။ ထို့ပြင်တဝ ငါတို့၏ ကိုးကွယ်ရာအရှင်နှင့် သင်တို့၏ ကိုးကွယ်ရာအရှင်မှာလည်း တစ်ပါးတည်းပင်။

ငါတို့သည် ပွင့်လေသမျှသော နဗီတမန်တော် အပေါင်းတို့အားလည်း ယုံကြည်ကြပါသည်။ ထိုအရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူသော ကျမ်းဂန်အားလုံးတို့ကိုလည်း ယုံကြည်ကြပါသည်။ ထိုအရှင်မြတ်၏ နောက်ဆုံးတမန်တော်နှင့် နောက်ဆုံးကျမ်းဂန်တော်ကိုလည်း ယုံကြည်ကြပါသည်။ ကွဲပြားချက်မှာ ငါတို့သည် တစ်ဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်ကြပါသည်။ ထိုအရှင်မြတ်၏ အမိန့်တော်များကိုသာလျှင် နာခံကြပါသည်။ အသင်တို့ကမူ ထိုအရှင်မြတ်နှင့် တဖက်ယှဉ်တွဲ၍ အခြားအရာများကိုလည်း ဆည်းကပ်ကိုးကွယ်ကြသည်။ အခြားကိုးကွယ်ရာများ၏ အမိန့်များကိုလည်း နာခံကြသည်။ အသင်တို့သည် အချို့ကိုယုံကြည်ကြသည်။ အချို့ကိုငြင်းပယ်ကြသည်။ ထို့ပြင်တဝ အသင်တို့ရရှိခဲ့ကြသော ကျမ်းဂန်များသည် ယခင်မူလက လုံးဝမှန်ကန်ခဲ့သော်လည်း ယခုမူ အသင်တို့၏ လက်တွင်း၌ မူရင်းအတိုင်း မရှိတော့ပြီ➤➤

وَكَذٰلِكَ اَنْزَلْنَآ اِلَيْكَ الْكِتٰبَ ۭ فَالَّذِيْنَ اٰتَيْنٰهُمُ الْكِتٰبَ يُؤْمِنُوْنَ بِهٖ ۚ وَمِنْ هٰٓؤُلَاۗءِ مَنْ يُّؤْمِنُ بِهٖ ۭ وَمَا يَجْحَدُ بِاٰيٰتِنَآ اِلَّا الْكٰفِرُوْنَ ؀٤٧

**၄၇။** စင်စစ် ဤနည်းအတိုင်းပင် ငါအရှင်မြတ်သည် အသင့်ထံသို့ ကျမ်းဂန်(ကုရ်အာန်ကျမ်းမြတ်)ကို ချပေးသနားတော်မူခဲ့၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ် ကျမ်းဂန် ချီးမြှင့်ပေးသနားတော်မူခဲ့သောသူတို့သည် ယင်း(ကုရ်အာန်)ကျမ်းမြတ်ကို ယုံကြည်ကြကုန်၏။ ထိုမှတပါး ဤ(မက္ကာမြို့သားတို့) အနက်မှလည်း *ယင်း(ကုရ်အာန်)ကျမ်းမြတ်ကို ယုံကြည်ကြသူများ ရှိကြ၏။* [၁] စင်စစ်သော်ကား ငါအရှင်မြတ်၏ 'အာယတ်'တော်များကို 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူတို့သည်သာလျှင် ငြင်းပယ်ကြကုန်၏။

وَمَا كُنْتَ تَتْلُوْا مِنْ قَبْلِهٖ مِنْ كِتٰبٍ وَّلَا تَخُطُّهٗ بِيَمِيْنِكَ اِذًا لَّارْتَابَ الْمُبْطِلُوْنَ ؀٤٨

**၄၈။** အမှန်စင်စစ်သော်ကား အသင်သည် ဤကျမ်းဂန်(ကုရ်အာန်ကျမ်းတော်မြတ်)အလျှင် မည်သည့်ကျမ်းကိုမျှပင် ဖတ်ရွတ်လျက်ရှိခဲ့သည်လည်း မဟုတ်ပေ။ *မည်သည့်ကျမ်းကိုမျှပင် မိမိလက်ယာလက်ဖြင့် ရေးသားခဲ့သည်လည်း မဟုတ်ပေ။* [၂] သို့ဖြစ်ခဲ့ပါလျှင် အမှားကိုလိုက်စားကြသော သူတို့သည် အမှန်ပင် ဒွိဟသံသယ ဖြစ်ကြပေမည်။

---

➤➤ သို့ဖြစ်ပေရာ အသင်တို့သည် မိမိတို့၏ အမှားများကို ပြုပြင်ကာ ကျွန်ုပ်တို့ကဲ့သို့ပင် တစ်ဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကြ။ ထိုအရှင်မြတ်နှင့်ယှဉ်တွဲ၍ မည်သည့်အရာကိုမျှ မကိုးကွယ်ကြလေနှင့်၊ ထိုအရှင်မြတ်၏ အမိန့်တော်များကိုသာ နာခံကြ၊ ပွင့်လေသမျှသော တမန်တော်အပေါင်းကို ယုံကြည်ကြ၊ ထိုအရှင်မြတ်၏ ကျမ်းဂန်အားလုံးကိုလည်း ယုံကြည်ကြ၊ ထိုအရှင်မြတ်၏ နောက်ဆုံးတမန်တော်နှင့် နောက်ဆုံးကျမ်းဂန်ကိုလည်း ယုံကြည်ကြဟူ၏။

(၁) အထက်တွင် ဖော်ပြထားသည့်အတိုင်း ဖိတ်ခေါ်လိုက်သည့်အခါ (အဟ်လိကိတာဗ်) ကျမ်းရရှိသူများအနက် မိမိတို့ထံ ကျရောက်လာခဲ့သော ကျမ်းများကို တိကျမှန်ကန်စွာယုံကြည်သော သမ္မာစိတ္တမျှတမှုရှိသော၊ ရိုးသားဖြောင့်မတ်တည်ကြည်သော ပုဂ္ဂိုလ်များသည် ဤကုရ်အာန်ကျမ်းမြတ်ကို ယုံကြည်လာခဲ့ကြပေသည်။ ကျမ်းဂန်ရသူများသာမက အတိတ်ခေတ် ကျမ်းဂန်များနှင့် မည်သို့မျှ မပတ်သက်သော အရဗ်အမျိုးသားများသည်ပင်လျှင် ကုရ်အာန်ကျမ်းမြတ်ကို ယုံကြည်လာခဲ့ကြပေသည်။ အမှန်မှာ ကုရ်အာန်ကျမ်းမြတ်၏ မှန်ကန်မှုမှာ ထင်ရှားလှသည်။ အထောက်အထားများ၊ သက်သေလက္ခဏာများမှာ ပြတ်သားလှသည်။ သို့ဖြစ်ရာ အမှန်တရားကို ဇွတ်မှိတ်ငြင်းပယ်လိုသူများမှတပါး မည်သူမျှ ကုရ်အာန်ကျမ်းတော်မြတ်ကို ငြင်းဆန်မည်မဟုတ်ပေ။

بَلۡ هُوَ ءَايَٰتُۢ بَيِّنَٰتٞ فِي صُدُورِ ٱلَّذِينَ أُوتُواْ ٱلۡعِلۡمَۚ وَمَا يَجۡحَدُ بِـَٔايَٰتِنَآ إِلَّا ٱلظَّٰلِمُونَ ﴿٤٩﴾

၄၉။ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာမူကား ဤကျမ်းဂန်(ကုရ်အာန်ကျမ်းမြတ်)သည် *အသိပညာကို ချီးမြှင့်ပေးသနားတော်မူခြင်းခံခဲ့ကြရသောသူတို့၏* [၁] စိတ်နှလုံးများတွင် (ထိန်းသိမ်းထားသော) လွန်စွာထင်ရှားလှသည့် သက်သေ လက္ခဏာများပင်ဖြစ်ပေသည်။ စင်စစ်သော်ကား မတရားသော သူတို့သည်သာလျှင် ငါအရှင်မြတ်၏ အာယတ်တော်များကို ငြင်းပယ်ကြကုန်သတည်း။

---

② **ကုရ်အာန်သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်ပင်။**

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် တမန်တော်ဂုဏ်ဖြင့် ချီးမြှင့်တော်မူခြင်းမခံရမီ ကုရ်အာန်ကျမ်းမြတ် မကျရောက်မီ မက္ကာမြို့တွင် မက္ကာမြို့သားများနှင့်အတူ နှစ်ပေါင်း(၄၀)တိုင်တိုင် နေထိုင်တော်မူခဲ့သည်။ ထိုသည့်အချိန်ပိုင်းအတွင်း တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မည်သည့်ဆရာ တစ်ဦးတစ်ယောက်ထံတွင်မှ ချဉ်းကပ်၍ စာပေသင်ကြားခဲ့ဘူး သည်လည်းမရှိ၊ မည်သည့်စာပေကိုမျှ ရွတ်ဖတ်ခဲ့ဘူးသည်လည်းမရှိ၊ မည်သည့်အချိန်တွင်မျှ ကလောင်တံ ကိုင်ခဲ့ဘူးသည်လည်း မရှိသည်ကို အားလုံး အသိပင်။ အကယ်၍သာ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် တစ်ဦးတစ်ယောက်ထံတွင် ချဉ်းကပ်၍ အနည်းငယ်စိုးစဉ်းမျှပင် ပညာဆည်းပူးမိခဲ့လျှင်၊ အရေးအဖတ် သင်ကြားမိခဲ့လျှင်၊ စာပေတစ်စုံတစ်ရာကို ရွတ်ဖတ်မိခဲ့လျှင် အပြစ်ရှာလိုသောသူများသည် ယင်းသည့်ကိစ္စကို ယိုးမယ်ဖွဲ့ကာ ကလိမ်စွေငြမ်းဆင်ပြီး (မပြောစကောင်း) (တမန်တော်မြတ်) "မုဟမ္မဒ်သည် အတိတ်ခေတ် ကျမ်းစာများကို ရွတ်ဖတ်၍ မှတ်သားထားခဲ့ဟန်ရှိသည်။ ထိုသည့် မှတ်သားချက်များကိုပင်၊ ယခုမိမိ၏ အသုံးအနှုန်းဖြင့် ပြောင်းလဲသုံးနှုန်းကာ တရားဓမ္မဟောကြားနေဟန်ရှိသည်" စသည်ဖြင့် ဒွိဟသံသယ ဖြစ်လာကြပေမည်။ ယခုမူ ယင်းသို့ ဒွိဟသံသယဖြစ်ရန် အကြောင်းပင် မရှိတော့ပြီ။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် 'အွမ်မီ' ဖြစ်တော်မူခဲ့သည်။ စာမရေးတတ်၊ မဖတ်တတ်၊ သို့ပါလျက် အတိတ်တွင်လည်း ကမ္ဘာနှင့်အဝှန်း မစွမ်းနိုင်ခဲ့သော၊ ယခုပစ္စုပ္ပန်တွင်လည်း မစွမ်းနိုင်သော၊ အနာဂတ်တွင်လည်း အလျှင်းပြုစွမ်းနိုင်မည်မဟုတ်သော ကုရ်အာန်ကျမ်းမြတ်ကို ယူဆောင်လာခဲ့တော်မူခြင်းကို ထောက်ရှုခြင်းအားဖြင့် ကုရ်အာန်ကျမ်းမြတ်သည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ဖန်တီးထားတော်မူသော ကျမ်းမဟုတ်ကြောင်း အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များသာလျှင်ဖြစ်ကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်(၂:၂။ ၂:၂၃-၂၄။ ၁၆:၁၀၃။ ၂၅:၄-၆)တွင် အကျယ်ဖွင့်ဆိုရေးသားခဲ့ပေပြီ။

① ဤအာယတ်တော်တွင် **(အလ္လဇီန အူတွလ်အဇ်လ်မ)** 'အသိပညာ ချီးမြှင့်ခြင်းခံရသော ပုဂ္ဂိုလ်များ'ဟူသည် အဆိုတစ်ရပ်အရ မုဇ်လင်မ်များကို ဆိုလိုသည်။ ဤယူဆချက်အရ 'ကုရ်အာန် ကျမ်းမြတ်သည် ဟာဖစ်ဇ်၊ ➤➤

وَقَالُوْا لَوْلَآ اُنْزِلَ عَلَيْهِ اٰيٰتٌ مِّنْ رَّبِّهٖ ۗ قُلْ اِنَّمَا الْاٰيٰتُ عِنْدَ اللّٰهِ ۗ وَاِنَّمَآ اَنَا نَذِيْرٌ مُّبِيْنٌ ﴿٥٠﴾

၅၀။ ထိုမှတပါး ၎င်းတို့က "အဘယ်ကြောင့် ဤ (တမန်တော်)၏အပေါ်၌ သက်သေလက္ခဏာများ ကျရောက်လာခြင်း မရှိပါသနည်း"ဟု ပြောဆိုကြကုန်၏။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) ပြောကြားပါလေ၊ (အချင်းတို့) သက်သေလက္ခဏာများသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိကုန်၏။ စင်စစ်မှာကား ငါသည် *ထင်ရှားစွာ သတိပေးနှိုးဆော်သူ တစ်ဦးမျှသာ ဖြစ်ပေသည်။* [၁]

اَوَلَمْ يَكْفِهِمْ اَنَّآ اَنْزَلْنَا عَلَيْكَ الْكِتٰبَ يُتْلٰى عَلَيْهِمْ ۗ اِنَّ فِيْ ذٰلِكَ لَرَحْمَةً وَّذِكْرٰى لِقَوْمٍ يُّؤْمِنُوْنَ ﴿٥١﴾

၅၁။ ငါအရှင်မြတ်သည် ၎င်းတို့၏ရှေ့ဝယ်ဖတ်ကြားခြင်းခံရလျက်ရှိသော (ကုရ်အာန်)ကျမ်းမြတ်ကို အသင့်အပေါ်၌ ချပေးသနားတော်မူခဲ့ခြင်းသည်ပင်လျှင် ၎င်းတို့အဖို့ လုံလောက်ပြီမဟုတ်ပါလော။ ဤသည့်(ကျမ်းမြတ်)၌ သက်ဝင်ယုံကြည်သူတို့အဖို့ ကရုဏာတော်သည်လည်းကောင်း၊ အဆုံးအမသည်လည်းကောင်း၊ အမှန်ပင် ရှိပေသည်။ [၂]

---

➤➤ ကာရီ၊ အာလင်မ် အစရှိသည့် မုစ်လင်မ် ပညာရှင်များ၏ ရင်များ၊ နှလုံးသားများတွင် အာယတ်တော်များနှင့်တကွ အနက်အဓိပ္ပာယ် အဖွင့်များပါ တည်ရှိနေသည်'ဟူ၏။ ဤကား အထင်အရှားပင်။ (အတိတ်ခေတ်များတွင် ကောင်းကင်ကျကျမ်းဂန်များကို အာဂုံဆောင်ထားလေ့မရှိခဲ့ပေ။ ကုရ်အာန်ကျမ်းမြတ်ကိုမူ စတင်ကျရောက်သည့်အချိန်မှစ၍ ခေတ်တိုင်းခေတ်တိုင်းတွင် အာဂုံဆောင်ထားသော 'ဟာဖစ်ဇ်'များသည် ထောင်ပေါင်းများစွာ ရှိနေကြသည်။ ယနေ့အဖို့မှာကား မြို့ရွာတိုင်းလိုလိုမှာပင် ဟာဖစ်ဇ်များကို တွေ့ရှိနိုင်ပေသည်။ ကုရ်အာန်ကျမ်းမြတ်ကို ထိန်းသိမ်းထားရန်အတွက် ဟာဖစ်ဇ်များသည်ပင် လုံလောက်ပေသည်။ ယခုမူ ကုရ်အာန်ကို စိတ်နှလုံးသားများအပေါ်တွင်သာမက စက္ကူများပေါ်တွင် ပုံနှိပ်၍တမျိုး၊ အသံဖမ်းစက်ဖြင့် အသံဖမ်း၍တဖုံ၊ နည်းမျိုးစုံဖြင့် ထိန်းသိမ်းထားကြသည်ဖြစ်ရာ ကုရ်အာန်ကျမ်းမြတ်အဖို့ ပျောက်ကွယ်ရန်အကြောင်း အလျဉ်းမရှိတော့ပြီ)။

(၁) အမှန်အားဖြင့် သက်သေလက္ခဏာတော်များသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာရှိသည်။ ထိုအရှင်မြတ်သည် မိမိစေလွှတ်တော်မူသော တမန်တော်မှန်ကန်ကြောင်း ထင်ရှားစေရန်အလို့ငှာ မိမိဆန္ဒတော်အတိုင်း အလိုရှိရာ သက်သေလက္ခဏာတော်ကို ပြသတော်မူသည်။ ကာဖိရ်များ တောင်းဆိုသမျှသော သက်သေလက္ခဏာကိုပင် ပြသရကောင်းစေဟူ၍ တာဝန်လည်းမရှိ၊ တမန်တော်တစ်ပါးအား ယုံကြည်မှုသည် ဤသည့်အချက်ပေါ်၌သာ တည်နေသည်လည်းမဟုတ်။ တမန်တော်၏တာဝန်မှာ မှန်ကန်ပွင့်လင်းစွာ ဟောကြားသတိပေးရန်သာ ဖြစ်ပေသည်။

قُلْ كَفَىٰ بِاللَّهِ بَيْنِي وَبَيْنَكُمْ شَهِيدًا ۖ يَعْلَمُ مَا فِي السَّمَاوَاتِ وَالْأَرْضِ ۗ وَالَّذِينَ آمَنُوا بِالْبَاطِلِ وَكَفَرُوا بِاللَّهِ أُولَٰئِكَ هُمُ الْخَاسِرُونَ ﴿٥٢﴾

၅၂။ (အိုး-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ၊ "(အချင်းတို့) အလ္လာဟ်အရှင်မြတ်သည်ပင်ငါနှင့် အသင်တို့၏အကြား၌ သက်သေအဖြစ် လုံလောက်တော်မူ၏။ ထိုအရှင်မြတ်သည် မိုးကောင်းကင်များ၌ရှိသမျှတို့ကိုလည်းကောင်း၊ ပထဝီမြေ၌ ရှိသမျှတို့ကိုလည်းကောင်း၊ ကောင်းစွာ သိရှိတော်မူ၏။ သို့ရာတွင် အမှားကို ယုံကြည်လက်ခံ၍ အလ္လာဟ်အရှင်မြတ်အား ငြင်းပယ်ကြသော သူတို့မှာမူကား၊ ၎င်းတို့သည်သာလျှင် ဆုံးရှုံးပျက်စီးသူများ ဖြစ်ကြပေသတည်း"။

وَيَسْتَعْجِلُونَكَ بِالْعَذَابِ ۚ وَلَوْلَا أَجَلٌ مُسَمًّى لَجَاءَهُمُ الْعَذَابُ ۚ وَلَيَأْتِيَنَّهُمْ بَغْتَةً وَهُمْ لَا يَشْعُرُونَ ﴿٥٣﴾

၅၃။ (အိုး-နဗီတမန်တော်) ဧကန်စင်စစ် ၎င်းတို့သည် ပြစ်ဒဏ်နှင့်စပ်လျဉ်း၍ အသင့်ထံတွင် အဆောတလျင်တောင်းဆိုကြကုန်၏။ သို့ရာတွင် အကယ်၍သာ ကာလအပိုင်းအခြားတစ်ခုသည် သတ်မှတ်ပြဋ္ဌာန်းပြီး မဖြစ်ခဲ့ပါလျှင် ပြစ်ဒဏ်သည် ၎င်းတို့ထံ မုချ ဆိုက်ရောက်ခဲ့ပြီးဖြစ်ပေမည်။ စင်စစ်သော်ကား ထိုပြစ်ဒဏ်သည် ၎င်းတို့ထံ ရုတ်တရက်မုချ ဆိုက်ရောက်လာမည်ဖြစ်၏။ ၎င်းတို့သည် (အလျှင်း) သိရှိလိုက်ကြမည်ပင်မဟုတ်ပေ။ [၁]

---

(၂) အလ္လာဟ်အရှင်မြတ်သည် တမန်တော် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) အပေါ်သို့ ကုရ်အာန်ကျမ်းမြတ်ကို ချပေးထားတော်မူခဲ့သည်။ ထိုကျမ်းမြတ်သည် နေ့ညမပြတ် ဖတ်ကြားလျက်ရှိသည်။ ယုံကြည်သူများအဖို့ ကုရ်အာန်ကျမ်းမြတ်သည် ကရုဏာလည်းမည်သည်၊ အဆုံးအမလည်း မည်သည်။ ကုရ်အာန်ကျမ်းမြတ်သည် ထာဝစဉ်တည်ရှိနေမည်။ ထာဝစဉ်အကျိုး သက်ရောက်စေမည့် အကြီးဆုံး သက်သေလက္ခဏာတော်တစ်ပါးပင်ဖြစ်သည်။ သက်သေလက္ခဏာ တောင်းဆိုကြသော သူများအဖို့ ဤကုရ်အာန်ကျမ်းမြတ်သည် ကောင်းစွာ လုံလောက်ပေသည်။

(၁) အပြစ်ဒဏ်ကို အလျင်စလို တောင်းဆိုနေကြသော ကာဖိရ်များသည် ပူပင်ကြရန်မလို၊ အရာရာသည် သူ့အချိန်နှင့်သူ ဖြစ်ပေါ်လာသည်သာ။ အချိန်ကျက ပြစ်ဒဏ်သည် ရုတ်တရက် ဆိုက်ရောက်လာပေမည်၊ ထိုအခါ ကာဖိရ်များသည် ပြစ်ဒဏ်အကြောင်း ကောင်းကောင်း သိသွားကြပေမည်။

يَسْتَعْجِلُونَكَ بِالْعَذَابِ ۖ وَإِنَّ جَهَنَّمَ لَمُحِيطَةٌ بِالْكَافِرِينَ ﴿٥٤﴾

၅၄။ ၎င်းတို့သည် အသင့်ထံတွင် ပြစ်ဒဏ်ကို အဆောတလျင် တောင်းဆိုကြကုန်၏။ ၎င်းပြင် ဧကန်မလွဲ 'ဂျဟန္နမ်' ငရဲဘုံသည် 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူတို့အား ဝန်းရံလျက်ပင်ရှိပေသည်။

يَوْمَ يَغْشَاهُمُ الْعَذَابُ مِن فَوْقِهِمْ وَمِن تَحْتِ أَرْجُلِهِمْ وَيَقُولُ ذُوقُوا مَا كُنتُمْ تَعْمَلُونَ ﴿٥٥﴾

၅၅။ အကြင်နေ့တွင် ပြစ်ဒဏ်သည် ထိုသူတို့အား၊ ထိုသူတို့၏အထက်မှလည်းကောင်း၊ ထိုသူတို့၏ ခြေများအောက်မှလည်းကောင်း၊ (အဖက်ဖက်မှ) ဖုံးလွှမ်းဝန်းရံလျက် ရှိချေမည်။ ၎င်းပြင် ထိုအရှင်မြတ်က (၎င်းတို့အား) 'အသင်တို့သည် မိမိတို့ ကျင့်မှုပြုလုပ်လျက် ရှိခဲ့ကြသည့် (ပြစ်မှုဒုစရိုက်)များ၏ အရသာကို မြည်းစမ်းကြကုန်လော့'ဟု မိန့်ကြားတော်မူအံ့သတည်း။

يَا عِبَادِيَ الَّذِينَ آمَنُوا إِنَّ أَرْضِي وَاسِعَةٌ فَإِيَّايَ فَاعْبُدُونِ ﴿٥٦﴾

၅၆။ အို-မုအ်မင်န် သက်ဝင် ယုံကြည်ကြကုန်သော ငါအရှင်မြတ်၏ ကျွန်အပေါင်းတို့၊ ဧကန်စင်စစ် ငါအရှင်မြတ်၏ ကမ္ဘာမြေသည် လွန်စွာကျယ်ဝန်းလှပေသည်။ သို့ဖြစ်ပေရာ အသင်တို့သည် ငါအရှင်မြတ်အားသာ ဆည်းကပ်ကိုးကွယ်ကြလေကုန်။

كُلُّ نَفْسٍ ذَائِقَةُ الْمَوْتِ ۖ ثُمَّ إِلَيْنَا تُرْجَعُونَ ﴿٥٧﴾

၅၇။ သက်ရှိသတ္တဝါတိုင်းသည် 'မရဏ' သေခြင်းတရား၏အရသာကို မြည်းစမ်းကြရမည်သာတည်း။ ထို့နောက် အသင်တို့သည် ငါအရှင်မြတ်အထံတော်သို့ပင် ပြန်လည်ပို့ဆောင်ခြင်းကို ခံကြရပေမည်။ [1]

---

(၁) သာသနာရေး မလွတ်လပ်က တိုင်းပြည်ကိုပင် စွန့်ရမည်သာ။

အကယ်၍ ကာဖိရ်၊ မုရှ်ရစ်က်များ၏ မတရား ဖိနှိပ်ချုပ်ချယ်မှုများကြောင့် မုစ်လင်မ်တို့သည် အစ္စလာမ်သာသနာရေးများကို လွတ်လပ်စွာ မကျင့်သုံးနိုင်ကြလျှင် ယင်းသို့ ဓမ္မန္တရာယ်များပြားသော သာသနာရေးလွတ်လပ်မှုမရှိသောတိုင်းပြည်တွင် နေထိုင်ရန်မလိုပေ။ အလ္လာဟ်အရှင်မြတ်၏ ကမ္ဘာမြေကြီးသည် ကျယ်ဝန်းလှသည်။ တိုင်းတပါးသို့ ရွှေ့ပြောင်းနေထိုင်ပြီးလျှင် သာသနာရေးရာများကို လွတ်လပ်စွာ ကျင့်သုံးကြရပေမည်၊ ➤➤

وَالَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ لَنُبَوِّئَنَّهُمْ مِّنَ الْجَنَّةِ غُرَفًا تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ خٰلِدِيْنَ فِيْهَا ۭ نِعْمَ اَجْرُ الْعٰمِلِيْنَ ۝٥٨

၅၈။ သို့ရာတွင် 'အီမာန်' သက်ဝင်ယုံကြည်ပြီး ကောင်းမြတ်သောအကျင့်သီလများကို ကျင့်မှုဆောက်တည်ကြကုန်သောသူတို့မှာမူကား အမှန်ပင် ငါအရှင်မြတ်သည် ၎င်းတို့အား ဂျန္နတ်သုခဘုံ၌ မြင့်စွင့်လှစွာသော အဆောင်များတွင် နေရာချပေးတော်မူမည်။ ယင်းအဆောင်များ၏အောက်၌ ရေချောင်းများသည် စီးတွေလျက် ရှိကြပေမည်။ (၎င်းတို့သည်) ယင်းအဆောင်များတွင် အမြဲထာဝစဉ် နေထိုင်စံမြန်းကြပေမည်။ ပင်ပန်းကြီးစွာ လုပ်ကိုင်ဆောင်ရွက်ခဲ့ကြသော (သူတော်ကောင်း)တို့၏ အကျိုးကား လွန်စွာကောင်းမြတ်လှပါဘိတကား။

الَّذِيْنَ صَبَرُوْا وَعَلٰي رَبِّهِمْ يَتَوَكَّلُوْنَ ۝٥٩

၅၉။ အကြင်(ပင်ပန်းကြီးစွာ လုပ်ကိုင်ဆောင်ခဲ့ကြ)သူတို့သည် (မုရှ်ရစ်က်တို့၏ နှိပ်စက်ညှဉ်းပန်းခြင်းနှင့် စပ်လျဉ်း၍လည်းကောင်း၊ အစ္စလာမ်သာသနာတော်ထွန်းကားစေခြင်းငှာ မိမိတို့၏ အိုးအိမ် စည်းစိမ်ခပ်သိမ်းတို့ကို စွန့်၍ ထွက်ခွာသွားကြရသည်နှင့် စပ်လျဉ်း၍လည်းကောင်း၊) သည်းခံခြင်းတရား ထားရှိခဲ့ကြကုန်၏။ ထိုမှတပါး ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အပေါ်၌ ယုံပုံလွှဲအပ်ကြကုန်၏။

---

➤➤ တိုင်းတပါးသို့ ရွှေ့ပြောင်းနေထိုင်ကြရသဖြင့် မိမိတို့၏တိုင်းပြည်၊ မိမိတို့၏သားချင်းများ၊ မိတ်ဆွေသင်္ဂဟများ၊ အိုးအိမ်၊ တိုက်တာ ဂေဟာများ၊ ဥစ္စာပစ္စည်းများနှင့် ကင်းကွာကြရသည့်အတွက် သံယောဇဉ်ငြိကာ စိတ်နှလုံး မချမ်းမသာဖြစ်ကြမည်မှာ လူ့သဘာဝပင်။ သို့တစေလည်း ယင်းသည့်အရာများသည် ထာဝစဉ်တည်ရှိနေကြမည့် အရာများမဟုတ်၊ ယင်းသည့်အရာများနှင့် သံယောဇဉ်မဖြတ်လိုသော်လည်း တစ်နေ့မဟုတ်တစ်နေ့ ဖြတ်ရမည်သာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် လူတိုင်းသည် တစ်နေ့ သေကြရမည်သာ၊ မိမိ၏တိုင်းပြည်ကို သာမက ဤကမ္ဘာကိုပင် စွန့်ခွာကြရမည်သာ၊ အလ္လာဟ်အရှင်မြတ်ထံတော်ပါးသို့ ပြန်ကြရမည်သာ၊ သံယောဇဉ်အားလုံး ဖြတ်ကြရမည်သာ။

وَكَأَيِّن مِّن دَابَّةٍ لَّا تَحْمِلُ رِزْقَهَا اللَّهُ يَرْزُقُهَا وَإِيَّاكُمْ ۚ وَهُوَ السَّمِيعُ الْعَلِيمُ ﴿٦٠﴾

၆၀။ စင်စစ်သော်ကား မြောက်မြားစွာသောတိရစ္ဆာန်တို့မှာ မိမိတို့၏စားနပ်ရိက္ခာကို သယ်ပိုးထားကြသည် မဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်သည်ပင် ထိုတိရစ္ဆာန်တို့ကိုလည်းကောင်း၊ အသင်တို့အားလည်းကောင်း၊ စားနပ်ရိက္ခာကို ပေးသနားတော်မူ၏။

စင်စစ်သော်ကား ထိုအရှင်မြတ်သည် အလုံးစုံတို့ကို အကြွင်းမဲ့ကြားတော်မူသော၊ သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَلَئِن سَأَلْتَهُم مَّنْ خَلَقَ السَّمَاوَاتِ وَالْأَرْضَ وَسَخَّرَ الشَّمْسَ وَالْقَمَرَ لَيَقُولُنَّ اللَّهُ ۖ فَأَنَّىٰ يُؤْفَكُونَ ﴿٦١﴾

၆၁။ စင်စစ်သော်ကား အကယ်၍ အသင်သည် ထိုသူတို့အား 'မည်သူသည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ဖန်ဆင်းခဲ့သနည်း၊ ထိုနည်းတူစွာ မည်သူသည် နေကိုလည်းကောင်း၊ လကိုလည်းကောင်း၊ ပိုင်နိုင်စွာ ခိုင်းစေသနည်း' ဟု မေးမြန်းခဲ့ပါလျှင် ၎င်းတို့သည် 'အလ္လာဟ်အရှင်မြတ်' ဟူ၍ပင် ဧကန်မလွဲ ပြောဆိုကြပေမည်။ သို့ပါလျက် ၎င်းတို့သည် (အလ္လာဟ်အရှင်မြတ် တစ်ဆူတည်း ဖြစ်တော်မူကြောင်းကို ယုံကြည်လက်ခံခြင်း မပြုဘဲ) အဘယ်သို့ လှည့်သွားကုန်ကြသနည်း။

اللَّهُ يَبْسُطُ الرِّزْقَ لِمَن يَشَاءُ مِنْ عِبَادِهِ وَيَقْدِرُ لَهُ ۚ إِنَّ اللَّهَ بِكُلِّ شَيْءٍ عَلِيمٌ ﴿٦٢﴾

၆၂။ အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား စားနပ်ရိက္ခာကို ကျယ်ဝန်းစွာ ချီးမြှင့်ပေးသနားတော်မူ၏။ ထိုနည်းတူစွာ ထို အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား တိုင်းထွာ၍ပေးတော်မူ၏။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူလေသည်။

وَلَئِن سَأَلْتَهُم مَّن نَّزَّلَ مِنَ السَّمَاءِ مَاءً فَأَحْيَا بِهِ الْأَرْضَ مِن بَعْدِ مَوْتِهَا لَيَقُولُنَّ اللَّهُ قُلِ الْحَمْدُ لِلَّهِ بَلْ أَكْثَرُهُمْ لَا يَعْقِلُونَ ﴿٦٣﴾

၆၃။ ထိုမှတပါး အကယ်၍ အသင်သည် ၎င်းတို့အား "မည်သူသည် မိုးကောင်းကင်မှမိုးရေကို ရွာသွန်းစေသနည်း၊ တဖန် သေပြီးသော (ဝါ) ခြောက်သွေ့လျက်ရှိပြီးနောက် ပထဝီမြေကို ထိုမိုးမြေဖြင့် မည်သူ ရှင်စေခဲ့သနည်း၊ (ဝါ) စိမ်းလန်းစိုပြေစေခဲ့သနည်း၊" ဟု မေးမြန်းခဲ့ပါလျှင်လည်း ၎င်းတို့သည် "အလ္လာဟ် အရှင်မြတ်" ဟူ၍ပင် ဧကန်မလွဲ ပြောဆိုကြပေမည်။ အို-နဗီတမန်တော် အသင်သည်ပြောပါလေ။ (အချင်းတို့၊) ချီးမွမ်းထောပနာအပေါင်းတို့ကို အလ္လာဟ် အရှင်မြတ်သာလျှင် ခံယူထိုက်တော်မူ၏။ သို့ရာတွင် ၎င်းတို့အနက် အများဆုံးသောသူတို့မှာမူကား အသိဉာဏ်ဖြင့် ဆင်ခြင်သုံးသပ်ကြသည် မဟုတ်ပေ။

وَمَا هَٰذِهِ الْحَيَاةُ الدُّنْيَا إِلَّا لَهْوٌ وَلَعِبٌ ۚ وَإِنَّ الدَّارَ الْآخِرَةَ لَهِيَ الْحَيَوَانُ ۚ لَوْ كَانُوا يَعْلَمُونَ ﴿٦٤﴾

၆၄။ စင်စစ် ဤမျက်မှောက် လောကီဘဝသည် ပျော်မြူးဖွယ်ရာနှင့် ကစားခုန်စားဖွယ်ရာမှတပါး အခြားမဟုတ်ပြီ။ အမှန်မှာ နောင်တမလွန်ဘဝသည် သာလျှင် စစ်မှန်သော အစဉ်ထာဝရရှင်ခြင်း ဖြစ်ပေသည်။ (ဤသည်ကို)၎င်းတို့သိရှိကြလျှင် ကောင်းလေစွတကား၊[၁]

---

(၁) **ပစ္စက္ခနှင့် နောင်တမလွန်ဘဝ။**

ဤပစ္စက္ခဘဝသည် ပျော်ရွှင်မြူးတူးဖွယ်ရာ၊ ကစားဖွယ်ရာမျှသာဖြစ်သည်။ အရိပ်ပမာ သခါ်ရမျှသာ ဖြစ်သည်။ နောင်တမလွန် ဘဝသည်သာလျှင် စစ်မှန်သော၊ ထာဝရ တည်ရှိမည်ဖြစ်သော အဓိကဘဝဖြစ်သည်။ ဤခေတ္တခဏ သခါ်ရမျှသော ပစ္စက္ခဘဝတွင် နစ်မွန်းခြင်းကြီးမက နစ်မွန်း၍ ထာဝရတည်ရှိမည်ဖြစ်သော အဓိကဖြစ်သော နောင်တမလွန်ဘဝကို လျစ်လျူပြုထားခြင်းမှာ အသိဉာဏ်ကင်းမဲ့ခြင်းပင်။

ဤပစ္စက္ခနှင့် နောင်တမလွန်ဘဝ၏ အခြေအနေအမှန်ကို ကောင်းစွာ စဉ်းစားဆင်ခြင် သိမြင်သဘောပေါက်သူများသည် လောကီရေးရာများတွင် နစ်မွန်း၍နေကြမည် မဟုတ်သည်သာမက ဤပစ္စက္ခဘဝမှာပင် နေထိုင်၍ နောင်တမလွန်ဘဝ၏ ကောင်းစားရေးအတွက် ကြိုတင်စိုင်းပြင်းကြပေမည်။ အသင့်ပြင်ဆင်ကြပေမည်။

အကယ်၍ ဤပစ္စက္ခဘဝသည် သာသနာရေးရာများကို လိုက်နာကျင့်သုံးရန် အကြောင်းဖြစ်သွားပါက ဤသည့် ပျော်ရွှင်မြူးတူးဖွယ်ရာမျှ ဖြစ်သည့် လောကီသက်တမ်းသည်ပင် နောင်တမလွန်ဘဝ၏ အစိတ်အပိုင်း ဖြစ်သွားပေ မည်။ အကျိုးဆက်အားဖြင့် ဤပစ္စက္ခဘဝသည်လည်း နောင်တမလွန်ဘဝတွင် အကျုံးဝင်သွားပေမည်။ (ထာနဝီ၊ မာဂျိဒီ) ➢➢

فَإِذَا رَكِبُوا فِي الْفُلْكِ دَعَوُا اللَّهَ مُخْلِصِينَ لَهُ الدِّينَ فَلَمَّا نَجَّاهُمْ إِلَى الْبَرِّ إِذَا هُمْ يُشْرِكُونَ ﴿٦٥﴾

၆၅။ စင်စစ် ၎င်းတို့သည် သင်္ဘော၌ စီးနင်းကြလေသောအခါ အလ္လာဟ်အရှင်မြတ်အားသာလျှင် စေတနာသဒ္ဓါဖြူစင်စွာနှင့် ဟစ်ခေါ်တ,သ ကြကုန်၏။ သို့ရာတွင် ထိုအရှင်မြတ်သည် ၎င်းတို့အား ကယ်တင်၍ ကုန်းမြေသို့ ဆောင်ကြဉ်းတော်မူသောအခါ ၎င်းတို့သည် ရုတ်တရက် ချက်ချင်းပင်လျှင် (အခြားအရာများကို ထိုအရှင်မြတ်နှင့်) တွဲဖက် နိူင်းယှဉ်ကိုးကွယ်ကြကုန်၏။ [၁]

لِيَكْفُرُوا بِمَا آتَيْنَاهُمْ وَلِيَتَمَتَّعُوا فَسَوْفَ يَعْلَمُونَ ﴿٦٦﴾

၆၆။ ၎င်းတို့သည် ငါအရှင်မြတ်မှ ၎င်းတို့အား ချီးမြှင့် ပေးသနားတော်မူခဲ့သော ကျေးဇူးတော်များကို ငြင်းပယ် ကျေးဇူးကန်းကြအံ့သောငှာ (တွဲဖက်ကိုးကွယ်မှုကို ပြုလုပ်ကြကုန်၏)။ သို့ဖြစ်ပေရာ ၎င်းတို့သည် ခေတ္တခဏ အကျိုးခံစားကြပါစေ၊ ထို့နောက်တွင်မူ မကြာမြင့်မီပင် ၎င်းတို့သည် သိရှိကြကုန်အံ့သတည်း။

---

➤➤ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်(၆း၃၂)တွင်လည်းကောင်း၊ ကုရ်အာန်(၆း၇၀)တွင်လည်းကောင်း၊ ကုရ်အာန်(၇း၅၁)တွင် လည်းကောင်း ကြည့်ရှုပါကုန်။

① **<u>ဒုက္ခဖြစ်မှ အလ္လာဟ်,တ။</u>**

လူသားများသည် လောကီရေးရာများတွင်နစ်မွန်း၍ အလ္လာဟ်အရှင်မြတ်အား မမေ့ကြရာ၊ နောင်တမလွန်ဘဝကို လျစ်လျူမပြုကြရာ။ သို့တစေလည်း များသောအားဖြင့် လူသားတို့သည် ဒုက္ခဖြစ်မှသာလျှင် အလ္လာဟ်အရှင်မြတ်အား တ,သကြသည်။ သမုဒ္ဒရာတွင် သင်္ဘောလေမုန်တိုင်းမိ၍ ခိုကိုးရာမဲ့ဖြစ်ကြသောအခါမှ စိတ်စေတနာဖြူစင်စွာဖြင့် တစိတ်တလက်တည်း အလ္လာဟ်အရှင်မြတ်အား တ,သကြပေသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်နှင့် ရေဘေးမှလွတ်မြောက်၍ ကုန်းပေါ်၌ ခြေချမိပြန်သော် 'ခွေးမြီးကောက် ကျည်တောက်စွပ်' ဆိုသောစကားကဲ့သို့ ယခင်အတိုင်းပင် ကျေးဇူးကန်းကြပြန်သည်။ ယှဉ်တွဲကိုးကွယ်ကြပြန်သည်။

ကျေးဇူးကန်းများသည် မိမိတို့၏ စိတ်အလိုလိုက်ကာ လောကီစည်းစိမ်များကို ခေတ္တခဏ စံစားနေနိုင်ကြမည်ဖြစ်သော်လည်း မကြာမီအတွင်း မိမိတို့၏ ကျေးဇူးကန်းမှု၊ သွေဖည်ဆန့်ကျင်မှု၊ ယှဉ်တွဲကိုးကွယ်မှုများ၏အကျိုးသည် အဘယ်မျှဆိုးရွားသည်ကို သိရှိကြရတော့မည် ဖြစ်သည်တည်း။ (အွတ်ဆ်မာနီ)

ဤအကြောင်းနှင့်ဆက်စပ်၍ ကုရ်အာန် (၁၀း၂၁-၂၃) (၁၇း၆၇-၆၉) (၃၀း၃၃-၃၄)တို့ကို ရှုပါကုန်။

أَوَلَمْ يَرَوْا أَنَّا جَعَلْنَا حَرَمًا آمِنًا وَيُتَخَطَّفُ النَّاسُ مِنْ حَوْلِهِمْ أَفَبِالْبَاطِلِ يُؤْمِنُونَ وَبِنِعْمَةِ اللَّهِ يَكْفُرُونَ ﴿٦٧﴾

၆၇။ ကေန်မလွဲ ငါအရှင်မြတ်သည် (၎င်းတို့ နေထိုင်လျက်ရှိကြသောမက္ကာဟ်မြို့တော်ကို) ဘေးရန်ကင်းငြိမ်းသော 'ဟရမ်' ပြုလုပ်တော်မူခဲ့သည်ကို ၎င်းတို့သည် မတွေ့မမြင်ခဲ့ကြလေသလော။ စင်စစ်သော်ကား ၎င်းတို့၏ပတ်ဝန်းကျင်၌ လူတို့သည် လုယက်တိုက်ခိုက် (သတ်ဖြတ်)ခြင်းကို ခံနေခဲ့ကြရကုန်၏။ သို့ပါလျက် ၎င်းတို့သည် အမှားကိုယုံကြည်လက်ခံ၍ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်များကို ငြင်းပယ် ကျေးဇူးကန်းကြလေသလော။ [၁]

وَمَنْ أَظْلَمُ مِمَّنِ افْتَرَىٰ عَلَى اللَّهِ كَذِبًا أَوْ كَذَّبَ بِالْحَقِّ لَمَّا جَاءَهُ أَلَيْسَ فِي جَهَنَّمَ مَثْوًى لِّلْكَافِرِينَ ﴿٦٨﴾

၆၈။ အလ္လာဟ်အရှင်မြတ်အပေါ်၌ မုသားကို လီဆယ်၍စွပ်စွဲသော၊ သို့မဟုတ် မိမိထံ အမှန်တရား ရောက်ရှိလာသောအခါ ယင်းအမှန်တရားကို မဟုတ်မမှန်ဟု စွပ်စွဲငြင်းပယ်သောသူထက် သာလွန်မတရားသောသူကား မည်သူရှိနည်း၊ 'ကာဖိရ်' သွေဖည်ငြင်းပယ်ကြကုန်သောသူတို့၏ နေထိုင်ရာဌာနသည် ဂျဟန္နမ်ငရဲဘုံ၌ပင်ရှိမည် မဟုတ်ပါလော။

---

(၁) မက္ကာမြို့သား ကာဖိရ်မုရှ်ရစ်က်များက အကယ်၍ ကျွန်ုပ်တို့သည် အစ္စလာမ်ကို လက်ခံနာယူကျင့်မူကြပါက ကျန်အရဗ် တမျိုးသားလုံးသည် ကျွန်ုပ်တို့အား ရန်မူကြမည်။ လုယက်တိုက်ခိုက်ကြမည်။ တိုင်းပြည်မှ နှင်ထုတ်ကြမည် စသည်ဖြင့် ဆင်ခြေကန်ခဲ့ကြ၏။ ဤကားမမှန်သော အကြောင်းပြခြင်းသာ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ရှေးဦးမဆွကပင် လုယက်တိုက်ခိုက် သတ်ဖြတ်လျက်ရှိသော ပတ်ဝန်းကျင်၊ ဘေးရန်ခပ်သိမ်း ကင်းငြိမ်းသော 'ဟရမ်' ကျောင်းတော်ပရဝဏ်၌ ထိန်းသိမ်းစောင့်ရှောက်ထားတော်မူခဲ့ပေသည်။ ထိုအရှင်မြတ်သည် ၎င်းတို့အား ကာဖိရ်၊ မုရှ်ရစ်က်ဖြစ်နေခဲ့ ကြစဉ်မှာပင် ထိန်းသိမ်းတော်မူခဲ့ပေရာ အစ္စလာမ်ကို လက်ခံနာယူ ကျင့်မူလာခဲ့ကြသည့် အခါတွင်မူ ပို၍ပင် ထိန်းသိမ်းစောင့်ရှောက်တော်မူမည်မဟုတ်ပါလော၊ အမှန်မှာ ၎င်းတို့သည် ကျေးဇူးရှင်မဟုတ်သော အဘယ်တစ်စုံတစ်ရာကို မပြုစွမ်းနိုင်သော ၎င်းတို့၏ ကိုးကွယ်ရာများကိုသာ ကျေးဇူးဆပ်နေကြပေသည်။ အမှန်တကယ် ကျေးဇူးတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကိုမူ ငြင်းပယ်နေကြပေသည်။

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၂၈း၅၇)ကို လည်းကောင်း၊ (၁၀၆း၁-၄)ကို လည်းကောင်း ရှုပါကုန်။

وَالَّذِينَ جَاهَدُوا فِينَا لَنَهْدِيَنَّهُمْ سُبُلَنَا ۚ وَإِنَّ اللَّهَ لَمَعَ الْمُحْسِنِينَ ۝٦٩

၆၉။ သို့ရာတွင် ငါအရှင်မြတ်၏ လမ်းတော်၌ သက်စွန့်ကြိုးပမ်းဆောင်ရွက်ကြကုန်သောသူတို့မှာ [1] မူကား ငါအရှင်မြတ်သည် မိမိလမ်းများကို ၎င်းတို့အား မချွတ်မလွဲ ပြသတော်မူပေမည်။ ထိုမှတပါး မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် သူတော်ကောင်းတို့နှင့် အတူတကွ အမှန်ပင်ရှိတော်မူပေသတည်း။ [2]

---

(၁) **အလ္လာဟ်၏လမ်း၌ ကြိုးပမ်းက အလ္လာဟ်လမ်းပြမည်။**

အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ကြိုးပမ်းဆောင်ရွက်ကြကုန်သော၊ ဒုက္ခခံကြကုန်သော (မုဂျာဟာဒဟ်) တရားအားထုတ်ကြကုန်သော ပုဂ္ဂိုလ်မွန်တို့အား ထိုအရှင်မြတ်သည် မိမိထံတော်ပါးသို့ ချဉ်းကပ်နိုင်ရန် ထူးခြားလှသည့် ဉာဏ်အလင်းတမျိုးကို ချီးမြှင့်တော်မူသည်။ မိမိနှင့်နီးစပ်မှု၊ မိမိ၏နှစ်သက်မှုနှင့် ဂျန္နတ်၏ လမ်းများကို မြင်စေတော်မူသည်။ ထိုအရှင်မြတ်၏ လမ်းတော်၌ (မုဂျာဟာဒဟ်) တရားအားထုတ်သည်နှင့်အမျှ ထိုဉာဏ်အလင်းသည် ပို၍ပို၍ ပွင့်လင်းလာပေသည်။ ထိုသည့်ဉာဏ်အလင်း ပွင့်လင်းလာသည်နှင့်အမျှ ထိုပုဂ္ဂိုလ်မွန်တို့သည် နက်နဲသိမ်မွေ့လှသော အမှန်တရားများကို သိရှိလာကြပေသည်။ သူတပါးတို့ မတွေးမိသော အရာများကိုပင် မျက်ဝါးထင်ထင် တွေ့မြင်လာကြပေသည်။ (အွတ်ဆ်မာနီ)

(၂) 'မုချဧကန် အလ္လာဟ်အရှင်မြတ်သည် သူတော်ကောင်းများနှင့် အတူတကွရှိတော်မူသည်' ဟူသည် 'ထိုအရှင်မြတ်သည် သူတော်ကောင်းတို့အား ကာကွယ်ထိန်းသိမ်း စောင့်ရှောက်ကူညီတော် မူသည်'ဟူ၏။

(ကြည့်-အွတ်ဆ်မာနီ။ ရူဟ်၊ အဗူစုအူဒ်)။

မရ်ယမ်သခင်မ၏ သားတော် တမန်တော်အီစာက (ထိုသခင့်အပေါ်၌ ကောင်းချီးချမ်းသာအဖြာဖြာ သက်ရောက်ပါစေ) မိန့်ကြားတော်မူခဲ့သည်မှာ 'အီဟ်စာန်' ဟူသည် မိမိအား မကောင်းပြုသူအပေါ်၌ အကောင်းပြုခြင်းသာဖြစ်သည်။ မိမိအား အကောင်းပြုသူအပေါ်၌ အကောင်းပြုခြင်းသည် 'အီဟ်စာန်' မဟုတ်ချေ။

(အီဗ်နူကဆီရ်)၊ အ-၃။ စ-၄၂၂။

# ရောမနိုင်ငံကဏ္ဍ



ဤကဏ္ဍသည် "အလ်ရူမ်" ရောမနိုင်ငံအကြောင်း ပါဝင်သော ကဏ္ဍဖြစ်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် (အာယတ်)တော် (၆၀)ပါး၊ (ရကူအ်)အပိုဒ် (၆)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော
အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

الٓمّٓ ۝١

၁။ အလစ်ဖ်၊ လာမ်၊ မီမ်။

غُلِبَتِ الرُّوْمُ ۝٢

၂။ ရောမနိုင်ငံသားတို့သည် (စစ်ရေး)ရှုံးနိမ့်ကြရချေပြီ။ [၁]

فِيْٓ اَدْنَى الْاَرْضِ وَهُمْ مِّنْۢ بَعْدِ غَلَبِهِمْ سَيَغْلِبُوْنَ ۝٣

၃။ (အရှေ့ဗျတိုင်းပြည်နှင့်)နီးကပ် ဆက်စပ်လျက်ရှိသောတိုင်းပြည်တွင်၊ သို့ရာတွင် ၎င်းတို့သည် မိမိတို့ ယခု(စစ်ရေး)ရှုံးနိမ့်ကြရပြီးနောက် မကြာမြင့်မီပင် ၎င်းတို့သည် အောင်နိုင်ကြပေမည်။

---

(၁) **ရောမနိုင်ငံသားတို့နှင့်ပတ်သက်၍ ကြိုတင်ဟောကြားချက်။**

ဤအာယတ်တော်တွင် ပါရှိသော 'ရူမ်'ဟူသည် ရှေးဟောင်းရောမနိုင်ငံ၏ အရှေ့ပိုင်းကိုဆိုလိုသည်။ ထိုအပိုင်းသည် ခရစ်သက္ကရာဇ်(၃၉၅)ခုနှစ်တွင် ရောမနိုင်ငံပြည်မကြီးနှင့် ကွဲကွာပြီး သီးသန့်နိုင်ငံတစ်ခု ဖြစ်သွားခဲ့ပေသည်။ ဤနိုင်ငံသည် ခရစ်သက္ကရာဇ် (၁၄၅၄)ခုနှစ်တိုင် နဆ္ဆရာနီဘာသာဝင်တို့၏ စိုးမိုးအုပ်ချုပ်မှုအောက်တွင် တည်ရှိနေခဲ့ပေသည်။ ထို့နောက်တူရ်ကီနိုင်ငံ၏ လက်အောက်သို့ ရောက်ရှိသွားခဲ့ပေသည်။ ဤနိုင်ငံ၏မြို့တော်မှာ (ရှေးအမည်)ကွတ်စတွန်တီနီယဟ် (ယခုအမည်) အစ္စတန်ဗူလ် ဖြစ်ပေသည်။ ဤနိုင်ငံ၏ရှေးအမည်မှာ 'ရောမသစ်' ဟူ၍လည်း ဖြစ်ခဲ့ပေသည်။ ဆီးရီးယားပြည်၊ ပယ်လက်စ်တိုင်းနှင့် (အာရှမိုင်းနားပြည်များ)သည် ဤနိုင်ငံတွင် အကျုံးဝင်ခဲ့ကြပေသည်။

ဤအာယတ်တော်တွင် ပါရှိသော "ဖီးအဒ်နလ်အရ်ဿ္မိ"တိုင်းပြည်အနီးတွင်ဟူသည့် အဆိုတစ်ရပ်အရ အာရေဗျတိုင်းပြည်နှင့် ဆက်စပ်လျက်ရှိသော ပြည်နယ်များ (ဝါ) ဆီးရီးယားပြည်၊ ပယ်လက်စ်တိုင်း ပြည်နယ်များကို ဆိုလိုသည်။ ➤➤

➤➤ ဤအာယတ်တော် ကျရောက်ခဲ့သည့်ခုနှစ်မှာ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ဟိဂျ်ရတ်ပြုတော်မမူမီ(၆)နှစ်သို့မဟုတ်(၇)နှစ်၊ (ဝါ) ခရစ်သက္ကရာဇ်(၆၁၅)၊ သို့မဟုတ်(၆၁၆)နှင့် လုံးဝ ဆက်စပ်လျက်ရှိသည့် ခုနှစ် (ဝါ) ခရစ်သက္ကရာဇ် (၆၁၄)ခုနှစ်ဖြစ်သည်။ အဆိုပါခုနှစ်တွင် ရောမနိုင်ငံသား အဟ်လိကိတာဗ် နာဆွဲရာနီဘာသာဝင်များသည် အီရာန် (ပါရှား) နိုင်ငံသား မဂျူစီများနှင့် စစ်ဖြစ်ရာတွင် မရှုမလှ စစ်ရေးရှုံးနိမ့်ခဲ့ကြရပေသည်။ ဤအာယတ်တော်တွင် ယင်းသည့် ဖြစ်ရပ်ကိုပင် ရည်ညွှန်းထားတော်မူသည်။

ကြည့်-မာဂျိဒီ၊(အုရ်ဒူ) အ-၅။ စ-၈၁၄။ အအ-၂။

ထိုခေတ်ထိုအခါတွင် ပါရှားနိုင်ငံနှင့် ရောမနိုင်ငံဟူ၍ အားအင်ကြီးမားသော နိုင်ငံကြီးနှစ်ခု ရှိခဲ့ပေသည်။ ထိုနိုင်ငံကြီး၂ခုသည် အချင်းချင်းမသင့်မြတ်ခဲ့ပေ။ ထိုနိုင်ငံကြီး၂ခုသည်(Encyclopaedia Britannica) တွင် ဖော်ပြပါရှိသည့်အတိုင်း ခရစ်သက္ကရာဇ် (၆၀၂)မှ(၆၁၄)အထိ အချင်းချင်း အကြီးအကျယ် တိုက်ခိုက်လျက် ရှိခဲ့ကြပေသည်။

ခရစ်သက္ကရာဇ် (၅၇၀)တွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့သည်။ ခရစ်သက္ကရာဇ်(၆၁၀)တွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်)သည် တမန်တော်ဂုဏ်ထူးဖြင့် ချီးမြှင့်တော်မူခြင်း ခံခဲ့ရပေသည်။ ရောမနိုင်ငံနှင့် ပါရှားနိုင်ငံတို့စပ်ကြား ဖြစ်ပွားနေသည့် စစ်ပွဲ၏သတင်းများသည် မက္ကာမြို့သားများထံသို့ ရောက်ရှိနေခဲ့ပေသည်။ ထိုသည့်အချိန်ပိုင်းအတွင်းမှာပင် မိမိတမန်တော်ဖြစ်ကြောင်း တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်)၏ ကြေညာမှုနှင့် အစ္စလာမ်၏ လှုပ်ရှားမှုများသည် မက္ကာမြို့သားများအဖို့ အဆိုပါစစ်သတင်းများတွင် ပိုမို၍ပင် စိတ်ဝင်စားဖွယ်ရာ ဖြစ်စေခဲ့လေသည်။

ပါရှားနိုင်ငံသား မဂျူစီများသည် မီးကိုးကွယ်ခဲ့ကြသည်။ ထို့အတွက် မက္ကာမြို့သား ကာဖိရ်များသည် ပါရှားနိုင်ငံသား မဂျူစီများကို ဘာသာအယူဝါဒအားဖြင့် မိမိတို့နှင့်နီးစပ်သည်ဟု ယူဆခဲ့ကြပေသည်။ ရောမနိုင်ငံသားများသည် နဆွဲရာနီများဖြစ်ခဲ့ကြပေသည်။ နဆွဲရာနီများသည် 'အဟ်လိကိတာဗ်' ကျမ်းဂန်ရသူများ ဖြစ်ခဲ့ကြပေသည်။ ထို့အတွက် မုစ်လင်မ်များသည် ရောမနိုင်ငံသား နဆွဲရာနီများကို ဘာသာအယူဝါဒအားဖြင့် မိမိတို့နှင့် နီးစပ်သည်ဟု ယူဆခဲ့ကြပေသည်။ သို့ယူဆကြသည့်အလျောက် မက္ကာမြို့သားကာဖိရ်များသည် ပါရှားနိုင်ငံသားများ၏ စစ်ရေးသာမှုကို လိုလားခဲ့ကြပေသည်။ မုစ်လင်မ်များကမူ ရောမနိုင်ငံသားများ၏ စစ်ရေးသာမှုကို လိုလားခဲ့ကြပေသည်။

ပါရှားနိုင်ငံက စစ်ရေးသာသည့်သတင်းကို ကြားရသောအခါ မက္ကာမြို့သားကာဖိရ်များသည် ဝမ်းသာခဲ့ကြပေသည်။ ဤသည့်အချက်ကိုပင် မက္ကာမြို့သားကာဖိရ်များက ၎င်းတို့အဖို့ မုစ်လင်မ်များနှင့် ပြိုင်ဆိုင်တိုက်ခိုက်ရာတွင် အောင်ရိပ်အောင်နိမိတ်ဖြစ်သည်ဟူ၍ နိမိတ်ကောက်ခဲ့ကြပေသည်။ မုစ်လင်မ်တို့သည် မိမိတို့နှင့်ဘာသာအယူဝါဒ နီးစပ်သော ရောမနိုင်ငံသား နဆွဲရာနီများ စစ်ရေးရှုံးနိမ့်ရသည့်အတွက် စိတ်မချမ်းမသာ ဖြစ်၍ နေခဲ့ကြလေသည်။ ထို့ပြင်တဝ မက္ကာမြို့သား ကာဖိရ်များ၏ စကားနာထိုးမှုများကိုလည်း ကြားနေခဲ့ကြရသည့်အတွက် ပို၍ပင် စိတ်ထိခိုက်နေခဲ့ကြလေသည်။

နောက်ဆုံး ခရစ်သက္ကရာဇ်(၆၁၄)ခုနှစ်တွင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစ္စလ္လမ်) မီးရှူးသန့်စင် ဖွားမြင်တော်မူပြီးနောက် စန္ဒာမာသလ ထွက်ပေါ်ခြင်းဖြင့် ပိုင်းခြားသတ်မှတ်သော ခုနှစ်တွက်ချက်နည်းအရ (၄၅)နှစ်ခန့်တွင် (ဝါ) တမန်တော်မြတ်(ဆွာလ္လလ္လဟု အလိုင်ဟိဝစ္စလ္လမ်)သည် တမန်တော်ဂုဏ်ထူးဖြင့် ချီးမြှင့်တော်မူခြင်း ခံရပြီးနောက် (၅)နှစ်ခန့်တွင် ဒုတိယမြောက် ပါရှားဘုရင် ခွတ်ရို(Chosroes) လက်ထက်၌ ➤➤

➤➤ ပါရှားနိုင်ငံသည် ရောမနိုင်ငံကို တိုက်ခိုက်၍ အပြတ်အသတ် ချေမှုန်းခဲ့လေသည်။

ရောမနိုင်ငံ၏ လက်အောက်နိုင်ငံများဖြစ်သည့် ဆီးရီးယား၊ အီဂျစ်၊ အာရှမိုင်းနားစသည့် နိုင်ငံများကိုလည်း သိမ်းပိုက်နိုင်ခဲ့လေသည်။ များစွာသော နဆ္စရာနီ ဘုန်းကြီးများကိုလည်း သတ်ပစ်ခဲ့လေသည်။ ယေရုရှလင်မြို့ရှိ နဆ္စရာနီတို့ အမြတ်တနိုးထားသော လက်ဝါးကပ်တိုင်ကိုလည်း ပါရှားစစ်သည်များသည် သိမ်းယူသွားခဲ့ကြလေသည်။ ရောမဘုရင် ဟိရတ်က်လတ်စ် **(Heraclius)**သည်ပင် ကွတ်စ်တွန်တူနီယာသို့ တိမ်းရှောင်နေခဲ့ရလေသည်။ ရောမနိုင်ငံမြို့တော်သည်ပင် စိုးရိမ်နေခဲ့ရလေသည်။ ရောမဘုရင်၏ တန်ခိုးအာဏာသည် လုံးဝမှေးမှိန်ပျောက်ကွယ်သွားခဲ့လေသည်။ အမြင်အားဖြင့် ရောမနိုင်ငံရပ်တည်၍ ပါရှားနိုင်ငံ၏ ကြီးစိုးမှုအောက်မှ လွတ်မြောက်နိုင်ရန် အကြောင်းပင် အလျှင်းမရှိတော့ပေ။

ဤသည့်အချင်းအရာများကို တွေ့မြင်ရသောအခါ မက္ကာမြို့သား ကာဖိရ်များသည် ဝမ်းသာမဆုံးဖြစ်ခဲ့ကြလေသည်။ အားတက်လာခဲ့ကြပေသည်။ မုစ်လင်မ်တို့အား အမျိုးမျိုး ရန်စလာခဲ့ကြပေသည်။ အမျိုးမျိုးစကားနာ ထိုးလာခဲ့ကြပေသည်။ အချို့ကာဖိရ်များက အတင့်ရဲကာ သာဝကကြီး အဗူဗတ်က်ရ် (ရဒိယလ္လာဟုတအာလာအန်ဟု)အား "ယနေ့ ငါတို့၏နောင်တော်များဖြစ်သော ပါရှားနိုင်ငံသားများသည် အသင်တို့၏နောင်တော်များဖြစ်သော ရောမနိုင်ငံသားများကို ချေမှုန်းလိုက်ကြပြီ။ ထို့အတူ နက်ဖြန် ငါတို့လည်း အသင်တို့အားချေမှုန်းပစ်ကြမည်" ဟူ၍ပင် ပြောဆိုလာခဲ့ကြပေသည်။ ထိုအချိန်မျိုးတွင်ပင် ကုရ်အာန်ကျမ်းမြတ်ကမျက်မှောက်ဖြစ်ပေါ်နေသော အကြောင်းတရားများနှင့် အခြေအနေများကို လုံးဝဆန့်ကျင်ကာ "ယခုမူ ရောမနိုင်ငံသားများ စစ်ရေးရှုံးနိမ့်ကြရပြီ၊ သို့ရာတွင် (၉)နှစ်အတွင်းမှာပင် ရောမနိုင်ငံသားများသည် ပြန်လည်အောင်နိုင်ကြရမည်။ တချိန်တည်းမှာပင် မုစ်လင်မ်တို့သည်လည်း စစ်ရေးသာ၍ ဝမ်းသာကြရမည် ဖြစ်သည်"ဟုအတည့်အလင်း ကြေညာလိုက်လေသည်။

ထိုအခါ သာဝကကြီး အဗူဗက္ကရ်ဆိဒ္ဒိက် (ရဒိယလ္လာဟု တအာလာအန်ဟု)သည် ကုရ်အာန်ကျမ်းမြတ်၏ အဆိုပါ ကြိုတင်ဟောကြားချက်ကို အကြောင်းပြု၍ မက္ကာမြို့သားအချို့ ကာဖိရ်အကြီးအကဲများနှင့်စာချုပ်ချုပ်ဆိုခဲ့သည်မှာ "အကယ်၍ (၉) နှစ်အတွင်း ရောမနိုင်ငံက ပြန်လည်မအောင်နိုင်ကြလျှင် ကျွန်ုပ်သည်အသင်တို့အား ကုလားအုတ် (၁၀၀)ပေးမည်။ ရောမနိုင်ငံသားများက ပြန်လည်အောင်နိုင်ကြလျှင် အသင်တို့သည်ကျွန်ုပ်အား ကုလားအုတ် (၁၀၀) ပေးကြရမည်" ဟူ၍ဖြစ်သည်။ (ထိုအချိန်တွင် ယင်းသို့) စာချုပ်ချုပ်ဆိုခြင်းကိုပိတ်ပင်တားမြစ်ခြင်း မရှိခဲ့သေးပေ။

ယင်းသို့ ဖြစ်ပျက်ပြီးနောက် မကြာမီအတွင်းမှာပင် စစ်ရေးရှုံးနိမ့်သွားခဲ့သော ရောမဘုရင်ဟိရတ်က်လတ်စ်သည် မိမိဆုံးရှုံးခဲ့ရသော အာဏာကို ပြန်လည်ရယူရန် သန္နိဋ္ဌာန်ချပြီး "အကယ်၍ အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးအား ပါရှားနိုင်ငံအပေါ်၌ အောင်နိုင်မှုပေးတော်မူပါက ကျွန်တော်မျိုးသည်'ဟိမ်ဆ္ဆ' မှ ဧလိယာ (ဗိုင်တုလ်မုကဒ္ဒါစ်)သို့ ခြေကျင်လမ်းလျှောက်သွားပါမည်ဟု (မန္နတ်)ကိုးလိုက်လေသည်။

အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ကုရ်အာန်ကျမ်းမြတ်၏ ကြိုတင်ဟောကြားချက်အတိုင်း(၉)နှစ်အတွင်း [တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစ္စလမ်) ဟိဂျိရတ်ပြုလုပ်ပြီး တစ်နှစ် ကျော်သောအခါ] ဗဒ်ရ်စစ်ပွဲ ဖြစ်ပွားသည့်နေ့မှာပင် မုစ်လင်မ်တို့သည် ဗဒ်ရ်စစ်ပွဲတွင် စစ်ရေးသာ၍ အောင်လံလွှင့်ထူနေကြစဉ်၊ ရောမနိုင်ငံသား အဟ်လိကိတာဗ်များသည် ပါရှားနိုင်ငံသား မဂျူစီများအား ပြန်လည်အောင်နိုင် လိုက်ကြပြီဖြစ်ကြောင်း သတင်းကောင်းကို ကြားလိုက်ကြရပြန်ရာ အပျော်ပေါ် အပျော်ထပ်ကာ ဝမ်းသာမဆုံး ဖြစ်သွားခဲ့ကြပေသည်။ မက္ကာမြို့သား ကာဖိရ်များမှာမူကား ၎င်းတို့ကိုယ်တိုင် စစ်ရေးရှုံးနိမ့်ကြရသည်သာမက ၎င်းတို့၏ ➤➤

فِي بِضْعِ سِنِينَ ۗ لِلَّهِ الْأَمْرُ مِن قَبْلُ وَمِن بَعْدُ ۚ وَيَوْمَئِذٍ يَفْرَحُ الْمُؤْمِنُونَ ﴿٤﴾

၄။ နှစ်ကာလအနည်းငယ်တွင် အမိန့်အာဏာ ဟူသည် ယခင်ကလည်း အလ္လာဟ်အရှင်မြတ်၌သာ ရှိခဲ့ပေသည်။ ² နောင်တွင်လည်း (ထိုအရှင်မြတ်၌သာ ရှိနေပေမည်။) ထိုနေ့တွင် "မုအ်မင်န်" သက်ဝင် ယုံကြည်သောသူတို့သည် ဝမ်းမြောက်ကြပေမည်။

بِنَصْرِ اللَّهِ ۚ يَنصُرُ مَن يَشَاءُ ۖ وَهُوَ الْعَزِيزُ الرَّحِيمُ ﴿٥﴾

၅။ အလ္လာဟ်အရှင်မြတ်၏ ကူညီမှုကြောင့် ထို အရှင်မြတ်သည် မိမိ အလိုရှိတော်မူသော သူအား အောင်နိုင်စေတော်မူ၏။ စင်စစ်မှာမူကား ထိုအရှင်မြတ် သည် အလွန်တရာ လွှမ်းမိုးတော်မူသော၊ အလွန်တရာ သနားကြင်နာတော်မူသော အရှင်မြတ်ပင် ဖြစ်တော် မူ၏။

---

➤➤မိတ်ဆွေများဖြစ်သော ပါရှားနိုင်ငံသားများလည်း စစ်ရေးရှုံးနိမ့်ကြရသည်ဖြစ်ရာ အပူပေါ်အပူထပ်ကာ ကြေကွဲခြင်းကြီးမက ကြေကွဲခဲ့ကြရလေသည်။ ဤကား ကုရ်အာန်ကျမ်းမြတ်၏ မှန်ကန်တိကျပြတ်သားလှသည့် အံ့မဆုံးသော ကြိုတင်ဟောကြားချက်တစ်ရပ်ပင်။

ဤသည့် ကြိုတင်ဟောကြားချက်၏ မှန်ကန်မှုကို အထင်အရှား တွေ့မြင်ကြရသောအခါ များစွာသော ပုဂ္ဂိုလ်များသည် အစ္စလာမ်ကို လက်ခံလာခဲ့ကြပေသည်။ သာဝကကြီး အဗူဗတ်က်ရ် (ရဒိယ ့ယလ္လာ ဟိုတအာလာ အန်ဟု)သည်လည်း မက္ကာမြို့သား အချို့ကာဖိရ်များထံမှ ချုပ်ဆိုထားခဲ့သောစာချုပ်အရ၊ ကုလားအုတ် (၁၀၀)ကို ရယူခဲ့လေသည်။ ထို့နောက် တမန်တော်မြတ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ညွှန်ကြားချက်အရ အဆိုပါ ကုလားအုတ်များကို လှူဒါန်းလိုက်လေသည်။

(၁) အလ္လာဟ်အရှင်မြတ်သည် ဉာဏ်တော်အနန္တ၊ တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသည်။ ထိုအရှင်မြတ်သည် တဆူတည်းဖြစ်တော်မူသည်။ ထိုအရှင်မြတ်၌ ဂုဏ်ရည်တူဟူ၍ အလျှင်းမရှိ။ ထိုအရှင်မြတ်သည် တောင့်တမှု၊ ကြောင့်ကြမှု၊ ချုပ်ချယ်မှုတို့နှင့် လုံးဝကင်းစင်တော်မူသည်။ စကြာဝဠာအဝန်းကို မိမိအလိုတော်အတိုင်း စီမံခန့်ခွဲတော်မူသည်။ ခြယ်လှယ်တော်မူသည်။ စကြာဝဠာခပ်သိမ်း၌ ဖြစ်ပျက်ပြောင်းလဲမှုအားလုံးသည် ထိုအရှင်မြတ်၏ အလိုတော်အတိုင်းသာလျှင် ဖြစ်နေပေသည်။

အောင်နိုင်မှု ရှုံးနိမ့်မှုတို့၏ မူရင်းအကြောင်းတရား များသည်လည်း ထိုအရှင်မြတ်၏ လက်တော်တွင်း၌ သာလျှင် ရှိပေသည်။ ထိုအရှင်မြတ်သည် မိမိအလိုတော်အတိုင်း အနိုင်ပေးလိုသူအား အနိုင်ပေးတော်မူသည်။ အရှုံးပေးလိုသူအား၊ အရှုံးပေးတော်မူသည်။ ပထမ ပါရှားနိုင်ငံ၏ စစ်ရေးသာမှု၊ ထို့နောက် ရောမနိုင်ငံ၏ ပြန်လည်စစ်ရေးသာမှုတို့သည်လည်း ထိုအရှင်မြတ်၏ အလိုတော်အတိုင်းသာလျှင် ဖြစ်ချေသည်။ သို့ပါသော်လည်း များစွာသော လူသားတို့သည် ဤသည့်သဘောတရားကို မသိနားမလည်ကြပေ။ ကြည့်-ကုရ်အာန် (၃း၁၃၉)။

وَعۡدَ اللّٰهِ ۖ لَا يُخۡلِفُ اللّٰهُ وَعۡدَهٗ وَلٰكِنَّ اَكۡثَرَ النَّاسِ لَا يَعۡلَمُوۡنَ ⑥

၆။ (ဤသည်) အလ္လာဟ်အရှင်မြတ်၏ ကတိပင်၊ အလ္လာဟ်အရှင်မြတ်သည် မိမိထားရှိတော်မူသော ကတိကို ဖောက်ဖျက်တော်မူသည် မဟုတ်ပေ၊ သို့ရာတွင် အများဆုံးသော သူတို့မှာမူကား မသိကြပေ။

يَعۡلَمُوۡنَ ظَاهِرًا مِّنَ الۡحَيٰوةِ الدُّنۡيَا ۖۚ وَهُمۡ عَنِ الۡاٰخِرَةِ هُمۡ غٰفِلُوۡنَ ⑦

၇။ ၎င်းတို့သည် လောကီဘဝ၏ အပေါ်ယံပုံပန်းကိုသာ သိရှိကြကုန်၏။ သို့ရာတွင် နောင်တမလွန်ဘဝကိုမူကား ၎င်းတို့သည် (လုံးဝ) မသိကြသူများသာလျှင် ဖြစ်ကြကုန်သတည်း။

اَوَلَمۡ يَتَفَكَّرُوۡا فِىۡۤ اَنۡفُسِهِمۡ ۗ مَا خَلَقَ اللّٰهُ السَّمٰوٰتِ وَالۡاَرۡضَ وَمَا بَيۡنَهُمَاۤ اِلَّا بِالۡحَـقِّ وَاَجَلٍ مُّسَمًّى ؕ وَاِنَّ كَثِيۡرًا مِّنَ النَّاسِ بِلِقَآئِ رَبِّهِمۡ لَكٰفِرُوۡنَ ⑧

၈။ ၎င်းတို့သည် မိမိတို့၏ စိတ်နှလုံးများတွင် မစဉ်းစားခဲ့ကြလေသလော။ အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ထို(မိုးကောင်းကင်များနှင့်ပထဝီမြေ) နှစ်ခုအကြား၌ ရှိသမျှတို့ကိုလည်းကောင်း၊ တိကျမှန်ကန်သောကျိုးကြောင်းနှင့်သာဖန်ဆင်းတော်မူခဲ့၏။ သို့တစေလည်း များစွာသောသူတို့မှာမူကား မိမိတို့အား ဖန်ဆင်းတော်မူသောအရှင်မြတ်နှင့် တွေ့ဆုံကြရမည်ကို *အမှန်ပင် ငြင်းပယ်သူများသာဖြစ်ကြကုန်၏။* [၁]

---

(၁) <u>ဤစကြာဝဠာကြီးသည်လည်း တနေ့ဆိတ်သုဉ်းသွားမည်သာ။</u>

အလ္လာဟ်အရှင်မြတ်သည် ဤစကြာဝဠာကြီးကို ရည်ရွယ်ချက်မရှိ၊ အချိန်အကန့်အသတ်မရှိ၊ အကျိုးမဲ့ အကြောင်းမဲ့၊ အချည်းနှီး ဖန်ဆင်းထားတော် မူသည်မဟုတ်။ ဤစကြာဝဠာကြီးကို ဖန်ဆင်းတော်မူရာ၌လည်း ရည်ရွယ်ချက်ရှိသည်။ အချိန်အကန့်အသတ်လည်း ရှိသည်။ အကြောင်းနှင့် အကျိုးလည်းရှိသည်။ ထိုအရှင်မြတ် ဖန်ဆင်းထားတော်မူသော အရာများတွင် အကျိုးမဲ့၊ အကြောင်းမဲ့၊ အချည်းနှီးဟူ၍ တစ်စုံတစ်ရာမျှမရှိပေ။

စဉ်းစားဆင်ခြင်အပ်သည်မှာ ဤစကြာဝဠာကြီးသည် တစ်စုံတစ်ရာ ပြောင်းလဲမှုမရှိပဲ အမြဲထာဝရ ရပ်တည်နေသည်မဟုတ်၊ အခြားအရာများနည်းတူ ပြောင်းလဲလျက်ရှိပေသည်။ ဤသည့် ပြောင်းလဲမှုများကို စဉ်းစားဆင်ခြင်ပါက ပြောင်းလဲလျက်ရှိသော အရာအသီးသီးတို့သည် ၎င်းတို့၏သက်တမ်း ကုန်ဆုံးသည့်အခါ ဆိတ်သုဉ်းသွားသကဲ့သို့ ဤစကြာဝဠာကြီးသည်လည်း ၎င်းအဖို့ သတ်မှတ်ထားတော်မူသည့် သက်တမ်းကုန်ဆုံးသွားသည့်အခါ ဆိတ်သုဉ်းသွားမည် ဖြစ်သည်ကို နားလည်သဘောပေါက်နိုင်ပေသည်။ (လူသားများသည် မိမိတို့၏ဘဝ၊ ဖြစ်စဉ်ကိုပင် စဉ်းစားဆင်ခြင်ပါက ဤသည့်သဘောကို ကောင်းစွာနားလည်နိုင် ကြပေသည်၊) သို့ ဆိတ်သုဉ်းသွားသည့်အခါ ဤစကြာဝဠာကြီး၏ အကျိုးဆက်ဖြစ်သော ဒုတိယကမ္ဘာ (ဝါ) နောင်တမလွန်▶▶

أَوَلَمْ يَسِيرُوا فِي الْأَرْضِ فَيَنظُرُوا كَيْفَ كَانَ عَاقِبَةُ الَّذِينَ مِن قَبْلِهِمْ ۚ كَانُوا أَشَدَّ مِنْهُمْ قُوَّةً وَأَثَارُوا الْأَرْضَ وَعَمَرُوهَا أَكْثَرَ مِمَّا عَمَرُوهَا وَجَاءَتْهُمْ رُسُلُهُم بِالْبَيِّنَاتِ ۖ فَمَا كَانَ اللَّهُ لِيَظْلِمَهُمْ وَلَٰكِن كَانُوا أَنفُسَهُمْ يَظْلِمُونَ ⑨

၉။ ၎င်းတို့သည် ကမ္ဘာမြေဝယ် လှည့်လည် သွားလာခြင်း မပြုခဲ့ကြလေသလော၊ သို့လှည့်လည်သွားလာကြလျှင်၊ ၎င်းတို့သည် မိမိတို့အလျင်ရှိခဲ့ကြသော ရှေးလူဟောင်းတို့၏ နောက်ဆုံးအကျိုးသည် မည်သို့မည်ပုံ ဖြစ်ခဲ့သည်ကို တွေ့မြင်ကြပေမည်။

ထိုရှေးလူဟောင်းတို့သည် ၎င်းတို့ထက် ခွန်အားဗလ ကြီးမားတောင့်တင်းသူများဖြစ်ခဲ့ကြသည့်ပြင် ၎င်းတို့သည် မြေကို ဤသူများ စည်ပင်သာယာအောင် ပြုလုပ်ကြသည်ထက် အလွန်များပြားစွာ ပိုမိုထွန်ယက်စိုက်ပျိုး၍ စည်ပင်သာယာအောင် ပြုလုပ်ခဲ့ကြကုန်၏။ ထိုမှတပါး ၎င်းတို့ထံသို့(လည်း) ၎င်းတို့၏ ရစူလ်တမန်တော်များသည် ထင်ရှားလှစွာသော သက်သေလက္ခဏာ တန်ခိုးပြဗ္ဗိဟာများနှင့်တကွ ရောက်ရှိလာခဲ့ကြကုန်၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား မတရား နှိပ်စက်ညှဉ်းဆဲတော်မူခဲ့သည် မဟုတ်ပေ။ သို့ရာတွင် ၎င်းတို့ကိုယ်တိုင် မိမိတို့ကိုယ်ကို မတရား နှိပ်စက်ညှဉ်းပမ်းခဲ့ကြပေသည်။

ثُمَّ كَانَ عَاقِبَةَ الَّذِينَ أَسَاءُوا السُّوأَىٰ أَن كَذَّبُوا بِآيَاتِ اللَّهِ وَكَانُوا بِهَا يَسْتَهْزِئُونَ ⑩ ع

၁၀။ ထို့နောက် ဆိုးယုတ်သောအမှုကိစ္စကို ပြုမူပြုမှားများခဲ့ကြကုန်သောသူတို့၏ နောက်ဆုံးအကျိုးမှာ အဆိုးဆုံးပင် ဖြစ်ခဲ့လေ၏။ အကြောင်းသော်ကား ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာများကို မဟုတ်မမှန်ဟု စွပ်စွဲငြင်းပယ်ခဲ့ကြသည်သာမက ယင်းသက်သေ လက္ခဏာများကိုပင် ပြက်ချော် ပြောင်လှောင်သမှု ပြုခဲ့ကြပေသေးသည်။

---

▶▶ ဘဝသည် ဖြစ်ပေါ်လာပေမည်။ ထိုအခါ စကြာဝဠာကြီးကို ဖန်ဆင်းတော်မူသည့် ရည်ရွယ်ချက်ကို မျက်ဝါးထင်ထင် တွေ့မြင်ကြရပေမည်။ ဤပစ္စက္ခဘဝတွင် ရှိခဲ့ကြစဉ် ပြုမူဆည်းပူးခဲ့ကြသောကောင်းမှု၊ မကောင်းမှု အကြောင်းနှစ်ခု၏ ကျိုးပြစ်များကိုလည်း ခံ,စံကြရပေမည်။

اَللّٰهُ يَبْدَؤُا الْخَلْقَ ثُمَّ يُعِيْدُهٗ ثُمَّ اِلَيْهِ تُرْجَعُوْنَ ⑪

**၁၁။** အလ္လာဟ်အရှင်မြတ်သည်ပင် အဖန်ဆင်းခံတို့ကိုစတင်ဖန်ဆင်းတော်မူ၏။ ထို့နောက် ထိုအရှင်မြတ်သည်ပင် ယင်းအဖန်ဆင်းခံတို့ကို တဖန် ထပ်မံ၍ ဖန်ဆင်းတော်မူမည်။ ထို့နောက် အသင်တို့ (အားလုံး) သည် ထိုအရှင်မြတ်ထံတော်သို့ပင် ပြန်လည်ရောက်ရှိကြရပေမည်။

وَيَوْمَ تَقُوْمُ السَّاعَةُ يُبْلِسُ الْمُجْرِمُوْنَ ⑫

**၁၂။** စင်စစ် "ကိယာမတ်" ရှင်ပြန်ထရမည့် အချိန်ကာလ ဆိုက်ရောက်လာသောနေ့တွင် အပြစ်ရှိသူတို့မှာ မျှော်လင့်ချက်ကင်းမဲ့ကာ စိတ်ပျက်၍သွားကြပေမည်။

وَلَمْ يَكُنْ لَّهُمْ مِّنْ شُرَكَآئِهِمْ شُفَعٰٓؤُا وَكَانُوْا بِشُرَكَآئِهِمْ كٰفِرِيْنَ ⑬

**၁၃။** ၎င်းပြင် (ထိုနေ့တွင်) ၎င်းတို့၏ တွဲဖက်နှိုင်းယှဉ်ဘက်တို့အနက် ၎င်းတို့အား ကြားဝင်အသနားခံ၍ ပေးမည့်သူများဟူ၍ ရှိလိမ့်မည် မဟုတ်ပေ။ ထို့ပြင် ၎င်းတို့ကိုယ်တိုင်ပင် မိမိတို့၏ တွဲဖက်နှိုင်းယှဉ်ဘက်များအား ငြင်းပယ်ကြပေမည်။

وَيَوْمَ تَقُوْمُ السَّاعَةُ يَوْمَئِذٍ يَّتَفَرَّقُوْنَ ⑭

**၁၄။** ထိုမှတပါး "ကိယာမတ်" ရှင်ပြန်ထရမည့် ကာလ ဆိုက်ရောက်လာသောနေ့တွင် (ခပ်သိမ်းကုန်သောလူတို့သည်) သီးခြားဖြစ်သွားကြပေမည်။ အစားစား ဖြစ်သွားကြပေမည်။ ကွဲပြားသွားကြပေမည်။

فَاَمَّا الَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ فَهُمْ فِيْ رَوْضَةٍ يُّحْبَرُوْنَ ⑮

**၁၅။** သို့ဖြစ်ပေရာ အီမာန် သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူ ဆောက်တည်ခဲ့ကြကုန်သောသူတို့သည် ဥယျာဉ်တော်၌ ဂုဏ်ပြုဧည့်ခံခြင်းကို ခံကြရပေမည်။ ဝမ်းသာကြရပေမည်။

وَاَمَّا الَّذِيْنَ كَفَرُوْا وَكَذَّبُوْا بِاٰيٰتِنَا وَلِقَآئِ الْاٰخِرَةِ فَاُولٰٓئِكَ فِى الْعَذَابِ مُحْضَرُوْنَ ⑯

**၁၆။** သို့ရာတွင် သွေဖည်ငြင်းပယ်၍ ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မဟုတ်မမှန် စွပ်စွဲခဲ့ကြကုန်သော သူတို့မှာမူကား၊ ပြစ်ဒဏ်၌ အဆင်သင့် ရောက်ရှိစေခြင်းကို ခံကြရပေအံ့သတည်း။

فَسُبْحٰنَ اللّٰهِ حِيْنَ تُمْسُوْنَ وَحِيْنَ تُصْبِحُوْنَ ﴿١٧﴾

၁၇။ သို့ဖြစ်ပေရာ အသင်တို့သည် ညနေအချိန်သို့ ဝင်ရောက်ကြသောအခါ၌လည်းကောင်း၊ နံနက်အချိန်သို့ ဝင်ရောက်ကြသောအခါ၌လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုကြလေကုန်။

وَلَهُ الْحَمْدُ فِى السَّمٰوٰتِ وَالْاَرْضِ وَعَشِيًّا وَّحِيْنَ تُظْهِرُوْنَ ﴿١٨﴾

၁၈။ စင်စစ်သော်ကား မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ မွန်းတိမ်းပြီးနောက်တွင်လည်းကောင်း၊ အသင်တို့သည် နေ့လယ်အချိန်သို့ ဝင်ရောက်ကြသောအခါ၌လည်းကောင်း၊ ထိုအရှင်မြတ်သာလျှင် (အခါခပ်သိမ်း) ချီးမွမ်းထောပနာမှုကို ခံယူလျက် ရှိတော်မူ၏။

يُخْرِجُ الْحَىَّ مِنَ الْمَيِّتِ وَيُخْرِجُ الْمَيِّتَ مِنَ الْحَىِّ وَيُحْىِ الْاَرْضَ بَعْدَ مَوْتِهَا ۗ وَكَذٰلِكَ تُخْرَجُوْنَ ﴿١٩﴾

၁၉။ ထိုအရှင်မြတ်သည် သက်ရှိကို သက်မဲ့မှ ထုတ်တော်မူ၏။ ထိုနည်းတူစွာ သက်မဲ့ကိုသက်ရှိမှ ထုတ်တော်မူ၏။ ထို့မှတပါး ထိုအရှင်မြတ်သည် ပထဝီမြေကို ယင်းပထဝီမြေ သေ(သွေ့ခြောက်)ပြီးနောက် ပြန်ရှင်(စိုပြည်စိမ်းလန်း)စေတော်မူ၏။ စင်စစ်သော်ကား အသင်တို့သည်လည်း ဤနည်းနှင်နှင့် ထွက်စေခြင်းကို ခံကြရကုန်အံ့သတည်း။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ်သည် သက်မဲ့မှသက်ရှိကိုလည်းကောင်း၊ သက်ရှိမှ သက်မဲ့ကိုလည်းကောင်း၊ သုတ်ရည်မှ လူသားကိုလည်းကောင်း၊ လူသားမှ သုတ်ရည်ကိုလည်းကောင်း၊ ကာဖိရ်မှ မုအ်မင်န်ကိုလည်းကောင်း၊ မုအ်မင်န်မှ ကာဖိရ်ကိုလည်းကောင်း ဖန်ဆင်းတော်မူသည်။ ထိုအရှင်မြတ်သည်ပင် မြေသေကို မြေရှင်ဖြစ်စေတော်မူသည်။ ခြောက်သွေ့နေသော မြေသေကို မိုးရေဖြင့် စိုပြေစိမ်းလန်းစေတော်မူသည်။ အချုပ်အားဖြင့် သေခြင်း၊ရှင်ခြင်း တရားများသည် ထိုအရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ သို့ဖြစ်ပေရာ သေနေသော လူသားတို့အား သင်္ချိုင်းများမှ ရှင်ပြန်ထစေရန်ကိစ္စမှာ ထိုအရှင်မြတ်အဖို့ အသို့လျှင် အခက်အခဲရှိနိုင်အံ့နည်း။

ဤအာယတ်တော်နှင့်ဆက်စပ်၍ ကုရ်အာန် (၃း၂၆။ ၆း၉၆။ ၁၀း၃၁) တို့ကို ဆင်ခြင်ပါကုန်။

وَمِنْ اٰيٰتِهٖٓ اَنْ خَلَقَكُمْ مِّنْ تُرَابٍ ثُمَّ اِذَآ اَنْتُمْ بَشَرٌ تَنْتَشِرُوْنَ ﴿٢٠﴾

၂၀။ စင်စစ် (ဤသည်) ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်များတွင် အပါအဝင် ဖြစ်သည်။ ထိုအရှင်မြတ်သည် အသင်တို့အား မြေကြီးဖြင့် ဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် အသင်တို့သည် ရုတ်တရက် လူသားများဖြစ်လာပြီး (ကမ္ဘာမြေဝယ်) ပျံ့နှံ့လျက်ရှိကြကုန်၏။ [၁]

وَمِنْ اٰيٰتِهٖٓ اَنْ خَلَقَ لَكُمْ مِّنْ اَنْفُسِكُمْ اَزْوَاجًا لِّتَسْكُنُوْٓا اِلَيْهَا وَجَعَلَ بَيْنَكُمْ مَّوَدَّةً وَّرَحْمَةً ۗ اِنَّ فِيْ ذٰلِكَ لَاٰيٰتٍ لِّقَوْمٍ يَّتَفَكَّرُوْنَ ﴿٢١﴾

၂၁။ ထိုနည်းတူစွာ (ဤသည်လည်း) ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်များတွင် အပါအဝင် ဖြစ်ပေသည်။ ထိုအရှင်မြတ်သည် အသင်တို့အဖို့ အသင်တို့၏အမျိုးအစားအနက်မှပင် ကြင်ရာကြင်ဖက်များကို ၎င်းတို့ထံတွင် အသင်တို့ အနားယူ စိတ်ချမ်းသာမှု ရရှိကြအံ့သောငှာ ဖန်ဆင်းတော်မူခဲ့၏။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့စပ်ကြား၌ ချစ်ခြင်းမေတ္တာကိုလည်းကောင်း၊ အကြင်နာတရားကိုလည်းကောင်း၊ စီမံပြုလုပ်၍ ပေးသနားတော်မူခဲ့၏။ ဧကန်မလွဲ ဤသည်၌ ဆင်ခြင်သုံးသပ် စဉ်းစားကြကုန်သော သူတို့အဖို့ အမှန်ပင် သက်သေလက္ခဏာများသည် ရှိပေသတည်း။ [၂]

---

**(၁) သက်သေလက္ခဏာတော် (က)၊**

အလ္လာဟ်အရှင်မြတ်သည် အာဒမ်ကို မြေဖြင့် ဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် ၎င်းမှပင် ၎င်း၏ကြင်ရာတော်ကို ဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် ထိုအာဒမ်၏သားသမီးများဖြစ်သော လူသားတို့အား ပွားများစေတော်မူခဲ့၏။ မြေမှ စတင်ဖြစ်ပေါ်လာခဲ့သော အာဒမ်၏ သားသမီးများသည် ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့ကာ ကမ္ဘာ့ဇာတ်ခုံပေါ်တွင် အမျိုးမျိုး ဇာတ်ခင်းလျက်ရှိကြပေသည်။ ကြည့်-ကုရ်အာန် (၄း၁)။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၏ သက်သေလက္ခဏာတော် တစ်ပါးပင်။

**(၂) သက်သေလက္ခဏာတော် (ခ)၊**

အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏ဘဝသက်တမ်းကို သာယာစေရန်အလို့ငှာ အမျိုးသားတို့အဖို့ ၎င်းတို့နှင့်မျိုးတူဘဝတူ ကြင်ဘက်များကို ဖန်ဆင်းပေးထားတော်မူ၍ ဇနီးမောင်နှံတို့စပ်ကြားတွင် ချစ်ခြင်းမေတ္တာနှင့် သနားကြင်နာ ထောက်ထားစာနာ လေးစားခင်မင်ရင်းနှီးမှုများကို ထည့်သွင်းပေးထားတော်မူသည်။ ➢➢

وَمِنْ اٰيٰتِهٖ خَلْقُ السَّمٰوٰتِ وَالْاَرْضِ وَاخْتِلَافُ اَلْسِنَتِكُمْ وَاَلْوَانِكُمْ ۗ اِنَّ فِيْ ذٰلِكَ لَاٰيٰتٍ لِّلْعٰلِمِيْنَ ﴿٢٢﴾

၂၂။ ထိုမှတပါး ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်များအနက်မှပင် *မိုးကောင်းကင်များနှင့် ပထဝီမြေကို ဖန်ဆင်းတော်မူခြင်းသည်လည်းကောင်း၊* [၁] အသင်တို့၏ ဘာသာစကားနှင့် အသွေးအရောင်တို့ ကွဲပြားခြားနားခြင်းသည်လည်းကောင်း၊ [၂] စင်စစ် ဤသည် ပညာရှိ သုခမိန်တို့အဖို့ အမှန်ပင် သက်သေလက္ခဏာများသည် ရှိချေသည်။

---

➤➤ ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် (၁) အမျိုးသမီးများသည် အမျိုးသားတို့နှင့် မျိုးတူဘဝတူ ဖြစ်ကြောင်း၊ (၂) အမျိုးသမီးများသည် အမျိုးသားတို့အား ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာစေကြောင်း၊ (၃) အမျိုးသမီးများနှင့် အမျိုးသားတို့၏ ဆက်ဆံရေးများသည် ချစ်ခြင်းမေတ္တာနှင့် သနားကြင်နာ ထောက်ထားစာနာ လေးစားခင်မင်ရင်းနှီးမှုများ :အပေါ်၌တည်ရှိနေကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။ အမျိုးသမီးများသည် အချို့သူများထင်မှတ်နေကြသကဲ့သို့ အမျိုးသားတို့၏ အစေခံခိုင်းဖတ် မဟုတ်ကြပေ။ အမှန်မှာ အမျိုးသမီးများသည် အမျိုးသားတို့အဖို့ ခင်မင်ရင်းနှီးစွာ ဆက်ဆံပေါင်းသင်းရမည့် မျိုးတူဘဝတူ ကြင်ဖက်များဖြစ်ကြပေသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော် သက်သေလက္ခဏာတပါးပင်။

**① သက်သေလက္ခဏာတော် (ဂ)၊**

ကမ္ဘာ့တန်ဆာပလာများအနက် မိုးနှင့်မြေမှာ လူသားတိုင်းအဖို့ အမြဲတစေတွေ့မြင်နေရသော အရာများပင်ဖြစ်သည်။ မိုးနှင့်မြေ၏အကျိုးကား များပြားလှ၏။ သူငါအသိပင်။ ဤမျှမြင့်စွင့်သောမိုးနှင့် ဤမျှထုထည်ကြီးမားသော ပထဝီမြေကိုလည်း အလ္လာဟ်အရှင်မြတ်ပင် ဖန်ဆင်းထားတော်မူခြင်း ဖြစ်သည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၏ သက်သေလက္ခဏာတော် တစ်ပါးပင်။

**② သက်သေလက္ခဏာတော် (ဃ)၊**

လူသားအားလုံးတို့သည် တစ်ဖတစ်မိတည်းမှပင် ဆင်းသက်ပေါက်ပွားလာခဲ့ကြ၏။ အစပထမတွင် အတူနေထိုင်ခဲ့ကြ၏။ လူဦးရေ များပြားလာသောအခါ ရေကြည်ရာ-မြက်နုရာသို့ ရွှေ့ပြောင်းကာ ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့ကာလာခဲ့ကြ၏။ ပြောဆိုသုံးနှုန်းသော ဘာသာစကားများသည်လည်း ကွဲပြားလာခဲ့ကြ၏။ ကမ္ဘာအစမှ ယနေ့တိုင်တိုးပွားလာခဲ့သော လူဦးရေမှာ အသန်းအသန်းပင်။ ပုံသဏ္ဌာန်လည်း အမျိုးမျိုးပင်။ ဘာသာစကားလည်း အစားစားပင်၊ အသွေးအရောင် အပြားပြားပင်။

သို့တစေလည်း ဤမျှများပြားလှသော လူသားတို့တွင် ပြောပုံ၊ဆိုပုံ၊ အသံနေအသံထား၊ အသွေးအရောင်၊ ပုံပန်းသဏ္ဌာန် အမူအရာစသည်တို့တွင် လုံးဝတမျိုးတစားတည်း တထေရာတည်း တူနေသူနှစ်ဦးမျှပင် မတွေ့ရှိရပေ။ လူသားအားလုံးတို့သည် ပြောပုံဆိုပုံ၊ အသံနေအသံထား၊ အသွေးအရောင်၊ ပုံပန်းသဏ္ဌာန် အမူအရာစသည်တို့တွင် တစ်ဦးနှင့်တစ်ဦးမတူ။ တစ်နည်းတဖုံ ကွဲပြား ခြားနားကြသည်သာ ဖြစ်ပေသည်။ ဤကား မျက်မြင်ဒိဋ္ဌပင်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၏ သက်သေလက္ခဏာတော် တစ်ပါးပင်။

وَمِنْ اٰيٰتِهٖ مَنَامُكُمْ بِالَّيْلِ وَالنَّهَارِ وَابْتِغَآؤُكُمْ مِّنْ فَضْلِهٖ ؕ اِنَّ فِيْ ذٰلِكَ لَاٰيٰتٍ لِّقَوْمٍ يَّسْمَعُوْنَ ﴿٢٣﴾

၂၃။ ၎င်းပြင် ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်များအနက်မှပင် ညနှင့်နေ့၌ အသင်တို့ အိပ်စက်ခြင်းသည်လည်းကောင်း၊ ထိုအရှင်မြတ်၏ ကျေးဇူးတည်းဟူသော စားနပ်ရိက္ခာကို အသင်တို့ ဆည်းပူးရှာဖွေခြင်းသည်လည်းကောင်း၊ ဧကန်မုချ ဤသည်၌ ကြားနာသူတို့အဖို့ အမှန်ပင် သက်သေလက္ခဏာများသည် ရှိကုန်သတည်း။ [၁]

وَمِنْ اٰيٰتِهٖ يُرِيْكُمُ الْبَرْقَ خَوْفًا وَّطَمَعًا وَّيُنَزِّلُ مِنَ السَّمَآءِ مَآءً فَيُحْيٖ بِهِ الْاَرْضَ بَعْدَ مَوْتِهَا ؕ اِنَّ فِيْ ذٰلِكَ لَاٰيٰتٍ لِّقَوْمٍ يَّعْقِلُوْنَ ﴿٢٤﴾

၂၄။ ထို့ပြင် (ဤသည်လည်း) ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်များအနက်မှပင်ဖြစ်၏။ ထိုအရှင်မြတ်သည် အသင်တို့အား လျှပ်စစ်ပြက်ခြင်းကို ကြောက်ရွံ့စေသောအားဖြင့်လည်းကောင်း၊ မျှော်လင့်စေသောအားဖြင့်လည်းကောင်း၊ ပြသတော်မူ၏။ ထို့မှတပါး ထိုအရှင်မြတ်သည် မိုးကောင်းကင်မှ မိုးရေကို ရွာသွန်းစေတော်မူ၏။ တဖန် ထိုအရှင်မြတ်သည် ထိုမိုးရေဖြင့် ပထဝီမြေကို ယင်းပထဝီမြေ သေပြီးနောက် (သွေ့ခြောက်စေပြီးနောက်) ရှင်ပြန်(စိမ်းလန်းစိုပြည်)စေတော်မူ၏။ ဧကန်စင်စစ် ဤသည်၌ သိနားလည်ကြသောသူတို့အဖို့ အမှန်ပင် သက်သေလက္ခဏာများ ရှိပေသည်။ [၂]

---

(၁) **သက်သေလက္ခဏာတော် (င)၊**

အလ္လာဟ်အရှင်မြတ်သည် နေ့နှင့်ညကို ဖန်ဆင်းထားတော်မူသည်။ လူသားတို့သည် နေ့တွင် လှုပ်ရှားသွားလာ၍ စားနပ်ရိက္ခာ ရှာဖွေကြသည်။ ညတွင် အိပ်စက်ကြသည်။ လူသားတို့အဖို့ နေ့နှင့်ညသည် မရှိမဖြစ်သော အရာများပင်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၂၅:၄၇)၏ အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၏ သက်သေလက္ခဏာတော်တစ်ပါးပင်။

(၂) **သက်သေလက္ခဏာတော် (စ)၊**

အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်မှ အံ့ဖွယ်သရဲ မိုးရွာသွန်းစေတော်မူ၏။ မြေသေကို ရှင်စေတော်မူ၏။ မိုးမရွာသွန်းမီ လျှပ်ပြက်စေတော်မူ၏။ လျှပ်ပြက်သည်ကို တွေ့မြင်ရသောအခါ လူသားသည် မိုးရွာမည်ကို တွေး၍ ဝမ်းသာ၏။ မိုးကြိုးလောင်မီးကျမည်ကိုလည်း စိုးရိမ်၏။ မိုးတိမ်များ တက်လာသည်ကို တွေ့မြင်ရသောအခါ လယ်ယာ ထွန်ယက်စိုက်ပျိုးရမည်ကို တွေး၍ဝမ်းသာ၏။ သို့ဝမ်းသာသည်နှင့်အမျှ မိုးသည်းထန်စွာ ရွာသွန်းပြီး ➤➤

وَمِنْ اٰيٰتِهٖٓ اَنْ تَقُوْمَ السَّمَآءُ وَالْاَرْضُ بِاَمْرِهٖ ۭ ثُمَّ اِذَا دَعَاكُمْ دَعْوَةً ڰ مِّنَ الْاَرْضِ ڰ اِذَآ اَنْتُمْ تَخْرُجُوْنَ ۝٢٥

၂၅။ ထိုမှတပါး ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်များအနက်မှပင်၊ မိုးကောင်းကင်နှင့် ပထဝီမြေ၏ ရပ်တည်နေခြင်းသည်လည်း ဖြစ်ပေသည်။ [၁] ထို့နောက် ထိုအရှင်မြတ်သည် အသင်တို့အား ပထဝီမြေမှ (ထွက်လာကြအံ့သောငှာ) တစ်ကြိမ်မျှ ဟစ်ခေါ်တော်မူသောအခါ ရုတ်တရက် အသင်တို့သည် ထွက်လာကြကုန်အံ့သတည်း။ [၂]

وَلَهٗ مَنْ فِى السَّمٰوٰتِ وَالْاَرْضِ ۭ كُلٌّ لَّهٗ قٰنِتُوْنَ ۝٢٦

၂၆။ ထိုမှတပါး မိုးကောင်းကင်များ၌ ရှိကြသူတို့သည်လည်းကောင်း၊ ပထဝီမြေ၌ ရှိကြသူတို့သည်လည်းကောင်း၊ ထိုအရှင်မြတ် ပိုင်ဆိုင်တော်မူသောသူများချည်းသာ ဖြစ်ကြကုန်၏။ (၎င်းတို့)အသီးသီးတို့မှာ ထိုအရှင်မြတ်၏ အမိန့်တော်များကို လိုက်နာကြကုန်၏။

وَهُوَ الَّذِىْ يَبْدَؤُا الْخَلْقَ ثُمَّ يُعِيْدُهٗ وَهُوَ اَهْوَنُ عَلَيْهِ ۭ وَلَهُ الْمَثَلُ الْاَعْلٰى

၂၇။ အမှန်သော်ကား ထိုအရှင်မြတ်သည်ပင် အဖန်ဆင်းခံတို့အား စတင်ဖန်ဆင်းတော်မူ၏။ ထို့နောက် ထိုအရှင်မြတ်သည်ပင် ယင်းအဖန်ဆင်းခံတို့ကို ထပ်မံ၍ ဖန်ဆင်းတော်မူမည်။ စင်စစ်သော်ကား ဤသည် ထိုအရှင်မြတ်အဖို့ သာ၍ပင် လွယ်ကူလှပေသည်။ [၃]

---

➤➤ ရေဘေးသင့်မည်ကိုလည်း စိုးရိမ်ကြောင့်ကြ၏။ ကြည့်-ကုရ်အာန် (၁၃း၁၂)။ ဤသည်ကိုထောက်ချင့်၍ လူသားများသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို မျှော်ကိုးရာ၏။ ထို့အတူ ထိုအရှင်မြတ်၏ ပြစ်ဒဏ်ကိုလည်း စိုးရိမ်ရာ၏။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၏ သက်သေလက္ခဏာတော်တစ်ပါးပင်။

(၁) **သက်သေလက္ခဏာတော် (ဆ)၊**

အထက်တွင် မိုးကောင်းကင်နှင့်မြေကို ဖန်ဆင်းတော်မူသည့်အကြောင်းပါရှိ၏။ ယခု ဤအာယတ်တော်တွင် ထိုမိုးနှင့်မြေများ ရပ်တည်နေခြင်းမှာလည်း ထိုအရှင်မြတ်၏ အမိန့်တော်အရသာလျှင် ဖြစ်ကြောင်း မိန့်ဆိုထားတော်မူသည်။ ဆိုလိုသည်ကား အရာခပ်သိမ်းကုန်တို့၏ ဖြစ်ပေါ်မှု၊ ရပ်တည်မှု၊ ဆိတ်သုဉ်းမှုအစုစုတို့သည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၏ သက်သေလက္ခဏာတော်တပါးပင်။

فِي السَّمٰوٰتِ وَالْاَرْضِ ۚ وَهُوَ الْعَزِيْزُ الْحَكِيْمُ ﴿٢٧﴾

ထိုမှတပါး မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ ထိုအရှင်မြတ်၌သာလျှင် ထူးကဲမြင့်မြတ်လှစွာသော ဝိသေသဂုဏ်ထူးသည် ရှိပေသည်။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူသောအရှင်၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

ضَرَبَ لَكُمْ مَّثَلًا مِّنْ اَنْفُسِكُمْ ۗ هَلْ لَّكُمْ مِّنْ مَّا مَلَكَتْ اَيْمَانُكُمْ مِّنْ شُرَكَآءَ فِيْ مَا رَزَقْنٰكُمْ فَاَنْتُمْ

**၂၈။** ထိုအရှင်မြတ်သည် အသင်တို့၏ ဖြစ်ရပ်များမှပင် အသင်တို့အဖို့ ဥပမာပုံဆောင်ချက်တစ်ခုကို ခိုင်းနှိုင်းတော်မူ၏။ အသင်တို့၌ မိမိတို့ကျွန်များအနက်မှ အသင်တို့အား ငါအရှင်မြတ်ချီးမြှင့်ပေးသနားတော်မူခဲ့သော (စားနပ်ရိက္ခာ) ဥစ္စာပစ္စည်းများတွင် ဖက်စပ်ပါဝင်သူများ ရှိကြပြီး အသင်တို့သည် ယင်းဥစ္စာပစ္စည်းတွင် ညီတူညီမျှဖြစ်ကြသည် ရှိသလော။

---

② **ခေါ်တော်မူသည့်အခါ မြေမှ ထွက်လာကြရမည်သာ၊**

ဆိုလိုသည်ကား မိုး၊ မြေတို့သည် ရပ်တည်နေရန် အလ္လာဟ်အရှင်မြတ် အမိန့်တော်ရှိသည်နှင့်အမျှ ရပ်တည်နေပေမည်။ ဤစကြာဝဠာ၏ သက်တမ်း ကုန်ဆုံးသွားသည့်အခါ အရာခပ်သိမ်းကုန်တို့သည် ထိုအရှင်မြတ်၏ အမိန့်တော်ဖြင့်ပင် ဆိတ်သုဉ်းသွားပေမည်။ ဒုတိယစကြာဝဠာ ပေါ်လာပေမည်။ ထိုအခါ ထိုအရှင်မြတ် တစ်ကြိမ်ခေါ်တော်မူရုံဖြင့် လူသားအားလုံးတို့သည် မြေမှအသီးသီး ထွက်ပေါ်လာကြပေမည်။ ③ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်အနန္တ၏ရှေ့မှောက်တွင် တစ်စုံတစ်ရာကို စတင်ဖန်ဆင်းခြင်း၊ ပြန်လည်ဖန်ဆင်းခြင်းသည် အတူတူပင်။ လူသားတို့အဖို့မှာမူ အရာတစ်ခုကို စတင်ပြုလုပ်ခြင်းသည် ခက်ခဲသည်၊ ထိုအရာကို ပြန်လည်ပြုလုပ်ခြင်းသည် လွယ်ကူသည်။ အရဗ် ကာဖိရ်မုရှ်ရစ်က်တို့သည် အလ္လာဟ်အရှင်မြတ်အား ဤစကြာဝဠာကို စတင်ဖန်ဆင်းတော်မူသော အရှင်အဖြစ်လက်ခံကြသည်။ သို့ရာတွင် ဤစကြာဝဠာကြီး ဆိတ်သုဉ်းသွားပြီးနောက် ဒုတိယတစ်ဖန် ပြန်လည်ဖန်ဆင်းမည်ကိုမူ လက်မခံကြပေ။ အရဗ်ကာဖိရ် မုရှ်ရစ်က်တို့၏ စကားသည် ရှေ့နောက်မညီပေ။ အမှန်မှာ စကြာဝဠာအဝှန်းကို စတင်ဖန်ဆင်းတော်မူသော အရှင်မြတ်အဖို့ ပြန်လည်ဖန်ဆင်းတော်မူခြင်းမှာ လူသား၏အမြင်မှာပင် ပို၍လွယ်ကူသည် မဟုတ်ပါလော။

فِيهِ سَوَآءٌ تَخَافُونَهُمْ كَخِيفَتِكُمْ أَنفُسَكُمْ كَذَٰلِكَ نُفَصِّلُ الْآيَاتِ لِقَوْمٍ يَعْقِلُونَ ﴿٢٨﴾

(၎င်းပြင်) အသင်တို့သည် မိမိတို့အချင်းချင်းနှင့် ပတ်သက်၍ စိုးရိမ်ကြဘိသကဲ့သို့ပင်၊ ၎င်းတို့နှင့် ပတ်သက်၍လည်း *စိုးရိမ်ကြသည်(ဟူ၍ရှိပါသလော၊)*[၁] ငါအရှင်မြတ်သည် အသိဉာဏ်ရှိသူတို့အဖို့ သက်သေ သာဓက အထောက်အထားများကို ဤနည်းအတိုင်းပင် ရှင်းလင်းထင်ရှားစွာ ထုတ်ဖော်မိန့်ကြားတော်မူ၏။

---

(၁) **'ရှိရ်က်' ၏ မှားယွင်းမှု၏ ပုံဆောင်ချက်တစ်ရပ်၊**

'ရှရစ်က်'၏ မှားယွင်းမှုကို ထင်ရှားစေရန်အတွက် ဤအာယတ်တော်တွင် လူသားတို့၏ဖြစ်ရပ်များမှ ကောက်နှုတ်၍ ပုံဆောင်ချက်တစ်ရပ် ဤသို့ မိန့်ဆိုထားတော်မူသည်။ အသင်တို့၌ ကျေးကျွန်များရှိသည်။ အသင်တို့သည် ထိုကျေးကျွန်များ၏ သခင်များဖြစ်ကြသည်။ (ကျွန်သည် အမှန်ကျွန်မဟုတ်၊ သခင်သည် အမှန်သခင်မဟုတ်၊ ဤသည် 'မုချ'မဟုတ်၊ 'ဥပစာ'မျှသာဖြစ်သည်။ သာမန်အကြောင်းများကြောင့် 'ကျွန်'၊ 'သခင်' စသည်ဖြင့် ခေါ်ဝေါ်နေကြခြင်းသာ ဖြစ်သည်။) ထိုကျေးကျွန်များသည် အသင်တို့အား အလ္လာဟ်အရှင်မြတ် ပေးသနားထားတော်မူသော ဉစ္စာပစ္စည်းများတွင် မိမိတို့နှင့် တန်းတူ၊ရည်တူ၊ ဖက်စပ်ပါဝင်သူများအဖြစ် လက်ခံကြသလော။ ဖက်စပ်ပိုင်ဆိုင်သော ပစ္စည်းများကို ခွဲဝေသုံးစွဲရာတွင် ဖက်စပ်ပါဝင်သူများ၏ မကျေနပ်မှု၊ ကန့်ကွက်မှုများ ဖြစ်ပေါ်လာမည်ကို စိုးရိမ်ကြရသကဲ့သို့ အသင်တို့သည် မိမိတို့၏ ကျေးကျွန်များဘက်မှ ယင်းသို့ မကျေနပ်မှု၊ကန့်ကွက်မှုများ ဖြစ်ပေါ်လာမည်ကို စိုးရိမ် ကြသလော။

ထိုသို့အလျှင်းမဟုတ်၊ အသင်တို့သည် မိမိတို့၏ ပစ္စည်းများတွင် မိမိတို့၏ ကျေးကျွန်များကို ဖက်စပ်ပါဝင်သူများအဖြစ် လက်ခံကြသည်လည်း မဟုတ်၊ ထိုကျေးကျွန်များဘက်မှ တစ်စုံတစ်ရာ ကန့်ကွက်မှု၊ မကျေနပ်မှုများဖြစ်ပေါ်လာမည်ကို စိုးရိမ်ကြသည်လည်း မဟုတ်၊ သာမန်သခင်များသည်ပင် မိမိတို့၏ ဉစ္စာပစ္စည်းတွင် မိမိတို့၏ကျေးကျွန်များကို ဖက်စပ်ပါဝင်ကြသူများ အဖြစ် လက်မခံကြလျှင်၊ ကျေးကျွန်များဘက်မှ ဖြစ်ပေါ်လာမည့် မကျေနပ်မှု၊ ကန့်ကွက်မှုများကို ဂရုမမူကြလျှင် အမှန်တကယ် အရှင်သခင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် မိမိ၏ အဖန်ဆင်းခံကျွန်များအား မိမိ၏ပိုင်ဆိုင်မှုတွင် ဖက်စပ်ပါဝင်သူများအဖြစ်၊ တွဲဖက်ယှဉ်ဖက်များအဖြစ် အသို့လျှင် လက်ခံတော်မူမည်နည်း။ ယင်းအဖန်ဆင်းခံ ကျေးကျွန်တို့ဘက်မှ ဖြစ်ပေါ်လာမည့်အန္တရာယ်များကို အသို့လျှင် ဂရုပြုတော်မူမည်နည်း။

အမှန်မှာ လူကျွန်နှင့်လူသခင် နှစ်ဦးလုံးတို့သည်ပင် အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံကျွန်များသာ ဖြစ်ကြပေသည်။ ထိုအရှင်မြတ် ကျွေးမွေးထားတော်မူသော စားနပ်ရိက္ခာများကိုသာ စားသုံးနေကြရသည်။ သို့ပါလျက် သာမန်ကျွန်တစ်ယောက်သည် သာမန်သခင်တစ်ယောက်၏ ပစ္စည်းတွင် ဖက်စပ်ပါဝင်နိုင်ခြင်းမရှိပေရာ၊ အရာခပ်သိမ်းကုန်တို့ကို ဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ်၏ ပိုင်ဆိုင်မှုတွင် ထိုအရှင်မြတ်၏ အဖန်ဆင်းခံများသာ ဖြစ်သောကျွန်များသည် အသို့လျှင် ဖက်စပ်ပါဝင်နိုင်သူများ ဖြစ်နိုင်ကြအံ့နည်း။ ဤသည့်အချက်ကို စဉ်းစားဆင်ခြင်ပါက 'ရှရစ်က်' ယှဉ်တွဲကိုးကွယ်မှုသည် အဘယ်မျှမှားယွင်းကြောင်း စက်ဆုပ်ရွံရှာဖွယ်ရာ ဖြစ်ကြောင်းကို ကောင်းစွာသိနိုင်ပေသည်။

بَلِ اتَّبَعَ الَّذِيْنَ ظَلَمُوْٓا اَهْوَآءَهُمْ بِغَيْرِ عِلْمٍ ۚ فَمَنْ يَّهْدِيْ مَنْ اَضَلَّ اللّٰهُ ۗ وَمَا لَهُمْ مِّنْ نّٰصِرِيْنَ ﴿٢٩﴾

၂၉။ သို့ပါလျက် မတရားပြုလုပ်ကြသော သူတို့မှာမူကား၊ သက်သေအထောက်အထား မရှိဘဲလျက် မိမိတို့၏စိတ်အလိုဆန္ဒများကိုသာ လိုက်နာလိုက်စားခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်က လမ်းမှားစေတော်မူခဲ့သောသူအား တရားလမ်းမှန်ကို မည်သူ ညွှန်ကြားပြသနိုင်မည်နည်း။ ထိုမှတပါး ၎င်းတို့၌ ယိုင်းပင်းကူညီသူများဟူ၍လည်း ရှိကြမည် မဟုတ်ပေတကား။

فَاَقِمْ وَجْهَكَ لِلدِّيْنِ حَنِيْفًا ۗ فِطْرَتَ اللّٰهِ الَّتِيْ فَطَرَ النَّاسَ عَلَيْهَا ۗ لَا تَبْدِيْلَ لِخَلْقِ اللّٰهِ ۗ ذٰلِكَ الدِّيْنُ الْقَيِّمُ ۙ وَلٰكِنَّ اَكْثَرَ النَّاسِ لَا يَعْلَمُوْنَ ﴿٣٠﴾

၃၀။ သို့ဖြစ်ပေရာ အသင်(လူသား)သည် လူသားတို့အား အလ္လာဟ်အရှင်မြတ် ဖန်ဆင်းတော်မူခဲ့သော *သဘာဝဓမ္မနှင့်အညီ* [၁] မိမိ၏မျက်နှာကို (မှန်ကန်သော) "ဒီန်" သာသနာအပေါ်၌ အာရုံစူးစိုက်လျက် ခိုင်ခံ့တည်တံ့စွာထားရှိလေ။ အလ္လာဟ်အရှင်မြတ်၏ဖန်ဆင်းမှုတွင် မည်သည့်ပြောင်းလွဲမှုမျှ အလျှင်းမရှိပြီ။ ဤသည်ပင်လျှင် *ဖြောင့်မတ်မှန်ကန်သော "ဒီန်" သာသနာဖြစ်၏။* [၂] သို့တစေလည်း အများဆုံးသော သူတို့မှာမူကား မသိနားမလည်ကြပေ။

---

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား စတင်ဖန်ဆင်းတော်မူရာတွင် ၎င်း၏ မူလဗီဇသဘာဝ၌ သီးသန့် အရည်အချင်းတစ်ရပ်ကို ထည့်သွင်းထားတော်မူသည်။ အကယ်၍ ထိုလူသားသည် အမှန်တရားကို သိနားလည်လိုက၊ နာယူကျင့်မူလိုက ထိုသည့်အရည်အချင်းဖြင့် သိနားလည်နိုင်ပေသည်။ နာယူကျင့်မူနိုင်ပေသည်။ ထိုအရှင်မြတ်သည် မူလအစကပင် လူသား၏စိတ်နှလုံး၌ မိမိအားအကျဉ်းအားဖြင့် သိရှိနိုင်ရန်အတွက် လင်းရောင်ခြည်ကို ဓမ္မဗီဇအဖြစ် ထည့်သွင်းပေးသနားတော် မူထားသည်။ အကယ်၍ လူသားသည် မိမိပတ်ဝန်းကျင်၏ ဂယက်များ၏ မကောင်းသောအကျိုးဆက်များနှင့် ကင်းစင်သည်ရှိသော်၊ မိမိ၏မူလသဘာဝ ဗီဇအပေါ်၌ပင် တည်ရှိနေသော် ထိုလူသားသည် အမှန်ပင်အမှန်တရားကို လက်ခံနာယူကျင့်မူမည်သာ ဖြစ်သည်။ အမှန်တရားမှအပ အခြားသို့ တိမ်းစောင်းသွားမည် မဟုတ်ပေ၊ ဝိညာဉ်လောကတွင် လူသားတို့ထံမှ အလ္လာဟ်အရှင်မြတ် ယူတော်မူခဲ့သည့် ကတိဝန်ခံချက်မှာလည်း ဤသည်ကိုပင် ရည်ညွှန်းပေသည်။ ကြည့်-ကုရ်အာန် (၇း၁၇၂)။

ဟဒီးဆ်သြဝါဒတော်များတွင်လည်း ကလေးတိုင်းသည် (အစ္စလာမ်)၏သဘာဝဓမ္မပေါ်၌ပင် မွေးဖွားလာသည်ဖြစ်ကြောင်း၊ ထို့နောက် ၎င်း၏မိဘနှစ်ပါးသည် ၎င်းအားယဟူဒီ၊ နဆွ်ရာနီ၊ မဂျူစီ ဖြစ်စေကြသည်ဖြစ်ကြောင်း လာရှိပေသည်။ 'ဟဒီးဆ်ကုဒ်စီ'၌ "ငါအရှင်မြတ်သည် မိမိ၏ကျွန်များအား (ဟုနဖာ) အများရောင်၍ အမှန်၏ ➤➤

مُنِيبِينَ إِلَيْهِ وَاتَّقُوهُ وَأَقِيمُوا الصَّلَوٰةَ وَلَا تَكُونُوا مِنَ الْمُشْرِكِينَ ﴿٣١﴾

၃၁။ ထိုအရှင်မြတ်ဘက်သို့သာလျှင် ပြန်လှည့်ကြသူများအဖြစ် (အစ္စလာမ်၏ သဘာဝဓမ္မကို နာယူကျင့်မူကြကုန်)။ ထို့ပြင် အသင်တို့သည် ထိုအရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကြလေကုန်။ ထိုမှတပါး အသင်တို့သည် "ဆွလာတ်" ဝတ်ပြုမှုကို ဆောက်တည်ကြလေကုန်။ ထို့ပြင် အသင်တို့သည် "မုရှ်ရစ်က်" တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် ကိုးကွယ်သူတို့အနက်မှ မဖြစ်ကြကုန်လင့်။ ၁

---

➤➤ တရားပေါ်၌ပင် ရပ်တည်သူများအဖြစ် ဖန်ဆင်းတော်မူခဲ့သည်။ ထို့နောက် ရှိုင်တွာန်များသည် ၎င်းတို့အား သွေးဆောင်ဖြားယောင်းပြီး အမှန်တရားမှ လွဲမှားစေကြသည်" ဟူ၍လာရှိသည်။

အသို့ပင်ရှိစေ၊ လူသားတစ်ဦးသည် မိမိ၏ မူလ၊ဓမ္မဇီဇအပေါ်၌ ရပ်တည်နေပါက ထိုလူသားသည် မိမိ၏ သဘာဝအလျောက် အမှန်တရားကို လက်ခံနာယူကျင့်မူမည်သာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် လူသားအားလုံးတို့အား ဤသည့်မှန်ကန်သည့် သဘာဝဓမ္မအပေါ်၌ပင် ဖန်ဆင်းတော်မူသည်။ ဤသည် သဘာဝဓမ္မတွင် မည်သို့မျှ အပြောင်းအလဲမရှိ။ အကယ်တန္တ ဖိရ်အောင်န်နှင့်အဗူဂျဟ်လ်၌ ယင်းသည့် သဘာဝဓမ္မမရှိပါက အသက်မဲ့များနှင့် တိရစ္ဆာန်တို့၌ တရားဓမ္မ ကိုနာယူရန် တာဝန်မရှိသကဲ့သို့ ၎င်းတို့၌လည်း တာဝန်ရှိမည်မဟုတ်ပေ။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် လူသားတိုင်းသည် ယင်းသည့် သဘာဝဓမ္မအပေါ်၌ မွေးဖွားလာကြောင်း၊ လူတိုင်း၌ ယင်းသည့် သဘာဝဓမ္မရှိကြောင်း ကောင်းစွာ သိရှိရပေသည်။ ဤသည့် သဘာဝဓမ္မရှိမှုကြောင့်ပင် အစ္စလာမ်၏များစွာသော အခြေခံမူ သဘောတရားများကို လူတိုင်းလိုလိုပင် တိကျမှန်ကန်စွာ နာယူကျင့်မူခြင်း မရှိသော်လည်း တနည်းတဖုံ လက်ခံကြပေသည်။

**မှတ်ချက်**

ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် အစ္စလာမ်သည် သဘာဝဓမ္မနှင့် လုံးဝကိုက်ညီကြောင်း၊ သဘာဝဓမ္မတွင် အပြောင်းအလဲလုံးဝမရှိကြောင်း၊ သို့ဖြစ်ရာ အစ္စလာမ်တွင်အပြောင်းအလဲပြုလုပ်ရန် ကြိုးစားခြင်းသည် အသိဉာဏ်ကင်းမဲ့သူတို့၏ အကျိုးမဲ့အပြုအမူသာဖြစ်မည် ဖြစ်ကြောင်းကို ကောင်းစွာ သိရှိနိုင်ပေသည်။ (ကြည့်-မာရိဒီ။)

(၂) ဤအာယတ်တော်သည် လူသားအသီးသီးတို့အား ရည်ညွှန်း မိန့်ဆိုထားတော်မူသော အာယတ်တော်ဖြစ်သည်။ ဆိုလိုသည်ကား စိတ်နောက်ကိုယ်ပါဖြစ်ကာ လွဲမှားမှုများတွင် အနစ်မွန်းကြီးနစ်မွန်းကာ လွဲမှားမှုမှ မည်သို့မျှ မထွက်လိုသော သူများအား လျစ်လျူရှုထားရမည်သာ။ မိမိမှာမူ လွဲမှားမှုအားလုံးကို လွှဲဖယ်ကာ တစ်ဆူတည်း ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ခယ၊ရိုကျိုး၊ရှိခိုး၍ ထိုအရှင်မြတ်၏ ဖြောင့်မတ်မှန်ကန်သော သာသနာကို သာလျှင် လုံ့လဝီရိယကြီးစွာဖြင့် တစ်စိတ်တလက်တည်း ဆုပ်ကိုင်ထားရမည်သာ။

(၁) အစ္စလာမ်သည် သဘာဝဓမ္မနှင့် လုံးဝကိုက်ညီသည်။ ဤသည်နှင့် စပ်လျဉ်း၍ အစ္စလာမ်၏ အချို့အဓိကကျသော တာဝန်များကို အောက်ပါအတိုင်း မိန့်ဆိုထားတော်မူသည်။ ➤➤

مِنَ الَّذِيْنَ فَرَّقُوْا دِيْنَهُمْ وَكَانُوْا شِيَعًا ۚ كُلُّ حِزْبٍۢ بِمَا لَدَيْهِمْ فَرِحُوْنَ ﴿٣٢﴾

၃၂။ အကြင် (မုရှ်ရစ်က်) တို့အနက်မှ ထိုသူတို့သည် မိမိတို့၏ "ဒီန်"သာသနာကို အစိတ်စိတ် အပိုင်းပိုင်း ပြုလုပ်ခဲ့ကြပြီးလျှင် ဂိုဏ်းဂဏအမျိုးမျိုး ဖြစ်သွားခဲ့ကြကုန်၏။ (၎င်းတို့အနက်) ဂိုဏ်းဂဏ အသီးသီး အသကအသကတို့သည် မိမိတို့၌ရှိသော (ဝါဒလမ်းစဉ်များ)နှင့်ပင် ကျေနပ်ဝမ်းမြောက်လျက် ရှိကြပေသတည်း။ ၁

---

➤➤ ၁။ တစ်ဆူတည်း ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ် ထံတော်သို့လှည့်ကာ အစ္စလာမ်၏ သဘာဝဓမ္မကို နာယူကျင့်မူကြရမည်။

၂။ အလ္လာဟ်အရှင်မြတ်အား အခါခပ်သိမ်း ကြောက်ရွံ့ရိုသေ ခန့်ညားကြရမည်။

၃။ စနစ်တကျ ဆွလာတ်ဆောက်တည်ကြရမည်။

၄။ မုရှ်ရစ်က်တို့နှင့် ဝေးစွာ ရှောင်ကြဉ်ကြရမည်။

၅။ သာသနာရေးတွင် ဂိုဏ်းဂဏ မခွဲကြရ။

① အစ္စလာမ်၏ သဘာဝဓမ္မကိုဆန့်ကျင်၍ ရှရစ်က်အမှုအစုစုတွင် နစ်မွန်းနေကြသော မုရှ်ရစ်က်တို့တွင် အခြေခံယုံကြည်ချက်၊ ကိုးကွယ်ရာ အမျိုးမျိုးအစားစား အပြားပြားဖြစ်လာကာ အောက်ခြေမှထိပ်ဖျားအထိ အတောမသတ်ခြားနားခဲ့ကြသည်။ သာသနာရေးတွင် ဂိုဏ်းဂဏအမျိုးမျိုး ခွဲခဲ့ကြသည်။ ယုံကြည်ချက်အမျိုးမျိုး လုပ်ငန်းစဉ်အစားစား ပုံပန်းသဏ္ဍာန် အပြားပြား ဖြစ်လာခဲ့ကြသည်။ ယင်းသည့်အထဲတွင် တစ်ဦးတစ်ယောက်က စိတ်ကူးပေါက်၍ ယုံကြည်ချက်အသစ်ထွင်ကာ လုပ်ငန်းစဉ်အသစ်တစ်ရပ် သတ်မှတ်လိုက်ပြန်သော် ကွဲပြားနေသော ဂိုဏ်းဂဏများထဲမှပင် အချို့သူများသည် ထိုပုဂ္ဂိုလ်နောက်သို့ လိုက်ကြပြန်သည်။ ဤသို့ဖြင့်ကွဲရာမှ အဆင့်ဆင့် ကွဲကာ အတောမသတ် ကွဲခဲ့ကြလေသည်။

ထို့ပြင်တဝ အဆိုပါ ဂိုဏ်းဂဏအသီးသီးတို့သည် မိမိတို့၏ယုံကြည်ချက် လုပ်ငန်းစဉ်များကို အဘယ်မျှပင် မှားယွင်းနေလင့်ကစား၊ အဘယ်မျှပင် ရယ်ဖွယ်ရာဖြစ်နေလင့်ကစား ဖွတ်မိုက်၍ ဆုပ်ကိုင်ထားကြသည်။ ကိုယ့်ငါးချဉ် ကိုယ်ချဉ်နေကြသည်။ ကိုယ့်ယုံကြည်ချက်နှင့်ကိုယ်၊ ကိုယ့်လုပ်ငန်းစဉ်နှင့်ကိုယ်၊ ကိုယ့်ဂိုဏ်းနှင့် ကိုယ် အပျော်ကြီးပျော်နေကြသည်။ အမှားကြီး မှားနေကြသည်။ ဤကား ရှရစ်က်၏ အကျိုးဆက်ပင်။

အစ္စလာမ်ကား ထိုသို့မဟုတ်၊ အစ္စလာမ်သည် ညီညွတ်မှုကို အထူးလိုလားသည်။ ကွဲပြားမှုကို အလွန်စက်ဆုပ်သည်။ အဘယ်ကြောင့်ဆိုသော် အစ္စလာမ်၏ အဓိက အခြေခံယုံကြည်ချက်မှာ (တောင်ဟီးဒ်) တဆူတည်း ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကိုးကွယ်ခြင်းပင်ဖြစ်သည်။ တစ်ဆူတည်း ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ် သတ်မှတ်ပြဋ္ဌာန်း ပေးထားတော်မူသော အစ္စလာမ်၏ ကျင့်စဉ်ကျင့်ရပ် အားလုံးတို့သည်လည်း တစ်ဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ် ထံတော်သို့သာဦးတည်ကာ ညီညွတ်မှုကို ရှေ့ရှုထားသည်။ အစ္စလာမ်ကိုရိုးသားစွာ ဆုပ်ကိုင်ထားပါက ကွဲရန်အကြောင်းပင် မရှိပေ။

وَإِذَا مَسَّ النَّاسَ ضُرٌّ دَعَوْا رَبَّهُم مُّنِيبِينَ إِلَيْهِ ثُمَّ إِذَا أَذَاقَهُم مِّنْهُ رَحْمَةً إِذَا فَرِيقٌ مِّنْهُم بِرَبِّهِمْ يُشْرِكُونَ ﴿٣٣﴾

၃၃။ စင်စစ်သော်ကား လူတို့၌ ဘေးဥပဒ်တစ်စုံတစ်ရာ သက်ရောက်လေသောအခါ ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ဘက်တော်သို့ ပြန်လှည့်ကြလျက် ထိုအရှင်မြတ်အား ဟစ်ခေါ်တသကြကုန်၏။ ထို့နောက် ထိုအရှင်မြတ်သည် ၎င်းတို့အား မိမိအထံတော်မှ အနည်းငယ်ကျေးဇူးတော်ရသာကို မြည်းစမ်းစေတော်မူသောအခါ ၎င်းတို့အနက် လူတစ်စုသည် မဆိုင်းမငံ့ ရုတ်တရက် ချက်ချင်းပင်လျှင် (အခြားအရာများကို) မိမိတို့အား ဖန်ဆင်းမွေးမြူ တော်မူသော အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် ကိုးကွယ်ကြလေ၏။ [၁]

لِيَكْفُرُوا بِمَا آتَيْنَاهُمْ فَتَمَتَّعُوا فَسَوْفَ تَعْلَمُونَ ﴿٣٤﴾

၃၄။ ၎င်းတို့သည် ငါအရှင်မြတ် ၎င်းတို့အား ချီးမြှင့်ပေးသနားတော်မူခဲ့သော ကျေးဇူးတော်များကို ငြင်းပယ် ကျေးဇူးကန်းကြအံ့သောငှာ (တွဲဖက်ကိုးကွယ်မှုကို ပြုကြကုန်၏)။ သို့ဖြစ်ပေရာ အသင်တို့သည် (အခိုက်အတန့်အားဖြင့်) အကျိုးကျေးဇူး ခံစားကြလေကုန်။ ထို့နောက် မကြာမြင့်မီပင် အသင်တို့သည် သိရှိကြရပေမည်။

أَمْ أَنزَلْنَا عَلَيْهِمْ سُلْطَانًا فَهُوَ يَتَكَلَّمُ بِمَا كَانُوا بِهِ يُشْرِكُونَ ﴿٣٥﴾

၃၅။ အသို့ပါနည်း ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ သက်သေအကိုးအကား အထောက်အထား တစ်စုံတစ်ရာကို ချပေးတော်မူခဲ့၍ ယင်းသက်သေအထောက်အထားက ပြောဆိုသောကြောင့် ၎င်းတို့သည် တွဲဖက်နိုင်းယှဉ်ကိုးကွယ်ကြလေသလော။

---

(၁) ဤအာယတ်တော်နှင့် အနက်သဘောတူ အာယတ်တော်များသည် ကုရ်အာန် (၁၀း၁၂။ ၁၇း၆၇)တွင် လာရှိခဲ့ပြီ၊ သက်ဆိုင်ရာအဖွင့်များကိုလည်း ရေးသားခဲ့ပြီ၊ ပြန်လည်ရှုကြပါကုန်။

وَإِذَآ أَذَقْنَا ٱلنَّاسَ رَحْمَةً فَرِحُوا۟ بِهَا ۖ وَإِن تُصِبْهُمْ سَيِّئَةٌۢ بِمَا قَدَّمَتْ أَيْدِيهِمْ إِذَا هُمْ يَقْنَطُونَ ٣٦

၃၆။ ထိုမှတပါး ငါအရှင်မြတ်သည် လူသားတို့အား အနည်းငယ်သော ကျေးဇူးတော်၏ အရသာကို မြည်းစမ်းစေတော်မူသောအခါ ၎င်းတို့သည် ယင်းကျေးဇူးတော်နှင့် စပ်လျဉ်း၍ ဝမ်းမြောက်လေ့ ရှိကြကုန်၏။ သို့ရာတွင် အကယ်၍ ၎င်းတို့၏လက်များက ကြိုတင်ပို့နှင့်ခဲ့ကြသော (ပြစ်မှုဒုစရိုက်)များကြောင့် ၎င်းတို့၌ ဘေးဒုက္ခ တစ်စုံတစ်ရာ သက်ရောက်သည်ရှိသော် ၎င်းတို့သည် ရုတ်တရက် ချက်ချင်းပင် မျှော်လင့်ချက်ကင်းမဲ့၍ သွားကြလေ၏။

أَوَلَمْ يَرَوْا۟ أَنَّ ٱللَّهَ يَبْسُطُ ٱلرِّزْقَ لِمَن يَشَآءُ وَيَقْدِرُ ۚ إِنَّ فِى ذَٰلِكَ لَءَايَـٰتٍ لِّقَوْمٍ يُؤْمِنُونَ ٣٧

၃၇။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား စားနပ်ရိက္ခာကို ကျယ်ပြန့်စွာ ချီးမြှင့်ပေးသနားတော်မူ၍ (မိမိအလိုရှိတော်မမူသောသူအား ထိုစားနပ်ရိက္ခာကို) ကျပ်တည်းစေတော်မူသည်ကို ၎င်းတို့သည် မမြင်ခဲ့ကြလေသလော။ [၁] ဧကန်မုချ ဤသည်၌ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အဖို့ (များစွာသော) သက်သေလက္ခဏာများသည် ရှိပေသတည်း။

---

(၁) လူ၂-ယောက်သည် တစ်ချိန်တည်းတွင် တမျိုးတစားတည်း စီးပွားရှာဖွေကြသည်။ ထို၂-ဦး၏ ပညာအရည်အချင်း၊ လုပ်ရည်ကိုင်ရည်၊ ကြံရည်ဖန်ရည် တို့သည်လည်း တူညီသည်။ သို့တစေလည်း ထို-၂-ဦးအနက် တစ်ဦးသည် ချမ်းသာကြွယ်ဝသည်။ အခြားတစ်ဦးမှာ ခဲလေသမျှ သဲရေကျဖြစ်ရသည်။ အသို့ပါနည်း၊ အကြောင်းကား လူ့လောကတွင် တွေ့ကြုံနေရသော သုခ၊ ဒုက္ခ၊ ကြွယ်ဝမှု၊ ဆင်းရဲမှု၊ အောင်မြင်မှု၊ ဆုံးရှုံးမှု အစုစုတို့၏ အကြောင်းတရားများသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ထိုအရှင်မြတ်သည် မိမိ၏အလိုတော်အတိုင်း ကြွယ်ဝစေလိုသူအား ကြွယ်ဝစေတော်မူသည်။ ဆင်းရဲစေလိုသူအား ဆင်းရဲစေတော်မူသည်။

သို့ဖြစ်ရာ လူသားတို့သည် အခါခပ်သိမ်း အလ္လာဟ်အရှင်မြတ် စီမံပြုလုပ်တော်မူသည်များကို ကျေနပ်ကြရမည်သာ။ ဥပမာ- သုခဖြစ်လျှင် ထိုအရှင်မြတ်အား ကျေးဇူးတင်ရမည်သာ။ ထိုသုခ ပပျောက်မသွားစေရန် အတွက် ထိုအရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားနေရမည်သာ။ ထို့အတူ ဒုက္ခဖြစ်လျှင်လည်း ခံရမည်သာ၊ ထိုဒုက္ခ ကင်းဝေးသွား စေရန်အတွက် အရှင်မြတ်ထံတော်၌ မျှော်ကိုးအားထားရမည်သာ။

فَاٰتِ ذَا الْقُرْبٰى حَقَّهٗ وَالْمِسْكِيْنَ وَابْنَ السَّبِيْلِ ۗ ذٰلِكَ خَيْرٌ لِّلَّذِيْنَ يُرِيْدُوْنَ وَجْهَ اللّٰهِ ۖ وَاُولٰٓئِكَ هُمُ الْمُفْلِحُوْنَ ﴿٣٨﴾

၃၈။ သို့ဖြစ်ပေရာ အသင်သည် သွေးရင်းသားရင်းတို့၏ အခွင့်အရေးကို ပေးဆောင်လော့။ ထို့ပြင် သူဆင်းရဲအားလည်းကောင်း၊ ခရီးသည်အားလည်းကောင်း၊ (ပေးကမ်းလှူဒါန်းလေ)။ ဤသည်ကား အလ္လာဟ်အရှင်မြတ်၏ နှစ်သက်ကျေနပ်မှုကို လိုလားကြသောသူတို့အဖို့ အကောင်းဆုံးပင်ဖြစ်၏။ စင်စစ်သော် ယင်းကဲ့သို့သော သူတို့သည်သာလျှင် အောင်မြင်မှု ရရှိကြအံ့သောသူများ ဖြစ်ကြကုန်၏။ [၁]

وَمَآ اٰتَيْتُمْ مِّنْ رِّبًا لِّيَرْبُوَا۟ فِيْٓ اَمْوَالِ النَّاسِ فَلَا يَرْبُوْا عِنْدَ اللّٰهِ ۚ وَمَآ اٰتَيْتُمْ مِّنْ زَكٰوةٍ تُرِيْدُوْنَ وَجْهَ اللّٰهِ فَاُولٰٓئِكَ هُمُ الْمُضْعِفُوْنَ ﴿٣٩﴾

၃၉။ စင်စစ်မှာမူကား အသင်တို့သည် လူတို့၏ ပစ္စည်းများတွင် (ရောစပ်၍) တိုးပွားပြီးလျှင် အသင်တို့ထံ ရောက်လာရန် ပေးခဲ့ကြသော လက်ဆောင်ပစ္စည်းမှာ အလ္လာဟ်အရှင်မြတ် အထံတော်တွင် တိုးပွားသည်မဟုတ်ပေ။ သို့ရာတွင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ နှစ်သက်ကျေနပ်မှုကို လိုလား၍ တစုံတရာ အလှူဒါနကို ပေးကမ်းလှူဒါန်းကြပါမူ၊ ယင်းကဲ့သို့ (ပေးကမ်းလှူဒါန်းကြ)သောသူတို့သာလျှင် (မိမိတို့ပေးကမ်းလှူဒါန်းခဲ့ကြသည်များကို အလ္လာဟ်အရှင်မြတ် အထံတော်၌) တိုးပွားစေကြသူများဖြစ်ကြကုန်၏။ [၂]

---

(၁) သဘာဝဓမ္မအရလည်း အရာခပ်သိမ်းကုန်တို့ကို အမှန်တကယ် စိုးပိုင်တော်မူသော အရှင်မှာ အလ္လာဟ်အရှင်မြတ်ပင် ဖြစ်ကြောင်း၊ လောကီသုခချမ်းသာ အဖြာဖြာတို့မှာလည်း ထိုအရှင်မြတ် ပေးသနားတော်မူသော အရာများချည်းသာဖြစ်ကြောင်း ထင်ရှားပေရာ၊ ထိုအရှင်မြတ်၏ နှစ်သက်မှုကို လိုလားသူများ၊ ထိုအရှင်မြတ်အား ဖူးတွေ့လိုသူများသည် ထိုအရှင်မြတ်၏ လမ်းတော်တွင် ထိုအရှင်မြတ်ပေးသနားတော်မူသော အရာများအနက်မှ အချို့အဝက်ကို စားဝတ်နေရေး အဆင်မပြေသော ဆွေဆင်းရဲ၊ မျိုးဆင်းရဲ၊ သူဆင်းရဲ၊ ခရီးတိပ်ပြတ်ခရီးသည်ဧသည်တို့အား ပေးကမ်းလှူဒါန်း ကြရပေမည်။ ဤသို့ အချင်းချင်း ထောက်ထား၊စာနာ၊ သနား၊ကြင်နာကာ ကူညီထောက်ပံ့သော သူမွန်သူမြတ်တို့သည် ၂-ဘဝလုံးတွင် အောင်မြင်ကြမည်သာတည်း။

ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် ချမ်းသာကြွယ်ဝသူများ၏ ဥစ္စာပစ္စည်းများတွင် ဆင်းရဲနွမ်းပါးသူများ ရသင့်ရထိုက်သော အခွင့်အရေးများ သတ်မှတ်ပြီးဖြစ်ကြောင်း၊ ချမ်းသာကြွယ်ဝသူများက ဆင်းရဲနွမ်းပါးသူတို့အား ပေးခြင်းမှာ ကျေးဇူးပြုခြင်းမဟုတ်၊ တာဝန်ချခြင်းသာဖြစ်ကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။ ဤသည့်သဘောကို 'ဟတ်က္ကဟူ' ဟူသောပုဒ်က အထူးထောက်ပြလျက်ရှိသည်။(ကြည့်-မာဂျိဒီ)။

## ⑵ အတိုးအညွန့် စားသုံးခြင်းဖြင့် ပစ္စည်းဥစ္စာမတိုးပွား၊ ဇကာတ်ပေးခြင်းဖြင့်သာ ပစ္စည်းဥစ္စာ တိုးပွားသည်။

အတိုးအညွန့်စားသုံးခြင်းဖြင့် ပစ္စည်းဥစ္စာသည် အမြင်အားဖြင့် တိုးပွားသည်ဟူ၍ ထင်ရပေသည်။ အမှန်မှာ အတိုးအညွန့်စားသုံးခြင်းဖြင့် ဥစ္စာပစ္စည်း မတိုးပွားသည်သာမက ဆုတ်ယုတ်ပေသည်။ အတိုးအညွန့် စားသုံးခြင်းဖြင့် ဥစ္စာပစ္စည်းတိုးပွားခြင်းမှာ အတွင်းဓာတ်ပျက်၍ ကိုယ်ခန္ဓာဖောရောင်နေသော လူမမာ၏ ဖောင်းပွခြင်းမျိုးပင်။ ကိုယ်ခန္ဓာဖောရောင်နေသော လူမမာသည် အမြင်အားဖြင့်ဝနေသည်ဟု ထင်ရသော်လည်း ၎င်း၏ဝခြင်းမှာ ရိုးရိုးဝခြင်းမဟုတ်၊ ဖောရောင်နေခြင်း မျှသာဖြစ်ပေသည်။ ဖောရောင်ခြင်းသည် သေမင်းကို လက်ယပ်ခေါ်နေခြင်း မျှသာဖြစ်သည်။

ဇကာတ်ပေးခြင်းအားဖြင့် ဥစ္စာပစ္စည်းသည် အမြင်အားဖြင့် ယုတ်လျော့သွားသည်ဟူ၍ ထင်ရသည်။ အမှန်မှာ ဇကာတ်ပေးခြင်းအားဖြင့် ဥစ္စာပစ္စည်း မယုတ်လျော့သည်သာမက တိုးပွား၍ပင်လာပေသည်။ ဇကာတ် ပေးခြင်းဖြင့် ဥစ္စာပစ္စည်းယုတ်လျော့ခြင်းမှာ ဝမ်းနှုတ်ဆေးစားသည့်အတွက် အနည်းငယ် ကိုယ်ခန္ဓာ စစ်သွားခြင်းမျိုးပင်။ ယင်းသို့ ကိုယ်ခန္ဓာစစ်သွားခြင်းမှာ ကျန်းမာခြင်း၊ ပိုမိုသန့်စွမ်းလာမည်ဖြစ်ခြင်း၏ လက္ခဏာပင်။

ကြည့်-ကုရ်အာန် (၂း၂၇၅-၂၇၆)။

ဇကာတ်၏ အကျိုးကို နောင်တမလွန်ဘဝတွင် ခံစားရမည်ကားအမှန်ပင်။ ထိုမှတစ်ပါး ဤပစ္စုပ္ပန် ဘဝတွင် ဇကာတ်၏ များစွာသော အကျိုးများကို ခံစားရသည်မှာလည်း မျက်ဝါးထင်ထင်ပင်။

ဥပမာ- ဇကာတ်ပေးခြင်းအားဖြင့် ဇကာတ်ပေးသောပုဂ္ဂိုလ်၏ စိတ်နှလုံးသည် အလွန် သန့်ရှင်းသွား သည်။ ကြည်နူးသည်။ ပီတိဖြစ်သည်။ ဆထက်ထမ်းပိုး တိုး၍တိုး၍ ဇကာတ်ပေးနိုင်ရန် ကြိုးစားသည်။ စိတ်ဓါတ်အင်အား တက်ကြွလာသည်။ ဇကာတ်ပေးသူအား ဆင်းရဲသားများသည်လည်း ကျေနပ်နှစ်သက်ကြသည်။ မေတ္တာပို့ကြသည်။ထိုသူ့အတွက် ဆုမွန်ကောင်းတောင်းကြသည်။ ထိုသို့သောသူအား သူငါအများကလည်း ကြည်ညိုလေးစားကြသည်။ အလ္လာဟ်အရှင်မြတ်သည်လည်း ထိုသို့သောပုဂ္ဂိုလ်၏ ဥစ္စာပစ္စည်းကို တိုးပွားစေတော် မူသည်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဩဝါဒတော်တွင် လာရှိသည်မှာ-

> အလ္လာဟ်အရှင်မြတ်က "အို- အာဒမ်၏သား၊ အသင်သည် (ငါအရှင်မြတ်၏ ဆင်းရဲနွမ်းပါးသော ကျွန်များအား ပေးလှူရာတွင်လည်းကောင်း၊ အခြားကောင်းမြတ်သော ကုသိုလ်ရေးကိစ္စများတွင်လည်းကောင်း) ငါအရှင်မြတ် ပေးသနားထားတော်မူသော ဥစ္စာပစ္စည်းများကို သုံးစွဲနေပါက ငါအရှင်မြတ်သည် အသင့်အား အမြဲတစေပေးသနား၍ နေတော်မူမည်သာဖြစ်သည်"
>
> ဟု မိန့်ကြားထားတော်မူသည်။

အချို့ပညာရှင်များက ဤအာယတ်တော်တွင်ပါရှိသော "ရိဗာ" ဟူသောပုဒ်သည် အတိုးအညွန့်၏ အနက်၌မဟုတ်၊ သူတစ်ပါးက မိမိအား ကျေးဇူးတုံ့ပြန်သည့်အနေဖြင့် ပိုမို၍လက်ဆောင်ပေးစေလိုသည့် ရည်ရွယ်ချက်ဖြင့် မိမိကသူတစ်ပါးအား စတင်လက်ဆောင်ပေးခြင်း အနက်၌ဖြစ်သည်ဟု ဖွင့်ဆိုကြသည်။ ထိုသို့ စေဘနာမဖြူစင်သော လက်ဆောင်များသည် အလ္လာဟ်အရှင်မြတ်ထံတော်၌ တိုးပွားသည်မရှိပေ။ ယခုခေတ် အချို့သော မင်္ဂလာအခမ်းအနားများ၌ ပေးကြသောလက်ဆောင်များတွင် ဤသို့သောလက်ဆောင်များ မပါဟု အသူဆိုနိုင်အံ့နည်း။

اَللّٰهُ الَّذِىۡ خَلَقَكُمۡ ثُمَّ رَزَقَكُمۡ ثُمَّ يُمِيۡتُكُمۡ ثُمَّ يُحۡيِيۡكُمۡ ؕ هَلۡ مِنۡ شُرَكَآٮِٕكُمۡ مَّنۡ يَّفۡعَلُ مِنۡ ذٰلِكُمۡ مِّنۡ شَىۡءٍ ؕ سُبۡحٰنَهٗ وَتَعٰلٰى عَمَّا يُشۡرِكُوۡنَ ؑ ﴿۴۰﴾

၄၀။ အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် အသင်တို့အား ဖန်ဆင်းတော်မူခဲ့သောအရှင်မြတ် ဖြစ်တော်မူ၏။ ထို့နောက် ထိုအရှင်မြတ်သည်ပင် အသင်တို့အား စားနပ်ရိက္ခာ ပေးသနားတော်မူခဲ့၏။ ထို့နောက် ထိုအရှင်မြတ်သည်ပင် အသင်တို့အား သေစေတော်မူ၏။ ထို့နောက် ထိုအရှင်မြတ်သည်ပင် အသင်တို့အား ရှင်စေတော်မူမည်။ (အသင်တို့ ထိုအရှင်မြတ်နှင့် နှိုင်းယှဉ်တွဲဖက် ကိုးကွယ်လျက် ရှိကြကုန်သော) အသင်တို့၏ တွဲဖက်များတွင် ဤသည်တို့အနက် မည်သည့် တစ်စုံတစ်ရာကိုမဆို ပြုစွမ်းနိုင်သောသူဟူ၍ တစ်ဦးတစ်ယောက်မျှပင် ရှိလေသလော။ ထိုအရှင်မြတ်သည် ၎င်းတို့ တွဲဖက်နှိုင်းယှဉ် ကိုးကွယ်ကြသည်များမှ စင်ကြယ်သန့်ရှင်း မြင့်မြတ်လှတော်မူပေသည်တကား။

ظَهَرَ الۡفَسَادُ فِى الۡبَرِّ وَالۡبَحۡرِ بِمَا كَسَبَتۡ اَيۡدِى النَّاسِ لِيُذِيۡقَهُمۡ بَعۡضَ الَّذِىۡ عَمِلُوۡا لَعَلَّهُمۡ يَرۡجِعُوۡنَ ﴿۴۱﴾

၄၁။ လူတို့၏ လက်များက ဆည်းပူးခဲ့ကြသော (မကောင်းမှုဒုစရိုက်တို့)ကြောင့် ကုန်းမြေ၌လည်းကောင်း၊ သမုဒ္ဒရာပင်လယ်၌လည်းကောင်း၊ ပျက်စီးမှု (ဘေးဥပဒ်များ)သည် ဖြစ်ပေါ်၍နေချေပြီ။ နောက်ဆုံးတွင် ထိုအရှင်မြတ်သည် ၎င်းတို့ကျင့်မူခဲ့ကြသော ပြစ်မှုအချို့၏ရသာကို ၎င်းတို့အား မြည်းစမ်းစေတော်မူမည် ဖြစ်ပေသည်။ သို့မှသာလျှင် ၎င်းတို့သည် (မိမိတို့၏ ပြစ်မှုများမှ) ပြန်လှည့်ကြပေမည်။ [၁]

---

(၁) လူသားတို့သည် အစ္စလာမ်၏မှန်ကန်သော သဘာဝဓမ္မလမ်းစဉ်ကို ကျောခိုင်း၍ ကုဖ်ရ်၊ ရှရစ်က် အမှုများတွင် နစ်မွန်းပြီး အမျိုးမျိုး ဆိုးသွမ်းမိုက်မဲလာကြသည့်အခါ ကမ္ဘာ့မြေပြင်တွင်လည်းကောင်း၊ ကမ္ဘာ့ရေပြင်တွင်လည်းကောင်း၊ ကမ္ဘာ့အဝှန်းတွင်လည်းကောင်း ကပ်အမျိုးမျိုး၊ ပျက်စီးခြင်းအဖုံဖုံ ဆိုက်ရောက်လာပေမည်။ အေးချမ်းသာယာမှုသည် အပျောက်ကြီး ပျောက်သွားပေသည်။ ဤကား မည်သူမပြုမိမိမှုပင်။

အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား ၎င်းတို့၏ အချို့ဆိုးသွမ်းမှုများ၏ ပြစ်ဒဏ်ကို ဤပစ္စက္ခဘဝတွင်ပင် အနည်းငယ် မြည်းစမ်းစေတော်မူသည်၊ ဤပစ္စက္ခတွင်ပင် လက်ငင်းခံစားကြပြီး သတိသံဝေဂ နောင်တရနိုင်ကြပေသည်။

قُلْ سِيرُوا فِي الْأَرْضِ فَانظُرُوا كَيْفَ كَانَ عَاقِبَةُ الَّذِينَ مِن قَبْلُ ۚ كَانَ أَكْثَرُهُم مُّشْرِكِينَ ﴿٤٢﴾

၄၂။ (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် ကမ္ဘာမြေဝယ် လှည့်လည် သွားလာကြပြီးလျှင် ယခင်က ရှိခဲ့ဖူးကြသောသူတို့၏ နောက်ဆုံးအကျိုးသည် မည်သို့မည်ပုံရှိခဲ့သည်ကို ကြည့်ရှု(လေ့လာ)ကြလေကုန်၊ ၎င်းတို့အနက် အများစုမှာမူကား “မုရှ်ရစ်က်” အခြားအရာများကို အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် ကိုးကွယ်ကြသူများပင် ဖြစ်ခဲ့ကြကုန်သတည်း။

فَأَقِمْ وَجْهَكَ لِلدِّينِ الْقَيِّمِ مِن قَبْلِ أَن يَأْتِيَ يَوْمٌ لَّا مَرَدَّ لَهُ مِنَ اللَّهِ ۖ يَوْمَئِذٍ يَصَّدَّعُونَ ﴿٤٣﴾

၄၃။ သို့ဖြစ်ပေရာ အသင်သည် မိမိ၏မျက်နှာကို (ဤသို့) *ဖြောင့်မတ်သော ‘ဒီန်’ သာသနာပေါ် မြဲမြံတည်တံ့စွာ ထားရှိလော့၊* [၁] အလ္လာဟ်အရှင်မြတ်အထံတော်မှ ရွှေ့ပြောင်းမှု အလျှင်းရှိမည် မဟုတ်သောနေ့ ဆိုက်ရောက်မလာမီ ထိုနေ့တွင် လူတို့သည် တကွဲစီရှိကြပေမည်။

مَن كَفَرَ فَعَلَيْهِ كُفْرُهُ ۖ وَمَنْ عَمِلَ صَالِحًا فَلِأَنفُسِهِمْ يَمْهَدُونَ ﴿٤٤﴾

၄၄။ မည်သူမဆို သွေဖည်ငြင်းပယ်ခဲ့မူ ၎င်း၏ သွေဖည်မှုသည် ၎င်း၏အပေါ်၌သာ ကျရောက်ပေမည်။ ထိုနည်းတူစွာ မည်သူမဆို ကောင်းမြတ်သော အကျင့်သီလကိုဆောက်တည်ခဲ့မူ ၎င်းတို့သည် မိမိတို့အကျိုးငှာ စီမံဆောင်ရွက်နေကြခြင်းသာဖြစ်သည်။

---

(၁) လူသားတို့၏ အကျင့်ပျက်မှုများကြောင့် ကမ္ဘာတွင် ပျက်စီးမှုအမျိုးမျိုး၊ ကပ်အဖုံဖုံ ဆိုက်ရောက်သည့်အခါ ယင်းသည့်ဘေးအန္တရာယ် အပေါင်းမှ လွတ်မြောက်ရန် တစ်ခုတည်းသော ဆေးနည်းကောင်းမှာ ဖြောင့်မတ်မှန်ကန်သော အစ္စလာမ်လမ်းစဉ်အပေါ်၌ တိကျမှန်ကန်စွာ ရပ်တည်နေခြင်းပင် ဖြစ်ပေသည်။

لِيَجْزِيَ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ مِن فَضْلِهِ ۚ إِنَّهُ لَا يُحِبُّ الْكَافِرِينَ ﴿٤٥﴾

၄၅။ သို့မှသာလျှင် ထိုအရှင်မြတ်သည် 'အီမာန်' သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူတည်ဆောက် ခဲ့ကြကုန်သောသူများအား မိမိကျေးဇူးတော်ဖြင့် (ကောင်းမြတ်သော) အစားကို ပေးတော်မူအံ့။ ဧကန်စင်စစ် ထိုအရှင်မြတ်သည် သွေဖည်ငြင်းပယ်သောသူတို့အား နှစ်သက်တော်မူသည် မဟုတ်ပေတကား။

وَمِنْ آيَاتِهِ أَن يُرْسِلَ الرِّيَاحَ مُبَشِّرَاتٍ وَلِيُذِيقَكُم مِّن رَّحْمَتِهِ وَلِتَجْرِيَ الْفُلْكُ بِأَمْرِهِ وَلِتَبْتَغُوا مِن فَضْلِهِ وَلَعَلَّكُمْ تَشْكُرُونَ ﴿٤٦﴾

၄၆။ စင်စစ် ထိုအရှင်မြတ်၏ သက်သေလက္ခဏာများအနက်မှ ထိုအရှင်မြတ်သည် ရှေ့ပြေးသတင်းကောင်းအဖြစ်လည်းကောင်း၊ ထိုအရှင်မြတ်၏ ကရုဏာတော်၏ရသာကို အသင်တို့အား မြည်းစမ်းစေတော်မူအံ့သောငှာလည်းကောင်း၊ ထိုအရှင်မြတ်၏ အမိန့်တော်နှင့်ရွက်သင်္ဘောများသည် (ပင်လယ်သမုဒ္ဒရာ)၌ သွားလာနိုင်ကြအံ့သောငှာလည်းကောင်း၊ အသင်တို့သည် ထိုအရှင်မြတ်၏ ကျေးဇူးတော်တည်းဟူသော စားနပ်ရိက္ခာကို ရှာဖွေနိုင်ကြအံ့သောငှာလည်းကောင်း၊ အသင်တို့သည် ကျေးဇူးတော်ကို သိတတ်ကြအံ့သောငှာလည်းကောင်း (မိုးမရွာမီ) လေများကို စေလွှတ်တော်မူခြင်းပင် ဖြစ်ပေသည်။

وَلَقَدْ أَرْسَلْنَا مِن قَبْلِكَ رُسُلًا إِلَىٰ قَوْمِهِمْ فَجَاءُوهُم بِالْبَيِّنَاتِ فَانتَقَمْنَا مِنَ الَّذِينَ أَجْرَمُوا ۖ وَكَانَ

၄၇။ ထို့ပြင် မချွတ်မလွဲ ငါအရှင်မြတ်သည် အသင့်အလျင် ရစူလ်တမန်တော်များအား ၎င်းတို့၏အမျိုးသားတို့ထံ စေလွှတ်တော်မူခဲ့ရာ ထိုရစူလ်တမန်တော်များသည် ၎င်းတို့ထံ ထင်ရှားစွာသော သက်သေသာဓကများနှင့်တကွ ရောက်ရှိလာခဲ့ကြကုန်၏။ ထို့နောက် ငါအရှင်မြတ်သည် ပြစ်မှုကျူးလွန်ကြကုန်သော သူတို့အား လက်စားချေတော်မူခဲ့၏။

حَقًّا عَلَيْنَا نَصْرُ الْمُؤْمِنِينَ ﴿٤٧﴾

စင်စစ် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အား ကူညီစောင်မတော်မူခြင်းသည် *ငါအရှင်မြတ်၏ တာဝန်ပင် ဖြစ်ပေသတည်း။* [၁]

اللَّهُ الَّذِي يُرْسِلُ الرِّيَاحَ فَتُثِيرُ سَحَابًا فَيَبْسُطُهُ فِي السَّمَاءِ كَيْفَ يَشَاءُ وَيَجْعَلُهُ كِسَفًا فَتَرَى الْوَدْقَ يَخْرُجُ مِنْ خِلَالِهِ ۖ فَإِذَا أَصَابَ بِهِ مَنْ يَشَاءُ مِنْ عِبَادِهِ إِذَا هُمْ يَسْتَبْشِرُونَ ﴿٤٨﴾

**၄၈။** အလ္လာဟ်သည် အကြင်အရှင်မြတ်ပင်၊ ထိုအရှင်မြတ်သည် လေများကို စေလွှတ်တော်မူ၏။ ထိုအခါ ထိုလေများသည် မိုးတိမ်များကို သယ်ဆောင်၍ သွားကြ၏။ ထို့နောက် ထိုအရှင်မြတ်သည် (တခါတရံ) ယင်းမိုးတိမ်များကို မိမိ အလိုရှိတော်မူသည့်အတိုင်း မိုးကောင်းကင်၌ ဖြန့်တော်မူ၏။ (တခါတရံ) ထိုအရှင်မြတ်သည် ယင်းမိုးတိမ်များကို အစိတ်စိတ်အပိုင်းပိုင်း ပြုလုပ်တော်မူ၏။ ထို့နောက် အသင်သည် ယင်းမိုးတိမ်များ၏အကြားမှ မိုးရေ (ကျလာသည်)ကို တွေ့မြင်လေ၏။

ထို့နောက် ထိုအရှင်မြတ်သည် ယင်းမိုးရေကို မိမိကျွန်များအနက် မိမိအလိုရှိတော်မူသောသူ၏ထံသို့ သက်ရောက်စေတော်မူသောအခါ ၎င်းတို့သည် ရုတ်တရက် ချက်ချင်းပင် ဝမ်းမြောက်ပျော်ရွှင်ကြကုန်၏။

وَإِنْ كَانُوا مِنْ قَبْلِ أَنْ يُنَزَّلَ عَلَيْهِمْ مِنْ قَبْلِهِ لَمُبْلِسِينَ ﴿٤٩﴾

**၄၉။** အမှန်စင်စစ်သော်ကား ၎င်းတို့သည် ယင်းသို့ ဝမ်းမြောက်မီ ထိုမိုးမရွာမီက အမှန်ပင် မျှော်လင့်ချက် ကင်းမဲ့လျက် ရှိခဲ့ကြကုန်၏။

---

(၁) အထက်တွင် ကိယာမတ်နေ့၌ မုအ်မင်န်သူတော်စင်များနှင့် ကာဖိရ်လူယုတ်မာတို့သည် အသီးသီးတခြားစီ ဖြစ်သွားကြရမည့်အကြောင်း၊ အမိန့်တော်ကို သွေဖည်သောသူများသည် အမိန့်တော် သွေဖည်မှု၏ဒဏ် ခံကြရမည့်အကြောင်းပါရှိ၏။ ယခုဤအာယတ်တော်တွင် ယင်းသည့် ဖြစ်ရပ်များသည် ဤပစ္စက္ခတွင်လည်း နည်းများမဆို ပေါ်လွင်လာမည်ဖြစ်ကြောင်း မိန့်ဆိုထားတော်မူသည်။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် အပြစ်ရှိသူတို့အား ထိုက်သည့်အားလျော်စွာ အပြစ်ပေးတော်မူရန်နှင့် မုအ်မင်န်သူတော်စင်တို့အား ကာကွယ်စောင့်ရှောက် ကူညီတော်မူရန် တာဝန်ယူထားတော်မူသည်။ အလ္လာဟ်အရှင်မြတ်၏ 'စွန္နတ်' တော်မှာလည်း ဤအတိုင်းပင်ဖြစ်သည်။

فَانْظُرْ اِلٰٓى اٰثٰرِ رَحْمَتِ اللّٰهِ كَيْفَ يُحْيِ الْاَرْضَ بَعْدَ مَوْتِهَا ۗ اِنَّ ذٰلِكَ لَمُحْيِ الْمَوْتٰى ۚ وَهُوَ عَلٰى كُلِّ شَيْءٍ قَدِيْرٌ ﴿٥٠﴾

၅၀။ သို့ဖြစ်ပေရာ အသင်သည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်(တည်းဟူသော မိုးရွာသွန်းခြင်း)၏ အမှတ်လက္ခဏာများကို ကြည့်လေ။ ထိုအရှင်မြတ်သည် ပထဝီမြေကို ယင်းပထဝီမြေ (သွေ့ခြောက်) သေပြီးနောက် မည်သို့ ရှင်စေတော်မူခဲ့ပါသနည်း။ ဧကန်မလွဲ ထိုအရှင်မြတ်သည်ပင် သူသေတို့အား ရှင်စေတော်မူမည့် အရှင်ဖြစ်တော်မူ၏။ ထိုမှတပါး ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

وَلَئِنْ اَرْسَلْنَا رِيْحًا فَرَاَوْهُ مُصْفَرًّا لَّظَلُّوْا مِنْ بَعْدِهٖ يَكْفُرُوْنَ ﴿٥١﴾

၅၁။ သို့ရာတွင် အမှန်ပင် အကယ်၍ ငါအရှင်မြတ်သည် (အခြားသော)လေတမျိုးကို စေလွှတ်တော်မူ၍ ၎င်းတို့သည် ထိုလယ်ယာကို ဝါ၍နေသည်ကို တွေ့မြင်ခဲ့ကြလျှင် ၎င်းတို့သည် ထို(သို့ဝါသွားသည့်) နောက်တွင် အမှန်ပင် ကျေးဇူးကန်းကြကုန်အံ့သတည်း။ [၁]

فَاِنَّكَ لَا تُسْمِعُ الْمَوْتٰى وَلَا تُسْمِعُ الصُّمَّ الدُّعَآءَ اِذَا وَلَّوْا مُدْبِرِيْنَ ﴿٥٢﴾

၅၂။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) ဧကန်အမှန် အသင်သည် သူသေတို့အား ကြားစေနိုင်သည် မဟုတ်ပေ။ ထို့နည်းတူစွာ အသင်သည် နားပင်းသူတို့အား လည်း ၎င်းတို့ ကျောခိုင်းလှည့် ပြန်သွားကြသောအခါ ဟစ်ခေါ်သံကို ကြားစေနိုင်သည် မဟုတ်ပေ။

---

(၁) လူသားသည် ပထမသော် မျှော်လင့်ချက်ကင်းကာ စိတ်အပျက်ကြီးပျက်၍ နေခဲ့၏။ ထို့နောက် အလ္လာဟ် အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် မိုးကျလာခဲ့၏။ မြေသေသည် ရှင်လာခဲ့၏။ စိုပြည်သာယာလာခဲ့၏။ ထိုအခါ လူသားသည် အပျော်ကြီးပျော်နိုင်ခဲ့၏။ ထိုသည့်နောက်ပိုင်းတွင် လေပူလေကြမ်း တိုက်ခတ်သဖြင့် စိုပြည်နေသော လယ်ယာများ ခြောက်သွေ့ပြီး၊ ဝါကြန့်ကြန့် ဝါဖန့်ဖန့်ဖြစ်နေသည်ကို တွေ့မြင်ရပြန်သော်၊ လူသားသည် စိတ်ပြောင်းကာ အလ္လာဟ်အရှင်မြတ်၏ ယခင်ကျေးဇူးတော်အားလုံးကို အမေ့ကြီးမေ့၍ ကျေးဇူးကန်းသွားလေသည်။ လူ၏စိတ်ကား အပြောင်းအလဲမြန်ဘိသည်။ ယခုကျေးဇူးတင် ယခုကျေးဇူးကန်း။ အမှန်မှာ လူသား၏ကျေးဇူးတင်မှု၊ ကျေးဇူးကန်းမှုများသည် ကိုယ်ကျိုးနှင့် ဆက်စပ်နေသည်။ ကိုယ်ကျိုးရှိက ကျေးဇူးတင်သည်။ ကိုယ်ကျိုးမရှိက ကျေးဇူးကန်းသည်။

ဤအာယတ်တော်များကို ထောက်ခြင့်၍ လူသားတို့သိထားအပ်သည်မှာ အလ္လာဟ်အရှင်မြတ်၏ ➤➤

وَمَآ اَنۡتَ بِهٰدِ الۡعُمۡىِ عَنۡ ضَلٰلَتِهِمۡ‌ؕ اِنۡ تُسۡمِعُ اِلَّا مَنۡ يُّؤۡمِنُ بِاٰيٰتِنَا فَهُمۡ مُّسۡلِمُوۡنَ ﴿۵۳﴾

၅၃။ ထိုမှတပါး အသင်သည် မျက်စိကန်းသူတို့အားလည်း ၎င်းတို့၏လမ်းလွဲခြင်းမှ (ကယ်တင်ခြင်းငှာ) တရားလမ်းကို ပြသနိုင်မည်မဟုတ်ပေ။ အသင်သည် ငါအရှင်မြတ်၏ အာယတ်တော်များကို ယုံကြည်၍ (အမိန့်တော်များကို) နာခံသော သူတို့အားသာလျှင် ကြားစေနိုင်ပေသတည်း။ [၁]

اَللّٰهُ الَّذِىۡ خَلَقَكُمۡ مِّنۡ ضُعۡفٍ ثُمَّ جَعَلَ مِنۡۢ بَعۡدِ ضُعۡفٍ قُوَّةً ثُمَّ جَعَلَ مِنۡۢ بَعۡدِ قُوَّةٍ ضُعۡفًا وَّشَيۡبَةً‌ ؕ يَخۡلُقُ مَا يَشَآءُ‌ ۚ وَهُوَ الۡعَلِيۡمُ الۡقَدِيۡرُ ﴿۵۴﴾

၅၄။ အလ္လာဟ်အရှင်မြတ်သည် အကြင်အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် အသင်တို့အားအားနည်းရာမှ ဖန်ဆင်းတော်မူ၏။ ထို့နောက် ထိုအရှင်မြတ်သည် (ယင်း)အားနည်းမှု၏ နောက်တွင် ခွန်အားကို ပြုလုပ်၍ ပေးတော်မူ၏။ ထို့နောက်တဖန် ထိုအရှင်မြတ်သည် (ထို)ခွန်အား၏ နောက်တွင် အားနည်းမှုကိုလည်းကောင်း၊ အသက်အရွယ် အိုမင်းရင့်ရော်မှုကိုလည်းကောင်း၊ ပြုလုပ်တော်မူ၏။ [၂]

ထိုအရှင်မြတ်သည် မိမိ အလိုရှိတော်မူသော အရာကို ဖန်ဆင်းတော်မူ၏။ အမှန်သော်ကား ထိုအရှင်မြတ်သည် (အရာခပ်သိမ်းတို့ ကို) အလွန်တရာ သိတော်မူသော (အရာခပ်သိမ်းတို့ကို) စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

▶▶ တန်ခိုးတော်များကား ဆန်းကြယ်ဘိ၏။ ထိုအရှင်မြတ်သည် မိမိချီးမြှင့်ထားတော်မူသော ကျေးဇူးတော်များကို ရုပ်သိမ်းတော်မူလိုပါက အခါခပ်သိမ်း ပြန်လည်ရုပ်သိမ်းတော်မူနိုင်သည်။ သို့ဖြစ်ရာ လူသားသည် မိမိရရှိထားသော သုခချမ်းသာကို ထာဝရတည်ရှိမည်ဟု ထင်မှတ်ကာ စိတ်ချလက်ချမနေရာ၊ အတင့်မရဲရာ။

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသည်။ အရာခပ်သိမ်းကို ပြုစွမ်းတော်မူနိုင်သည်။ တမန်တော်မြတ်၌ ဤသည့်စွမ်းရည်သတ္တိများမရှိ။ တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)သည် အထူးသဖြင့် ကျော်ခိုင်းနေသော၊ အမှန်တရားကို မကြားလိုသောသူသေများ၊ နားပင်းများအား ကြားစေနိုင်သည်မဟုတ်၊ အမှန်တရားကို မမြင်လိုသော မျက်ကန်းများအား လမ်းပြနိုင်သည်လည်းမဟုတ်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ထိုသို့သော သူယုတ်မာများ၏ သွေဖည်ငြင်းဆန်မှု ကျေးဇူးကန်းမှုများကြောင့် စိတ်ပျက်နေတော်မူရန် မလိုပေ။ အဘယ်ကြောင့်ဆိုသော် ▶▶

وَيَوْمَ تَقُومُ السَّاعَةُ يُقْسِمُ الْمُجْرِمُونَ مَا لَبِثُوا غَيْرَ سَاعَةٍ كَذَٰلِكَ كَانُوا يُؤْفَكُونَ ﴿٥٥﴾

၅၅။ ၎င်းပြင် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့၏ အချိန်အခါ ဆိုက်ရောက်လာသောနေ့တွင် ပြစ်မှုကျူးလွန်ခဲ့ကြကုန်သော သူတို့သည် မိမိတို့မှာ တနာရီထက် ပို၍ နေခဲ့ကြသည် မဟုတ်ဟု (ကျိန်တွယ်၍ ပြောဆို) ကြပေမည်။ ၎င်းတို့သည် ဤနည်းအတိုင်းပင် (လောကီဘဝ၌)လှည့်စားလျက် ရှိခဲ့ကြကုန်၏။ [၁]

---

➤➤ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အဓိကတာဝန်မှာ တရားဓမ္မ ဟောညွှန်ပြရန်သာဖြစ်သည်။ နာခံခြင်း၊မနာခံခြင်းမှာ ၎င်းတို့၏အရေးသာဖြစ်သည်။ အမှန်မှာ အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို ယုံကြည်၍ အမိန့်တော်ကို နာခံလိုစိတ်ရှိသော မုစ်လင်မ်များသည်သာလျှင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ တရားဓမ္မကို ကြည်ဖြူစွာ နာခံကြပေမည်။

ဤအာယတ်တော်နှင့် အနက်သဘောတူ အာယတ်တော်များ ယခင်ကပါရှိခဲ့ချေပြီ။

ကြည့်-ကုရ်အာန် (၂၇း၈၀-၈၁)။

(၂) ကလေးသူငယ်သည် မွေးဖွားခါစအချိန်တွင် အားအင်မရှိ၊ တစ်စုံတစ်ရာမပြုစွမ်းနိုင်။ ထို့နောက်တဖြည်းဖြည်း အားအင်များ၍များ၍လာပြီး၊ လူလားမြောက်သည့်အခါ အားအင်များသည် အဖက်ဖက်မှပြည့်ဝလာသည်။ သို့ပျိုရွယ်သန်စွမ်းပြီး နောက်တစ်ဖန် အားအင်များသည် တဖြည်းဖြည်း ဆုတ်ယုတ်ပြန်သည်။ အိုမင်းရင့်ရော်လာသည်။ နောက်ဆုံးတွင် အိုမင်းသောအရွယ်သို့ရောက်ပြီး တစုံတရာ မပြုစွမ်းနိုင်သောဘဝသို့ ပြန်လည်ရောက်ရှိသွားပေသည်။ ဤသို့ လူ့ဘဝသက်တမ်းတွင်ပင် အားအင်မရှိရာမှ အားအင်ရှိလာခြင်း၊ အားအင်ရှိရာမှ အားအင်ဆုတ်ယုတ်ခြင်းစသည့် တိုးတက်ခြင်း၊ ဆုတ်ယုတ်ခြင်းများသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ထိုအရှင်မြတ်သည် အရာတစ်ခုကို မိမိအလိုတော်အတိုင်း ပြုလုပ်တော်မူ၍ အားအင်တိုးတက်မှု၊ အားအင်ဆုတ်ယုတ်မှု၏ အမျိုးမျိုးသောဘဝများတွင် လည်ပတ်စေတော်မူသည်။ ထိုအရှင်မြတ်သည် မည်သည့်အရာကို မည်သည့်အချိန်ထိ မည်သည့်အခြေအနေများတွင် ထားသင့်ထားအပ်သည်ကို ကောင်းစွာ သိတော်မူသည်။ သို့ဖြစ်ပေရာ လူသားတို့သည် ထိုသို့သော အရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်ကြရာသည်။ ထိုအရှင်မြတ် စေလွှတ်တော်မူလိုက်သော တမန်တော်များ၏ ဩဝါဒတော်များကိုသာ နာခံကြရာသည်။

(၁) ကိယာမတ် ဖြစ်ပေါ်လာသည့်နေ့တွင် ကာဖိရ်များသည် အကြောက်ကြီးကြောက်၊ အလန့်ကြီးလန့်ပြီး "ကျွန်ုပ်တို့သည် လူ့လောကတွင် သို့မဟုတ် သင်္ချိုင်းများတွင် သို့မဟုတ် "ဗရ်ဇခ်" ကြားကာလတွင် တစ်နာရီထက်ပို၍ မနေခဲ့ကြရပါဟု ကျိန်တွယ်ပြောဆိုကြပေမည်။ "ကိယာမတ်သည် အချိန်မကျရောက်မီစော၍ ဖြစ်ပေါ်လာသည်။ ၎င်းတို့အဖို့ အနည်းငယ်စိုးစဉ်မျှပင် အားလပ်ခွင့်ဟူ၍ မရှိခဲ့ပါ" ဟု ဆိုလိုကြခြင်းပင်။ ကာဖိရ်များက ယင်းသို့ဆိုခြင်းမှာ အမှားသက်သက်သာ၊ အတွေးအခေါ်အယူအဆ မှားယွင်းခြင်းသာ။ ယင်းကာဖိရ်များအဖို့ အတွေးအခေါ်အယူအဆ မှားယွင်းခြင်းမှာ အထူးအဆန်းမဟုတ်ပေ။ ၎င်းတို့သည် ဤပစ္စက္ခတွင်ရှိနေခဲ့ကြစဉ်ကလည်း အစစအရာရာတွင် အတွေးအခေါ်အမြော်အမြင် အယူအဆ တိမ်းစောင်းမှောက်မှားခဲ့ကြသည်သာဖြစ်သည်။

وَقَالَ الَّذِيْنَ اُوْتُوا الْعِلْمَ وَالْاِيْمَانَ لَقَدْ لَبِثْتُمْ فِيْ كِتٰبِ اللّٰهِ اِلٰى يَوْمِ الْبَعْثِ ۡ فَهٰذَا يَوْمُ الْبَعْثِ وَلٰكِنَّكُمْ كُنْتُمْ لَا تَعْلَمُوْنَ ۝٥٦

၅၆။ သို့ရာတွင် အသိပညာကိုသော်လည်းကောင်း၊ "အီမာန်" ယုံကြည်မှုကိုလည်းကောင်း ချီးမြှင့်ပေးသနားတော်မူခြင်း ခံခဲ့ကြရသော သူတို့မှာမူကား "မချွတ်ဧကန် အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ မှတ်တမ်းတော်တွင် ပါရှိသည်နှင့်အညီ ရှင်ပြန်ထမည့်နေ့(အထိ) နေခဲ့ကြပေသည်။ သို့ဖြစ်ပေရာ ဤသည်ပင်လျှင် ရှင်ပြန်ထသည့်နေ့ ဖြစ်ပေသည်။ သို့သော် အသင်တို့သည် *မယုံကြည်ခဲ့ကြပေ*" ① ဟု ပြောဆိုကြကုန်အံ့၊

فَيَوْمَئِذٍ لَّا يَنْفَعُ الَّذِيْنَ ظَلَمُوْا مَعْذِرَتُهُمْ وَلَا هُمْ يُسْتَعْتَبُوْنَ ۝٥٧

၅၇။ သို့ဖြစ်ပေရာ ထိုနေ့တွင် မတရား ပြုလုပ်ခဲ့ကြသော သူတို့အား ၎င်းတို့၏ အကြောင်းပြချက်သည် အကျိုးပေးလိမ့်မည်မဟုတ်ပေ။ ထိုမှတပါး ၎င်းတို့သည် အမှားကိုပြုပြင်ရန်လည်း တောင်းဆိုခြင်းကို ခံကြရမည် မဟုတ်ပေတကား။

وَلَقَدْ ضَرَبْنَا لِلنَّاسِ فِيْ هٰذَا الْقُرْاٰنِ مِنْ كُلِّ مَثَلٍ ؕ وَلَئِنْ جِئْتَهُمْ بِاٰيَةٍ لَّيَقُوْلَنَّ الَّذِيْنَ كَفَرُوْٓا اِنْ اَنْتُمْ اِلَّا مُبْطِلُوْنَ ۝٥٨

၅၈။ စင်စစ်သော်ကား ဧကန်မလွဲ ငါအရှင်မြတ်သည် လူတို့အကျိုးငှာ ဤကုရ်အာန်ကျမ်းတော်မြတ်တွင် ဥပမာပုံဆောင်ချက်အမျိုးစုံတို့ကို ခိုင်းနှိုင်းထားတော်မူ၏။ သို့ရာတွင် အကယ်၍ အသင်သည် ၎င်းတို့ထံ သက်သေလက္ခဏာ တစုံတရာကို ဆောင်ယူလာပါလျှင် ဧကန်အမှန် သွေဖည်ငြင်းပယ်ကြသောသူတို့က "အသင်တို့သည် လူလိမ်များသာလျှင်ဖြစ်ကြသည်" ဟု ပြောဆိုကြပေမည်။

① ကိယာမတ်နေ့တွင် ကာဖိရ်များက ယင်းသို့ကြောက်လန့်ပြီး အမှားမှားအယွင်းယွင်း ပြောဆိုလာကြသည့်အခါ အသိပညာနှင့် ယုံကြည်ခြင်းသဒ္ဓါတရား ပေးသနားတော်မူခြင်း ခံခဲ့ကြရသော ပုဂ္ဂိုလ်များက ယင်းကာဖိရ်များအား ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း ချေပဖြေဆိုကြပေမည်။

ဖော်ပြပါ ချေပဖြေဆိုကြမည့် ပုဂ္ဂိုလ်များကား မည်သူများနည်း။ ဤတွင် အဆိုများ ပြားလျက်ရှိပေသည်။ အချို့အဆိုအရ ယင်းသို့ချေပဖြေဆိုကြမည့် ပုဂ္ဂိုလ်များမှာ ကောင်းကင်တမန်များ အချို့အဆိုအရ နဗီတမန်တော်များဖြစ်ကြမည်။ အချို့အဆိုအရ အာလင်မ် ပညာရှင်များဖြစ်ကြမည်။ အချို့အဆိုအရ မုအ်မင်န်များ ဖြစ်ကြမည်။ ကြည့်-ကုရ်တုဗီ။

كَذٰلِكَ يَطْبَعُ اللّٰهُ عَلٰى قُلُوْبِ الَّذِيْنَ لَا يَعْلَمُوْنَ ﴿٥٩﴾

၅၉။ အလ္လာဟ်အရှင်မြတ်သည် မယုံကြည်သောသူတို့၏ စိတ်နှလုံးများအပေါ်၌ ဤအတိုင်းပင် တံဆိပ်ခတ်နှိပ်တော်မူသည်။

فَاصْبِرْ اِنَّ وَعْدَ اللّٰهِ حَقٌّ وَّلَا يَسْتَخِفَّنَّكَ الَّذِيْنَ لَا يُوْقِنُوْنَ ﴿٦٠﴾

၆၀။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ခန္တီတရားထားရှိပါလေ။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်၏ ကတိတော်သည် မှန်ကန်သော ကတိတော်ပင်ဖြစ်သည်။ ၎င်းပြင် မယုံကြည်သောသူတို့သည် အသင့်အား သည်းမခံနိုင်အောင် မပြုကြစေရ။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်တွင် လူသားတို့အကျိုးငှာ၊ အဖိုးမဖြတ်နိုင်သော အကြောင်းများကို ဥပမာဥပမေယျပြ၍တနည်း၊ ကျိုးကြောင်းပြ၍တဖုံ နည်းမျိုးစုံဖြင့် လင်းပြထားတော်မူသည်။ သို့တစေလည်း အချို့လူသားတို့သည် နားမလည်လိုကြပေ။ ၎င်းတို့အား အဘယ်မျှသော အာယတ်တော်များကို ရွတ်ဖတ်ပြလင့်ကစား၊ အဘယ်မျှသော တန်ခိုးပြာဋိဟာများကို ပြလင့်ကစား အကျိုးရှိမည်ကားမဟုတ်။

အဘယ်ကြောင့် ဆိုသော် ၎င်းတို့သည် ယင်းသည့်အာယတ်တော်များကို ကြားပြီး ယင်းသည့်ပြာဋိဟာများကို မြင်ပြီးသည့် နောက်ပိုင်းတွင်လည်း တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် မုစ်လင်မ်တို့အား "အသင်တို့သည် အချင်းချင်း ပူးပေါင်း၍ နားလည်မှုယူကာ အပေးအယူပြုလုပ်ပြီး လိမ်လည်ဝါဒဖြန့်နေကြသော လူလိမ်များသာ ဖြစ်ကြသည်" ဟုပြောဆိုကြမည်သာဖြစ်သည်။ ထိုသို့သောသူများသည်- ပထမသော် အမှန်တရားကို နားမလည်ကြပေ။ ဒုတိယ နားလည်ရန်လည်း မကြိုးစားကြပေ။ တတိယ၌ မလိုမုန်းတီးမှု၊ ဇွတ်မိုက်ဆန့်ကျင်မှုများကြောင့် စကားတိုင်းကို လက်မခံငြင်းဆန်ကြသည်။

အမှန်မှာ ၎င်းတို့သည် အမှန်တရားကို မကြားလိုကြ၊ မမြင်လိုကြ၊ မစဉ်းစားလိုကြ။ ထိုသို့သောသူများ၏ စိတ်နှလုံးများသည် တစ်နေ့တစ်ခြား ခက်ထန်လာသည်။ မာကျောလာသည်။ နောက်ဆုံးတွင် အမှန်တရားကို လက်ခံနိုင်သည့် စွမ်းရည်သတ္တိသည် လုံးဝ ဆိတ်သုဉ်းသွားလေတော့သည်။ ထိုသည့်ဘဝသို့ ရောက်နေသော ပုဂ္ဂိုလ်များအား တရားဓမ္မဟောကြား၍ မရသည့်အတွက် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် စိတ်ပျက်ရန်မလိုပေ။ တမန်တော်ပီပီ ကြံ့ခိုင်တည်ကြည်စွာ မိမိ၌တာဝန်ရှိသည့်အတိုင်း တရားဓမ္မဟောညွှန်ပြနေရမည်သာဖြစ်သည်။ အနည်းငယ်စိုးစဉ်းမျှ တွေဝေဒေးဝိုင်၊ ယိမ်းယိုင်ခြင်းမရှိရာ၊ အလ္လာဟ်အရှင်မြတ်၏ ကတိတော်သည် မှန်သည်။ သို့ဖြစ်ရာ နောက်ဆုံးတွင် အမှန်တရားသည် အောင်မြင်ရမည်သာ။

# လွတ်က်မာန်သုခမိန်ကဏ္ဍ

سُورَةُ لُقْمَانَ

ဤကဏ္ဍသည် သုခမိန်ကြီး လွတ်က်မာန်၏အကြောင်း ပါဝင်သော ကဏ္ဍဖြစ်သည်။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၃၄)ပါး၊ ရကူအ်အပိုဒ်(၄)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်သနားတော်မူသော၊ အထူးသနားတော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

الٓمّٓ ۝١

၁။ အလစ်ဖ်၊ လာမ်၊ မီမ်။

تِلْكَ اٰيٰتُ الْكِتٰبِ الْحَكِيْمِ ۝٢

၂။ ဤသည် ဉာဏ်ပညာနှင့် ပြည့်စုံသော ကျမ်းဂန်၏ (အကြင်) အာယတ်တော်များပင်။

هُدًى وَّرَحْمَةً لِّلْمُحْسِنِيْنَ ۝٣

၃။ (ယင်း အာယတ်တော်များသည် အကြင်) သူမွန် သူမြတ်တို့အဖို့ တရားလမ်းညွှန်သည်လည်းကောင်း၊ ကရုဏာတော်သည်လည်းကောင်း ဖြစ်ကြပေသည်။

الَّذِيْنَ يُقِيْمُوْنَ الصَّلٰوةَ وَيُؤْتُوْنَ الزَّكٰوةَ وَهُمْ بِالْاٰخِرَةِ هُمْ يُوْقِنُوْنَ ۝٤

၄။ (ထိုသူမွန်သူမြတ်တို့သည်) “ဆွလာတ်” ဝတ်ပြုမှုကို ဆောက်တည်ကြကုန်၏။ ၎င်းပြင် “ဇကာတ်” ပေးဆောင်ကြကုန်၏။ ထိုမှတပါး ၎င်းတို့သည် တမလွန်ဘဝကို ယုံကြည်ကြကုန်၏။

اُولٰٓئِكَ عَلٰى هُدًى مِّنْ رَّبِّهِمْ وَاُولٰٓئِكَ هُمُ الْمُفْلِحُوْنَ ۝٥

၅။ ထိုသူတို့ကား မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် အထံတော်မှ တရားလမ်းမှန်ပေါ်၌ (ရပ်တည်လျက်) ရှိကြပေသည်။ ထိုသူတို့သည်သာလျှင် အောင်မြင်မှုရရှိသောသူများ ဖြစ်ကြကုန်သတည်း။ [၁]

[၁] ဤအာယတ်တော်များနှင့် အနက်သဘောတူ အာယတ်တော်များသည် ဂါဝီကဏ္ဍ၏ အစတွင်ပါရှိခဲ့ချေပြီ။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

وَمِنَ النَّاسِ مَنْ يَّشْتَرِيْ لَهْوَ الْحَدِيْثِ لِيُضِلَّ عَنْ سَبِيْلِ اللّٰهِ بِغَيْرِ عِلْمٍ ۖ وَّيَتَّخِذَهَا هُزُوًا ۗ اُولٰٓئِكَ لَهُمْ عَذَابٌ مُّهِيْنٌ ۝٦

၆။ စင်စစ်သော်ကား လူတို့အနက် အသိပညာ သက်သေအထောက်အထားမရှိဘဲ (သူတပါးတို့အား) အလ္လာဟ်အရှင်မြတ်၏လမ်းတော်မှ ချွတ်ချော် တိမ်းပါးစေအံ့သောငှာလည်းကောင်း၊ ယင်းလမ်းတော်ကို ပြက်ရယ်ပြောင်လှောင်ဖွယ်ရာ ပြုလုပ်အံ့သောငှာလည်းကောင်း၊ အချည်းနှီး အကျိုးမဲ့သောစကားကို ဝယ်ယူသောသူလည်းရှိ၏။ ယင်းကဲ့သို့သောသူတို့၌ ဂုဏ်အသရေ ပျက်စေသောပြစ်ဒဏ်ရှိချေမည်။ [၁]

وَاِذَا تُتْلٰى عَلَيْهِ اٰيٰتُنَا وَلّٰى مُسْتَكْبِرًا كَاَنْ لَّمْ يَسْمَعْهَا كَاَنَّ فِيْٓ اُذُنَيْهِ وَقْرًا ۚ فَبَشِّرْهُ بِعَذَابٍ اَلِيْمٍ ۝٧

၇။ ၎င်းပြင် ထိုသူ၏ရှေ့၌ ငါအရှင်မြတ်၏ "အာယတ်" တော်များ ဖတ်ကြားသောအခါ ထိုသူသည် ယင်း(အာယတ်တော်)များကို မကြားဘိသကဲ့သို့လည်းကောင်း၊ ထိုသူ၏ နားနှစ်ဖက်သည် ပင်းနေဘိသကဲ့သို့လည်းကောင်း မျက်နှာလွှဲ၍ သွားလေ၏။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည် ၎င်းအား ပြင်းပြနာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်နှင့်စပ်လျဉ်းသော သတင်းကို ပြောကြားပါလေ။

---

(၁) အထက်တွင်အလ္လာဟ်အရှင်မြတ်၏ တရားဓမ္မအပေါ်၌ ရပ်တည်လျက် သာသနာ့ကျင့်စဉ်ကျင့်ရပ်များကို လိုက်နာကျင့်သုံးသော၊ အမှန်တကယ် အောင်မြင်ကြသော သူတော်စင်များ၏အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ယခုဤအာယတ်တော်တွင် အဆိုပါသူတော်စင်များနှင့် ဆန့်ကျင်ဘက်ဖြစ်သည့် သူယုတ်မာများ၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။ ထိုသူယုတ်မာများသည်မိမိတို့၏ မိုက်မဲမှု၊ နောင်ရေး မတွေးတောမှုများကြောင့် ကုရ်အာန်ကျမ်းမြတ်ကိုပယ်ပြီး ပွဲလမ်းသဘင်၊ အကအခုန်၊ အလောင်းကစား၊ အပျော်အပါးအစရှိသည့် အဓိပ္ပာယ်မရှိသော၊ အချည်းနှီးသော၊ အချိန်ဖြုန်းတီးသော၊ သိမ်ဖျင်းသော၊ အဟောသိကံဖြစ်သော အလုပ်များတွင် မိမိတို့ကိုယ်တိုင် နစ်မွန်းနေကြသည်သာမက သူတစ်ပါးကိုလည်း နစ်မွန်းစေပြီး အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ ဖယ်ရှားကြသည်။ သာသနာရေးရာများကို ပြက်ချော်သမှု ပြုကြသည်။ ဤသူယုတ်မာများသည် မိမိတို့ကိုယ်ကိုမိမိတို့ ပျက်စီးအောင် ပြုလုပ်ကြသည်သာမက သူတစ်ပါးတို့ကိုလည်း ဖျက်ဆီးကြသည်။

ဤအာယတ်တော်တွင်ပါရှိသည့် ( لَهْوَ الْحَدِيْثِ )'လဟ်ဝလ်ဟဒီဆ်' ဟူသောအပုဒ်ကို မုဖတ်စ်စိရ်များသည် အမျိုးမျိုးအနက်ဖွင့်ကြသည်။ ဟာစန်က ယင်းပုဒ်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဖွင့်ဆိုထားသည်။

"လဟ်ဝလ်ဟဒီဆ်" ဟူသည် အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုခြင်း အောက်မေ့တသသတိရခြင်းများမှ အသင့်အား အတားအဆီး ဖြစ်စေသည့် အရာအားလုံးကို ဆိုလိုသည်။ ဥပမာ- အကျိုးမရှိသော ပုံပြင်ဒဏ္ဍာရီ➤➤

إِنَّ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ لَهُمْ جَنَّاتُ النَّعِيمِ ﴿٨﴾

၈။ ကေန်မလွဲ "အီမာန်" သက်ဝင်ယုံကြည်၍ ကောင်းမြတ်သောအကျင့်သီလများကို ကျင့်မှုဆောက်တည်ကြကုန်သော သူတို့အဖို့ စည်းစိမ်ချမ်းသာနှင့်ပြည့်စုံသောဥယျာဉ်များ ရှိပေသည်။ [၁]

خَالِدِينَ فِيهَا وَعْدَ اللَّهِ حَقًّا وَهُوَ الْعَزِيزُ الْحَكِيمُ ﴿٩﴾

၉။ (၎င်းတို့သည်) ယင်းဥယျာဉ်များ၌ အမြဲထာဝစဉ် နေထိုင်စံမြန်းကြပေမည်။ (ဤသည်) အလ္လာဟ် အရှင်မြတ်က မှန်ကန်စွာ ကတိထားရှိတော်မူခြင်းပင် ဖြစ်ပေသည်။ အမှန်စင်စစ်သော်ကား ထိုအရှင်မြတ်သည် တန်ခိုးအာနုဘော်ဖြင့် လွှမ်းမိုးတော်မူသော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

خَلَقَ السَّمَاوَاتِ بِغَيْرِ عَمَدٍ تَرَوْنَهَا وَأَلْقَىٰ فِي الْأَرْضِ رَوَاسِيَ أَن تَمِيدَ بِكُمْ وَبَثَّ فِيهَا مِن كُلِّ دَابَّةٍ وَأَنزَلْنَا مِنَ السَّمَاءِ مَاءً فَأَنبَتْنَا فِيهَا مِن كُلِّ زَوْجٍ كَرِيمٍ ﴿١٠﴾

၁၀။ ထိုအရှင်မြတ်သည် မိုးကောင်းကင်များကို (အသင်တို့ မမြင်နိုင်ကြသောတိုင်များနှင့်) ဖန်ဆင်းတော်မူခဲ့၏။ (တနည်း) အသင်တို့ မြင်နေကြသည့် အတိုင်း တိုင်များမပါဘဲ ဖန်ဆင်းတော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ပထဝီမြေ၌ ယင်းပထဝီမြေသည် အသင်တို့နှင့်တကွ ယိမ်းယိုင်မသွားစေရန် လေးလံသောတောင်များကို (ကျောက်ဆူးများသဖွယ်) ချထားတော်မူ၏။ ထို့ပြင် ထိုအရှင်မြတ်သည် ယင်းပထဝီမြေဝယ် သတ္တဝါအမျိုးမျိုးတို့ကို ပြန့်ပွားစေတော်မူ၏။

---

➤➤ ပြောခြင်း ပြက်ချော်ပြောင်လှောင်သော စကားများ ပြောဆိုနားထောင်ခြင်း၊ အချည်းနှီးသော အလုပ်များတွင် နစ်မွန်းခြင်း၊ တေးသီချင်းဆိုခြင်း၊ တီးမှုတ်ခြင်း-- စသည်များ။ ရှုဟုလ်မအာနီ။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ မိမိကိုယ်တိုင် တိမ်းယိမ်းလွဲမှားသည်သာမက သူတစ်ပါးတို့အား လွဲမှားစေသော သူယုတ်တို့ခံစားကြရမည့် ပြစ်ဒဏ်အကြောင်း မိန့်ဆိုထားတော်မူသည်။ ယခုဤအာယတ်တော်တွင် အီမာန်ယုံကြည်၍ ကောင်းမြတ်သောအကျင့်သီလ ဆောက်တည်ကြသည့် သူတော်စင်များ စံစားကြရမည့် သုခဘုံများအကြောင်း မိန့်ဆိုထားတော်မူသည်။

ထိုမှတပါး ငါအရှင်မြတ်သည် မိုးကောင်းကင်မှ (မိုး) ရေကို ချပေးသနားတော်မူပြီးနောက် ယင်းပထဝီမြေ၌ ကောင်းမြတ်သော (သစ်ပင်၊ ဝါးပင်) အမျိုးမျိုး အစားစားတို့ကို ပေါက်ရောက်စေတော်မူပေသည်။

هٰذَا خَلْقُ اللّٰهِ فَاَرُوْنِيْ مَاذَا خَلَقَ الَّذِيْنَ مِنْ دُوْنِهٖ ۭ بَلِ الظّٰلِمُوْنَ فِيْ ضَلٰلٍ مُّبِيْنٍ ۝ۧ11

၁၁။ ဤသည်(တို့)ကား အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံများ/ဖန်ဆင်းမှုများပင်။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုအရှင်မြတ်အပြင် ရှိကြသောသူတို့က မည်သည့်အရာများ ဖန်ဆင်းခဲ့ကြသည်ကို ငါ့အား ပြသကုန်လော့။ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာမူကား မတရားသောသူတို့သည် ထင်ရှားစွာသောလမ်းမှား၌ပင် ရှိကြကုန်သတည်း။ [၁]

وَلَقَدْ اٰتَيْنَا لُقْمٰنَ الْحِكْمَةَ اَنِ اشْكُرْ لِلّٰهِ ۭ وَمَنْ يَّشْكُرْ فَاِنَّمَا

၁၂။ ထို့ပြင် စကန်မလွဲ ငါအရှင်မြတ်သည် 'လွတ်က်မာန်' အား ဉာဏ်ပညာကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ [၂] (၎င်းပြင်) အသင်သည် အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်ပါလေ။ [၃]

---

(၁) အလ္လာဟ်အရှင်မြတ်ဖန်ဆင်းထားတော်မူသော အရာများကား အနန္တော၊အနန္တတည်း။ အံ့မဆုံးတည်း။ အခါခပ်သိမ်း တွေ့မြင်နေရပေသည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်မှအပ ကာဖိရ်၊မုရှ်ရစ်က်တို့ ဆည်းကပ်ကိုးကွယ်နေကြသော ဘုရားများသည် အဘယ်တစ်စုံတစ်ရာကို ဖန်ဆင်းထားကြသနည်း။ ဤမေးခွန်းကား ထိထိမိမိ ရှိလှ၏။ အမှန်မှာ ယင်းဘုရားများ ဖန်ဆင်းထားသောအရာဟူ၍ တစ်စုံတစ်ရာမျှမရှိ၊ ၎င်းတို့၌ တစုံတစ်ရာကို ဖန်ဆင်းနိုင်သည့် စွမ်းရည်သတ္တိလည်း စိုးစဉ်းမျှမရှိ။ သို့ပါသော်လည်း မိမိတို့ကိုယ်ကိုမိမိတို့ ကျူးကျော်စော်ကားနေကြသော မုရှ်ရစ်က်တို့သည် အထင်အရှား လွဲမှားလျက်ပင် ရှိကြပေသည်။ ဤအာယတ်တော်တွင် ပါရှိသော ကျူးကျော်စော်ကားသူများဟူသည် မုရှ်ရစ်က်များကို ဆိုလိုသည်။ (ကြည့်- အိဗ်နုကဆီရ်)

(၂) **ပညာရှင်ကြီး 'လွတ်က်မာန်'။**

ပညာရှင်ကြီး လွတ်က်မာန်သည် မည်သည့်နိုင်ငံသားဖြစ်သည်၊ မည်သည့်ခေတ်တွင် ပေါ်ထွန်းခဲ့သည်၊ ဤတွင် အဆိုကွဲပြားလျက်ရှိသည်။ အတိအကျ ပိုင်းခြားသတ်မှတ်ပြဋ္ဌာန်းရန် မဖြစ်နိုင်သေးပေ။ ပညာရှင်အများစု၏ ယူဆချက်အရ လွတ်က်မာန်သည် အီသီယိုပီးယား နိုင်ငံသားဖြစ်သည်။ တမန်တော်ဒါဝူဒ် (အလိုင်ဟစ္စလာမ်)၏ ခေတ်တွင် ထွန်းကားခဲ့သည်။ တဖ်စီကျမ်းကြီးများတွင် ပညာရှင်ကြီးလွတ်က်မာန်၏ များစွာသောအတ္တုပ္ပတ္တိများနှင့် စကားများကို တွေ့ရှိရပေသည်။ (ယင်းသည့် အတ္တုပ္ပတ္တိများနှင့်စကားများသည် မည်ရွေ့မည်မျှ မှန်ကန်သည်ကိုမူ အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။) ➢➢

يَشْكُرُ لِنَفْسِهِ ۚ وَمَن كَفَرَ فَإِنَّ اللَّهَ غَنِيٌّ حَمِيدٌ ﴿١٢﴾

စင်စစ်သော်ကား မည်သူမဆို ကျေးဇူးတင်ရှိပါမူ ထိုသူသည် မိမိအကျိုးငှာသာလျှင် ကျေးဇူးတင်လေသည်။ သို့ရာတွင် မည်သူမဆို ကျေးဇူးကန်းခဲ့မူ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် လိုလားတောင့်တခြင်း ကင်းမဲ့တော်မူသော၊ အလွန်တရာ ချီးမွမ်းခြင်း ခံထိုက်တော်မူသော အရှင်ဖြစ်တော်မူသည်ဟူ၍ (အမိန့်တော် ထုတ်ပြန်တော်မူခဲ့ပေသတည်း)။

وَإِذْ قَالَ لُقْمَانُ لِابْنِهِ وَهُوَ يَعِظُهُ يَا بُنَيَّ لَا تُشْرِكْ بِاللَّهِ ۖ إِنَّ الشِّرْكَ لَظُلْمٌ عَظِيمٌ ﴿١٣﴾

၁၃။ ၎င်းပြင် တရံရောအခါဝယ် "လွတ်က်မာန်" သည် မိမိသားကို ဆုံးမဩဝါဒပေးရာ၌ (ဤ)သို့ ပြောကြားခဲ့လေ၏။ အို-ချစ်သား၊ အသင်သည် (မည်သည့်တစ်စုံတစ်ရာကိုမျှပင်) အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် ကိုးကွယ်မှုကို မပြုလေနှင့်။

---

➢➢ အာလင်မ်ပညာရှင် အများစု၏ယူဆချက်အရ လွတ်က်မာန်သည် နဗီတမန်တော်တစ်ပါးမဟုတ်၊ အလ္လာဟ်အရှင်မြတ်အား အလွန်ချစ်ကြောက်ရိုသေခန့်ညားသော သူတော်စင်ကြီးတပါးဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းအား ဉာဏ်ပညာအမြော်အမြင်ကို အထူးတလည် ချီးမြှင့်တော်မူခဲ့ပေသည်။ ပညာရှင်ကြီး လွတ်က်မာန်သည် မိမိ၏ပညာဉာဏ်စွမ်းဖြင့် တမန်တော်များ၏ ဩဝါဒတော်များနှင့် လျော်ညီသည့် များစွာသော စကားများကိုပင် ဖွင့်ဟပြောဆိုနိုင်ခဲ့ပေသည်။ အသိဉာဏ်နှင့်ယှဉ်သော၊ အမြော်အမြင်နှင့်ပြည့်ဝသော၊ ပညာပါသော၊ ၎င်း၏များစွာသော စကားများသည်လည်း ကျော်ကြားလျက်ရှိပေသည်။

လ္လာဟ်အရှင်မြတ်သည် ယင်းသည့် စကားရပ်များအနက် အချို့ကို ကုရ်အာန်ကျမ်းမြတ်တွင်ပင် ထည့်သွင်းဖော်ပြတော်မူပြီး၊ ပညာရှင်ကြီး လွတ်က်မာန်၏ အဆင့်အတန်းနှင့် ဂုဏ်အင်ဒြပ်ကို ပို၍မြင့်မားစေတော်မူလေသည်။ ယင်းသို့မြင့်မားစေတော်မူခြင်း၏ အလိုသဘောမှာ ကုဖ်ရ်၊ ရှရစ်က်စသည့်ပြစ်မှုများသည် လူ့သဘာဝဓမ္မအရ လည်းကောင်း၊ တမန်တော်များ၏ ဟောပြောချက်များအရလည်းကောင်း၊ အလွန်ဆိုးရွားကြောင်း သိရှိရသကဲ့သို့ ကမ္ဘာ့လက်ရွေးစင် ပညာရှင်ကြီးများ သည်လည်း ဤသည့်အချက်ကို မိမိတို့၏ပညာဉာဏ်စွမ်းဖြင့် ထောက်ခံလျက် ရှိကြသည်ကို ထင်ရှားပြရန်လည်း ဖြစ်နိုင်ပေသည်။ သို့ဖြစ်ရာ 'တောင်ဟီဒ်' ကိုစွန့်ပယ်ပြီး ရှရစ်က်အမှုတွင် နစ်မွန်းနေခြင်းသည် လွဲမှားခြင်းကြီးမက လွဲမှားခြင်းပင် မဟုတ်တုံလော။

① အလ္လာဟ်အရှင်မြတ်သည် လွတ်က်မာန်အား မိမိ၏ကျေးဇူးတော်နှင့် အထူးသဖြင့် အသိဉာဏ်အမြော်အမြင်၊ မှန်ကန်သောအတွေးအခေါ်နှင့် မှန်ကန်သော အကျင့်အမူများကို ချီးမြှင့်တော်မူပြီး၊ မိမိ(အလ္လာဟ်အရှင်မြတ်)အား ကျေးဇူးတင်ရန် မိန့်ကြားထားတော်မူသည်။

(အကြောင်းမူကား) မချွတ်ဧကန် တွဲဖက်နိုင်းယှဉ် (ကိုးကွယ်)မှုသည် အမှန်ပင် ကြီးလေးလှစွာသော မတရားမှု ဖြစ်သောကြောင့်တည်း။ [၁]

وَوَصَّيْنَا الْإِنسَانَ بِوَالِدَيْهِ حَمَلَتْهُ أُمُّهُ وَهْنًا عَلَىٰ وَهْنٍ وَفِصَالُهُ فِي عَامَيْنِ أَنِ اشْكُرْ لِي وَلِوَالِدَيْكَ إِلَيَّ الْمَصِيرُ ﴿١٤﴾

၁၄။ ထိုမှတပါး ငါ(အလ္လာဟ်)အရှင်မြတ်သည် "မနုဿ" လူသားအား ၎င်း၏မိဘနှစ်ပါးနှင့် ပတ်သက်၍ (ဤသို့)လေးနက်စွာ အမိန့်ပေးတော်မူခဲ့၏။ ၎င်း၏မိခင်မှာ အားအင်ချည့်နဲ့မှုအပေါ်၌ အားအင်ချည့်နဲ့မှုကို ခံစားလျက် ၎င်းအား (မိမိဝမ်းတွင်း၌) လွယ်ပိုက်ခဲ့လေ၏။ ထိုမှတပါး နှစ်နှစ်မြောက်သောအခါ၌သာလျှင် ၎င်းအား နို့ဖြတ်လေ၏။ (သို့ဖြစ်ပေရာ) အသင်သည် ငါအရှင်မြတ်အားလည်းကောင်း၊ အသင်၏မိဘနှစ်ပါးတို့အားလည်းကောင်း၊ ကျေးဇူးတင်လော့၊ (အသင်လူသား၏) ပြန်လည်ရာဌာနသည် ငါအရှင်မြတ်အထံတော်၌ပင် ဖြစ်လေသည်။ [၂]

---

① **လွတ်က်မာန်က မိမိ၏သားအားဆုံးမသည့်စကား၊**

(၁) ပညာရှင်ကြီး လွတ်က်မာန်က မိမိသားအား "သား- အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းကိုသာလျှင် ကိုးကွယ်ပါလေ။ ထိုအရှင်မြတ်နှင့် တွဲဖက်၍ မည်သည့်အရာကိုမျှ မကိုးကွယ်နှင့်၊ သို့တွဲဖက်ကိုးကွယ်ခြင်းသည် အလွန်ကြီးမားသော မတရားပြုမှုခြင်းပင်" ဟူ၍ ဦးစွာပထမ သွန်သင်ဆုံးမ ဩဝါဒပေးခဲ့လေသည်။

အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသည်။ ထိုအရှင်မြတ်၌ ဂုဏ်ရည်တူတွဲဖက်ယှဉ်ဖက်ဟူ၍ အလျှင်းမရှိ။ သို့ပါလျက် အချို့လူသားသည် ကိုယ်ပိုင်စွမ်းရည်သတ္တိ စိုးစဉ်းမျှမရှိသော ဘဝတူအဖန်ဆင်းခံတစ်ဦးကို သို့မဟုတ် အဖန်ဆင်းခံတစ်စုံတစ်ရာကို ထိုသို့သော အနန္တတန်ခိုးတော်ရှင်နှင့် ဂုဏ်ရည်တူထား၍ ကိုးကွယ်ရက်သည်။ ဤထက်ကြီးမားသော မတရားပြုမှုခြင်းသည် အဘယ်မှာရှိနိုင်အံ့နည်း။ ထိုပြင်တဝ လူသားသည် အဖန်ဆင်းခံတို့တွင် အမြတ်ဆုံးသတ္တဝါဖြစ်သည်။ သို့ပါလျက် အချို့လူသားသည် မိမိ၏ဂုဏ်သိက္ခာကိုမျှ မထောက်ထားပဲ မိမိထက်နိမ့်ကျသော၊ အညံ့ဆုံးဖြစ်သော အရာများရှေ့မှောက်၌ ဦးချရက်သည်။ ဤထက်ကြီးမားသော မိုက်မှားမှု၊ မိမိကိုယ်ကိုမိမိ ဤထက်ဆိုးရွားသော စော်ကားမှုသည် အဘယ်မှာ ရှိနိုင်တော့အံ့နည်း။"

② **မိဘနှစ်ပါးနှင့် ပတ်သက်သော တာဝန်၊**

လူသားတို့ လိုက်နာထမ်းဆောင်ရမည့် တာဝန်အပေါင်းတွင် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်သော တာဝန်များကား အကြီးဆုံးပင်။ အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်သော တာဝန်များ၏နောက်တွင် မိဘနှစ်ပါးနှင့် ပတ်သက်သော တာဝန်များမှာ အကြီးဆုံးပင်ဖြစ်ပေသည်။ မိဘနှစ်ပါးတွင် မိခင်နှင့်ပတ်သက်သော ➤➤

وَإِنْ جَٰهَدَاكَ عَلَىٰٓ أَن تُشْرِكَ بِى مَا لَيْسَ لَكَ بِهِۦ عِلْمٌ فَلَا تُطِعْهُمَا ۖ وَصَاحِبْهُمَا فِى ٱلدُّنْيَا مَعْرُوفًا ۖ وَٱتَّبِعْ سَبِيلَ مَنْ أَنَابَ إِلَىَّ ۚ ثُمَّ إِلَىَّ

၁၅။ သို့ရာတွင် အကယ်၍သာ ထိုမိဘနှစ်ပါးတို့သည် အသင်၌ သက်သေအထောက်အထား အသိပညာ တစုံတရာမရှိသော အရာတခုခုကို ငါအရှင်မြတ်နှင့် တွဲဖက်ကိုးကွယ်ရန် အသင့်အား အနိုင်အထက် ပြုခဲ့ကြသည်ရှိသော် အသင်သည် ထိုမိဘနှစ်ပါး၏ အမိန့်ကိုပင် မလိုက်နာလေနှင့်။ [၁] သို့ရာတွင် အသင်သည် ဤလောကီဘဝ၌မူ ထိုမိဘနှစ်ပါးနှင့် ကောင်းမွန်စွာ ဆက်ဆံလော့။ ထိုမှတပါး အသင်သည် ငါအရှင်မြတ်ဘက်သို့ စိတ်စေတနာ ဖြူစင်စွာ ပြန်လှည့်သောသူ၏ လမ်းစဉ်ကို လိုက်နာလော့။

---

➤➤ တာဝန်များသည် ဖခင်နှင့်ပတ်သက်သော တာဝန်များထက်ပင် ကြီးမားလှပေသည်။ အဘယ်ကြောင့်ဆိုသော် မိခင်သည် အားအင် ချည့်နဲ့စွာဖြင့်၊ ပင်ပန်းကြီးစွာဖြင့် ကိုယ်ဝန်ကို လပေါင်းများစွာ ဆောင်ထားရရှာသည်။ သို့ပင်ပန်းကြီးစွာနှင့် ဆောင်ထားရသော ကိုယ်ဝန်ကို ဒုက္ခကြီးစွာဖြင့် မွေးဖွားရရှာသည်။ သို့မွေးဖွားပြီးနောက်တွင်လည်း မိမိ၏ ရင်သွေးအား ဒုက္ခကြီးငယ် အမျိုးမျိုးကိုခံစားပြီး၊ အစားပျက်၊အသောက်ပျက်၊ အအိပ်ပျက်၊အနေပျက်ဖြစ်ကာ ယုယပိုက်ထွေး နို့ရည်တိုက်ကျွေးရှာသည်။ လူလားမြောက်သည်အထိ မွေးမြူပြုစုရှာသည်။ သို့ဖြစ်ပေရာ လူသားသည် ပထမသော် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်သော တာဝန်များကို သိရမည်။ ထမ်းဆောင်ရမည်။ ဒုတိယတွင် မိဘနှစ်ပါးနှင့် ပတ်သက်သော တာဝန်များ အထူးသဖြင့် မိခင်နှင့်ပတ်သက်သော တာဝန်များကို သိရမည်။ ထမ်းဆောင်ရမည်။ (ဝါ)လူသားသည် အလ္လာဟ်အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်ရမည်။ ထို့နောက် မိဘနှစ်ပါးအား အတတ်နိုင်ဆုံး၊ အကောင်းဆုံးပြုစုရမည်။ မိဘနှစ်ပါးအား ပြုစုရာတွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို မဆန့်ကျင်မိစေရာ၊ အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်နှင့် ပတ်သက်သော တာဝန်များသည် အကြီးဆုံးပင်ဖြစ်သည်။ ထို့ပြင်တဝ လူသားသည် တနေ့ထိုအရှင်မြတ်၏ အထံတော်သို့ ပြန်လည် ရောက်ရှိမည်ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်၏နောက် မိဘနှစ်ပါး၏ ကျေးဇူးများကား များပြားလှဘိသည်။ တာဝန်ကြီးများကား ကြီးလေးလှဘိသည်။ ထိုသို့ကျေးဇူးများပြားလှသော၊ တာဝန်ကြီးမားလှသော မိဘနှစ်ပါးကပင် အကယ်တန္တ တွဲဖက်ကိုးကွယ်ကိုးကွယ်ရန်၊ အစ္စလာမ်နှင့်ဆန့်ကျင်သော အမှုများကို ကျူးလွန်ရန် အတင်းအဓမ္မ တိုက်တွန်းကြလင့်ကစား လိုက်နာရန်မလို။ အစ္စလာမ်နှင့် ဆန့်ကျင်၍ ပြုလုပ်ရမည့် ကိစ္စများတွင် မိဘနှစ်ပါး၏စကားများကို မနာခံရသော်လည်း လောကီရေးရာများတွင်မူ မိဘနှစ်ပါးအား အသက်ထက် ဆုံးနာခံကာ ကောင်းမွန်စွာပြုစု၍ နေရမည်သာ။ ဤအကြောင်း ကုရ်အာန်(၂၉း၈)၏အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။

(၁) သားသမီးများသည် အစ္စလာမ်နှင့်ဆန့်ကျင်သည့် ကိစ္စများတွင် မိဘများအား အတုမခိုးရ၊ မိဘများ၏ စကားများကို မနာခံရ၊ အလ္လာဟ်အရှင်မြတ်ထံတော်သို့ လှည့်ကြသော (ဝါ) ငါ့အား ယုံကြည်မြတ်နိုး၍ ငါ၏အမိန့်တော်များကို စိတ်စေတနာ ဖြူစင်စွာဖြင့် လိုက်နာကျင့်မူသော တမန်တော်များနှင့် သူတော်စင်များ၏ လမ်းစဉ်ကိုသာ လိုက်နာကြရပေမည်။

مَرْجِعُكُمْ فَأُنَبِّئُكُم بِمَا كُنتُمْ تَعْمَلُونَ ⑮

အသင်တို့ (အားလုံး)မှာ ငါအရှင်မြတ် အထံတော်သို့သာလျှင် ပြန်လှည့်၍ လာကြရပေမည်။ ထိုအခါ ငါအရှင်မြတ်သည် အသင်တို့ ကျင့်မူပြုလုပ်ခဲ့ကြသည်တို့ကို အသင်တို့အား သိစေတော်မူအံ့သတည်း။

يَٰبُنَيَّ إِنَّهَآ إِن تَكُ مِثْقَالَ حَبَّةٍ مِّنْ خَرْدَلٍ فَتَكُن فِى صَخْرَةٍ أَوْ فِى ٱلسَّمَٰوَٰتِ أَوْ فِى ٱلْأَرْضِ يَأْتِ بِهَا ٱللَّهُ ۚ إِنَّ ٱللَّهَ لَطِيفٌ خَبِيرٌ ⑯

**၁၆။** အို-ချစ်သား၊ မုချဧကန် အပြုအမူတစုံတရာသည် မုန်ညင်းစေ့ခန့်မျှဖြစ်ပြီး၊ ကျောက်ဆောင်တခုခု၌ ရှိနေသည်ဖြစ်စေ၊ မိုးကောင်းကင်များ၌ ရှိနေသည်ဖြစ်စေ၊ ပထဝီမြေအတွင်း၌ရှိနေသည်ဖြစ်စေ၊ အလ္လာဟ်အရှင်မြတ်သည် ယင်းအပြုအမူကို (ရှေ့တော်မှောက်ဝယ်) အသင့်ရောက်စေတော်မူမည်ဖြစ်သည်။[၁] စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် နက်နဲသိမ်မွေ့သောအရာတို့ကို အလွန်တရာ သိမြင်တော်မူသောအရှင်၊ အလွန်တရာ ကြားသိတော်မူသောအရှင် ဖြစ်တော်မူ၏။

---

(၁) **လွတ်က်မာန်က မိမိ၏သားအားဆုံးမသည့် စကား။**

(၂) ဆိုလိုသည်ကား၊ "သား- အဘယ်အရာမဆို အဘယ်အကျင့်အမူမဆို ကောင်းသည်ဖြစ်စေ ဆိုးသည်ဖြစ်စေ မုန်ညင်းစေ့ခန့်မျှပင် ရှိသည်ဖြစ်စေ၊ အလွန်လေးလံမာကျောသော ကျောက်ဆောင်တစ်ခုခု၏ အတွင်း၌ရှိနေသည်ဖြစ်စေ၊ အလွန်မြင့်စွင့်ဝေးလံသော မိုးကောင်းကင်များ၏ အထက်၌ ရှိနေသည်ဖြစ်စေ၊ အလွန်ထုထည်ကြီးမားသောမြေ၏ အမှောင်ထုအတွင်း၌ ရှိနေသည်ဖြစ်စေ၊ မည်သည့်နေရာ၌ပင် ရှိနေသည်ဖြစ်စေ၊ မည်သို့မည်ပုံ မည်ရွေ့မည်မျှပင် ရှိနေသည်ဖြစ်စေ၊ ထိုအရာသည် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်၊ ဉာဏ်တော်အောက်မှ လွတ်မြောက်နေနိုင်သည်မဟုတ်။ အချိန်ကျလာသည့်အခါ ထိုအရှင်မြတ်သည် ထိုအရာကို ရှေ့တော်မှောက် ယူဆောင်လာတော် မူမည်သာဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် အတိုင်းမသိ နက်နဲသိမ်မွေ့သော အရာများကို အကြွင်းမဲ့ သိမြင်တော်မူသည်။ အရာခပ်သိမ်းကို အကြွင်းမဲ့ကြားသိတော်မူသည်။ ထိုအရှင်မြတ်၏ တန်ခိုးတော်နှင့် ဉာဏ်တော်များကား အနန္တောအနန္တပါတကား။ သို့ဖြစ်ရာ သား၊တစုံတခုကို ပြုလုပ်ရန် ကြံရွယ်တိုင်း ကြံရွယ်တိုင်း ကန့်လန့်ကာပေါင်းထောင်သောင်းကာရံပြီး အလွန့်အလွန် ပိရိသိပ်သည်းလျှို့ဝှက်စွာ ပြုမူသော အပြုအမူသည်လည်း အလ္လာဟ်အရှင်မြတ်အဖို့မှာ အထင်သား၊အမြင်သား၊ အထင်အရှားဖြစ်နေသည်ကို သိထားပါလေ"။

يٰبُنَيَّ أَقِمِ الصَّلٰوةَ وَأْمُرْ بِالْمَعْرُوفِ وَانْهَ عَنِ الْمُنْكَرِ وَاصْبِرْ عَلٰى مَآ أَصَابَكَ ۖ إِنَّ ذٰلِكَ مِنْ عَزْمِ الْأُمُورِ ﴿١٧﴾

၁၇။ အို-ချစ်သား၊ အသင်သည် 'ဆွလာတ်' ဝတ်ပြုမှုကို ဆောက်တည်ပါလေ။ ၎င်းပြင် အသင်သည် (သူတပါးတို့အားလည်း) ကောင်းမှု(ပြုလုပ်ကြရန်)နှင့် စပ်လျဉ်း၍ အမိန့်ပေးပါလေ။ ထို့ပြင် အသင်သည် မကောင်းမှုမှ (ကြဉ်ရှောင်ကြရန်) တားမြစ်ပါလေ။ ထိုမှတပါး အသင်သည် မိမိ၌ သက်ရောက်အံ့သော ဘေးဒုက္ခနှင့်စပ်လျဉ်း၍ ကြံ့ခိုင်စွာရှိပါလေ။ ဧကန်မလွဲ ဤ(ကြံ့ခိုင်စွာရှိခြင်း)သည် ဖွဲ့သတ္တိနှင့်သက်ဆိုင်သော အမှုကိစ္စတို့အနက်မှပင် ဖြစ်ချေသည်။

وَلَا تُصَعِّرْ خَدَّكَ لِلنَّاسِ وَلَا تَمْشِ فِي الْأَرْضِ مَرَحًا ۖ إِنَّ اللّٰهَ لَا يُحِبُّ كُلَّ مُخْتَالٍ فَخُورٍ ﴿١٨﴾

၁၈။ ၎င်းပြင် (အို-ချစ်သား) အသင်သည် လူတို့ရှေ့ဝယ် မိမိမျက်နှာကို စူ၍မထားလေနှင့်။ (လူတို့ဘက်မှ မိမိမျက်နှာကို မလွှဲပါလေနှင့်။) ထို့ပြင် အသင်သည် ပထဝီမြေဝယ် မော်ကြွားလျက်လမ်းမလျှောက်လေနှင့်။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် မည်သည့်စိတ်နေမြင့်သူ၊ အထင်ကြီးသူ၊ ဝါကြွားသူ၊ ဂုဏ်မောက်သူတို့ကို နှစ်သက်တော်မူသည် မဟုတ်ပေ။

وَاقْصِدْ فِي مَشْيِكَ وَاغْضُضْ مِنْ صَوْتِكَ ۚ إِنَّ أَنْكَرَ الْأَصْوَاتِ لَصَوْتُ الْحَمِيرِ ﴿١٩﴾

၁၉။ ထို့ပြင် အသင်သည် မိမိလမ်းလျှောက်မှု၌ အလယ်အလတ်ပြုလုပ်ပါလေ။ ကျနေ့ဖြေစောင့်စည်းပါလေ။ ထိုမှတပါး အသင်သည် မိမိအသံကို နှိမ့်ချပါလေ။ မလွဲဧကန် စက်ဆုပ်ဖွယ်အဖြစ်ဆုံး အသံကား မြည်းသတ္တဝါတို့၏အသံပင် ဖြစ်ချေသတည်း။[၁]

---

① <u>လွတ်က်မာန် မိမိ၏သားအား ဆုံးမသည့်စကား။</u>

(၃) ဆိုလိုသည်ကား၊ သား- <u>စနစ်တကျ 'ဆွလာတ်' ပြုပါလေ။</u> ဆွလာတ်သည်ဝတ်ပြုမှု အပေါ်ရင်းတွင် အချုပ်ဖြစ်သည်။

(၄) သား၊ အသင်သည် မိမိကိုယ်တိုင် တရားလမ်းမှန်အပေါ်၌ ရပ်တည်ပြီး သူတစ်ပါးတို့အားလည်း <u>ကောင်းရာကို ညွှန်ပြပါလေ။ မကောင်းရာမှ တားမြစ်ပါလေ။</u>

(၅)သား၊ သူတစ်ပါးအား တရားဓမ္မ ဟောညွှန်ပြရေးတွင် မိမိ၌ <u>ဘေးဒုက္ခတစုံတရာ</u> သက်ရောက်ပါကသည်းခံပါလေ၊ ကြံ့ခိုင်စွာရပ်တည်ပါလေ။ ဤသည် ဖွဲ့သတ္တိတရပ်ပင်။ ➤➤

أَلَمْ تَرَوْا أَنَّ اللّٰهَ سَخَّرَ لَكُمْ مَّا فِي السَّمٰوٰتِ وَمَا فِي الْأَرْضِ وَأَسْبَغَ عَلَيْكُمْ نِعَمَهُ ظَاهِرَةً وَّبَاطِنَةً ۗ وَمِنَ النَّاسِ مَنْ يُّجَادِلُ فِي اللّٰهِ بِغَيْرِ عِلْمٍ وَّلَا هُدًى وَّلَا كِتٰبٍ مُّنِيْرٍ ﴿٢٠﴾

၂၀။ အသင်တို့သည် မမြင်ခဲ့ကြလေသလော၊ စင်စစ်ကေန် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အကျိုးငှာ မိုးကောင်းကင်၌ရှိသည်တို့ကိုလည်းကောင်း၊ ပထဝီမြေ၌ရှိသည်တို့ကိုလည်းကောင်း၊ *အသုံးချနိုင်စေတော်မူ၏။* [၁] ထိုမှတပါး ထိုအရှင်မြတ်သည် *မိမိ၏ထင်ရှားသော ကျေးဇူးတော်များကိုလည်းကောင်း၊* မထင်ရှားသော *ကျေးဇူးတော်များကိုလည်းကောင်း၊* [၂] အသင်တို့အပေါ်ဝယ် အပြည့်အစုံ ချပေးသနားတော်မူ၏။

---

➤➤ (၆) သား၊ လူများရှေ့တွင် မျက်နှာစူမထားပါနှင့်၊ သူတစ်ပါးအား အထင်မသေးပါနှင့် မောက်မာစွာ မဆက်ဆံပါနှင့်၊ ခင်မင်ရင်းနှီး လေးစားစွာ ဆက်ဆံပါလေ။

(၇) သား၊ ပထဝီမြေပေါ်မှာ မော်ကြွားစွာ လမ်းမလျှောက်ပါနှင့်၊ အလ္လာဟ်အရှင်မြတ်သည် မောက်မာမှု၊ မော်ကြွားမှုဟူသမျှကို နှစ်သက်တော်မမူ။

(၈) သား၊ သွားလာရာတွင် မမြန်လွန်းပါနှင့်၊ မဖြည်းလွန်းပါနှင့်၊ အလယ်အလတ် ဣန္ဒြေရရ သိက္ခာရှိရှိ သိမ်သိမ်မွေ့မွေ့ သွားလာပါလေ။

(၉) သား၊ ပြောဆိုရာတွင် မိမိ၏အသံကို နှိမ့်ချပါ။ အကြောင်းမဲ့ အော်ဟစ်၍ မပြောဆိုလေနှင့်။ အော်ကြီးဟစ်ကျယ် ပြောဆိုခြင်းသည် နှစ်မြို့ဖွယ်ရာမဟုတ်၊ အလွန် စက်ဆုပ်ရွံရှာဖွယ်ရာ ဖြစ်သည်။ မြည်း၏အသံကို ဆင်ခြင်ပါလေ။ မြည်း၏အသံသည် အသံများတွင် သူငါအများ အများဆုံး စက်ဆုပ်ရွံမုန်းသော အသံပင်ဖြစ်သည်။

ဤတွင် ပညာရှင်ကြီးလွတ်ကမာန်က မိမိ၏သားအား သွန်သင်ဆုံးမခဲ့သော စကားကြီး(၉)ခွန်း ပြီးဆုံးသည်။ ရှေ့တွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏တန်ခိုးတော်များနှင့် ကျေးဇူးတော်များကို ထုတ်ဖော်ပြီး 'တောင်ဟီဒ်'စသည့် အကြောင်းများကိုပင် ဆက်လက်မိန့်ကြား ထားတော်မူသည်။

**① ကမ္ဘာ့အိမ်ထောင်စုကြီး တခုလုံးသည် လူသား၏ အသုံးအဆောင်သာ။**

အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာ့အိမ်ထောင်စုကြီး တစ်ခုလုံးကို လူသားတို့အားအကျိုးပြုသည့် လုပ်ငန်းများတွင် အသုံးပြုထားတော်မူသည်။ ဤကား အထင်အရှားပင်။ သို့ဖြစ်ရာ လူသားတို့သည် မိမိတို့ကိုယ်ကို အလ္လာဟ်အရှင်မြတ် အလိုတော်၌ အသုံးပြုထားကြရမည်သာ ဖြစ်သည်။

② ထင်ရှားသော ကျေးဇူးတော်များဟူသည် အာရုံဖြင့်သိမြင်နိုင်သော ကျေးဇူးတော်များကို ဆိုလိုသည်။ မထင်ရှားသော ကျေးဇူးတော်များဟူသည် အသိဉာဏ်နှင့်ယှဉ်၍ တွေးဆဆင်ခြင်သိရှိနိုင်သော ကျေးဇူးတော်များကို ဆိုလိုသည်။ သို့တည်းမဟုတ်၊ ထင်ရှားသော ကျေးဇူးတော်များဟူသည် ရုပ်လောကနှင့်ဆိုင်သော ကျေးဇူးတော်များကို ဆိုလိုသည်။ မထင်ရှားသော ကျေးဇူးတော်များဟူသည် နာမ်လောကနှင့်ဆိုင်သော ကျေးဇူးတော်များကိုဆိုလိုသည်။

သို့ရာတွင် လူတို့အနက် အချို့မှာမူကား မည်သည့်ပညာ သက်သေအထောက်အထားမျှလည်းကောင်း၊ မည်သည့် တရားလမ်းညွှန်မှုမျှလည်းကောင်း၊ မည်သည့် ထွန်းလင်းသောကျမ်းဂန်မျှလည်းကောင်း၊ မရှိပါဘဲလျှက် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ အငြင်းအခုံ ပြုလုပ်လေ့ရှိကြ၏။ [၁]

وَإِذَا قِيلَ لَهُمُ اتَّبِعُوا مَا أَنزَلَ اللَّهُ قَالُوا بَلْ نَتَّبِعُ مَا وَجَدْنَا عَلَيْهِ آبَاءَنَا ۚ أَوَلَوْ كَانَ الشَّيْطَانُ يَدْعُوهُمْ إِلَىٰ عَذَابِ السَّعِيرِ ﴿٢١﴾

၂၁။ ထိုမှတပါး ၎င်းတို့အား၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ် ချပေးသနားတော်မူသည်ကို လိုက်နာကြလေကုန်ဟု ပြောကြားခဲ့သည်ရှိသော်၊ ၎င်းတို့က ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာမူကား ကျွန်ုပ်တို့သည် မိမိတို့ အဘ၊ ဘိုး၊ ဘေးတို့ လိုက်နာခဲ့ကြသည်ကို တွေ့ရှိကြရသော လမ်းစဉ်ကိုသာ ကျွန်ုပ်တို့ လိုက်နာကြမည်ဟု ပြောဆိုဖြေကြားခဲ့ကြကုန်၏။ ထိုအဘ၊ ဘိုး၊ ဘေး တို့အား 'ရှိုင်တွာန်' မိစ္ဆာကောင်သည် ငရဲဘုံ၏ ပြစ်ဒဏ်ကို ဖိတ်ခေါ်လျက်ရှိငြားအံ့လည်း (၎င်းတို့သည် ထိုအဘ၊ ဘိုး၊ ဘေးတို့၏လမ်းစဉ်ကို လိုက်နာကြဦးမည်လော။)

۞ وَمَن يُسْلِمْ وَجْهَهُ إِلَى اللَّهِ وَهُوَ مُحْسِنٌ فَقَدِ اسْتَمْسَكَ بِالْعُرْوَةِ الْوُثْقَىٰ ۗ وَإِلَى اللَّهِ عَاقِبَةُ الْأُمُورِ ﴿٢٢﴾

၂၂။ စင်စစ်သော်ကား မည်သူမဆို မိမိကိုယ်ကို အလ္လာဟ်အရှင်မြတ် အထံတော်သို့ လုံးဝအပ်နှင်းလွှဲအပ်သည့်ပြင်၊ ထိုသူသည် ကောင်းမှုပြုသူလည်း ဖြစ်ပါမူ၊ မလွဲဧကန် ထိုသူသည် လွန်စွာခိုင်မြဲသော ကြိုးကွင်းကို ဆွဲကိုင်၍ ထားရှိပြီဖြစ်၏။ စင်စစ် အမှုကိစ္စအလုံးစုံတို့၏ အဆုံးသတ်ခြင်းမှာ အလ္လာဟ်အရှင်မြတ် အထံတော်၌ပင်ဖြစ်၏။ [၂]

---

(၁) အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များနှင့် ကျေးဇူးတော်များကား ထင်ရှားလှ၏။ များပြားလှ၏။ သို့ပါလျက် အချို့လူသားများသည် ထိုအရှင်မြတ်နှင့် ပတ်သက်၍သော်လည်းကောင်း၊ ထိုအရှင်မြတ်၏ ဂုဏ်တော်များနှင့် ပတ်သက်၍သော်လည်းကောင်း၊ ထိုအရှင်မြတ်၏ ဒေသနာတော်များနှင့် ပတ်သက်၍ ➤➤

وَمَنْ كَفَرَ فَلَا يَحْزُنْكَ كُفْرُهٗ ۚ إِلَيْنَا مَرْجِعُهُمْ فَنُنَبِّئُهُمْ بِمَا عَمِلُوْا ۚ إِنَّ اللّٰهَ عَلِيْمٌۢ بِذَاتِ الصُّدُوْرِ ﴿٢٣﴾

၂၃။ သို့ရာတွင် မည်သူမဆို သွေဖည်ငြင်းပယ်ခဲ့ပါမူ၊ ထိုသူ၏ သွေဖည်မှုသည် အသင့်အား ပူဆွေးစေခြင်း မဖြစ်စေရ။ ၎င်းတို့သည် ငါအရှင်မြတ်အထံတော်သို့သာလျှင် ပြန်လည် ရောက်ရှိကြရပေမည်။ ထိုအခါ ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့ကျင့်မှုပြုလုပ်ခဲ့ကြသည်များကို သိစေတော်မူမည်။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် စိတ်နှလုံးများအတွင်း၌ ရှိသည်တို့ကို အကြွင်းမဲ့သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

نُمَتِّعُهُمْ قَلِيْلًا ثُمَّ نَضْطَرُّهُمْ إِلٰى عَذَابٍ غَلِيْظٍ ﴿٢٤﴾

၂၄။ ငါအရှင်မြတ်သည် နေ့ရက်အနည်းငယ်မျှပင်၊ ၎င်းတို့အား အကျိုးခံစားခွင့်ပေးတော်မူသည်။ ထို့နောက် ငါအရှင်မြတ်သည် ၎င်းတို့အား ပြင်းထန်လှစွာသော ပြစ်ဒဏ်သို့ အတင်းအကြပ်မောင်းနှင် ပို့ဆောင်တော်မူအံ့သတည်း။

وَلَئِنْ سَاَلْتَهُمْ مَّنْ خَلَقَ السَّمٰوٰتِ وَالْاَرْضَ لَيَقُوْلُنَّ اللّٰهُ ۚ

၂၅။ စင်စစ်သော်ကား အကယ်၍ အသင်သည် ထိုသူတို့အား မိုးကောင်းကင်များနှင့် ပထဝီမြေကို မည်သူဖန်ဆင်းခဲ့သနည်းဟု မေးမြန်းခဲ့ပါလျှင် မုချဧကန် ၎င်းတို့က အလ္လာဟ်အရှင်မြတ်ပင် (ဖန်ဆင်းတော်မူခဲ့သည်)ဟု ပြောဆိုကြမည်သာ။

---

▶▶ သော်လည်းကောင်း၊ အသိဉာဏ်အမြော်အမြင် တရားဓမ္မ၊ကျမ်းဂန်၊ ဓမ္မကွန် တစုံတရာမရှိပါပဲလျက် အငြင်းအခုံ ပြုကြပေသည်။ ဤသည်ကား မိဘရိုးရာထုံးတမ်းစဉ်လာကို ဖွတ်မိတ်လိုက်နာမှု၏ အကျိုးပင်။

(၂) အကြင်သူတဦးသည် မိမိကိုယ်ကို အလ္လာဟ်အရှင်မြတ်အား လုံးဝလွှဲအပ်ပြီး စိတ်စေတနာဖြူစင်စွာဖြင့် ကောင်းမြတ်သော အကျင့်သီလများကို ဆည်းပူးပါက ထိုသူသည် အလွန်ခိုင်ခံ့သော ကြိုးကွင်းကို ဆုပ်ကိုင်ထားသူနှင့် အလားသဏ္ဍာန်တူသည်။ ထိုလူသည် ထိုကြိုးကွင်းကြီးကို ဆုပ်ကိုင်ထားသည်နှင့်အမျှ အောက်သို့ ပြုတ်မကျနိုင်သကဲ့သို့ အစွလာမ်တည်းဟူသော ကြိုးကွင်းကို ဆုပ်ကိုင်ထားသော ထိုမုစ်လင်မ်တစ်ဦးသည်လည်း အောက်သို့ပြုတ်မကျနိုင်ပေ။ ထို့ပြင်တဝကြိုးကွင်းကို ဆုပ်ကိုင်၍ အထက်သို့ တက်နိုင်သကဲ့သို့ မုစ်လင်မ်တစ်ဦးသည်လည်း အစ္စလာမ့်ကြိုးကွင်းကိုဆုပ်ကိုင်ကာ အလ္လာဟ်အရှင်မြတ်၏ ထံတော်ပါးသို့ပင် တက်ရောက်နိုင်လေသည်။

قُلِ الْحَمْدُ لِلّٰهِ ۚ بَلْ اَكْثَرُهُمْ لَا يَعْلَمُوْنَ ﴿٢٥﴾

(အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ ချီးမွမ်းထောပနာ အပေါင်းတို့ကို အလ္လာဟ်အရှင်မြတ်သည်သာလျှင် ခံယူထိုက်တော်မူ၏။ သို့ရာတွင် ၎င်းတို့အနက် အများစုမှာမူကား မသိကြပေ။

لِلّٰهِ مَا فِى السَّمٰوٰتِ وَالْاَرْضِ ۗ اِنَّ اللّٰهَ هُوَ الْغَنِىُّ الْحَمِيْدُ ﴿٢٦﴾

၂၆။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ပထဝီမြေ၌ ရှိသမျှတို့သည်လည်းကောင်း အလ္လာဟ်အရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာချည်းသာဖြစ်ကုန်၏။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည်သာလျှင် လိုလားတောင့်တခြင်း ကင်းမဲ့တော်မူသော၊ ချီးမွမ်းခြင်းခံရတော်မူသော အရှင်ဖြစ်တော်မူပေသတည်း။

وَلَوْ اَنَّمَا فِى الْاَرْضِ مِنْ شَجَرَةٍ اَقْلَامٌ وَّالْبَحْرُ يَمُدُّهٗ مِنْۢ بَعْدِهٖ سَبْعَةُ اَبْحُرٍ مَّا نَفِدَتْ كَلِمٰتُ اللّٰهِ ۗ اِنَّ اللّٰهَ عَزِيْزٌ حَكِيْمٌ ﴿٢٧﴾

၂၇။ စင်စစ်သော်ကား၊ အကယ်၍ အမှန်ဧကန် ပထဝီမြေ၌ ရှိကုန်သော သစ်ပင် အသီးသီးတို့သည် ကလောင်များဖြစ်၍ သမုဒ္ဒရာပင်လယ်သည် (မင်ဖြစ်ပြီး၊ ယင်းပင်လယ် ကုန်ခန်းပြီးနောက်) သမုဒ္ဒရာ ပင်လယ် ခုနစ်ခုသည် ယင်း(ခန်းခြောက်ပြီးဖြစ်သော) ပင်လယ်ကို ထပ်မံ၍ ဖြည့်အံ့ငြားလည်း *အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကား ကုန်ဆုံးမည် မဟုတ်ပေ။*[၁] မချွတ်မလွဲ အလ္လာဟ်အရှင်မြတ်သည် တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော်မူသော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

---

(၁) အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကား အနန္တောအနန္တတည်း။ ကမ္ဘာ့အဝှန်းရှိ သမုဒ္ဒရာများအပြင် အခြားသမုဒ္ဒရာခုနစ်စင်းရှိအံ့၊ ထိုသမုဒ္ဒရာများသည် မင်ရည်ဖြစ်အံ့၊ ကမ္ဘာ့အဝှန်းရှိ သစ်ပင်များသည် ကလောင်ဖြစ်အံ့၊ ကမ္ဘာ့အဝှန်းရှိ ရေးမှတ်သူများသည် အဆိုပါကလောင်များ၊ မင်ရည်များဖြင့် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကို ရေးမှတ်ကြပါကလည်း မင်ရည်များသည်သာ ကုန်သွားပေမည်၊ ကလောင်များသည်သာ တုံးသွားပေမည်၊ ရေးမှတ်သူများသာ သေဆုံးသွားကြပေမည်၊ သို့တစေလည်း အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကား ကုန်ဆုံးသွားမည်မဟုတ်ပေ။ ထိုအရှင်မြတ်၏ ဂုဏ်တော်များကား အတိုင်းမသိ များပြားလှပါဘိတကား။

مَا خَلْقُكُمْ وَلَا بَعْثُكُمْ إِلَّا كَنَفْسٍ وَاحِدَةٍ ۗ إِنَّ اللَّهَ سَمِيعٌ بَصِيرٌ ﴿٢٨﴾

၂၈။ အသင်တို့အား ဖန်ဆင်းတော်မူခြင်းနှင့် အသင်တို့အား (သေပြီးနောက်တဖန်) ရှင်ပြန်ထစေတော်မူခြင်းသည် လူတယောက်(ကို ဖန်ဆင်းတော်မူခြင်း၊ သို့မဟုတ် လူတယောက်အား ရှင်ပြန်ထစေတော်မူခြင်း) ကဲ့သို့သာ ဖြစ်သည်။ အကယ်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာကြားတော်မူသော၊ အလွန်တရာမြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

أَلَمْ تَرَ أَنَّ اللَّهَ يُولِجُ اللَّيْلَ فِي النَّهَارِ وَيُولِجُ النَّهَارَ فِي اللَّيْلِ وَسَخَّرَ الشَّمْسَ وَالْقَمَرَ كُلٌّ يَجْرِي إِلَىٰ أَجَلٍ مُسَمًّى وَأَنَّ اللَّهَ بِمَا تَعْمَلُونَ خَبِيرٌ ﴿٢٩﴾

၂၉။ အသင်သည် မသိမမြင်ခဲ့လေသလော၊ ဧကန်မုချ အလ္လာဟ်အရှင်မြတ်သည် ည(၏ အစိတ်အပိုင်းများ)ကို နေ့တွင်လည်းကောင်း၊ နေ့(၏ အစိတ်အပိုင်းများ)ကို ညတွင်လည်းကောင်း ဝင်စေတော်မူ၏။ ထို့ပြင်၊ ထိုအရှင်မြတ်သည် 'နေ' ကိုလည်းကောင်း၊ 'လ' ကိုလည်းကောင်း နိုင်နင်းစေတော်မူ၏။ ယင်း ('နေ' နှင့်'လ' ) အသီးသီးတို့သည် သတ်မှတ်ပြဋ္ဌာန်းအပ်သော အချိန်ကာလတိုင်အောင် သွားလာလှုပ်ရှားလျက်ပင် ရှိပေမည်။ ထိုမှတပါး အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုလုပ်ကြသည်တို့ကို အကြွင်းမဲ့ ကြားသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

ذَٰلِكَ بِأَنَّ اللَّهَ هُوَ الْحَقُّ وَأَنَّ مَا يَدْعُونَ مِنْ دُونِهِ الْبَاطِلُ وَأَنَّ اللَّهَ هُوَ الْعَلِيُّ الْكَبِيرُ ﴿٣٠﴾

၃၀။ ဤသည်ကား အလ္လာဟ်အရှင်မြတ်သည်သာလျှင် အမှန်အကန်(ထာဝရ တည်ရှိနေတော်မူမည်) ဖြစ်သောကြောင့်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်မှတပါး၊ ထိုသူတို့ဟစ်ခေါ် တမ်းတကြကုန်သော အရာများသည် အမှားပင်(ဖြစ်၍ ပျက်စီးသွားကြမည်) သာ ဖြစ်သောကြောင့်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်သည်သာလျှင် လွန်စွာမြင့်မြတ်တော်မူသော၊ လွန်စွာကြီးကဲတော်မူသော အရှင် ဖြစ်တော်မူသောကြောင့်ပင် ဖြစ်ချေသတည်း။

أَلَمْ تَرَ أَنَّ الْفُلْكَ تَجْرِي فِي الْبَحْرِ بِنِعْمَتِ اللَّهِ لِيُرِيَكُم مِّنْ آيَاتِهِ ۚ إِنَّ فِي ذَٰلِكَ لَآيَاتٍ لِّكُلِّ صَبَّارٍ شَكُورٍ ﴿٣١﴾

၃၁။ ကေန်စင်စစ် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်နှင့် သမုဒ္ဒရာပင်လယ်၌ ရွက်သင်္ဘောများ သွားလာလှုပ်ရှားလျက် ရှိကြခြင်းမှာ ထိုအရှင်မြတ်သည် အသင်တို့အား မိမိ၏ အချို့သက်သေသာဓကများကို ပြသတော်မူရန်ဖြစ်ကြောင်း အသင်သည် မမြင်ခဲ့လေသလော။

ကေန်မလွဲ ဤသည်တွင် ကျေးဇူးသိတတ်သော သည်းခံခြင်းတရား ထားရှိသူတိုင်း၏အဖို့ အမှန်ပင် သက်သေသာဓကများ ရှိကြပေသည်။

وَإِذَا غَشِيَهُم مَّوْجٌ كَالظُّلَلِ دَعَوُا اللَّهَ مُخْلِصِينَ لَهُ الدِّينَ فَلَمَّا نَجَّاهُمْ إِلَى الْبَرِّ فَمِنْهُم مُّقْتَصِدٌ ۚ وَمَا يَجْحَدُ بِآيَاتِنَا إِلَّا كُلُّ خَتَّارٍ كَفُورٍ ﴿٣٢﴾

၃၂။ စင်စစ် ၎င်းတို့အား လှိုင်းတံပိုးသည် အမိုးများပမာ ဖုံးလွှမ်းခဲ့သောအခါ၊ ၎င်းတို့သည် ကိုးကွယ်မှုကို အလ္လာဟ်အရှင်မြတ်အား ထိုအရှင်မြတ်အဖို့သာ စေတနာ သဒ္ဓါတရား ဖြူစင်စွာထားကာ ဟစ်ခေါ်တသကြကုန်၏။

သို့ရာတွင် ထိုအရှင်မြတ်သည် ၎င်းတို့အား ကယ်တင်၍ ကုန်းမြေသို့ ပို့ဆောင်တော်မူသောအခါ ၎င်းတို့အနက်အချို့သည် မဈွှမပဋိပဒါစနစ်ကိုလိုက်၏။ စင်စစ်သော်ကား ငါအရှင်မြတ်၏ သက်သေလက္ခဏာများကိုကျေးဇူးကန်းသော ကတိသစ္စာ ဖောက်ဖျက်သူတိုင်းသာလျှင် ငြင်းပယ်လေ့ရှိကြပေသတည်း။

يَا أَيُّهَا النَّاسُ اتَّقُوا رَبَّكُمْ وَاخْشَوْا يَوْمًا لَّا يَجْزِي وَالِدٌ عَن وَلَدِهِ وَلَا مَوْلُودٌ هُوَ جَازٍ عَن وَالِدِهِ شَيْئًا ۚ

၃၃။ အို-လူသားအပေါင်းတို့ အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ကို ကြောက်ရွံ့ကြလေကုန်။ ထိုမှတပါး အသင်တို့သည် မည်သည့် ဖခင်တဦးတယောက်မျှပင် မိမိသားအဖို့ အသုံးမဝင်သည့်အပြင်၊ မည်သည့် သားတဦးတယောက်မျှသည်လည်း မိမိဖခင်အဖို့ လုံးဝအသုံးဝင်မည် မဟုတ်

إِنَّ وَعْدَ اللَّهِ حَقٌّ فَلَا تَغُرَّنَّكُمُ الْحَيَوٰةُ الدُّنْيَا وَلَا يَغُرَّنَّكُم بِاللَّهِ الْغَرُورُ ﴿٣٣﴾

သော နေ့ကို စိုးရိမ်ကြလေကုန်။ [၁] ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်၏ကတိသည် မှန်ကန်သောကတိ ပင်ဖြစ်၏။ သို့ဖြစ်ပေရာ လောကီဘဝ၌ အသက်ရှင်ခြင်းသည် အသင်တို့အား လှည့်ဖြားခြင်း မပြုစေရ၊ ထိုနည်းတူစွာ၊ ထိုလှည့်စားသူ (ရှိုင်တွာန်)သည်လည်း အသင်တို့အား အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ လှည့်ဖြားခြင်း မပြုစေရ။

إِنَّ اللَّهَ عِندَهُۥ عِلْمُ السَّاعَةِ وَيُنَزِّلُ الْغَيْثَ وَيَعْلَمُ مَا فِي الْأَرْحَامِ

၃၄။ ဧကန်မလွဲ ရှင်ပြန်ထမည့်အချိန်ကို သိမြင်ခြင်းသည် အလ္လာဟ်အရှင်မြတ်၌ သာရှိပေသည်။ ၎င်းပြင် ထိုအရှင်မြတ်သည်သာလျှင် မိုးရေကို ချပေးတော်မူ၏။ ထိုမှတပါး (မိခင်များ၏) သားအိမ်များ၌ မည်သည့်အရာ ရှိသည်ကိုလည်း ထိုအရှင်မြတ်သာလျှင် သိတော်မူ၏။

---

(၁) **သားသမီးနှင့် မိဘများသည်ပင် တစ်ဦးကိုတစ်ဦး မကယ်တင်နိုင်မည့်နေ့၊**

သမုဒ္ဒရာပင်လယ်ပြင်တွင် ရေလှိုင်းမိကြသည့်အခါ ခရီးသည်များသည် အလွန်ထိတ်လန့်ကာ လူတိုင်းလူတိုင်းသည် မိမိလွတ်မြောက်ရန် အသီးသီးကြိုးစားကြသည်။ သို့တစေလည်း ထိုအချိန်မျိုးမှာပင်လျှင် သားသမီးသံယောဇဉ် ကြီးမားသောမိဘများသည် မိမိတို့၏သားသမီးများကို မမေ့ကြပေ။ ထို့အတူ မိဘသံယောဇဉ်ကြီးမားသော သားသမီးများသည်လည်း မိမိတို့၏မိဘများကို မမေ့ကြပေ။ တစ်ဦးကိုတစ်ဦး ကယ်တင်ရန် ကြိုးစားကြပေသည်။ အချို့သော မိဘများသည် မိမိတို့ကိုယ်တိုင် အသက်စွန့်ကာ မိမိ၏ရင်သွေးများကို ကယ်တင်ကြပေသည်။

သို့ရာတွင်ကိယာမတ်နေ့တွင်ကား သံယောဇဉ်များပင် အပြတ်ကြီးပြတ်သွားပေမည်။ သားသမီးများသည်လည်း မိဘများကိုပင် ကယ်တင်ကြမည်မဟုတ်၊ မိဘများသည်လည်း သားသမီးများအား ကယ်တင်ကြမည်မဟုတ်။ ကယ်တင်လိုပါကလည်း အကျိုးရှိမည်မဟုတ်၊ လူတိုင်းလူတိုင်းသည် မိမိကိုယ်ကိုမိမိ လွတ်မြောက်ရန် သောကများလျက်ရှိပေမည်။ ကြည့်-ကုရ်အာန်(၈၀:၃၃-၃၇)

ယနေ့ရေလှိုင်းဘေးမှ လွတ်မြောက်ခဲ့သော်လည်း နက်ဖြန်ကိယာမတ်နေ့၏ ဘေးမှကား အသို့လျှင် လွတ်မြောက်နိုင်အံ့နည်း။ ကိယာမတ်သည် မုချဖြစ်မည်၊ အလ္လာဟ်အရှင်မြတ်၏ ကတိတော်သည်မှန်သည်၊ သို့ဖြစ်ရာ လူသားသည် ထိုနေ့ကိုမျက်မှောက်ပြုကာ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်မှလွတ်မြောက်နိုင်ရန် ယခုကပင် ကြိုတင်စီစဉ်ရပေမည်။ လောကီဘဝတွင် သာယာ၍မနေရာ၊ လောကီရေးရာများတွင် နစ်မွန်း၍မနေရာ၊ ရှိုင်တွာန်၏ဖြားယောင်းမှုတွင် မသက်ရောက်ရာ။

وَمَا تَدۡرِىۡ نَفۡسٌ مَّاذَا تَكۡسِبُ غَدًا ؕ وَمَا تَدۡرِىۡ نَفۡسٌۢ بِاَىِّ اَرۡضٍ تَمُوۡتُ ؕ اِنَّ اللّٰهَ عَلِيۡمٌ خَبِيۡرٌ ﴿٣٤﴾

စင်စစ်သော်ကား မည်သူတဦးတယောက်မျှပင် ၎င်းမှာ နက်ဖြန်မည်သည့်အမှုကိစ္စ ပြုလုပ်မည်ကို မသိနိုင်ပေ။ ထိုနည်းတူစွာ မည်သူတဦးတယောက်မျှပင် ၎င်းမှာ မည်သည့်မြေ (အရပ်ဒေသ)၌ သေဆုံးမည်ကို မသိနိုင်ပေ။ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သာလျှင် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ကြားသိတော်မူသော အရှင် ဖြစ်တော်မူပေသတည်း။ [၁]

---

(၁) ဤအာယတ်တော်တွင် အချက်ငါးချက်ပါရှိသည်။ ဤသည့်ငါးချက်ကို ဟဒီးဆ်တော်တွင် **'မဖာဟီဟုလ် ဃိုက်ဗ်' မျက်ကွယ်၏သော့များ** ဟု သုံးနှုန်းထားတော်မူသည်။ ဤသည်တို့ကို အလ္လာဟ်အရှင်မြတ်သာလျှင် ပိုင်နိုင်တိကျအပြည့်အဝ သိတော်မူသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားမည်သူမျှ အတိအကျမသိချေ။

(၁) ကိယာမတ်သည် မုချဖြစ်မည်။ သို့ရာတွင် အဘယ်နေ့ အဘယ်အချိန်တွင် ဖြစ်မည်ကို အလ္လာဟ်အရှင်မြတ်မှ တစ်ပါး အခြားမည်သူမျှ မသိချေ။

(၂) မိုးရည်ကို အလ္လာဟ်အရှင်မြတ် ရွာသွန်းချပေးတော်မူသည်။ မည်သည့်အချိန်အခါတွင် မည်သည့်နေရာ၌ မည်ရွေ့မည်မျှ မိုးရွာမည်ကိုလည်း အလ္လာဟ်အရှင်မြတ်မှ တစ်ပါး အခြားမည်သူမျှ အတိအကျမသိချေ။

(၃) ကိုယ်ဝန်ဆောင် အမျိုးသမီးများ၏ သားအိမ်များတွင် သားယောကျ်ားကလေးဖြစ်သည်၊ သမီး မိန်းကလေး ဖြစ်သည်၊ မွေးဖွားလာပြီးနောက် ထိုကလေး၏ အသက်သည်မည်မျှရှိမည်၊ စားဝတ်နေရေး အဆင်ပြေမည်၊ အဆင်မပြေမည်၊ အကြောင်းလုမည်၊ အကြောင်းမလုမည် — စသည်များကို အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားမည်သူမျှမသိချေ။

(၄) မည်သူမျှ နက်ဖြန်မည်သည့်အရာ ပြုလုပ်မည်ကို မိမိပင်အတိအကျမသိ။

(၅) မည်သူမျှ မည်သည့်ဌာနတွင်သေမည်ကို မိမိပင်အတိအကျမသိ။

အလ္လာဟ်အရှင်မြတ်မှသည် 'ဃိုက်ဗ်' မျက်ကွယ်၌ရှိသော အရာခပ်သိမ်းကုန်တို့ကို လည်းကောင်း၊ 'ရှဟာဒတ်' မျက်မှောက်၌ရှိသော အရာခပ်သိမ်းကုန်တို့ကိုလည်းကောင်း၊ အကြွင်းမဲ့သိတော်မူသည်။ ဤအာယတ်တော်တွင် ငါးခုသောအရာကို အထူးတလည် ထုတ်ဖော်မိန့်ဆိုထားတော်မူခြင်းမှာ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား မေးမြန်းသူတစ်ဦးက ဤသည့်အရာငါးခုနှင့် စပ်လျဉ်း၍ မေးမြန်းခဲ့သည့်အတွက်သော် လည်းကောင်း၊ အများအားဖြင့် လူများသည် ဤသည့်ငါးချက်ကို အထူးသိလိုကြသည့်အတွက် သော်လည်းကောင်း၊ ဤသည့်အချက်ငါးချက်ကိုသာ ထုတ်ဖော်မိန့် ဆိုထားတော်မူခြင်းဖြစ်သည်။

သာဝကကြီး အစ်ဗ်နုအုမရ် (ရသွေ့ ယလ္လာဟုအန်ဟု)ထံမှ တဆင့်ကြားသိရ၏။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လာမ်)က မိန့်ကြားတော်မူခဲ့သည်မှာ ဃိုက်ဗ်၏ သော့များသည် ငါးခုရှိသည်၊ ထိုအရာများကို အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားမည်သူမျှ မသိချေ။ ထို့နောက် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကုရ်အာန်ကျမ်းမြတ်လာ အာယတ်တော် (၃၁:၃၄)ကို ရွတ်ဖတ်တော်မူခဲ့လေသည်။ (အစ်ဗ်နုကဆီရ်၊ အတွဲ-၃၊ စ-၄၅၄)။

# ပျပ်ဝပ်ဦးချခြင်းကဏ္ဍ



ဤကဏ္ဍသည် "စဂျ်ဒဟ် ပျပ်ဝပ်ဦးချခြင်း ကဏ္ဍ" မည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၃၀)ပါး ရကူအ်အပိုဒ်(၃)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော
အနန္တကရုဏာရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

الٓمّٓ ۝١

၁။ အလိဖ်၊ လာမ်၊ မီမ်။

تَنْزِيْلُ الْكِتٰبِ لَا رَيْبَ فِيْهِ مِنْ رَّبِّ الْعٰلَمِيْنَ ۝٢

၂။ (ဤသည်) ချပေးတော်မူသောကျမ်းဂန်ဖြစ်၏။ ဤကျမ်းဂန်နှင့် စပ်လျဉ်း၍ ဒွိဟသံသယဟူ၍ အလျှင်း မရှိပြီ။ (ဤသည်) စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်ထံတော်မှဖြစ်သည်။

**(တနည်း)**

ဤကျမ်းဂန်သည် စကြာဝဠာ ခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် အထံတော်မှ ချပေးတော်မူခြင်းဖြစ်၏။ ယင်းကျမ်းဂန်နှင့်စပ်လျဉ်း၍ ဒွိဟသံသယ ဟူ၍ အလျှင်းမရှိပြီ။

اَمْ يَقُوْلُوْنَ افْتَرٰىهُ ۚ بَلْ هُوَ الْحَقُّ مِنْ رَّبِّكَ لِتُنْذِرَ قَوْمًا مَّآ اَتٰىهُمْ مِّنْ نَّذِيْرٍ مِّنْ قَبْلِكَ لَعَلَّهُمْ يَهْتَدُوْنَ ۝٣

၃။ ၎င်းတို့က တမန်တော်မြတ်သည် ဤကျမ်း တော်မြတ်ကို ကြံစည်၊ ဖန်တီး(စီကုံးရေးသား)ခဲ့သည် ဟု ဆိုကြလေသလော။ ထိုသို့ အလျှင်းမဟုတ် စင်စစ် မှာကား ယင်းကျမ်းဂန်သည် အသင့်အလျောက် သတိပေး နှိုးဆော်သူတဦးတယောက်မျှ လာရောက်ခဲ့ခြင်း မရှိ သေးသော အမျိုးသားတို့အား ၎င်းတို့တရားလမ်းမှန် ရရှိကြအံ့သောငှာ အသင် သတိပေးနှိုးဆော်ရန် အသင့် အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံ

တော်မှ (ချပေးသနားတော်မူသော မှန်ကန်သောကျမ်းဂန်ပင်) ဖြစ်ပေသတည်း။ [၁]

اَللّٰهُ الَّذِیْ خَلَقَ السَّمٰوٰتِ وَالْاَرْضَ وَمَا بَیْنَهُمَا فِیْ سِتَّةِ اَیَّامٍ ثُمَّ اسْتَوٰی عَلَی الْعَرْشِ ؕ مَا لَكُمْ مِّنْ دُوْنِهٖ مِنْ وَّلِیٍّ وَّلَا شَفِیْعٍ ؕ اَفَلَا تَتَذَكَّرُوْنَ ④

၄။ အလ္လာဟ်အရှင်မြတ်ပင် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေ၏အကြား၌ ရှိသမျှတို့ကိုလည်းကောင်း၊ ခြောက်ရက်တွင် ဖန်ဆင်းတော်မူပြီးနောက် "အရ်ရှ်" ပလ္လင်တော်ထက်ဝယ် စံမြန်းတော်မူခဲ့၏။ အသင်တို့အဖို့ ထိုအရှင်မြတ်အပြင် ကူညီစောင်မမည့်သူ၊ ကြားဝင် အသနားခံပေးမည့်သူ ဟူ၍လည်း တဦးတယောက်မျှပင် မရှိပြီ။ သို့ပါလျက် အသင်တို့ သတိမမူ နားမလည်ကြလေသလော။

یُدَبِّرُ الْاَمْرَ مِنَ السَّمَآءِ اِلَی الْاَرْضِ ثُمَّ یَعْرُجُ اِلَیْهِ فِیْ یَوْمٍ كَانَ مِقْدَارُهٗۤ اَلْفَ سَنَةٍ مِّمَّا تَعُدُّوْنَ ⑤

၅။ ထိုအရှင်မြတ်သည် မိုးကောင်းကင်မှ ပထဝီမြေအထိ *အမှုကိစ္စအရပ်ရပ်တို့ကို စီမံခန့်ခွဲတော်မူ၏။* [၂] ထို့နောက် ယင်းအမှုကိစ္စတို့မှာ အသင်တို့ရေတွက်ကြကုန်သော အရေအတွက်ဖြင့် *အနှစ်တထောင်အတိုင်းအတာရှိသော နေ့တနေ့တွင်* [၃] *ထိုအရှင်မြတ် အထံတော်သို့ တက်သွားပေမည်။* [၄]

---

(၁) "အကြင်သူများအား အသင်သတိပေးရန်ဖြစ်သည်။ ၎င်းတို့ထံသို့ အသင့်အလျင် သတိပေးနှိုးဆော်သူတဦးတယောက်မျှ မလာခဲ့ဘူးချေ။" သတိပေးနှိုးဆော်သူ တဦးတစ်ယောက်မျှ မလာရောက်ခဲ့ဘူးသော ထိုအမျိုးသားများကား မည်သူများနည်း။

အဆိုတရပ်အရ အဆိုပါအမျိုးသားများသည် အကြင်အမျိုးသားများပင် ဖြစ်ကြသည်။ ၎င်းတို့သည် တမန်တော် အီဗ်ရာဟီမ်(အလိုင်ဟစ္စလ္လမ်)နှင့် တမန်တော် အစ္စမာအီလ်(အလိုင်ဟစ္စလ္လမ်)၏ သာသနာကိုစွန့်ပြီးနောက် အာရေဗျတိုင်းပြည်တွင် လာရောက်နေထိုင်ကာ ကုဖ်ရ်၊ရှိရ်က် အမှုများတွင် နစ်မွန်းသွားခဲ့ကြလေသည်။ အေမာမ်ရာဇီ၏ အဆိုမှာလည်း ဤအတိုင်းပင် ဖြစ်သည်။

အခြားအဆိုတစ်ရပ်အရ အဆိုပါအမျိုးသားများသည် တမန်တော်အီစာ(အလိုင်ဟစ္စလာမ်)နှင့် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏စပ်ကြားတွင် တမန်တော်တစ်ပါးမျှ မပွင့်ခဲ့ဘူးသည့် စပ်ကြားခေတ်ရှိ အရဗ်အမျိုးသားများကို ဆိုလိုသည်။

(၂) စကြာဝဠာအဝှန်းရှိ အရာခပ်သိမ်းကုန်တို့ကို ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ၊ ပြုစုပျိုးထောင်မှု၊ ➤➤

ذٰلِكَ عٰلِمُ الْغَيْبِ وَالشَّهَادَةِ الْعَزِيْزُ الرَّحِيْمُ ﴿٦﴾

၆။ ထိုအရှင်မြတ်သည်ပင် ဖုံးကွယ်လျက်ရှိသည်တို့ကိုလည်းကောင်း၊ ထင်ရှားစွာရှိသည်တို့ကိုလည်းကောင်း၊ သိရှိတော်မူသော၊ တန်ခိုးအာနုဘော်နှင့် ပြည့်စုံတော်မူသော၊ အလွန်တရာသနားကြင်နာတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

الَّذِىْٓ اَحْسَنَ كُلَّ شَىْءٍ خَلَقَهٗ وَبَدَاَ خَلْقَ الْاِنْسَانِ مِنْ طِيْنٍ ﴿٧﴾

၇။ အကြင် အရှင်မြတ်သည် မိမိဖန်ဆင်းတော်မူခဲ့သောအရာဝတ္ထုတိုင်းကို *ကောင်းမွန်စွာ ပြုလုပ်ဖန်ဆင်းတော်မူခဲ့၏။* [၁] ၎င်းပြင် ထိုအရှင်မြတ်သည် လူသားအား ဖန်ဆင်းခြင်းကို ရွှံ့ညွန်ဖြင့်အစပြုတော်မူခဲ့၏။

ثُمَّ جَعَلَ نَسْلَهٗ مِنْ سُلٰلَةٍ مِّنْ مَّآءٍ مَّهِيْنٍ ﴿٨﴾

၈။ ထို့နောက် ထိုအရှင်မြတ်သည် ထိုလူသား၏ အဆက်အနွယ်တို့ကို ညှစ်ထုတ်ထားသော အဖိုးမတန်သော ရေဖြင့် ပြုလုပ်ဖန်ဆင်းတော်မူခဲ့၏။

ثُمَّ سَوّٰىهُ وَنَفَخَ فِيْهِ مِنْ رُّوْحِهٖ

၉။ ထို့နောက် ထိုအရှင်မြတ်သည် ၎င်းအား နေထားကျနစွာ ပြုလုပ်တော်မူ၍ ၎င်း(၏ ခန္ဓာကိုယ်အတွင်း)၌ မိမိအထံတော်မှ အသက်ဇီဝိန်ကို မှုတ်သွင်းတော်မူခဲ့၏။

---

➤➤ စီမံခန့်ခွဲမှု၊ အုပ်ချုပ်မှုအစုစုတို့သည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာရှိပေသည်။ ထိုအရှင်မြတ်သည် စကြာဝဠာအဝှန်းကို တစ်ခါဖန်ဆင်းတော်မူပြီးနောက် ဘေးမဲ့ လျစ်လျူပြုထားတော်မူသည် မဟုတ်ပေ။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ကြီးကြပ်တော်မူလျက်၊ စီမံခန့်ခွဲတော်မူလျက်၊ ခြယ်လှယ်တော်မူလျက် ရှိတော်မူပေသည်။

(၃) ဤအာယတ်တော်တွင်ပါရှိသော (ဖီယောင်မင်န်) "တနေ့တွင်" ဟူသည် ကိယာမတ်နေ့ကိုပင် ဆိုလိုသည်။ ထိုနေ့တွင် စီမံခန့်ခွဲမှုအစုစု၊ အပြုအမူ ဟူသမျှတို့သည် အလ္လာဟ်အရှင်မြတ်၏ ရှေ့မှောက်သို့ ရောက်လာပေမည်။ ကိယာမတ်နေ့သည့် ပြင်းထန်လှသည့်အတွက်၊ ကြောက်ရွံ့ဖွယ်ကောင်းလှသည့်အတွက် အချို့လူများအဖို့ နှစ်ပေါင်းတထောင်မက နှစ်ပေါင်းငါးသောင်းတမျှ ရှည်လျားနေသည်ဟူ၍ပင် ထင်မှတ်ရပေမည်။ (မာဂျိဒီ၊ထာနဝီ)

(၆) ထို့နောက် ကမ္ဘာ့သက်တမ်း ကုန်ဆုံးသွားသည့် တနေ့တွင် (ဝါ)ကိယာမတ်နေ့တွင် ထိုသည့် စီမံခန့်ခွဲမှုအစုစုတို့သည် အရှင်မြတ် ထံတော်ပါးသို့ ပြန်လည်ရောက်ရှိသွားပေမည်။

(၁) အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူသမျှသော အရာအားလုံးတို့သည် သူ့နေရာနှင့်သူ သူ၏ ရည်ရွယ်ချက်နှင့်သူ၊ ပုံပန်းသဏ္ဌာန်အနေအထား၊ အချိုးအစား အဆင်ပြေလှသည်သာ ဖြစ်သည်။

وَجَعَلَ لَكُمُ السَّمْعَ وَالْأَبْصَارَ وَالْأَفْئِدَةَ ۚ قَلِيلًا مَّا تَشْكُرُونَ ⑨

ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့အဖို့ နားကိုလည်းကောင်း၊ မျက်စိများကိုလည်းကောင်း၊ စိတ်နှလုံးများကိုလည်းကောင်း၊ ပြုလုပ်ပေးသနားတော်မူခဲ့၏။ (သို့ပါလျက်) အသင်တို့သည် အနည်းငယ်သာလျှင် ကျေးဇူးတင်ကြကုန်သတည်း။ [၁]

وَقَالُوٓا۟ أَءِذَا ضَلَلْنَا فِى الْأَرْضِ أَءِنَّا لَفِى خَلْقٍ جَدِيدٍ ۚ بَلْ هُم بِلِقَآءِ رَبِّهِمْ كَٰفِرُونَ ⑩

၁၀။ စင်စစ် ၎င်းတို့က "အသို့ပါနည်း၊ ကျွန်ုပ်တို့သည် မြေထဲ၌ ဆွေးမြည့်ပျောက်ပျက် သွားခဲ့ကြသောအခါ အသစ်ပြန်၍ ဖန်ဆင်းခြင်းကို ခံကြရဦးမည်လော" ဟုဆိုကြကုန်၏။ စင်စစ်မှာမူကား ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်နှင့် တွေ့ဆုံမှုကိုပင် ငြင်းပယ်သူများ ဖြစ်ကြကုန်၏။

قُلْ يَتَوَفَّىٰكُم مَّلَكُ الْمَوْتِ الَّذِى وُكِّلَ بِكُمْ ثُمَّ إِلَىٰ رَبِّكُمْ تُرْجَعُونَ ⑪

၁၁။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) အသင်တို့နှင့်ပတ်သက်၍ ခန့်အပ်ထားခြင်းခံရလေသော သေမင်းတမန်သည် အသင်တို့၏အသက်ဇီဝိန်ကို နှုတ်သိမ်းလေသည်။ ထို့နောက် အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ထံတော်သို့ပင် ပြန်ရောက်စေခြင်းကို ခံကြရကုန်အံ့သတည်း။

---

(၁) **နား၊ မျက်စိ၊ နှလုံး၊**

အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏ ဖခင်ကြီးအာဒမ်အား မြေဖြင့်ဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် ဖခင်ကြီးအာဒမ်၏ မျိုးနွယ် (လူ့အဆက်)ကို ရေဖြင့်ဖန်ဆင်းတော်မူ၏။ လူသားအဖို့ အရာရာကို ကြားနာ၊ရှုမြင်၊ ဆင်ခြင်နိုင်ရန်အတွက် နား၊မျက်စိနှင့် နှလုံးများကို ဖန်ဆင်းပေးထားတော်မူ၏။

လူသားသည် နားဖြင့် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်လာဒေသနာတော်များကို ကြားနာရမည်။ မျက်စိဖြင့် သဘာဝသက်သေလက္ခဏာတော်များကို ရှုမြင်ရမည်။ ထို့နောက် မိမိကြားနာ ရှုမြင်ထားသည့် အချက်များကို စိတ်နှလုံးဖြင့် တိကျမှန်ကန်စွာ စဉ်းစားဆင်ခြင်မြော်မြင်ရမည်။ နားလည်သဘောပေါက်ရမည်။ ဝေဖန်ပိုင်းခြား ဆုံးဖြတ်ရမည်။ လိုက်နာကျင့်သုံးရမည်။ အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်ရမည်။

وَلَوْ تَرَىٰٓ إِذِ ٱلْمُجْرِمُونَ نَاكِسُوا۟ رُءُوسِهِمْ عِندَ رَبِّهِمْ رَبَّنَآ أَبْصَرْنَا وَسَمِعْنَا فَٱرْجِعْنَا نَعْمَلْ صَٰلِحًا إِنَّا مُوقِنُونَ ⑫

၁၂။ အကယ်၍ အသင်တွေ့မြင်ပါလျှင် ထူးဆန်းစွာ တွေ့မြင်ရပေမည်။ အကြင်အခါဝယ် အပြစ်ရှိသူတို့သည် (လွန်စွာ ရှက်ကြောက်၍) မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ရှေ့တော်မှောက်တွင် မိမိတို့၏ဦးခေါင်းများကို စိုက်ချလျက် (ရပ်ကြကာ) "အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် (ယခုသော်)ကျွန်တော်မျိုးတို့သည် မြင်လည်း မြင်ကြပါပြီ၊ ကြားလည်း ကြားကြပါပြီ။ သို့ဖြစ်ပါ၍ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား (ကမ္ဘာလောကသို့) ပြန်၍ ပို့ပေးတော်မူပါ။ (ယခုတကြိမ်သော်ကား) ကျွန်တော်မျိုးတို့သည် ကောင်းမြတ်သောအကျင့်သီလကို ကျင့်မူဆောက်တည်ကြပါတော့မည်။ (ယခုသော်) ကျွန်တော်မျိုးတို့သည် ဧကန်မလွဲ ကောင်းစွာ ယုံကြည်သူများပင် ဖြစ်ကြပါပြီ" (ဟု လျှောက်ထားအသနားခံကြပေမည်၊)

وَلَوْ شِئْنَا لَءَاتَيْنَا كُلَّ نَفْسٍ هُدَىٰهَا وَلَٰكِنْ حَقَّ ٱلْقَوْلُ مِنِّى لَأَمْلَأَنَّ جَهَنَّمَ مِنَ ٱلْجِنَّةِ وَٱلنَّاسِ أَجْمَعِينَ ⑬

၁၃။ စင်စစ်သော်ကား အကယ်၍သာ ငါအရှင်မြတ်သည် အလိုရှိတော်မူခဲ့ပါလျှင် လူတိုင်းလူတိုင်းအား ၎င်းတို့၏ တရားလမ်းမှန်ကို ပေးတော်မူခဲ့မည်ဖြစ်၏။ သို့ရာတွင် မုချဧကန် ငါအရှင်မြတ်သည် ဂျင်န်သတ္တဝါများဖြင့်လည်းကောင်း၊ လူသတ္တဝါများဖြင့်လည်းကောင်း၊ တပြိုင်နက်တည်း "ဂျဟန္နမ်" ငရဲဘုံကို ဖြည့်တော်မူမည်ဟူသောအမိန့်တော်သည် ငါအရှင်မြတ်အထံတော်မှ အတည်ပြုပြီးဖြစ်၏။ [၁]

---

(၁) ဤအကြောင်း ကုရ်အာန် (၃၈း၇၁မှ၈၅)တွင် လာရှိဦးမည်။

ဤအာယတ်တော်နှင့်အနက်တူ အာယတ်တော်များသည် ကုရ်အာန် (၁၁း၁၁၈နှင့်၁၁၉) တွင်လည်း ပါရှိခဲ့ချေပြီ။ သက်ဆိုင်ရာ အဖွင့်များကိုလည်း ရေးသားခဲ့ချေပြီ။ ပြန်လည်ရှုပါကုန်။

فَذُوقُوا بِمَا نَسِيتُمْ لِقَاءَ يَوْمِكُمْ هَٰذَا إِنَّا نَسِينَاكُمْ وَذُوقُوا عَذَابَ الْخُلْدِ بِمَا كُنْتُمْ تَعْمَلُونَ ﴿١٤﴾

၁၄။ (သို့ဖြစ်ပေရာ ၎င်းတို့သည် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် ဤသို့ပြောဆိုခြင်းကို ခံကြရပေမည်။) "ယခုသော် အသင်တို့သည် မိမိတို့၏ ဤနေ့ဤရက်နှင့် တွေ့ဆုံကြရမည်ကို မေ့ပျောက်ခဲ့ခြင်း၏ အရသာကို မြည်းစမ်းကြကုန်လော့။ ငါအရှင်မြတ်သည်လည်း အသင်တို့အား မေ့ထားတော်မူပြီ။ ၎င်းပြင် အသင်တို့သည် မိမိတို့ကျင့်မူလျက်ရှိခဲ့ကြကုန်သော အကျင့်အမူများကြောင့် ထာဝရပြစ်ဒဏ်၏အရသာကို (မြိန်ရှက်စွာ) မြည်းစမ်းကြကုန်လော့။

إِنَّمَا يُؤْمِنُ بِآيَاتِنَا الَّذِينَ إِذَا ذُكِّرُوا بِهَا خَرُّوا سُجَّدًا وَسَبَّحُوا بِحَمْدِ رَبِّهِمْ وَهُمْ لَا يَسْتَكْبِرُونَ ﴿١٥﴾ السجدة

၁၅။ ငါအရှင်မြတ်၏ အာယတ်တော်များကို အကြင်သူတို့သည်သာလျှင် သက်ဝင်ယုံကြည်ကြကုန်၏။ ထိုသူတို့သည် ယင်းအာယတ်တော်များဖြင့် သတိပေးခြင်းကိုခံခဲ့ကြရသောအခါ ၎င်းတို့သည် (အလ္လာဟ်အရှင်မြတ်၏ရှေ့တော်မှောက်ဝယ်) "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချလျက်ကျလာကြကုန်၏။ ထို့ပြင် ၎င်းတို့သည် မိမိတို့၏ အရှင်မြတ်အား ချီးမွမ်းခြင်းနှင့်တကွ (ထိုအရှင်မြတ်) စင်ကြယ်သန့်ရှင်းတော်မူကြောင်းကို မြွက်ဆိုကြသည့်ပြင် ၎င်းတို့သည် မာနထောင်လွှားခြင်းလည်း မရှိကြပေ။ (စဂျ်ဒဟ်)

تَتَجَافَىٰ جُنُوبُهُمْ عَنِ الْمَضَاجِعِ يَدْعُونَ رَبَّهُمْ خَوْفًا وَطَمَعًا وَمِمَّا رَزَقْنَاهُمْ يُنْفِقُونَ ﴿١٦﴾

၁၆။ ထိုသူတို့၏ နံဘေးများသည် အိပ်ရာများမှ ခွဲခွာလျက်ရှိကြပေသည်။ ထိုသူတို့သည် မိမိတို့၏ အရှင်မြတ်အား ကြောက်ရွံ့စွာလည်းကောင်း၊ မျှော်လင့်စွာလည်းကောင်း၊ ဟစ်ခေါ် တ,သကြသည့်ပြင် ၎င်းတို့အား ငါအရှင်မြတ် ချီးမြှင့်ပေးသနားတော်မူခဲ့သည်များအနက်မှ သုံးစွဲလှူဒါန်းခြင်းကိုလည်း ပြုလုပ်ကြသည်။

فَلَا تَعۡلَمُ نَفۡسٌ مَّآ أُخۡفِيَ لَهُم مِّن قُرَّةِ أَعۡيُنٍ جَزَآءَۢ بِمَا كَانُواْ يَعۡمَلُونَ ١٧

၁၇။ စင်စစ်သော်ကား မိမိတို့အဖို့ မိမိတို့ ကျင့်မှုလျက်ရှိခဲ့ကြသည်များ၏ အကျိုးကျေးဇူးအဖြစ် လျှို့ဝှက်စွာထားရှိပြီးဖြစ်သော မျက်စိအေးမြကြည်လင်မှုကို မည်သူတဦးတယောက်မျှပင် မသိပြီတကား။ [၁]

أَفَمَن كَانَ مُؤۡمِنٗا كَمَن كَانَ فَاسِقٗاۚ لَّا يَسۡتَوُۥنَ ١٨

၁၈။ သို့ဖြစ်ပေရာ မုအ်မင်န် သက်ဝင်ယုံကြည်သူသည် အမိန့်တော်ကို ဖီဆန်သောသူကဲ့သို့ ဖြစ်ပါသလော။ (အလျှင်းမဟုတ်)၊ ၎င်းတို့သည် မတူကြပေ။

أَمَّا ٱلَّذِينَ ءَامَنُواْ وَعَمِلُواْ ٱلصَّٰلِحَٰتِ فَلَهُمۡ جَنَّٰتُ ٱلۡمَأۡوَىٰ نُزُلَۢا بِمَا كَانُواْ يَعۡمَلُونَ ١٩

၁၉။ မည်သို့ပင်ဖြစ်စေ၊ "အီမာန်" သက်ဝင်ယုံကြည်မှုထားရှိ၍ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မူဆောက်တည်ခဲ့ကြကုန်သော သူတို့အဖို့ ၎င်းတို့ကျင့်မူလျက်ရှိခဲ့ကြသည့် (ကောင်းမြတ်သော) အကျင့်အမူများကြောင့် ဧည့်ခံသောအားဖြင့် ခိုလှုံနေထိုင်ရာ ဥယျာဉ်များ ရှိကြပေမည်။

---

(၁) **မုအ်မင်န်တို့၏ ဂုဏ်ရည်များနှင့် အကျိုးဆက်၊**

မုအ်မင်န်သူတော်စင်များသည်-

(၁) အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို ကြားနာကြရသောအခါ၊ ထိုအရှင်မြတ်အား ပျပ်ဝပ်ဦးချကြသည်။

(၂) နှုတ်ဖြင့် ထိုအရှင်မြတ်အား ဂုဏ်တော်မွမ်းကြသည်။

(၃) စိတ်နှလုံးများတွင် မောက်မာပလွှား ဝါကြွားမှုကို စိုးစဉ်းမျှမထားရှိကြပေ။

(၄) ၎င်းတို့သည် နေ့အချိန်များတွင် မဆိုထားဘိ၊ ညအချိန်သန်းခေါင်ယံတွင်ပင် နိုးကြားလျက် 'တဟဂျ်ဂျုဒ်'ဆွလာတ် ဝတ်ပြုကြသည်။

(၅) မိမိတို့အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသည့် ဥစ္စာပစ္စည်းများအနက် အချို့အဝက်ကို ထိုအရှင်မြတ်၏ လမ်းတော်၌လှူဒါန်းကြသည်။

(၆) ၎င်းတို့သည် အခါခပ်သိမ်း ထိုအရှင်မြတ်ထံတော်၌သာ ဆိုးကျိုးကိုကြောက်ရွံ့စွာဖြင့် လည်းကောင်း၊ ကောင်းကျိုးကိုမျှော်လင့်စွာဖြင့် လည်းကောင်း၊ ဆုပန်ကြားကြသည်။

ထိုသို့အလ္လာဟ် အရှင်မြတ်အား စိတ်စေတနာ ဖြူစင်စွာဖြင့် ပရိယာယ်မဖက်၊ အလ္လာဟ်အတွက် သက်သက် ဝတ်ပြုကြသည့်အတွက် အလ္လာဟ်အရှင်မြတ်ကလည်း ယင်းသို့သော မုအ်မင်န်သူတော်စင်များအဖို့ ဂျန္နတ်တွင် မည်သည့်မျက်စိကမျှ မမြင်ဘူးသော၊ မည်သည့်နားကမျှ မကြားဘူးသော၊ မည်သူတစ်ဦးတယောက်၏ စိတ်နှလုံးတွင်မျှ အတွေးမသက်ရောက်ဘူးသော အမတသုခများကို အသင့်စီစဉ်ထားတော်မူသည်။

وَاَمَّا الَّذِيْنَ فَسَقُوْا فَمَاْوٰىهُمُ النَّارُ ۗ كُلَّمَآ اَرَادُوْٓا اَنْ يَّخْرُجُوْا مِنْهَآ اُعِيْدُوْا فِيْهَا وَقِيْلَ لَهُمْ ذُوْقُوْا عَذَابَ النَّارِ الَّذِيْ كُنْتُمْ بِهٖ تُكَذِّبُوْنَ ﴿٢٠﴾

၂၀။ သို့ရာတွင် မည်သို့ပင်ဖြစ်စေ၊ အမိန့်တော်ကို ဖီဆန်ခဲ့ကြကုန်သော သူတို့၏ ခိုလှုံရန်ဌာနမှာမူကား ငရဲပင်ဖြစ်လေ၏။ ၎င်းတို့သည် မည်သည့်အခါမျိုး မဆို ယင်းငရဲမှထွက်ရန် ကြံရွယ်ခဲ့ကြလျှင် ထိုငရဲမီး ထဲသို့ပင် ပြန်လည်တွန်းပို့ခြင်းကို ခံကြရပေမည်။ ထိုမှတပါး ၎င်းတို့မှာ "အသင်တို့သည် မဟုတ်မမှန်ဟု စွပ်စွဲငြင်းပယ်လျက် ရှိခဲ့ကြကုန်သော ငရဲမီး၏ ပြစ်ဒဏ်ကို မြည်းစမ်းကြလေကုန်" ဟု ပြောဆိုခြင်း ကိုလည်း ခံကြရပေမည်။

وَلَنُذِيْقَنَّهُمْ مِّنَ الْعَذَابِ الْاَدْنٰى دُوْنَ الْعَذَابِ الْاَكْبَرِ لَعَلَّهُمْ يَرْجِعُوْنَ ﴿٢١﴾

၂၁။ ထိုမှတပါး ၎င်းတို့သည် (မိမိတို့၏သွေဖည်မှု တွဲဖက်နိုင်းယှဉ် ကိုးကွယ်မှုများကို စွန့်ပြီး) ပြန်လှည့်၍လာကြအံ့သောငှာ မုချစင်စစ် ငါအရှင်မြတ်သည် ၎င်းတို့အား ထိုကြီးစွာသောပြစ်ဒဏ်အပြင် ဤပစ္စက္ခတွင်ပင် သေးငယ်သော ပြစ်ဒဏ်ကိုလည်း မြည်းစမ်းစေအံ့မည်။ [၁]

وَمَنْ اَظْلَمُ مِمَّنْ ذُكِّرَ بِاٰيٰتِ رَبِّهٖ ثُمَّ اَعْرَضَ عَنْهَا ۗ اِنَّا مِنَ الْمُجْرِمِيْنَ مُنْتَقِمُوْنَ ﴿٢٢﴾

၂၂။ အကြင်သူထက်ပို၍ မတရားသောသူသည် မည်သူရှိအံ့နည်း။ ထိုသူသည် ၎င်းအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အာယတ်တော်များ အားဖြင့် သတိပေးခြင်းခံခဲ့ရသည်။ ထို့နောက် ထိုသူ သည် ယင်းအာယတ်တော်များမှ မျက်နှာလွှဲခဲ့၏။ ဧကန်မလွဲ ငါအရှင်မြတ်သည် အပြစ်ရှိသူတို့အား တုံ့ပြန်လက်စားချေတော်မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) ကာဖိရ်များသည် နောင်တမလွန်ဘဝတွင် အတိုင်းမသိ အလွန်ကြီးမားသော ပြစ်ဒဏ်ကို ခံစားကြရမည်မှာ အမှန်ပင်။ သို့ပင်တစေ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား နောင်တတရားရစိမ့်သောငှာ နောင်တမလွန်ဘဝ၏ ပြစ်ဒဏ်ကြီးအလျင် ဤပစ္စက္ခမှာပင် ထိုပြစ်ဒဏ်ကြီးတမျှ မကြီးလေးလှသည့် ပြစ်ဒဏ်ငယ်များကို ဥပမာ- ရောဂါကပ်ခြင်း၊အသတ်ခံရခြင်း။ အချုပ်အနှောင်ခံရခြင်း၊ ဥစ္စာပစ္စည်း၊ သားသမီးပျက်စီးခြင်းစသည့် ▷▷

وَلَقَدْ اٰتَيْنَا مُوْسَى الْكِتٰبَ فَلَا تَكُنْ فِيْ مِرْيَةٍ مِّنْ لِّقَآئِهٖ وَجَعَلْنٰهُ هُدًى لِّبَنِيْٓ اِسْرَآءِيْلَ ﴿٢٣﴾

၂၃။ ၎င်းပြင် မလွဲဧကန် ငါအရှင်မြတ်သည် (နဗီ တမန်တော်)မူစာအားလည်း ကျမ်းဂန် ဓမ္မကွန်ကို ချီးမြှင့်ပေးသနားတော်မူခဲ့ရာ အသင်သည် ဤ (ကုရ်အာန်)ကျမ်းတော်ကို ရရှိခြင်းနှင့်စပ်လျဉ်း၍ မည်သို့မျှ ဒွိဟသံသယ မရှိလေနှင့်။ ထိုမှတပါး ငါ အရှင်မြတ်သည် (နဗီတမန်တော်မူစာအား ချီးမြှင့်တော် မူခဲ့သော) ယင်းကျမ်းဂန်ဓမ္မကွန်ကို အစ္စရာအီလီ မျိုးနွယ်တို့အဖို့ တရားလမ်းညွှန်ပြုလုပ်တော်မူခဲ့၏။

وَجَعَلْنَا مِنْهُمْ اَئِمَّةً يَّهْدُوْنَ بِاَمْرِنَا لَمَّا صَبَرُوْا ؕ وَكَانُوْا بِاٰيٰتِنَا يُوْقِنُوْنَ ﴿٢٤﴾

၂၄။ ထိုမှတပါး ငါအရှင်မြတ်သည် ထိုအစ္စရာအီလီ မျိုးနွယ်တို့အနက် ၎င်းတို့သည် သည်းခံခဲ့ကြသော အခါ၊ ရှေ့ဆောင်ရှေ့ရပ်များ ပြုလုပ်ခန့်အပ်တော်မူခဲ့ ၏။ ထိုရှေ့ဆောင်ရှေ့ရပ်တို့သည် ငါအရှင်မြတ်၏ အမိန့်တော်နှင့် တရားလမ်းညွှန်ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် ငါအရှင်မြတ်၏ အာယတ်တော်များကို ယုံကြည်သူများလည်း ဖြစ်ခဲ့ကြကုန်၏။

اِنَّ رَبَّكَ هُوَ يَفْصِلُ بَيْنَهُمْ يَوْمَ الْقِيٰمَةِ فِيْمَا كَانُوْا فِيْهِ يَخْتَلِفُوْنَ ﴿٢٥﴾

၂၅။ ဧကန်အမှန် အသင့်အား ဖန်ဆင်းမွေးမြူတော် မူသော အရှင်မြတ်သည် "ကိယာမတ်" ရှင်ပြန်ထမည့် နေ့တွင် ("မုအ်မင်န်" သက်ဝင်ယုံကြည်သူများနှင့် "မုရှ်ရစ်က်" တွဲဖက်ကိုးကွယ်) သူတို့၏ အကြားဝယ် ၎င်းတို့ သဘောကွဲလွဲလျက် ရှိခဲ့ကြ ကုန်သောအရေးကိစ္စနှင့် စပ်လျဉ်း၍ စီရင်ဆုံးဖြတ်တော် မူအံ့သတည်း။ [၁]

➤➤ လောကီဆိုင်ရာ ဒုက္ခကြီးငယ်များကိုလည်း ခံစားစေတော် မူဦးမည်ဖြစ်သည်။ စဉ်းစားဆင်ခြင်ကြည့်ပါက နောင်တတရား ရလိုသူများအဖို့ ဤမျက်မှောက်ဘဝတွင် တွေ့ကြုံခံစားကြရသော ဒုက္ခကြီးငယ်များသည် ကြိုတင်သတိပေး နှိုးဆော်ချက်များပင်။ ပြစ်ဒဏ်ကြီးမှ လွတ်မြောက်စေသည့် ပြစ်ဒဏ်ငယ်များပင်။ တနည်းဆိုသော် ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ပင်။

(၁) **တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား နှစ်သိမ့်စေတော်မူခြင်း၊**

အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်တွင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ➤➤

➤➤ ဝစလ္လမ်)နှင့် နောက်လိုက်တပည့်သား မုစ်လင်မ်တို့အား တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)နှင့် နောက်လိုက်တပည့်သား အစ္စရာအီလီမျိုးနွယ်ဝင်များ၏ အကြောင်းကို ထုတ်ဖော်မိန့်ကြားတော်မူပြီး နှစ်သိမ့်စေထားတော်မူသည်။

အလိုသဘောမှာ အလ္လာဟ်အရှင်မြတ်သည်

(၁) တမန်တော်မူစာ(အလိုင်ဟဝစ္စလာမ်)အား 'တောင်ရာတ်ကျမ်း' ကို ချီးမြှင့်တော်မူခဲ့သည်။ တမန်တော်မူစာသည် တောင်ရာတ်ကျမ်းကို ဖြန့်ချီရာတွင် ဒုက္ခကြီးငယ်အမျိုးမျိုးနှင့် ရင်ဆိုင်ခဲ့ရသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်လည်း ထိုသို့ပင် ရင်ဆိုင်ရမည်သာ ဖြစ်သည်။ စိတ်အားငယ်ရန်မဟုတ်။

(၂) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မူစာ(အလိုင်ဟစ္စလာမ်)အား တောင်ရာတ်ကျမ်း ချီးမြှင့်ထားတော်မူသကဲ့သို့ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကိုလည်း ကုရ်အာန်ကျမ်းမြတ်ကို ချီးမြှင့်ထားတော်မူသည်။ တမန်တော်ခြင်းသည် ကျမ်းဂန်ရ တမန်တော် တပါးဖြစ်ပေရာ၊ အချို့သူမိုက်များ၏ သွေဖည်ကျောခိုင်းမှုများကြောင့် စိတ်အားမလျှော့ရာ။

(၃) အလ္လာဟ်အရှင်မြတ်သည် တောင်ရာတ်ကျမ်းကို အစ္စရာအီလီ မျိုးနွယ်ဝင်များအဖို့ တရားလမ်းညွှန် ပြုလုပ်ထားတော်မူသကဲ့သို့ တမန်တော်မြတ် ချီးမြှင့်တော်မူခြင်းခံရသော ကုရ်အာန်ကျမ်းမြတ်ကိုလည်း ကမ္ဘာတဝန်းအဖို့ တရားလမ်းညွှန် ပြုလုပ်ထားတော်မူသည်။ ကုရ်အာန်ကျမ်းမြတ်၏ ကျေးဇူးတော်ဖြင့် မြောက်မြားစွာသောကမ္ဘာသူ၊ ကမ္ဘာသားများ တရားရကြပေမည်။ ဤကား ဝမ်းသာဖွယ်ရာပင်။

(၄) အစ္စရာအီလီမျိုးနွယ်ဝင်များသည် အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို ယုံကြည်မြတ်နိုး၍ သာသနာ့ရေးရာတွင် ဒုက္ခကြီးငယ်များအပေါ်၌ သည်းခံခဲ့ကြသည့်အခါ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့တွင် များစွာသော ရှေ့ဆောင်ရှေ့ရပ်များ ခန့်အပ်တော်မူခဲ့သည်။ ထို့အတူ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ နောက်လိုက်တပည့်သား တို့အားလည်း ဒေသနာတော်များကို ယုံကြည်မြတ်နိုးကြ၊ သည်းခံကြလျှင်၊ ရှေ့ဆောင်ရှေ့ရပ်များ ခန့်အပ်တော်မူမည်သာဖြစ်သည်။ ဤသည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ တပည့်သားတို့အဖို့ ဝမ်းသာဖွယ်ရာပင်။

(၅) ထို့ပြင်တဝ ဤမျက်မှောက်ကာလတွင် လူသားတို့ကွဲလွဲနေကြသော ပြဿနာ အရပ်ရပ်နှင့်စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်သည် ကိယာမတ်နေ့တွင် လက်တွေ့အဆုံးအဖြတ် ပေးတော်မူမည်ဖြစ်သည်။ (ဝါ) မုအ်မင်န်တို့အား ဂျန္နတ်တွင် စံစားစေတော်မူ၍ ကာဖိရ်တို့အား ဂျဟန္နမ်သို့ လားစေတော်မူမည်။ ကိယာမတ်ကား မဝေးလှပြီ။ ဤသည်လည်း မုအ်မင်န်တို့အဖို့ ဝမ်းသာဖွယ်ရာပင်။ (ကြည့်-ထာနဝီ)။

**ခုတ်ချက်။**

ဤအာယတ်တော် (၃၂:၂၃) ၌ လာရှိသော "လိကာအိဟီ"ဟူသော ပုဒ်တွင် ပါရှိသည့် "ဟီ"ဟူသော နာမ်စားသည် ကျမ်းဂန်ကိုရည်ညွှန်းသည်။ တမန်တော်မူစာ (အလိုင်ဟစ္စလာမ်)အား ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်ပေသည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် "မိအ်ရာဂ်ျ" ညတွင် တမန်တော်မူစာ (အလိုင်ဟစ္စလာမ်)နှင့်လည်း တွေ့ဆုံတော်မူခဲ့ပေသည်။

أَوَلَمْ يَهْدِ لَهُمْ كَمْ أَهْلَكْنَا مِن قَبْلِهِم مِّنَ الْقُرُونِ يَمْشُونَ فِي مَسَاكِنِهِمْ ۚ إِنَّ فِي ذَٰلِكَ لَآيَاتٍ ۖ أَفَلَا يَسْمَعُونَ ﴿٢٦﴾

၂၆။ ငါအရှင်မြတ်သည် ၎င်းတို့အလျင် မြောက်မြားစွာသောမျိုးနွယ်တို့ကို (သွေးဖည်မှု၊ တွဲဖက်နိုင်းယှဉ်ကိုးကွယ်မှုများကြောင့်) ဖျက်ဆီးတော်မူခဲ့၍၊ ၎င်းတို့သည် (ဖျက်ဆီးခြင်းခံခဲ့ကြရသော)သူတို့၏ နေထိုင်ရာဒေသများ၌ (ဖြတ်သန်း:) သွားလာလျက် ရှိကြသည်။ ဤသည် ၎င်းတို့အဖို့ တရားလမ်းညွှန် မဖြစ်လေသလော။ ဧကန်စင်စစ် ဤ(ဖြစ်ရပ်)၌ အမှန်ပင်သက်သေ အထောက်အထားများသည် ရှိကြပေသည်။ သို့ပါလျက် ၎င်းတို့သည် မကြားကြလေသလော။ [၁]

أَوَلَمْ يَرَوْا أَنَّا نَسُوقُ الْمَاءَ إِلَى الْأَرْضِ الْجُرُزِ فَنُخْرِجُ بِهِ زَرْعًا تَأْكُلُ مِنْهُ أَنْعَامُهُمْ وَأَنفُسُهُمْ ۖ أَفَلَا يُبْصِرُونَ ﴿٢٧﴾

၂၇။ ၎င်းတို့သည် စဉ်းစားဆင်ခြင်တွေ့မြင်ကြသည် မဟုတ်လော၊ ဧကန်အမှန် ငါအရှင်မြတ်သည် (မိုး)ရေကို ခြောက်သွေ့လျက်ရှိသောမြေယာသို့ မောင်းနှင်ပို့ပေးတော်မူ၏။ ထို့နောက် ငါအရှင်မြတ်သည် ထိုမိုးရေဖြင့် ကောက်ပဲသီးနှံများကို ထွက်စေတော်မူ၏။ ထို(ပေါက်ရောက်သော) ကောက်ပဲသီးနှံတို့မှ ၎င်းတို့၏ ကုလားအုတ်၊ ကျွဲ၊ နွား၊ တိရစ္ဆာန်များလည်း စားကြကုန်၏။ ၎င်းတို့ကိုယ်တိုင်လည်း စားသုံးကြကုန်၏။ သို့ပါလျက် ၎င်းတို့သည် မမြင်ကြလေသလော။

---

(၁) **သတိမမူ ဂူမမြင်။**

အမှန်နှင့်အမှား၊ မှအ်မင်န်နှင့်ကာဖိရ်တို့စပ်ကြား၊ ကိယာမတ်နေ့တွင် ထင်ရှားပြတ်သားစွာ အဆုံးအဖြတ်ကျမည်ကား အမှန်ပင်။ သို့ပင်တစေ ဤပစ္စက္ခတွင်လည်း စဉ်းစားဆင်ခြင် မြော်မြင်လိုသူများအဖို့ စဉ်းစားဆင်ခြင်နိုင်ရန် ဖြစ်ရပ်များကား မနည်းပေ။ အာဒ်၊ ဆမူဒ်စသည့် အမျိုးသားများသည် ကုဖ်ရ်၊ ရှရစ်က်မှုများတွင် နစ်မွန်းနေခဲ့ကြသည့်အတွက် ဤပစ္စက္ခ၌ပင် ပြစ်ဒဏ်သင့်၍ မရှုမလှသေကြေ ပျက်စီးသွားခဲ့ကြရချေပြီ။ ဤကား ကမ္ဘာ့သမိုင်းစဉ်တွင် အထင်အရှားပင်။ အထူးသဖြင့် အရဗ်အမျိုးသားတို့သည် ထိုသို့ သေကြေပျက်စီးသွားခဲ့ကြသော အာဒ်၊ ဆမူဒ် စသည့် အမျိုးသားတို့ နေထိုင်ရာဒေသများကို နေ့စဉ်နှင့်အမျှ ဖြတ်သန်းသွားလာလျက် ရှိကြပေသည်။ သင်ခန်းစာ ယူနိုင်ကြပေသည်။ သတိမမူ၍ ဂူမမြင်က သတိမမူသူ၏ အပြစ်သာ ဖြစ်ချိမ့်မည်။

وَيَقُولُونَ مَتَىٰ هَٰذَا الْفَتْحُ إِن كُنتُمْ صَادِقِينَ ﴿٢٨﴾

၂၈။ ထိုမှတပါး ၎င်းတို့က "အကယ်၍ အသင်တို့သည် သစ္စာဝါဒီများ ဖြစ်ကြပါလျှင် ဤစီရင် ဆုံးဖြတ်မှုသည် မည်သည့်အခါ၌ ဖြစ်အံ့နည်း" ဟု ပြောဆိုကြကုန်၏။

قُلْ يَوْمَ الْفَتْحِ لَا يَنفَعُ الَّذِينَ كَفَرُوا إِيمَانُهُمْ وَلَا هُمْ يُنظَرُونَ ﴿٢٩﴾

၂၉။ (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) ထို စီရင်ဆုံးဖြတ်ကြမည့်နေ့တွင် "ကာဖိရ်" သွေဖည် ငြင်းပယ်ခဲ့ကြကုန်သောသူတို့၏ယုံကြည်မှုသည် ၎င်းတို့အား အကျိုးပေးမည် မဟုတ်ပေ။ ထိုမှတပါး ၎င်းတို့သည် ရွှေ့ဆိုင်းခြင်းကိုလည်း ခံကြရမည် မဟုတ်ပေ။

فَأَعْرِضْ عَنْهُمْ وَانتَظِرْ إِنَّهُم مُّنتَظِرُونَ ﴿٣٠﴾

၃၀။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည် ၎င်းတို့(၏ပြောဆိုမှု)ကို လျစ်လျူရှု၍ (အလ္လာဟ်အရှင်မြတ် ချိန်းချက်ထားတော်မူသော အဆုံးအဖြတ်ကိုသာ) စောင့်ဆိုင်းလျက်ရှိပါလေ။ ၎င်းတို့သည်လည်း (မိမိတို့ယူဆချက်အရ အသင့်အား အန္တရာယ်ပြုရန်) စောင့်ဆိုင်း၍နေကြသူများပင်ဖြစ်ကြကုန်သတည်း၊ [၁]

---

(၁) ကိယာမတ်နေ့တွင် အတိအကျ အဆုံးအဖြတ်ကျမည် ဖြစ်ကြောင်းကို ကာဖိရ်များ ကြားသိသောအခါ ကာဖိရ်များသည် သတိသံဝေဂ နောင်တရကာ ကိယာမတ်နေ့၏ ပြစ်ဒဏ်မှလွတ်မြောက်ရန် ကြိုးစားကြရမည့်အစား "ဤအဆုံးအဖြတ်သည် မည်သည့်အခါ ကျအံ့နည်း" ဟူ၍ပင် ပြက်ရယ်သည့်သဘောဖြင့် ပြောဆိုကြသည်။ ကာဖိရ်များကား မိုက်တွင်းနက်ကြပါဘိတကား။ ကိယာမတ်ကား မုချဖြစ်မည်။ ထိုနေ့တွင် အဆုံးအဖြတ်မုချကျမည်။ ထိုနေ့ဆိုက်ရောက်လာသည့်အခါမှ အီမာန်ယုံကြည်ခြင်းသည် ကာဖိရ်များအဖို့ အသို့မျှအကျိုးရှိမည်လည်း မဟုတ်၊ ၎င်းတို့သည် ဆိုင်းငံ့ခွင့် ရရှိကြမည်လည်းမဟုတ်၊ သို့ဖြစ်ပေရာ တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)သည် ဤမျှ စိတ်ဓာတ်ခဲယဉ်းသော၊ ဆိုးသွမ်းမိုက်မဲသော၊ ပြစ်ဒဏ်ကို လက်ယပ်ခေါ်နေသော၊ ငရဲတွင်းသို့ ဇွတ်အတင်းဆင်းလိုသော သူမိုက်တို့အား လျစ်လျူပြုကာ ချိန်းချက်ထားတော်မူသည့် အဆုံးအဖြတ်ကို စောင့်ဆိုင်းရန်သာ ရှိပေတော့သည်။ ယင်းကာဖိရ် သူမိုက်များသည်လည်း ၎င်းတို့၏ ထင်မြင်ချက်အရ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၌ ဘေးသင့်မည်ကို စောင့်ဆိုင်းလျက်ပင် ရှိကြပေမည်။ မည်သူ၏စောင့်ဆိုင်းမှုသည် ဖြစ်ရပ်မှန်နှင့်ကိုက်ညီမည်။ မည်သူ နှာခေါင်းကျည်ပွေ့ တွေ့ရမည်ကို မကြာမီ သိကြရတော့မည်။

# မဟာမိတ်များကဏ္ဍ



ဤကဏ္ဍသည် "အဟ်ဇာဗ" မဟာမိတ်များအကြောင်း ပါဝင်သော ကဏ္ဍမည်၏။
မဒီနာမြို့၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၇၃)ပါး၊ ရုကူအ်အပိုဒ်(၉)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊
အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

يٰۤاَيُّهَا النَّبِيُّ اتَّقِ اللّٰهَ وَلَا تُطِعِ الْكٰفِرِيْنَ وَالْمُنٰفِقِيْنَ ؕ اِنَّ اللّٰهَ كَانَ عَلِيْمًا حَكِيْمًا ۙ﴿۱﴾

၁။ အို-နဗီတမန်တော်၊ အသင်သည် အလ္လာဟ် အရှင်မြတ်အား ကြောက်ရွံ့၍ပင် နေပါလေ၊ ထို့ပြင် အသင်သည် "ကာဖိရ်" သွေဖည် ငြင်းပယ်သော သူတို့၏ ပြောဆိုချက်ကို လည်းကောင်း၊ "မုနာဖစ်က်" အယောင်ဆောင်မုစ်လင်မ်တို့၏ပြောဆိုချက်ကိုလည်း ကောင်း၊ မလိုက်နာပါလေနှင့်။

ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အရာ ခပ်သိမ်းတို့ကို အကြွင်းမဲ့ သိတော်မူသော၊ ဆင်ခြင်တုံ တရားနှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင် ဖြစ်တော် မူပေသည်။

وَّاتَّبِعْ مَا يُوْحٰۤى اِلَيْكَ مِنْ رَّبِّكَ ؕ اِنَّ اللّٰهَ كَانَ بِمَا تَعْمَلُوْنَ خَبِيْرًا ۙ﴿۲﴾

၂။ သို့ရာတွင် အသင်သည် မိမိထံသို့ မိမိ အရှင်မြတ်အထံတော်မှ ထုတ်ပြန်ခြင်းခံရသောအမိန့် တော်များကိုသာလျှင် လိုက်နာ ဆောင်ရွက်ပါလေ။

ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင် တို့ ကျင့်မူလျက် ရှိကြသည်များကို ကောင်းစွာ ကြားသိ တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

وَّتَوَكَّلْ عَلَى اللّٰهِ ۚ وَكَفٰى بِاللّٰهِ وَكِيْلًا ③

၃။ ထိုမှတပါး အသင်သည် အလ္လာဟ်အရှင်မြတ် အပေါ်၌ ယုံပုံလွှဲအပ်ပါလေ။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးတော်မူသော အရှင်မြတ်အဖြစ် လုံလောက်တော်မူပေသတည်း။ [၁]

مَا جَعَلَ اللّٰهُ لِرَجُلٍ مِّنْ قَلْبَيْنِ فِيْ جَوْفِهٖ ۚ وَمَا جَعَلَ اَزْوَاجَكُمُ الّٰٓئِيْ تُظٰهِرُوْنَ مِنْهُنَّ اُمَّهٰتِكُمْ ۚ وَمَا جَعَلَ اَدْعِيَآءَكُمْ اَبْنَآءَكُمْ ۗ

၄။ အလ္လာဟ်အရှင်မြတ်သည် မည်သည့် လူတစ်ဦးတစ်ယောက်အဖို့မျှ ၎င်း၏ခန္ဓာကိုယ်၌ စိတ်နှလုံးနှစ်ခု ပြုလုပ်တော်မူခဲ့သည်မဟုတ်ပေ။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့၏ အကြင်ဇနီးကြင်ရာများကို အသင်တို့၏မိခင်(အရင်းအခြာ)များ ပြုလုပ်တော်မူခဲ့သည် မဟုတ်ပေ။ အသင်တို့ ထိုဇနီးမိန်းမတို့အား "အသင်မသည် ကျွန်ုပ်အပေါ်၌ မိခင်ကဲ့သို့ 'ဟရာမ်' ဖြစ်သည်" ဟု ပြောဆို(၍ "ဇိဟာရ်" ပြုလုပ်)ကြကုန်၏။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့၏မွေးစားသားများကိုလည်း အသင်တို့၏ *သား(အရင်းအခြာ)များ ပြုလုပ်တော်မူခဲ့သည် မဟုတ်ပေ။* [၂]

---

(၁) ဆိုလိုသည်ကား တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် နောက်နောင်တွင်လည်း ယခင်နည်းတူပင်၊ အလ္လာဟ်အရှင်မြတ်အားသာ ကြောက်ရွံ့ ရိုသေခန့်ညားစွာ နေပါလေ။ ကာဖိရ်နှင့်မုနာဖစ်က်တို့သည် အဘယ်မျှပင် လူအင်အား စုထားကြလင့်ကစား၊ မည်သို့ပင် ကြံစည်ကြလင့်ကစား မိမိတို့၏ မမှန်ကန်သော တောင်းဆိုချက်များကို လိုက်လျောရန် ကြိုးစားကြလင့်ကစား၊ ဉာဏ်နီဉာဏ်နက်ဖြင့် အသို့ပင် အကြံဉာဏ်ပေးကြလင့်ကစား၊ မိမိတို့ဘက်သို့ တနည်းတဖုံ ယိမ်းယိုင်လာအောင် အစွမ်းကုန် ကြိုးစားကြလင့်ကစား တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ၎င်းတို့ကို စိုးစဉ်းမျှပင် ကြောက်ရန်မလို၊ ထောက်ထားရန်မလို၊ ဂရုမူရန်မလို။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အလ္လာဟ်အရှင်မြတ်အားသာလျှင် ယခင်နည်းတူ အခါခပ်သိမ်း ကြောက်ရွံ့ရိုသေ ခန့်ညားရန်သာလိုသည်။ အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျရောက်သော အမိန့်တော်များကိုသာ နာယူကျင့် မူရန်လိုသည်။ အရေးကိစ္စအဝဝတွင် အလ္လာဟ်အရှင်မြတ်အားသာ ယုံပုံလွှဲအပ်ထားရန်လိုသည်။ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်မူသော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော၊ အရေးကိစ္စအဝဝကို ပြီးမြောက်ပြည့်စုံအောင် ပြုလုပ်တော်မူနိုင်သောအရှင်ဖြစ်တော်မူသည်။ သို့ဖြစ်ရာ ထိုအရှင်မြတ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အရေးကိစ္စလိုအင်ဆန္ဒအဝဝကို ပြီးပြည့်စုံစေတော်မူမည်သာတည်း။

ذٰلِكُمْ قَوْلُكُمْ بِاَفْوَاهِكُمْ ۗ وَاللّٰهُ يَقُوْلُ الْحَقَّ وَهُوَ يَهْدِى السَّبِيْلَ ④

ထိုသည်တို့ကား အသင်တို့ မိမိတို့နှုတ်များဖြင့် ပြောဆိုကြသော အသင်တို့၏ ပြောဆိုချက်မျှပင် ဖြစ်ပေသည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်မှာမူကား အမှန်ကို မိန့်ကြားတော်မူ၏။ ထိုမှတပါး ထိုအရှင်မြတ်သည်သာလျှင် (ဖြောင့်မတ်သော)လမ်းကို ညွှန်ပြတော်မူ၏။

---

① **အမိုက်ခေတ်၏ မှားယွင်းချက် သုံးရပ်၊**

အမိုက်ခေတ်တွင် တစ်ဦးတစ်ယောက်က မိမိ၏ဇနီးအား 'အသင်မသည် ကျွန်ုပ်၏ မိခင်ဖြစ်သည်'ဟု ဆိုလိုက်လျှင် ထိုဇနီးသည် မိခင်အရင်းအခြာ ဖြစ်သွားသည်ဟု ထင်မှတ်ခဲ့ကြ၏။ သို့ထင်မှတ်ခဲ့ကြသည့်အလျောက် ထိုဇနီးသည်ထိုသူအဖို့ တသက်တာလုံး ဟရာမ်ဖြစ်သွားခဲ့၏။ ဤသည် အမှားပင်။

ထို့အတူ အမိုက်ခေတ်တွင် တစ်ဦးတစ်ယောက်အား သားအဖြစ် မွေးစားလိုက်လျှင် မွေးစားသားသည် သားအရင်းအခြာ ဖြစ်သွားသည်ဟု ထင်မှတ်ခဲ့ကြ၏။ သို့ထင်မှတ်ခဲ့ကြသည့်အလျောက် ထိုမွေးစားသားသည် သားအရင်းအခြာဖြစ်ကာ သားအရင်းအခြားတစ်ယောက် ရသင့်ရထိုက်သော အခွင့်အရေးများကို ရရှိသွားခဲ့၏။ ဤသည်လည်း အမှားပင်။

ထို့အတူ အမိုက်ခေတ်တွင် အသိဉာဏ်ထက်မြက်သူ၊ အမြော်အမြင်ကြီးသူ၌ စိတ်နှလုံးနှစ်ခုရှိသည်ဟု ထင်မှတ်ခဲ့ကြ၏။ ဤသည်လည်း အမှားပင်။

လူတစ်ဦး၌ စိတ်နှလုံးနှစ်ခုမရှိသကဲ့သို့ နှုတ်ဖြင့်ပြောဆိုရုံမျှဖြင့် ဇနီးသည်မိခင်အရင်းအခြာ ဖြစ်မသွားကြောင်း၊ မွေးစားသားသည် သားအရင်းအခြာ ဖြစ်မသွားကြောင်းများကို ဤအာယတ်တော်များတွင် မိန့်ဆိုထားတော်မူသည်။

**မှတ်ချက်။**

မိမိ၏ဇနီးအား "ဇိဟာရ်"လုပ်သူများ (ဝါ)မိမိ၏ဇနီးအား မိမိ၏မိခင်၏ လျှို့ဝှက်ထားအပ်သော အစိတ်အပိုင်းတစ်ခုခုနှင့် နှိုင်းယှဉ်၍ ဥပမာ- "အသင်မသည် ကျွန်ုပ်၏မိခင်၏ ကျောက်ကုန်းနှင့်တူသည်"ဟု ပြောဆိုသူများ မည်သို့မည်ပုံ လိုက်နာဆောင်ရွက်ကြရမည့်အကြောင်း ကုရ်အာန် (၅၈း၃-၄)တွင် အကျယ်တဝင့် မိန့်ဆိုထားတော်မူသည်။

**မှတ်ချက်။**

အမိုက်ခေတ်၏သားအဖြစ် မွေးစားခြင်းမျိုးကိုသာလျှင် အစ္စလာမ်က ပိတ်ပင်ခြင်းဖြစ်သည်။ အမိုက်ခေတ်၏ အယူအဆသဘောထားမပါဘဲ တစ်ဦးတစ်ယောက်အား တင်စားသည့်သဘောဖြင့် လည်းကောင်း၊ ချစ်ကြင်သနားသောအားဖြင့်သော် လည်းကောင်း 'သား'ဟု ဆိုခြင်း၊ သားအဖြစ် မွေးစားခြင်း၊ မိမိ၏ပစ္စည်းကို အမွေသဘောမျိုးဖြင့် မဟုတ်ဘဲ(ဟိဗဟ်-Gift) ရိုးရိုးပေးခြင်းများကိုမူ အစ္စလာမ်က မပိတ်ပင်ပေ။

ادْعُوهُمْ لِآبَائِهِمْ هُوَ أَقْسَطُ عِنْدَ اللَّهِ ۚ فَإِنْ لَمْ تَعْلَمُوا آبَاءَهُمْ فَإِخْوَانُكُمْ فِي الدِّينِ وَمَوَالِيكُمْ ۚ وَلَيْسَ عَلَيْكُمْ جُنَاحٌ فِيمَا أَخْطَأْتُمْ بِهِ وَلَٰكِنْ مَا تَعَمَّدَتْ قُلُوبُكُمْ ۚ وَكَانَ اللَّهُ غَفُورًا رَحِيمًا ۝

၅။ အသင်တို့သည် ၎င်းတို့အား ၎င်းတို့၏ ဖခင်များနှင့် ဆက်စပ်ကာ (မည်သူမည်ဝါ၏ သားဖြစ်သည်)ဟု ခေါ်ဝေါ်ကြလေကုန်။ ဤသည်သာလျှင် *အလ္လာဟ်အရှင်မြတ်အထံတော်၌ တရားအမျှတဆုံး ဖြစ်၏။* [၁] သို့ရာတွင် အကယ်၍ အသင်တို့သည် ၎င်းတို့၏ဖခင်များကို မသိခဲ့ကြလျှင် ၎င်းတို့သည် အသင်တို့၏ သာသနာဝင်ညီအစ်ကိုများ ဖြစ်ကြသည့်ပြင်၊ အသင်တို့၏ အဆွေခင်ပွန်းများလည်း ဖြစ်ကြကုန်၏။

စင်စစ်သော်ကား အသင်တို့အပေါ်၌ အသင်တို့ မေ့မှား၍ပြုမူခဲ့ကြကုန်သော အမှုကိစ္စနှင့်စပ်လျဉ်း၍ အပြစ်တစုံတရာ မရှိပေ။ သို့ရာတွင် အသင်တို့၏ စိတ်က ကြံရွယ်ပြုလုပ်ခဲ့ကြကုန်သော အမှုကိစ္စ၌မူ (အပြစ်)ရှိသည်။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာ ပေးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) အသင့်မြတ်ဆုံးမှာ လူတိုင်းအား ၎င်း၏ဖခင်ကိုထုတ်ဖော်ပြီး မည်သူသည် မည်သူ၏သားဖြစ်သည်။ မောင်ဖြူသည် မောင်မည်း၏သားဖြစ်သည်ဟူ၍ ခေါ်ဝေါ်သုံးနှုန်းခြင်းသာ ဖြစ်သည်။ တစ်ဦးတစ်ယောက်ကို သားအဖြစ်မွေးစားရုံမျှဖြင့် မွေးစားသူသည် မွေးစားသား၏ ဖခင်အရင်းအခြာ ဖြစ်သွားသည်မဟုတ်ပေ။ (ချစ်မြတ်နိုးသည့်အတွက် တစ်ဦးတစ်ယောက်ကိုတင်စား၍ သားသို့မဟုတ် 'အဘ'ဟု ခေါ်ဝေါ်သုံးနှုန်းထားခြင်းမှာ တဘာသာပင်။) ဆိုလိုသည်ကား သွေးအားဖြင့် တော်စပ်သောသားချင်း ဆွေမျိုးတော်စပ်မှုများနှင့် ၎င်းတို့၏ စည်းကမ်းချက်များတွင် သို့လောသို့လော မဖြစ်စေရာ။

အစ္စလာမ်သာသနာ ထွန်းကားခါစအချိန်တွင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် ဟာရိဆဟ်၏သား ဇိုက်ဒ်ကို ကျေးကျွန်အဖြစ်မှ လွတ်မြောက်စေပြီး သားအဖြစ် မွေးစားတော်မူခဲ့၏။ ထိုအခါ လူများသည် မိမိတို့၏ထုံးတမ်းစဉ်လာအရ ဇိုက်ဒ်အား "ဇိုက်ဒ်အစ်ဗ်နု မုဟမ္မဒ်" (တမန်တော်မြတ်) မုဟမ္မဒ်၏သား ဇိုက်ဒ်ဟု ခေါ်ဝေါ်ခဲ့ကြ၏။ ဤအာယတ်တော် ကျရောက်လာသည့်အခါ လူများသည် ဇိုက်ဒ်အား ၎င်း၏ဖခင် အရင်းအခြာကို ထုတ်ဖော်ပြီး 'ဇိုက်ဒ်အစ်ဗ်နုဟာရိဆဟ်" ဟာရိဆဟ်၏သားဇိုက်ဒ်ဟု ခေါ်ဆိုခဲ့ကြလေသည်။

၆။ နဗီတမန်တော်မြတ်သည် “မုအ်မင်န်” သက်ဝင်ယုံကြည်သူတို့နှင့် ၎င်းတို့ ကိုယ်တိုင်ထက်ပင် ပိုမို၍ နီးစပ်၏။ [၁] ၎င်းပြင် ထိုနဗီတမန်တော်မြတ်၏ ကြင်ရာတော်များသည် “မုအ်မင်န်” သက်ဝင်ယုံကြည်သူတို့၏ မိခင်များပင် ဖြစ်ကြကုန်၏။ [၂]

اَلنَّبِيُّ اَوْلٰى بِالْمُؤْمِنِيْنَ مِنْ اَنْفُسِهِمْ وَاَزْوَاجُهٗٓ اُمَّهٰتُهُمْ

---

(၁) **တမန်တော်မြတ်၏ မြင့်မြတ်လှသော ဂုဏ်ရည်၊**

စဉ်းစားဆင်ခြင်ပါက မုအ်မင်န်တစ်ဦး ရရှိထားသော ‘အီမာန်’ယုံကြည်မှုသည် ‘နုဗုဝါတ်’ တမန်တော်ဖြစ်မှုတည်းဟူသော သူရိယ၏ အရောင်ဟပ်မှုသာ ဖြစ်ကြောင်းကို သိရှိရပေသည်။ ‘နုဗုဝါတ်’တည်းဟူသော သူရိယကား အခြားမဟုတ်၊ နဗီတမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)ပင်။ သို့ဖြစ်ရာ မုအ်မင်န်တစ်ဦးသည် (မုအ်မင်န်တစ်ဦးအနေဖြင့်) အကယ်၍ မိမိ၏ဖြစ်ရပ်မှန်ကို စဉ်းစားဆင်ခြင်လိုပါက မိမိ၏အီမာန်၊ ယုံကြည်မှုအလျင် တမန်တော်မြတ်အား သိရှိရပေမည်။ နဗီတမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား မသိရှိပါက မိမိ၏ယုံကြည်မှုကိုပင် သိရှိနိုင်မည်မဟုတ်ပေ။ ဤသို့ဖြင့် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် ရူဟာနီယတ် နာမ်ဝိညာဉ်သဘောအရ ကျွန်ုပ်တို့နှင့် ကျွန်ုပ်တို့ထက်ပင် ပို၍နီးစပ်တော်မူလျက် ရှိပေသည်။ ဤသည့်သဘောကို အကြောင်းပြု၍ “တမန်တော်မြတ်သည် မုအ်မင်န်တို့အဖို့ ဖခင်အရာ၌၊ သို့မဟုတ် ဖခင်၏အရာထက်ပင် ပိုမိုထူးကဲ မြင့်မြတ်သောအဆင့်၌ ရှိတော်မူသည်”ဟု ဆိုပါက လုံးဝမှန်ကန်သင့်မြတ်လှပေသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ကိုယ်တော်တိုင်ကလည်း “မုချ ငါသည်အသင်တို့အဖို့ ဖခင်အရာ၌ဖြစ်သည်”ဟု အတည့်အလင်း မိန့်ကြားတော်မူခဲ့ပေသည်။

(ကြည့်-အဗူဒါဝူဒ်)။

သားနှင့်အဖ၏ ဆက်စပ်မှုကို စဉ်းစားဆင်ခြင်ပါလျှင် အချုပ်အားဖြင့် သားသည် ဖခင်၏ခန္ဓာကိုယ်မှ ဖြစ်ပေါ်လာသည်။ ဖခင်သည် မိမိ၏သားကို သူတပါးတို့ထက် ပြုစုသည်။သနားကြင်နာသည်။ ဤသို့ပင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)နှင့် နောက်လိုက်တပည့်သား၏ ဆက်စပ်မှုကို ဆင်ခြင်ရာသည်။ တပည့်သားတစ်ဦးကို တမန်တော်၏ ပြုစုမှု၊ သနားကြင်နာမှုသည် မိမိ၏သားကို ဖခင်တစ်ဦး၏ပြုစုမှု၊ သနားကြင်နာမှုထက် နိမ့်သည်မရှိ၊ နည်းသည်မရှိ၊ သာသည်သာဖြစ်ပေသည်။ တမန်တော်မြတ်၏ပြုစုမှု သနားကြင်နာမှုမျိုးကို မိဘများတွင် မဆိုထားနှင့်၊ စကြာဝဠာအဝှန်းရှိ အဖန်ဆင်းခံအားလုံးတို့၌ပင် မတွေ့ရှိရပေ။ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့ကို ဖခင်များအား အကြောင်းပြု၍၊ ဤပစ္စက္ခဘဝတွင် ယာယီအသက်ရှင်မှုကိုသာ ချီးမြှင့်ထားတော်မူသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား အကြောင်းပြု၍ကား ကျွန်ုပ်တို့အား ထာဝရအသက်ရှင်မှုကို ချီးမြှင့်ထားတော်မူပေသည်။ သို့ဖြစ်ရာ တပည့်သားတစ်ဦး၏ ယုံကြည်မှုဆိုင်ရာ (ရူဟာနီယတ်) နာမ်ဝိညာဉ်သဘောဆိုင်ရာအဖြစ် အနေသည်၊ တမန်တော်မြတ်၏ (ရူဟာနီယတ်ကုဗ်ရာ) အကြီးဆုံးသော နာမ်ဝိညာဉ်သဘောဆိုင်ရာ အဖြစ်အနေ၏ အရိပ်အရောင်မျှသာဖြစ်သည်မှာ ထင်ရှားလှပေသည်။

ကျွန်ုပ်တို့အား တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ပြုစုတော်မူသကဲ့သို့၊ သနားကြင်နာတော်မူသကဲ့သို့ ကျွန်ုပ်တို့သည် မိမိတို့ကိုယ်ကို မိမိတို့ကိုယ်တိုင်ပင် မပြုစုနိုင်ကြပေ။ မသနား➤➤

وَاُولُوا الْاَرْحَامِ بَعْضُهُمْ اَوْلٰى بِبَعْضٍ فِىْ كِتٰبِ اللّٰهِ مِنَ الْمُؤْمِنِيْنَ وَالْمُهٰجِرِيْنَ اِلَّآ اَنْ تَفْعَلُوْٓا اِلٰٓى اَوْلِيٰٓئِكُمْ مَّعْرُوْفًا ۭ كَانَ ذٰلِكَ فِى الْكِتٰبِ مَسْطُوْرًا ⑥

ထိုမှတပါး အလ္လာဟ်အရှင်မြတ်၏ကျမ်းဂန်၌ သွေးရင်းသားရင်း တော်စပ်သူတို့မှာ အချင်းချင်း တဦးနှင့်တဦး အခြား "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့ထက်လည်းကောင်း၊ "မုဟာဂျိရီန်" မိမိတို့၏အိုးအိမ်စည်းစိမ်များကိုစွန့်ကာ (မက္ကာမြို့မှ) ရွှေ့ပြောင်းခဲ့ကြကုန်သောသူတို့ထက်လည်းကောင်း၊ ပိုမို၍ နီးစပ်သူများ ဖြစ်ကြကုန်၏။ [၁] သို့ရာတွင် အသင်တို့သည် မိမိတို့၏ အဆွေခင်ပွန်းများအား တစုံတရာ ကျေးဇူးပြုလိုကြသည်ရှိသော် (ပြုနိုင်ခွင့်ရှိ၏။) ဤသည်ကား အလ္လာဟ်အရှင်မြတ်၏ မှတ်တမ်းတော်၌ ရေးသားပြီးဖြစ်ချေသတည်း။

---

➤➤ မကြင်နာနိုင်ကြပေ။ ကျွန်ုပ်တို့အား တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) အကျိုးပြုတော်မူသကဲ့သို့ ကျွန်ုပ်တို့သည် မိမိတို့ကိုယ်တိုင်ပင် အကျိုးမပြုနိုင်ကြပေ။ ထို့အတွက်ကြောင့်ပင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၌ ကျွန်ုပ်တို့၏ အသက်နှင့် ဥစ္စာပစ္စည်းများတွင် ခြယ်လှယ်ပိုင်ခွင့်ရှိပေသည်။ ယင်းသည့် ခြယ်လှယ်ပိုင်ခွင့်သည် ကမ္ဘာ့အဝှန်းတွင် မည်သူ၌မျှပင်မရှိပေ။

ဤအာယတ်တော်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ အတိုင်းမသိ မြင့်မြတ်လှသော ဂုဏ်ရည်၊ အဆင့်အတန်းကို သိရှိရသည်ဖြစ်ရာ ကျွန်ုပ်တို့သည် တမန်တော်မြတ်အား အနူးအညွတ် ရိုသေလေးစားကြရပေမည်။ တမန်တော်မြတ်၏ ဩဝါဒများကို ဦးလည်မသုန်နာခံ၍ တမန်တော်မြတ် ချမှတ်တော်မူခဲ့သည့် လမ်းစဉ်များကိုဖဝါးခြေထပ် လိုက်နာကျင့်သုံးကြရပေမည်။

**(၂) တမန်တော်မြတ်၏ ကြင်ရာတော်များ၏ အဆင့်အတန်း၊**

တမန်တော်မြတ်သည် (ရူဟာနီယတ်) နာမ်ဝိညာဉ်သဘောအရ နောက်လိုက်တပည့်သား မုစ်လင်မ်များ၏ဖခင် ဖြစ်တော်မူပေရာ တမန်တော်မြတ်၏ ကြင်ရာတော်များသည်လည်း မုစ်လင်မ်တို့၏ မိခင်များပင် ဖြစ်ကြပေသည်။ ၎င်းတို့အား အထူးရိုသေလေးစားကြရပေမည်။

လေးစားမှုများတွင် ထိမ်းမြားခြင်းမပြုပိုင်မှုလည်း ပါဝင်သည်ဖြစ်ရာ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မရှိတော်မူသည့်နောက်၊ နောက်လိုက် တပည့်သားတို့အဖို့ ကြင်ရာတော်များနှင့် ထိမ်းမြားခြင်းသည် လုံးဝ ဟရာမ်ဖြစ်သည်။ အလျှင်းမပြုနိုင်ပေ။ ကြည့်-ကုရ်အာန် (၃၃း၅၃)။

လေးစားမှုများတွင် (ဟိဂျာဗ်) 'ပရ်ဒဟ်' ထားရှိခြင်းသည်လည်း ပါဝင်သည်ဖြစ်ရာ မုစ်လင်မ်တို့သည် ကြင်ရာတော်များနှင့်ဆက်ဆံရာတွင် 'ပရ်ဒဟ်'ကို အထူးရိုသေ လေးစားကြရပေမည်။

**(၃) သားချင်းအရင်းအခြာများ အမွေဆက်ခံပိုင်ခွင့်၊**

မက္ကာမြို့သား၊ကာဖိရ်များ၏ နှိပ်စက်ညှဉ်းပန်းမှုများ၊ တစ်နေ့တစ်ခြား ပိုမိုများပြား ပြင်းထန်လာသည့်အခါ မုစ်လင်မ်များသည် နောက်ဆုံးတွင် တမန်တော်မြတ်၏ ညွှန်ကြားချက်အရ မဒီနာမြို့သို့ ရွှေ့ပြောင်း➤➤

وَإِذْ أَخَذْنَا مِنَ النَّبِيِّنَ مِيثَاقَهُمْ وَمِنْكَ وَمِنْ نُّوحٍ وَإِبْرَاهِيمَ وَمُوسَىٰ وَعِيسَى ابْنِ مَرْيَمَ وَأَخَذْنَا مِنْهُم مِّيثَاقًا غَلِيظًا ⑦

၇။ ၎င်းပြင် (ပြန်လည်သတိရပါလေ၊) တရံရောအခါဝယ် ငါအရှင်မြတ်သည် နဗီတမန်တော်တို့ထံမှ ပဋိညာဉ် ဝန်ခံချက်ကို ယူတော်မူခဲ့၏။ (ထိုတမန်တော်များတွင် အသင့်ထံမှလည်းကောင်း၊ "နူဟ်" ထံမှလည်းကောင်း၊ "အီဗ်ရာဟီမ်" ၏ထံမှလည်းကောင်း၊ "မူစာ" ၏ထံမှလည်းကောင်း၊ "မရ်ယမ်" ၏သားတော် "အီစာ" ၏ထံမှလည်းကောင်း၊ (ပဋိညာဉ်ဝန်ခံချက်ကို ယူတော်မူခဲ့၏)။ စင်စစ် ငါအရှင်မြတ်သည် ၎င်းတို့ထံမှ ခိုင်မာသော ဝန်ခံချက်ကို ယူတော်မူခဲ့၏။

لِّيَسْأَلَ الصَّادِقِينَ عَن صِدْقِهِمْ وَأَعَدَّ لِلْكَافِرِينَ عَذَابًا أَلِيمًا ⑧

၈။ (ယင်းကဲ့သို့ ပဋိညာဉ်ယူခဲ့တော်မူခြင်းမှာ) ထိုအရှင်မြတ်သည် သစ္စာဝါဒီတို့အား ("ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင်) ၎င်းတို့၏ သစ္စာရှိမှုနှင့် စပ်လျဉ်း၍ စစ်ဆေး မေးမြန်းတော်မူအံ့သောငှာ ဖြစ်ပေသည်။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် "ကာဖိရ်" သွေဖည် ငြင်းပယ်ကြကုန်သော သူတို့အဖို့ ပြင်းပြနာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်ကို အဆင်သင့် ပြုလုပ်၍ ထားရှိတော်မူပေသတည်း။ [၁]

---

➤➤ နေထိုင်ခဲ့ကြ၏။ သားကွဲ၊မယားကွဲ၊ ဆွေကွဲ၊မျိုးကွဲ၊ အိမ်မဲ့၊အိုးမဲ့ဖြစ်နေခဲ့ကြ၏။ စားဝတ်နေရေးတွင် ကသီလင်တ ဖြစ်နေခဲ့ကြ၏။ တမန်တော်မြတ်ကိုယ်တော်တိုင် နောက်ဆုံးတွင် မဒီနာမြို့သို့ ရွှေ့ပြောင်းလာပြီး ကသီလင်တ ဖြစ်နေရရှာသော မှစ်လင်မ်တို့အား တွေ့မြင်တော်မူသည့်အခါ မက္ကာမြို့မှ ရွှေ့ပြောင်းလာသော 'မုဟာဂျိရ်' များနှင့် မဒီနာမြို့ခံ 'အန်ဆွာရ်'များ စပ်ကြားတွင် 'မုဝါခါတ်' ညီနောင်ဖွဲ့ပေးတော်မူခဲ့လေသည်။

(၁) **အဟ်ဇာဗ်စစ်ပွဲ**

'နသွီရ်' မျိုးနွယ်စုသည် မဒီနာမြို့မှ နယ်နှင်ဒဏ်ခံရပြီး၊ 'ခိုင်ဗရ်'သို့ ရောက်သွားသည့်အခါ အစ္စလာမ်ကို လုံးဝချေမှုန်းရန် အကြီးအကျယ် ကြံစည်အားထုတ်လာခဲ့၏။ ထိုမျိုးနွယ်စု၏ ခေါင်းဆောင်များဖြစ်သော စလာမ် အစ်ဗ်နု အဗီဟုကိုက်၊ ဟိုင်ယ် အစ်ဗ်နုအခ်တွာဗ်၊ ကိနာနဟ်၊ အစ်ဗ်နုရဗီအ်စသည်တို့သည် မက္ကာမြို့သို့ ရောက်ရှိလာပြီး ကုရိုက်ရှ်မျိုးနွယ်ဝင်များအား စည်းရုံးခဲ့ကြ၏။ ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် အစ္စလာမ်ကိုချေမှုန်းရန် ယခင်ကတည်းကပင် စိတ်ဓာတ်ပြင်းပြနေခဲ့ကြ၏။ ထို့နောက် အဆိုပါခေါင်းဆောင်များသည် 'ဃတ်ဖာန်' မျိုးနွယ်စုကိုလည်း 'ခိုင်ဗရ်' နယ်ထွက်ပစ္စည်းများ ထက်ဝက်ပေးမည်ဟု လာဘ်ပေးပြီး သိမ်းသွင်းခဲ့ကြ၏။ ဗနူအစဒ်မျိုးနွယ်သည်လည်း ဃတ်ဖာန်မျိုးနွယ်၏ မဟာမိတ်ဖြစ်သည့်အလျောက် အစ္စလာမ်ချေမှုန်းရေးတွင် ➤➤

➤➤ ပါဝင်လာခဲ့၏။ စုလိုင်မ်မျိုးနွယ်သည်လည်း ကုရိုက်ရှ်မျိုးနွယ်နှင့် နီးစပ်သည့်အလျောက် အစ္စလာမ် ချေမှုန်းရေးတွင် ပါဝင်လာခဲ့၏။ ထို့အတူ ဗနူအစဒ်မျိုးနွယ်သည်လည်း ယဟူဒီများ၏ မဟာမိတ်ဖြစ်သည့် အလျောက် ပါဝင်လာခဲ့၏။ ဤသို့ဖြင့် ယဟူဒီများနှင့်အရပ်မျိုးနွယ်စု အားလုံးလိုလိုပင် အချင်းချင်းစည်းရုံးမိပြီး၊ မဟာမိတ်တပ်မတော်ကြီးဖွဲ့ကာ အစ္စလာမ်ကို ချေမှုန်းရန်အကြံနှင့် အရပ်လေးမျက်နှာမှ မဒီနာမြို့သို့ ဦးတည်ချီတက်လာခဲ့ကြ၏။ အဆိုပါ မဟာမိတ်တပ်မတော်၏ ဦးစီးဗိုလ်ချုပ်မှာ အဗူစွဖ်ယာန် အစ်ဗ်နုဟာရ်ဗ်ဖြစ်ခဲ့၏။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အထက်ဖော်ပြပါ ကာဖိရ်များ၏ အကြံ အစည်ကို သိတော်မူသည့်အခါ မိမိ၏ဆွဟာဗဟ် သာဝကကြီးများနှင့် တိုင်ပင်တော်မူ၏။ ထိုအခါ ပါရှားမြို့သား သာဝကကြီး စလ်မာန်ဖာရိစီက "ဤအရေးတွင် မြို့ပြင်ထွက်ပြီး ကွင်းပြင်၌ ခုခံတိုက်ခိုက်ရန်မသင့်၊ ကျုံးတူးပြီး ခုခံတိုက်ခိုက်ရန် သင့်ပါသည်"ဟု အကြံပေးခဲ့၏။

'ခန်ဒတ်က်' ဟူသောပုဒ်သည် 'ကန်ဒဟ်'ဟူသော ပါရှားစကားပင်ဖြစ်သည်။ 'ကန်ဒဟ်'ဟူသော ပါရှားစကားသည် အရဗီစာပေတွင် 'ခန်ဒတ်က်'ဟူ၍ ဖြစ်လာခဲ့၏။ 'ကန်ဒဟ်'ဟူသော ပုဒ်၏အနက်မှာ တူးထားသောအရာ (ဝါ) ကျုံးဟူ၍ဖြစ်သည်။ ဤသည်ကို အကြောင်းပြု၍ ဤစစ်ပွဲကို 'ခန်ဒတ်က်' စစ်ပွဲဟုလည်း ခေါ်ဆိုကြသည်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) နှင့်တကွ သာဝကကြီးများသည် သာဝကကြီး စလ်မာန်ဖာရိစီ၏ အကြံပေးချက်ကို လက်ခံသဘောတူပြီး ကျုံးကို စတင်တူးခဲ့ကြ၏။ ထိုနေ့မှာ ဟိဂျ်ရီသက္ကရာဇ် (၅)ခုနှစ်၊ ဇီကအ်ဒဟ်လ (၈)ရက်နေ့ဖြစ်သည်။

ကျုံးတူးရန်အတွက် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ကိုယ်တော်တိုင် နေရာများကို သတ်မှတ်ပေးတော်မူခဲ့၏။ ကျုံးတူးရာတွင် (၁၀) ယောက်တတွဲ အဖွဲ့များဖွဲ့ပေးပြီး (၁၀)ကိုက်စီ တူးစေတော်မူခဲ့၏။ ကျုံး၏အနက်မှာ (၅)ကိုက်ဖြစ်ခဲ့သည်။ သာဝကကြီး (၃၀၀၀)သည် အဆိုပါကျုံးကို တူးရာတွင် ရက်ပေါင်း(၂၀) ကြာခဲ့ကြ၏။ ဤကျုံးကို မဒီနာမြို့၏မြောက်ဘက် (အနောက်သို့ အနည်းငယ်ယွန်းသည့်ဘက်)တွင် တူးဖော်ခဲ့ခြင်း ဖြစ်သည်။ ကျုံး၏အလျားမှာ သုံးမိုင်ခွဲခန့်ဖြစ်သည်။ (မာဂျိဒီ)။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မဒီနာမြို့တွင် မတ်စ်ဂျိဒ်နဗဝီကို တည်ဆောက် ရာတွင် ကိုယ်တော်တိုင် ပါဝင်လုပ်အားပေးတော်မူသကဲ့သို့ ဤကျုံးတူးရာတွင်လည်း ပါဝင်လုပ်အားပေးတော် မူခဲ့လေသည်။ အချိန်ကား ဆောင်းရာသီဖြစ်ခဲ့၏။ စားနပ်ရိက္ခာကား အဆင်မပြေခဲ့၊ သာဝကကြီးများသည် တခါတခါသော် သုံးရက်အထိ နပ်ကျော်ထမင်းစား၍ နေခဲ့ကြရ၏။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် 'စလအ်'တောင်ကို ကျောထောက်နောက်ခံ ထားပြီး မုစ်လင်မ်စစ်သည်တို့အား နေရာချထားပေးတော်မူခဲ့၏။ အမျိုးသမီးများအား မြို့တွင်းရှိလုံခြုံသော ရဲတိုက်များတွင် နေရာချထားပေးတော်မူခဲ့၏။ စစ်ပွဲဖြစ်ပွားနေစဉ် နောက်ကျောမှ ကုရိုက်ရှ်မျိုးနွယ်ဝင်များ ဝင်ရောက် တိုက်ခိုက်မည်ကို စိုးရိမ်ရသည့်အတွက် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် သာဝကကြီး စလမဟ် အစ်ဗ်နအတ်စ်လမ်အား စစ်သည် (၂၀၀)နှင့်အတူ အစောင့်ချထားတော်မူခဲ့၏။

ကုရိုင်ဇာဟ်မျိုးနွယ်ဝင် ယဟူဒီများသည် တမန်တော်မြတ်နှင့် ချစ်ကြည်ရေးစာချုပ် ချုပ်ဆိုထားခဲ့ကြသည့် အလျောက် ပထမသော် ကာဖိရ်မဟာမိတ်များတွင် မပါဝင်ခဲ့ကြပေ။ သို့တစေလည်း နသွိရ်မျိုးနွယ်၏ခေါင်းဆောင် ဟွတ်ယ်အစ်ဗ်န အခ်တွာဗ်၏ ကြိုးစားမှုကြောင့် ကုရိုင်ဇွာဟ်မျိုးနွယ်ဝင်များသည်လည်း နောက်ဆုံးတွင် မိမိတို့၏ ချစ်ကြည်ရေးစာချုပ်ကို ဖောက်ဖျက်ပြီး ကာဖိရ်မဟာမိတ်များနှင့် ပူးပေါင်းသွားခဲ့ကြလေသည်။ မုစ်လင်မ်➤➤

➤➤ စစ်သည်များတွင် (မုနာဖစ်က်) အရေခြုံများသည်လည်း ရှိနေခဲ့ကြ၏။ ဥတုရာသီကား မကောင်း၊ စားနပ်ရိက္ခာကား မလုံလောက်၊ မုစ်လင်မ်စစ်သည်များသည် နေ့စဉ်နှင့်အမျှ အငတ်ပြဿနာနှင့် ရင်ဆိုင်နေခဲ့ကြရ၏။ ညစဉ်ညဆက် အိပ်ရေးပျက်ခဲ့ကြရ၏။ ရန်သူစစ်သည်အင်အားကား အဆမတန် ကြီးမားများပြား၏။ မုနာဖစ်က်များသည် ဤသည့်အခြင်းအရာများကို တွေ့မြင်ကြရသောအခါ မိမိတို့၏ အရေခြုံမှုကိုပင် ဖုံးဖိမထားနိုင်ကြတော့ပဲ "နောက်ပိုင်းတွင် အိုးအိမ်များမလုံပါ"ဟု လိမ်လည်အကြောင်း ပြကာ၊ စစ်မြေပြင်မှ အိမ်သို့ပြန်ရန် တမန်တော်မြတ်ထံ ခွင့်ပန်ခဲ့ကြ၏။ မုနာဖစ်က်များသည် ယင်းသည့်အခြေအနေမျိုးတွင် သစ္စာဖောက် သွားခဲ့ကြသော်လည်း အီမာန် ယုံကြည်မှု ရင့်ကျက်သော မုအ်မင်န်တို့မှာမူကား အနည်းငယ်စိုးစဉ်းမျှ တုန်လှုပ် ခြောက်ခြားခြင်း မရှိခဲ့ကြသည့် သာမက ယုံကြည်မှုသည်ပင် ပိုမိုရင့်ကျက် ခိုင်မြဲလာခဲ့ကြပေသည်။

ကာဖိရ်များသည် မဒီနာမြို့ကို တစ်လနီးပါး ဝိုင်းဝန်းထားခဲ့ကြ၏။ မုစ်လင်မ်များသည် အငတ်ပြဿနာနှင့် ရင်ဆိုင်နေခဲ့ကြရ၏။ ကာဖိရ်များသည် ကျုံးကိုကျော်နိုင်ခဲ့ ကြသည်လည်းမရှိ။ မုစ်လင်မ်များသည် ကာဖိရ်များအား မောင်းထုတ်နိုင်ခဲ့သည်လည်းမရှိ။ ထိုသည့်အခြေအနေတွင် တစ်နေ့သော် သာဝကကြီးများက စားနပ်ရိက္ခာ ပြတ်သည့်အတွက်၊ မိမိတို့၏ဝမ်းဗိုက်များတွင် ချည်ထားသော ကျောက်ခဲများကို တမန်တော်မြတ်အား ပြကြရာ တမန်တော်မြတ်က မိမိဝမ်းဗိုက်တွင်ချည်ထားသော ခဲနှစ်လုံးကိုပြတော်မူလိုက်လေသည်။

ကာဖိရ် စစ်သည်များသည် ကျုံးကို မကျော်နိုင်ကြသည့်အတွက် အဝေးမှပင် မြားမိုး၊ ခဲမိုးများ ရွာသွန်းချနေကြ၏။ မုစ်လင်မ်စစ်သည်များသည် ကျုံးကိုအကာအကွယ်ယူ၍ ခုခံနေခဲ့ကြ၏။ ဤသို့ဖြင့် နေ့အတော်ကြာညောင်းလာခဲ့၏။ သို့တစေလည်း ရန်သူများသည် ကျုံးကိုမကျော်နိုင်ခဲ့ကြပေ။

နောက်ဆုံးတွင် ရန်သူများသည် တပြိုင်တည်း စုပေါင်း၍တိုက်ခိုက်ရန် ဆုံးဖြတ်လိုက်ကြ၏။ အကြောင်းအားလျော်စွာ ကျုံးတစ်နေရာတွင် အနံအနည်းငယ် ကျဉ်းနေ၏။ ရန်သူများသည် အခွင့်ကောင်းရပြီး ထိုနေရာတွင် စုပေါင်း၍ တိုက်ခိုက်ကြလေတော့၏။ ရန်သူစစ်ဗိုလ်များသည် မြင်းများကို ကျုံးတွင်းသို့ အတင်းအဓမ္မ မောင်းနှင်ချခဲ့ကြ၏။ အကြောင်းအားလျော်စွာ ရန်သူစစ်ဗိုလ်များတွင် မြင်းစီးသူရဲတစ်ထောင် (၁၀၀၀)နှင့်ညီမျှသော အာရေဗျတိုင်းပြည်တွင် သတ္တိဗလ၌ အထူးကျော်ကြားသော စစ်သူကြီး အမ်ရ်အစ်ဗ်နုဝဒ္ဒသည် ကျုံးကို ဖြတ်ကျော်လာခဲ့၏။ သို့ကျုံးကိုဖြတ်ကျော်လာ နိုင်ခဲ့သော်လည်း နောက်ဆုံးတွင် အမ်ရ်အစ်ဗ်နုဝဒ္ဒသည် သာဝကကြီးအလီ (ရသွေ့ယလ္လာဟုံ့အန်ဟု)၏ဓားချက်ဖြင့် မရှုမလှသေဆုံးသွားခဲ့ရ၏။ ထိုနေ့သည် အပြင်းထန်ဆုံးနေ့ ဖြစ်ခဲ့၏။ နှစ်ဘက်တိုက်ခိုက်မှု ပြင်းထန်လှသည့်အတွက် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်ပင် ဆွလာတ်လေးကြိမ်တိုင်တိုင် ဆောက်တည်တော် မမူနိုင်ခဲ့ပေ။

ရန်သူများသည် နေ့ရက်ကြာညောင်း လာသည်နှင့်အမျှ စိတ်ဓာတ်ကျဆင်းလာခဲ့ကြ၏။ စစ်သည် တသောင်း(၁၀၀၀၀)၏ ရိက္ခာပြဿနာနှင့် ချက်ပြုတ်ရေးမှာ လွယ်ကူလှသည်မဟုတ်၊ ဥတုရာသီက မကောင်း၊ ထိုသည့် အခြေအနေမျိုးတွင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် မုန်တိုင်းကျလာခဲ့၏။ ရန်သူများ၏ တဲများ ပြိုလဲခဲ့ကုန်၏။ အိုးခွက်များ မှောက်ကုန်ခဲ့၏။ ထိုသည့်အထဲ အစ္စလာမ်ကို လျှို့ဝှက်စွာ လက်ခံယုံကြည်ထားသော နအီမ်အစ်ဗ်န မဘ်စ်အူဒ်အရှ်ဂျအီ၏ ပရိယာယ်စကားကြောင့် ကုရိုင်ဇွာဟ်မျိုးနွယ်နှင့် အခြားကာဖိရ်များစပ်ကြားတွင် သံသယဖြစ်ပေါ်လာခဲ့၏။ အဆိုပါ အကြောင်းများကြောင့် ကာဖိရ်စစ်သည်များသည် ရပ်တည်မနေနိုင်ကြတော့ပဲ နောက်ဆုံးတွင် ကာဖိရ်တို့၏ စစ်ဦးစီးချုပ် အဗူစွဖ်ယာန်က 'စားနပ်ရိက္ခာကုန်ပြီ၊ ရာသီဥတုမှာ မကောင်း၊ ကုရိုင်ဇွာဟ် မျိုးနွယ်ဝင်များသည် တပ်ခေါက်၍ ပြန်သွားကြပြီ ထို့အတွက် ဆက်လက်တိုက်ခိုက်ခြင်းဖြင့် အကျိုးမမြင်' ဟုဆိုကာ တပ်ခေါက်ရန် အမိန့်ပေးခဲ့လေသည်။➤➤

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ ٱذْكُرُوا۟ نِعْمَةَ ٱللَّهِ عَلَيْكُمْ إِذْ جَآءَتْكُمْ جُنُودٌ فَأَرْسَلْنَا عَلَيْهِمْ رِيحًا وَجُنُودًا لَّمْ تَرَوْهَا ۚ وَكَانَ ٱللَّهُ بِمَا تَعْمَلُونَ بَصِيرًا ﴿٩﴾

၉။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် မိမိတို့အပေါ်၌ အလ္လာဟ်အရှင်မြတ် (ပြုတော်မူခဲ့သော) ကျေးဇူးတော်ကို ပြန်လည် သတိရရှိကြလေကုန်။ အခါတပါး၌ အသင်တို့ထံသို့ များစွာသော စစ်တပ်များသည် (တိုက်ခိုက်ရန်) ချီတက်၍ လာခဲ့ကြကုန်၏။ ထို့နောက် ငါအရှင်မြတ်သည်စစ်တပ်များအပေါ်၌ လေပြင်းတခုကိုလည်းကောင်း၊ အသင်တို့ *မမြင်ကြရသော စစ်တပ်များကိုလည်းကောင်း၊* [၁] စေလွှတ်တော်မူခဲ့၏။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုလုပ်လျက်ရှိခဲ့ကြသည်တို့ကို ကောင်းစွာ ရှုမြင်တော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူ၏။

إِذْ جَآءُوكُم مِّن فَوْقِكُمْ وَمِنْ أَسْفَلَ مِنكُمْ وَإِذْ زَاغَتِ ٱلْأَبْصَٰرُ وَبَلَغَتِ ٱلْقُلُوبُ ٱلْحَنَاجِرَ وَتَظُنُّونَ بِٱللَّهِ ٱلظُّنُونَا۠ ﴿١٠﴾

၁၀။ အကြင်အခါဝယ် ထိုစစ်တပ်များသည် အသင်တို့၏ အထက်ဘက်မှလည်းကောင်း၊ အသင်တို့၏ အောက်ဘက်မှလည်းကောင်း၊ (စုရုံး) ချီတက်လာခဲ့ကြကုန်၏။ ထိုမှတပါး အကြင်အခါဝယ် မျက်စိများသည် (ကြောက်ရွံ့ထိတ်လန့်မှုကြောင့်) ပြူး၍ သွားခဲ့ကြကုန်၏။ ထို့ပြင် နှလုံးများမှာလည်း လည်မျိုသို့ ရောက်ရှိ၍ သွားခဲ့ကြ၏။ ထိုမှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်အပေါ်၌ အမျိုးမျိုးသောထင်မြင်ယူဆချက်များကို ထင်မြင်ယူဆခဲ့ကြကုန်သတည်း။

---

➤➤ ဤသို့ဖြင့် ရန်သူများသည် အကြံအစည်မအောင်မြင်ပဲ တပ်လန်သွားခဲ့ကြလေသည်။ မဒီနာမြို့သည်လည်း အလ္လာဟ်အရှင်မြတ် ၏ကျေးဇူးတော်ဖြင့် ရက်ပေါင်း (၂၀)(၂၂)ရက်တိုင်တိုင် ရန်သူများ၏ ဝိုင်းဝန်းတိုက်ခိုက်ခြင်းကို ခံရပြီးနောက်တွင် ရန်သူတို့၏စစ်ဘေးမှ လွတ်မြောက်သွားခဲ့လေသည်။

ကြည့်-စီရတွန္နဗီ၊ အတွဲ-၁။ စ-(၄၁၉-၄၃၃)။

ဤအကြောင်းကိုပင် ကုရ်အာန် (၃၃း၉-၂၇)တွင် မိန့်ဆိုထားတော်မူသည်။

(၁) ဤအာယတ်တော်တွင် "အသင်တို့ မမြင်ကြရသော စစ်တပ်များ"ဟူသည် ကောင်းကင်တမန်များကို ဆိုလိုသည်။ ယင်းကောင်းကင်တမန်များကား ကာယကံမြောက် တိုက်ခိုက်ရန်မဟုတ်၊ ကာဖိရ်များ၏ စိတ်နှလုံးများကို ချောက်ချားစေရန်အတွက်သာ စေလွှတ်တော်မူခြင်းဖြစ်သည်။ (ကြည့်-ထာနဝီ)

هُنَالِكَ ابْتُلِيَ الْمُؤْمِنُونَ وَزُلْزِلُوا زِلْزَالًا شَدِيدًا ⑪

၁၁။ ထိုရောအခါဝယ် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့မှာ စမ်းသပ်ခြင်း ခံခဲ့ကြရသည့်ပြင်၊ ပြင်းထန်စွာ တုန်လှုပ်ချောက်ချားစေခြင်းကိုလည်း ခံခဲ့ကြရကုန်၏။

وَإِذْ يَقُولُ الْمُنَافِقُونَ وَالَّذِينَ فِي قُلُوبِهِم مَّرَضٌ مَّا وَعَدَنَا اللَّهُ وَرَسُولُهُ إِلَّا غُرُورًا ⑫

၁၂။ ထိုမှတပါး အကြင်အခါဝယ် "မုနာဖစ်က်" အယောင်ဆောင်မုစ်လင်မ်များနှင့် စိတ်နှလုံးများတွင် ရောဂါရှိသူတို့က "အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ရစူလ်တမန်တော်သည်လည်းကောင်း၊ ကျွန်ုပ်တို့အား ဖြားယောင်းခြင်းမှ တပါး မှန်ကန်သော ကတိကို ပေးခဲ့ကြသည်မဟုတ်" ဟု ပြောဆိုလျက် ရှိခဲ့ကြကုန်၏။

وَإِذْ قَالَت طَّائِفَةٌ مِّنْهُمْ يَا أَهْلَ يَثْرِبَ لَا مُقَامَ لَكُمْ فَارْجِعُوا ۚ وَيَسْتَأْذِنُ فَرِيقٌ مِّنْهُمُ النَّبِيَّ يَقُولُونَ إِنَّ بُيُوتَنَا عَوْرَةٌ وَمَا هِيَ بِعَوْرَةٍ ۖ إِن يُرِيدُونَ إِلَّا فِرَارًا ⑬

၁၃။ ၎င်းပြင် အကြင်အခါဝယ် ထိုသူတို့အနက် လူတစုက "*အို-ယတ်ဆရစ်ဗ်မြို့သားတို့*၊ [1] အသင်တို့အဖို့ ရပ်တည်ရာဌာနဟူ၍ အလျှင်းမရှိပြီဖြစ်ရာ အသင်တို့သည် ပြန်သွားကြကုန်လော့" ဟု ပြောဆိုခဲ့ကြကုန်၏။ ထိုမှတပါး ၎င်းတို့အနက် လူတစုသည် "ဧကန်အမှန် ကျွန်ုပ်တို့၏အိမ်များမှာ လုံခြုံမှုမရှိပါ" ဟုပြောဆိုကာ နဗီတမန်တော်မြတ်ထံမှ ခွင့်ပန်လျက် ရှိကြကုန်၏။ စင်စစ်သော်ကား ယင်းအိမ်များမှာ လုံခြုံမှု ကင်းမဲ့စွာ ရှိနေကြသည် မဟုတ်ပေ၊ ၎င်းတို့မူကား ထွက်ပြေးရန်သာ ကြံရွယ်နေကြကုန်သတည်း။

---

(၁) **"ယတ်ဆရစ်ဗ်။"**

ယတ်ဆရစ်ဗ်သည် မဒီနာမြို့၏ ရှေးအမည်ဖြစ်သည်။ အဆိုပါမြို့သို့ တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်) ရွှေ့ပြောင်းနေထိုင်တော်မူသည့်အခါ အဆိုပါမြို့ကို 'မဒီနတွန္နဗီ' တမန်တော်၏မြို့ဟု ခေါ်ဆိုခဲ့ကြ၏။ ထို့နောက် မဒီနတွန္နဗီကို အတိုကောက်အားဖြင့် မဒီနဟ်ဟူ၍သာ ခေါ်ဆိုခဲ့ကြလေသည်။

وَلَوْ دُخِلَتْ عَلَيْهِم مِّنْ أَقْطَارِهَا ثُمَّ سُئِلُوا الْفِتْنَةَ لَآتَوْهَا وَمَا تَلَبَّثُوا بِهَا إِلَّا يَسِيرًا ﴿١٤﴾

**၁၄။** စင်စစ်သော်ကား ၎င်းတို့ထံ ယင်း "ယတ်ဆရစ်ဗ" မြို့၏ ဘေးပတ်ဝန်းကျင်များမှ (ကာဖိရ်စစ်သည်တို့သည်) ဝင်ရောက်ခဲ့ကြသော် ထို့နောက် ၎င်းတို့သည် ဖျက်ဆီးမှုပြုရန် (မုစ်လင်မ်တို့နှင့် တိုက်ခိုက်ရန်) တောင်းဆိုခြင်းကို ခံခဲ့ကြရသော် ၎င်းတို့သည် ထိုအိမ်များ၌ အနည်းငယ်မျှသာ ဆိုင်းငံ့ပြီး ရုတ်တရက် ချက်ချင်းပင်လျှင် ယင်းဖျက်ဆီးမှု (တိုက်ခိုက်မှု)ကို အမှန်ပင်လက်ခံပြုလုပ်ကြမည်သာ၊[၁]

وَلَقَدْ كَانُوا عَاهَدُوا اللَّهَ مِن قَبْلُ لَا يُوَلُّونَ الْأَدْبَارَ ۚ وَكَانَ عَهْدُ اللَّهِ مَسْئُولًا ﴿١٥﴾

**၁၅။** မချွတ်မလွဲ ၎င်းတို့သည် ရှေးဦးမဆွက "ကျောခိုင်း၍ထွက်ပြေးကြမည်မဟုတ်ပါ" ဟု *အလ္လာဟ် အရှင်မြတ်နှင့် ကတိထားခဲ့ပြီး ဖြစ်ကြကုန်၏။*[၂] အမှန်သော်ကား အလ္လာဟ်အရှင်မြတ်နှင့်ထားခဲ့သော ကတိဝန်ခံချက်မှာ စစ်ဆေးမေးမြန်းခံရအံ့သော ကတိဝန်ခံချက်ပင် ဖြစ်ချေသည်။

قُل لَّن يَنفَعَكُمُ الْفِرَارُ إِن فَرَرْتُم مِّنَ الْمَوْتِ أَوِ الْقَتْلِ وَإِذًا لَّا تُمَتَّعُونَ إِلَّا قَلِيلًا ﴿١٦﴾

**၁၆။** အို-နဗီတမန်တော်၊ အသင်သည် ပြောကြားပါလေ၊ ("အို-အချင်းတို့၊) အကယ်၍ အသင်တို့သည် သေဘေးမှသော်လည်းကောင်း၊ အသတ်ခံရမည့်ဘေးမှသော်လည်းကောင်း၊ ထွက်ပြေးခဲ့ကြလေသော် အသင်တို့အား ယင်းထွက်ပြေးခြင်းသည် အလျှင်း အကျိုးရှိစေမည်မဟုတ်ပေ။ ၎င်းပြင် ထိုအခါ အသင်တို့သည် (ထွက်ပြေးခြင်းဖြင့်) အနည်းငယ်မျှမှအပ အကျိုးခံစားရမည်လည်း မဟုတ်ပေ"

---

(၁) မုနာဖစ်က်များသည် အခြေအနေအရ မုစ်လင်မ်များနှင့် ပူးပေါင်းနေကြသော အရေခြုံအခွင့်အရေးသမားများ သစ္စာဖောက်များသာ ဖြစ်ကြပေသည်။ ၎င်းတို့သည် မုစ်လင်မ်တို့၏ကောင်းကျိုးကို စိုးစဉ်းမျှပင်မလိုလားကြပေ။ ရန်သူနှင့် ရင်ဆိုင်တိုက်ပွဲဖြစ်နေသည့် အချိန်မျိုးမှာပင် "အိုးအိမ်မလုံ"ဟု လိမ်လည် အကြောင်းပြကာ စစ်မြေပြင်မှပင် ပြန်သွားကြသည်။ မုနာဖစ်က်များသည် မြို့တွင်း၌ရှိနေကြခိုက် အကယ်တန္တ ရန်သူများ ဝင်လာကြပြီး၊ ၎င်းတို့အား ၎င်းတို့အမြင်အားဖြင့် လက်ခံထားကြသော အစ္စလာမ်ကို စွန့်လွှတ်ရန်၊ သို့မဟုတ် မုစ်လင်မ်တို့နှင့် ပြိုင်ဆိုင်တိုက်ခိုက်ရန် ဆူပူသောင်းကျန်းရန် တောင်းဆိုကြပါက၊ ယင်းမုနာဖစ်က်များသည် ထိုသည့် ➢➢

قُلْ مَنْ ذَا الَّذِي يَعْصِمُكُمْ مِنَ اللَّهِ إِنْ أَرَادَ بِكُمْ سُوءًا أَوْ أَرَادَ بِكُمْ رَحْمَةً ۚ وَلَا يَجِدُونَ لَهُمْ مِنْ دُونِ اللَّهِ وَلِيًّا وَلَا نَصِيرًا ﴿١٧﴾

**၁၇။** အို-နဗီတမန်တော်၊ အသင်သည် ပြောကြားပါလေ၊ (အချင်းတို့) အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် အသင်တို့နှင့် ပတ်သက်၍ ဘေးအန္တရာယ်တစုံတရာကို ရည်စူးတော်မူခဲ့သည်ရှိသော် မည်သူသည် အသင်တို့အား ထိုအရှင်မြတ်၏(ပြစ်ဒဏ်)မှ ကာကွယ်စောင့်ရှောက်နိုင်အံ့နည်း။ သို့တည်းမဟုတ် ထိုအရှင်မြတ်သည် အသင်တို့နှင့် ပတ်သက်၍ ကျေးဇူးတစုံတရာကို ရည်စူးတော်မူခဲ့ပါလျှင် (မည်သူသည် ဗိတ်ပင်တားဆီးနိုင်အံ့နည်း)။

ထိုမှတပါး ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အပြင် မိမိတို့အဖို့ ကူညီအားပေးသူတစ်ဦးတစ်ယောက်ကိုမျှလည်း တွေ့ရှိကြမည် မဟုတ်ပေ။ ကာကွယ်သူတဦးတယောက်ကိုမျှလည်း တွေ့ရှိကြမည် မဟုတ်ပေတကား။

قَدْ يَعْلَمُ اللَّهُ الْمُعَوِّقِينَ مِنْكُمْ وَالْقَائِلِينَ لِإِخْوَانِهِمْ هَلُمَّ إِلَيْنَا ۖ وَلَا يَأْتُونَ الْبَأْسَ إِلَّا قَلِيلًا ﴿١٨﴾

**၁၈။** အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အနက် နှောင့်ယှက် တားဆီးကြသောသူတို့အားလည်းကောင်း၊ မိမိတို့၏ညီအစ်ကိုများအား "အသင်တို့သည် ကျွန်ုပ်တို့ထံလာခဲ့ကြကုန်လော့" ဟု ပြောဆိုကြကုန်သော သူတို့အားလည်းကောင်း၊ ကောင်းစွာသိရှိတော်မူ၏။ စင်စစ်သော်ကား ၎င်းတို့သည် အမည်ခံအားဖြင့်သာလျှင် စစ်တိုက်ရာသို့ လာကြကုန်၏။

---

➤➤ တောင်းဆိုချက်များကို မဆိုင်းမတွလိုက်နာ ဆောင်ရွက်ကြမည်သာ ဖြစ်သည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် မုနာဖစ်က်များ ၏ အကြောင်းပြချက်မှာ လိမ်လည်မှုသာဖြစ်ကြောင်း၊ ၎င်းတို့သည် ကာဖိရ်များနှင့် တစိတ်တလက်တည်းပင် ဖြစ်ကြောင်း မှစ်လင်မ်များကို မှန်းတီးကြောင်း ကောင်းစွာသိနိုင်ပေသည်။

(၂) 'အုဟွဒ်' စစ်ပွဲဖြစ်ပွားပြီးနောက်တွင် မုနာဖစ်က်များက "ကျွန်ုပ်တို့သည် နောက်နောင်စစ်မြေပြင်မှ ကျောခိုင်း ထွက်ခွာသွားကြမည် မဟုတ်ပါ"ဟု အတိအလင်း ဝန်ခံကတိပြုခဲ့ကြပေသည်။ သို့တစေလည်း မုနာဖစ်က်များသည် အရေခြုံပြီပီ သစ္စာဖောက်မြဲ ဖောက်ကြသည်သာ။

أَشِحَّةً عَلَيْكُمْ ۖ فَإِذَا جَاءَ الْخَوْفُ رَأَيْتَهُمْ يَنظُرُونَ إِلَيْكَ تَدُورُ أَعْيُنُهُمْ كَالَّذِي يُغْشَىٰ عَلَيْهِ مِنَ الْمَوْتِ ۖ فَإِذَا ذَهَبَ الْخَوْفُ سَلَقُوكُم بِأَلْسِنَةٍ حِدَادٍ أَشِحَّةً عَلَى الْخَيْرِ ۚ أُولَٰئِكَ لَمْ يُؤْمِنُوا فَأَحْبَطَ اللَّهُ أَعْمَالَهُمْ ۚ وَكَانَ ذَٰلِكَ عَلَى اللَّهِ يَسِيرًا ﴿١٩﴾

၁၉။ အသင်တို့အပေါ်၌ တွန့်တိုကြလျက် တဖန် စိုးရိမ်မှုတစုံတရာ ပေါ်ပေါက်လာခဲ့သည်ရှိသော် ၎င်းတို့သည် သေခြင်းတရား ဆိုက်ရောက်လာသဖြင့် မေ့မြောနေသောသူကဲ့သို့ မျက်စိများမှုးဝေလျက်ရှိပြီး အသင့်ဘက်သို့ ကြည့်ရှုနေကြသည်ကို အသင်သည် တွေ့မြင်ရလေသည်။

တဖန် စိုးရိမ်မှု ပပျောက်သွားလေသောအခါဝယ် ၎င်းတို့သည် (လက်ရ)ပစ္စည်းများအပေါ်၌ လောဘရမ္မက်ထားရှိကြလျက် ထက်မြက်သောနှုတ်သီးများဖြင့် အသင်တို့အား နာကြည်းစေရန် စောင်းမြောင်းပြောဆိုကြကုန်၏။

ထိုသူတို့ကား သက်ဝင် ယုံကြည်ခဲ့ကြသည် မဟုတ်ပေ။ သို့ဖြစ်ပေရာ အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့၏ ဆောင်ရွက်ချက်များကို အချည်းနှီး ဖြစ်စေတော်မူခဲ့၏။ စင်စစ်သော်ကား ဤသည် အလ္လာဟ် အရှင်မြတ်အဖို့ (လွန်စွာ) လွယ်ကူလှပေတကား။

يَحْسَبُونَ الْأَحْزَابَ لَمْ يَذْهَبُوا ۖ وَإِن يَأْتِ الْأَحْزَابُ يَوَدُّوا لَوْ أَنَّهُم بَادُونَ فِي الْأَعْرَابِ يَسْأَلُونَ عَنْ أَنبَائِكُمْ ۖ وَلَوْ كَانُوا فِيكُم

၂၀။ ၎င်းတို့သည် "သွေးစည်းထားသော (ကာဖိရ် မဟာမိတ်)အုပ်စုတို့မှာ (ယခုတိုင်အောင်) မသွားကြသေး" ဟု ထင်မှတ်နေကြကုန်၏။ သို့ရာတွင် ထိုသွေးစည်းထားသောအုပ်စုများ ရောက်ရှိ၍ လာကြလျှင်၊ ၎င်းတို့မှာ "အကယ်၍ ကျွန်ုပ်တို့သည် ကျေးလက်တောရွာများ၌ နေထိုင်ခဲ့ကြပြီး အသင်တို့၏ သတင်းများ စုံစမ်းမေးမြန်းလျက်ရှိကြသော် ကောင်းလေစွ" ဟု နှစ်သက်လိုလားကြပေမည်။ သို့ရာတွင် အကယ်၍ ၎င်းတို့သည် အသင်တို့နှင့်အတူ ရှိနေခဲ့ကြ

مَّا قَٰتَلُوٓاْ إِلَّا قَلِيلٗا ﴿٢٠﴾

လျှင်လည်း အနည်းငယ်မျှသာလျှင် တိုက်ခိုက်ကြပေမည်။ [၁]

لَّقَدۡ كَانَ لَكُمۡ فِي رَسُولِ ٱللَّهِ أُسۡوَةٌ حَسَنَةٞ لِّمَن كَانَ يَرۡجُواْ ٱللَّهَ وَٱلۡيَوۡمَ ٱلۡأٓخِرَ وَذَكَرَ ٱللَّهَ كَثِيرٗا ﴿٢١﴾

၂၁။ စေကန်မလွဲ အသင်တို့အဖို့ (ဝါ) အလ္လာဟ်အရှင်မြတ်ကိုလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း၊ ကြောက်ရွံ့သည့်ပြင် အလ္လာဟ်အရှင်မြတ်အား များစွာ အောက်မေ့တ,သ, သတိရလျက်ရှိသူ၏အဖို့ အလ္လာဟ်အရှင်မြတ်၏ရစူလ်တမန်တော်မြတ်၌ မွန်မြတ်လှစွာသော စံနမူနာသည် ရှိပေသည်။ [၂]

---

(၁) မုနာဖစ်က်များသည် အဘယ်မျှ သူရဲဘောနည်းသည်၊ အဘယ်မျှ သတ္တိကြောင်သည်ဆိုသော် ကာဖိရ်မဟာမိတ်စစ်သည်များ အကြံအစည်မအောင်မြင်ပဲ တပ်ခေါက်ပြန်သွားကြရသည်ကိုပင် မယုံကြည်နိုင်ပဲ ရှိနေခဲ့ကြပေသည်။ မုနာဖစ်က်များသည် တဘက်တွင် အခြေအနေအရ မုစ်လင်မ်များနှင့်ပူးပေါင်း၍ နေကြသည်။ အခြားတဘက်တွင် ကာဖိရ်မဟာမိတ်စစ်သည်များ ပြန်လာကြသည်ကိုပင် လိုလားနေကြပေသည်။ အကယ်တန္တု ကာဖိရ်မဟာမိတ်စစ်သည်များ ရောက်ရှိလာကြပါက ၎င်းတို့သည် မြို့တွင်း၌ပင်မနေပဲ ကျေးလက်တောရွာများတွင် သွားရောက်နေထိုင်ပြီး ခြံစည်းရိုးပေါ်တွင်ထိုင်ကာ စစ်သတင်းကို နားစွင့်နေကြပေမည်။ စစ်ရေးသာသည့်ဘက်သို့ ယိမ်းယိုင်ကြပေမည်။ ဤကား မုနာဖစ်က်တို့၏ ဟန်ဆောင်မှု၊ သတ္တိကြောင်မှု၊ အချောင်ဆန်မှု၊ မုစ်လင်မ်မုန်းတီးမှုနှင့် ကာဖိရ်လိုလားမှု၏ သရုပ်သကန်ပင်။

(၂) **အတုယူဖွယ်ရာ စံနမူနာ၊**

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ ဘဝသက်တမ်းတစ်ခုလုံးသည် လူသားတို့အဖို့၊ အထူးသဖြင့် ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်နှင့် တွေ့ရမည်ကိုမျှော်ကာ ထိုအရှင်မြတ်အား မပြတ်ခါခါ အောက်မေ့တသ, သတိရလျက်ရှိသော သူမွန်သူမြတ်တို့အဖို့ အလွန်ကောင်းမြတ်လှသည့် စံနမူနာပင်ဖြစ်ပေသည်။ အခြား အေးချမ်းသော၊ သာယာသော အချိန်အခါမျိုးတွင်မဆိုထားနှင့်၊ စစ်မြေပြင်တွင် စစ်သည်အင်အားချင်း မမျှတသော ရန်သူများနှင့် ရင်ဆိုင်နေရသည့် အချိန်အခါမျိုးတွင်လည်း တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မယိမ်းမယိုင် ကျောက်တိုင်ပမာ ရပ်တည်နေတော်မူခဲ့သည်။ အနည်းငယ်စိုးစဉ်းမျှပင် တုန်လှုပ်ချောက်ချားတော်မမူခဲ့ပေ။

သို့ဖြစ်ရာ ကျွန်ုပ်တို့သည် လောကီရေး၊ လောကုတ္တရာရေး၊ စားဝတ်နေရေး၊ ပြောရေး၊ဆိုရေး၊ နေရေး၊ထိုင်ရေးစသည့် အရေးကိစ္စအဝဝတွင် တမန်တော်မြတ် (ဆွာလ္လလ္လဟု အလိုင်ဟိဝစလ္လမ်) ချမှတ်တော်မူခဲ့သည့် လမ်းစဉ်များကိုသာ ဖဝါးခြေထပ် လိုက်နာကျင့်သုံးကြရမည်။ အထူးသဖြင့် ဇွဲ၊သတ္တိ၊ ကြံ့ခိုင်တည်ကြည်စွာ ရပ်တည်မှုတွင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကိုပင် စံနမူနာ ထားကြရပေမည်။

وَلَمَّا رَاَ الْمُؤْمِنُوْنَ الْاَحْزَابَ ۙ قَالُوْا هٰذَا مَا وَعَدَنَا اللّٰهُ وَرَسُوْلُهٗ وَصَدَقَ اللّٰهُ وَرَسُوْلُهٗ ۫ وَمَا زَادَهُمْ اِلَّاۤ اِيْمَانًا وَّتَسْلِيْمًا ﴿٢٢﴾

၂၂။ အမှန်စင်စစ်သော်ကား "မုအ်မင်န်" သက်ဝင်ယုံကြည်သောသူတို့သည် သွေးစည်းထားသောအုပ်စုတို့အား တွေ့မြင်ခဲ့ကြသောအခါ "ဤသည် ကျွန်ုပ်တို့အား အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်မြတ်သည်လည်းကောင်း၊ ချိန်းချက်တော်မူခဲ့သောကိစ္စပင် ဖြစ်သည်။ စင်စစ်အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ် တမန်တော်မြတ်သည်လည်းကောင်း၊ ခုန်ကန်စွာ (သတင်းပေး) မိန့်ကြားတော်မူခဲ့သည်" ဟု ပြောဆိုကြကုန်၏။ ထိုမှတပါး ယင်းကိစ္စသည် ၎င်းတို့၌ အီမာန်ယုံကြည်မှုနှင့်လိုက်နာမှုကိုသာ တိုးပွားများပြားစေခဲ့လေသတည်း။ [၁]

مِنَ الْمُؤْمِنِيْنَ رِجَالٌ صَدَقُوْا مَا عَاهَدُوا اللّٰهَ عَلَيْهِ ۚ فَمِنْهُمْ مَّنْ قَضٰى نَحْبَهٗ وَمِنْهُمْ مَّنْ يَّنْتَظِرُ ۖ ۫ وَمَا بَدَّلُوْا تَبْدِيْلًا ۙ ﴿٢٣﴾

၂၃။ "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အနက် အလ္လာဟ်အရှင်မြတ်နှင့် မိမိတို့ ထားရှိခဲ့ကြသောပဋိညာဉ်နှင့်အညီ မှန်ကန်စွာ ပြုလုပ်ခဲ့ကြသူများလည်း ရှိကြကုန်၏။ သို့ဖြစ်ပေရာ ၎င်းတို့အနက် မိမိတို့၏ အဓိဋ္ဌာန်ကို ပြီးစီးအောင် ဆောင်ရွက်ခဲ့သူများလည်း ရှိကြ၏။ ထို့ပြင် ၎င်းတို့အနက် (မိမိတို့၏ အဓိဋ္ဌာန်ကို ပြီးစီးအောင်ဆောင်ရွက်ရန်) စောင့်စားနေသူများလည်း ရှိကြကုန်၏။ ၎င်းတို့သည် အနည်းငယ် စိုးစဉ်းမျှပင် မပြောင်းလဲခဲ့ကြပေ။ [၂]

---

(၁) မုအ်မင်န်များသည် ကာဖိရ်မဟာမိတ်စစ်သည်များအား လေးဘက်လေးတန်မှ အင်အားကြီးမားစွာဖြင့် စစ်ချီတက်လာကြသည်ကို တွေ့ကြရသောအခါ 'ဤသည် အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ တမန်တော်က ယခင်က ကျွန်ုပ်တို့အား ချိန်းချက်ထားတော်မူသော အရာသာဖြစ်သည်'ဟု ဆိုကြလေသည်။ ဤသည့်ချိန်းချက်သည် ကုရ်အာန်ကျမ်းမြတ် (၂း၂၁၄။ ၃၈း၁၁)တွင် ပါရှိသည်။ ထို့ပြင်တဝ မုအ်မင်န်များသည် ယင်းသို့ ကာဖိရ်စစ်သည်များအား တွေ့မြင်ကြရသောအခါ တစ်စုံတစ်ရာ တုန်လှုပ်ချောက်ချားခြင်း မရှိသည့်အပြင် ၎င်းတို့၏ ယုံကြည်ချက်နှင့် နာခံမှုသည် ပိုမို၍ပင် ရင့်ကျက်တိုးပွား များပြားလာခဲ့ပေသည်။ ဤသည် မုအ်မင်န်တို့၏ သရုပ်သကန်ပင်။ ဤသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ချမှတ်ထားတော်မူခဲ့သည့် လမ်းစဉ်ကို ဖဝါးခြေထပ် လိုက်နာကျင့်သုံးမှုပင်။

لِّيَجْزِيَ اللَّهُ الصَّادِقِينَ بِصِدْقِهِمْ وَيُعَذِّبَ الْمُنَافِقِينَ إِن شَاءَ أَوْ يَتُوبَ عَلَيْهِمْ ۚ إِنَّ اللَّهَ كَانَ غَفُورًا رَّحِيمًا ﴿٢٤﴾

၂၄။ (ယင်းကဲ့သို့ ဖြစ်ရခြင်းမှာ) အလ္လာဟ်အရှင်မြတ်သည် သစ္စာဝါဒီတို့အား ထိုသူတို့၏သစ္စာရှိမှုကြောင့် အစားပေးတော်မူအံ့သောငှာလည်းကောင်း၊ အကယ်၍ အလိုရှိတော်မူခဲ့ပါလျှင် မုနာဖစ်က် အယောင်ဆောင်မှစ်လင်မ်တို့အား ပြစ်ဒဏ် ပေးတော်မူအံ့သောငှာ သို့မဟုတ် (အလိုရှိတော်မူပါလျှင်) ထိုသူတို့၏ ဝန်ချတောင်းပန်ချက်ကို သဘောတူ လက်ခံတော်မူအံ့သောငှာလည်းကောင်း၊ ဖြစ်၏။ စကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးသနားတော်မူသော၊ အလွန်တရာ ကရုဏာပြုတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

② **မုအ်မင်န်တို့၏ ကတိတည်မှု၊ စွန့်စားမှု၊**

အထက်တွင် မုနာဖစ်က်များသည် "နောက်နောင် ကျွန်ုပ်တို့သည် စစ်မြေပြင်မှ ကျောခိုင်းသွားကြမည် မဟုတ်ပါ" ဟု ဝန်ခံကတိပြုကြ ပြီးနောက်သော်မှပင် မိမိတို့၏ကတိကို ချိုးဖောက်ခဲ့ကြသည့် အကြောင်းပါရှိသည်။ [ကြည့်-ကုရ်အာန် (၃၃:၁၄-၁၅)] ဤအာယတ်တော်တွင် မုအ်မင်န်များ ကတိတည်ခဲ့ကြသည့် အကြောင်းကို မိန့်ဆိုထားတော်မူသည်။ မုအ်မင်န်များသည် ကတိတည်ခဲ့ကြသည်။ ကတိပြုကြသည့်အတိုင်း လက်တွေ့ဆောင်ရွက်ခဲ့ကြသည်။ ဒုက္ခကြီးငယ်နှင့် ရင်ဆိုင်ရသည့် အချိန်အခါမျိုးမှာပင် အစ္စလာမ်နှင့်တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကို အသက်ပေး၍ ကာကွယ်ခဲ့ကြသည်။ အနည်းငယ်စိုးစဉ်းမျှပင် မသွေဖည်ခဲ့ကြပေ။ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)ထံတွင် ဆိုထားကြသည့် သစ္စာအဓိဋ္ဌာန်အပေါ်၌ သေသည့်တိုင်အောင် မယိမ်းမယိုင် ကျောက်တိုင်ပမာ ရပ်တည်နေခဲ့ကြပေသည်။

"မုအ်မင်န်တို့အနက် အချို့သည် မိမိတို့၏တာဝန်ကို ကျေပွန်စွာ ဆောင်ရွက်ပြီးချေပြီ" (ဝါ) စစ်ပွဲတွင် အသက်ပေး၍ 'ရှဟီးဒ်' ဖြစ်သွားခဲ့ချေပြီ။ ဥပမာ-(ဗဒ်ရ်၊ အုဟွဒ်စစ်ပွဲများတွင် သေဆုံးသွားခဲ့ကြချေပြီ)။ ၎င်းတို့တွင် (ဆွဟာဗီ) သာဝကကြီးအနတ်စ် အစ်ဗ်န နဿရ်သည် အထူးပင် ကျော်ကြားခဲ့ပေသည်။

မုအ်မင်န်တို့တွင် အချို့တို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ရှဟီးဒ်ဖြစ်ရန်၊ အသက်စွန့်ရန်၊ အခွင့်အလမ်းကို ဆန္ဒပြင်းပြစွာဖြင့် စောင့်မျှော်လျက် ရှိကြပေသည်၊

အထက်ဖော်ပြပါ မုအ်မင်န် နှစ်မျိုးနှစ်စားလုံးသည် မိမိတို့ထားရှိခဲ့ကြသော ကတိများကို ကောင်းစွာထိန်းသိမ်း နိုင်ခဲ့ကြပေသည်။ အနည်းငယ်စိုးစဉ်းမျှပင် မပြောင်းလဲခဲ့ကြပေ။

وَرَدَّ اللّٰهُ الَّذِيْنَ كَفَرُوْا بِغَيْظِهِمْ لَمْ يَنَالُوْا خَيْرًا ۭ وَكَفَى اللّٰهُ الْمُؤْمِنِيْنَ الْقِتَالَ ۭ وَكَانَ اللّٰهُ قَوِيًّا عَزِيْزًا ﴿٢٥﴾

၂၅။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် ကာဖိရ် သွေဖည်ငြင်းပယ်သော သူတို့အား ၎င်းတို့သည် မည်သည့် ကောင်းကျိုးကိုမျှ မရရှိခဲ့ကြဘဲ၊ ၎င်းတို့၏ အမျက်ဒေါသနှင့်တကွ ပြန်သွားစေတော်မူခဲ့၏။ [၁] ၎င်းပြင် စစ်မက်တိုက်ခိုက်ရာတွင် အလ္လာဟ်အရှင်မြတ်သည်ပင် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အဖို့ လုံလောက်တော်မူခဲ့၏။ စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ အားအင်ပြည့်စုံတော်မူသော၊ အလွန်တရာ လွှမ်းမိုးတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَاَنْزَلَ الَّذِيْنَ ظَاهَرُوْهُمْ مِّنْ اَهْلِ الْكِتٰبِ مِنْ صَيَاصِيْهِمْ وَقَذَفَ فِيْ قُلُوْبِهِمُ الرُّعْبَ فَرِيْقًا تَقْتُلُوْنَ وَتَاْسِرُوْنَ فَرِيْقًا ﴿٢٦﴾

၂၆။ ထိုမှတပါး ထိုအရှင်မြတ်သည် ၎င်းတို့အား ကူညီထောက်မခဲ့ကြကုန်သော ကျမ်းဂန်ရရှိသူတို့အား ၎င်းတို့၏ ခံတပ်များမှ ထွက်စေတော်မူခဲ့သည့်ပြင် ၎င်းတို့၏ စိတ်နှလုံးများတွင် ကြောက်ရွံ့ထိတ်လန့်မှုကို ထည့်သွင်းတော်မူခဲ့ရာ အသင်တို့သည် ၎င်းတို့အနက် လူတစုကို သတ်ဖြတ်လျက် ရှိကြပြီး၊ လူတစုကိုမူကား (သုံ့ပန်းများအဖြစ်) ဖမ်းဆီးချုပ်နှောင်ကြကုန်၏။ [၂]

---

(၁) ကာဖိရ်များသည် စစ်သည်အင်အား ကြီးမားစွာဖြင့် ရက်ပေါင်းများစွာ မုစ်လင်မ်တို့အား ဝိုင်းဝန်းတိုက်ခိုက်ကြသော်လည်း နောက်ဆုံးတွင် စစ်ရေးလည်းမသာ၊ ဥစ္စာပစ္စည်း တစ်စုံတစ်ရာလည်းမရရှိပဲ၊ ခဲလေသမျှသဲရေကျဖြစ်ကာ၊ ကြိတ်မနိုင်ခဲမရဖြစ်ကာ တပ်ခေါက်ပြန်သွားခဲ့ကြရပေသည်။ သို့ဖြစ်ကြရသည့်အထဲတွင် ၎င်းတို့၏ အကျော်အမော် စစ်ဗိုလ်တစ်ဦးဖြစ်သူ အမ်ရ်အစ်ဗ်နု ဝဒ္ဒသည် သာဝကကြီးအလီ၏ လက်ချက်ဖြင့် သေဆုံးသွားခဲ့ရလေသည်။

ကာဖိရ်များက "၎င်းတို့အား ၎င်းတို့၏စစ်ဗိုလ်၏ အသုဘအလောင်းကို ပြန်ပေးပါက ငွေတစ်သောင်း တိတိပေးပါမည်"ဟုဆိုရာ၊ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က "အသင်တို့သည် အသုဘအလောင်းကို ယူသွားကြ၊ ငါတို့သည် အသုဘအလောင်း၏ အဖိုးအခ စားသုံးသူများမဟုတ်"ဟု မိန့်ကြားတော်မူလိုက်လေသည်။

(၂) **ကုရိုင်ဇွာဟ် မျိုးနွယ်ဝင်များအား ဒဏ်ခတ်ခြင်း၊**

ကုရိုင်ဇွာဟ် မျိုးနွယ်ဝင်များသည် မဒီနာမြို့၏အရှေ့ဘက်တွင် ခိုင်ခံ့သောခံတပ်များ၌ ➤➤

➢➢ နေထိုင်ခဲ့ကြ၏။ ၎င်းတို့သည် မုစ်လင်မ်များနှင့် ချစ်ကြည်ရေး စာချုပ်ချုပ်ဆိုထားခဲ့၏။ သို့ချစ်ကြည်ရေး စာချုပ် ချုပ်ဆိုထားပါလျက်၊ ၎င်းတို့သည် နသ္ဒီရ်မျိုးနွယ်၏ခေါင်းဆောင် ဟွတ်ယ်အစ်ဗ်နုအခ်တွာဗ်၏ သွေးဆောင်မှုကြောင့် မုစ်လင်မ်တို့နှင့် ချုပ်ဆိုထားသော ချစ်ကြည်ရေးစာချုပ်ကို ချိုးဖောက်ကာ အဟ်ဇာဗ်စစ်ပွဲတွင် ကာဖိရ်မဟာမိတ် စစ်သည်များနှင့် ပူးပေါင်းသွားခဲ့ကြ၏။ အဟ်ဇာဗ် စစ်ပွဲဖြစ်ပွားနေစဉ် ကုရိုင်ဇွာဟ် မျိုးနွယ်ဝင်အချို့တို့သည် မုစ်လင်မ်အမျိုးသမီးများ အား တိုက်ခိုက်ရန်ပင် ကြိုးစားခဲ့ကြသေး၏။ ဆွဖိယဟ် သခင်မသည်ပင် ၎င်းတို့အား ဖွဲ့သတ္တိပြောင်မြောက်စွာ ခုခံနိုင်ခဲ့ပေသည်။

ကာဖိရ်မဟာမိတ် စစ်သည်များသည် အဟ်ဇာဗ်စစ်ပွဲမှ အကြံအစည်မအောင်မြင်ပဲ တပ်လန်ပြန်ကြရသည့်အခါ ကုရိုင်ဇွာဟ် မျိုးနွယ်ဝင်များသည်လည်း မိမိတို့၏ ခံတပ်များတွင် ခိုအောင်းနေခဲ့ကြလေသည်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အဟ်ဇာဗ်စစ်ပွဲ ပြီးဆုံးသွားသည့်အခါ ရေချိုးနေတော်မူစဉ် ကောင်းကင်တမန် ဂျိဗ်ရီလ်ရောက်ရှိလာပြီး ကုရိုင်ဇွာဟ် မျိုးနွယ်ဝင်များအား တိုက်ခိုက်ရန် အမိန့်တော် ပါလာကြောင်းလျှောက်ထားရာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့်တကွ မုစ်လင်မ် စစ်သည်များသည် ဆက်လက်စစ်ချီ၍ ကုရိုင်ဇွာဟ်မျိုးနွယ်ဝင်များအား ဝိုင်းဝန်းထားလိုက်ကြလေသည်။ သို့ဝိုင်းဝန်းထားခြင်းမှာ ရက်ပေါင်း (၂၄)၊ (၂၅) ရက်ခန့်ကြာခဲ့သည်။ နောက်ဆုံးတွင် ကုရိုင်ဇွာဟ်မျိုးနွယ်ဝင်များ သည် ဝိုင်းဝန်းထားခြင်းဒဏ်ကို မခံနိုင်ကြသည့်အခါ "ကျွန်ုပ်တို့သည် မိမိတို့ခံတပ်များမှ ထွက်လာကြပါမည်။ (အောက်စ်မျိုးနွယ်၏ခေါင်းဆောင်ဖြစ်သော သာဝကကြီး စအ်ဒ်အစ်ဗ်နုမုအာဇ်အား ခုံသမာဓိအဖြစ် တင်မြှောက် ကြပါမည်။ ၎င်း၏အဆုံးအဖြတ်ကို နာခံကြပါမည့်"အကြောင်း တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)ထံ စာရေးမေတ္တာရပ်ခံခဲ့ကြ၏။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည်လည်း ၎င်းတို့၏ မေတ္တာရပ်ခံချက်ကို လက်ခံတော်မူခဲ့၏။

ကုရိုင်ဇွာဟ်မျိုးနွယ်ဝင်များက အောက်စ်မျိုးနွယ်၏ခေါင်းဆောင်အား ခုံတင်ခြင်းမှာ ကုရိုင်ဇွာဟ်နှင့် အောက်စ်တို့သည် အချင်းချင်း မဟာမိတ်များ ဖြစ်ကြသည့်အတွက် ဆုံးဖြတ်ရာတွင် ၎င်းတို့အား ထောက်ထား မည်ကို မျှော်ကိုး၍ ခုံတင်ခဲ့ကြခြင်းဖြစ်သည်။

သာဝကကြီး စအ်ဒ်သည် မိမိ၏မဟာမိတ်ဖြစ်သော ကုရိုင်ဇွာဟ်မျိုးနွယ်အား လူ့သဘာဝအလျောက် အထူးပင်ငဲ့ညှာထောက်ထား လိုခဲ့ပေသည်။ သို့တစေလည်း တရားမျှတမှုကိုမူ အသို့လျှင် ကျော်ခိုင်းနိုင်ခဲ့အံ့နည်း။ နောက်ဆုံးတွင် သာဝကကြီးစအ်ဒ်သည် အောက်ပါအတိုင်း အဆုံးအဖြတ်ပေးခဲ့ပေသည်။

"ကုရိုင်ဇွာဟ်မျိုးနွယ်တွင် တိုက်ခိုက်သော ယောကျ်ားအားလုံးကို ကွပ်မျက်ရမည်။ အမျိုးသမီးများနှင့် ကလေးများကို ကျွန်အဖြစ် သိမ်းပိုက်ရမည်။ ကုရိုင်ဇွာဟ်မျိုးနွယ်၏ ဥစ္စာပစ္စည်းအားလုံးကိုလည်း လက်ရပစ္စည်း အဖြစ် သိမ်းယူရမည်။ ဤသည် ၎င်းတို့၏ သစ္စာဖောက်မှု၏ အကျိုးပင်ဖြစ်သည်"။

အထက်ပါ ဆုံးဖြတ်ချက်သည် "တောင်ရာတ်" ကျမ်းချက်နှင့်လည်း ညီသည်။

သာဝကကြီး စအ်ဒ်၏ အထက်ပါဆုံးဖြတ်ချက်အရ အကြိမ်ကြိမ် သစ္စာဖောက်ခဲ့ကြသော ကုရိုင်ဇွာဟ် မျိုးနွယ်ဝင်များအနက် ယောကျ်ားများ ကွပ်မျက်ခြင်းခံခဲ့ကြရသည်။ အမျိုးသမီးများနှင့် ကလေးများမှာ ဖမ်းဆီး ချုပ်နှောင်ခြင်း ခံခဲ့ကြရသည်။ ၎င်းတို့၏ ဥစ္စာပစ္စည်းများလည်း သိမ်းပိုက်ခြင်းခံခဲ့ရသည်။ ဤသည် သစ္စာဖောက်မှု၏ အကျိုးပင်။

ဤအကြောင်းကို စီရတွန်နဗီကျမ်း အစောင်(၁)၊ စာမျက်နှာ(၄၃၃-၄၄၀) တွင် အကျယ် တွေ့ရှိနိုင်ပေသည်။

وَاَوۡرَثَكُمۡ اَرۡضَهُمۡ وَدِيَارَهُمۡ وَاَمۡوَالَهُمۡ وَاَرۡضًا لَّمۡ تَطَـُٔوۡهَا ؕ وَكَانَ اللّٰهُ عَلٰى كُلِّ شَىۡءٍ قَدِيۡرًا ﴿۲۷﴾

၂၇။ ထိုမှတပါး ထိုအရှင်မြတ်သည် ထိုသူတို့၏ မြေကိုလည်းကောင်း၊ ထိုသူတို့၏ နေအိမ်များကိုလည်းကောင်း၊ ထိုသူတို့၏ ဥစ္စာပစ္စည်းများကိုလည်းကောင်း၊ ထို့ပြင် *အသင်တို့ ခြေမချရသေးသော မြေကိုလည်းကောင်း၊* [၁] အသင်တို့အား အမွေဆက်ခံစေတော်မူခဲ့၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

يٰۤاَيُّهَا النَّبِىُّ قُلْ لِّاَزۡوَاجِكَ اِنۡ كُنۡتُنَّ تُرِدۡنَ الۡحَيٰوةَ الدُّنۡيَا وَزِيۡنَتَهَا فَتَعَالَيۡنَ اُمَتِّعۡكُنَّ وَاُسَرِّحۡكُنَّ سَرَاحًا جَمِيۡلًا ﴿۲۸﴾

၂၈။ အို-နဗီတမန်တော်၊ အသင်သည် မိမိ ကြင်ရာတော်များအား ပြောကြားပါလေ။ အကယ်၍ အသင်မတို့သည် လောကီဘဝကိုလည်းကောင်း၊ ယင်းလောကီဘဝ၏ လှပတင့်တယ်မှုကိုလည်းကောင်း အလိုရှိကြပါလျှင်၊ အသင်မတို့လာကြပါကုန်၊ ငါသည် အသင်မတို့အား ကျေနပ်အောင်အကျိုးခံစားစေ၍ ကောင်းမွန်စွာ စွန့်လွှတ်လိုက်မည်။

وَاِنۡ كُنۡتُنَّ تُرِدۡنَ اللّٰهَ وَرَسُوۡلَهٗ وَالدَّارَ الۡاٰخِرَةَ فَاِنَّ اللّٰهَ اَعَدَّ لِلۡمُحۡسِنٰتِ مِنۡكُنَّ اَجۡرًا عَظِيۡمًا ﴿۲۹﴾

၂၉။ သို့ရာတွင် အကယ်၍ အသင်မတို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ တမလွန်ဘဝကိုလည်းကောင်း၊ ရည်စူးကြပါလျှင် မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် အသင်မတို့အနက် ကောင်းမြတ်သောအကျင့်သီလကို ဆောက်တည်ကြကုန်သော သူမတို့အဖို့ ကြီးကျယ်လှစွာသောအကျိုးကို အဆင်သင့် ပြုလုပ်၍ ထားရှိတော်မူသည်။ [၂]

---

(၁) ဤအာယတ်တော်တွင် "အသင်တို့ ခြေမချရသေးသောမြေ" ဟူသည် 'ခိုင်ဗရ်'မြေကို ဆိုလိုသည်။ မုစ်လင်မ်တို့သည် ကုရိုင်ဇွာဟ်မျိုးနွယ်ကို ဒဏ်ခတ်ပြီးနောက် (၂)နှစ်ရှိသောအခါ ခိုင်ဗရ်ကို သိမ်းပိုက်နိုင်ခဲ့ကြပေသည်။

အချို့အဆိုအရ အဆိုပါမြေသည် မက္ကာမြေကို ဆိုလိုသည်ဟူ၍လည်းကောင်း၊ အချို့က ပါရှား၊ ရောမ တိုင်းပြည်များကို ဆိုလိုသည်ဟူ၍လည်းကောင်း၊ အချို့က ကိယာမတ်တိုင် မုစ်လင်မ်တို့ အောင်နိုင် ➤➤

➤➤ သိမ်းပိုက်ကြမည့် မြေများကိုဆိုလိုသည်ဟူ၍ လည်းကောင်း အဆိုအမျိုးမျိုး ရှိပေသည်။

## ၂ ကြင်ရာတော်များအား ကြိုက်နှစ်သက်ရာ လမ်းတစ်သွယ်ကို ရွေးချယ်ရန်၊

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မိမိ၏ အာသာဆန္ဒအလျောက် စားဝတ်နေရေးတွင် အသုံးအစွဲကို ခြိုးခြံနိုင်သမျှ ခြိုးခြံတော်မူခဲ့၏။ ချို့တဲ့မှု၊ ပင်ပန်းမှု၊ ဆင်းရဲမှုတို့ကို သည်းခံတော်မူခဲ့၏။ အိမ်တော်သို့ရောက်ရှိလာသော ဥစ္စာပစ္စည်းနှင့် စားဖွယ်ရာများကိုလည်း မဆိုင်းမင့် ချက်ချင်းပင် လှူဒါန်းပေးကမ်းလေ့ရှိတော်မူခဲ့၏။ တစ်ခါတစ်ရံ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကြွေးမြီပင်ယူငင်၍ အိမ်တော်သူ၊ အိမ်တော်သားများ၏ စားဝတ်နေရေးကို ဖန်တီးတော်မူခဲ့ရရှာ၏။

(ခိုင်ဗရ်... စသည့်နယ်မြေများကို အောင်နိုင်သိမ်းပိုက်ပြီး နောက်ပိုင်းတွင်) မုစ်လင်မ်တို့၏ စားဝတ်နေရေးသည် အတော်ပင် အဆင်ပြေလာခဲ့၏။ ယင်းသည့်အခြေအနေကို တွေ့မြင်ကြရသောအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ကြင်ရာတော်များသည်လည်း လူ့သဘာဝအလျောက် စားဝတ်နေရေး အဆင်ပြေလိုခဲ့ကြ၏။ ထိုအခါ အချို့ကြင်ရာတော်များက တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတွင် စားဝတ်နေရေး အဆင်ပြေစေရန်အတွက် ယခင်ကထက် စားနပ်ရိက္ခာ အသုံးစရိတ်များကို ပိုမိုပေးတော်မူရန် မေတ္တာရပ်ခံခဲ့ကြ၏။ တောင်းဆိုခဲ့ကြ၏။

ယင်းသို့ စားဝတ်နေရေးနှင့်စပ်လျဉ်း၍ ကြင်ရာတော်များ၏ တောင်းဆိုချက်ကို ကြားရသောအခါ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် စိတ်မကောင်း ဖြစ်တော်မူခဲ့၏။ စိတ်ထိခိုက်တော်မူခဲ့၏။ ထိုအခါ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် "တစ်လတိုင်တိုင် အိမ်တော်သို့ ငါသွားမည်မဟုတ်"ဟု ကျိန်ဆို၍ ဗလီကျောင်းတော်အနီးရှိ အဆောင်တစ်ခု၏ လသာဆောင်တွင် တကိုယ်ရည်၊ တကာယတည်း စံနေတော်မူခဲ့၏။ အိမ်တော်၏ အိမ်တွင်းရေးမပြေလည်မှုကို သိရှိကြသော တပည့်သာဝကများသည်လည်း ပူပန်သောကဖြစ်ခဲ့ကြ၏။

သာဝကကြီး အဗူဗတ်ကရ်နှင့် သာဝကကြီး အုမ်ရ်နှစ်ပါးတို့သည် ဤပြဿနာ တနည်းတဖုံ ပြေလည်သွားစေရန် ကြံစည်နေခဲ့ကြ၏။ အထူးသဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ကြင်ရာတော်များတွင် အပါအဝင်ဖြစ်နေသော မိမိတို့၏သမီးနှစ်ဦး (အာအိရှဟ်၊ ဟဖ်ဆွဟ်) တို့နှင့် ပတ်သက်၍ ထိုသမီးနှစ်ဦးသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား စိတ်ဒုက္ခဖြစ်စေပြီး မိမိတို့၏နောင်ရေး ဖျက်ဆီးပစ်ကြမည်ကို စိုးရိမ်ပူပန်နေခဲ့ကြ၏။ ထိုအခါ သာဝကကြီးအဗူဗတ်ကရ်နှင့် သာဝကကြီးအုမ်ရ်သည် မိမိတို့၏သမီးများကို အသီးသီးနားချခဲ့ကြ၏။ ဆုံးမခဲ့ကြ၏။ ကြိမ်းမောင်းခဲ့ကြ၏။ ထို့နောက် အဆိုပါ သာဝကကြီးနှစ်ပါးသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံသွားပြီး ခင်မင်ရင်းနှီးစွာ စကားစမြည် ပြောဆိုခဲ့ကြ၏။ ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အနည်းငယ် စိတ်နလုံး ကြည်လင်လာတော်မူခဲ့၏။ တလကြာသော် ကြင်ရာတော်များသည် လမ်းနှစ်သွယ်အနက် ကြိုက်နှစ်သက်ရာ လမ်းတသွယ်ကို ရွေးချယ်ကြရမည့်အကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းလာ ဤအာယတ်တော် (၃၃:၂၈-၂၉) ကျရောက်လာခဲ့ပေသည်။

အဆိုပါ အာယတ်တော်များ၏အလိုသဘောမှာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ကြင်ရာတော်များအား ၎င်းတို့သည် လမ်းနှစ်သွယ်အနက် ကြိုက်နှစ်သက်ရာ လမ်းတသွယ်ကို ရွေးချယ်ကြရမည့် အကြောင်း၊ ကြင်ရာတော်များသည် လောကီစည်းစိမ်ကို ခုံမင်မက်မောကြပါက မိမိနှင့်ဆက်လက် ပေါင်းသင်း➤➤

يٰنِسَآءَ النَّبِيِّ مَنۡ يَّاۡتِ مِنۡكُنَّ بِفَاحِشَةٍ مُّبَيِّنَةٍ يُّضٰعَفۡ لَهَا الۡعَذَابُ ضِعۡفَيۡنِ ؕ وَكَانَ ذٰلِكَ عَلَى اللّٰهِ يَسِيۡرًا ۝٣٠

၃၀။ အို-နဗီတမန်တော်မြတ်၏ ကြင်ရာတော် အပေါင်းတို့၊ အသင်မတို့အနက် မည်သူမဆို ထင်ရှားစွာသော မဖွယ်မရာအမှုကိစ္စ တစ်စုံတစ်ခုကို ပြုလုပ်သည်ရှိသော် ၎င်းမှာ နှစ်ဆတိုး၍ ပြစ်ဒဏ်ပေးခြင်းကို ခံရပေမည်။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်၌ ယင်းကဲ့သို့ ပြုလုပ်ရန် လွယ်ကူပေသတည်း။ [၁]

---

➤➤ နေထိုင်ရန် မဖြစ်နိုင်ကြောင်း၊ (လင်ခန်း၊မယားခန်း ဖြတ်ခြင်းခံရသော အမျိုးသမီးများအား ဝတ်စုံစသည်များ ပေးရသည့် စည်းကမ်းချက်နှင့်အညီ) အနည်းငယ် အကျိုးခံစားခွင့်ပေးပြီး ကောင်းမွန်စွာ စွန့်လွှတ်မည်ဖြစ်ကြောင်း၊ (ဝ) တရားတော်နှင့်အညီ လင်ခန်း၊မယားခန်း ဖြတ်မည်ဖြစ်ကြောင်း၊ အကယ်၍ ကြင်ရာတော်များသည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ နှစ်သက်ကျေနပ်မှုကို လိုလားကြလျှင်၊ နောင်တမလွန်ဘဝ၏ ကောင်းမွန်မြင့်မြတ်သော သုခချမ်းသာများကို လိုလားကြလျှင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတော်တွင် ပိုနေမြဲကျားနေမြဲ ယခင်နည်းတူပင် နေထိုင်ကြရမည်ဖြစ်ကြောင်း၊ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတော်တွင် ကောင်းမွန်စွာ နေထိုင်ကြသော ကြင်ရာတော်များအဖို့ အလ္လာဟ်အရှင်မြတ်သည် ကြီးကဲမြင့်မြတ်သော ကုသိုလ်အကျိုးကို အသင့်စီစဉ်ထားတော်မူကြောင်းများကို အတည့်အလင်း ပြောကြားရန်ပင်ဖြစ်သည်။

ဤအာယတ်တော် ကျရောက်လာသည့်အခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အိမ်တော်သို့ ကြွလာပြီး ဦးစွာပထမ ကြင်ရာတော် အာအိရှဟ်အား ဤအာယတ်တော်ကို ပြောပြတော်မူ၏။ အာအိရှဟ်သခင်မသည် ဤအာယတ်တော်ကို ကြားနာရသည့်အခါ မဆိုင်းမငံ့ပဲ၊ "ကျွန်မသည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ နှစ်သက်မှုကိုသာ လိုလားပါသည်"ဟု လျှောက်ထားခဲ့လေသည်။ ထို့နောက် ကျန်ကြင်ရာတော် အားလုံးတို့ကလည်း အာအိရှဟ်သခင်မကဲ့သို့ပင် အသီးသီး လျှောက်ထားခဲ့ကြလေသည်။

ဤသို့ဖြင့် တမန်တော်မြတ်အိမ်တော်၏ အိမ်တွင်းရေး ပြဿနာပြေလည်သွားခဲ့လေသည်။ ကြင်ရာတော်များသည်လည်း လောကီစည်းစိမ် ခံစားရန် အတွေးကို အမေ့ကြီး မေ့သွားခဲ့ကြပြီး တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် အတူတကွ ခြိုးခြံစွာ စားဝတ်နေထိုင်ခဲ့ကြလေသည်။ ဤသို့ ခြိုးခြံစွာ စားဝတ်နေကြရသည်ကိုပင် အကျေနပ်ကြီးကျေနပ်၍ နေခဲ့ကြလေသည်။

**ကြင်ရာတော်များ၏ အဆင့်အတန်းမြင့်မားမှုနှင့် တာဝန်ကြီးလေးမှု၊**

၁ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ ကြင်ရာတော်များသည်၊ "တမန်တော်မြတ်၏ ကြင်ရာတော်များ"ဟူသော ဂုဏ်ပုဒ်နှင့်အညီ ၎င်းတို့၏ ကိုယ်ကျင့်တရား၊ အတွင်းသဘောထား ဂုဏ်သိက္ခာများသည် အခြားအမျိုးသမီးများနှင့်မတူ၊ တမူထူးခြားကြရပေမည်။ မြင့်မားကြရပေမည်။ ကြင်ရာတော်များသည် မုအ်မင်န်တို့၏မိခင်များလည်း ဖြစ်ကြပြန်ရာ မိခင်များ၌ သားသမီးတို့အား ထိန်းသိမ်းကွပ်ကဲရန် တာဝန်ရှိသည်နှင့်အညီ အပြောအဆို၊ အနေအထိုင်၊ အကျင့်အမူ စသည်တို့တွင် စံနမူနာများဖြစ်ကြရပေမည်။

တာဝန်ရှိသူတစ်ဦး၏ ချွတ်ချော်မှားယွင်းမှုသည် တာဝန်မရှိသူတစ်ဦး၏ ချွတ်ချော်မှားယွင်းမှုနှင့်မတူ၊ ပို၍ကြီးလေးသည်။ ရှေ့ဆောင်၏အပြစ်သည် အပြစ်တကာတို့၏ ရှေ့ဆောင်ပင်ဖြစ်သည်။ ➤➤

وَمَن يَقْنُتْ مِنكُنَّ لِلَّهِ وَرَسُولِهِ وَتَعْمَلْ صَالِحًا نُّؤْتِهَا أَجْرَهَا مَرَّتَيْنِ وَأَعْتَدْنَا لَهَا رِزْقًا كَرِيمًا ﴿٣١﴾

၃၁။ ထိုနည်းတူစွာ မည်သူမဆို အသင်မတို့အနက် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၏ အမိန့်တော်ကိုလည်းကောင်း၊ လိုက်နာသည်ရှိသော်၊ ၎င်းပြင် ကောင်းမြတ်သော အကျင့်သီလကို ဆောက်တည်သော် ငါအရှင်မြတ်သည် ၎င်းအား ၎င်း၏အကျိုးကို နှစ်ဆ ချီးမြှင့် ပေးသနားတော်မူပေမည်။ ထိုမှတပါး ငါအရှင်မြတ်သည် ၎င်း၏အဖို့ မြင့်မြတ်လှစွာသော ရိဇ္ဇာကိုလည်း အဆင်သင့်ပြုလုပ်၍ ထားရှိတော်မူပြီး ဖြစ်ချေသတည်း။ [၁]

يَا نِسَاءَ النَّبِيِّ لَسْتُنَّ كَأَحَدٍ مِّنَ النِّسَاءِ إِنِ اتَّقَيْتُنَّ فَلَا تَخْضَعْنَ بِالْقَوْلِ فَيَطْمَعَ الَّذِي فِي قَلْبِهِ مَرَضٌ وَقُلْنَ قَوْلًا مَّعْرُوفًا ﴿٣٢﴾

၃၂။ အို-နဗီတမန်တော်မြတ်၏ *ကြင်ရာတော် အပေါင်းတို့၊ အသင်တို့သည် အခြားအမျိုးသမီးများ ကဲ့သို့ မဟုတ်ကြချေ။* [၂] သို့ဖြစ်ပေရာ အကယ်၍ အပြစ်မှကြဉ်ရှောင်ကြပါလျှင် အသင်တို့သည် စကားပြောဆိုရာတွင် ကန့်ကလျ မရှိကြကုန်လင့်။ သို့ရှိခဲ့ကြပါလျှင် စိတ်တွင်း၌ ရောဂါရှိသောသူသည် ရမ္မက်ထားရှိလာပေမည်။ သို့ရာတွင် အသင်တို့သည် ထုံးစံ *အတိုင်းသာလျှင် စကားပြောဆိုမှုကိုပြုကြလေကုန်၊* [၃]

---

➤➤ ဥက္ကဋ္ဌ၏အပြစ်သည် အပြစ်တကာတို့၏ ဥက္ကဋ္ဌပင်ဖြစ်သည်။ သို့ဖြစ်ပေရာ တာဝန်ရှိသော၊ တာဝန်ကြီးလေးသော ကြင်ရာတော်များသည် အကယ်တန္တု မှားယွင်းချွတ်ချော်မိကြပါက အခြားအမျိုးသမီးများနှင့်မတူ ပြစ်ဒဏ်နှစ်ဆ ခံကြရပေမည်။ အလ္လာဟ်အရှင်မြတ်အထံတော်၌ မျက်နှာကြီး၊ မျက်နှာငယ်မရှိ၊ မျက်နှာကြီးမှုသည် ထိုအရှင်မြတ်အား ပြစ်ဒဏ်ခတ်တော်မူရာတွင် မည်သို့မျှ အဟန့်အတား မဖြစ်နိုင်ပေ။ ကြင်ရာတော်များသည် အပြောအဆို၊ အနေအထိုင်၊ အကျင့်အမူစသည်တို့တွင် စံနမူနာအဖြစ်နေထိုင်ကျင့်သုံးသွားခဲ့ကြသည်မှာ အစ္စလာမ့်သမိုင်းစဉ်တွင် အထင်အရှားပင်။ ကြင်ရာတော်များ၏ အတ္ထုပ္ပတ္တိများကို မိခင်မွန်ကျမ်းတွင် တွေ့ရှိနိုင်ပေသည်။

(၁) ကြင်ရာတော်များသည် အကယ်တန္တု ချွတ်ချော်မှားယွင်းမိပါက ပြစ်ဒဏ်နှစ်ဆ ခံကြရမည်ဖြစ်သကဲ့သို့ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ အမိန့်တော်များကို မြေဝယ်မကျ လိုက်နာကြပါက၊ အခြားကောင်းမြတ်သော အကျင့်သီလများကိုလည်း ဆောက်တည်ကြပါက၊ ကုသိုလ်အကျိုးကိုလည်း နှစ်ဆပင် စံစားကြရပေမည်။ ထိုမျှမက အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ဂျန္နတ်အမတသုခဘုံတွင် ထူးခြားမြင့်မြတ်လှသော သီးသန့်ရိဇ္ဇာတော်ကိုလည်း ချီးမြှင့်တော်မူဦးမည်ဖြစ်ပေသည်။ ကြည့်-ထာနဝီ။

وَقَرْنَ فِي بُيُوتِكُنَّ وَلَا تَبَرَّجْنَ تَبَرُّجَ الْجَاهِلِيَّةِ الْأُولَىٰ وَأَقِمْنَ الصَّلَاةَ وَآتِينَ الزَّكَاةَ وَأَطِعْنَ اللَّهَ وَرَسُولَهُ

၃၃။ ထိုမှတပါး *အသင်တို့သည် မိမိတို့နေအိမ်များ၌ပင်တည်ငြိမ်စွာနေကြလေကုန်၊* [၁] ထို့ပြင် ရှေးဟောင်းအမိုက်ခေတ်တွင် မိမိတို့ကိုယ်ကို ပြကြသကဲ့သို့ အသင်တို့သည် မိမိတို့ကိုယ်ကို မပြကြကုန်လင့်။ ၎င်းပြင် အသင်တို့သည် 'ဆွလာတ်' ဝတ်ပြုမှုကို ဆောက်တည်ကြလေကုန်။ ထို့ပြင် အသင်တို့သည် 'ဇကာတ်' ပေးဆောင်ကြလေကုန်။ ထိုမှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ် အမိန့်တော်ကိုလည်းကောင်း၊ *လိုက်နာကြလေကုန်။* [၂]

---

**(၂) ကြင်ရာတော်များသည် အခြားအမျိုးသမီးများနှင့် မတူ၊**

ကြင်ရာတော်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ကြင်ရာတော်များဖြစ်ကြသည်။ မုအ်မင်န်တို့၏မိခင်များဖြစ်ကြသည်။ ကြင်ရာတော်များသည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားကြပါက (ကြောက်ရွံ့ရိုသေ ခန့်ညားခဲ့ကြသည်လည်း ဖြစ်ပေသည်) ထိုအရှင်မြတ်ထံတော်၌ ၎င်းတို့၏ အဆင့်အတန်းသည် မြင့်မားလှပေမည်။ အကယ်တန္လ ကြင်ရာတော်များသည် ကြင်ရာတော်များဖြစ်ကြပါလျက်၊ ချွတ်ချော်မှားယွင်းကြပါက ပြစ်ဒဏ် နှစ်ဆခံကြရပေမည်။ ထို့အတူ ကြင်ရာတော်များသည် ကောင်းမှုကုသိုလ် ဖြည့်ဆည်းကြပါက ကုသိုလ်အကျိုး နှစ်ဆရရှိကြပေမည်။ အချုပ်ဆိုသော် ကြင်ရာတော်များသည် အကောင်းပြုကြသည်ဖြစ်စေ၊ မကောင်းပြုမိကြသည်ဖြစ်စေ၊ သာမန်အမျိုးသမီးတို့နှင့်မတူ၊ တမူထူးခြားကြပေသည်။

**(၃) ကန္ဒဲ့ကလျ မပြောဆိုကြရ၊**

ကြင်ရာတော်များသည် သူစိမ်းယောကျ်ားများနှင့် စကားစမြည် ပြောဆိုရန် အကြောင်းကြုံကြိုက်လာပါက ကန္ဒဲ့ကလျ ပျော့ပျော့ပျောင်းပျောင်း၊ မူရာမာယာနှင့် မပြောဆိုကြရ၊ အမျိုးသမီးတို့ဘာဝ၊ မူမူရာရာပြောဆိုကြပါက စိတ်တွင်း၌ရောဂါရှိသော အတွင်းသဘော မဖြူစင်သောသူများသည် စိတ်ဖောက်ပြန်ကာ မလျော်ကန်သော ရမ္မက်များထားမိကြပေမည်။ မိမိတို့၏နောင်ရေးကို ဖျက်ဆီးကြပေမည်။ ထို့အတွက် ကြင်ရာတော်များသည် အထူးသဖြင့် သူစိမ်းယောကျ်ားများနှင့် စကားစမြည်ပြောဆိုရာတွင် မိခင်များကသားများကို ပြောဆိုသကဲ့သို့ သိက္ခာရှိစွာ၊ တည်ကြည်စွာ ပြောဆိုကြရပေမည်။

**(၁) အမျိုးသမီးများ အကြောင်းမဲ့ အိမ်ပြင်မထွက်ရာ။**

အစ္စလာမ်သာသနာမထွန်းကားမီ၊ အမိုက်ခေတ်တွင် အမျိုးသမီးများသည် (ဟိဂျာဗ်)၊ (ပရ်ဒဟ်) Veil, Cover အဖုံးအအုပ်၊ အကာအကွယ် ထားရှိလေ့ မရှိခဲ့ကြသည်သာမက မိမိတို့၏ကိုယ်ခန္ဓာနှင့် အဝတ်အစားများ၏အလှကိုပင် အရှက်ကင်းမဲ့စွာဖြင့် အထင်အရှား ပြသလေ့ရှိခဲ့ကြပေသည်။ အစ္စလာမ်ထွန်းကားလာသည့်အခါ ဤသည့်အရှက်ကင်းမဲ့မှုကို အသိုလ္လင်လျစ်လျူပြုထားနိုင်အံ့နည်း။ ထို့အတွက် အစ္စလာမ်က အမျိုးသမီးများအား အိမ်ပြင်သို့သွားလာရန် အကြောင်းထူးမရှိပါက အိမ်မှာပင်နေထိုင်ကြရန်၊ အိမ်ပြင်သို့ ➤➤

إِنَّمَا يُرِيدُ اللَّهُ لِيُذْهِبَ عَنكُمُ الرِّجْسَ أَهْلَ الْبَيْتِ وَيُطَهِّرَكُمْ تَطْهِيرًا ﴿٣٣﴾

အို-(နဗီတမန်တော်မြတ်၏) အိမ်တော်သူ အိမ်တော်သားတို့၊ အလ္လာဟ်အရှင်မြတ်သည် အသင်တို့မှ မစင်ကြယ်မှုကို ပပျောက်စေတော်မူရန်နှင့် အသင်တို့အား ကောင်းမွန်စွာ စင်ကြယ် သန့်ရှင်းတော်မူရန်ကိုသာလျှင် ရည်စူးတော်မူ၏၊ [၁]

---

➤➤ သွားလာရန်အကြောင်းထူးရှိ၍ မသွားမဖြစ်ပါက ဟိဂျာဗ်၊ ပရ်ဒဟ်နှင့် ဖုံးဖုံးဖိဖိ သိက္ခာရှိရှိ၊ ကာယိန္ဒြေရှိရှိ သွားလာကြရန် ပညတ်ထားသည်။ ဤသည့်ပညတ်တော်ကို မုစ်လင်မ်အမျိုးသမီးတိုင်း လိုက်နာကြရမည်ဖြစ်ရာ ကြင်ရာတော်များသည် ပိုမို၍လိုက်နာကြရမည်သာ ဖြစ်ပေသည်။

မုစ်လင်မ်အမျိုးသမီးများသည် သာသနာရေးကိစ္စအတွက်ဖြစ်စေ၊ သဘာဝကိစ္စအတွက်ဖြစ်စေ၊ အပြင်သို့ သွားရန် အကြောင်းပေါ်က အနှောင့်အယှက်၊ အန္တရာယ်လည်းမရှိက ဖြီးလိမ်းပြင်ဆင်မှု မရှိပဲ၊ ဟိဂျာဗ်၊ပရ်ဒဟ်နှင့် ဖုံးဖိလုံခြုံစွာ သွားလာနိုင်ကြပေသည်။ ဤသည့်ခွင့်ပြုချက်သည် ကျမ်းဂန်များတွင် အတည့်အလင်းပါရှိပေသည်။ အထက်ပါစည်းကမ်းချက်နှင့်အညီ ကြင်ရာတော်များသည်ပင်လျှင် အိမ်ပြင်သို့သွားလာခဲ့ကြသည့် အစဉ်အလာများ ရှိခဲ့ပေသည်။ ပိတ်ပင်ချက်မရှိခဲ့ပေ၊ သို့ပင်တစေ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဩဝါဒတော်များကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အမျိုးသမီးများ အကြောင်းမဲ့ အိမ်ပြင်ထွက်ခြင်းကို နှစ်သက်တော်မမူကြောင်း၊ အိမ်ရှင်မပီပီ၊ အိမ်တွင်းမှာ တည်ငြိမ်စွာနေထိုင်၍ အိမ်တွင်းရေးရာများ ဆောင်ရွက်ကြသည်ကိုသာ နှစ်သက်တော်မူကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

အမျိုးသမီးများ၏ "စတ်ရ်" လုံးဝဖုံးဖိထားအပ်သည့် ကိုယ်အင်္ဂါအစိတ်အပိုင်းများအကြောင်း ကုရ်အာန် (၂၄း၃၁)တွင် ပါရှိခဲ့ချေပြီ။

(၂) ကြင်ရာတော်များသည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၏ ကြင်ရာတော်များဖြစ်ကြပေရာ တပည့်သားတို့အဖို့ စံနမူနာဖြစ်ကြသည့်အလျောက် ဆွလာတ်ဆောက်တည်မှု၊ ဇကာတ်ပေးဆောင်မှု၊ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ အမိန့်နာခံမှုများတွင် အခြားမုစ်လင်မ် အမျိုးသမီးများထက်ပင် အထူးတလည် ပိုမို၍ဂရုမူကြရပေမည်။

** ဤအာယတ်တော်များတွင် ကြင်ရာတော်များအား တိုက်ရိုက်ရည်ညွှန်း မိန့်ဆိုထားတော်မူသော်လည်း ကျန်မုစ်လင်မ် အမျိုးသမီးအားလုံး တို့သည်လည်း ယင်းတွင်အကျုံးဝင်ပေသည်။

**(၁) "အဟ်လိဗိုက်တ်" အိမ်တော်သူအိမ်တော်သားများ၏ စင်ကြယ်သန့်ရှင်းမှု၊**

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ အိမ်တော်သူ၊ အိမ်တော်သားများအား အမိန့်ပညတ်တော်များကို အထူးတလည် လိုက်နာကျင့်သုံးစေတော်မူလိုပြီး ၎င်းတို့၏ ဂုဏ်အင်ဒြေပ်များနှင့် လျော်ညီစွာ ၎င်းတို့၏စိတ်နှလုံးနှင့် ကိုယ်ကျင့်တရားများကို သူမတူအောင် စင်ကြယ်သန့်ရှင်းစေတော်မူလိုသည်။

ဤအာယတ်တော်တွင်ပါရှိသော စင်ကြယ်သန့်ရှင်းမှုသည် ကုရ်အာန် (၅း၆)တွင် 'ဝုသူ' အကြောင်း၌ ပါရှိသော ခြေ၊လက်သန့်ရှင်းမှုမျိုးကိုလည်း ဆိုလိုသည်မဟုတ်၊ ကုရ်အာန် (၈း၁၁)တွင် ဗဒ်ရ်အကြောင်း၌ပါရှိသော ကိုယ်ခန္ဓာ သန့်ရှင်းမှုမျိုးကို ဆိုလိုသည်လည်းမဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ 'ဝလီ'၊ 'အောင်လိယာ' ➤➤

وَاذْكُرْنَ مَا يُتْلَىٰ فِي بُيُوتِكُنَّ مِنْ آيَاتِ اللَّهِ وَالْحِكْمَةِ ۚ إِنَّ اللَّهَ كَانَ لَطِيفًا خَبِيرًا ﴿٣٤﴾

၃၄။ ထိုမှတပါး အသင်တို့သည် မိမိတို့အိမ်များတွင် ဖတ်ကြားခြင်းခံရလေသော အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကိုလည်းကောင်း၊ ဉာဏ်ပညာများကို လည်းကောင်း၊ ကျက်မှတ်ကြလေကုန်။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ သိမ်မွေ့တော်မူသောအရှင်၊ အလွန်တရာ ကြားသိတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

---

➤➤ အချစ်တော်များ ရရှိထားကြသော စိတ်နှလုံးစင်ကြယ် သန့်ရှင်းမှု၊ အတွင်းသဘောဖြူစင်မှုကိုသာဆိုလိုသည်။ ယင်းသို့ စိတ်နှလုံး စင်ကြယ်သန့်ရှင်းမှု၊ အတွင်းသဘော ဖြူစင်မှုကိုရရှိကြသော သူတော်စင်များသည် နဗီ၊ ရစူလ်တမန်တော်များကဲ့သို့ 'မအ်ဆူမ်' လုံးဝအပြစ်ကင်းသူများ မဟုတ်ကြသော်လည်း "မဟ်ဖူဇ်" အလ္လာဟ် အရှင်မြတ်၏ ထိန်းသိမ်း စောင့်ရှောက်တော်မူခြင်းကို အထူးတလည် ခံကြရမည်မှာ အမှန်ပင်ဖြစ်ပေသည်။

**"အဟ်လိဗိုက်တ်"**

ကုရ်အာန်ကျမ်းလာ အာယတ်တော်များ၏ အစီအစဉ်၊ အနေအထား၊ အသွားအလာ အသုံးအနှုန်းများကို အထူးလေ့လာ လိုက်စားသူများအဖို့ ဤအာယတ်တော်တွင် ပါရှိသည့် "အဟ်လိဗိုက်တ်"တွင် ကြင်ရာတော်များ ပါဝင်ကြသည်မှာ ထင်ရှားလှပေသည်။ အဘယ်ကြောင့်ဆိုသော် ဤအာယတ်တော်နှင့်တကွ ဤအာယတ်တော်၏ ရှေ့နောက်ရှိ အာယတ်တော်များသည် ကြင်ရာတော်များအား တိုက်ရိုက်ရည်ညွှန်း မိန့်ဆိုထားတော်မူသော အာယတ်တော်များသာ ဖြစ်ပေသည်။

အာယတ်တော် (၃၃း၃၃-၃၄)၌ ( بيوتكن ) "ဗုယူတိကွန္န" "အသင်မတို့၏အိမ်များ" တွင်ပါရှိသော 'အသင်မတို့'ဟူသော နာမ်စားသည် ကြင်ရာတော်များကိုပင် ရည်ညွှန်းပေသည်။ ထို့ပြင်တဝ ကုရ်အာန် ကျမ်းမြတ်တွင် ဤသည့် 'အဟ်လိဗိုက်တ်' ဟူသော အသုံးအနှုန်းကို များသောအားဖြင့် ဤသည့်အနက်၌ပင် သုံးနှုန်းထားတော် မူသည်ကိုသာ တွေ့ရှိရပေသည်။ ကြည့်-ကုရ်အာန် (၁၁း၇၃၊ ၁၂း၂၃၊ ၆၅း၁)၊

ဤအာယတ်တော်များတွင် ကြင်ရာတော်များအား အဓိကရည်ညွှန်း မိန့်ဆိုထားတော်မူပေရာ 'အလ်လိဗိုက်တ်' တွင် ကြင်ရာတော်များ အမှန်မုချပါဝင်ကြသည်မှာ ထင်ရှားလှပေသည်။ ထို့အတူ 'အဟ်လိဗိုက်တ်'တွင် သားတော်၊ သမီးတော်များ၊ သားမက်တော်များလည်း ပါဝင်ကြပေသည်။ အချို့သဘောတရား အဖြစ်အနေများအရဆိုသော် သားတော်၊ သမီးတော်များနှင့် သားမက်တော်များသည် 'အဟ်လိဗိုက်တ်' ဟူသော အသုံးအနှုန်းနှင့်ပို၍ပင် ထိုက်တန်ကြပေသည်။

တမန်တော်မြတ်က သမီးတော် ဖာတွိမဟ်၊ သားမက်တော်အလီ၊ မြေးတော်ဟာစန်နှင့် မြေးတော် ဟူစိုင်န်တို့အား မိမိ၏ဝတ်ရုံတော်ဖြင့်ရုံ၍ ( اللّهم هؤلاء أهل بيتى ) "အို... အလ္လာဟ် ဤပုဂ္ဂိုလ်များသည် ကျွန်တော်မျိုး၏အိမ်သူအိမ်သားများ ဖြစ်ကြပါသည်"ဟု လျှောက်ထားခြင်း၊ သမီးတော်အိမ်အနီးမှ ဖြတ်သန်း သွားတော်မူစဉ် (الصلوٰة يا أهل البيت يريد الله ليذهب عنكم الرجس) "အိမ်တော်သူ အိမ်တော်သားများ၊ ဆွလာတ်......" စသည်ဖြင့် အသံပြုတော်မူခဲ့ခြင်းမှာလည်း ဤသည့်သဘောကို ထင်ရှားစေတော်မူရန်ပင် ဖြစ်ပေသည်။

إِنَّ الْمُسْلِمِينَ وَالْمُسْلِمَٰتِ وَالْمُؤْمِنِينَ وَالْمُؤْمِنَٰتِ وَالْقَٰنِتِينَ وَالْقَٰنِتَٰتِ وَالصَّٰدِقِينَ وَالصَّٰدِقَٰتِ وَالصَّٰبِرِينَ وَالصَّٰبِرَٰتِ وَالْخَٰشِعِينَ وَالْخَٰشِعَٰتِ وَالْمُتَصَدِّقِينَ وَالْمُتَصَدِّقَٰتِ وَالصَّٰٓئِمِينَ وَالصَّٰٓئِمَٰتِ وَالْحَٰفِظِينَ فُرُوجَهُمْ وَالْحَٰفِظَٰتِ وَالذَّٰكِرِينَ اللَّهَ كَثِيرًا وَالذَّٰكِرَٰتِ أَعَدَّ اللَّهُ لَهُم مَّغْفِرَةً

၃၅။ မုချဧကန် "မုစ်လင်မ်" ယောကျာ်းများသည်လည်းကောင်း၊ "မုစ်လင်မ်" မိန်းမများသည်လည်းကောင်း၊ "မုအ်မင်န်" ယောကျာ်းများသည်လည်းကောင်း၊ "မုအ်မင်န်" မိန်းမများသည်လည်းကောင်း၊ အမိန့်တော်ကို လိုက်နာကြသည့် ယောကျာ်းများသည်လည်းကောင်း၊ အမိန့်တော်ကိုလိုက်နာသည့်မိန်းမများသည်လည်းကောင်း၊ သစ္စာဝါဒီယောကျာ်းများသည်လည်းကောင်း၊ သစ္စာဝါဒီ မိန်းမများသည်လည်းကောင်း၊ သည်းခံကြကုန်သောယောကျာ်းများသည်လည်းကောင်း၊ သည်းခံကြကုန်သောမိန်းမများသည်လည်းကောင်း၊ နိဝါတတရားထားရှိကြသော ယောကျာ်းများသည်လည်းကောင်း၊ နိဝါတတရားထားရှိကြသောမိန်းမများသည်လည်းကောင်း၊ အလှူဒါနပြုကြကုန်သော ယောကျာ်းများသည်လည်းကောင်း၊ အလှူဒါနပြုကြကုန်သော မိန်းမများသည်လည်းကောင်း၊ ဆွမ်ယာမ် ဥပုသ်သီလ ဆောက်တည်ကြကုန်သော ယောကျာ်းများသည်လည်းကောင်း၊ ဆွမ်ယာမ် ဥပုသ်သီလ ဆောက်တည်ကြကုန်သော မိန်းမများသည်လည်းကောင်း၊ မိမိတို့၏ အရှက်အင်္ဂါများကို စောင့်ထိန်းကြကုန်သော ယောကျာ်းများသည်လည်းကောင်း၊ မိမိတို့၏အရှက်အင်္ဂါများကို စောင့်ထိန်းကြကုန်သောမိန်းမများသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား များစွာ အောက်မေ့တသ၊ သတိရကြကုန်သောယောကျာ်းများသည်လည်းကောင်း၊ အောက်မေ့တသ သတိရကြကုန်သောမိန်းမများသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့ (အားလုံးတို့)အဖို့ (အပြစ်မှ)လွတ်ငြိမ်းချမ်းသာခွင့်နှင့် ကြီးကျယ်လှစွာသောအကျိုးကို အဆင်သင့်ပြုလုပ်စီမံ၍

ထားရှိပြီး ဖြစ်တော်မူပေသတည်း။ ¹

وَّاَجۡرًا عَظِيۡمًا ۝٣٥

① **ထုတ်ပြန်ပို့ချတော်မူသည့်အကြောင်း၊**

တခါသော် အချို့မုစ်လင်မ် အမျိုးသမီးများသည် ကြင်ရာတော်များထံလာပြီး "ကုရ်အာန်ကျမ်းမြတ်တွင် ရှင်တို့အကြောင်း ပါရှိသည်၊ ကျွန်မတို့အကြောင်း မပါရှိပါ"ဟု ပြောဆိုကြရာ ဤအာယတ်တော် ကျရောက်လာခဲ့ပေသည်။ ကြည့်-ထာနဝီ။ အချို့ (ရိဝါယတ်)ကျမ်းချက်များအရ၊ ကြင်ရာတော် စလမဟ်သခင်မက တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံတွင် "တမန်တော်မြတ်၊ ကုရ်အာန်ကျမ်းမြတ်တွင် အမျိုးသားများ၏ အကြောင်းများ ပါရှိပါသည်၊ အမျိုးသမီးများ၏ အကြောင်းမပါရှိပါ၊ အသို့ပါနည်း" ဟု လျှောက်ထားသည်တွင် ဤအာယတ်တော် ကျရောက်ခဲ့ပေသည်။ ကြည့်-အစ်ဗ်နူကဆီရ်။

**မုစ်လင်အမျိုးသား အမျိုးသမီးတိုင်း၌ ရှိအပ်သည့် ဂုဏ်ရည်များ၊**

ကုရ်အာန်ကျမ်းမြတ်တွင် အမျိုးသားများ နှင့်ပတ်သက်၍ ကျရောက်ခဲ့သော အမိန့်ပညတ်တော်များသည် များသောအားဖြင့် အမျိုးသမီးများနှင့်လည်း သက်ဆိုင်ပေသည်။ အမျိုးသမီးများအဖို့ ခွဲခြားပြီး အမိန့်ထုတ်ရန်ပင် မလိုပေ။ အမျိုးသမီးများအား နှစ်သိမ့်စေတော်မူရန် အလို့ငှာသာ၊ ဤအာယတ်တော်ကို ထုတ်ပြန်ပို့ချတော်မူခြင်း ဖြစ်သည်။ အမျိုးသမီးများနှင့်သာ သက်ဆိုင်သော အမိန့်ပညတ်တော်များကိုမူ ထုတ်ပြန်ထားတော် မူပြီးဖြစ်ပေသည်။

ဆိုလိုသည်ကား အမျိုးသားဖြစ်စေ၊ အမျိုးသမီးဖြစ်စေ၊ မည်သူ၏ ကြိုးပမ်းဆောင်ရွက်မှုမျှ အလ္လာဟ် အရှင်မြတ်ထံတော်၌ အချည်းနှီးဖြစ်သည်မရှိ။ ကြည့်-ကုရ်အာန် (၃း၁၉၄။ ၄း၁၂၄။ ၁၆း၉၇။ ၄၀း၄၀) အစ္စလာမ်သာသနာရေးရာများတွင် တိုးတက်ပွားများ ဆောက်တည်နိုင်ရန် အမျိုးသားများအတွက် အခွင့်အလမ်း များကို ဖွင့်ပေးထားတော်မူသကဲ့သို့ အမျိုးသမီးများအဖို့လည်း ဖွင့်ပေးထားတော်မူပေသည်။

ဤအရေးတွင် အမျိုးသား၊ အမျိုးသမီးဟူ၍ ခွဲခြားလျက် အလျှင်းမရှိပေ။

မုစ်လင်မ် အမျိုးသား၊ အမျိုးသမီးတိုင်း၌ ရှိအပ်သည့် ဂုဏ်ရည်များမှာ အောက်ပါအတိုင်းဖြစ်သည်။

(၁) အစ္စလာမ်၏ကျင့်စဉ်များဖြစ်သည့် ဆွလာတ်၊ ဆွိယာမ်၊ ဇကာသ်၊ဟဂျ် စသည်များကို ဆောက်တည်ခြင်း၊

(၂) မှန်ကန်သော ယုံကြည်ချက်များအပေါ်၌ ရပ်တည်နေခြင်း၊

(၃) ကြည်ဖြူစွာနာခံခြင်း၊

(၄) အရေးကိစ္စအဝဝတွင် မှန်ကန်စွာပြောဆိုကျင့်မူခြင်း၊

(၅) သည်းခံခြင်း၊ ခံနိုင်ရည်ရှိခြင်း၊

(၆) ကျိုးနွံခြင်း၊ နိဝါတတရားလက်ကိုင်ထားခြင်း၊

(၇) ပေးကမ်းလှူဒါန်းခြင်း၊

(၈) (ဆွိယာမ်) ဥပုသ်ဆောက်တည်ခြင်း၊

(၉) ကာယိန္ဒြေထိန်းသိမ်းခြင်း၊

(၁၀) အလ္လာဟ်အရှင်မြတ်အား များစွာအောက်မေ့ တသ သတိရခြင်း။

အထက်ပါဂုဏ်ရည်များသည် ကျား/မမရွေး မုစ်လင်မ်တိုင်း၌ရှိအပ်သော ဂုဏ်ရည်များပင် ဖြစ်ပေသည်။ ယင်းသည့် ဂုဏ်ရည်များနှင့် ပြည့်စုံကြကုန်သော မုစ်လင်မ်အမျိုးသား၊ အမျိုးသမီးတို့အဖို့ အလ္လာဟ်အရှင်မြတ် ထံတော်၌ လွတ်ငြိမ်းချမ်းသာခွင့်နှင့် ကြီးကျယ်လှစွာသော ကုသိုလ်အကျိုးများသည် အသင့်ရှိပေသည်။

وَمَا كَانَ لِمُؤْمِنٍ وَلَا مُؤْمِنَةٍ إِذَا قَضَى ٱللَّهُ وَرَسُولُهُۥٓ أَمْرًا أَن يَكُونَ لَهُمُ ٱلْخِيَرَةُ مِنْ أَمْرِهِمْ ۗ وَمَن يَعْصِ ٱللَّهَ وَرَسُولَهُۥ فَقَدْ ضَلَّ ضَلَٰلًا مُّبِينًا ﴿٣٦﴾

၃၆။ မည်သည့် "မုအ်မင်န်" သက်ဝင်ယုံကြည်သူ ယောကျ်ားတစ်ဦးဦး၌ဖြစ်စေ၊ မည်သည့် သက်ဝင်ယုံကြည်သူ မိန်းမတစ်ဦးတစ်ယောက်၌ဖြစ်စေ၊ အရေးကိစ္စ တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်သည်လည်းကောင်း၊ အမိန့် ချမှတ်တော်မူလိုက်ပါလျှင် ၎င်းတို့၏ (ထို)အရေးကိစ္စနှင့်စပ်လျဉ်း၍ ၎င်းတို့၌ ရွေးချယ်ပိုင်ခွင့်သည် (လုံး၀)မရှိတော့ပြီ။ [၁]

စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၏ အမိန့်တော်ကိုလည်းကောင်း၊ ဖီဆန်သည်ရှိသော် ဧကန်မလွဲ ထိုသူသည် ထင်ရှားလှစွာသောလမ်းလွဲခြင်းသို့ ရောက်ရှိခဲ့ချေပြီတကား။

---

(၁) လောကီရေးကိစ္စပင်ဖြစ်စေ၊ လောကုတ္တရာရေး ကိစ္စပင်ဖြစ်စေ၊ အရေးကိစ္စတစ်ရပ်ရပ်နှင့် စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က အတိအကျ အမိန့်ချမှတ်တော်မူလိုက်ပြီးသည့်နောက်ပိုင်းတွင် မည်သည့်မုအ်မင်န်ယောကျ်ား၊ မည်သည့်မုအ်မင်န်မိန်းမ၌မျှပင် မိမိကြိုက်နှစ်သက်ရာကို ပြုပိုင်ခွင့်၊ ရွေးချယ်ပိုင်ခွင့် အလျင်းမရှိတော့ပေ။ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ချမှတ်တော်မူသည့် အမိန့်တော်ကိုသာ ဦးလည်မသုံ လိုက်နာကျင့်သုံး ကြရမည်သာဖြစ်သည်။

ဤအာယတ်တော်သည် ဓမ္မခိဋ္ဌာန်ဖြစ်သည်။ အရေးကိစ္စအ၀ဝနှင့်သက်ဆိုင်သည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ လက်ထက်တော်တွင် ဖြစ်ပေါ်ခဲ့သည့် ပြဿနာတစ်ရပ်ကိုလည်း ရည်ညွှန်းထားသည်။ ထိုပြဿနာကား အခြားမဟုတ်၊ သာ၀ကကြီးဇိုက်ဒ်နှင့်ဇိုင်နဗ် သခင်မတို့၏ ထိမ်းမြားရေးပင်။

**သာ၀ကကြီးဇိုက်ဒ်နှင့် ဇိုင်နဗ်သခင်မ။**

ဇိုင်နဗ်သခင်မသည် အဗ်ဒုလ်မွတ္တလိဗ်၏ သမီးဖြစ်သူ အုမိုင်မဟ်၏ သမီးလည်း ဖြစ်သည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ တ၀မ်းကွဲနှမလည်းဖြစ်သည်။ ကုရိုက်ရှ်မျိုးနွယ်ဝင် မျက်နှာကြီး တစ်ဦးလည်းဖြစ်သည်။ စိတ်လည်းထက်မြက်သည်။ တမန်တော်မြတ်သည် ဇိုင်နဗ်သခင်မအား သာ၀ကကြီး ဇိုက်ဒ်နှင့် ထိမ်းမြားပေးလိုတော်မူခဲ့ပေသည်။

သာ၀ကကြီးဇိုက်ဒ်သည် အမှန်မှာ မျိုးရိုးဇာတိ ကောင်းမြတ်သော အရဗ်တစ်ဦးပင် ဖြစ်ခဲ့သည်။ သို့ပင်တစေ ငယ်ရွယ်စဉ်အခါတွင် မတရားကျူးကျော်စော်ကားသူတစ်ဦးသည် ၎င်းအားဖမ်းဆီးပြီး မက္ကာမြို့၏ ဈေးတွင် ကျေးကျွန်အဖြစ် ရောင်းစားခဲ့လေသည်။ ခဒီဂျဟ်သခင်မသည် ၎င်းအား ဝယ်ထားလိုက်ပြီး မျှားမကြာမီပင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား (ဟိဗဟ်)အဖြစ် ပေးလှူခဲ့လေသည်။ ➢➢

▶▶ ဇိုက်ဒ်သည် လူလားမြောက်သော် တစ်နေ့ အရောင်းအဝယ်ကိစ္စနှင့် မိမိ၏နေရင်းဌာန၏ အနီးမှ ဖြတ်သွားခဲ့ရာ ၎င်း၏ဆွေမျိုးများ သိသွားခဲ့ကြ၏။ နောက်ဆုံးတွင် ဇိုက်ဒ်၏ဖခင်၊ ဦးရီးနှင့်ညီနောင်များသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံ ရောက်ရှိလာကြကာ အခကြေးငွေယူပြီး ဇိုက်ဒ်ကို ၎င်းတို့အား ပြန်လည်ပေးအပ်တော်မူပါမည့်အကြောင်း မေတ္တာရပ်ခံကြ၏။ တမန်တော်မြတ်က "အခကြေးငွေကိုမလို၊ ဇိုက်ဒ်သည် အသင်တို့နှင့်အတူ ပြန်လည်လိုက်ပါလိုပါက အသင်တို့သည် ဇိုက်ဒ်ကို ဝမ်းသာစွာ ခေါ်ဆောင်သွားနိုင်ကြသည်"ဟု ပြောကြားတော်မူလိုက်လေသည်။ ဇိုက်ဒ်၏ဆွေမျိုးများက ဇိုက်ဒ်အား မိမိတို့နှင့်အတူလိုက်ပါရန် ပြောဆိုကြသောအခါ ဇိုက်ဒ်က "ကျွန်တော်သည် တမန်တော်မြတ်ထံမှ ခွဲခွာ၍ မသွားလိုပါ၊ တမန်တော်မြတ်သည် ကျွန်တော့်ကို မိမိ၏သားသမီးများထက်ပင် ပို၍ချစ်တော်မူပါသည်။ မိဘများထက်ပင် ပို၍သနားကြင်နာတော်မူပါသည်" ဟု ဖြေကြားလိုက်လေသည်။ ထိုအခါ တမန်တော်မြတ်သည် ဇိုက်ဒ်အား ကျေးကျွန်အဖြစ်မှ လွတ်မြောက်စေတော်မူပြီး မိမိ၏သားအဖြစ် မွေးစားထားတော်မူလိုက်လေသည်။ ဇိုက်ဒ်အား တမန်တော်မြတ်က ယင်းသို့ သားအဖြစ် မွေးစားတော်မူလိုက်သည့်အခါ၊ လူအများသည် ထိုခေတ် အရဗ်လူမျိုးတို့၏ ထုံးတမ်းစဉ်လာအရ ဇိုက်ဒ်အား (ဇိုက်ဒ် အစ်ဗ်နုမုဟမ္မဒ်) "မုဟမ္မဒ်၏သား ဇိုက်ဒ်"ဟု ခေါ်ဝေါ်နေခဲ့ကြ၏။ ထို့နောက် ကုရ်အာန်ကျမ်းလာ အာယတ်တော် (၃၃:၅) ကျရောက်လာပြီး၊ သားသမီးများကို ၎င်းတို့၏ဖခင် အရင်းအခြာများကို အကြောင်းပြုပြီး ခေါ်ဝေါ်ကြရမည့်အကြောင်း အမိန့်တော်ကျရောက်လာသောအခါ လူအများသည် သာဝကကြီးဇိုက်ဒ်အား "ဇိုက်ဒ်အစ်ဗ်နုမုဟမ္မဒ်"ဟု ခေါ်ဝေါ်ခြင်းမပြုတော့ပဲ ၎င်း၏ဖခင်အား အကြောင်းပြု၍ "ဇိုက်ဒ်အစ်ဗ်နု ဟာရိဆဟ်" ဟူ၍သာ ခေါ်ဝေါ်ခဲ့ကြလေတော့သည်။

သာဝကကြီး ဇိုက်ဒ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က သားအဖြစ် မွေးစားတော်မူခဲ့သည်ကို အကြောင်းပြု၍ "ဇိုက်ဒ်အစ်ဗ်နုမုဟမ္မဒ်"ဟု ခေါ်ဝေါ်ခြင်း ခံနေခဲ့ရာမှ ကုရ်အာန်ကျမ်းလာ အမိန့်တော်အရ၊ "ဇိုက်ဒ်အစ်ဗ်နုမုဟမ္မဒ်" ဟူသော ဂုဏ်ထူးဝိသေသ ဆုံးပါးရသည့်အတွက် ဤသည့်နစ်နာချက်ကို ဖြည့်စွက် (ဖြည့်စွမ်း)ပေးတော်မူရန်အလို့ငှာ ကုရ်အာန်ကျမ်းမြတ်တွင် ဆွဟာဗဟ် သာဝကကြီးများအနက် မည်သည့်သာဝက၏ အမည်နာမကိုမျှ ထုတ်ဖော်ထားခြင်းမပြုပဲ သာဝကကြီးဇိုက်ဒ်၏ အမည်နာမကိုသာ ထူးထူးခြားခြား ထုတ်ဖော်သုံးနှုန်း ထားတော်မူခြင်းဖြစ်တန်ရာသည်။ ကြည့်-ကုရ်အာန် (၃၃:၃၇)။

အသို့ပင်ဖြစ်စေ၊ ဇိုင်နဗ်သခင်မ၏ မျိုးနွယ်ဂုဏ်မှာ အလွန်မြင့်နေခဲ့၏။ သာဝကကြီးဇိုက်ဒ်မှာမူ၊ မျိုးရိုးဇာတိ ကောင်းမြတ်ပါလျက် အမြင်အားဖြင့် ကျေးကျွန်ဘဝသို့ ရောက်ခဲ့ရသည်။ အမည်းစက် စွန်းထင်းပြီးကာမှ လွတ်မြောက်ခဲ့ရသော ပုဂ္ဂိုလ်တစ်ဦးဖြစ်နေခဲ့၏။ ထို့အတွက် ဇိုင်နဗ်သခင်မသည် သာဝကကြီး ဇိုက်ဒ်နှင့်ထိမ်းမြားရေး ကို မနှစ်သက်ခဲ့ပေ။ ထို့အတူ ဇိုင်နဗ်သခင်မ၏မောင်ကလည်း မနှစ်သက်ခဲ့ပေ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်သည် ထိမ်းမြားရေးတွင် ယင်းသည့် မျိုးနွယ်ခွဲခြားမှု၊ လူတန်းစားခွဲခြားမှုစသည့် အဓိပ္ပာယ် ကင်းမဲ့သော အတွေးအခေါ် အဟန့်အတားများကို အလျင်း လိုလားတော်မမူပေ။ ထို့အတွက်ကြောင့်ပင် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဇိုင်နဗ်သခင်မနှင့် ၎င်း၏မောင်အား သာဝကကြီး ဇိုက်ဒ်နှင့် ထိမ်းမြားရေးကို လက်ခံကြရန် လေးလေးပင်ပင် တိုက်တွန်းတော်မူခဲ့ခြင်း ဖြစ်ပေသည်။ ထိုအချိန်မှာပင် ဤအာယတ်တော်လည်း ကျရောက်လာခဲ့ပေသည်။

ထိုအခါ ဇိုင်နဗ်သခင်မနှင့် ၎င်း၏မောင်သည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ အာသာဆန္ဒ ရှေ့မှောက်တွင် မိမိတို့၏ အာသာဆန္ဒကို စွန့်လွှတ်ခဲ့ကြလေသည်။ ဇိုင်နဗ်သခင်မသည်လည်း နောက်ဆုံးတွင် သာဝကကြီး ဇိုက်ဒ်နှင့် ထိမ်းမြားခြင်းကို လက်ခံသဘောတူခဲ့လေသည်။

وَإِذْ تَقُولُ لِلَّذِىٓ أَنْعَمَ ٱللَّهُ عَلَيْهِ وَأَنْعَمْتَ عَلَيْهِ أَمْسِكْ عَلَيْكَ زَوْجَكَ وَٱتَّقِ ٱللَّهَ وَتُخْفِى فِى نَفْسِكَ مَا ٱللَّهُ مُبْدِيهِ وَتَخْشَى ٱلنَّاسَ ۚ وَٱللَّهُ أَحَقُّ أَن تَخْشَىٰهُ ۖ فَلَمَّا قَضَىٰ زَيْدٌ مِّنْهَا وَطَرًا زَوَّجْنَٰكَهَا لِكَىْ لَا يَكُونَ عَلَى ٱلْمُؤْمِنِينَ حَرَجٌ فِىٓ أَزْوَٰجِ أَدْعِيَآئِهِمْ إِذَا قَضَوْا۟ مِنْهُنَّ وَطَرًا ۚ وَكَانَ أَمْرُ ٱللَّهِ مَفْعُولًا ﴿٣٧﴾

၃၇။ ၎င်းပြင် (အိုး-နဗီတမန်တော် ပြန်လည်၍ သတိရပါလေ) အကြင်အခါဝယ် အလ္လာဟ်အရှင်မြတ် သည်လည်းကောင်း၊ အသင်ကိုယ်တိုင်သည်လည်း ကောင်း၊ ကျေးဇူးပြုခဲ့သောသူအား အသင်က "အသင် သည် မိမိဇနီးကို (ကွာရှင်းခြင်းမပြုပဲ) မိမိထံ၌ပင် (တရားဝင်ဇနီးအဖြစ်) ထားရှိပါလေ။ ၎င်းပြင် အသင် သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ပါလေ၊" ဟု ပြောဆို ဆုံးမလျက်ရှိခဲ့၏။ ထို့ပြင် အသင်သည် မိမိစိတ်တွင်းဝယ် အကြင်ကိစ္စကို လျှို့ဝှက်ဖုံးအုပ်၍ ထားလေ၏။ အလ္လာဟ်အရှင်မြတ်သည် ထိုကိစ္စကို (နောက်ဆုံးတွင်) ထင်ရှားစေတော်မူမည်သာ ဖြစ်သည်။ ထိုမှတပါး အသင်သည် လူတို့အား စိုးရိမ်လျက်ရှိခဲ့၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်အားသာလျှင် အသင်သည် ပိုမိုစိုးရိမ်ထိုက်၏။

ထို့နောက် မုအ်မင်န် သက်ဝင်ယုံကြည်သူတို့၌ ၎င်းတို့၏ မွေးစားသားများ၏ ဇနီးမိန်းမများနှင့် ပတ်သက်၍ ထိုမွေးစားသားများသည် ၎င်းတို့အား အလိုမရှိတော့သည့်အခါ တစ်စုံတရာ ကျပ်တည်းမှုမရှိ ရန် "ဇိုက်ဒ်" သည် ထိုမိန်းမအားအလိုမရှိတော့သည့် အခါ ငါအရှင်မြတ်သည် အသင့်အား ထိုမိန်းမနှင့် ထိမ်းမြား၍ ပေးတော်မူလိုက်၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်သည် ပြီးမြောက် အောင်မြင်မည်သာတည်း။ [၁]

---

(၁) <u>**သာဝကကြီး ဇိုက်ဒ်နှင့် ဇိုင်နဗ်သခင်မတို့၏ အိမ်တွင်းရေးမပြေလည်မှု၊**</u>

<u>**မွေးစားသားများ၏ ဇနီးမိန်းမများ ပြဿနာဖြေရှင်းမှု၊**</u>

သာဝကကြီး ဇိုက်ဒ်နှင့်ဇိုင်နဗ်သခင်မတို့ ထိမ်းမြားကြပြီးသည့်နောက်ပိုင်းတွင် ၎င်းတို့၏အိမ်တွင်းရေးမှာ စိတ်သဘောထားချင်း မတိုက်ဆိုင်သည့်အတွက် အဆင်မပြေခဲ့ပေ။ မကြာခဏဆိုသလို ဇနီးမောင်နှံနှစ်ဦးတို့သည် ကတောက်ကဆဖြစ်နေခဲ့ကြ၏။ ခိုက်ရန်ဖြစ်ပွားနေခဲ့ကြ၏။ ယင်းသို့ ခိုက်ရန်ဖြစ်ပွားတိုင်း သာဝကကြီး ➤➤

➤➤ ဇိုက်ဒ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ထံ ဝင်ရောက်တိုင်တန်းခဲ့၏။ "ဤသို့သာ တကျက်ကျက် ဖြစ်နေပါက မိမိသည် မိမိ၏ဇနီးနှင့် ဆက်လက်ပေါင်းသင်းရန် ဖြစ်နိုင်တော့မည် မဟုတ်တော့ကြောင်း" လျှောက်ထားခဲ့၏။ ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က သာဝကကြီး ဇိုက်ဒ်အား "ဇိုင်နဗ်သည် ငါ့အားငဲ့ညှာ၍ မိမိ၏အာသာဆန္ဒကို ဆန့်ကျင်ပြီး အသင်နှင့်ထိမ်းမြားခဲ့ခြင်း ဖြစ်သည်၊ ယခုတဖန် အသင်က ဇိုင်နဗ်အား ကွာရှင်းလိုက်မည်ဆိုပါက ဇိုင်နဗ်နှင့် ၎င်း၏သားချင်းများအဖို့ နစ်နာကျိုးယုတ် ဖွယ်ရာ ဖြစ်သွားပေမည်၊ ထို့အတွက် အသင်သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားပါ၊ သာမန်ကိစ္စများကို အကြောင်းပြုပြီး အိမ်ထောင်ရေးကို မပျက်ပါစေနှင့်၊ ဖြစ်နိုင်သမျှကြိုးစား၍ အိမ်တွင်းရေးကို ပြေလည်အောင်ပြုလုပ်ပါ၊ မိမိ၏ဇနီးအား မကွာရှင်းပါနှင့်၊ အေးအတူ၊ ပူအမျှ သည်းခံ၍နေပါ" စသည်ဖြင့် ကျိုးကြောင်းပြကာ နားချနေတော်မူခဲ့၏။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် သာဝကကြီးဇိုက်ဒ်နှင့် ဇိုင်နဗ်သခင်မတို့၏ အိမ်တွင်းရေးအဆင်ပြေစေရန် ကြိုးစားတော်မူခဲ့သော်လည်း အဆိုပါ ဇနီးမောင်နှံတို့၏ အိမ်တွင်းရေးမှာ မပြေလည်သည်သာမက တစ်နေ့တခြား ပို၍ပင် ဆိုးရွားလာခဲ့ပေသည်။ လင်ခန်းမယားခန်း ပြတ်စဲမည့်အခြေသို့ပင် ဆိုက်ရောက်လာခဲ့လေသည်။

ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏စိတ်တွင် 'ငါသည် ဤဇနီးမောင်နှံ နှစ်ဦးတို့အား ၎င်းတို့၏ အိမ်တွင်းရေးအဆင်ပြေစေရန် အမျိုးမျိုးနားချခဲ့၏။ အမျိုးမျိုးကြိုးစားခဲ့၏။ သို့တစေ ပြဿနာသည် မပြေလည်၊ တစ်နေ့တစ်ခြား ပို၍ပင် ဆိုးရွားလာသည်။ အကယ်တန္တု ဇိုက်ဒ်သည် မဖြစ်သာသည့် အဆုံး ဇိုင်နဗ်အား ပြတ်စဲလိုက်ပါက ဇိုင်နဗ်အဖို့ နစ်နာဖွယ်ရာပင်၊ သို့ဖြစ်လျှင် ဇိုင်နဗ်အား တနည်းတဖုံ နှစ်သိမ့်စေရန်လိုသည်။ ဇိုင်နဗ်အား နှစ်သိမ့်စေရန်မှာ မိမိကိုယ်တိုင်က ဇိုင်နဗ်နှင့် ထိမ်းမြားရမည်၊ သို့မိမိကိုယ်တိုင်က ဇိုင်နဗ်နှင့်ထိမ်းမြားပါက လူများသည် ငါ့အား မိမိ၏မွေးစားသား၏ ဇနီးနှင့်ထိမ်းမြားသည်ဟု ကဲ့ရဲ့ပြစ်တင်ကြမည်' စသည်ဖြင့် အတွေးအခေါ် ပေါက်လာခဲ့ဟန် ရှိခဲ့ပေသည်။

အမှန်မှာ မွေးစားသားသည် သားအရင်းအခြာမဟုတ်၊ မွေးစားသား၏ ဇနီးသည် မွေးစားသောဖခင်၏ ချွေးမအရင်းအခြာလည်း မဟုတ်၊ သို့ရာတွင် အရဗ်တို့သည် ထုံးတမ်းစဉ်လာအရ မွေးစားသားကို သားအရင်း အခြာဟု ထင်မှတ်ယူဆနေခဲ့ကြသည့်အတွက် မွေးစားသားများ၏ ဇနီးများနှင့်ထိမ်းမြားရေးမှာ ပြဿနာကြီးတစ်ရပ် ဖြစ်နေခဲ့၏။ ဤသည့်မှားယွင်းသော အတွေးအခေါ်နှင့် ယင်းသည့် အတွေးအခေါ်မှဖြစ်ပေါ်နေသော အခက်အခဲကို အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အားဖြင့် လက်တွေ့တော်လှန်ဖြေရှင်း ပေးတော်မူလို၏။ သို့မှသာလျှင် နောက်နောင် မုစ်လင်မ်တို့အဖို့ ဤပြဿနာနှင့်စပ်လျဉ်း၍ တစ်စုံတစ်ရာ နောက်ဆံငင်မှု၊ ဇဝေဇဝါဖြစ်မှု၊ သံသယရှိမှုများသည် ထာဝစဉ် ကင်းရှင်းသွားပေမည်။ ထိုအခါ အလ္လာဟ်အရှင်မြတ် သည် နောက်နောင် မုစ်လင်မ်တို့၌ မွေးစားသားများ၏ ဇနီးများနှင့်ပတ်သက်၍ တစ်စုံတစ်ရာ ကျပ်တည်းမှုမရှိစေရန် အတွက် တမန်တော်မြတ် (ဆွာလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား ဇိုင်နဗ်သခင်မနှင့် ထိမ်းမြားပေးတော်မူမည့် အကြောင်း ကြိုတင် အသိပေးထားတော်မူခဲ့၏။ (ကြည့်-ဖတ်ဟုလ်ဗာရီ)။

ထိုအခါ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဤသည့်အရေးနှင့်စပ်လျဉ်း၍ လူများကဲ့ရဲ့ပြစ်တင်ကြမည်ကို တွေး၍တွေး၍ မိမိ၏စိတ်တွင် စိုးရိမ်နေခဲ့၏။ သို့စိုးရိမ်တော်မူသည့်အတွက် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဤအကြောင်းကို မျိုသိပ်ထားတော်မူခဲ့လေသည်။ သို့တစေလည်း အမှန်တရားသည် လူများ၏ကဲ့ရဲ့ပြစ်တင်မှုကြောင့် တိမ်မြုပ်နေမည်မဟုတ်။ ➤➤

مَا كَانَ عَلَى النَّبِيِّ مِنْ حَرَجٍ فِيمَا فَرَضَ اللَّهُ لَهُ ۖ سُنَّةَ اللَّهِ فِي الَّذِينَ خَلَوْا مِن قَبْلُ ۚ وَكَانَ أَمْرُ اللَّهِ قَدَرًا مَّقْدُورًا ﴿٣٨﴾

၃၈။ အလ္လာဟ်အရှင်မြတ်က နဗီတမန်တော်မြတ်အပေါ်၌ သတ်မှတ်ပြဋ္ဌာန်းတော်မူခဲ့သော ကိစ္စနှင့်စပ်လျဉ်း၍ *ထိုနဗီတမန်တော်မြတ်အပေါ်၌ မည်သို့မျှ အပြစ်တင်ခြင်း မရှိပေ။* [၁] (ဤသည်) ရှေးယခင်က လွန်ခဲ့ကြသောသူတို့ (တမန်တော်တို့)နှင့် ပတ်သက်သည့် အလ္လာဟ်အရှင်မြတ်၏ စည်းကမ်းအတိုင်းပင်ဖြစ်၏။ စင်စစ် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်သည်ကား ကောင်းမွန်စွာ စီမံပြီးသားဖြစ်ပေသတည်း။

➤➤ အမှန်တရားကို ဖော်ထုတ်ရာတွင် လူများ၏ကဲ့ရဲ့ပြစ်တင်မှုကို မှုနေရန်လည်းမလို။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်သည် အတည်ဖြစ်သည်သာ။ နောက်ဆုံးတွင် သာဝကကြီးဇိုက်ဒ်သည် ဇိုင်နဗ်သခင်မအား လင်ခန်းမယားခန်းကို လုံးဝ ဖြတ်လိုက်လေသည်။

သို့လင်ခန်း မယားခန်းဖြတ်ပြီးနောက် လင်ခန်းမယားခန်း ဖြတ်ခြင်းခံရသော အမျိုးသမီးများ စောင့်ဆိုင်းရသည့် "အစ်ဒ္ဒတ်" အချိန်ပိုင်း ကုန်ဆုံးသွားသည့်အခါ အလ္လာဟ်အရှင်မြတ်သည် ဇိုင်နဗ်သခင်မအား တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)နှင့် ထိမ်းမြားပေးတော်မူလိုက်လေသည်။ ဤသို့ဖြင့် မွေးစားသားများ၏ ဇနီးများနှင့်ပတ်သက်၍ ဖြစ်ပေါ်နေခဲ့သည့် ပြဿနာသည် မှစ်လင်မ်တို့အဖို့ အမြဲထာဝစဉ် ရှင်းသွားခဲ့လေသည်။

ဤအကြောင်းမှာ ဤမျှသာဖြစ်သည်။ သို့ရာတွင် ဤနေရာ၌ အချို့ကျမ်းဆရာများနှင့် ရာဇဝင်ဆရာများ၏ အခိပ္ပာယ်ကင်းမဲ့သော၊ ယုတ္တိယုတ္တာမရှိသော အရေးအသားများကြောင့် ဖြစ်ရပ်မှန် မသိကြသော ပုဂ္ဂိုလ်များအဖို့ သို့လောသို့လောနှင့် တွေးတောစရာ ဖြစ်လာခဲ့ရပေသည်။အမှန်မှာ ၎င်းတို့၏အရေးအသားများမှာ ဖြစ်ရပ်မှန်နှင့် မည်သို့မျှ မပတ်သက်သဖြင့် ၎င်းတို့၏ အရေးအသားများကို ထုတ်ဖော်ရေးသားရန်လည်း မလိုပေ။ ဖြေရှင်းနေရန်လည်း မလိုပေ။

(၁) အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်သည် အတည်ဖြစ်သည်သာ။ ထိုအရှင်မြတ် ကြိုတင်စီမံထားတော်မူသော အရာသည် အကောင်အထည် ဖြစ်ပေါ်လာရသည်ချည်းသာ။ သို့ဖြစ်ရာ ယင်းသို့ကြိုတင်စီမံ ထားတော်မူသော ကိစ္စတစ်ရပ်ကို တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ဆောင်ရွက်တော်မူသည့်အတွက် တမန်တော်မြတ်၌ အသို့လျှင် အပြစ်ဆိုဖွယ်ရှိအံ့နည်း။

အတိတ်ခေတ်တွင်လည်း အလ္လာဟ်အရှင်မြတ်၏ "စွန္နတ်" ကျင့်စဉ်မှာ ဤအတိုင်းပင်။ အတိတ်ခေတ်များတွင် ပွင့်တော်မူခဲ့သော တမန်တော်များသည် အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို ဟောကြားခဲ့ကြသည်။ အမိန့်တော်များကို လိုက်နာကျင့်သုံးခဲ့ကြသည်။ အလ္လာဟ်အရှင်မြတ်မှတပါး မည်သူ့ကိုမျှ မကြောက်ခဲ့ကြပေ။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) သည်လည်း အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို စုံမတူအောင် ဟောကြားတော်မူသည်။ အမိန့်တော်များကို စွန်းလွန်းတမန် လိုက်နာကျင့်သုံးတော်မူသည်။ မည်သူ့ကိုမျှ ကြောက်တော်မမူ၊ သို့ဖြစ်ရာ ဇိုင်နဗ်သခင်မနှင့် ထိမ်းမြားရေးကိစ္စတွင် မည်သို့မျှ နောက်ဆံငင်ရန် မလိုပေ။ သူမိုက်တို့၏ ကဲ့ရဲ့ပြစ်တင်ခြင်းကို မှုနေရန်လည်း မလိုပေ။

الَّذِيْنَ يُبَلِّغُوْنَ رِسٰلٰتِ اللّٰهِ وَيَخْشَوْنَهٗ وَلَا يَخْشَوْنَ اَحَدًا اِلَّا اللّٰهَ ۗ وَكَفٰى بِاللّٰهِ حَسِيْبًا ﴿٣٩﴾

၃၉။ (ထိုသူတို့ကား) အကြင်သူများပင်၊ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ မိန့်မှာချက်များကို (တိကျမှန်ကန်စွာ) ပို့ဆောင်ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်အားသာလျှင်ကြောက်ရွံ့ကြကုန်၏။ အလ္လာဟ်အရှင်မြတ်အပြင် မည်သူတစ်ဦးတစ်ယောက်ကိုမျှပင် ကြောက်ရွံ့ကြသည် မဟုတ်ပေ။ စင်စစ် အလ္လာဟ်အရှင်မြတ်သည်ပင် စာရင်း စစ်ဆေးတော်မူမည့် အရှင်မြတ်အဖြစ် လုံလောက်တော်မူ၏။

مَا كَانَ مُحَمَّدٌ اَبَآ اَحَدٍ مِّنْ رِّجَالِكُمْ وَلٰكِنْ رَّسُوْلَ اللّٰهِ وَخَاتَمَ النَّبِيّٖنَ ۗ وَكَانَ اللّٰهُ بِكُلِّ شَيْءٍ عَلِيْمًا ﴿٤٠﴾

၄၀။ *“မုဟမ္မဒ်” သည် အသင်တို့ ယောကျ်ားများအနက်မည်သူတစ်ဦးတစ်ယောက်၏ ဖခင်မျှမဟုတ်ပေ၊*[၁] စင်စစ်မှာမူကား (မုဟမ္မဒ်သည်) အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်သည်လည်းကောင်း၊ *နဗီတမန်တော်အပေါင်းတို့(၏နုဗုဝါတ်)ကို အဆုံးသတ်သူသည်*[၂] လည်းကောင်း၊ ဖြစ်ပေသည်။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဇိုက်ဒ်ကို သားအဖြစ် မွေးစားတော်မူခဲ့သည်မှာ မှန်၏။ သို့ရာတွင် ယင်းသို့မွေးစားလိုက်ရုံမျှဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဇိုက်ဒ်၏ ဖခင် (အရင်းအခြာ) ဖြစ်သွားတော်မူသည်လည်းမဟုတ်၊ ဇိုက်ဒ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ သား(အရင်းအခြာ) ဖြစ်သွားသည်လည်း မဟုတ်၊ ဇိုက်ဒ်ကိုထားဘိဦး၊ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ယောကျ်ားများအနက် မည်သည့်ယောကျ်ား တစ်ဦးတစ်ယောက်၏ ဖခင်မျှပင် မဟုတ်ခဲ့ပေ။ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၌ ဖွားမြင်သမျှသော သားယောကျ်ားကလေးများသည် ငယ်ရွယ်စဉ်မှာပင် သေဆုံးသွားခဲ့ကြသည်သာ ဖြစ်ပေသည်။ သို့ဖြစ်ပေရာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အဖို့ မိမိ၏ သား၏ဇနီး (ဝါ)မိမိ၏ချွေးမနှင့် ထိမ်းမြားရန် ပြဿနာအသို့လျှင် ပေါ်ပေါက်နိုင်ခဲ့အံ့နည်း။

(၂) တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ယောကျ်ားများအနက် မည်သူတစ်ဦးတစ်ယောက်မျှ၏ ဖခင်မျှမဟုတ်၊ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်ဖြစ်တော်မူသည်။ တမန်တော်အပေါင်းတို့တွင် အကြီးဆုံး၊ အမြတ်ဆုံး ဖြစ်တော်မူသည်၊ တမန်တော်အပေါင်းတို့၏ တမန်တော်ဖြစ်မှုကို ပြည့်စုံစေတော်မူသော အဆုံးသတ်တော်မူသော တမန်တော် ဖြစ်တော်မူသည်။ ▷▷

၄၁။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား အလွန်များပြားစွာ အောက်မေ့တသ သတိရကြလေကုန်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ ٱذْكُرُوا۟ ٱللَّهَ ذِكْرًا كَثِيرًا ﴿٤١﴾

---

➤➤ ဤအကြောင်းကို ရှေ့အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။ ဤသို့ဖြင့် တမန်တော်မြတ်သည် နောက်လိုက်တပည့်သားတို့အဖို့ သွေးသားဆိုင်ရာ ရုပ်ပိုင်းဆိုင်ရာ ဖခင်ဟုတ်တော်မမူသော်လည်း နာမ်ပိုင်းဆိုင်ရာ ဖခင်ကြီးကား အမှန်ဖြစ်တော် မူပေသည်။ ဤအကြောင်းကုရ်အာန် (၃၃း၆)တွင် ရေးသားခဲ့ပေပြီ။

**② ခါတမွန္နဗီယီန**

အလ္လာဟ်အရှင်မြတ်သည် လူ့လောကကို စတင်ဖန်တင်းတော်မူသည့်အချိန်မှစ၍ လူသားတို့အား တရားဓမ္မ ဟောညွှန်ပြရန်အလို့ငှာ လူသားတို့အနက်မှပင် အချိန်အခါ အားလျော်စွာ တမန်တော်များအား စေလွှတ်တော်မူခဲ့၏။ ယင်းသို့ဖြင့် ထိုအရှင်မြတ်သည် မြောက်မြားစွာသော တမန်တော်များအား စေလွှတ်တော်မူခဲ့၏။နောက်ဆုံးတွင် တမန်တော်အပေါင်းတို့၏ အချုပ်ဖြစ်တော်မူသော တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)အား စေလွှတ်တော်မူ၍ အစ္စလာမ်ကို အဖက်ဖက်မှ ပြည့်စုံစေတော်မူပြီး တမန်တော်စေလွှတ်မှုကို အဆုံးသတ်တော်မူလိုက်လေသည်။ တမန်တော်စေလွှတ်မှုအပေါ်၌ တံဆိပ်ခတ်နှိပ်တော် မူလိုက်လေပြီ။ထို့အတွက် တမန်တော်မြတ်၏ အကြီးဆုံးဂုဏ်ထူးတစ်ရပ်မှာ ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း (ခါတမွန္နဗီယီန) တမန်တော်အပေါင်းတို့တွင် အဆုံးစွန်၌ ပွင့်တော်မူသော တမန်တော်၊ တမန်တော်အပေါင်းတို့၏ တမန်တော်ဖြစ်မှုကို အဆုံးသတ်တော်မူသော တမန်တော်၊ တမန်တော်အပေါင်းတို့၏ တမန်တော်ဖြစ်မှုအပေါ်၌ ခတ်နှိပ်ထားသော တံဆိပ်တော်ဟူ၍ဖြစ်သည်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ လက်ထက်တော်တွင် အစ္စလာမ်သည် အဖက်ဖက်မှ ပြည့်စုံသွားခဲ့ချေပြီ။ ပြင်ဆင်ဖြည့်စွက် နုတ်ပယ်ရန် အလျင်းမရှိပြီ။ ဤသည့် ပြည့်စုံသော အစ္စလာမ်သည် ကိယာမတ်တိုင် တည်ရှိနေမည်သာဖြစ်သည်။ တမန်တော်မြတ်၏ (နုဗုဝါတ်) တမန်တော်ဖြစ်မှု၏ အရှိန်အဝါသည်လည်း ကိယာမတ်တိုင် တည်ရှိနေမည်သာဖြစ်သည်။

တမန်တော်မြတ် ကိုယ်တော်တိုင်ကလည်း **"ငါ့နောက် တမန်တော်တပါးမျှပွင့်ရန် မရှိပြီ"** ဟု အတည့်အလင်း မိန့်ကြားတော်မူခဲ့လေပြီ။ သို့ဖြစ်ပေရာ တမန်တော်မြတ်ပွင့်တော်မူပြီးနောက် အခြားတမန်တော်ပွင့်ရန်အကြောင်း အလျှင်းမရှိတော့ပြီ။ ဤအကြောင်းနှင့်စပ်လျဉ်း၍ မုစ်လင်မ်အားလုံး အဆိုညီကြသည်။ အကွဲအလွဲ စိုးစဉ်းမျှမရှိ။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်၊ ဟဒီဆ် အစ်ဂျ်မာအ်စသည်တို့ကို ကိုးကား၍ ရေးသားထားသောကျမ်းပေါင်း အမြောက်အမြားလည်း ရှိနေပေသည်။ သို့ပါလျက် ဤအကြောင်းနှင့်စပ်လျဉ်း၍ **ကုရ်အာန်ကျမ်းမြတ်၊ ဟဒီဆ်ဩဝါဒတော်နှင့် "အစ်ဂျ်မာအ်" မုစ်လင်မ်တို့၏ တညီတညွတ်တည်း ဆုံးဖြတ်ထားသည့် ဆုံးဖြတ်ချက်ကို သွေဖည်ဆန့်ကျင်ပါက သို့သွေဖည်ဆန့်ကျင်သူသည် ကာဖိရ် ဖြစ်သည်။ အစ္စလာမ့်ဘောင် အပြင်သို့ရောက်ရှိသွားသည်။**

وَّسَبِّحُوْهُ بُكْرَةً وَّاَصِيْلًا ﴿٤٢﴾

၄၂။ ထို့ပြင် အသင်တို့သည် နံနက်ယံ၌လည်းကောင်း၊ ညနေချမ်း၌လည်းကောင်း၊ (အမြဲတစေ) ထိုအရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုကြလေကုန်။

هُوَالَّذِيْ يُصَلِّيْ عَلَيْكُمْ وَمَلٰٓئِكَتُهٗ لِيُخْرِجَكُمْ مِّنَ الظُّلُمٰتِ اِلَى النُّوْرِ ۗ وَكَانَ بِالْمُؤْمِنِيْنَ رَحِيْمًا ﴿٤٣﴾

၄၃။ ထိုအရှင်မြတ်သည် အကြင်အရှင်မြတ်ပင်။ ထိုအရှင်မြတ်သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ "မလာအိကဟ်" ကောင်းကင်တမန်များသည် လည်းကောင်း၊ အသင်တို့အပေါ်၌ ကောင်းချီးမင်္ဂလာ ပို့လျှက်ရှိကြကုန်၏။ (သို့ပို့တော်မူခြင်းမှာ) ထိုအရှင်မြတ်သည် အသင်တို့အား အမှောင်ထုများမှ အလင်းသို့ ထွက်စေတော်မူအံ့သောငှာဖြစ်၏။

စင်စစ်သော်ကား ထိုအရှင်မြတ်သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့ အပေါ်၌ အလွန်တရာ သနားကြင်နာတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

تَحِيَّتُهُمْ يَوْمَ يَلْقَوْنَهٗ سَلٰمٌ ۚ وَّاَعَدَّ لَهُمْ اَجْرًا كَرِيْمًا ﴿٤٤﴾

၄၄။ ၎င်းတို့သည် ထိုအရှင်မြတ်နှင့် တွေ့ဆုံကြသောနေ့တွင် (ထိုအရှင်မြတ်၏) ၎င်းတို့အား နှုတ်ခွန်းဆက်တော်မူမည့် စကားမှာ "စလာမ်" ဟူ၍ပင် ဖြစ်ပေမည်။ ထိုမှတပါး ထိုအရှင်မြတ်သည် ၎င်းတို့အဖို့ မြင့်မြတ်လှစွာသော အကျိုးကို အဆင်သင့်ပြုလုပ်၍ ထားရှိတော်မူပေသတည်း။

يٰٓاَيُّهَا النَّبِيُّ اِنَّآ اَرْسَلْنٰكَ شَاهِدًا وَّمُبَشِّرًا وَّنَذِيْرًا ﴿٤٥﴾

၄၅။ အို-နဗီတမန်တော်၊ ဧကန်မလွဲ ငါအရှင်မြတ်သည် အသင့်အား သက်သေအဖြစ်လည်းကောင်း၊ သတင်းကောင်းပြောကြားသူအဖြစ်လည်းကောင်း၊ သတိပေး နှိုးဆော်သူအဖြစ်လည်းကောင်း၊ စေလွှတ်တော်မူ၏။

وَّدَاعِيًا إِلَى اللَّهِ بِإِذْنِهِ وَسِرَاجًا مُّنِيرًا ﴿٤٦﴾

၄၆။ ထို့ပြင် အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ထိုအရှင်မြတ်၏ အမိန့်တော်နှင့် ဖိတ်ခေါ်သူအဖြစ်လည်းကောင်း၊ လင်းဝင်းတောက်ပသော မီးရှူးမီးတိုင် (သူရိယ)အဖြစ်လည်းကောင်း၊(စေလွှတ်တော်မူ၏၊) [၁]

وَبَشِّرِ الْمُؤْمِنِينَ بِأَنَّ لَهُم مِّنَ اللَّهِ فَضْلًا كَبِيرًا ﴿٤٧﴾

၄၇။ ထိုမှတပါး အသင်သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အား ၎င်းတို့အပေါ်၌ အလ္လာဟ်အရှင်မြတ်ထံတော်မှ ကြီးကျယ်လှစွာသောကျေးဇူးတော်ရှိကြောင်း သတင်းကောင်း ပြောကြားပါလေ။

---

(၁) **တမန်တော်မြတ်၏ ဂုဏ်ပုဒ်များ၊**

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား အမျိုးမျိုးသော ဂုဏ်ပုဒ်များဖြင့် ချီးမြှင့်ထားတော်မူသည်။တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် "ရှာဟိဒ်" သက်သေလည်း ဖြစ်တော်မူသည်။ ကိယာမတ်နေ့တွင် နောက်လိုက်တပည့်သားတို့နှင့် စပ်လျဉ်း၍အဆုံးအဖြတ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ သက်သေထွက်ဆိုချက်အပေါ်၌ တည်ရှိမည်ဖြစ်သည်။ အခြား အဆိုတရပ်အရ ပွင့်လေသမျှသော တမန်တော်အပေါင်းတို့သည် မိမိတို့၏တာဝန်အရ သက်ဆိုင်ရာ နောက်လိုက်တပည့်သားတို့ထံ အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို အသီးသီး ပို့ချတော်မူခဲ့ကြပြီး ဖြစ်ကြောင်းနှင့်စပ်လျဉ်း၍ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က သက်သေခံတော်မူမည်ဖြစ်သည်။ ကြည့်-ရှုဟ်။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် **"မုဗရှ်ရှစ်ရ်"** လည်း ဖြစ်တော်မူသည်။ မုစ်လင်မ်တို့အား ကောင်းချီးသတင်းလည်း ပေးတော်မူသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) သည် **"နဇီရ်"** လည်း ဖြစ်တော်မူသည်။ ကာဖိရ်၊ မုရှ်ရစ်က်များအား သတိပေး နှိုးဆော်တော်မူသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် **"ဒါအီ"** လည်း ဖြစ်တော်မူသည်။ လူသား အားလုံးတို့အား အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဖိတ်ကြားတော်မူသည်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် **"စိရာဂျန်မုနီရန်"** လင်းဝင်းတောက်ပသော သူရိယလည်း ဖြစ်တော်မူသည်။ လူသားထုကြီး တစ်ရပ်လုံးအား အမှောင်ခွင်း၍ အလင်းဆောင်တော်မူသည်။ သူရိယနေ ထွက်ပေါ်လာသည့်အခါ အခြားအလင်းရောင်များသည် ကွယ်ပျောက်သွားသကဲ့သို့ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဓမ္မသူရိယ ရှေ့မှောက်တွင် အခြား ဓမ္မရောင်ခြည်များသည် ကွယ်ပျောက်သွားချေပြီ။ (မလိုတော့ပြီ)။

ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား အကြောင်းပြု၍ နောက်လိုက်တပည့်သားတို့အား ကျန်အုပ်စုအားလုံးတို့ထက် ထူးကဲမြင့်မြတ်မှုကို ချီးမြှင့်ထားတော်မူသည်။

وَلَا تُطِعِ الْكٰفِرِيْنَ وَالْمُنٰفِقِيْنَ وَدَعْ اَذٰىهُمْ وَتَوَكَّلْ عَلَى اللّٰهِ ۗ وَكَفٰى بِاللّٰهِ وَكِيْلًا ۞٤٨

၄၈။ ထို့ပြင် အသင်သည် "ကာဖိရ်" သွေဖည်ငြင်းပယ်ကြကုန်သောသူတို့၏ ပြောဆိုချက်ကိုလည်းကောင်း၊ "မုနာဖစ်က်" အယောင်ဆောင်မှစ်လင်မ်တို့၏ ပြောဆိုချက်ကိုလည်းကောင်း၊ မလိုက်နာလေနှင့်။ ထို့ပြင် အသင်သည် ၎င်းတို့၏ ထိပါးပြောဆိုမှုကို လျစ်လျူရှု၍ အလ္လာဟ်အရှင်မြတ်အပေါ်၌သာ ယုံပုံလွှဲအပ်ထားပါလေ။ စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် ကိစ္စအဝဝကို ပြီးစီးအောင်ဆောင်ရွက်ပေးတော်မူသောအရှင်မြတ်အဖြစ် လုံလောက်တော်မူပေသတည်း။

يٰٓاَيُّهَا الَّذِيْنَ اٰمَنُوْٓا اِذَا نَكَحْتُمُ الْمُؤْمِنٰتِ ثُمَّ طَلَّقْتُمُوْهُنَّ مِنْ قَبْلِ اَنْ تَمَسُّوْهُنَّ فَمَا لَكُمْ عَلَيْهِنَّ مِنْ عِدَّةٍ تَعْتَدُّوْنَهَا ۚ فَمَتِّعُوْهُنَّ وَسَرِّحُوْهُنَّ سَرَاحًا جَمِيْلًا ۞٤٩

၄၉။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အကယ်၍ အသင်တို့သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူ အမျိုးသမီးများနှင့် 'နိကာဟ်' ပြုထိမ်းမြားခဲ့ပြီးနောက် ၎င်းတို့အား ထိတွေ့ခြင်းမပြုကြသေးမီ အသင်တို့သည် တွလာက်ပေး ကွာရှင်းခဲ့ကြလျှင်၊ အသင်တို့နှင့်ပတ်သက်၍ ၎င်းတို့အပေါ်၌ မည်သည့် "အစ်ဒ္ဒတ်" ရက်ဆိုင်းငံ့ခြင်းကိုမျှပင် အသင်တို့ ရေတွက်ကြရန် မရှိတော့ပြီ။ သို့ဖြစ်ပေရာ အသင်တို့သည် ၎င်းတို့အား အကျိုးကျေးဇူး ခံစားစေပြီး ကောင်းမွန်စွာ စွန့်လွှတ်ကြလေကုန်။ [၁]

---

(၁) မုအ်မင်န်ယောကျ်ားတစ်ဦးသည် မုအ်မင်န် အမျိုးသမီးနှင့် ထိမ်းမြားပြီးနောက် ထိတွေ့ခြင်းမရှိပဲ လင်ခန်းမယားခန်းကို ဖြတ်လိုက်ပါက အကယ်၍ (မဟရ်) ထိမ်းမြားကြေး သတ်မှတ်ပြီး ဖြစ်နေပါလျှင် သတ်မှတ်ထားသော ထိမ်းမြားကြေး၏ တဝက်ပေးရမည်။ သို့မဟုတ်လျှင် အတော်အသင့် အကျိုးခံစားစေ၍ (ဝါ) ထုံးတမ်းစဉ်လာအရ ဝတ်စုံတစ်စုံပေး၍ ကောင်းမွန်စွာ စွန့်လွှတ်လိုက်ရမည်။ ထိုသို့သော အမျိုးသမီးတစ်ဦးသည် ထိုအချိန်မှာပင် ထိမ်းမြားလိုက ထိမ်းမြားနိုင်သည်။ 'အစ်ဒ္ဒတ်' ရက်ဆိုင်းငံ့ရန် မလိုပေ။ ဤအကြောင်းနှင့်ဆက်စပ်၍ ကုရ်အာန် (၂း၂၃၆-၂၃၇)ကို ဆင်ခြင်ပါကုန်။

يَٰٓأَيُّهَا ٱلنَّبِيُّ إِنَّآ أَحْلَلْنَا لَكَ أَزْوَٰجَكَ ٱلَّٰتِيٓ ءَاتَيْتَ أُجُورَهُنَّ وَمَا مَلَكَتْ يَمِينُكَ مِمَّآ أَفَآءَ ٱللَّهُ عَلَيْكَ وَبَنَاتِ عَمِّكَ وَبَنَاتِ عَمَّٰتِكَ وَبَنَاتِ خَالِكَ وَبَنَاتِ خَٰلَٰتِكَ ٱلَّٰتِي هَاجَرْنَ مَعَكَ وَٱمْرَأَةً مُّؤْمِنَةً إِن وَهَبَتْ نَفْسَهَا لِلنَّبِيِّ إِنْ أَرَادَ ٱلنَّبِيُّ أَن يَسْتَنكِحَهَا خَالِصَةً لَّكَ مِن دُونِ ٱلْمُؤْمِنِينَ قَدْ عَلِمْنَا مَا فَرَضْنَا عَلَيْهِمْ فِيٓ

၅၀။ အို-နဗီတမန်တော်၊ စင်စစ်မလွဲ ငါအရှင်မြတ်သည် အသင် "မဟာရ်" ထိမ်းမြားကြေးပေးခဲ့သော အသင်၏ကြင်ရာများကိုလည်းကောင်း၊ အသင့်အား အလ္လာဟ်အရှင်မြတ်က လက်ရပစ္စည်းအဖြစ် ချီးမြှင့်တော်မူခဲ့၍ အသင်ပိုင်ဆိုင်ခဲ့သော ကျွန်မများကိုလည်းကောင်း၊ အသင်နှင့်အတူ ရွှေ့ပြောင်းခဲ့ကြလေသော အသင့် ဘကြီး၊ ဘထွေး၏သမီးများကိုလည်းကောင်း၊ အသင့် မိကြီး၊ မိထွေးများ၏သမီးများကိုလည်းကောင်း၊ အသင့် ဦး၊ ဦးရီးများ၏သမီးများကိုလည်းကောင်း၊ အသင့် အရီးကြီး၊ အရီးလေးများ၏ သမီးများကိုလည်းကောင်း၊ အသင့်အဖို့ ဟလာလ်တရားဝင် ပြုလုပ်တော်မူ၏။ ထိုနည်းတူစွာ "မုအ်မင်န်" သက်ဝင်ယုံကြည်သော အမျိုးသမီးတစ်ဦးသည် မိမိကိုယ်ကို အကယ်၍ နဗီတမန်တော်မြတ်အား (မဟာရ် ထိမ်းမြားကြေးမယူဘဲ) သက်သက်ပေးအပ်ခဲ့၍ ထိုနဗီတမန်တော်မြတ်သည်လည်း ထိုအမျိုးသမီးနှင့် ထိမ်းမြားရန် ရည်စူးခဲ့ပါလျှင် ထိုအမျိုးသမီးအားလည်း (တရားဝင်ပြုလုပ်တော်မူ၏။ ဤခွင့်ပြုချက်မှာ) အခြား "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အဖို့ မဟုတ်ဘဲ သက်သက် အသင်၏အဖို့ *အထူး(ခွင့်ပြုခြင်းပင်)ဖြစ်၏။* [၁]

---

**(၁) ထိမ်းမြားရေးနှင့်စပ်လျဉ်း၍ တမန်တော်မြတ်၏ အခွင့်ထူးများ၊**

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)၌ တစုံတရာအကျပ်အတည်း မရှိစေရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ထိမ်းမြားရေးနှင့်စပ်လျဉ်း၍ အချို့အခွင့်ထူးများကို ချီးမြှင့်ထားတော်မူသည်။

(၁) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်၏ လက်ရှိကြင်ရာတော်များအား တမန်တော်မြတ်သည် ၎င်းတို့အား (မဟာရ်) ထိမ်းမြားကြေးလည်း ပေးတော်မူပြီးဖြစ်၍ (ဟလာလ်) တရားဝင် ပြုလုပ်ထားတော်မူသည်။

(၂) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား လက်ရပစ္စည်းအဖြစ် ချီးမြှင့်ထားတော်မူသော တမန်တော်မြတ် ပိုင်ဆိုင်ထားတော်မူသော ကျွန်မများကိုလည်း ထိုအရှင်မြတ်သည် တမန်တော်မြတ်အဖို့ (ဟလာလ်) ပြုလုပ်ထားတော်မူသည်။

➢➢

أَزْوَاجِهِمْ وَمَا مَلَكَتْ أَيْمَانُهُمْ لِكَيْلَا يَكُونَ عَلَيْكَ حَرَجٌ وَكَانَ اللَّهُ غَفُورًا رَّحِيمًا ﴿٥٠﴾

ငါအရှင်မြတ်သည် ထိုမုအ်မင်န် သက်ဝင်ယုံကြည်သူတို့အပေါ်၌ ၎င်းတို့၏ဇနီးမိန်းမများ၊ ၎င်းတို့၏ ကျွန်မများနှင့်ပတ်သက်၍ ထုတ်ပြန်သတ်မှတ်တော်မူခဲ့သော အမိန့်ပညတ်တော်များကို ဧကန်စင်စစ် ငါအရှင်မြတ်သည် သိရှိတော်မူ၏။ (အသင့်အဖို့ ယင်းအထူးအမိန့်တော် ထုတ်ပြန်တော်မူခြင်းမှာ) အသင့်အပေါ်၌ ကျပ်တည်းမှု တစ်စုံတစ်ရာမရှိရန် (ထုတ်ပြန်တော်မူခြင်း)ပင် ဖြစ်ပေသည်။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်တော်မူသော၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

تُرْجِي مَن تَشَاءُ مِنْهُنَّ وَتُؤْوِي إِلَيْكَ مَن تَشَاءُ وَمَنِ ابْتَغَيْتَ مِمَّنْ عَزَلْتَ فَلَا جُنَاحَ

**၅၁။** အသင်သည် ထိုကြင်ရာများအနက် မိမိအလိုမရှိသူအားခွဲထား၍ မိမိအလိုရှိသူအား မိမိအပါး၌ထားရှိနိုင်ပေသည်။ ထိုနည်းတူစွာ အသင်သည် ဘေးဖယ်ထားခဲ့သူအား အလိုရှိခဲ့လျှင်လည်း ပြန်လည်ထားနိုင်သည်။ အသင့်အပေါ်၌ အပြစ်တစ်စုံတရာမျှ မရှိချေ။

---

➤➤ (၃) အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အဖို့ တမန်တော်မြတ်၏ဘကြီး၊ ဘထွေး၊ မိကြီး၊ မိထွေး၊ ဦးရီး၊ ဦးလေး၊ အရီးကြီး၊ အရီးလေးတို့၏ သမီးများကိုလည်း အကယ်၍ ၎င်းတို့သည် တမန်တော်မြတ်နှင့်အတူ(ဟိဂျ်ရတ်) ရွှေ့ပြောင်းနေထိုင်ခဲ့ကြသည်ရှိသော် (ဟလာလ်) တရားဝင် ပြုလုပ်ထားတော်မူသည်။

(၄) မုစ်လင်မ် အမျိုးသမီး တစ်ဦးသည် အကယ်၍ မိမိကိုယ်ကို တမန်တော်မြတ်အား (မဟရ်) ထိမ်းမြားကြေးမယူပဲ ပေးအပ်သော် တမန်တော်မြတ်ကလည်း ထိုအမျိုးသမီးနှင့် ထိမ်းမြားရန်ရည်စူးတော်မူသော်၊ အလ္လာဟ်အရှင်မြတ်သည် ထိုသို့သောအမျိုးသမီးကိုလည်း တမန်တော်မြတ်အဖို့ (ဟလာလ်) တရားဝင် ပြုလုပ်ထားတော်မူသည်။ (သို့တစေလည်း တမန်တော်မြတ်သည် ဤသည့်အခွင့်အရေးကို အသုံးပြုတော်မမူခဲ့ပေ။ (ဝါ) ထိမ်းမြားကြေးမပေးပဲ ထိမ်းမြားခြင်း ပြုတော်မမူခဲ့ပေ။)

ဤသည့် အခွင့်ထူးများသည် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အဖို့သာ ဖြစ်သည်။ အခြားမုစ်လင်မ်များအဖို့မဟုတ်၊ ၎င်းတို့အဖို့ အမိန့်ပညတ်များ သီးခြားရှိသည်။ ဥပမာ– မုစ်လင်မ်များအဖို့ မိန်းမ (၄)ယောက် ထက်ပို၍ ထိမ်းမြားပိုင်ခွင့်မရှိ၊ ထိမ်းမြားရာတွင်လည်း (မဟရ်) ထိမ်းမြားကြေးပေးကြရသည်သာ ဖြစ်သည်။ ကြည့်–ကုရ်အာန် (၄း၂၄)။

قُلْ يَجْمَعُ بَيْنَنَا رَبُّنَا ثُمَّ يَفْتَحُ بَيْنَنَا بِالْحَقِّ وَهُوَ الْفَتَّاحُ الْعَلِيمُ ﴿٢٦﴾

၂၆။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါဦးလေ။ (အချင်းတို့၊) ငါတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် ငါတို့အား ("ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင်) စုရုံးတော်မူပေမည်။ ထို့နောက် ထိုအရှင်မြတ်သည် ငါတို့၏အကြား၌ မှန်ကန်စွာစီရင်ဆုံးဖြတ်တော်မူပေမည်။ စင်စစ် ထိုအရှင်မြတ်သည် လွန်စွာ စီရင်ဆုံးဖြတ်တော်မူသော၊ လွန်စွာ သိတော်မူသောအရှင် ဖြစ်တော်မူ၏။

قُلْ أَرُونِيَ الَّذِينَ أَلْحَقْتُم بِهِ شُرَكَاءَ ۖ كَلَّا ۚ بَلْ هُوَ اللَّهُ الْعَزِيزُ الْحَكِيمُ ﴿٢٧﴾

၂၇။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါဦးလေ။ (အချင်းတို့၊) အသင်တို့သည် တွဲဖက်များအဖြစ် ထိုအရှင်မြတ်နှင့် ပေါင်းဖက်(ကိုးကွယ်)ခဲ့ကြသောသူတို့ကို ငါ့အား ပြသကြလေကုန်၊ အလျှင်းမဟုတ်ပေ၊ စင်စစ်မှာ ထိုကိုးကွယ်ရာ အစစ်ဖြစ်သည့်အရှင်မြတ်မှာကား အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော၊ အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။

وَمَا أَرْسَلْنَاكَ إِلَّا كَافَّةً لِّلنَّاسِ بَشِيرًا وَنَذِيرًا وَلَٰكِنَّ أَكْثَرَ النَّاسِ لَا يَعْلَمُونَ ﴿٢٨﴾

၂၈။ (အို-နဗီတမန်တော်) အမှန်သော်ကား ငါအရှင်မြတ်သည် အသင့်အား ခပ်သိမ်းကုန်သောလူတို့အဖို့ ဝမ်းမြောက်ဖွယ်ရာသတင်း ပြောကြားသူအဖြစ်လည်းကောင်း၊ သတိပေးနှိုးဆော်သူအဖြစ်လည်းကောင်း၊ စေလွှတ်တော်မူခဲ့၏။ [၁] သို့ရာတွင် များစွာသောသူတို့မှာ မသိ နားမလည်ကြပေ။

➤➤ သင်ကြားပြသထားတော်မူခြင်းပင်။ ဓမ္မကထိကများ၊ တရားဟောဆရာများ၊ အာလင်မ်ပညာရှင်များသည် ဤသည့်သဘောကို အထူးသတိပြုရာသတည်း။

(၁) **ကမ္ဘာ့တမန်တော်၊**

ဤအာယတ်တော်တွင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် တိုင်းပြည်တစ်ပြည်၊ လူမျိုးတစ်မျိုး၊ ခေတ်တခေတ်အဖို့သာမဟုတ်ပဲ တိုင်းပြည်မရွေး၊ လူမျိုးမရွေး၊ ခေတ်မရွေး၊ စကြာဝဠာအဝန်းအဖို့ နောက်ဆုံးတမန်တော်၊ ကမ္ဘာ့တမန်တော်အဖြစ် ပွင့်လာတော်မူကြောင်း အတိအလင်း ကြေငြာထားတော်မူသည်၊ ➤➤

وَيَقُولُونَ مَتَىٰ هَٰذَا الْوَعْدُ إِن كُنتُمْ صَادِقِينَ ﴿٢٩﴾

၂၉။ ထို့ပြင် ၎င်းတို့က "အကယ်၍ အသင်တို့သည် သစ္စာဝါဒီများ ဖြစ်ခဲ့ကြလျှင် ဤချိန်းဆိုချက်သည် မည်သည့်အခါ၌ ဖြစ်မြောက်အံ့နည်း" ဟု မေးမြန်းကြကုန်၏။

قُل لَّكُم مِّيعَادُ يَوْمٍ لَّا تَسْتَأْخِرُونَ عَنْهُ سَاعَةً وَلَا تَسْتَقْدِمُونَ ﴿٣٠﴾

၃၀။ အသင်သည် ဖြေကြားပါလေ၊ (အချင်းတို့၊) အသင်တို့အား အထူးနေ့တစ်နေ့ကို ချိန်းချက်ထားသည် ဖြစ်ပေရာ၊ အသင်တို့သည် ယင်းချိန်းချက်ထားသောနေ့မှ အချိန် အနည်းငယ်ခန့်မျှပင် နောက်ဆုတ်နိုင်ကြမည်လည်း မဟုတ်ပေ၊ ရှေ့တိုးနိုင်ကြမည်လည်း မဟုတ်ပေ။

وَقَالَ الَّذِينَ كَفَرُوا لَن نُّؤْمِنَ بِهَٰذَا الْقُرْآنِ وَلَا بِالَّذِي بَيْنَ يَدَيْهِ ۗ وَلَوْ تَرَىٰ إِذِ الظَّالِمُونَ مَوْقُوفُونَ عِندَ رَبِّهِمْ يَرْجِعُ بَعْضُهُمْ إِلَىٰ بَعْضٍ الْقَوْلَ يَقُولُ الَّذِينَ اسْتُضْعِفُوا لِلَّذِينَ اسْتَكْبَرُوا لَوْلَا أَنتُمْ لَكُنَّا مُؤْمِنِينَ ﴿٣١﴾

၃၁။ ၎င်းပြင် "ကာဖိရ်" မယုံမကြည် သွေဖည်ငြင်းပယ်သောသူတို့က "ကျွန်ုပ်တို့သည် ဤကုရ်အာန်ကျမ်းမြတ်ကိုလည်းကောင်း၊ ဤကုရ်အာန်ကျမ်းမြတ်အလျင်ရှိခဲ့သော (တောင်ရာတ်၊ အင်န်ဂျီလ်စသည့်)ကျမ်းများကိုလည်းကောင်း၊ အလျှင်းယုံကြည်မည်မဟုတ်" ဟု ပြောဆိုကြကုန်၏။ စင်စစ်သော်ကား မတရားကျူးလွန်ကြကုန်သောသူတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ရှေ့တော်မှောက်တွင် မတ်တတ်ရပ်စေခြင်းကို ခံကြရ၍ အချင်းချင်း တစ်ဦးသည် တစ်ဦး၏အပေါ်သို့ အပြစ်လှည့်ချကြသည်ကို အသင် တွေ့မြင်ရလျှင် ကောင်းလေစွ။ (ထိုအခါ) နောက်လိုက်ငယ်သားတို့က အကြီးအကဲတို့အား "အကယ်၍သာ အသင်တို့မရှိခဲ့ကြလျှင် ကျွန်ုပ်တို့သည် အမှန်ပင် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူများဖြစ်ကြမည်" ဟု ပြောဆိုကြပေမည်။

>> တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကမ္ဘာအဝှန်းအတွက် ပွင့်လာတော်မူသကဲ့သို့ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ယူဆောင်လာသည့် အစ္စလာမ် သာသနာတော်သည်လည်း ကမ္ဘာ့အဝှန်း အတွက်ပင် ဖြစ်ပေသည်။

قَالَ الَّذِيْنَ اسْتَكْبَرُوْا لِلَّذِيْنَ اسْتُضْعِفُوْٓا اَنَحْنُ صَدَدْنٰكُمْ عَنِ الْهُدٰى بَعْدَ اِذْ جَآءَكُمْ بَلْ كُنْتُمْ مُّجْرِمِيْنَ ﴿٣٢﴾

၃၂။ (ထိုအခါ) အကြီးအကဲတို့က နောက်လိုက်ငယ်သားတို့အား ပြောဆိုကြပေမည်။ (အချင်းတို့၊) "အသင်တို့ထံ တရားလမ်းမှန် ရောက်ရှိ၍လာပြီးနောက် ကျွန်ုပ်တို့သည် အသင်တို့အား ယင်းတရားလမ်းမှန်မှ ပိတ်ပင်တားဆီးခဲ့ကြပါသလော၊ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား အသင်တို့သည်ပင်လျှင် ပြစ်မှုကျူးလွန်သူများ ဖြစ်ခဲ့ကြကုန်၏"

وَقَالَ الَّذِيْنَ اسْتُضْعِفُوْا لِلَّذِيْنَ اسْتَكْبَرُوْا بَلْ مَكْرُ الَّيْلِ وَالنَّهَارِ اِذْ تَاْمُرُوْنَنَآ اَنْ نَّكْفُرَ بِاللّٰهِ وَنَجْعَلَ لَهٗٓ اَنْدَادًا ۭ وَاَسَرُّوا النَّدَامَةَ لَمَّا رَاَوُا الْعَذَابَ ۭ وَجَعَلْنَا الْاَغْلٰلَ فِيْٓ اَعْنَاقِ الَّذِيْنَ كَفَرُوْا ۭ هَلْ يُجْزَوْنَ اِلَّا مَا كَانُوْا يَعْمَلُوْنَ ﴿٣٣﴾

၃၃။ ထိုအချိန်တွင် နောက်လိုက်ငယ်သားတို့က အကြီးအကဲတို့အား "ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား နေ့ညဉ့်မပြတ်(ကြံစည်လျက်ရှိခဲ့ကြသောအသင်တို့၏) ကြံစည်မှုများကပင် (ပိတ်ပင်တားမြစ်ခဲ့၏)။ အကြင်အခါဝယ် ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်အား မယုံကြရန်လည်းကောင်း၊ ကျွန်ုပ်တို့သည် ထိုအရှင်မြတ်၌ ဂုဏ်ရည်တူများကို ပြုလုပ်ကြရန်လည်းကောင်း၊ အသင်တို့သည် ကျွန်ုပ်တို့အား အမိန့်ပေးတိုက်တွန်းလျက် ရှိခဲ့ကြသည်" ဟု ပြောဆိုကြပေမည်။

အမှန်သော်ကား ၎င်းတို့သည် ပြစ်ဒဏ်ကို မြင်ကြသောအခါ (မိမိတို့၏) နောင်တရမှုကို လျှို့ဝှက်ဖုံးအုပ်ထားကြပေမည်။ ထိုအခါ ငါအရှင်မြတ်သည် "ကာဖိရ်" မယုံမကြည် သွေဖည် ငြင်းပယ်ကြကုန်သောသူတို့၏ လည်ကုပ်များ၌ လည်ကွင်းများကို စွပ်ပေးတော်မူပေမည်။

(စင်စစ်သော်ကား) ၎င်းတို့သည် မိမိတို့ ကျင့်မူလျက် ရှိခဲ့ကြသည်နှင့်အညီ အစားပေးခြင်းကိုသာ ခံကြရမည် ဖြစ်ပေသတည်း။

وَمَآ أَرۡسَلۡنَا فِي قَرۡيَةٖ مِّن نَّذِيرٍ إِلَّا قَالَ مُتۡرَفُوهَآ إِنَّا بِمَآ أُرۡسِلۡتُم بِهِۦ كَٰفِرُونَ ٣٤

**၃၄။** စင်စစ်သော်ကား ငါအရှင်မြတ်သည် မည်သည့်မြို့ရွာ၌မဆို သတိပေးနှိုးဆော်သူတပါးပါးကို စေလွှတ်တော်မူခဲ့သည့်အခါ ထိုမြို့ရွာရှိ စည်းစိမ်ရှင်တို့က "ဧကန်အမှန် ကျွန်ုပ်တို့သည် အသင်တို့ပေး၍ စေလွှတ်ခြင်းခံကြရသည့် (ဒီန်သာသနာ)ကို ငြင်းပယ်သူများပင် ဖြစ်ကြသည်" ဟု ပြောဆိုခဲ့ကြသည်သာ။

وَقَالُواْ نَحۡنُ أَكۡثَرُ أَمۡوَٰلٗا وَأَوۡلَٰدٗا وَمَا نَحۡنُ بِمُعَذَّبِينَ ٣٥

**၃၅။** ထိုမှတပါး ၎င်းတို့က "ကျွန်ုပ်တို့သည် ပစ္စည်းဥစ္စာအားဖြင့်လည်းကောင်း၊ သားသမီးအားဖြင့်လည်းကောင်း၊ (အသင်တို့ထက်) ပေါများကြွယ်ဝသူများ ဖြစ်ကြပေရာ ကျွန်ုပ်တို့သည် ပြစ်ဒဏ်ပေးခြင်း ခံကြရမည့်သူများမဟုတ်ပေ" ဟု ပြောဆိုခဲ့ကြကုန်၏။ [၁]

قُلۡ إِنَّ رَبِّي يَبۡسُطُ ٱلرِّزۡقَ لِمَن يَشَآءُ وَيَقۡدِرُ وَلَٰكِنَّ أَكۡثَرَ ٱلنَّاسِ لَا يَعۡلَمُونَ ٣٦

**၃၆။** (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား ပြောဆို)ဖြေကြားပါလေ။ (အချင်းတို့၊) ဧကန်စင်စစ် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား စားနပ်ရိက္ခာကို ကျယ်ဝန်းပေါများစွာ ချီးမြှင့်ပေးသနားတော်မူ၍ (မိမိအလိုရှိတော်မူသောသူအား) ကျပ်တည်းစေတော်မူ၏။ သို့ရာတွင် အများဆုံးသော သူတို့မှာ သိရှိကြသည် မဟုတ်ပေ။

---

(၁) ချမ်းသာကြွယ်ဝသူများက "အလ္လာဟ်အရှင်မြတ်သည် ငါတို့အား ကျေနပ်နှစ်သက်တော် မူ၍သာလျှင် ငါတို့အား ဤရွေ့ဤမျှများပြားစွာ၊ ဥစ္စာပစ္စည်း၊ သားသမီးများကို ချီးမြှင့်ထားတော် မူခြင်းဖြစ်သည်။ သို့မဟုတ်ပါမူ ထိုအရှင်မြတ်သည် ငါတို့အား ဤရွေ့ဤမျှ ဥစ္စာပစ္စည်း သားသမီးများကို ချီးမြှင့်တော်မူမည်မဟုတ်၊ သို့ဖြစ်ရာ ငါတို့သည် မည်သည့်ပြစ်ဒဏ်ကိုမျှ ခံကြရမည်မဟုတ်။ စိုးရိမ်ကြရန်လည်းမလို"ဟု ပြောဆိုလေ့ရှိခဲ့ကြပေသည်။ ဤကားအမှားတည်း။

အဘယ်ကြောင့်ဆိုသော် ချမ်းသာမှုဆင်းရဲမှုသည် အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှု မနှစ်သက်မှု၏ သက်သေလက္ခဏာ မဟုတ်ပေ။ လူ့လောကတွင် များစွာသောလူဆိုး၊ လူမိုက်၊ အလဇ္ဇီ၊ သီလကြောင်၊ လူ့ဗာလ၊ သာသနာပ၊ သာသနာ့ရန်စွယ်၊ ဓမ္မန္တရာယ်များသည် ချမ်းသာကြွယ်ဝလျက် ရှိကြပေသည်။ များစွာသော အလ္လာဟ်အရှင်မြတ်အား ကြည်ညိုမြတ်နိုးသော သာသနာကိုလေးစားသော သူတော်စင်များ၊ လူကောင်း➤➤

وَمَآ اَمۡوَالُكُمۡ وَلَاۤ اَوۡلَادُكُمۡ بِالَّتِىۡ تُقَرِّبُكُمۡ عِنۡدَنَا زُلۡفٰٓى اِلَّا مَنۡ اٰمَنَ وَعَمِلَ صَالِحًا فَاُولٰٓـئِكَ لَهُمۡ جَزَآءُ الضِّعۡفِ بِمَا عَمِلُوۡا وَهُمۡ فِى الۡغُرُفٰتِ اٰمِنُوۡنَ ۝٣٧

၃၇။ စင်စစ်သော်ကား အသင်တို့၏ ပစ္စည်းဥစ္စာများသည်လည်းကောင်း၊ အသင်တို့၏ သားသမီးများသည်လည်းကောင်း၊ အသင်တို့အား မည်သည့် အဆင့်အတန်း၌မျှ ငါအရှင်မြတ်၏အထံတော်သို့ နီးကပ်စေအံ့သော အရာများ မဟုတ်ပေ။ သို့ရာတွင် မည်သူမဆို “အီမာန်” သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလကို ကျင့်မူဆောက်တည်ခဲ့မူ ၎င်းတို့အဖို့ ၎င်းတို့ ကျင့်မူဆောက်တည်ခဲ့ကြကုန်သော အကျင့်သီလများ၏ တိုးသောအကျိုးရှိသည့်အပြင် ၎င်းတို့သည် မြင့်စွင့်သောအဆောင်များ၌ ဘေးရန်ခပ်သိမ်းကင်းငြိမ်းစွာ ရှိကြပေမည်။

وَالَّذِيۡنَ يَسۡعَوۡنَ فِىۡۤ اٰيٰتِنَا مُعٰجِزِيۡنَ اُولٰٓـئِكَ فِى الۡعَذَابِ مُحۡضَرُوۡنَ ۝٣٨

၃၈။ သို့ရာတွင် ငါအရှင်မြတ်၏ အာယတ်တော်များကို ပျက်ပြားအောင် ကြိုးပမ်းဆောင်ရွက်လျက်ရှိကြသော သူတို့မှာမူကား ပြစ်ဒဏ်၌ အဆင်သင့်ရောက်ရှိစေခြင်းခံကြရမည့်သူများပင် ဖြစ်ကြကုန်၏။

قُلۡ اِنَّ رَبِّىۡ يَبۡسُطُ الرِّزۡقَ لِمَنۡ يَّشَآءُ مِنۡ عِبَادِهٖ وَيَقۡدِرُ لَهٗ ؕ وَمَاۤ اَنۡفَقۡتُمۡ مِّنۡ شَىۡءٍ فَهُوَ يُخۡلِفُهٗ ۚ

၃၉။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါဦးလေ။ (အချင်းတို့) ဧကန်မလွဲ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် မိမိကျွန်များအနက် မိမိအလိုရှိတော်မူသောသူအား စားနပ်ရိက္ခာကို ကျယ်ဝန်းပေါများစွာ ချီးမြှင့်ပေးသနားတော်မူ၍ (မိမိအလိုရှိတော်မူသော) သူအား (စားနပ်ရိက္ခာကို) ကျပ်တည်းစေတော်မူ၏။

---

➤➤ လူတော်များ၊ ပညာရှိများသည် ဆင်းရဲလျက် ရှိကြပေသည်။ ဤကားမျက်မြင်ပင်၊ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ချမ်းသာမှု၊ ဆင်းရဲမှုသည် အလ္လာဟ်အရှင်မြတ် ထံတော်၌ နှစ်သက်မှု မနှစ်သက်မှု လက်ခံမှု၊လက်မခံမှု၏ သက်သေလက္ခဏာ မဟုတ်ကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။ အမှန်မှာဤသည် အလ္လာဟ်အရှင်မြတ်၏ နက်နဲလှသော စီမံဖန်ဆင်းမှုသာဖြစ်သည်။ ဤသည့်နက်နဲလှသော သဘောတရားကို များစွာသော လူသားတို့သည် မသိနားလည်ကြပေ။

وَهُوَ خَيْرُ الرّٰزِقِيْنَ ۝٣٩

ၚင်းပြင် အသင်တို့သည် မည်သည့် တစုံတရာ ကိုမဆို (ထိုအရှင်မြတ် နှစ်လိုတော်မူရာ၌) သုံးစွဲလှူဒါန်းခဲ့ကြလျှင် ထိုအရှင်မြတ်သည် ၎င်း၏အစားကို ပေးတော်မူပေမည်။ ထိုမှတပါး ထိုအရှင်မြတ်သည် စားနပ်ရိက္ခာ ချီးမြှင့်သူတို့အနက် အကောင်းဆုံးပင် ဖြစ်တော်မူပေသတည်း။

وَيَوْمَ يَحْشُرُهُمْ جَمِيْعًا ثُمَّ يَقُوْلُ لِلْمَلٰٓئِكَةِ اَهٰٓؤُلَآءِ اِيَّاكُمْ كَانُوْا يَعْبُدُوْنَ ۝٤٠

၄၀။ ၎င်းပြင် အကြင်နေ့တွင် ထိုအရှင်မြတ်သည် ၎င်းတို့အားလုံးကို စုရုံးတော်မူပြီးနောက် "မလာအိကဟ်" ကောင်းကင်တမန်တို့အား "ဤသူတို့သည် အသင်တို့အား ဆည်းကပ်ကိုးကွယ်လျက် ရှိခဲ့ကြသည်လော" ဟု မေးမြန်းတော်မူပေမည်။

قَالُوْا سُبْحٰنَكَ اَنْتَ وَلِيُّنَا مِنْ دُوْنِهِمْ ۚ بَلْ كَانُوْا يَعْبُدُوْنَ الْجِنَّ ۚ اَكْثَرُهُمْ بِهِمْ مُّؤْمِنُوْنَ ۝٤١

၄၁။ ထို "မလာအိကဟ်" ကောင်းကင်တမန်တို့က (ဤသို့)လျှောက်ထားခဲ့ကြပေမည်။ (အို-အရှင်မြတ်၊) အရှင်မြတ်သည် စင်ကြယ် သန့်ရှင်းတော်မူပါ၏။ ကျွန်တော်မျိုးတို့သည် အရှင်မြတ်နှင့်သာ ပတ်သက်ကြပါသည်။ ၎င်းတို့နှင့် မပတ်သက်ကြပါ။ စင်စစ်မှာကား ၎င်းတို့သည် ဂျင်န်သတ္တဝါများကိုသာ ဆည်းကပ်ကိုးကွယ်လျက် ရှိခဲ့ကြပါသည်။ ၎င်းတို့အနက် အများဆုံးသောသူတို့မှာ ဂျင်န်သတ္တဝါများကိုပင် ယုံကြည်သူများ ဖြစ်ခဲ့ကြပါသည်။ [၁]

---

(၁) များစွာသော မုရှ်ရစ်က်များသည် ကောင်းကင်တမန်များအား အလ္လာဟ်အရှင်မြတ်၏ သမီးတော်များဟု ခေါ်ဆိုခဲ့ကြသည်။ ပုံတုများပြုလုပ်၍ ကိုးကွယ်ခဲ့ကြသည်။ သို့မုရှ်ရစ်က်များက ကောင်းကမင်တမန်များအား ကိုးကွယ်နေခဲ့ကြခြင်းမှာ မုရှ်ရစ်က်တို့၏ အပြုအမူသာလျှင် ဖြစ်ချေသည်။ ကောင်းကင်တမန်များက မိမိတို့အား ကိုးကွယ်ရန် ညွှန်ကြားခဲ့ကြသည်လည်း မဟုတ်။ မိမိတို့အား ဤသို့ကိုးကွယ်နေခဲ့ကြသည်ကို ကျေနပ်ခဲ့ကြသည်လည်းမဟုတ်၊ ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို ဦးလည်မသုန် လိုက်နာနေကြသော ဖြူစင်သန့်ရှင်း အပြစ်ကင်းသော အဖန်ဆင်းခံများသာ ဖြစ်ကြပေသည်။ မုရှ်ရစ်က်တို့၏ ကိုးကွယ်မှုနှင့် မည်သို့မျှ မပတ်သက်ကြပေ။

>> ဂျင်န်ရှိုင်တွာန်များမှာမူကား၊ မုရှ်ရစ်က်တို့ကို ၎င်းတို့အား ကိုးကွယ်စေခဲ့ကြသည်။ ကြည့်ကုရ်အာန် >>

فَالْيَوْمَ لَا يَمْلِكُ بَعْضُكُمْ لِبَعْضٍ نَّفْعًا وَّلَا ضَرًّا ۗ وَنَقُوْلُ لِلَّذِيْنَ ظَلَمُوْا ذُوْقُوْا عَذَابَ النَّارِ الَّتِيْ كُنْتُمْ بِهَا تُكَذِّبُوْنَ ﴿٤٢﴾

၄၂။ သို့ဖြစ်ပေရာ ယနေ့သော်ကား အသင်တို့အနက် အချို့သည် အချို့ကို အကျိုးပြုရန်လည်း ပိုင်ဆိုင်ခွင့် မရှိပြီ။ အကျိုးယုတ်စေရန်လည်း ပိုင်ဆိုင်ခွင့် မရှိတော့ပြီ။ ထိုမှတပါး ငါအရှင်မြတ်သည် (မိမိကိုယ်မိမိ) နှိပ်စက် ညှဉ်းပမ်းခဲ့ကြသော သူတို့အား "အသင်တို့သည် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြသောငရဲမီး၏ပြစ်ဒဏ်ကို မြည်းစမ်းကြလေကုန်" ဟု မိန့်ကြားတော်မူအံ့သတည်း။

وَاِذَا تُتْلٰى عَلَيْهِمْ اٰيٰتُنَا بَيِّنٰتٍ قَالُوْا مَا هٰذَآ اِلَّا رَجُلٌ يُّرِيْدُ اَنْ يَّصُدَّكُمْ عَمَّا كَانَ يَعْبُدُ اٰبَآؤُكُمْ ۚ وَقَالُوْا مَا هٰذَآ اِلَّآ اِفْكٌ مُّفْتَرًى ۗ وَقَالَ الَّذِيْنَ كَفَرُوْا لِلْحَقِّ لَمَّا جَآءَهُمْ ۙ اِنْ هٰذَآ اِلَّا سِحْرٌ مُّبِيْنٌ ﴿٤٣﴾

၄၃။ စင်စစ်သော်ကား ငါအရှင်မြတ်၏ ထင်ရှားစွာသော အာယတ်တော်များသည် ၎င်းတို့၏ ရှေ့မှောက်ဝယ် ဖတ်ကြားခြင်းခံခဲ့ကြရလေသောအခါ ၎င်းတို့က "ဤသူသည် အသင်တို့အား အသင်တို့၏ အဘဘိုးဘေးတို့ ဆည်းကပ်ကိုးကွယ်လျက် ရှိခဲ့ကြသည်များကို (ဆည်းကပ်ကိုးကွယ်ခြင်း)မှ ပိတ်ပင် တားဆီးလိုသူတစ်ဦးသာလျှင်ဖြစ်သည်" ဟု ပြောဆိုခဲ့ကြသည့်ပြင် ဤ"(ကုရ်အာန်)သည် ကြံဖန်လီဆယ်ထားသော မုသားစကားတရပ်သာလျှင် ဖြစ်သည်" ဟူ၍လည်း ပြောဆိုခဲ့ကြကုန်၏။ ထိုမှတပါး "ကာဖိရ်" သွေဖည်ငြင်းပယ်ခဲ့ကြသော သူတို့က မိမိတို့ထံ အမှန်တရားရောက်ရှိ၍ လာသောအခါ ယင်းအမှန်တရားနှင့် စပ်လျဉ်း၍ "ဤသည် ထင်ရှားစွာသော ပဉ္စလက်အတတ် ပညာတရပ်သာလျှင် ဖြစ်သည်" ဟု ဆိုကြကုန်၏။

---

▶▶ (၇၂း၆)။ သို့ကိုးကွယ်ရန် ဂျင်န်ရှိင်တွာန်များ ကိုယ်တိုင်ကလည်း ညွှန်ကြားခဲ့ကြသည်။ မိမိတို့အား မုရှ်ရစ်က်များက ကိုးကွယ်ခဲ့ကြသည်ကိုလည်း ကျေနပ်ခဲ့ကြသည်။ ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်က မုရှ်ရစ်က်များအား ရှေ့တော်သို့သွင်း၍ ကောင်းကင်တမန်များအား မေးမြန်းတော်မူခြင်းမှာ ကုရ်အာန် (၅း၁၁၆-၁၁၇)တွင် လာရှိသည့်အတိုင်း တမန်တော်အီစာအား မေးမြန်းတော်မူခြင်းမျိုးသာ ဖြစ်ချိမ့်မည်။ မုရှ်ရစ်က်တို့၏ ထင်မြင်ယူဆချက်များမှားယွင်းကြောင်း ထင်ရှားစေရန်နှင့် မုရှ်ရစ်က်များ ခဲလေသမျှသဲရေကျစေရန်သာ ဖြစ်ပေမည်။

وَمَآ اٰتَيۡنٰهُمۡ مِّنۡ كُتُبٍ يَّدۡرُسُوۡنَهَا وَمَآ اَرۡسَلۡنَآ اِلَيۡهِمۡ قَبۡلَكَ مِنۡ نَّذِيۡرٍ ؕ﴿۴۴﴾

၄၄။ စင်စစ်မှာမူကား ငါအရှင်မြတ်သည် ၎င်းတို့အား ကျမ်းဂန်များကို ချီးမြှင့်ပေးသနားတော်မူခဲ့သည်လည်း မဟုတ်။ ၎င်းတို့သည် ယင်းကျမ်းဂန်များကို ဖတ်ရှုတ်သင်ကြားလျက် ရှိကြသည်(လည်း မဟုတ်ပေ)၊ ငါအရှင်မြတ်သည် အသင့်အလျင် ၎င်းတို့ထံ သတိပေး နှိုးဆော်သူတစ်ဦးတစ်ယောက်ကိုမျှ စေလွှတ်တော်မူခဲ့သည်လည်း မဟုတ်ပေ။

وَكَذَّبَ الَّذِيۡنَ مِنۡ قَبۡلِهِمۡ ۙ وَمَا بَلَغُوۡا مِعۡشَارَ مَآ اٰتَيۡنٰهُمۡ فَكَذَّبُوۡا رُسُلِىۡ فَكَيۡفَ كَانَ نَكِيۡرِ ﴿۴۵﴾

၄၅။ ၎င်းတို့အလျင် ရှိခဲ့ကြသောသူများသည်လည်း မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြကုန်၏။ စင်စစ် ဤ(လက်ရှိ)သူတို့မှာ ထို(ရှေး)သူတို့အား ငါအရှင်မြတ် ချီးမြှင့်ပေးသနားတော်မူခဲ့သည့် (စည်းစိမ်ချမ်းသာ)၏ ဆယ်ပုံတစ်ပုံကိုမျှ ရရှိကြသည် မဟုတ်ပေ။ မည်သို့ပင်ဖြစ်စေ၊ ထို(ရှေး)သူတို့သည် ငါအရှင်မြတ်၏ ရစူလ်တမန်တော်များအား မုသာဝါဒီများဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြပေရာ ငါအရှင်မြတ်၏ ပြစ်ဒဏ်သည်ကား မည်သို့ရှိခဲ့ချေသနည်း။

قُلۡ اِنَّمَاۤ اَعِظُكُمۡ بِوَاحِدَةٍ ۚ اَنۡ تَقُوۡمُوۡا لِلّٰهِ مَثۡنٰى وَفُرَادٰى ثُمَّ تَتَفَكَّرُوۡا ۚ مَا بِصَاحِبِكُمۡ مِّنۡ جِنَّةٍ ؕ

၄၆။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) “ငါသည် အသင်တို့အား ကိစ္စတခုကိုသာ တိုက်တွန်းနှိုးဆော်လို၏။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ရည်သန်၍ တစ်ယောက်စီ နှစ်ယောက်စီ ထကြပြီးလျှင် မိမိတို့၏အဖော်ဖြစ်သူ (ငါ)၌ ရူးသွပ်ခြင်းဝေဒနာရှိပါသလော” ဟု စဉ်းစားဆင်ခြင်ကြလေကုန်။ [၁]

---

(၁) **တမန်တော်ဟုတ်မဟုတ် လက်တွေ့စဉ်းစားဆင်ခြင်ရန် တခုတည်းသော အကြံ၊**

ဤအာယတ်တော်၏အလိုသဘောမှာ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)က ကျွန်ုပ်တမန်တော် ဟုတ်မဟုတ် ဝေဖန်သုံးသပ်နိုင်ရန် တစ်ခုတည်းသော အကြံပေးလိုသည်မှာ အသင်တို့သည် ပုဂ္ဂိုလ်စွဲ၊ ဝါဒစွဲမပါဘဲ၊ ပရိယာယ်မဖက်၊ အလ္လာဟ်အရှင်မြတ်အတွက် သက်သက် စိတ်စေတနာ ဖြူစင်စွာနှင့် မျှတသောစိတ်ထားဖြင့် အမှန်တရားကို ဆည်းပူးလိုသောစေတနာနှင့် လက်တွေ့စဉ်းစား ဆင်ခြင်ကြည့်ကြပါ၊ ➤➤

إِنْ هُوَ إِلَّا نَذِيرٌ لَّكُم بَيْنَ يَدَيْ عَذَابٍ شَدِيدٍ ﴿٤٦﴾

ထိုအသင်တို့၏ အဖော်ဖြစ်သူ (ငါ)သည် အသင်တို့အား ပြင်းထန်စွာသော ပြစ်ဒဏ် မကျရောက်မီ (ကြိုတင်) သတိပေး နှိုးဆော်သူတစ်ဦးသာလျှင် ဖြစ်ချေသတည်း။

قُلْ مَا سَأَلْتُكُم مِّنْ أَجْرٍ فَهُوَ لَكُمْ ۖ إِنْ أَجْرِيَ إِلَّا عَلَى

၄၇။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ "(အချင်းတို့၊) ငါသည် အသင်တို့ထံ (အဖိုးအခ) တစုံတရာ တောင်းခဲ့သည် ရှိလျှင် ယင်းအဖိုးအခမှာ အသင်တို့အဖို့သာလျှင် ဖြစ်၏။

➤➤ အချင်းချင်း တိုင်ပင်ဆွေးနွေးကြပါ၊ တစ်ဦးချင်းလည်း စဉ်းစားကြည့်ကြပါ၊ အသင်တို့၏ အဆွေ(ကျွန်ုပ် တမန်တော်မြတ် မုဟမ္မဒ်)သည် အသင်တို့နှင့်အတူ နှစ်ပေါင်း (၄၀) ကျော်ကျော်နေထိုင်ခဲ့သည်။ အသင်တို့ မျက်စိအောက်မှာပင် ငယ်ရာမှကြီးပြင်းလာခဲ့သည်။ အသင်တို့၏အဆွေ၏ ဘဝဖြစ်စဉ်တစ်လျှောက်လုံးကို စလယ်ဆုံး အသင်တို့ သိကြသည်။

အသင်တို့သည် သူ၏သစ္စာရှိမှု၊ ကတိတည်မှု၊ ရိုးသားမှု၊ ဖြောင့်မတ်မှန်ကန်မှု ကာလ်ဗြွေ ထိန်းသိမ်းမှု၊ ကိုယ်ကျင့်တရား ကောင်းမြတ်မှု၊ အသိဉာဏ်အမြော်အမြင် ရှိမှုများကို အသင်တို့ကိုယ်တိုင် ထုတ်ဖော်ဝန်ခံကြသည်၊ သူသည် အသင်တို့ထံမှ တစ်စုံတရာအဖိုးအခ အကျိုးကျေးဇူးတစ်စုံတရာ အခွင့်အရေး တစ်စုံတရာ တောင်းသည် လည်း မရှိ၊ အသင်တို့သည် သူနှင့်ပတ်သက်၍ မည်သည့်အရေးကိစ္စတွင်မျှ သူသည်မိမိ၏ စိတ်အလိုဆန္ဒဘက်သို့ ယိမ်းညွတ်ခဲ့ဖူးသည်။ သို့မဟုတ် သူသည် ကိုယ်ကျိုးရှာခဲ့ဖူးသူဟူ၍လည်း ယိုးစွပ် ပြောဆိုနိုင်ခဲ့ ကြသည်လည်းမရှိ။

သို့ဖြစ်ပေရာ (မပြောစကောင်း) အသင်တို့၏အဆွေ၌ နေယင်း၊ ထိုင်ယင်း၊ ရူးသွပ်ခြင်းဝေဒနာစွဲကပ်ပြီး အကြောင်းမဲ့၊ အကျိုးမဲ့ အားလုံးတို့အား ရန်သူပြုလုပ်ထားသည်ဟု ထင်မှတ်နိုင်ကြမည်လော။ ရူးသွပ်သူတစ်ဦးသည် ဤကဲ့သို့ အဖိုးထိုက်တန်သော ပညာအပြည့်အဝပါသော သူမတူသော စကားများကို ပြောဆိုနိုင်ပါသလော။ သူရူးတဦးသည် မိမိ၏အမျိုးသားများ၏ ကောင်းစားရေးကို ဤရွေ့ဤမျှ လိုလားပါသလော၊ သူရူးတဦးသည် မိမိ၏အမျိုးသားများ၏ နှစ်ဘဝကောင်းစားရေးအတွက် ဤရွေ့ဤမျှ ပြည့်ဝစုံလင်သော၊ မှန်ကန်တိကျသော အစီအစဉ်များကို တင်ပြနိုင်ပါသလော။

သူသည် အသင်တို့အား အနာဂတ်၌ သက်ရောက်အံ့သော ဘေးအန္တရာယ်များကို ကြိုတင် သတိပေးနေသူ တစ်ဦးသာ ဖြစ်သည်။ အတိတ်ဖြစ်ရပ်များကို တိကျစွာ ပြောပြလျှက်ရှိသည်။ အကောင်းနှင့်အဆိုးကို ကျိုးကြောင်းပြ၍ ပြောပြလျက်ရှိသည်။ ဤသည်တို့သည် သူရူးတို့၏ အလုပ်မဟုတ်၊ တမန်တော်များ၏ အလုပ်သာဖြစ်သည်။ အသင်တို့သည် ရိုးသားစွာ စဉ်းစားဆင်ခြင်ကြပါက အသင်တို့၏အဆွေသည် သူရူး မဟုတ်ကြောင်း၊ တမန်တော် အစစ်သာလျှင်ဖြစ်သည်ကို ကောင်းစွာ နားလည်သဘောပေါက် ကြပေမည်"။

اللّٰهِ ۚ وَهُوَ عَلٰى كُلِّ شَيْءٍ شَهِيْدٌ ﴿٤٧﴾

အဘယ်ကြောင့်ဟူမူ ငါ့(အား) အကျိုးကျေးဇူး (ပေးသနားတော်မူရန် တာဝန်)မှာကား အလ္လာဟ် အရှင်မြတ်အပေါ်၌သာ ရှိသောကြောင့်ပင်။ အမှန်သော်ကား ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့အပေါ်၌ အသိသက်သေပင် ဖြစ်တော်မူ၏။" [၁]

قُلْ اِنَّ رَبِّيْ يَقْذِفُ بِالْحَقِّ ۚ عَلَّامُ الْغُيُوْبِ ﴿٤٨﴾

၄၈။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါဦးလေ။ "(အချင်းတို့) ဧကန်မလွဲ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် (အမှားကို) အမှန်တရားဖြင့် နှိမ်နင်းတော်မူ၏။ (ထိုအရှင်မြတ်သည်) အကွယ်၌ရှိသမျှတို့ကို ကောင်းစွာ သိရှိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။"

قُلْ جَآءَ الْحَقُّ وَمَا يُبْدِئُ الْبَاطِلُ وَمَا يُعِيْدُ ﴿٤٩﴾

၄၉။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါဦးလေ။ "(အချင်းတို့၊) အမှန်တရားသည် ရောက်ရှိ၍ လာခဲ့ချေပြီ။ စင်စစ်သော်ကား အမှားသည် (တစုံတရာကို) ဖြစ်ပေါ်စေသည်လည်းမဟုတ်ပေ။ (တစုံတရာ)ကို ပြန်၍ ယူလာသည်လည်း မဟုတ်ပေ။ (ယိုယွင်း ပျက်စီးချေပြီ)။" [၂]

---

**(၁) တမန်တော်မြတ် လိုလားတော်မူသောအရာ၊**

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က မိမိ၏အမျိုးသားများအား အတည့်အလင်းဖွင့်ဟ ပြောကြားတော်မူခဲ့သည်မှာ "ကျွန်ုပ်သည် အသင်တို့ထံမှ တစုံတစ်ရာအဖိုးအခ၊ အကျိုးကျေးဇူး၊ ရာထူးဌာနန္တရ အလိုမရှိပါ။ အကယ်တန္တု ကျွန်ုပ်သည်အသင်တို့ထံမှ တစ်စုံတရာအဖိုးအခ တောင်းခဲ့သည်ဟု အသင်တို့ ထင်မြင်ယူဆခဲ့ပါလျှင် ထိုသည့်အဖိုးအခသည် အသင်တို့အဖို့သာ ဖြစ်ပါသည်။ မိမိတို့ထံ၌ပင်၊ ထားရှိကြပါ။ ကျွန်ုပ်မလိုပါ။ အသင်တို့ထံမှ ကျွန်ုပ်လိုလားသောအရာမှာ အဖိုးအခလည်းမဟုတ်၊ ရာထူးဌာနန္တရလည်းမဟုတ်၊ အီမာန်နှင့် အစ္စလာမ်သာဖြစ်ပါသည်။ ဤသည်လည်း အသင်တို့အကျိုးငှာဖြစ်ပါသည်။ ဤမှတစ်ပါး အခြားတစ်စုံတစ်ရာကိုမျှ အလိုမရှိပါ။"

**(၂) အမှန်ရောက်၍ အမှားပျောက်ပြီ၊**

ဆိုလိုသည်ကား အစ္စလာမ်တည်းဟူသော အမှန်တရားရောက်ရှိလာပြီ၊ ယခုဤအမှန်တရားကို မည်သည့်အင်အားစုကမျှ ပိတ်ပင်တားဆီးနိုင်သည်မရှိပြီ၊ အမှန်တရားသည် ရှေ့သို့တောက်လျှောက် ချီတက်သွားတော့မည်ဖြစ်သည်။ အားလုံးကို လွှမ်းမိုးတော့မည်ဖြစ်သည်။ အမှားဟူသမျှကို ချေမှုန်းတော့မည် ➤➤

قُلْ إِن ضَلَلْتُ فَإِنَّمَا أَضِلُّ عَلَىٰ نَفْسِي ۖ وَإِنِ اهْتَدَيْتُ فَبِمَا يُوحِي إِلَيَّ رَبِّي ۚ إِنَّهُ سَمِيعٌ قَرِيبٌ ﴿٥٠﴾

၅၀။ (အိုး-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ "(အချင်းတို့၊) အကယ်၍ ငါသည် လမ်းမှားခဲ့မူ၊ ငါသည် မိမိကိုယ်နှင့်ဆန့်ကျင်၍သာ လမ်းမှားခဲ့ခြင်းဖြစ်မည်။ (ငါ၏အမှားဒဏ်ကို ငါသာခံရမည်၊) သို့ရာတွင် အကယ်၍ ငါသည် တရားလမ်းမှန်ရရှိခဲ့သည်ဖြစ်မူ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်က ငါ့ထံသို့ "ဝဟီ" အမိန့်တော်ထုတ်ပြန်တော်မူသောကြောင့်ပင်ဖြစ်၏။ ဧကန်မလွဲထိုအရှင်မြတ်သည် အလွန်တရာကြားသိတော်မူသော၊ အလွန်တရာ နီးကပ်စွာရှိတော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူပေသတည်း။

وَلَوْ تَرَىٰ إِذْ فَزِعُوا فَلَا فَوْتَ وَأُخِذُوا مِن مَّكَانٍ قَرِيبٍ ﴿٥١﴾

၅၁။ စင်စစ် အကယ်၍ အသင်သည် (၎င်းတို့အား) ၎င်းတို့ ထိတ်လန့် ကြောက်ရွံ့ကြသည့်အခါတွင် တွေ့မြင်ပါလျှင် (အံ့ဩသွားပေမည်)။ ထိုအခါ ၎င်းတို့သည် ထွက်ပြေး လွတ်မြောက်နိုင်ခြင်းမရှိဘဲ အနီးအနားမှာပင် ဖမ်းဆီးခြင်းကို ခံကြရပေမည်။

وَقَالُوا آمَنَّا بِهِ وَأَنَّىٰ لَهُمُ التَّنَاوُشُ مِن مَّكَانٍ بَعِيدٍ ﴿٥٢﴾

၅၂။ ထိုအခါ ၎င်းတို့က "ကျွန်တော်မျိုးတို့သည် ဤ(မှန်ကန်သော "ဒိန်" သာသနာ)ကို ယုံကြည်ကြပါပြီ" ဟု ပြောဆိုကြပေမည်။ သို့ရာတွင် ၎င်းတို့သည် ဤမျှ ဝေးလံစွာသောနေရာမှ ("အီမာန်" သက်ဝင်ယုံကြည်မှုကို) အဘယ်မှာလျှင် ရယူနိုင်ကြအံ့နည်း။ [၁]

---

➤➤ ဖြစ်သည်။ အမှားသည် အမှန်၏ရှေ့မှောက်တွင် မည်သို့မျှ ရပ်တည်နိုင်တော့မည်မဟုတ်ပေ။ အမှားသည် အမှားသာဖြစ်သည်။ ယိုယွင်းပျက်စီးချေပြီ။

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မက္ကာမြို့တော်ကို ပြန်လည်အောင်နိုင် သိမ်းပိုက်တော်မူသည့်နေ့တွင် ဤအာယတ်တော်ကို ရွတ်ဖတ်တော်မူလျက် ရှိတော်မူခဲ့ပေသည်။

(၁) ကာဖိရ်များသည် ဤပစ္စက္ခဘဝတွင် စကားကြီးစကားကျယ် ပြောဆိုနေကြ၏။ သို့ရာတွင် ကိယာမတ်နေ့တွင် ၎င်းတို့၏အဖြစ်ကား အလွန်ကြည့်ဖွယ်၊ အံ့ဩဖွယ်ကောင်းပေမည်။ ကိယာမတ်နေ့တွင် ကာဖိရ်များသည် ➤➤

وَقَدْ كَفَرُوْا بِهٖ مِنْ قَبْلُ ۚ وَيَقْذِفُوْنَ بِالْغَيْبِ مِنْ مَّكَانٍۭ بَعِيْدٍ ﴿٥٣﴾

၅၃။ စင်စစ်ကေန် ၎င်းတို့သည် ရှေးဦးမဆွကပင် ယင်းမှန်ကန်သော "ဒီန်" သာသနာတော်ကို ငြင်းပယ်လျက် ရှိခဲ့ကြသည်သာမက မသိမမြင်ဘဲလျက် ဝေးစွာသော နေရာမှ ရမ်းဆပြောဆို စွပ်စွဲလျက်ပင် ရှိခဲ့ကြကုန်၏။

وَحِيْلَ بَيْنَهُمْ وَبَيْنَ مَا يَشْتَهُوْنَ كَمَا فُعِلَ بِاَشْيَاعِهِمْ مِّنْ قَبْلُ ۗ اِنَّهُمْ كَانُوْا فِيْ شَكٍّ مُّرِيْبٍ ﴿٥٤﴾

၅၄။ ၎င်းပြင် (ထိုနေ့တွင်) ရှေးယခင်က ၎င်းတို့ကဲ့သို့သောသူတို့အား ပြုလုပ်ခဲ့သည့်နည်းတူ ၎င်းတို့နှင့် ၎င်းတို့ အာသာဆန္ဒရှိကြသောအရာများ၏ အကြား၌ အကာအဆီးတခု ပြုလုပ်ခြင်း ခံရပေမည်။ ဧကန်အမှန် ၎င်းတို့သည် ယုံမှား သံသယဖြစ်စေသော ဒွိဟ သံသယ၌ပင် ရှိခဲ့ကြပေသတည်း။

---

➤➤ ကိယာမတ်၏ကြောက်မက်ဖွယ်၊ အံ့ဩဖွယ်ဖြစ်ရပ်များကို တွေ့မြင်ကြရသောအခါ အကြောက်ကြီး ကြောက်ကြ ပေမည်၊ လွတ်မြောက်ရန် ကြိုးစားကြပေမည်၊ သို့ရာတွင် ၎င်းတို့သည် အသို့လျှင် ထွက်ပြေး လွတ်မြောက်သွားနိုင် အံ့နည်း၊ နေရာမထ ဖမ်းဆီးခြင်းခံကြရပေမည်။ ထိုအခါ ကာဖိရ်များက "ကျွန်တော်တို့သည် အီမာန်ယုံကြည်ကြပါပြီ"ဟု ပြောဆိုကြပေမည်။ အလာကောင်းသော်လည်း အခါကား နှောင်းချေပြီ ဆိုသကဲ့သို့ ၎င်းတို့၏ ထိုအီမာန်ယုံကြည်မှုသည် မည်သို့မျှ အကျိုးပေးနိုင်တော့မည်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် နှောင်တမလွန် ဘဝသည် ကျိုးပြစ်ပေးရာဘဝဖြစ်သည်။ ပစ္စက္ခဘဝသည်သာလျှင် အဆိုးအကောင်း ဆည်းပူးရာဘဝဖြစ်သည်။ ပစ္စက္ခဘဝကား ဝေးစွာကျန်ရစ်ခဲ့ပေပြီ။ ပစ္စက္ခဘဝတွင် ပြုလုပ်ရမည့် အလုပ်ကို နှောင်တမလွန်ဘဝတွင် ပြုလုပ်လိုခြင်းမှာ မိုးကုန်မှထွန်ချ လိုခြင်းမျိုးသာ ဖြစ်ပေသည်။

# စတင်ဖန်ဆင်းတော်မူသောအရှင်ကဏ္ဍ



ဤကဏ္ဍသည် အလ်ဖာတွစ်ရ် စတင်ဖန်ဆင်းတော်မူသောအရှင် အကြောင်း ပါဝင်သော ကဏ္ဍဖြစ်သည်။ မက္ကာမြို့တော်၌ ကျရောက်ခဲ့သည်။

ဤကဏ္ဍတွင် အာယတ်တော်(၄၅)ပါး ရကူအ်အပိုဒ်(၅)ပိုဒ် အသီးသီးပါရှိသည်။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမတော်ဖြင့် အစပြုပါ၏။

اَلْحَمْدُ لِلّٰهِ فَاطِرِ السَّمٰوٰتِ وَالْاَرْضِ جَاعِلِ الْمَلٰٓئِكَةِ رُسُلًا اُولِيْٓ اَجْنِحَةٍ مَّثْنٰى وَثُلٰثَ وَرُبٰعَ ۭ يَزِيْدُ فِي الْخَلْقِ مَا يَشَاۗءُ ۭ اِنَّ اللّٰهَ عَلٰي كُلِّ شَيْءٍ قَدِيْرٌ ①

၁။ ချီးမွမ်း ထောပနာ အပေါင်းတို့သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ တီထွင်ဖန်ဆင်းတော်မူသော၊ *အတောင်ပံနှစ်ခုစီ၊ သုံးခုစီ၊ လေးခုစီရှိသော* [၁] "မလာအိကဟ်" *ကောင်းကင်တမန်တို့အား စေတမန်များအဖြစ် ခန့်အပ်တော်မူသော* [၂] အလ္လာဟ်အရှင်မြတ်နှင့်သာ ထိုက်သင့်၏။ ထိုအရှင်မြတ်သည် ဖန်ဆင်းမှု၌ မိမိအလိုရှိတော်မူသည့်အရာကို တိုးပွားများပြား ပိုမိုစေတော်မူ၏။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) အချို့ကောင်းကင်တမန်များ၌ အတောင်ပံနှစ်ဘက် အချို့၌ အတောင်ပံသုံးဘက်၊ အချို့၌ အတောင်ပံလေးဘက်စီ၊ အသီးသီးရှိပေသည်။ ယင်းအတောင်ပံများသည် မည်သို့မည်ပုံရှိသည်ကို အလ္လာဟ်အရှင်မြတ်သာလျှင် အသိဆုံးဖြစ်တော်မူသည်။ သို့မဟုတ် မြင်ဖူးသော ပုဂ္ဂိုလ်များသည် အနည်းငယ် ပြောပြနိုင်ကြပေမည်။

အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသော မည်သည့် အဖန်ဆင်းခံ၌မဆို မည်သည့် အင်္ဂါအစိတ်အပိုင်းကိုမဆို၊ မည်သည့်အရည်အသွေး စွမ်းရည်သတ္တိကိုမဆို၊ မည်သည့် လှပမှုကိုမဆို၊ မည်သည့် ကောင်းမြတ်မှုကိုမဆို၊ ပိုမိုဖန်ဆင်းတော်မူနိုင်သည်။ အချို့ကောင်းကင်တမန်များ၌ ရှိသော အတောင်ပံနှစ်ဘက်၊ သုံးဘက်၊ လေးဘက်စီသည်လည်း အလ္လာဟ်အရှင်မြတ်ကပင် ဖန်ဆင်းပေးထားတော်မူခြင်းဖြစ်သည်။ ထိုထက်ပိုမို၍လည်း ဖန်ဆင်းတော်မူနိုင်သည်။ ကောင်းကင်တမန် ဂျစ်ဗ်ရီလ်၌ အတောင်ပံပေါင်း (၆၀၀)ရှိကြောင်း တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ ဩဝါဒတော်များတွင် လာရှိပေသည်။

مَا يَفْتَحِ اللّٰهُ لِلنَّاسِ مِنْ رَّحْمَةٍ فَلَا مُمْسِكَ لَهَا ۚ وَمَا يُمْسِكْ ۙ فَلَا مُرْسِلَ لَهٗ مِنْۢ بَعْدِهٖ ۚ وَهُوَ الْعَزِيْزُ الْحَكِيْمُ ②

၂။ အလ္လာဟ်အရှင်မြတ်က လူတို့အဖို့ ဖွင့်ပေးတော်မူသော ကရုဏာတော်ကို ပိတ်ပင်တားဆီးနိုင်သူဟူ၍ အလျှင်းမရှိချေ။ ထိုနည်းတူစွာ ထိုအရှင်မြတ် ပိတ်ပင်တားဆီးတော်မူသော အရာကိုလည်း ထိုအရှင်မြတ် ပိတ်ပင် တားဆီးတော်မူပြီးနောက် ပို့ပေးနိုင်သောသူဟူ၍ အလျှင်းမရှိပြီ။ [၁] စင်စစ် ထိုအရှင်မြတ်သည်ပင် အလွန်တရာ လွှမ်းမိုးတော်မူသောအရှင်၊ အလွန်တရာ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

يٰٓاَيُّهَا النَّاسُ اذْكُرُوْا نِعْمَتَ اللّٰهِ عَلَيْكُمْ ۗ هَلْ مِنْ خَالِقٍ غَيْرُ اللّٰهِ يَرْزُقُكُمْ مِّنَ السَّمَآءِ وَالْاَرْضِ ۗ لَآ اِلٰهَ اِلَّا هُوَ ۖ فَاَنّٰى تُؤْفَكُوْنَ ③

၃။ အို-လူခပ်သိမ်းတို့၊ အသင်တို့သည် မိမိတို့အပေါ်၌ အလ္လာဟ်အရှင်မြတ်က ပြုတော်မူခဲ့သော ကျေးဇူးတော်များကို ပြန်လည်အောက်မေ့ သတိရကြလေကုန်။ အလ္လာဟ်အရှင်မြတ်အပြင် အသင်တို့အား မိုးကောင်းကင်မှလည်းကောင်း၊ ပထဝီမြေမှလည်းကောင်း၊ စားနပ်ရိက္ခာပေးသည့် ဖန်ဆင်းသူဟူ၍ တစ်ဦးတစ်ယောက်မျှပင် ရှိပါသေးသလော၊ ထိုအရှင်မြတ်မှတပါး ဆည်းကပ်ကိုးကွယ်ရာအရှင်ဟူ၍ အလျှင်းမရှိပြီ။ သို့ပါလျက် အသင်တို့သည် အဘယ်သို့ ပြန်လှည့်သွားကြလေသနည်း။

---

(၂) အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်တမန်များအား အမျိုးမျိုး စေခိုင်းတော်မူသည်။ အချို့ကောင်းကင်တမန်များအား စေတမန်များအဖြစ် ခန့်အပ်ထားတော်မူသည်။ အချို့ကောင်းကင်တမန်များအား ရုပ်လောကနာမ်လောက၏ စီမံခန့်ခွဲမှုများတွင် ခိုင်းစေထားတော်မူသည်။ ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံ၊အစေခံ သတ္တဝါများသာ ဖြစ်ကြပေသည်။ ကောင်းကင်တမန်များအကြောင်း ကုရ်အာန် (၂း၃၀)တွင် အကျယ်ရေးသားခဲ့ပေပြီ။

(၁) အလ္လာဟ်အရှင်မြတ်သည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူသည်။ အရာခပ်သိမ်းကုန်တို့ကို လွှမ်းမိုးတော်မူသည်။ အရာရာကို ဆင်ခြင်တုံတရားနှင့် စီမံဖန်ဆင်းတော်မူသည်။ ဤအာယတ်တော်တွင် ပါရှိသော 'ရဟ်မတ်' ကရုဏာတော်သည် ရုပ်နှင့်လည်းဆိုင်သည်။ မိုးရေ၊ စားနပ်ရိက္ခာ စသည်များကိုလည်း ဆိုနိုင်သည်။ နာမ်နှင့်ဆိုင်သည့် ကျမ်းဂန်များချပေးမှု၊ တမန်တော်များအား စေလွှတ်မှုများကိုလည်း ဆိုနိုင်သည်။ အသို့ပင်ရှိစေ၊ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကရုဏာတော်တည်းဟူသော တံခါးကို ဖွင့်ပေးတော်မူပါက မည်သူမျှ➤➤

وَإِن يُكَذِّبُوكَ فَقَدْ كُذِّبَتْ رُسُلٌ مِّن قَبْلِكَ ۚ وَإِلَى اللَّهِ تُرْجَعُ الْأُمُورُ ④

၄။ (အို–နဗီတမန်တော်) အကယ်၍ ၎င်းတို့သည် အသင့်အား မုသာဝါဒီဟု စွပ်စွဲငြင်းပယ်ကြပါလျှင် (အသင်သည် စိတ်ငြိုငြင်မှုမရှိပါလေနှင့်၊) ဧကန်အမှန် အသင့်အလျှင် ရှေးရှုလ်တမန်တော်များသည်လည်း မုသာဝါဒီများဟူ၍ စွပ်စွဲငြင်းပယ်ခြင်း ခံခဲ့ကြရလေ၏။ အမှန်သော်ကား အရေးကိစ္စ အလုံးစုံတို့မှာ အလ္လာဟ် အရှင်မြတ်ထံတော်သို့သာလျှင် ပြန်လည် ရောက်ကြရပေမည်။

يَا أَيُّهَا النَّاسُ إِنَّ وَعْدَ اللَّهِ حَقٌّ ۖ فَلَا تَغُرَّنَّكُمُ الْحَيَاةُ الدُّنْيَا ۖ وَلَا يَغُرَّنَّكُم بِاللَّهِ الْغَرُورُ ⑤

၅။ အို–လူအပေါင်းတို့၊ ဧကန်မလွဲ အလ္လာဟ် အရှင်မြတ်ထားရှိတော်မူသောကတိသည် မှန်ကန်၏။ သို့ဖြစ်ပေရာ လောကီဘဝ၌ အသက်ရှင်ခြင်းသည်လည်း အသင်တို့အား လှည့်ဖြားခြင်းမပြုစေရ၊ လှည့်စားသူ “ရှိုင်တွာန်”(မိစ္ဆာကောင်)သည်လည်း အသင်တို့အား အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ လှည့်ဖြားခြင်း မပြုစေရ။

إِنَّ الشَّيْطَانَ لَكُمْ عَدُوٌّ فَاتَّخِذُوهُ عَدُوًّا ۚ إِنَّمَا يَدْعُو حِزْبَهُ لِيَكُونُوا مِنْ أَصْحَابِ السَّعِيرِ ⑥

၆။ မလွဲဧကန် ‘ရှိုင်တွာန်’ မိစ္ဆာကောင်သည် အသင်တို့၏ ရန်သူပင်ဖြစ်၏။ သို့ဖြစ်ပေရာ အသင်တို့သည် ထို ‘ရှိုင်တွာန်’ မိစ္ဆာကောင်အား (မိမိတို့၏) ရန်သူဟူ၍ပင် အသိအမှတ်ပြုကြလေကုန်။ (စင်စစ်သော်ကား) ထို ‘ရှိုင်တွာန်’ မိစ္ဆာကောင်သည် မိမိဘက်သားများအား (ငရဲဘုံ၏) မီးတောက်မီးလျှံ၌ လားကြရသူတို့တွင် အပါအဝင် ဖြစ်ကြစေရန်သာလျှင် ဖိတ်ခေါ်လေသတည်း။

---

➤➤ ပြန်လည်ပိတ်နိုင်သည်မရှိ၊ ထိုအရှင်မြတ် ပိတ်လိုက်တော်မူပါက မည်သူမျှ ပြန်လည်ဖွင့်နိုင်သည်မရှိ၊ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ကား ကြီးမားလှပါဘိတကား။ ဤသည့်သဘောကို ကုရ်အာန် (၆း၁၇) တွင်လည်း မိန့်ဆိုထားတော်မူသည်။

ٱلَّذِينَ كَفَرُوا۟ لَهُمْ عَذَابٌ شَدِيدٌ ۖ وَٱلَّذِينَ ءَامَنُوا۟ وَعَمِلُوا۟ ٱلصَّٰلِحَٰتِ لَهُم مَّغْفِرَةٌ وَأَجْرٌ كَبِيرٌ ⑦

၇။ 'ကာဖိရ်' သွေဖည်ငြင်းပယ်ကြကုန်သောသူတို့၌ ပြင်းထန်စွာသောပြစ်ဒဏ်သည် ရှိချေသည်။ သို့ရာတွင် 'အီမာန်' သက်ဝင်ယုံကြည်၍ ကောင်းမြတ်သော အကျင့်သီလများကို ကျင့်မှုဆောက်တည်ကြကုန်သော သူတို့အဖို့မှာမူကား လွတ်ငြိမ်းချမ်းသာခွင့်သည်လည်းကောင်း၊ ကြီးကျယ်လှစွာသော အကျိုးကျေးဇူးသည်လည်းကောင်း၊ ရှိပေသည်။

أَفَمَن زُيِّنَ لَهُۥ سُوٓءُ عَمَلِهِۦ فَرَءَاهُ حَسَنًا ۖ فَإِنَّ ٱللَّهَ يُضِلُّ مَن يَشَآءُ وَيَهْدِى مَن يَشَآءُ ۖ فَلَا تَذْهَبْ نَفْسُكَ عَلَيْهِمْ حَسَرَٰتٍ ۚ إِنَّ ٱللَّهَ عَلِيمٌۢ بِمَا يَصْنَعُونَ ⑧

၈။ သို့ဖြစ်ပေရာ အသို့ပါနည်း။ မိမိ၏ မကောင်းမှုများသည် မိမိအမြင်တွင် လှပတင့်တယ်အောင် ပြုလုပ်ခြင်းခံရသောကြောင့် ယင်းမကောင်းသောကျင့်မှုများကို အကောင်းဟူ၍ ထင်မြင်လာသောသူသည် အမှားကို အမှန်ဟု ထင်မြင်သောသူနှင့်တူလေသည်။ စင်စစ်မှာကား ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား လမ်းမှား၌ ထားတော်မူ၏။ ထိုနည်းတူစွာ မိမိအလိုရှိတော်မူသောသူအား တရားလမ်းမှန်ကို ပြတော်မူ၏။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်၏ အသက်ဇီဝိန်သည် ၎င်းတို့နှင့် ပတ်သက်၍ ဆွေးကာတွေးကာ မဆုံးပါးစေရ။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ပြုမူသမျှတို့ကို ကောင်းစွာသိရှိတော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူပေသတည်း။ [၁]

---

၁ **အမြင်မှန်သူနှင့် အမြင်မှားသူ၊**

အကြင်သူတစ်ဦးသည် ရှိုင်တွာန်၏ သွေးဆောင်ဖြားယောင်းမှုကြောင့် မိမိ၏မကောင်းမှုကိုပင် အကောင်းဟူ၍ ထင်မြင်နေ၏။ အမြင်မှားနေ၏။ အခြားတစ်ဦးမှာ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် အကောင်းနှင့်အဆိုးကို ခွဲခြားသိမြင်၏။ အကောင်းကို အကောင်းဟူ၍ပင်မြင်၏။ အဆိုးကို အဆိုးဟူ၍ပင်မြင်၏။ အမြင်မှန်၏။ ထိုသူနှစ်ဦးသည် အသို့လျှင် တူနိုင်ကြအံ့နည်း။ ထိုသူနှစ်ဦးသည် အချင်းချင်း အမြင်မတူကြလျှင် ၎င်းတို့၏အကျိုးဆက်မှာ- အသို့လျှင် တူညီနိုင်အံ့နည်း၊ အလျှင်းမတူနိုင်။

အလ္လာဟ်အရှင်မြတ်သည် အကြင်သူတစ်ဦးအား ၎င်း၏ ကောင်းမြတ်သော အရည်အချင်း၊ သင့်မြတ်သော ဆည်းပူးမှုများကြောင့် တရားလမ်းမှန်ကို ပြတော်မူပါလျှင်၊ ထိုသို့သောသူအား မည်သည့်ရှိုင်တွာန်ကမျှ ➤➤

وَاللّٰهُ الَّذِيْٓ اَرْسَلَ الرِّيٰحَ فَتُثِيْرُ سَحَابًا فَسُقْنٰهُ اِلٰى بَلَدٍ مَّيِّتٍ فَاَحْيَيْنَا بِهِ الْاَرْضَ بَعْدَ مَوْتِهَا ۗ كَذٰلِكَ النُّشُوْرُ ۝٩

၉။ စင်စစ် အလ္လာဟ်အရှင်မြတ်သည်ပင် လေများကို စေလွှတ်တော်မူသော အရှင်မြတ်ဖြစ်တော်မူ၏။ ထို့နောက် ယင်းလေများသည် မိုးတိမ်များကို သယ်ဆောင်၍ သွားကြလေ၏။ ထို့နောက် ငါအရှင်မြတ်သည် ယင်းမိုးတိမ်များကို (သေ့ခြောက်) သေလျက်ရှိသော နယ်မြေဒေသများသို့ မောင်းနှင်တော်မူ၏။ ထို့နောက် ငါအရှင်မြတ်သည် ထို(မိုးတိမ်များမှရွာသွန်းသော)ရေဖြင့် (သေ့ခြောက်)သေနေသောမြေကို ပြန်လည် စိမ်းလန်းစိုပြည်စေတော်မူ၏။ ရှင်ပြန်ထခြင်းသည်လည်း ဤနည်းအတိုင်းပင် ဖြစ်ချေသည်။

مَنْ كَانَ يُرِيْدُ الْعِزَّةَ فَلِلّٰهِ الْعِزَّةُ جَمِيْعًا ۗ اِلَيْهِ يَصْعَدُ الْكَلِمُ الطَّيِّبُ وَالْعَمَلُ الصَّالِحُ يَرْفَعُهٗ ۗ وَالَّذِيْنَ يَمْكُرُوْنَ السَّيِّاٰتِ

၁၀။ မည်သူမဆို ဂုဏ်အသရေကို အလိုရှိလျှင် (အလ္လာဟ်အရှင်မြတ်ထံတော်၌ သာလျှင် ရှောက်ထားရပေမည်။) အကြောင်းမူကား အလုံးစုံသော ဂုဏ်အသရေတို့မှာ အလ္လာဟ်အရှင်မြတ်၌သာ ရှိသောကြောင့်ပင်။ စင်ကြယ်သန့်ပြန်သောစကားရပ်များသည် ထိုအရှင်မြတ်အထံတော်သို့ပင် တက်သွားကြပေသည်။

---

➤➤ သွေးမဆောင်နိုင်၊ မဖြားယောင်းနိုင်၊ လှဲမှားယိမ်းပါးစေရန် အလျှင်းမပြုနိုင်။ သို့ရာတွင် အကြင်သူတစ်ဦးသည် ရှိုင်တွာန်၏ သွေးဆောင်ဖြားယောင်းမှုကြောင့် အဆိုးကိုအကောင်း၊ အမှားကိုအမှန်၊ အဆိပ်ကိုအဟာရဟူ၍ ထင်မှတ်နေပါလျှင်၊ ထိုသို့သောသူသည် အမှန်တရားကို အသို့လျှင် မြင်နိုင်တော့အံ့နည်း။

ထိုသို့သောသူများသည် အမှန်တရားကို မကြားလိုကြ၊ မမြင်လိုကြ၊ သို့ဖြစ်ရာ ဤရွေ့ဤမျှ မှောက်မှားနေကြသူများ အမှန်တရားနှင့် ကင်းကွာနေကြသူများအတွက် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ဆွေးကာတွေးကာ၊ တွေးကာဆွေးကာ၊ စိတ်ဒုက္ခဖြစ်နေရန် မလိုပေ။ ၎င်းတို့၏အရေးကို အလ္လာဟ်အရှင်မြတ်ထံသို့သာ လွှဲထားရမည်သာ။ ထိုအရှင်မြတ်သည် ၎င်းတို့အကြောင်း၊ ကောင်းစွာ သိတော်မူသည်ဖြစ်ရာ၊ ထိုက်သည့်အားလျော်စွာ စီရင်တော်မူမည်သာ။

ဤသည်ကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် လူသားတို့ တရားရရှိရေးကို သူမတူအောင် အတိုင်းထက်အလွန် လိုလားတော် မူခဲ့သည့်မှာ ထင်ရှားလှပေသည်။

[ကြည့်-ကုရ်အာန် (၂၆:၃)]

لَهُمْ عَذَابٌ شَدِيدٌ ۖ وَمَكْرُ أُولَٰئِكَ هُوَ يَبُورُ ﴿١٠﴾

၎င်းပြင် ကောင်းမြတ်သော အကျင့်သီလဟူသည် ထိုစင်ကြယ်သန့်ပြန့်သော *စကားများကို ပင့်မြှောက်ပို့ဆောင်၍ ပေးလေသည်။* [၁] သို့ရာတွင် မကောင်းသော အကြံအစည်များကို ကြံစည်သော သူတို့၌မူကား ပြင်းထန်စွာသော ပြစ်ဒဏ်သည် ရှိပေမည်။ ထိုမှတပါး *၎င်းတို့၏ အကြံအစည်တို့မှာလည်း ပျက်ပြား၍ သွားကြပေမည်။* [၂]

وَاللَّهُ خَلَقَكُم مِّن تُرَابٍ ثُمَّ مِن نُّطْفَةٍ ثُمَّ جَعَلَكُمْ أَزْوَاجًا ۚ وَمَا تَحْمِلُ مِنْ أُنثَىٰ

**၁၁။** စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား မြေကြီးဖြင့် ဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် ကလလရေကြည်ဖြင့်(ဖန်ဆင်းတော်မူခဲ့၏)။ ထို့နောက် ထိုအရှင်မြတ်သည် အသင်တို့အား စုံတွဲများ ပြုလုပ်တော်မူခဲ့၏။

---

① **ဂုဏ်သိမ် မည်သို့ ရယူရသနည်း၊**

"ကောင်းမြတ်သောစကား" ဟူသည် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရခြင်း၊ ထိုအရှင်မြတ်ထံတော်၌ ဆုပန်ကြားခြင်း၊ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်ခြင်း၊ သွန်သင်ဆုံးမ ဩဝါဒပေးခြင်းများကို ဆိုလိုသည်။ ဤသည့်ကောင်းမြတ်သော စကားများသာလျှင် အလ္လာဟ်အရှင်မြတ်၏ အထံတော်သို့ တက်ရောက်ကြသည်။ ထိုအရှင်မြတ်ထံတော်မှ လက်ခံသဘောတူတော်မူခြင်း၊ အလေးထားခြင်း၊ ဂရုပြုတော်မူခြင်း တည်းဟူသော ဂုဏ်သိန်ကိုရယူကြသည်။

ကောင်းမြတ်သော စကားများသည် မူလဗီဇသဘာဝအလျောက် အလ္လာဟ်အရှင်မြတ် ထံတော်ပါးသို့တက်ကြသည်။ အကယ်၍ ကောင်းမြတ်သော စကားနှင့်အတူ ကောင်းမြတ်သော အကျင့်သီလရှိပါက ထိုကောင်းမြတ်သော အကျင့်သီလသည် ထိုသည့် ကောင်းမြတ်သောစကားကို ပို၍ပင် မ,တင်ပေးလေသည်။ အလ္လာဟ့်ထံတော်ပါးသို့ တက်ရာတွင် အထောက်အကူ ဖြစ်စေသည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ကောင်းမြတ်သောစကားနှင့် ကောင်းမြတ်သော အကျင့်သီလသည် အဘယ်မျှ အရေးကြီးကြောင်း၊ ကောင်းစွာ သိရှိနိုင်ပေသည်။ သို့ဖြစ်ရာ မည်သူမဆို အလ္လာဟ်အရှင်မြတ် ထံတော်ပါးမှ ဂုဏ်သိန်အလိုရှိက ကောင်းမြတ်သော စကားများကိုဆို၍ ကောင်းမြတ်သော အကျင့်သီလများကို ဆည်းပူးရမည်သာတည်း။

② အမှန်တရားကို ဆန့်ကျင်ရန် ကြံစည်အားထုတ်သူများသည် နောက်ဆုံးတွင် ၎င်းတို့ကိုယ်တိုင် ပျက်ဆီးဆိတ်သုဉ်း သွားကြသည်သာဖြစ်သည်။ ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် အစ္စလာမ်ကို ချေမှုန်းနိုင်ရန်အတွက် တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ဖမ်းချုပ်ချည်နှောင်ထားရန်၊ ပြည်နှင်ဒဏ်ပေးရန်၊ သတ်ဖြတ်ရန် အမျိုးမျိုး ကြံစည်ခဲ့ကြ၏။ သို့ရာတွင် နောက်ဆုံး၌ 'ဗဒ်ရ်' စစ်ပွဲဖြစ်ပွားသည့်အခါ ၎င်းတို့ ကိုယ်တိုင်ပင် အရပ်တစ်ပါးသို့ ထွက်ခွာသွားခဲ့ကြရ၏။ မှစ်လင်မ်တို့၏လက်ချက်ဖြင့် သတ်ဖြတ်ခြင်း ➤➤

وَلَا تَضَعُ إِلَّا بِعِلْمِهِۦ ۚ وَمَا يُعَمَّرُ مِن مُّعَمَّرٍ وَلَا يُنقَصُ مِنْ عُمُرِهِۦٓ إِلَّا فِى كِتَٰبٍ ۚ إِنَّ ذَٰلِكَ عَلَى ٱللَّهِ يَسِيرٌ ⑪

စင်စစ် မည်သည့် မိန်းမတစ်ဦး တစ်ယောက်မျှပင် ထိုအရှင်မြတ်မသိတော်မူပဲ ကိုယ်ဝန်ဆောင်ခြင်းလည်းမရှိ၊ သားဖွားခြင်းလည်းမရှိပေ။ ထိုနည်းတူစွာ မည်သည့်အသက်ရှည်သောသူ တစ်ဦးတစ်ယောက်၏ အသက်ကိုမျှ ပို၍သတ်မှတ်သည်လည်းမရှိ။ မည်သူတဦးတယောက်၏ အသက်ကိုမျှလျော့၍ သတ်မှတ်သည်လည်းမရှိ။ သို့ရာတွင် ဤသည် ထိုသည့် မှတ်တမ်းတော်၌ ရေးမှတ်ပြီး ဖြစ်သည်။ ဧကန်မလွဲ ဤသည်ကား အလ္လာဟ်အရှင်မြတ်၌ လွန်စွာ လွယ်ကူလှပေသတည်း။ ၁

وَمَا يَسْتَوِى ٱلْبَحْرَانِ هَٰذَا عَذْبٌ فُرَاتٌ سَآئِغٌ شَرَابُهُۥ وَهَٰذَا مِلْحٌ أُجَاجٌ ۖ وَمِن كُلٍّ تَأْكُلُونَ لَحْمًا طَرِيًّا وَتَسْتَخْرِجُونَ حِلْيَةً تَلْبَسُونَهَا ۖ وَتَرَى ٱلْفُلْكَ فِيهِ مَوَاخِرَ لِتَبْتَغُوا۟ مِن

၁၂။ ၎င်းပြင် သမုဒ္ဒရာပင်လယ်နှစ်ခုသည် မတူကြပေ။ ဤ(ပင်လယ်တစ်ခု၏) ရေမှာ ချိုမြိန်၏။ ရေငတ်ပြေစေ၏။ ထိုရေကို သောက်သုံးရာ၌လည်း လွယ်ကူ၍ အဝင်ကောင်းလှ၏။ သို့ရာတွင် ဤ(ပင်လယ်တစ်ခု၏ ရေ)မှာမူကား ငံ၏။ ခါး၏။ သို့ရာတွင် အသင်တို့သည် (ထိုပင်လယ်)အသီးသီးမှ လတ်ဆတ်သော အသား၊(ဝါ) ငါးများကို စားသုံးကြကုန်၏။ ၎င်းပြင် အသင်တို့သည် (ထိုပင်လယ်များမှ) မိမိတို့ဝတ်ဆင်ကြကုန်သော လက်ဝတ်လက်စား တန်ဆာများကို ထုတ်ယူကြကုန်၏။

---

➤➤ ခံခဲ့ကြရ၏၊ ရေတွင်းတစ်ခုတည်းတွင် အစုလိုက်အပြုံလိုက် အမြှုပ်ခံခဲ့ကြရ၏။ ဤကား အမှန်တရားကို ဆန့်ကျင်ရန် ကြံစည်သူများ ဤပစ္စက္ခမျက်မှောက်ဘဝတွင် ခံစားကြရသည့်ဆိုးကျိုးသာ၊ နောင်တမလွန်ဘဝတွင် ခံစားကြရမည့် ပြစ်ဒဏ်ကား ထို့ထက်ပင် အတိုင်းမသိ ပိုမိုဆိုးရွားလှပေမည်။

① မည်သူမည်ဝါ၏ ဇင်ဒဂီသက်တမ်းသည် မည်ရွေ့မည်မျှဖြစ်သည်ကို အလ္လာဟ်အရှင်မြတ်၏ "လောင်ဝ်ဟ်မဟ်ဖူဇ်" မှတ်တမ်းတော်တွင် အတိအကျ ရေးမှတ်ထားပြီး ဖြစ်သည်။ ထိုအရှင်မြတ်သည် သက်တမ်းရှည်ခြင်း၊ သက်တမ်းတိုခြင်း၏ အကြောင်းများကို သိတော်မူသည်။ မည်သူမည်ဝါသည် သတ်မှတ်ထားပြီးဖြစ်သည့် သက်တမ်းသို့ ရောက်မည်မရောက်မည်ကိုလည်း အတိအကျသိတော်မူသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် စကြာဝဠာခပ်သိမ်း၌ ဖြစ်ပျက်သမျှတို့ကို ခရေစေ့တွင်းကျ အသေးစိတ် သိမြင်တော်မူသည်ဟူ၏။

فَضۡلِهٖ وَلَعَلَّكُمۡ تَشۡكُرُوۡنَ ⑫

ထိုမှတပါး အသင်တို့သည် ထိုအရှင်မြတ်၏ ကျေးဇူးတော်တည်းဟူသော စားနပ်ရိက္ခာကို ရှာဖွေဆည်းပူးကြအံ့သောငှာ ထိုပင်လယ်၌ သင်္ဘောများ ရေကိုခွဲ၍ သွားလာလျက် ရှိကြသည်ကိုလည်း အသင်သည် တွေ့မြင်ရပေမည်။ သို့မှာသာလျှင် အသင်တို့သည် ကျေးဇူးတော်ကို သိတတ်ကြအံ့သတည်း။

يُوۡلِجُ الَّيۡلَ فِي النَّهَارِ وَيُوۡلِجُ النَّهَارَ فِي الَّيۡلِ ۙ وَسَخَّرَ الشَّمۡسَ وَالۡقَمَرَ ۖ كُلٌّ يَّجۡرِيۡ لِاَجَلٍ مُّسَمًّى ؕ ذٰلِكُمُ اللّٰهُ رَبُّكُمۡ لَهُ الۡمُلۡكُ ؕ وَالَّذِيۡنَ تَدۡعُوۡنَ مِنۡ دُوۡنِهٖ مَا يَمۡلِكُوۡنَ مِنۡ قِطۡمِيۡرٍ ؕ ⑬

၁၃။ ထိုအရှင်မြတ်သည် (အချို့သောရာသီဥတု၌) ညဥ့်၏(အစိတ်အပိုင်းအချို့ကို) နေ့၏အတွင်းသို့ ဝင်စေတော်မူ၍ (အချို့သောရာသီဥတု၌မူ) နေ့၏ (အချို့သော အစိတ်အပိုင်း)ကို ညဥ့်၏အတွင်းသို့ ဝင်စေတော်မူ၏။ ထိုမှတပါး ထိုအရှင်မြတ်သည် "သူရိယ" နေကိုလည်းကောင်း၊ လ 'စန္ဒာ' ကိုလည်းကောင်း၊ ပိုင်နိုင်စွာ ခိုင်းစေထားတော်မူရာ/အကျိုးပြုထားစေတော်မူရာ (ယင်း 'သူရိယ' နေနှင့် လ 'စန္ဒာ') အသီးသီးတို့မှာ သတ်မှတ်ပြဋ္ဌာန်းထားသော အချိန်ကာလတိုင်အောင် လှုပ်ရှားသွားလာလျက်ပင် ရှိကြပေသည်။

ဤသည် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူ၏။ စိုးမိုးအုပ်ချုပ်မှုအာဏာသည် ထိုအရှင်မြတ်၌သာရှိ၏။ သို့ရာတွင် ထိုအရှင်မြတ်အား စွန့်၍ အသင်တို့ ဟစ်ခေါ်တသလျက် ရှိကြကုန်သော သူတို့မှာမူကား စွန်ပလွံစေ့၌ ကပ်လျက်ရှိသော အမြှေးခန့်မျှပင် ပိုင်ဆိုင်ကြသည် မဟုတ်ပေ။

اِنۡ تَدۡعُوۡهُمۡ لَا يَسۡمَعُوۡا دُعَآءَكُمۡ ۚ وَلَوۡ سَمِعُوۡا مَا

၁၄။ အသင်တို့သည် အကယ်၍ ၎င်းတို့အား ဟစ်ခေါ်ကြပါလျှင် ၎င်းတို့သည် ကြားကြမည် မဟုတ်ပေ။ သို့ရာတွင် အကယ်၍ ကြားခဲ့ကြငြားသော်လည်း အသင်တို့အား ပြန်၍ထူးကြမည် မဟုတ်ပေ။

اسْتَجَابُوا لَكُمْ وَيَوْمَ الْقِيٰمَةِ يَكْفُرُونَ بِشِرْكِكُمْ وَلَا يُنَبِّئُكَ مِثْلُ خَبِيرٍ ﴿١٤﴾

(ပြုလုပ်ဖြည့်စွမ်းပေးနိုင်ကြမည်မဟုတ်ပေ)။ ထိုမှတပါး "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင်မူ ၎င်းတို့သည် အသင်တို့၏ တွဲဖက်ကိုးကွယ်မှုကိုပင် ငြင်းပယ်ကြပေမည်။ စင်စစ်သော်ကား အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ ကြားသိတော်မူသော အရှင်ကဲ့သို့ မည်သူတစ်ဦး တစ်ယောက်မျှပင် အသင့်အား ထုတ်ဖော်၍ ပြောကြားမည် မဟုတ်ပြီ။

يٰٓاَيُّهَا النَّاسُ اَنْتُمُ الْفُقَرَآءُ اِلَى اللّٰهِ ۚ وَاللّٰهُ هُوَ الْغَنِيُّ الْحَمِيْدُ ﴿١٥﴾

၁၅။ အို-လူအပေါင်းတို့၊ အသင်တို့သည်(သာလျှင်) (မိမိတို့၏ကိစ္စအရပ်ရပ်တွင်) အလ္လာဟ်အရှင်မြတ်အား လိုလား တောင့်တကြရသူများပင် ဖြစ်ကြကုန်၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်မှာမူကား လိုလားတောင့်တခြင်း လုံး၀ ကင်းမဲ့သောအရှင်၊ ချီးမွမ်းအပ်သော "ဝိသေသ" ဂုဏ်ထူးနှင့် ပြည့်စုံတော်မူသော အရှင် ဖြစ်တော်မူ၏။

اِنْ يَّشَاْ يُذْهِبْكُمْ وَيَاْتِ بِخَلْقٍ جَدِيْدٍ ﴿١٦﴾

၁၆။ အကယ်၍ ထိုအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် အသင်တို့အား ပယ်ရှားတော်မူ၍ အဖန်ဆင်းခံအသစ်ကို ယူလာတော်မူနိုင်၏။

وَمَا ذٰلِكَ عَلَى اللّٰهِ بِعَزِيْزٍ ﴿١٧﴾

၁၇။ စင်စစ်သော်ကား ဤသည် အလ္လာဟ်အရှင်မြတ်၌ (လုံး၀) ခဲယဉ်းသည် မဟုတ်ပြီ။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါက သင်တို့အား ဖယ်ရှား၍ အသင်တို့နေရာ၌ အခြားအဖန်ဆင်းခံအသစ်များကို ဖန်ဆင်းတော်မူနိုင်ပေသည်။ ထိုအဖန်ဆင်းခံ အသစ်များသည် ထိုအရှင်မြတ်၏ အမိန့်တော်များကို ကောင်းကင်တမန်များပမာ မြေ၀ယ်မကျနာခံကြပေမည်။ ဤသို့ပြုလုပ်ရန် အလ္လာဟ်အရှင်မြတ်၌ မည်သို့မျှ အခက်အခဲမရှိ၊ သို့ရာတွင် ထိုအရှင်မြတ်သည် ဤစကြာ၀ဠာ၌ အဆိုးအကောင်းအားလုံးတို့အား နေထိုင်ခွင့်ပြုထားတော်မူခြင်းမှာ ကောင်းသူများ ကောင်းကျိုးစံ၍ မကောင်းသူများ ဆိုးကျိုးခံရန်ပင်ဖြစ်သည်။ ဤသို့ဖြင့် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များသည် ထင်ရှားလာပေသည်။ [ကြည့်-ကုရ်အာန်(၅:၅၄)]

وَلَا تَزِرُ وَازِرَةٌ وِّزْرَ أُخْرٰى ۚ وَإِنْ تَدْعُ مُثْقَلَةٌ إِلٰى حِمْلِهَا لَا يُحْمَلْ مِنْهُ شَيْءٌ وَّلَوْ كَانَ ذَا قُرْبٰى ۗ إِنَّمَا تُنْذِرُ الَّذِيْنَ يَخْشَوْنَ رَبَّهُمْ بِالْغَيْبِ وَأَقَامُوا الصَّلٰوةَ ۚ وَمَنْ تَزَكّٰى فَإِنَّمَا يَتَزَكّٰى لِنَفْسِهٖ ۚ وَإِلَى اللّٰهِ الْمَصِيْرُ ۞١٨

**၁၈။** အမှန်စင်စစ်သော်ကား မည်သည့် ဝန်ထုပ်ထမ်းသောသူ (အပြစ်ရှိနေသူ) တစ်စုံတစ်ယောက်မျှပင် သူတပါး၏ ဝန်ထုပ်ကိုသယ်ပိုး ထမ်းဆောင်မည်မဟုတ်ပေ။ ၎င်းပြင် အကယ်၍ ဝန်ထုပ်ကို ထမ်းဆောင်သယ်ပိုးလျက်ရှိသူ တစ်ဦးတစ်ယောက်သည် တစ်စုံတစ်ယောက်အား မိမိဝန်ထုပ်ကို သယ်ပိုး ထမ်းဆောင်ခြင်းငှာ ဟစ်ခေါ်ကြားသော်လည်း ထိုဟစ်ခေါ်ခြင်းခံရသောသူသည် ၎င်း၏ ဆွေရင်းသားရင်း ဖြစ်ခဲ့သည့်တိုင်အောင် ထိုဝန်ထုပ်မှ အနည်းငယ် စိုးစဉ်းကိုမျှပင် သယ်ပိုးထမ်းဆောင်မည် မဟုတ်ပေ။

(အို-နဗီတမန်တော်၊) အသင်သည် မိမိတို့၏ အရှင်မြတ်အား မမြင်ဘဲလျက် ကြောက်ရွံ့ကြကုန်သော၊ "ဆွလာတ်" ဝတ်ပြုမှုကို ဆောက်တည်ကြကုန်သောသူတို့အားသာလျှင် သတိပေး နိုးဆော်နိုင်ပေသည်။ အမှန်သော်ကား မည်သူမဆို စင်ကြယ်သန့်ရှင်းခဲ့ပါမူ ထိုသူသည် မိမိအကျိုးငှာ စင်ကြယ်သန့်ရှင်းခဲ့သည်သာဖြစ်၏။ ထို့မှတပါး အလ္လာဟ်အရှင်မြတ်အထံတော်သို့သာလျှင် နောက်ဆုံး ပြန်ကြရကုန်အံ့သတည်း။

وَمَا يَسْتَوِي الْأَعْمٰى وَالْبَصِيْرُ ۞١٩

**၁၉။** ၎င်းပြင် မျက်စိကန်းသူနှင့် မျက်စိမြင်သောသူသည် မတူပေ။

وَلَا الظُّلُمٰتُ وَلَا النُّوْرُ ۞٢٠

**၂၀။** ထိုနည်းတူစွာ အမှောင်ထုနှင့် အလင်းရောင်သည်လည်း မတူပေ။

وَلَا الظِّلُّ وَلَا الْحَرُوْرُ ۞٢١

**၂၁။** ထို့ပြင် အရိပ်အာဝါသနှင့် နေ၏ အပူရှိန်သည်လည်း မတူပေ။

وَمَا يَسْتَوِى الْأَحْيَآءُ وَلَا الْأَمْوَاتُ ۗ إِنَّ اللّٰهَ يُسْمِعُ مَنْ يَّشَآءُ ۚ وَمَآ أَنْتَ بِمُسْمِعٍ مَّنْ فِى الْقُبُوْرِ ﴿٢٢﴾

၂၂။ ထိုမှတပါး *အသက်ရှင်သူများနှင့် သေသူများသည်လည်း မတူကြချေ။* [၁] ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသေသူအား ကြားစေတော်မူ၏။ သို့ရာတွင် အသင်သည် *သင်္ချိုင်းများတွင် ရှိသူတို့အား ကြားစေနိုင်သည် မဟုတ်ပေ။* [၂]

إِنْ أَنْتَ إِلَّا نَذِيْرٌ ﴿٢٣﴾

၂၃။ အသင်သည် သတိပေးနှိုးဆော်သူ တစ်ဦးမျှသာ ဖြစ်၏။

إِنَّآ أَرْسَلْنٰكَ بِالْحَقِّ بَشِيْرًا وَّنَذِيْرًا ۗ وَإِنْ مِّنْ أُمَّةٍ إِلَّا خَلَا فِيْهَا نَذِيْرٌ ﴿٢٤﴾

၂၄။ ဧကန်မလွဲ ငါအရှင်မြတ်သည် အသင့်အား အမှန်တရားနှင့်တကွ ဝမ်းမြောက်ဖွယ် သတင်းပြောကြားသူအဖြစ်လည်းကောင်း၊ သတိပေးနှိုးဆော် သူအဖြစ်လည်းကောင်း၊ စေလွှတ်တော်မူခဲ့၏။ စင်စစ်သော်ကား သာသနာဝင်အုပ်စုတိုင်း၌ပင် သတိပေးနှိုးဆော်သူတစ်ဦး ပွင့်ရောက်ခဲ့သည်သာ ဖြစ်၏။

---

(၁) "မျက်ကန်းနှင့် မျက်စိမြင်သူမတူ" (ဝါ) ကာဖိရ်နှင့် မုအ်မင်န်မတူ၊ "အမှောင်နှင့်အလင်းမတူ" (ဝါ) အမှားနှင့်အမှန်မတူ၊ "အရိပ်နှင့် နေပူမတူ" (ဝါ) ကောင်းကျိုးနှင့် ဆိုးကျိုးမတူ၊ အသက်ရှင်သူနှင့် သေသူမတူ (ဝါ) မုအ်မင်န်နှင့်ကာဖိရ် မတူ၊ တနည်း ပညာရှိသူနှင့် ပညာမဲ့သူမတူ၊

ဆိုလိုသည်ကား မုအ်မင်န်သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် စိတ်၏အလင်းရ၏။ အမှန်တရား၏ အလင်းရောင်တွင် သွားလာ၏။ ဂျန္နတ်၏ အရိပ်ကိုခို၏။ ကာဖိရ်မူကား စိတ်နှလုံးကန်း၏။ မိစ္ဆာမှောင်များတွင် တဝဲလည်လည်ဖြစ်နေ၏။ ဂျဟန္နမ်၏ မီးအပူခံရ၏။ သို့ဖြစ်ရာ မုအ်မင်န်နှင့် ကာဖိရ်သည် အသို့လျှင် တူနိုင်အံ့နည်း။

စစ်မှန်သော ထာဝစဉ်တည်ရှိမည်ဖြစ်သော အသက်ရှင်မှုသည် "အီမာန်" တည်းဟူသော အသက်ဝိညာဉ်ဖြင့်သာလျှင် ရရှိနိုင်ပေသည်။ အီမာန်တည်းဟူသော အသက်ဝိညာဉ်မရှိပါက လူသားသည် ထောင်ပေါင်းများစွာသော သူသေများထက်ပင် ဆိုးရွားပေသည်။

(၂) အလ္လာဟ်အရှင်မြတ်သည် အလိုတော်ရှိတော်မူပါက သင်္ချိုင်းများတွင် မြှုပ်နှံထားသော သူသေများကိုပင် ကြားသိစေတော်မူနိုင်သည်။ ဤသည့် စွမ်းရည်သတ္တိသည် အလ္လာဟ်အရှင်မြတ်၌သာရှိသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားမည်သူ့၌မျှ ယင်းသည့် စွမ်းရည်သတ္တိအလျှင်းမရှိ။

တမန်တော်များ၏ တာဝန်မှာ အလ္လာဟ်အရှင်မြတ်ထံတော်မှ မိမိတို့ထံကျရောက်လာသော ဒေသနာတော်များကို သက်ဆိုင်ရာအမျိုးသားတို့ထံ ပို့ပေးရန်သာဖြစ်သည်။ စိတ်နှလုံးသေနေသော ကာဖိရ်တစ်ဦးက တမန်တော်၏စကားကို နားမထောင်သည်ကို နားထောင်လာစေရန် ထိုတမန်တော် မည်သို့မျှမပြုစွမ်းနိုင်ပေ။

وَإِنْ يُكَذِّبُوكَ فَقَدْ كَذَّبَ الَّذِينَ مِنْ قَبْلِهِمْ جَاءَتْهُمْ رُسُلُهُمْ بِالْبَيِّنَاتِ وَبِالزُّبُرِ وَبِالْكِتَابِ الْمُنِيرِ ﴿٢٥﴾

၂၅။ ထို့ပြင် အကယ်၍ ၎င်းတို့သည် အသင့်အား မုသာဝါဒီဟူ၍ စွပ်စွဲငြင်းပယ်ကြလျှင် အမှန်စင်စစ် ၎င်းတို့အလျှင် ရှိခဲ့ဘူးကြသော ရှေးသူဟောင်းတို့သည်လည်း မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ ထို(ရှေးသူဟောင်း)တို့ထံ ၎င်းတို့၏ ရစူလ်တမန်တော်များသည် ထင်ရှားစွာသော သက်သေလက္ခဏာများကိုလည်းကောင်း၊ ကျမ်းငယ်များကိုလည်းကောင်း၊ ကျမ်းကြီးများကိုလည်းကောင်း၊ ယူဆောင်၍ လာခဲ့ကြကုန်၏။

ثُمَّ أَخَذْتُ الَّذِينَ كَفَرُوا فَكَيْفَ كَانَ نَكِيرِ ﴿٢٦﴾

၂၆။ ထိုနောက် ငါအရှင်မြတ်သည် သွေဖည်ငြင်းပယ်ခဲ့ကုန်သောသူတို့အား ဖမ်းဆီးကွပ်မျက်တော်မူခဲ့ရာ ငါအရှင်မြတ်၏ ပြစ်ဒဏ်သည် မည်သို့ရှိခဲ့ပေသနည်း။

أَلَمْ تَرَ أَنَّ اللَّهَ أَنْزَلَ مِنَ السَّمَاءِ مَاءً فَأَخْرَجْنَا بِهِ ثَمَرَاتٍ مُخْتَلِفًا أَلْوَانُهَا ۚ وَمِنَ الْجِبَالِ جُدَدٌ بِيضٌ وَحُمْرٌ مُخْتَلِفٌ أَلْوَانُهَا وَغَرَابِيبُ سُودٌ ﴿٢٧﴾

၂၇။ အသင်သည် မမြင်ခဲ့လေသလော၊ စင်စစ် မလွဲ ငါအရှင်မြတ်သည် မိုးကောင်းကင်မှ ရေကို ချပေးတော်မူခဲ့၏။ ထို့နောက် ငါအရှင်မြတ်သည် ထိုရေဖြင့် အရောင်အသွေး အမျိုးမျိုး ကွဲပြားခြားနားသော သစ်သီးဝလံများကို ထွက်(ဖူး၊ ပွင့်၊ သီး) စေတော်မူခဲ့၏။

ထိုနည်းတူစွာ တောင်များ၌လည်း တောင်ကြားလမ်းများရှိကြပေရာ အချို့မှာအဖြူများဖြစ်၍ အချို့မှာ အနီများဖြစ်ကြသည့်ပြင်၊ ၎င်းတို့၏ အရောင်များမှာ အထူးထူး အပြားပြား ဖြစ်ကြ၏။ အချို့မှာလည်း အလွန်မည်းနက်၏။

وَمِنَ النَّاسِ وَالدَّوَابِّ وَالْأَنْعَامِ مُخْتَلِفٌ أَلْوَانُهُ

၂၈။ ထိုမှတပါး လူတို့တွင်လည်းကောင်း၊ သက်ရှိသတ္တဝါတို့တွင်လည်းကောင်း၊ ကုလားအုတ်၊ ကျွဲ၊ နွား၊ တိရစ္ဆာန်တို့တွင်လည်းကောင်း၊ ထိုနည်းအတိုင်းပင် အရောင်အဆင်းအမျိုးမျိုးရှိကြပေသည်။

كَذٰلِكَ ۗ اِنَّمَا يَخْشَى اللّٰهَ مِنْ عِبَادِهِ الْعُلَمٰٓؤُا ۗ اِنَّ اللّٰهَ عَزِيْزٌ غَفُوْرٌ ﴿٢٨﴾

အလ္လာဟ်အရှင်မြတ်အား ထိုအရှင်မြတ်၏ ကျွန်တို့အနက် *'အာလင်မ်' ပညာရှင်များသာလျှင် ကြောက်ရွံ့ကြကုန်၏။*[၁] ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသောအရှင်၊ အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

اِنَّ الَّذِيْنَ يَتْلُوْنَ كِتٰبَ اللّٰهِ وَاَقَامُوا الصَّلٰوةَ وَاَنْفَقُوْا مِمَّا رَزَقْنٰهُمْ سِرًّا وَّعَلَانِيَةً يَّرْجُوْنَ تِجَارَةً لَّنْ تَبُوْرَ ﴿٢٩﴾

**၂၉။** ဧကန်အမှန် အကြင်သူတို့သည် အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော် ကျမ်းဂန်ကို ရွတ်ဖတ်သရဇ္ဈာယ်ကြကုန်၏။ ၎င်းပြင် "ဆွလာတ်" ဝတ်ပြုမှုကို ဆောက်တည်ကြကုန်၏။ ထိုမှတပါး ထိုသူတို့အား ငါအရှင်မြတ် ချီးမြှင့် ပေးသနားတော်မူခဲ့သည့် (ပစ္စည်းဥစ္စာ)များအနက်မှ လျှို့ဝှက်စွာလည်းကောင်း၊ ထင်ပေါ်စွာသော်လည်းကောင်း၊ လှူဒါန်းကြကုန်၏။ ထိုသူတို့ကား အလျှင်း ဆုံးရှုံး ပျက်စီးမည် မဟုတ်သော ရောင်းဝယ်ဖောက်ကားမှုမျိုးကို မျှော်လင့်တောင့်တလျက် ရှိကြကုန်၏။[၂]

---

**(၁) အလ္လာဟ်အရှင်မြတ်အား "အာလင်မ်" ပညာရှင်များသာ ကြောက်ရွံ့ခန့်ညားသည်၊**

လူသားတို့တွင် အလ္လာဟ်အရှင်မြတ်အား မကြောက်ရွံ့ မခန့်ညားသူများလည်းရှိ၏။ ကြောက်ရွံ့ခန့်ညားသူများလည်းရှိ၏။ အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိ ကြီးကဲမြင့်မြတ်မှု၊ တန်ခိုးကြီးမားမှု၊ နောင်တမလွန်ဘဝ၏ ထာဝရတည်ရှိမှုနှင့် ဤပစ္စုပ္ပန်ဘဝ၏သခ်ၤါရဖြစ်မှု၊ မတည်မြဲမှုများကို နားလည်သဘောပေါက်ကြသော၊ မိမိတို့အရှင်သခင်၏ ဒေသနာတော်များဆိုင်ရာ အသိပညာများကို ဆည်းပူး၍ နောင်ရေးအတွက်ပူပန်ကြသော ပုဂ္ဂိုလ်များသာလျှင် ထိုအရှင်မြတ်အား ကြောက်ရွံ့ခန့်ညားကြပေသည်။ လူသားတစ်ဦးသည် ဤသည့်နားလည်မှု အသိပညာရှိသည်နှင့်အမျှသာ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ခန့်ညားသည်။သို့ဖြစ်ရာ အလ္လာဟ်အရှင်မြတ်အား မကြောက်ရွံ့မခန့်ညားသော ပညာရှင်တစ်ဦးအား "အာလင်မ်" ပညာရှင်ဟူ၍ပင် မခေါ်အပ်ပေ၊

(၂) ဤအာယတ်တော်တွင် လာရှိသည့် "အလျှင်းဆုံးရှုံး ပျက်စီးမည်မဟုတ်သော ရောင်းဝယ်ဖောက်ကားမှု" ဟူသည် ဂျန္နတ်၏ ထာဝရအမတသုခများကို ဆိုလိုသည်။ကြည့်-မာဂျိဒီ။

အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားသော ပုဂ္ဂိုလ်များသည် ထိုအရှင်မြတ်၏ ကျမ်းဂန်ကို ရိုသေလေးမြတ်စွာ ရွတ်ဖတ်ကြသည်။ ဆွလာတ်ဝတ်ပြုမှုကို စနစ်တကျအခါမပြတ် ဆောက်တည်ကြသည်။ ၎င်းတို့အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော ဥစ္စာပစ္စည်းများကိုလည်း လျှို့ဝှက်စွာတနည်း၊➢➢

لِيُوَفِّيَهُمْ أُجُورَهُمْ وَيَزِيدَهُمْ مِّن فَضْلِهِۦٓ ۚ إِنَّهُۥ غَفُورٌ شَكُورٌ ﴿٣٠﴾

၃၀။ နောက်ဆုံးတွင် ထိုအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏အကျိုးများ ပြည့်စုံစွာ ချီးမြှင့် ပေးသနားတော်မူသည့်အပြင် မိမိကျေးဇူးတော်နှင့် ၎င်းတို့အား ပိုမို၍ပင် ချီးမြှင့်တော်မူပေမည်။

စင်စစ်ကေန် ထိုအရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ် ချမ်းသာပေးတော်မူသော၊ အလွန်တရာ ရက်ရောစွာ ကျေးဇူးတုံ့ပြန်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَالَّذِىٓ أَوْحَيْنَآ إِلَيْكَ مِنَ الْكِتَٰبِ هُوَ الْحَقُّ مُصَدِّقًا لِّمَا بَيْنَ يَدَيْهِ ۗ إِنَّ اللَّهَ بِعِبَادِهِۦ لَخَبِيرٌۢ بَصِيرٌ ﴿٣١﴾

၃၁။ စင်စစ်သော်ကား အသင့်ထံ ငါအရှင်မြတ် ထုတ်ပြန်တော်မူသော (ဤ)ကျမ်းဂန်သည် လုံးဝအမှန်ဖြစ်၏။ (ထိုကျမ်းဂန်သည်) မိမိအလျင် (ကျရောက်ခဲ့ဖူးသော) ကျမ်းဂန်များကိုလည်း မှန်ကန်သည်ဟု ထောက်ခံလျက်ရှိ၏။

မုချအမှန် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကျွန်တို့နှင့် ပတ်သက်၍ အလွန်တရာ ကြားသိတော် မူသော၊ အလွန်တရာ သိမြင်တော်မူသော၊ အရှင်မြတ် ပင် ဖြစ်တော်မူပေသတည်း။ [၁]

---

➤➤ ထင်ရှားစွာတဖုံ ပေးကမ်းလှူဒါန်းကြသည်။ ယင်းသို့သော ပုဂ္ဂိုလ်မွန်များသည် မည်သည့်အခါ၌မျှ အလျှင်း ဆုံးရှုံးမည်မဟုတ်သော ရောင်းဝယ်ဖောက်ကားမှု (ဝါ) ဂျန္နတ်၏ ထာဝရအမတသုခများကို မျှော်ကိုး စောင့်စားလျက် ရှိကြပေသည်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏ ကုသိုလ်အကျိုးများကို အပြည့်အဝ ချီးမြှင့်တော်မူသည်သာမက မိမိ၏ကျေးဇူးတော်ဖြင့် ပိုမို၍ချီးမြှင့်တော်မူဦးမည်ဖြစ်သည်။

① အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏ အခြေအနေအရပ်ရပ်ကို ကြွင်းမဲ့ဥဿုံအလုံးစုံကို သိတော်မူသည်၊ မြင်တော်မူသည်။ သို့သိမြင်တော်မူသည့် အလျောက် လျော်ကန်သင့်မြတ်သော အချိန်တွင် လျော်ကန်သင့်မြတ်သော၊ မှန်ကန်တိကျသော ကုရ်အာန်ကျမ်းတော်မြတ်ကို တမန်တော်မြတ် မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)ထံ ထုတ်ပြန်ပို့ချတော် မူခြင်းဖြစ်သည်။ ဤကျမ်းမြတ်သည် မိမိအလျင် ကျရောက်ခဲ့သော တောင်ရာတ်၊ အင်န်ဂျီလ်၊ ဇဗူရ် -- စသည့်ကျမ်းဂန်များ၏ မှန်ကန်သော မှုများကိုလည်း မှန်ကန်ကြောင်း ထောက်ခံလျက်ရှိသည်။

ثُمَّ أَوْرَثْنَا الْكِتٰبَ الَّذِيْنَ اصْطَفَيْنَا مِنْ عِبَادِنَا ۚ فَمِنْهُمْ ظَالِمٌ لِّنَفْسِهٖ ۚ وَمِنْهُمْ مُّقْتَصِدٌ ۚ وَمِنْهُمْ سَابِقٌۢ بِالْخَيْرٰتِ بِإِذْنِ اللّٰهِ ۗ ذٰلِكَ هُوَ الْفَضْلُ الْكَبِيْرُ ﴿٣٢﴾

၃၂။ ထို့နောက် ငါအရှင်မြတ်သည် မိမိကျွန်များ အနက်မှ ငါအရှင်မြတ် ရွေးချယ်တော်မူသောသူတို့အား (ဤ)ကျမ်းဂန်ကို အမွေအဖြစ် ချီးမြှင့်ပေးသနားတော်မူ၏။ သို့ရာတွင် ၎င်းတို့အနက်အချို့မှာ မိမိကိုယ်ကို မိမိရက်စက်သောသူရှိ၏။ အချို့မှာ မဇ္ဈိမဋိပဒါစနစ်ကို လိုက်နာသူရှိ၏။ အချို့မှာကား အလ္လာဟ် အရှင်မြတ်၏အမိန့်တော်ဖြင့် ကောင်းမှုများနှင့်တကွ ရှေ့မှသွားသူရှိ၏။ ဤသည်ကား ကြီးကျယ်စွာသော ကျေးဇူးတော်ပင်ဖြစ်ပေသတည်း။ ၁

---

(၁) **ကုရ်အာန်၏ အမွေခံအုပ်စု။**

အထက်တွင် ဖော်ပြပါရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ဦးစွာပထမ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား ချီးမြှင့်တော်မူ၏။ ကိုယ်တော်မြတ်၏နောက် ထိုအရှင်မြတ်သည် မိမိ၏ကျွန်များအနက်၊ မုစ်လင်မ်အုပ်စုကြီးအား ကုရ်အာန်ကျမ်းမြတ်၏ အမွေဆက်အမွေခံ အဖြစ် ချီးမြှင့်မြှောက်စားထားတော်မူ၏။ ဤကားကြီးကဲမြင့်မြတ်လှသော ကျေးဇူးတော်ပင်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့်၊ ကုရ်အာန်ကျမ်းမြတ်၏ အမွေဆက်၊ အမွေခံဖြစ်သော မုစ်လင်မ်အုပ်စုကြီးသည် အခြား အုပ်စုများထက် ထူးကဲမြင့်မြတ်သည်မှာ ထင်ရှားလှပေသည်။ သို့ပင်တစေ၊ မုစ်လင်မ်အုပ်စုကြီးတွင် မုစ်လင်မ် အားလုံးတို့သည် တမျိုးတစားတည်း မဟုတ်ကြပေ။ မှန်ကန်တိကျသော အီမာန်ယုံကြည်မှုတွင် တူညီကြသော်လည်း ၎င်းတို့တွင်၊

၁။ ပြစ်မှုများတွင် နစ်မွန်း၍ မိမိတို့ကိုယ်ကို မိမိတို့ကျူးကျော်စော်ကား သူများလည်းရှိကြပေသည်။

၂။ ပြစ်မှုများတွင် နစ်မွန်းကြသည်လည်းမဟုတ်၊ သူတော်စင်ကြီးများလည်းမဟုတ်၊ အလယ် အလတ် လမ်းစဉ်ကို လိုက်နာကျင့်သုံး သူများလည်း ရှိကြပေသည်။

၃။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ပါပ၊ ညစ်ကျုံမကောင်းမှုအစုစုကို အရှောင်ကြီး ရှောင်၍ ကုသိုလ်ကောင်းမှုအစုစုကို သူတစ်ပါးတို့ထက်သာအောင် ကြိုးပမ်းသယ်ပိုးသူများ လည်း ရှိကြပေသည်။ ဤမည်သော မုစ်လင်မ်တို့ကား မုစ်လင်မ်တို့တွင် အကောင်းဆုံးနှင့် အမြင့်မြတ်ဆုံးပင် ဖြစ်ကြပေသည်။

ဖော်ပြပါ မုစ်လင်မ်သုံးမျိုးသုံးစားတွင် အကောင်းဆုံးသည် အကောင်းဆုံးပင်၊ အလတ်သည် အလတ်ပင်၊ အညံ့သည် အညံ့ပင်။ အညံ့စား မုစ်လင်မ်များသည်လည်း တိကျမှန်ကန်သော အီမာန်ယုံကြည်မှုကြောင့် မုစ်လင်မ်များပင်ဖြစ်ကြပေရာ၊ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ဂျန္နတ်သို့ ဝင်ရောက် စံမြန်းကြရမည်သာတည်း။ ( تَوَفَّنِيْ مُسْلِمًا وَّأَلْحِقْنِيْ بِالصّٰلِحِيْنَ )

(အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးဝို့အား မုစ်လင်မ်အုပ်စုကြီးတွင် အသက်ထက်ဆုံး ပါဝင် တွဲဘက် ထားတော်မူပါစေသတည်း)။

جَنّٰتُ عَدْنٍ يَّدْخُلُوْنَهَا يُحَلَّوْنَ فِيْهَا مِنْ اَسَاوِرَ مِنْ ذَهَبٍ وَّلُؤْلُؤًا ۚ وَلِبَاسُهُمْ فِيْهَا حَرِيْرٌ ﴿٣٣﴾

၃၃။ ထာဝစဉ် နေထိုင်ရအံ့သော ဥယျာဉ်များပင်၊ ၎င်းတို့သည် ယင်းဥယျာဉ်များ၌ ဝင်ရောက်ကြပေမည်။ ထိုသူတို့သည် ယင်းဥယျာဉ်များ၌ ရွှေလက်ကောက်များဖြင့်လည်းကောင်း၊ ပုလဲများဖြင့်လည်းကောင်း၊ တန်ဆာ ဆင်ယင်ပေးခြင်းကို ခံကြရပေမည်။ ထိုမှတပါး ယင်းဥယျာဉ်များ၌ ၎င်းတို့၏ ဝတ်စားတန်ဆာမှာ ပိုးအဝတ်အထည်ပင် ဖြစ်ပေမည်။

وَقَالُوا الْحَمْدُ لِلّٰهِ الَّذِيْٓ اَذْهَبَ عَنَّا الْحَزَنَ ؕ اِنَّ رَبَّنَا لَغَفُوْرٌ شَكُوْرُ ﴿٣٤﴾

၃၄။ ထိုမှတပါး ၎င်းတို့သည် (ဤသို့) ပြောဆိုကြပေမည်။ "ချီးမွမ်းခြင်း ထောပနာအပေါင်းတို့သည် ကျွန်တော်မျိုးတို့မှ ပူပင်သောကကို ပပျောက်စေတော်မူသော အလ္လာဟ်အရှင်မြတ်နှင့် သာသက်ဆိုင်၏။ မလွဲဧကန် ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်တော်မူသောအရှင်၊ အလွန်တရာ ရက်ရောစွာ ကျေးဇူးတုံ့ပြန်တော်မူသော အရှင်အမှန်ပင် ဖြစ်တော်မူ၏။"

الَّذِيْٓ اَحَلَّنَا دَارَ الْمُقَامَةِ مِنْ فَضْلِهٖ ۚ لَا يَمَسُّنَا فِيْهَا نَصَبٌ وَّلَا يَمَسُّنَا فِيْهَا لُغُوْبٌ ﴿٣٥﴾

၃၅။ အကြင် အရှင်မြတ်သည် မိမိကျေးဇူးတော်နှင့် ကျွန်တော်မျိုးတို့အား အမြဲထာဝရ နေရအံ့သော ဌာန၌ နေရာချပေးတော်မူ၏။ ထိုဌာနတွင် ကျွန်တော်မျိုးတို့၌ မည်သည့်ပင်ပန်းမှုမျှလည်း သက်ရောက်မည် မဟုတ်ပေ။ ထိုမှတပါး ကျွန်တော်မျိုးတို့၌ ထိုဌာနတွင် မည်သည့်ငြီးငွေ့မှုမျှလည်း သက်ရောက်မည် မဟုတ်ပေတကား။

وَالَّذِيْنَ كَفَرُوْا لَهُمْ نَارُ جَهَنَّمَ ۚ لَا يُقْضٰى عَلَيْهِمْ

၃၆။ သို့ရာတွင် "ကာဖိရ်" သွေဖည်ငြင်းပယ်သူတို့အဖို့ "ဂျဟန္နမ်" ငရဲဘုံ၏ မီးသည်ရှိပေမည်။ ၎င်းတို့အပေါ်၌ ၎င်းတို့ သေဆုံးနိုင်ကြအံ့သောငှာ အမိန့်တော် ပြဋ္ဌာန်းခြင်းခံရမည်လည်း မဟုတ်ပေ၊

فَيَمُوتُوا وَلَا يُخَفَّفُ عَنْهُم مِّنْ عَذَابِهَا ۚ كَذَٰلِكَ نَجْزِي كُلَّ كَفُورٍ ﴿٣٦﴾

ယင်းငရဲဘုံ၏ပြစ်ဒဏ်သည် ၎င်းတို့မှ ပေါ့လျော့စေခြင်း ခံရမည်လည်း မဟုတ်ပေ။ ငါအရှင်မြတ်သည် ဤနည်းအတိုင်းပင် သွေဖည်သူတိုင်းကို အစားပေးတော်မူသည်။

وَهُمْ يَصْطَرِخُونَ فِيهَا رَبَّنَا أَخْرِجْنَا نَعْمَلْ صَالِحًا غَيْرَ الَّذِي كُنَّا نَعْمَلُ ۚ أَوَلَمْ نُعَمِّرْكُم مَّا يَتَذَكَّرُ فِيهِ مَن تَذَكَّرَ وَجَاءَكُمُ النَّذِيرُ ۖ فَذُوقُوا فَمَا لِلظَّالِمِينَ مِن نَّصِيرٍ ﴿٣٧﴾

**၃၇။** ထို့ပြင် ၎င်းတို့သည် ယင်း "ဂျဟန္နမ်" ငရဲဘုံ၌ "အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား (ဤငရဲဘုံမှ)ထုတ်တော်မူပါ၊ ကျွန်တော်မျိုးတို့သည် မိမိတို့ ပြုလုပ်လျက် ရှိခဲ့ကြသော အပြုအမူများမှတပါး ကောင်းမြတ်သော အကျင့်သီလကို ကျင့်မူဆောက်တည်ကြပါမည်" ဟု ဟစ်အော်(လျှောက်ထား)ကြပေမည်။

ထိုအခါ) ၎င်းတို့သည် ဤသို့ ပြန်ကြားတော်မူခြင်းကို ခံကြရပေမည်)၊ ငါအရှင်မြတ်သည် စဉ်းစား ဆင်ခြင်လိုသောသူများ စဉ်းစားဆင်ခြင်နိုင်လောက်သော သက်တမ်းကို အသင်တို့အား ပေးတော်မူခဲ့သည် မဟုတ်ပါလော။ ထိုမှတပါး အသင်တို့ထံ သတိပေး နှိုးဆော်သူလည်း ရောက်ရှိခဲ့သည် (မဟုတ်ပါလော)။ သို့ဖြစ်ပေရာ (ယခုမူ) အသင်တို့သည် (ပြစ်ဒဏ်၏အရသာကို) မြည်းစမ်းကြလေကုန်။ စင်စစ်မတရားသော သူတို့၏အဖို့ ကူညီယိုင်းပင်းမည့်သူဟူ၍ အလျှင်းမရှိပြီတကား။

إِنَّ اللَّهَ عَالِمُ غَيْبِ السَّمَاوَاتِ وَالْأَرْضِ ۚ

**၃၈။** မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များ၌ ဖုံးအုပ်လျက်ရှိသည်တို့ကိုလည်းကောင်း၊ ပထဝီမြေ၌ဖုံးအုပ်လျက်ရှိသည်တို့ကိုလည်းကောင်း၊ သိတော်မူသောအရှင်မြတ် ဖြစ်တော်မူ၏။

إِنَّهُ عَلِيمٌ بِذَاتِ الصُّدُورِ ﴿٣٨﴾

ကေန်စင်စစ် ထိုအရှင်မြတ်သည် စိတ်နှလုံးများ၌ ရှိသည်တို့ကို ကောင်းစွာ သိရှိတော်မူသော အရှင် ဖြစ်တော်မူ၏။

هُوَ الَّذِي جَعَلَكُمْ خَلَائِفَ فِي الْأَرْضِ ۚ فَمَن كَفَرَ فَعَلَيْهِ كُفْرُهُ ۖ وَلَا يَزِيدُ الْكَافِرِينَ كُفْرُهُمْ عِندَ رَبِّهِمْ إِلَّا مَقْتًا ۖ وَلَا يَزِيدُ الْكَافِرِينَ كُفْرُهُمْ إِلَّا خَسَارًا ﴿٣٩﴾

၃၉။ ထိုအရှင်မြတ်သည်ပင်လျှင် အသင်တို့အား ကမ္ဘာမြေ၌ ရိုက်ရာဆက်ခံသူများအဖြစ် ပြုလုပ်တော်မူခဲ့သောအရှင် ဖြစ်တော်မူ၏။ သို့ဖြစ်ပေရာ မည်သူမဆို ကျေးဇူးကန်းခဲ့ပါမူ ၎င်း၏ ကျေးဇူးကန်းမှု(၏ အပြစ်)သည် ၎င်း၏ အပေါ်၌သာ ကျရောက်ပေမည်။

စင်စစ်သော်ကား "ကာဖိရ်" သွေဖည်ငြင်းပယ်သူတို့အပေါ်၌ ၎င်းတို့၏သွေဖည်မှုသည် ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်တွင် မုန်းတီး စက်ဆုပ်မှုကိုသာလျှင် တိုးပွားစေမည်ဖြစ်၏။ ထိုနည်းတူစွာ "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့၌ ၎င်းတို့၏ သွေဖည်မှုသည် ဆုံးရှုံးမှုကိုသာလျှင် ပိုမို တိုးပွားစေအံ့သတည်း။

قُلْ أَرَأَيْتُمْ شُرَكَاءَكُمُ الَّذِينَ تَدْعُونَ مِن دُونِ اللَّهِ أَرُونِي مَاذَا خَلَقُوا مِنَ الْأَرْضِ أَمْ لَهُمْ شِرْكٌ فِي السَّمَاوَاتِ أَمْ آتَيْنَاهُمْ كِتَابًا فَهُمْ عَلَىٰ بَيِّنَتٍ مِّنْهُ ۚ بَلْ إِن يَعِدُ الظَّالِمُونَ بَعْضُهُم

၄၀။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် အလ္လာဟ် အရှင်မြတ်အားစွန့်၍ ဟစ်ခေါ် တသကြကုန်သော မိမိတို့၏ တွဲဖက်ကိုးကွယ်ရာတို့အား မမြင်ခဲ့ကြလေသလော။

အသင်တို့သည် ငါ့အားပြသကြလေကုန်။ ထို (အသင်တို့၏ တွဲဖက် ကိုးကွယ်ရာ)တို့သည် ပထဝီမြေ၏ မည်သည့်အစိတ်အပိုင်းကို ဖန်ဆင်းခဲ့ကြသနည်း။ သို့တည်းမဟုတ် မိုးကောင်းကင်များ၌ ၎င်းတို့၏ ဖက်စပ်မှုတစုံတရာ ရှိလေသလော။

بَعْضًا اِلَّا غُرُوْرًا ﴿٤٠﴾

သို့တည်းမဟုတ် ငါအရှင်မြတ်သည် ၎င်းတို့အား ကျမ်းဂန်တစ်စောင်စောင်ကို ချီးမြှင့်ပေးသနားတော်မူခဲ့သဖြင့် ၎င်းတို့သည် ယင်းကျမ်းဂန်၏ အထောက်အထား တရပ်ရပ်အပေါ်၌ ရပ်တည်၍ နေကြသလော။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ်မှာကား မတရားသောသူတို့သည် မိမိတို့ အချင်းချင်း တစ်ဦးကို တစ်ဦး လိမ်လည် လှည့်ဖြားခြင်းမှတပါး အခြား မည်သည်ကိုမျှပင် ကတိပေးကြသည် မဟုတ်ပြီ။

اِنَّ اللّٰهَ يُمْسِكُ السَّمٰوٰتِ وَالْاَرْضَ اَنْ تَزُوْلَا ۚ وَلَئِنْ زَالَتَآ اِنْ اَمْسَكَهُمَا مِنْ اَحَدٍ مِّنْۢ بَعْدِهٖ ۗ اِنَّهٗ كَانَ حَلِيْمًا غَفُوْرًا ﴿٤١﴾

၄၁။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ရွေ့လျားတိမ်းပါးမသွားရန် ထိန်းထားတော်မူ၏။ သို့ရာတွင် ဧကန်စင်စစ် အကယ်၍သာ ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေတို့သည် ရွေ့လျားတိမ်းပါး၍ သွားခဲ့ကြသော် ထိုအရှင်မြတ်မှတပါး မည်သူတစ်ဦးတစ်ယောက်မျှကပင် ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေတို့ကို ထိန်းနိုင်မည် မဟုတ်ပေ။ ဧကန်အမှန် ထိုအရှင်မြတ်သည် ခန္တီတရားနှင့်အလွန်ပြည့်စုံတော်မူထသော၊ အလွန်တရာ ခွင့်လွှတ်တော်မူထသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَاَقْسَمُوْا بِاللّٰهِ جَهْدَ اَيْمَانِهِمْ لَئِنْ جَآءَهُمْ نَذِيْرٌ لَّيَكُوْنُنَّ اَهْدٰى مِنْ اِحْدَى الْاُمَمِ ۚ فَلَمَّا

၄၂။ စင်စစ်သော်ကား ၎င်းတို့က "အမှန်ပင် အကယ်၍ သတိပေးနှိုးဆော်သူ တစ်ဦးတစ်ယောက်သည် မိမိတို့ထံ လာခဲ့ပါလျှင် မုချဧကန် မိမိတို့မှာ သာသနာဝင် အုပ်စုတိုင်းထက် ပိုမို၍ပင် တရားလမ်းမှန်ကို လိုက်နာသူများ ဖြစ်ကြပေမည်" ဟု အလ္လာဟ်အရှင်မြတ်အား တိုင်တည်၍ အစွမ်းကုန် ကျိန်ဆိုခဲ့ကြကုန်၏။

جَآءَهُمْ نَذِيرٌ مَّا زَادَهُمْ إِلَّا نُفُورًا ﴿٤٢﴾

သို့တစေလည်း (ထို)သတိပေးနှိုးဆော်သူသည် ၎င်းတို့ထံသို့ ရောက်ရှိ၍လာသောအခါ ထို(သို့ရောက်ရှိ၍လာခြင်း)သည် ၎င်းတို့၌ စက်ဆုပ်မှုကိုသာလျှင် တိုးပွားစေခဲ့၏။ [၁]

ٱسْتِكْبَارًا فِى ٱلْأَرْضِ وَمَكْرَ ٱلسَّيِّئِ ۚ وَلَا يَحِيقُ ٱلْمَكْرُ ٱلسَّيِّئُ إِلَّا بِأَهْلِهِۦ ۚ فَهَلْ يَنظُرُونَ إِلَّا سُنَّتَ ٱلْأَوَّلِينَ ۚ فَلَن تَجِدَ لِسُنَّتِ ٱللَّهِ تَبْدِيلًا ۖ وَلَن تَجِدَ لِسُنَّتِ ٱللَّهِ تَحْوِيلًا ﴿٤٣﴾

၄၃။ မိမိတို့ကိုယ်ကို ကမ္ဘာမြေ၌ အထင်ကြီးခဲ့ကြသောကြောင့် ထိုမှတပါး မကောင်းသော ကြံစည်မှုကို(လည်း တိုးပွားစေခဲ့၏)။ အမှန်စင်စစ်သော်ကား မကောင်းသောအကြံအစည်၏ အကျိုးသည် ယင်းမကောင်းသောအကြံအစည်ကို ကြံစည်သောသူတို့၏ အပေါ်၌သာလျှင် သက်ရောက်ပေသည်။ သို့ဖြစ်ပေရာ ၎င်းတို့သည် ရှေးသူဟောင်းတို့၏ ကျင့်ရိုးကျင့်စဉ်ကိုသာလျှင် စောင့်မျှော်၍နေကြကုန်၏။ စင်စစ်မှာကား အသင်သည် အလ္လာဟ်အရှင်မြတ်၏ ကျင့်ရိုးကျင့်စဉ်၌ မည်သည့်ပြောင်းလဲမှုကိုမျှပင် အလျှင်း တွေ့ရှိမည် မဟုတ်ပေ။ ထိုမှတပါး အသင်သည် အလ္လာဟ်အရှင်မြတ်၏ ကျင့်ရိုးကျင့်စဉ်၌ မည်သည့်လဲလှယ်မှုကိုလည်း အလျှင်းတွေ့ရှိမည် မဟုတ်ပေတကား။ [၂]

---

(၁) ယဟူဒီ၊နဆ္ဆရာနီ-- စသည့်ဘာသာဝင်များသည် မိမိတို့ထံပွင့်လာခဲ့ကြသော တမန်တော်များအား သွေဖည်ခဲ့ကြသည့် အကြောင်းများကို အရဗ်လူမျိုးများ သိသောအခါ ၎င်းတို့က "အကယ်၍သာ ငါတို့ထံ တမန်တော်တပါးပါး ပွင့်လာခဲ့ပါလျှင် ငါတို့သည် ထိုထိုသော ဘာသာဝင်အုပ်စု အသီးသီးထက်ပို၍ တရားဓမ္မကို နာယူကျင့်မူကြမည်"ဟု အလ္လာဟ်အရှင်မြတ်အား အကြီးအကျယ်တိုင်တည် ပြောဆိုနေခဲ့ကြ၏။ ယင်းသို့ ပြောဆိုနေခဲ့ကြသော အရဗ်အမျိုးသားများထံသို့ အလ္လာဟ်အရှင်မြတ်သည် တမန်တော်အပေါင်းတို့၏ အချုပ်ဖြစ်တော်မူသော တမန်တော်မြတ်မုဟမ္မဒ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား စေလွှတ်တော်မူခဲ့လေသည်။ သို့စေလွှတ်ပေးတော်မူလိုက်သည့်အခါ၊ ယင်းအရဗ်လူမျိုးတို့သည် မောက်မာပလွှား ဝါးကြွားနေခဲ့ကြသည့်အတွက် မိမိတို့ထံပွင့်လာသော တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ကြည်ညိုရန်ဝေးစွ၊ စက်ဆုပ်မုန်းတီးခဲ့ကြသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ချေမှုန်းရန်ပင် မကောင်းသော အကြံစည်များနှင့် ကြံစည်လာခဲ့ကြသည်။ သို့ရာတွင် သိထားအပ်သည်မှာ မကောင်းသောကြံစည်မှု၏ မကောင်းကျိုးသည် သို့မကောင်းကြံစည်သူများ အပေါ်သို့ သက်ရောက်သည်သာ ဖြစ်သည်။ သူတစ်ပါးအား မတရားကြံစည်သူများသည် ခေတ္တခဏ ပျော်နိုင်ကြမည်ဖြစ်သော်လည်း နောက်ဆုံးတွင် ၎င်းတို့သည်သာလျှင် ➤➤

أَوَلَمْ يَسِيرُوا فِي الْأَرْضِ فَيَنظُرُوا كَيْفَ كَانَ عَاقِبَةُ الَّذِينَ مِن قَبْلِهِمْ وَكَانُوا أَشَدَّ مِنْهُمْ قُوَّةً ۚ وَمَا كَانَ اللَّهُ لِيُعْجِزَهُ مِن شَيْءٍ فِي السَّمَاوَاتِ وَلَا فِي الْأَرْضِ ۚ إِنَّهُ كَانَ عَلِيمًا قَدِيرًا ﴿٤٤﴾

၄၄။ ၎င်းတို့သည် ကမ္ဘာမြေဝယ် လှည့်လည်မသွားလာခဲ့ကြသလော။ သို့သွားလာခဲ့ကြလျှင် ၎င်းတို့သည် မိမိတို့အလျင်ရှိခဲ့ကြသောသူတို့၏ နောက်ဆုံးအကျိုးသည် မည်သို့ရှိခဲ့သည်ကို တွေ့မြင်ကြပေမည်။ စင်စစ်မှာကား ထို(ရှေး)သူ(ဟောင်း)တို့သည် ခွန်အားဗလအရာ၌ ၎င်းတို့ထက် ပိုမိုသန်စွမ်းပြင်းထန်သူများပင် ဖြစ်ခဲ့ကြကုန်၏။ သို့ရာတွင် မိုးကောင်းကင်များ၌ဖြစ်စေ၊ ပထဝီမြေ၌ဖြစ်စေ၊ မည်သည့်အရာမျှပင်၊ အလ္လာဟ်အရှင်မြတ်အား အရေးရှုံးနိမ့်အောင် ပြုစွမ်းနိုင်သည်မရှိပေ။ ဧကန်စင်စစ် ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို သိရှိတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို ပြုစွမ်းနိုင်တော်မူသောအရှင်၊ ဖြစ်တော်မူ၏။ [၁]

---

➤➤ ကိုယ့်လုံ ကိုယ်စူးကာ ပျက်စီးခြင်းမက ပျက်စီးခြင်းဖြင့် နိဂုံးချုပ်သွားရသည်သာ ဖြစ်သည်။ ဤကား အထင်အရှားပင်။

(၂) အလ္လာဟ်အရှင်မြတ်၏ "စွန္နတ်"ကျင့်ရိုးကျင့်စဉ်မှာ ပြစ်မှုကျူးလွန်သူတို့အား အပြစ်ရှိသည့်အလျောက် သတ်မှတ်ထားတော်မူသည့် အချိန်တွင် ပြစ်ဒဏ်ခတ်တော် မူခြင်းပင်ဖြစ်သည်။ ထိုအရှင်မြတ်၏ ကျင့်ရိုးကျင့်စဉ်တွင် အပြောင်းအလဲမရှိ လဲလှယ်မှုလည်းမရှိ၊ ဆိုလိုသည်ကား- ထိုအရှင်မြတ်သည် ပြစ်မှုကျူးလွန်သူများအား ပြစ်ဒဏ်ခတ်တော်မူရမည့်အစား ကျေးဇူးပြုတော်မူသည်ဟူ၍ လည်းမရှိ၊ ပြစ်မှုကျူးလွန်သူများအား ပြစ်ဒဏ်ခတ်တော်မူရမည့်အစား အခြားအပြစ်မဲ့သူတို့အား ပြစ်ဒဏ်ခတ်တော်မူသည် ဟူ၍လည်းမရှိ၊ အလ္လာဟ်အရှင်မြတ်၏ ကျင့်ရိုးကျင့်စဉ်မှာ အတိတ်တွင်လည်း ဤအတိုင်းဖြစ်ခဲ့ပေသည်။ ယခုပစ္စုပ္ပန်တွင်လည်း ဤအတိုင်းပင်ဖြစ်ပေသည်။ နောင်အနာဂတ်တွင်လည်း ဤအတိုင်းပင်ဖြစ်ပေမည်။ သို့ဖြစ်ရာ၊ အလ္လာဟ်အရှင်မြတ်အား သွေဖည်နေကြသော လူ့ပါပီများသည် ထိုအရှင်မြတ်၏ ဤသည့်"စွန္နတ်" ကျင့်ရိုးကျင့်စဉ်ကို သတိပြုကြရာသတည်း။

(၁) လက်ရှိကာဖိရ်၊ မုရှ်ရစ်က်များသည် ကမ္ဘာအရပ်ရပ်သို့လှည့်လည်၍ အတိတ်ခေတ်ရှိ ၎င်းတို့၏ နောင်တော်ကြီးများဖြစ်သော ကာဖိရ်၊ မုရှ်ရစ်က်တို့သည် မည်သို့မည်ပုံ ဇာတ်သိမ်း သွားခဲ့ကြသည်များကို မကြည့်ကြလေသလော။ အမှန်မှာ အတိတ်ခေတ်ကာဖိရ်၊ မုရှ်ရစ်က်များသည် လက်ရှိကာဖိရ်၊ မုရှ်ရစ်က်များထက် ခွန်အားဗလ ကြီးထွားခဲ့ကြပေသည်။ အာဒ်၊ ဆမူဒ် စသည့်မျိုးနွယ်များသည် ကမ္ဘာမြေပြင်တွင် ထင်တိုင်းသောင်းကျန်း သွားခဲ့ကြပေသည်။ ယင်းသို့သော မျိုးနွယ်များသည်ပင် အလ္လာဟ်အရှင်မြတ်၏ ဖမ်းဆီးကွပ်မျက်တော်မူခြင်းမှ မလွတ်မြောက်နိုင်ခဲ့ကြလျှင် လက်ရှိ ကာဖိရ်၊ မုရှ်ရစ်က်များသည် အဘယ်သို့လျှင် လွတ်မြောက်နိုင်ကြအံ့နည်း။ ကာဖိရ်၊မုရှ်ရစ်က်အားလုံး သိအပ်ထားကြသည်မှာ မိုး၊မြေအတွင်း၌ မည်သည့်အင်အားစုမျှ အလ္လာဟ် ➤➤

وَلَوْ يُؤَاخِذُ اللَّهُ النَّاسَ بِمَا كَسَبُوا مَا تَرَكَ عَلَىٰ ظَهْرِهَا مِن دَابَّةٍ وَلَٰكِن يُؤَخِّرُهُمْ إِلَىٰ أَجَلٍ مُّسَمًّى ۖ فَإِذَا جَاءَ أَجَلُهُمْ فَإِنَّ اللَّهَ كَانَ بِعِبَادِهِ بَصِيرًا ﴿٤٥﴾

၄၅။ အမှန်စင်စစ်သော်ကား အကယ်၍သာအလ္လာဟ် အရှင်မြတ်သည် လူတို့အား၊ ၎င်းတို့ရှာဖွေဆည်းပူး ခဲ့ကြလေသော ပြစ်မှုများကြောင့် ဖမ်းဆီးအရေးယူ တော်မူသည်ရှိသော် ကမ္ဘာမြေ၏ ကျောက်ကုန်းထက် ဝယ် လှုပ်ရှားသွားလာသော မည်သည့်သတ္တဝါကိုမျှ ပင် ချန်ထားတော်မူမည် မဟုတ်ပေ။ သို့ရာတွင် ထိုအရှင်မြတ်သည် ၎င်းတို့အား သတ်မှတ်ပြဋ္ဌာန်းပြီး ဖြစ်သော အချိန်ကာလတိုင်အောင် ဆိုင်းငံ့၍ထားတော် မူ၏။ ထို့နောက် ၎င်းတို့၏ အချိန်ကာလ ဆိုက်ရောက် လာသောအခါ (၎င်းတို့၏ အကျင့်အမူတို့နှင့် စပ်လျဉ်း ၍ အကျိုးအပြစ် ပေးတော်မူပေမည်)။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် မိမိကျွန်တို့အား ကောင်းစွာ သိမြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေ သတည်း။ [၁]

---

➤➤ အရှင်မြတ်အား အရေးနိမ့်အောင် ပြုစွမ်းနိုင်သည်မရှိ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်၏ ဉာဏ်တော်ကား အပြောကျယ်လှ၏။ ထိုအရှင်မြတ်၏ တန်ခိုးတော်တွင် အဆုံးဟူ၍မရှိ။ အနန္တောအနန္တတည်း။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်ကို အကြွင်းမဲ့သိတော်မူသည်။ အရာခပ်သိမ်းကို ပြုစွမ်းတော်မူနိုင်သည်။ သို့ဖြစ်ရာ အလ္လာဟ်အရှင်မြတ်၏ အာဏာစက်အတွင်းမှ၊ မည်သူလွတ်မြောက်သွားနိုင်အံ့နည်း။

(၁) အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား အပြစ်ရှိသည့်အလျောက် အတိအကျ အရေးယူတော် မူပါက၊ ကမ္ဘာမြေပြင်တွင် သတ္တဝါဟူ၍ တဦးတစ်ယောက်မျှပင် ကျန်ရှိမည်မဟုတ်ပေ။ အပြစ်ရှိသူများသည် အပြစ်ရှိသည့်အလျောက်၊ ကွပ်မျက်ဖျက်ဆီးခြင်း ခံကြရပေမည်။ အပြစ်မရှိသောသူများ၏ အရေအတွက်မှာလည်း လွန်စွာနည်းပါးလှသည့်အတွက် ကမ္ဘာမြေပြင်တွင် လက်တဆုပ်စာမျှသော သူတော်ကောင်းများအား ဆက်လက် ထားရှိရန်လည်း မလိုတော့ပေ။ လူ့လောက၌ လူသားတို့မရှိပြီးနောက် လူသားတို့အား၊ အကျိုးပြုနေကြသော အခြားသတ္တဝါများနှင့် ကမ္ဘာအိမ်ထောင်စုကြီး တစ်ခုလုံးသည်ပင် မလိုတော့ပေ။ ဤသို့ဖြင့် ကမ္ဘာအိမ်ထောင်စုကြီး တခုလုံး ဆိတ်သုဉ်းသွားပေမည်။ ယခုမူအလ္လာဟ်အရှင်မြတ်သည် လူသားတို့အား သတ်မှတ်ထားတော်မူ သည့်အချိန်အထိ၊ လျစ်လျူရှုထားတော် မူခြင်းသာဖြစ်သည်။ သို့သတ်မှတ်ထားတော်မူသည့် အချိန်ကာလ ဆိုက်ရောက်လာသည့်အခါ ကောင်းသူအား ကောင်းသည့်အလျောက်၊ ဆိုးသူအား ဆိုးသည့်အလျောက် ကျိုးပြစ် စီရင်တော်မူမည်ပင်ဖြစ်သည်။

# ယာစီန် ကဏ္ဍ



ဤကဏ္ဍသည်"ယာစီန်"ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၈၃)ပါး၊ ရကူအ်အပိုဒ်(၅)ပိုဒ် အသီးသီးရှိ၏။

**ဤကဏ္ဍ၏ မြင့်မြတ်ပုံ။**

ဤကဏ္ဍ၏မြင့်မြတ်ပုံ၊ ထူးကဲပုံများနှင့် စပ်လျဉ်း၍ 'ဟဒီးစ်' သြဝါဒတော်အမြောက်အမြား လာရှိပေသည်။ တဖ်စီရ်ကျမ်းရှင်များကလည်း ယင်းသည့် ဟဒီးစ်သြဝါဒတော်များကို အထူးတလည်ရေးသားဖော်ပြကြသည်။ ဤတွင်အနည်းငယ်ဖော်ပြပါအံ့။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က မိန့်ကြားတော်မူခဲ့သည်မှာ-

"အရာရာ၌ စိတ်နှလုံးရှိသည်။ ကုရ်အာန်၏ စိတ်နှလုံးမှာ "ယာစီန်" ဖြစ်သည်။ အကြင်သူသည် အလ္လာဟ်အရှင်မြတ်အား ရည်စူး၍ ယာစီန်ကို ရွတ်ဖတ်အံ့။ ထိုသူသည် လွတ်ငြိမ်းချမ်းသာခွင့်ရရှိအံ့။ ထို့ပြင်တဝ ကုရ်အာန်ကျမ်းမြတ်ကို အကြိမ်ပေါင်း (၂၂) ကြိမ် ရွတ်ဖတ်သည်နှင့်အမျှ ကုသိုလ်အကျိုးရရှိအံ့"။

အဗူစုအူဒ်၊

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) က မိန့်ကြားတော်မူခဲ့သည်မှာ

မည်သည့်မုစ်လင်မ်မဆို ၎င်းသေအံ့ဆဲဆဲ အသက်ငင်နေချိန်တွင် (၎င်း၏အနီး၌) ယာစီန်ကဏ္ဍကို ရွတ်ဖတ်အံ့၊ သေမင်းတမန်သည် ထိုသူ၏ အသက်ကိုနှုတ်သိမ်းခြင်းမပြုပဲ ဆိုင်းငံ့နေအံ့၊ ဂျန္နတ်မှူး ကောင်းကင်တမန်'ရိဿဝါန်' သည် ထိုသူ့ထံ ဂျန္နတ်မှ ရေကြည်တစ်ခွက် ယူဆောင်၍လာအံ့၊ ထိုသူသည် ထိုရေကြည်ကို မိမိအိပ်ရာ၌ပင် သောက်အံ့၊ ထိုအခါတွင်မှ သေမင်းတမန်သည်ထိုသူ၏ အသက်နှုတ်အံ့၊ ထိုအချိန်တွင် ထိုသူသည် ရေငတ်ပြေလျက်ရှိအံ့၊ ထိုသူသည် သင်္ချိုင်းတွင် ရှိနေအံ့၊ ထိုအချိန်တွင်လည်း ရေငတ်ပြေလျက်ရှိအံ့၊ ထိုသူသည် တမန်တော်များ၏ မည်သည့်ရေကန်ကိုမျှ တောင့်တနေရမည်မဟုတ်၊ နောက်ဆုံးတွင် ထိုသူသည် ဂျန္နတ်သို့ဝင်ရအံ့၊ ထိုအချိန်တွင်လည်း ထိုသူသည် ရေငတ်ပြေလျက်ရှိအံ့။ အဗူစုအူဒ်၊

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)က

"ကုရ်အာန်ကျမ်းတော်မြတ်တွင် ကဏ္ဍတစ်ခုရှိသည်။ ယင်းကဏ္ဍသည် မိမိအား ရွတ်ဖတ်သရဇ္ဈာယ်သူကို (ရှဖာအတ်) ပြုလုပ်ပေးမည်။ မိမိအား နားထောင်သူအဖို့ လွတ်ငြိမ်းခွင့် ပန်ကြားပေးမည်။ ထိုကဏ္ဍကား အခြားမဟုတ်၊ ယာစီန်ကဏ္ဍပင်ဖြစ်သည်" ဟု မိန့်ကြားတော်မူခဲ့လေသည်။ အဗူစုအူဒ်၊

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊
အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမတော်ဖြင့် အစပြုပါ၏။

يٰسٓ ۝١

၁။ ယာစီန်။ [၁]

وَالْقُرْاٰنِ الْحَكِيْمِ ۝٢

၂။ (ငါအရှင်မြတ်သည်) ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံသော (ဤ)ကုရ်အာန်ကျမ်းတော်မြတ်ကို သက်သေ ထူထောင်တော်မူသည်။

اِنَّكَ لَمِنَ الْمُرْسَلِيْنَ ۝٣

၃။ မလွဲဧကန် အသင်သည် ရစူလ်တမန်တော် အပေါင်းတို့တွင် အမှန်ပင် တစ်ပါး အပါအဝင် ဖြစ်သည်။

عَلٰى صِرَاطٍ مُّسْتَقِيْمٍ ۝٤

၄။ ဖြောင့်မတ်သော တရားလမ်းပေါ်၌ တည်ရှိနေပေသည်။ [၂]

---

(၁) ယာစီန်၊

"ယာစီန်" ဟူသော သင်္ကေတအက္ခရာစုကို မုဖတ်စ်စစ်ရ်များသည် အောက်ပါအတိုင်း အမျိုးမျိုးအနက်ဖွင့်ဆိုထားသည်။ -အချို့ကို ဤတွင်ဖေါ်ပြအံ့။

အချို့က "ယာစီန်"သည် 'ယာ-မုဟမ္မဒ်'-(အို-မိုဟမ္မဒ်)ဟူသော အနက်၌ ဖြစ်သည်' ဟုဆိုကြသည်။ (ဒုရ်ရီမန်ဆူရ်)။

"ယာစီန်"သည် ကုရ်အာန်ကျမ်းမြတ်၏ အချို့ကဏ္ဍများ၏ အစ၌ပါရှိသော အခြားသင်္ကေတအက္ခရာစုများကဲ့သို့ သင်္ကေတအက္ခရာစု တခုပင်ဖြစ်သည်။ ယင်းသင်္ကေတအက္ခရာစု၏ အလိုသဘောကို အလ္လာဟ်အရှင်မြတ်သာလျှင် အသိဆုံးဖြစ်တော်မူသည်။ ထာနဝီ။

(၂) ကုရ်အာန်ကျမ်းလာ အာယတ်တော်များသည် ပညာဉာဏ် အမြော်အမြင်ဆင်ခြင်တုံတရားနှင့် ပြည့်နှက်လျက်ရှိသည်။ တိုတုပ်၊ သိပ်သည်းနက်နဲ သိမ်မွေ့လှသည်။ အဓိပ္ပါယ်ကြွယ်ဝလှသည်။ မှန်ကန်တိကျသည်။ သာယာနာဖွယ်ရှိလှသည်။ ထိမိလှသည်။ ပြိုင်ဘက်ကင်းသည်။ ဤသည့် ဝိသေသဂုဏ်ထူးများနှင့် ပြည့်စုံသော ကုရ်အာန်ကျမ်းမြတ်သည်ပင် "မိမိအား ယူဆောင်လာသော ပုဂ္ဂိုလ်မြတ်မှာ အလ္လာဟ်အရှင်မြတ် စေလွှတ်တော်မူသော တမန်တော်တစ်ပါးဖြစ်ကြောင်း၊ ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်အပေါ်၌ ရပ်တည်လျက်ရှိနေကြောင်း၊ ဤလမ်းစဉ်ကို လိုက်နာသူအပေါင်းတို့သည်လည်း လိုရာပန်းတိုင်သို့ ရောက်ရှိကြမည်ဖြစ်ကြောင်း" ကို သက်သေခံလျက် ရှိပေသည်။

تَنْزِيْلَ الْعَزِيْزِ الرَّحِيْمِ ۝٥

၅။ (ဤကုရ်အာန်ကျမ်းတော်မြတ်သည်) တန်ခိုးအာနုဘော်ဖြင့် နိုင်နင်းလွှမ်းမိုးတော်မူသော၊ အလွန်တရာ သနားကြင်နာတော်မူသော၊ အရှင်မြတ်၏ အထံတော်မှ ချပေးတော်မူ(သော ကျမ်းဂန်တော်ဖြစ်)သည်။ [၁]

لِتُنْذِرَ قَوْمًا مَّآ أُنْذِرَ اٰبَآؤُهُمْ فَهُمْ غٰفِلُوْنَ ۝٦

၆။ (ယင်း ကုရ်အာန်ကျမ်းတော်မြတ်ကို ချပေးသနားတော်မူခြင်းမှာ) အသင်သည် (ဦးစွာ ပထမသော်) အကြင်အမျိုးသားတို့အား သတိပေးနှိုးဆော်ရန်ဖြစ်သည်။ [၂] ထိုအမျိုးသားတို့၏ အဘ၊ ဘိုး၊ ဘေးတို့မှာ သတိပေးနှိုးဆော်ခြင်းမခံခဲ့ရကြပေ၊ သို့ဖြစ်ပေရာ ထိုအမျိုးသားတို့သည် (တရားလမ်းမှန်ကို) မသိသူများပင် ဖြစ်ကြကုန်သည်။

---

(၁) ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်ထားတော်မူသော ကျမ်းဂန်ဖြစ်သည်။ ထိုအရှင်မြတ်သည် ဘုန်းတန်ခိုးတေဇော် အာနုဘော်ဖြင့် အရာရာကို နိုင်နင်းလွှမ်းမိုးတော် မူသောအရှင်၊ အလွန်သနားကြင်နာတော်မူသော အရှင်ဖြစ်တော်မူသည်။ ထိုအရှင်မြတ်သည် အမိန့်တော်ကို သွေဖည်ငြင်းဆန်မနာခံသူများအား ထိုက်သည့်အားလျော်စွာ ပြစ်ဒဏ်ပေးတော်မူသည်။ အမိန့်တော်ကို နာခံသူများအား သနားကြင်နာတော်မူသည်။ ဆုလာဘ်များ ချီးမြှင့်တော်မူသည်။

ထို့အတွက်ကြောင့် ကုရ်အာန်ကျမ်းလာ အချို့အာယတ်တော်များတွင် ကရုဏာတော်အရောင်သန်းလျက်၊ အချို့အာယတ်တော်များတွင် ဘုန်းတန်ခိုးတေဇော်ရောင် သန်းလျက်ရှိသည်ကို တွေ့ရှိရပေသည်။ (သို့ဖြစ်ရာ ထိုအရှင်မြတ်၏ အမျက်တော်ကို ကြောက်ရာသည်၊ ထိုအရှင်မြတ်၏ ကရုဏာတော်ကို မျှော်ကိုးရာသည်။)

(၂) **တမန်တော်မြတ်၏ တာဝန်၊**

တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏တာဝန်မှာ ကုရ်အာန်ကျမ်းမြတ်ဖြင့် ဦးစွာပထမ အရဗ်အမျိုးသားတို့အား သတိပေး နှိုးဆော်ရန်ဖြစ်သည်။ အရဗ်အမျိုးသားတို့အား သတိပေး နှိုးဆော်ရမည့် တာဝန်ကား မသေးငယ်ပေ။ အလွန်ကြီးလေးလှပေသည်။ အဘယ်ကြောင့်ဆိုသော် အရဗ်အမျိုးသားတို့ထံ နှစ်ပရိစ္ဆေဒ မြောက်မြားစွာကတည်းက သတိပေးနှိုးဆော်သူ တစ်ဦးတစ်ယောက်မျှပင် မလာရောက်ခဲ့ဘူးသေးချေ။ အရဗ်အမျိုးသားတို့သည် တရားဓမ္မနှင့် ကင်းကွာလျက် ဆိုးမိုက်နေခဲ့ကြ၏။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်ကိုလည်း မသိခဲ့ကြပေ။ နောင်တမလွန်ဘဝကိုလည်း မသိခဲ့ကြပေ။ ၎င်းတို့သည် အတိတ်ဖြစ်ရပ်များမှလည်း သင်ခန်းစာ မယူခဲ့ကြပေ။ နောင်ရေးကိုလည်း မတွေးခဲ့ကြပေ။ ၎င်းတို့၌ ဆင်ခြင်တုံတရားလည်း မရှိ၊ ထို့အတွက် အကောင်းနှင့်အဆိုး၊ အမှားနှင့်အမှန်ကိုလည်း ခွဲခြားမသိခဲ့ကြပေ။ ➤➤

لَقَدْ حَقَّ الْقَوْلُ عَلٰٓى اَكْثَرِهِمْ فَهُمْ لَا يُؤْمِنُوْنَ ۝٧

၇။ ဧကန်မလွဲ ၎င်းတို့အနက် မြောက်မြားစွာသောသူတို့အပေါ်၌ အမိန့်တော်သည် အတည်ဖြစ်ခဲ့ပေရာ ၎င်းတို့မှာ "အီမာန်" သက်ဝင်ယုံကြည်ကြမည် မဟုတ်ပေတကား။

اِنَّا جَعَلْنَا فِيْٓ اَعْنَاقِهِمْ اَغْلٰلًا فَهِيَ اِلَى الْاَذْقَانِ فَهُمْ مُّقْمَحُوْنَ ۝٨

၈။ ဧကန်အမှန် ငါအရှင်မြတ်သည် ၎င်းတို့၏ လည်ကုပ်များ၌ လည်ကွင်းများကိုစွပ်ထားတော်မူခဲ့ရာ ယင်းလည်ကွင်းများမှာ (၎င်းတို့၏) မေးစေ့များအထိ ရောက်ရှိ၍ နေကုန်၏။ ထို့ကြောင့် ၎င်းတို့သည် ဦးခေါင်းမော့လျက်ပင် ရှိနေကုန်၏။

وَجَعَلْنَا مِنْۢ بَيْنِ اَيْدِيْهِمْ سَدًّا وَّمِنْ خَلْفِهِمْ سَدًّا فَاَغْشَيْنٰهُمْ فَهُمْ لَا يُبْصِرُوْنَ ۝٩

၉။ ထို့ပြင် ငါအရှင်မြတ်သည် ထိုသူတို့ရှေ့၌ အကာအဆီးတစ်ခုကိုလည်းကောင်း၊ ထိုသူတို့၏ နောက်၌ အကာအဆီးတစ်ခုကိုလည်းကောင်း၊ ပြုလုပ်တော်မူခဲ့၏။ ထို့နောက် ငါအရှင်မြတ်သည် ၎င်းတို့အား (အထက်မှလည်း) ဖုံးလွှမ်းထားတော်မူခဲ့ရာ [(တနည်း:) ထိုသို့အားဖြင့် ငါအရှင်မြတ်သည် ၎င်းတို့အား (အဖက်ဖက်မှ) ဝိုင်းဝန်းထားတော်မူခဲ့ရာ] ၎င်းတို့မှာ မြင်နိုင်ကြတော့သည် မဟုတ်ပြီ။

---

➤➤ မိဘရိုးရာ ထုံးတမ်းစဉ်လာများတွင်သာ နစ်မွန်း၍ အလွဲလွဲ အမှားမှား ဖြစ်နေခဲ့ကြသည်။ ယင်းကဲ့သို့ ခေတ်အဆက်ဆက်မှ အမိုက်မှောင် အထပ်ထပ်တွင် နစ်မွန်းနေခဲ့ကြသော အရဗ်အမျိုးသားတို့အား ကုရ်အာန်ကျမ်းမြတ်ဖြင့် အမှောင်ခွင်း၍ အလင်းသို့ဆောင်ရမည့် အရေးကား လွယ်ကူသော အလုပ်မဟုတ်ပေ။ သို့ပင်တစေ၊ တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် တာဝန်သိသိ၊ သစ္စာရှိရှိဖြင့် ကမ္ဘာ့သမိုင်းစဉ်တွင် မတွေ့ကြုံခဲ့ရဘူးသော ဆားအန္တရာယ်အပေါင်းကို ကျော်လွှားကာ ယင်းအမိုက်မှောင်ကြီးများတွင် နစ်မွန်းနေခဲ့ကြသော အရဗ်တို့အား အလင်းသို့ ဆောင်တော်မူနိုင်ခဲ့သည်။ အဖက်ဖက်တွင် နိမ့်ကျနေခဲ့သော အရဗ်တို့အား လူ့ဘဝ အထွဋ်အထိပ်သို့ တင်ဆောင်ပေးတော်မူနိုင်ခဲ့သည်။

တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် အရဗ်တို့အား တရားဓမ္မ ပေးတော်မူနိုင်ခဲ့သည်သာမက ကမ္ဘာ့အဝှန်းသို့ အစ္စလာမ့်ရောင်ခြည် ပေးစွမ်းနိုင်စေသည့် အစ္စလာမ့်မီးရှူးတန်ဆောင်ကြီးများ ဖြစ်ကြစေရန်လည်း ကျိုးပမ်း ဆောင်ရွက်တော်မူနိုင်ခဲ့လေသည်။ ဤကား တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏ တာဝန်နှင့် တာဝန်ကျေမှုပင်။

وَسَوَآءٌ عَلَيْهِمْ ءَأَنذَرْتَهُمْ أَمْ لَمْ تُنذِرْهُمْ لَا يُؤْمِنُونَ ⑩

၁၀။ စင်စစ် (အို-နဗီတမန်တော်၊) အသင်သည် ၎င်းတို့အား သတိပေးနှိုးဆော်ခဲ့သည်ဖြစ်စေ၊ သတိပေးနှိုးဆော်ခြင်း မပြုခဲ့သည်ဖြစ်စေ၊ ၎င်းတို့အဖို့ အကြောင်းမထူးပြီ၊ ၎င်းတို့သည် "*အီမာန်*" သက်ဝင်ယုံကြည်ကြမည် *မဟုတ်ပေ*။ [၁]

---

(၁) ဤအာယတ်တော်များတွင် အီမာန်ယုံကြည်ကြမည်မဟုတ်သော ကာဖိရ်များအား ပုံဆောင်ချက်၂-ရပ်ဖြင့် ပုံဆောင်မိန့်ဆို ထားတော်မူသည်။ ပုံဆောင်ချက်တရပ်မှာ ကာဖိရ်တစ်ဦး၏ လည်ကုပ်တွင် လည်ကွင်းကြီး စွပ်ထားသည်။ စွပ်ထားသော လည်ကွင်းကြီးမှာ မေးစေ့အထိဖြစ်သည်။ ထို့အတွက် ဦးခေါင်းသည် မော့လျက်သာရှိသည်။ အောက်သို့ မည်သို့မျှ မငုံ့နိုင်ချေ။

ထိုသို့ဖြစ်ရှိနေသော ကာဖိရ်တဦးသည် လမ်းကို အသို့လျှင် မြင်နိုင်တော့အံ့နည်း။ အခြားပုံဆောင်ချက်တရပ်မှာ ကာဖိရ်တဦး၌ ၎င်း၏ရှေ့တွင်လည်း အုတ်တံတိုင်းကြီး တစ်ခု ကာဆီးလျက်ရှိသည်။ ၎င်း၏နောက်တွင်လည်း အုတ်တံတိုင်းကြီးတစ်ခု ကာဆီးလျက်ရှိသည်။ ထို့ပြင်တဝ ထိုကာဖိရ်အား အကာအကွယ်များသည်လည်း အဖက်ဖက်မှ ဝန်းခြံဖုံးအုပ်လျှက်ရှိသည်။ သို့ဖြစ်ရှိနေသော ကာဖိရ်တစ်ဦးသည် တစုံတစ်ရာကို အသို့လျှင် မြင်နိုင်တော့အံ့နည်း။ ကြည့်-ထာနဝီ။

အထက်ပါ ပုံဆောင်ချက်တွင်ပါရှိသော လည်ကွင်းကြီးများကား အခြားမဟုတ်။ မိဘရိုးရာ၊ ထုံးတမ်းစဉ်လာ၊ ဥစ္စာခနေ၊ ခင်မင်မှု၊ ရာထူးဌာနန္တရမက်မောမှု၊ ဘိုးဘေးတို့၏ စကားကို မစဉ်းစားမဆင်ခြင်ဘဲ မျက်စိမှိတ်၍ လိုက်နာမှုတည်းဟူသော လည်ကွင်းကြီးများပင်။ ယင်းသည့် လည်ကွင်းကြီးများသည် လည်ပင်းများကို တအားဖြစ်ညှစ်ထားသည်။ မောက်မာ ပလွှားဝါကြွားမှုကြောင့် ဦးခေါင်းသည် အထက်သို့မော့လျက်သာရှိသည်။ အောက်သို့ စိုးစဉ်းမျှ မငုံ့နိုင်၊ မည်သို့မျှ မလှည့်နိုင်။

ထို့ပြင်တဝ၊ တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)အား မလိုမုန်းတီးမှုများသည်လည်း တရားဓမ္မကို လက်ခံရာတွင် အုတ်တံတိုင်းကြီးများပမာ ရှေ့နောက် ဝဲယာမှ ကာဆီးထားသည်။ ဆိုးရွားသော အလိုဆန္ဒ၊ မှားယွင်းသောအတွေး၊ မိုက်မှားသော ရိုးရာစဉ်လာတည်း ဟူသော အမိုက်မှောင်များသည်လည်း အဖက်ဖက်မှ ဝန်းရံ ဖုံးအုပ်လျက်ရှိသည်။ သို့ဖြစ်ရာ ယင်းသို့သော ကာဖိရ်တစ်ဦးသည် တစ်စုံတစ်ရာကို အသို့လျှင် မြင်နိုင်တော့အံ့နည်း။

ယင်းသို့သော ကာဖိရ်များအား သတိပေးခြင်း၊ သတိမပေးခြင်းသည် ၎င်းတို့အဖို့ မထူးခြားပေ။ အတူတူပင်။ ယုံကြည်ကြတော့မည်လည်း မဟုတ်ပေ။ ယင်းကာဖိရ်များအဖို့ အကြောင်းသည် မထူးသော်လည်း တမန်တော်မြတ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အဖို့မှာကား အကြောင်းထူးသည်။ ယင်းသို့သော ကာဖိရ်များကိုပင် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် ဖြူစင်သောစေတနာ၊ ကြီးမားသော သဘောထား၊ အံ့မဆုံးသော ခန္တီဖြင့် တရားဓမ္မဟောကြားတော် မူခဲ့သည်ဖြစ်ရာ တာဝန်ကျေပွန်လှသည့်အတွက် အကျိုးထူးများကို မုချခံစားရမည်သာဖြစ်သည်။ တခါတရံ ဤသည့်မြင့်မြတ်လှသော ဂုဏ်ရည်များသည် အခြားသူများ တရားရစေမည့် အကြောင်းလည်းဖြစ်သွားပေမည်။

إِنَّمَا تُنْذِرُ مَنِ اتَّبَعَ الذِّكْرَ وَخَشِيَ الرَّحْمٰنَ بِالْغَيْبِ فَبَشِّرْهُ بِمَغْفِرَةٍ وَّاَجْرٍ كَرِيْمٍ ﴿١١﴾

**၁၁။** အသင်သည် ဆုံးမသြဝါဒကို လိုက်နာသည့်အပြင် "ရဟ်မာန်" *အနန္တကရုဏာတော်ရှင်အား အကွယ်မှ ကြောက်ရွံ့ရှိသေသော သူကိုသာလျှင် သတိပေး နှိုးဆော်နိုင်၏။* [၁] သို့ဖြစ်ပေရာ အသင်သည် ထိုသူအား လွတ်ငြိမ်းချမ်းသာခွင့်နှင့် စပ်လျဉ်း၍လည်းကောင်း၊ မြင့်မြတ်လှစွာသော အကျိုးကျေးဇူးနှင့် စပ်လျဉ်း၍လည်းကောင်း၊ ဝမ်းမြောက်ဖွယ်ရာသတင်းကို ပြောကြားပါလေ။ [၂]

إِنَّا نَحْنُ نُحْيِ الْمَوْتٰى وَنَكْتُبُ مَا قَدَّمُوْا وَاٰثَارَهُمْ ۗ وَكُلَّ شَيْءٍ اَحْصَيْنٰهُ فِيْٓ اِمَامٍ مُّبِيْنٍ ﴿١٢﴾

**၁၂။** မလွဲကေန် ငါအရှင်မြတ်သည်သာလျှင် သူသေတို့အားရှင်စေတော်မူပေမည်။ ထို့ပြင် ငါအရှင်မြတ်သည် ထိုသူတို့ ကြိုတင် ပို့ခဲ့ကြသည်များကိုလည်းကောင်း၊ ထိုသူတို့၏ ခြေရာများကိုလည်းကောင်း၊ **(တနည်း)** ထိုသူတို့သည်နောက်တွင် ချန်ရစ်ခဲ့ကြသည်များကိုလည်းကောင်း၊ ရေးသားထားတော်မူ၏။ ထိုမှတပါး ငါအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ထင်ရှားစွာသော *မှတ်တမ်းစာအုပ်တွင် တိကျစွာ ရေတွက် မှတ်သားတော်မူခဲ့ပြီး ဖြစ်ပေသတည်း။* [၃]

---

(၁) ဆိုလိုသည်ကား တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် အဆုံးအမကို နာယူကျင့်မူသော၊ အလ္လာဟ်အရှင်မြတ်အား မမြင်ရဘဲလျက် ကြောက်ရွံ့ရိုသေ ခန့်ညားသော သူများကိုသာလျှင် သတိပေး နှိုးဆော်နိုင်ပေသည်။ ယင်းသို့သောသူများအား သတိပေး နှိုးဆော်ခြင်းဖြင့် အကျိုးလည်း သက်ရောက်နိုင်ပေသည်။ အဘယ်ကြောင့်ဆိုသော် ကြောက်ရွံ့ခန့်ညားမှုရှိမှ သာလျှင် အမှန်တရားကို ရှာဖွေလိုသည်။ အမှန်တရားကို ရှာဖွေလို၊ ရှာဖွေမှသာလျှင် လိုရာပန်းတိုင်သို့ ရောက်နိုင်ပေသည်။ ကြည့်-ထာနဝီ။

(၂) တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်)သည် ယင်းသို့ အလ္လာဟ်အရှင်မြတ်အား ခန့်ညား၍ အဆုံးအမကို နာယူကျင့်မူသူကိုသာ လွတ်ငြိမ်းချမ်းသာခွင့်နှင့် မြင့်မြတ်လှသော အကျိုးစံစားရမည့်အကြောင်း ဝမ်းမြောက်ဖွယ်ရာ သတင်းစကားပြောကြားတော်မူရပေသည်။ ဤသည်ကို ထောက်ရှုခြင်းဖြင့် အလ္လာဟ်အရှင်မြတ်အား မခန့်ညားသော အဆုံးအမကို မနာခံသောသူများသည် လွတ်ငြိမ်းချမ်းသာခွင့်၊ မြင့်မြတ်လှသော အကျိုးနှင့် ကင်းဝေးကြရပြီး ပြစ်ဒဏ်ခံရမည်သာဖြစ်ကြောင်း ကောင်းစွာသိရှိနိုင်ပေသည်။

(၃) ဤပစ္စက္ခတွင် ကျိုးပြစ်ခံ၊ စံရမှုသည် မထင်ရှားသော်လည်း သေပြီးသည့်နောက်၊ ပြန်လည်ရှင်ပြန်ထကြရသော အခါတွင်မူ ကျိုးပြစ်ခံ၊ စံမှုသည် လုံးဝထင်ရှား ပေါ်လွင်လာပေမည်။ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်➤➤

وَاضْرِبْ لَهُمْ مَّثَلًا أَصْحٰبَ الْقَرْيَةِ إِذْ جَآءَهَا الْمُرْسَلُونَ ﴿١٣﴾

၁၃။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား ထိုမြို့သူမြို့သားတို့၏ အတ္ထုပ္ပတ္တိတစ်ခုကို ပြောပြပါလေ။ အခါတပါး၌ ထိုမြို့သူမြို့သားတို့ထံ ရစူလ်တမန်တော်များသည် ရောက်ရှိ၍လာခဲ့ကြကုန်၏။

إِذْ أَرْسَلْنَآ إِلَيْهِمُ اثْنَيْنِ فَكَذَّبُوهُمَا فَعَزَّزْنَا بِثَالِثٍ فَقَالُوٓا إِنَّآ إِلَيْكُم مُّرْسَلُونَ ﴿١٤﴾

၁၄။ အကြင်အခါဝယ် ငါအရှင်မြတ်သည် ထိုမြို့သူမြို့သားတို့ထံ (ရစူလ်တမန်တော်)နှစ်ပါးကို စေလွှတ်တော်မူခဲ့ရာ ၎င်းတို့က ထိုနှစ်ပါးလုံးအား မုသာဝါဒီများဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် တတိယ(ရစူလ်တမန်တော်)တပါးကို (စေလွှတ်တော်မူခြင်းအား)ဖြင့် (အားအင်တိုးတက်စေ)တော်မူခဲ့၏။ ထိုအခါ ထိုရစူလ်တမန်တော်တို့က "စင်စစ်ဧကန် ငါတို့သည် အသင်တို့ထံ စေလွှတ်ခြင်းခံကြရသော (ရစူလ်တမန်တော်များပင်) ဖြစ်ကြသည်" ဟု ပြောကြားခဲ့ကြကုန်၏။

قَالُوا مَآ أَنتُمْ إِلَّا بَشَرٌ مِّثْلُنَا وَمَآ أَنزَلَ الرَّحْمٰنُ مِن شَيْءٍ إِنْ أَنتُمْ إِلَّا تَكْذِبُونَ ﴿١٥﴾

၁၅။ ထိုမြို့သူမြို့သားတို့က "အသင်တို့သည် ကျွန်ုပ်တို့ကဲ့သို့ လူသားများပင် ဖြစ်ကြပေသည်။ စင်စစ် "ရဟ်မာန်" အနန္တကရုဏာတော်ရှင်သည် အသင်တို့အပေါ်၌ မည်သည့်တစုံတရာကိုမျှ ချပေးတော်မူသည် မဟုတ်ပေ၊ အသင်တို့သည် မုသားပြောဆိုနေကြသည်သာ ဖြစ်သည်" ဟု ပြောဆိုခဲ့ကြကုန်၏။

---

➤➤ အရှင်မြတ်သည် (တရက်တွင်) သူသေအားလုံးတို့အား ရှင်စေတော်မူမည်ဖြစ်သည်။ ထို့ပြင်တဝ၊ ထိုအရှင်မြတ်သည် လူသားတို့ ကြိုတင်ပို့နှင့်ထားကြသော ကောင်းမှုမကောင်းမှုများနှင့် မိမိတို့နောက်တွင် ချန်ထားခဲ့ကြသော ခြေရာလက်ရာများ (ဝါ) ကောင်းမှုမကောင်းမှုတို့၏ အကျိုးဆက်များကို အတိအကျရေးမှတ်ထားတော်မူသည်။ သို့ဖြစ်၍လည်း ထိုအရှင်မြတ်သည် လူသားတို့အား ထိုက်တန်သည့် အားလျော်စွာ အတိအကျအကျိုးပေး အပြစ်တော်မူမည်သာတည်း။

قَالُوْا رَبُّنَا يَعْلَمُ إِنَّآ إِلَيْكُمْ لَمُرْسَلُوْنَ ⑯

၁၆။ ထိုရစူလ်တမန်တော်တို့က ပြောကြားခဲ့ကြကုန်၏။ "ကေန်မလွဲ ငါတို့သည် အသင်တို့ထံ စေလွှတ်ခြင်းခံကြရသော (ရစူလ်တမန်တော်များ) ဖြစ်ကြောင်းကို ငါတို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်သည် ကောင်းစွာ သိရှိတော်မူ၏။

وَمَا عَلَيْنَآ إِلَّا الْبَلٰغُ الْمُبِيْنُ ⑰

၁၇။ သို့ရာတွင် ငါတို့အပေါ်၌မူကား (အလ္လာဟ်အရှင်မြတ်၏ အကြောင်းကြားချက်များကို အသင်တို့ထံ) ထင်ရှားစွာ ပို့ဆောင်ရန်တာဝန်မှတပါး အခြားတာဝန်မရှိပြီ။

قَالُوْٓا إِنَّا تَطَيَّرْنَا بِكُمْ ۚ لَئِنْ لَّمْ تَنْتَهُوْا لَنَرْجُمَنَّكُمْ وَلَيَمَسَّنَّكُمْ مِّنَّا عَذَابٌ أَلِيْمٌ ⑱

၁၈။ ထိုမြို့သူမြို့သားတို့က ပြောဆိုခဲ့ကြကုန်၏။ "အမှန်စင်စစ် ကျွန်ုပ်တို့သည် အသင်တို့အား အမင်္ဂလာဟု ယူဆကြကုန်၏။ (သို့ဖြစ်ပေရာ) အကယ်၍ အသင်တို့သည် (ဆုံးမသြဝါဒပေးခြင်းကို) ရပ်စဲခြင်း မပြုကြပါလျှင် မုချအမှန် ကျွန်ုပ်တို့သည် အသင်တို့အား ခဲများဖြင့် ပစ်ပေါက်၍ သတ်ကြပေမည်။ ထိုမှတပါး ကျွန်ုပ်တို့ထံမှ အသင်တို့၌ ပြင်းပြနာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်သည်လည်း မလွဲကေန် သက်ရောက်မည် ဖြစ်၏။" ၁

---

(၁) အတိတ်ခေတ်များတွင် သူမိုက်တို့၌ အတိတ်နိမိတ်ကောက်မှုသည် အထူးခေတ်စားခဲ့သည်။ ဤဖြစ်ရပ်သည်လည်း အဆိုပါ မြို့ပတ်ဝန်းကျင်၌ပင် ဖြစ်ပေါ်နေခဲ့လေသည်။ အဆိုပါ မြို့သူမြို့သားများသည် သက်ဆိုင်ရာ တမန်တော်များ၏ အဆုံးအမများကို သွေဖည်ငြင်းဆန်မနာခံကြသည့်အခါ ၎င်းတို့၌ ကပ်ဆိုက်ခဲ့ဟန်ရှိသည်။ သို့တည်းမဟုတ် တမန်တော်များ၏ အဆုံးအမများနှင့် စပ်လျဉ်း၍ အချင်းချင်း သဘောထား ကွဲလွဲခဲ့ကြဟန်ရှိသည်။ ယင်းသို့ဖြစ်ရသည်ကို အကြောင်းပြု၍ အဆိုပါ မြို့သူမြို့သားများက၊ တမန်တော်များအား "ငါတို့သည် ယခင်က အေးချမ်းသာယာစွာ ရှိနေခဲ့ကြသည်။ အသင်တို့ရောက်ရှိလာပြီ၊ တရားဟောကြားသည့်အတွက် ယခု ငါတို့၌ ကပ်ဆိုက်ပြီ၊ ငါတို့အချင်းချင်းလည်း သဘောကွဲကုန်ကြရပြီ။ ဤသည်မကောင်းသော အတိတ်နိမိတ်ပင်။ သို့ဖြစ်ရာ အသင်တို့သည် တရားဟောပြောခြင်းကို ပိတ်လိုက်ကြ၊ ဆက်လက်ဟောပြောကြလျှင် ငါတို့သည် အသင်တို့အား အကြီးအကျယ် ဒုက္ခပေးကြမည်။ နောက်ဆုံးခဲများနှင့် ပေါက်၍သတ်ကြမည်"ဟု ကြိမ်းမောင်းခဲ့ကြလေသည်။

قَالُوا طَائِرُكُمْ مَعَكُمْ أَئِنْ ذُكِّرْتُمْ بَلْ أَنْتُمْ قَوْمٌ مُسْرِفُونَ ⑲

၁၉။ (ထိုအခါ) ရစူလ်တမန်တော်တို့က (ဤသို့) ပြောဆို(ဖြေကြား)ခဲ့ကြကုန်၏။ “အချင်းတို့၊ အသင်တို့၏ မကောင်းသော အတိတ်နိမိတ်သည် အသင်တို့၌ပင် ရှိနေပေသည်။ အသင်တို့ ဆုံးမသြဝါဒပေးခြင်းကို ခံခဲ့ကြရခြင်းသည် (မကောင်းသောအတိတ်နိမိတ်ပင်) ဖြစ်လေသလော။ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာကား အသင်တို့သည်သာလျှင် စည်းကမ်းဖောက်ဖျက်သူများ ဖြစ်ကြကုန်သတည်း။” [၁]

وَجَاءَ مِنْ أَقْصَا الْمَدِينَةِ رَجُلٌ يَسْعَىٰ قَالَ يَا قَوْمِ اتَّبِعُوا الْمُرْسَلِينَ ⑳

၂၀။ ထိုအခါမြို့၏အစွန်အဖျားမှ လူတစ်ယောက်သည် ပြေး၍လာခဲ့ပြီးလျှင် (ဤသို့) ပြောကြားခဲ့လေ၏။ “အို-ကျွန်ုပ်၏ အမျိုးသားတို့၊ အသင်တို့သည် ရစူလ်တမန်တော်များ၏လမ်းကို လိုက်ကြလေကုန်၊ [၂]

اتَّبِعُوا مَنْ لَا يَسْأَلُكُمْ أَجْرًا وَهُمْ مُهْتَدُونَ ㉑

၂၁။ အသင်တို့ထံမှ မည်သည့်အကျိုး (မည်သည့်အစား)ကိုမျှ တောင်းဆိုခြင်း မပြုကြသည့်ပြင် မိမိတို့ကိုယ်တိုင်လည်း တရားလမ်းမှန်ကို ရရှိသူများ ဖြစ်ကြကုန်သော (ရစူလ်တမန်တော်)တို့၏လမ်းကို အသင်တို့ လိုက်ကြလေကုန်။

---

(၁) အဆိုပါမြို့သားများက တမန်တော်များအား ယင်းသို့ကြိမ်မောင်းကြသည့်အခါ တမန်တော်များက ထိုမြို့သားများအား “အသင်တို့၌ ယခုကဲ့သို့ဖြစ်ရခြင်းမှာ အသင်တို့၏ သွေဖည်ငြင်းဆန် မနာခံမှုကြောင့်သာဖြစ်သည်။ အကယ်၍ အသင်တို့ အားလုံးသည် တညီတညွတ်တည်း ကျွန်ုပ်တို့ဟောပြောသော တရားဒေသနာတော်ကို လက်ခံနာယူ ကျင့်မူကြပါက၊ ယခုကဲ့သို့ ကပ်လည်းဆိုက်မည်မဟုတ်ပေ။ အသင်တို့အချင်းချင်း သဘောကွဲလွဲကြမည်လည်း မဟုတ်ပေ။ သို့ဖြစ်ရာ အသင်တို့ ယခု ကျွန်ုပ်တို့အား စွပ်စွဲပြောဆိုနေကြသော အမင်္ဂလာသည် ကျွန်ုပ်တို့၌ မရှိ၊ အသင်တို့၌သာ ရှိသည်။ ကျွန်ုပ်တို့သည် အသင်တို့အား အသင်တို့အကျိုးငှာ သွန်သင်ဆုံးမသြဝါဒပေးနေကြခြင်းသာ ဖြစ်သည်။ သို့ပါလျက် အသင်တို့သည် ငါတို့အား အမင်္ဂလာ ဟုဆိုလိုကြသည်လော။ မိမိတို့အကျိုးငှာ မိမိတို့အား သွန်သင် ဆုံးမသြဝါဒပေးကြသော မိမိတို့၏ မိတ်ဆွေများကိုပင် သတ်ဖြတ်ရန် ကြိမ်းမောင်းလိုကြသလော” ဟု ပြန်လည်ချေပ နားချခဲ့ကြသည်။

(၂) **ဟဗီဗ်၊**

မြို့စွန်မှပြေးလာသော ပုဂ္ဂိုလ်မှာ ဆာဟိဗ်ယာစီန်ဟဗီဗ်ဖြစ်သည်။ ထိုပုဂ္ဂိုလ်သည် သူတော်စင်ဖြစ်သည်။ မြို့စွန်၌နေထိုင်သည်။ တရားသဖြင့် စားနပ်ရိက္ခာ ရှာဖွေစားသုံးသည်။ အလ္လာဟ်အရှင်မြတ်အား ခဝပ် ➤➤

وَمَا لِيَ لَآ أَعْبُدُ الَّذِي فَطَرَنِي وَإِلَيْهِ تُرْجَعُونَ ٢٢

၂၂။ ကျွန်ုပ်တွင် မိမိအား ဖန်ဆင်းတော်မူခဲ့သော အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်ခြင်းမပြုရန် မည်သည့်အကြောင်း ရှိပါသနည်း။ အမှန်သော်ကား အသင်တို့(အားလုံး)သည် ထိုအရှင်မြတ်အထံတော်သို့ပင် ပြန်လည်ရောက်ရှိကြရပေမည်။

ءَأَتَّخِذُ مِن دُونِهِۦٓ ءَالِهَةً إِن يُرِدْنِ الرَّحْمَٰنُ بِضُرٍّ لَّا تُغْنِ عَنِّي شَفَٰعَتُهُمْ شَيْـًٔا وَلَا يُنقِذُونِ ٢٣

၂၃။ ကျွန်ုပ်သည် ထိုအရှင်မြတ်အား စွန့်၍ အခြားအကြင်ကဲ့သို့သော ကိုးကွယ်ရာများကို (ကိုးကွယ်)ရမည်လော၊ အကယ်၍ "ရဟ်မာန်" အနန္တကရုဏာတော်ရှင်သည် ကျွန်ုပ်တွင် ဘေးအန္တရာယ် တစ်စုံတစ်ရာ သက်ရောက်စေရန် ရည်စူးတော်မူပါလျှင် ယင်းကိုးကွယ်ရာများ၏ ကြားဝင် အသနားခံပေးမှုသည်လည်း ကျွန်ုပ်၏အဖို့ အနည်းငယ်မျှပင် အသုံးကျမည် မဟုတ်ပေ။ ထိုမှတစ်ပါး ၎င်းတို့သည် ကျွန်ုပ်အား လွတ်မြောက်စေနိုင်ကြမည်လည်း မဟုတ်ပေ။

إِنِّيٓ إِذًا لَّفِي ضَلَٰلٍ مُّبِينٍ ٢٤

၂၄။ ထိုသို့ဖြစ်ခဲ့လျှင် ဧကန်မလွဲ ကျွန်ုပ်သည် ထင်ရှားစွာသော လမ်းမှားမှု၌ (သက်ရောက်သွားပေမည်)။

إِنِّيٓ ءَامَنتُ بِرَبِّكُمْ فَٱسْمَعُونِ ٢٥

၂၅။ ဧကန်စင်စစ် ကျွန်ုပ်သည် အသင်တို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား သက်ဝင်ယုံကြည်ခဲ့ပြီဖြစ်ပေရာ အသင်တို့သည် ကျွန်ုပ်(၏စကား)ကို နားထောင်ကြလေကုန်။

---

▶▶ ကိုးကွယ်လျက်ရှိသည်။ အဆိုပါ မြို့သူမြို့သားများက တမန်တော်များအား သတ်ဖြတ်ရန် ကြံမ်းမောင်းသည့် သတင်းကိုကြားသိသောအခါ၊ တမန်တော်များအား ထောက်ခံရန်နှင့် မြို့သူမြို့သားများ ခြေချော်လက်ချော် ခြေလွန်လက်လွန်ဖြစ်ကုန်ကြမည်ကိုစိုး၍ အချိန်မီ သွန်သင်ဆုံးမနားချနိုင်ရန် ပြေးလာခဲ့ခြင်းဖြစ်သည်။ ထို့နောက် ရှေ့အာယတ်တော်များတွင် လာရှိသည့်အတိုင်းမိမိ၏ အမျိုးသားများအား သွန်သင်ဆုံးမနားချခဲ့လေသည်။

قِيْلَ ادْخُلِ الْجَنَّةَ ۖ قَالَ يٰلَيْتَ قَوْمِيْ يَعْلَمُوْنَ ﴿٢٦﴾

၂၆။ အသင်သည် "ဂျန္နတ်" သုခဘုံသို့ ဝင်ရောက်လေလော့ဟု မိန့်ကြားတော်မူခြင်း ခံရလေသောအခါ ထိုသူက ပြောဆိုခဲ့လေ၏။ ဩော်–ကျွန်ုပ်၏အမျိုးသားတို့သည် သိရှိကြလျှင် ကောင်းလေစွ။

بِمَا غَفَرَ لِيْ رَبِّيْ وَجَعَلَنِيْ مِنَ الْمُكْرَمِيْنَ ﴿٢٧﴾

၂၇။ ကျွန်ုပ်၏အရှင်မြတ်သည် ကျွန်ုပ်အား ခွင့်လွှတ်ချမ်းသာ ပေးတော်မူခဲ့သည်ကိုလည်းကောင်း၊ ထိုအရှင်မြတ်သည် ကျွန်ုပ်အား ဂုဏ်သိန်ရှိသူတို့တွင် အပါအဝင် ဖြစ်စေတော်မူခဲ့သည်ကို လည်းကောင်း၊ (ကျွန်ုပ်၏အမျိုးသားတို့သည် သိရှိကြလျှင် ကောင်းလေစွတကားဟု ပြောဆိုခဲ့လေသတည်း)။ [၁]

---

(၁) **ဟဗီးဗ်၏ ဆုံးမစကား၊**

သူတော်စင်ကြီးဟဗီးဗ်က မိမိ၏အမျိုးသားများအား ဆက်လက်ဟောကြားခဲ့သည်မှာ "မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား အဘယ့်ကြောင့် မကိုးကွယ်ရမည်နည်း၊ ကိုးကွယ်ရမည်သာ၊ ထိုအရှင်မြတ်သည် လူသားတို့အား ဖန်ဆင်းတော်မူပြီးနောက် ဘေးမဲ့လွှတ်ထားတော်မူသည်မဟုတ်၊ တစ်ရက်သင်တို့ငါတို့ အားလုံးသည် ထိုအရှင်မြတ်ထံတော်သို့ ပြန်လည်ရောက်ရှိကြရမည်သာ၊ ထိုအရှင်မြတ်ထံတော် ပြန်လည်ရောက်ရှိကြသည့်အခါ စာရင်းအင်းရှင်းဖို့ အရေးကြီးလှသည်။ ထိုအရှင်မြတ်အားစွန့်၍ အဓိပ္ပာယ်မရှိသော အရာများကို ကိုးကွယ်ရမည်လော၊ အလ္လာဟ်အရှင်မြတ် ထံတော်မှ ပြစ်ဒဏ်တစ်စုံတစ်ရာ သက်ရောက်လာခဲ့သည်ရှိသော် ထိုအရာများသည် မိမိတို့ကိုယ်တိုင် ကယ်တင်နိုင်ကြမည်လည်းမဟုတ်၊ ကြားဝင်အသနားခံ ပေးနိုင်ကြသည်လည်း မဟုတ်၊ ထိုသို့အဓိပ္ပာယ်မရှိသော အရာများကိုကိုးကွယ်မိပါက ကျွန်ုပ်သည် လမ်းအမှားကြီးမှားသွားပေမည်"။ သို့ ဆုံးမစကား ပြောကြားပြီးနောက် သူတော်စင်ကြီး ဟဗီးဗ်က တမန်တော်များနှင့် မိမိ၏အမျိုးသားများအား "အသင်တို့ အားလုံး နားထောင်ကြ၊ ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်ပါသည်" ဟု အတိအလင်း ကြေညာခဲ့လေသည်။

ယင်းသို့ သူတော်စင်ကြီးဟဗီးဗ်က အလ္လာဟ်အရှင်မြတ်အား မိမိယုံကြည်ကြောင်း အတိအလင်း ကြေညာလိုက်သည့်အခါ ယုတ်မာကြမ်းကြုတ်သော အမျိုးသားများသည် သူတော်စင်ကြီး ဟဗီးဗ်အား ကျောက်ခဲများဖြင့် ရက်စက်စွာ ပစ်ပေါက်ကြလေတော့သည်။ ဤသို့ဖြင့် သူတော်စင်ကြီး ဟဗီးဗ်သည် မိမိအမျိုးသားတို့၏ လက်ချက်ဖြင့် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ "ရှဟီးဒ်" ဖြစ်သွား ခဲ့ရရှာလေသည်။ ကွယ်လွန်သေဆုံးသွားခဲ့ရရှာလေသည်။ ထိုသို့ သူတော်စင်ကြီးဟဗီးဗ် ကွယ်လွန်သေဆုံးသွားလျှင်သွားခြင်းပင် အလ္လာဟ်အရှင်မြတ် ထံတော်မှ "အသင် ဂျန္နတ်ဝင်စေ" ဟူသော အမိန့်တော်လည်း ကျရောက်လာခဲ့ပေသည်။

(တမန်တော်မြတ်၏ ဟဒီးစ်သြဝါဒတော်များတွင် လာရှိသည်မှာ၊ ရှဟီးဒ်– အစ္စလာမ့် အာဇာနည်တို့၏ ဝိညာဉ်များသည် "မဟ်ရှ်ရ်" အလျင် ဂျန္နတ်သို့ ဝင်ကြရပေသည်။) ➢➢

وَمَآ اَنۡزَلۡنَا عَلٰى قَوۡمِهٖ مِنۡۢ بَعۡدِهٖ مِنۡ جُنۡدٍ مِّنَ السَّمَآءِ وَمَا كُنَّا مُنۡزِلِيۡنَ ﴿۲۸﴾

၂၈။ "ထို့နောက် ငါအရှင်မြတ်သည် ထိုသူ(သေဆုံးပြီး)နောက်တွင် ထိုသူ၏ အမျိုးသားတို့အပေါ်ဝယ် မိုးကောင်းကင်မှ မည်သည့်စစ်တပ်ကိုမျှပင် စေလွှတ်တော်မူခဲ့သည် မဟုတ်ပေ။ ၎င်းပြင် ငါအရှင်မြတ်မှာ စေလွှတ်တော်မူရန်လည်း မလိုပေ။

اِنۡ كَانَتۡ اِلَّا صَيۡحَةً وَّاحِدَةً فَاِذَا هُمۡ خٰمِدُوۡنَ ﴿۲۹﴾

၂၉။ (စင်စစ် ထိုမြို့သူမြို့သားတို့၌ သက်ရောက်ခဲ့သောပြစ်ဒဏ်မှာ) ပြင်းထန်စွာသော ဟစ်အော်သံတစ်ခုသာလျှင် ဖြစ်ခဲ့၏။ ထိုအခါ ၎င်းတို့မှာ ရုတ်တရက် ဇီဝိန်ချုပ်ငြိမ်းသွားသူများပင် ဖြစ်ခဲ့ကြကုန်သတည်း။ [၁]

يٰحَسۡرَةً عَلَى الۡعِبَادِ ۚ مَا يَاۡتِيۡهِمۡ مِّنۡ رَّسُوۡلٍ اِلَّا كَانُوۡا بِهٖ يَسۡتَهۡزِءُوۡنَ ﴿۳۰﴾

၃၀။ သြော်-အကြင်ကျွန်များ(၏ အခြေအနေမှာ) ဝမ်းနည်းကြေကွဲဖွယ်ရာ ကောင်းလှဘိ၏တကား၊ ၎င်းတို့ထံ မည်သည့် "ရစူလ်" တမန်တော်တစ်ပါးမဆို ရောက်ရှိ၍လာသည်ရှိသော် ၎င်းတို့သည် ထို "ရစူလ်" တမန်တော်အား ပြက်ရယ် ပြောင်လှောင်ခဲ့ကြသည်ချည်းသာဖြစ်၏။

➤➤ ယုတ်မာကြမ်းကြုတ်သော အမျိုးသားများသည် သူတော်စင်ကြီးဟဗီးဗ်အား ရက်စက်စွာ သတ်ဖြတ်ခဲ့ကြလင့်ကစား သူတော်စင်ကြီး ဟဗီးဗ်မှာမူကား ဂျန္နတ်သို့ ဝင်ရောက်ပြီးနောက်သော်မှပင် "သြော် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား အီမာန်ယုံကြည်မှု၊ တမန်တော်များ၏ အမိန့်နာခံမှုကြောင့် မည်သို့မည်ပုံ လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူ၍ မည်သို့မည်ပုံ ဂုဏ်အင်ဒြပ် ချီးမြှင့်တော်မူသည်များကို ကျွန်ုပ်၏အမျိုးသားများ သိကြပါလျှင် ကောင်းလေစွတကား" ဟူ၍ သံယောဇဉ်ကြီးစွာဖြင့် ပြောကြားရှာလေသေးသည်။

**(၁) ဟဗီးဗ်၏အမျိုးသားများ ပျက်စီးဆိတ်သုဉ်းကြရပြီ။**

ကျိုးကြောင်းပြ၍ သွန်သင်ဆုံးမသော သူတော်စင်ကြီး ဟဗီးဗ်အားပင် ၎င်း၏အမျိုးသားများက ရက်စက်ကြမ်းကြုတ်စွာ သတ်ဖြတ်လိုက်ကြသည့်အခါ အလ္လာဟ်အရှင်မြတ်သည် ယင်းအမျိုးသားများအား ၎င်းတို့၏ သွေဖည်ငြင်းဆန်မှု၊ ပြက်ချော်မှု၊ ကျူးကျော်စော်ကားမှုများကြောင့် ကွပ်မျက်တော်မူလိုက်လေသည်။ ယင်းသို့သော သူယုတ်မာများအား ကွပ်မျက်တော်မူရန် အလ္လာဟ်အရှင်မြတ်သည် အထူးအစီအစဉ်များ ပြုလုပ်နေတော်မူရသည်မရှိ။ ကောင်းကင်တမန် စစ်သည်တော်များကို စေလွှတ်တော်မူရန်လည်းမလို၊ အကြောင်းထူးတစ်စုံတစ်ရာ မရှိပါဘဲလျက် ထိုအရှင်မြတ်သည် ကောင်းကင်တမန် စစ်သည်တော်များကို စေလွှတ်တော်မူလေ့လည်း မရှိ၊ အလ္လာဟ်အရှင်မြတ်အဖို့မှာ အလွန့်အလွန်ဆိုးရွားသော လူယုတ်မာအဓိပတိကြီးများကို ကွပ်မျက်တော်မူရန် ➤➤

أَلَمْ يَرَوْا كَمْ أَهْلَكْنَا قَبْلَهُم مِّنَ الْقُرُونِ أَنَّهُمْ إِلَيْهِمْ لَا يَرْجِعُونَ ﴿٣١﴾

၃၁။ ငါအရှင်မြတ်သည် ၎င်းတို့အလျင် မြောက်မြားစွာသောလူမျိုးဆက်တို့ကို ဖျက်ဆီးတော်မူခဲ့ရာ ထိုပျက်စီးခဲ့ကြရသော လူမျိုးဆက်တို့မှာ ၎င်းတို့ထံ ပြန်လာကြမည် မဟုတ်သည်ကို ၎င်းတို့သည် မမြင်ခဲ့ကြလေသလော။

وَإِن كُلٌّ لَّمَّا جَمِيعٌ لَّدَيْنَا مُحْضَرُونَ ﴿٣٢﴾

၃၂။ ထိုမှတစ်ပါး (၎င်းတို့)အားလုံးတို့သည် ငါအရှင်မြတ်အထံတော်သို့ အဆင်သင့် ရောက်ရှိစေခြင်းကို ခံကြရမည့်သူများသာ ဖြစ်ကြကုန်သတည်း။

وَآيَةٌ لَّهُمُ الْأَرْضُ الْمَيْتَةُ أَحْيَيْنَاهَا وَأَخْرَجْنَا مِنْهَا حَبًّا فَمِنْهُ يَأْكُلُونَ ﴿٣٣﴾

၃၃။ စင်စစ်သော်ကား ၎င်းတို့အဖို့ သက်သေ လက္ခဏာတစ်ရပ်မှာ (သွေ့ခြောက်လျက်ရှိသော) မြေသေပင်ဖြစ်၏။ ငါအရှင်မြတ်သည် ယင်းမြေသေကို ရှင်စေတော်မူပြီးနောက် ယင်းမြေမှ ကောက်ပဲသီးနှံကို ထွက်စေတော်မူခဲ့ရာ ၎င်းတို့သည် ယင်းကောက်ပဲသီးနှံများကို စားသုံးလျက် ရှိကြကုန်၏။ [၁]

وَجَعَلْنَا فِيهَا جَنَّاتٍ مِّن نَّخِيلٍ وَأَعْنَابٍ وَفَجَّرْنَا فِيهَا مِنَ الْعُيُونِ ﴿٣٤﴾

၃၄။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ယင်းမြေ၌ စွန်ပလွံခြံများကိုလည်းကောင်း၊ စပျစ်ခြံများကိုလည်းကောင်း၊ စီရင်ပြုလုပ်တော်မူခဲ့သည်သာမက ယင်းမြေ၌ စိမ့်စမ်းများကိုလည်း စီးဆင်းစေတော်မူခဲ့၏။

---

➤➤ အသို့မျှ တာဝန်မကြီးလေးပေ၊ သာမန်အသံ တစ်ခုတည်းနှင့်ပင် ကွပ်မျက်တော်မူနိုင်ပေသည်။ သူတော်စင်ကြီး ဟဗီးဗ်၏ အမျိုးသားများသည်လည်း ကြုံးဝါးသံတစ်ခုတည်းဖြင့်ပင် ဇီဝိန်ချုပ်ငြိမ်း၍ အငြိမ်ကြီး ငြိမ်သွားခဲ့ကြလေသည်။

(၁) **မြေသေ ရှင်သကဲ့သို့ လူသေရှင်မည်။**

အထက်တွင် တစ်ရက်လူသားအားလုံးတို့ ပြန်လည်ရှင်ထ၍ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်သို့ ခေါ်ဆောင်ခြင်းခံကြရမည့်အကြောင်း ပါရှိ၏။ ဤအာယတ်တော်တွင် ထိုအရှင်မြတ်သည် မြေသေကို အံ့ဖွယ်သရဲ ရှင်စေတော်မူသည့်အကြောင်း မိန့်ဆိုထားတော်မူသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် မြေသေကို ရှင်စေတော်မူသကဲ့သို့ မြေဖြင့်ပြီးသော လူသေများကိုလည်း ရှင်စေတော်မူမည်ဖြစ်သည်။

ဤအကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ် ပါရှိခဲ့ချေပြီ။ ကြည့်-(၁၆:၆၅။ ၂၂:၅-၇။ ၃၀:၁၉။ ၃၀:၄၈။ ၃၀:၅၀။ ၃၅:၉။)

لِيَأْكُلُوا مِن ثَمَرِهِ وَمَا عَمِلَتْهُ أَيْدِيهِمْ ۖ أَفَلَا يَشْكُرُونَ ﴿٣٥﴾

၃၅။ ၎င်းတို့သည် ယင်းစွန်ပလွံပင် သို့မဟုတ် စပျစ်ပင်၏အသီးများမှစားသုံးအံ့သောငှာ စင်စစ် ထိုအသီးများကို (ကောက်ပဲသီးနှံများကို) ၎င်းတို့၏ လက်များက [(တစ်နည်း) ၎င်းတို့ ကိုယ်တိုင်က] ပြုလုပ်ခဲ့သည် မဟုတ်ပေ။ သို့ပါလျက် ၎င်းတို့သည် ကျေးဇူးမတင်ကြလေသလော။

سُبْحَانَ الَّذِي خَلَقَ الْأَزْوَاجَ كُلَّهَا مِمَّا تُنبِتُ الْأَرْضُ وَمِنْ أَنفُسِهِمْ وَمِمَّا لَا يَعْلَمُونَ ﴿٣٦﴾

၃၆။ မြေ၌ ပေါက်ရောက်သော အရာများတွင်လည်းကောင်း၊ ထိုသူတို့ကိုယ်များတွင်လည်းကောင်း၊ ထိုသူတို့မသိကြသောအရာများတွင်လည်းကောင်း၊ ဖို၊မများ၊ စုံတွဲများ အမျိုးမျိုး အစားစား ဖန်ဆင်းထားတော်မူသော အရှင်မြတ်သည် ချို့တဲ့မှုအပေါင်းတို့မှ စင်ကြယ်သန့်ရှင်းတော်မူပါ၏တကား။

وَآيَةٌ لَّهُمُ اللَّيْلُ نَسْلَخُ مِنْهُ النَّهَارَ فَإِذَا هُم مُّظْلِمُونَ ﴿٣٧﴾

၃၇။ ၎င်းပြင် ထိုသူတို့အဖို့ သက်သေလက္ခဏာတစ်ရပ်မှာ ညဥ့်ပင်ဖြစ်၏။ ငါအရှင်မြတ်သည် ထိုညဥ့်မှ နေ့ကို ချွတ်ခွာ၍ ယူတော်မူ၏။ ထိုအခါ ၎င်းတို့သည် အမှောင်ထဲ၌ ရှိနေကြရကုန်၏။ [၁]

[၁] **နေ့နှင့်ည၊**

ဤအာယတ်တော်တွင် ပါရှိသော (نَسْلَخُ) "နတ်စ်လခု" ဟူသောပုဒ်သည် (سَلْخٌ) "စလ်ခ်" ဟူသောပုဒ်မှ ဆင်းသက်လာ၏။ "စလ်ခ်" ၏ မူရင်းအနက်မှာ တိရစ္ဆာန်၏ သားရေ (အရေ)ဆုတ်ခြင်း၊ ခွာခြင်း၊ လွှာခြင်း၊ လုန်ခြင်းဟူ၍ ဖြစ်သည်။ သားရေခွာလိုက်သည့်အခါ အောက်မှ အသားပေါ်လာသည်။ ထို့အတူ နားလည်သိထားအပ်သည်မှာ ညဥ့်၏အမှောင်သည် မူလပဌမဖြစ်သည်။ ယင်းသည့်ညဥ့်၏ အမှောင်တည်းဟူသော အသားပေါ်၌ နေ့၏ အလင်းရောင်တည်းဟူသော သားရေက ဖုံးလွှမ်းထားလိုက်သည့်အခါ အလင်းရောင် ပေါ်လာချေသည်၊ နေ့ဖြစ်ပေါ်လာသည်။ တစ်ဖန် အလင်းရောင်တည်းဟူသော သားရေကို ခွာလိုက်သည့်အခါ အောက်မှ အသားတည်းဟူသော အမှောင်သည် ပြန်လည်ပေါ်လာလေသည်။ ညဥ့်ဖြစ်ပေါ်လာသည်။ လူသားတို့သည် အမှောင်တွင်းသို့ သက်ရောက်ကြရသည်။ ဤသို့ဖြင့် နေ့နှင့်ညဥ့်သည် အဆင်ပြေပြေ ဖြစ်ပေါ်လျက်ရှိပေသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော် တစ်ပါးပင်။

နေ့နှင့်ညဥ့်၏ စနစ်တကျ ပြောင်းလဲမှုများကို စဉ်းစားဆင်ခြင်ပါက ယင်းသို့နေ့နှင့်ညဥ့်ကို ပြောင်းလဲပေးတော်မူသော အရှင်မြတ်သည် တစ်ရက် ဤစကြာဝဠာကြီးကိုလည်း ရုပ်သိမ်းပြီး ပြန်လည်ဖြစ်ပေါ်စေတော်မူနိုင်သည်ကို နားလည်ရသည်။ နေ့နှင့်ညဥ့်သည် သူ့အချိန်နှင့်သူ ဖြစ်ပေါ်နေသကဲ့သို့ အရာရာသည်လည်း သူ့အချိန်နှင့်သူ ဖြစ်ပေါ်နေသည်ကိုလည်း သိရသည်။

وَالشَّمْسُ تَجْرِي لِمُسْتَقَرٍّ لَّهَا ۚ ذَٰلِكَ تَقْدِيرُ الْعَزِيزِ الْعَلِيمِ ﴿٣٨﴾

၃၈။ ၎င်းပြင် နေသည်(လည်း သက်သေလက္ခဏာ တစ်ရပ်)ပင်။ ထိုနေသည် မိမိ(သွားလာရာ)လမ်း အတိုင်း သွား(လာ)လျက် ရှိနေလေ၏။ ဤသည်ကား အလွန်တရာ နိုင်နင်း လွှမ်းမိုးတော်မူသော အကြွင်းမဲ့ သိရှိတော်မူသော အရှင်မြတ်၏ တိုင်းတာ သတ်မှတ် ချက်ပင် ဖြစ်၏။ [၁]

وَالْقَمَرَ قَدَّرْنَاهُ مَنَازِلَ حَتَّىٰ عَادَ كَالْعُرْجُونِ الْقَدِيمِ ﴿٣٩﴾

၃၉။ ထိုနည်းတူစွာ လသည်(လည်း သက်သေ လက္ခဏာတစ်ရပ်)ပင်။ ငါအရှင်မြတ်သည် ထိုလ၏ အဖို့ ခရီးစခန်းများကို သတ်မှတ်တော်မူခဲ့ရာ နောက်ဆုံး တွင်မူ ထိုလမှာ ခြောက်သွေ့လျက်ရှိသော စွန်ပလွံကိုင်း ကဲ့သို့ ပြန်၍ဖြစ်လာလေ၏။ [၂]

---

① နေ၊

နေသည် မိမိအဖို့ အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသည့် လမ်းကြောင်းတွင် သတ်မှတ်ထား တော်မူသည့် ခရီးနှုန်းထားအတိုင်း တိကျမှန်ကန်စွာ သွားလာလှုပ်ရှားလျက် ရှိပေသည်။ သတ်မှတ်ထားတော်မူသည့် လမ်းကြောင်းမှ တစ်လက်မခန့်မျှ တိမ်းစောင်းသည်လည်းမရှိ၊ သတ်မှတ်ထားတော်မူသည့် အချိန်မှ တစ်မိနစ်ခန့်မျှ စောသည်၊နှေးသည် ဟူ၍လည်း မရှိ။ ဤသည် အတိုင်းမသိ ဉာဏ်တော်၊တန်ခိုးတော် ကြီးမားတော်မူသော အလ္လာဟ်အရှင်မြတ်၏ စီမံခန့်ခွဲမှု တစ်ရပ်ပင်။

နေသည် ကိယာမတ် ဖြစ်ခါနီးအချိန်ထိ ဤအတိုင်းပင် သွားလာလှုပ်ရှားလျက် ရှိပေမည်။ ကိယာမတ်ဖြစ်ရန် အချိန် လုံးဝနီးကပ်လာသောအခါ နေသည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်အရ နေဝင်ရာ အနောက်အရပ်မှ ပြောင်းပြန်ပြန်လည်ထွက်လာပေမည်။ ထိုသည့်အချိန်မှစ၍ (တောင်ဗဟ်) ဝန်ချတောင်းပန်ခြင်း၏ တံခါး ပိတ်သွားပေမည်။ (ဝါ) ဝန်ချတောင်းပန်ခွင့် ရှိတော့မည်မဟုတ်ပေ။

② လ၊

လသည်နေကဲ့သို့ပင် သွားလာလှုပ်ရှားလျက်ရှိသည်။ သို့ရာတွင် လသည် နေကဲ့သို့ အမြဲတစေ တစ်မျိုးတစ်စားတည်း တွေ့မြင်နေရသည် မဟုတ်ပေ။ လသည် လဆန်းပက္ခ၌ တရွေ့ရွေ့ကြီး၍ လဆုတ်ပက္ခ၌ တရွေ့ရွေ့ငယ်လာသည်။ ယင်းသို့ နေရာအမျိုးမျိုး ပြောင်းလဲနေရသဖြင့် အသွင်လည်း အစဉ်ပြောင်းလဲလျက် ရှိပေသည်။ အလ္လာဟ်အရှင်မြတ်သည် လအတွက် ခရီးစခန်း (၂၈)ခုကို သတ်မှတ်ထားတော်မူသည်။ လသည် ထိုသည့် ခရီးစခန်းများသို့ အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသည့်အတိုင်း တိကျမှန်ကန်စွာ အဆင့်ဆင့် သွားလာလှုပ်ရှားလျက် ရှိပေသည်။

နေနှင့်လသည် (အချိန်ပိုင်းဖြစ်သော) လ၏အဆုံးတွင် တွေ့ဆုံကြသည်။ [နေနှင့်ကမ္ဘာကြားသို့ လရောက်လာသောအခါ ကျွန်ုပ်တို့နှင့် မျက်နှာချင်းဆိုင်အပိုင်းသည် မှောက်လျက်ရှိသဖြင့် လကွယ်ဖြစ်နေသည်။ လူထုသိပ္ပံကျမ်း]။ ထိုအခါ လသည် ကွယ်နေသည်။ လသည် နေ၏ရှေ့သို့ ကျော်လာသည့်အခါ မြင်ရသည်၊ ➤➤

لَا الشَّمْسُ يَنۢبَغِيْ لَهَآ اَنْ تُدْرِكَ الْقَمَرَ وَلَا الَّيْلُ سَابِقُ النَّهَارِ ؕ وَكُلٌّ فِيْ فَلَكٍ يَّسْبَحُوْنَ ﴿٤٠﴾

၄၀။ နေသည် လကို မမီနိုင်ပေရာ ထိုနည်းတူစွာ ညဉ့်သည်လည်း နေ့ကို ကျော်လွန်နိုင်သည်မဟုတ်ပေ။ စင်စစ်မှာကား အသီးသီးတို့သည် ဂြိုဟ်နက္ခတ် သွားလာရာလမ်းကြောင်းတစ်ခုစီ၌ ကူးခတ်သွားလာ၍ နေကြကုန်သတည်း။ [၁]

وَاٰيَةٌ لَّهُمْ اَنَّا حَمَلْنَا ذُرِّيَّتَهُمْ فِي الْفُلْكِ الْمَشْحُوْنِ ﴿٤١﴾

၄၁။ ထိုမှတစ်ပါး ၎င်းတို့အဖို့ သက်သေလက္ခဏာ တစ်ရပ်မှာ ဧကန်မလွဲ ငါအရှင်မြတ်သည် ၎င်းတို့၏ သားမြေးတို့အား ဝန်ကုန်အပြည့် တင်ထားသော သင်္ဘောပေါ်၌ တင်ဆောင်စီးနင်း စေတော်မူခြင်းပင် ဖြစ်၏။ [၂]

وَخَلَقْنَا لَهُمْ مِّنْ مِّثْلِهٖ مَا يَرْكَبُوْنَ ﴿٤٢﴾

၄၂။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အဖို့ ထိုသင်္ဘောကဲ့သို့သော ၎င်းတို့စီးနင်းကြသော အခြား အရာ (အစီးအနင်း)များကိုလည်း ဖန်ဆင်းထားတော်မူခဲ့၏။

---

➤➤ လဆန်းလာသည်။ အဆင့်ဆင့် ကြီးလာသည်။ (၁၄)ရက်နေ့ညဉ့်တွင် လဝန်းသည် ပြည့်လာသည်။ လပြည့်ကြီး ဖြစ်လာလေသည်။ ထို့နောက်တစ်ဖန် လသည် အဆင့်ဆင့်ငယ်လာပြန်သည်။ နောက်ဆုံးတွင် လသည် စွန်ပလွံကိုင်းခြောက်ပမာ သေးသွယ်သွားလေသည်။ အရောင်လည်း ဖျော့သွားလေသည်။ မှေးမှိန်သွားလေ သည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ် ပြထားတော်မူသည့် လက္ခဏာတော်များအနက် လက္ခဏာတော် တစ်ပါးပင်။ ဤအကြောင်းနှင့် ဆက်စပ်၍ ကုရ်အာန်(၁၀:၅)၏ အဖွင့်ကို ပြန်လည်ရှုပါကုန်။

(၁) **ဂြိုလ်များ စနစ်တကျ သွားလာလျက်ရှိခြင်း၊**

နေသည်လကိုမီသည်မဟုတ်၊ ညဉ့်သည် နေ့ကိုကျော်သည်မရှိ။ နေ့သည်ကျော်၍ ညဉ့်တွင် ဝင်လာသည် လည်း မရှိ။ နေ့မကုန်မီ ညဉ့်ရောက်လာသည်လည်း မရှိ။ နေနှင့်လ၊ နေ့နှင့်ညသည် သူ့ကဏ္ဍနှင့်သူ၊ သူ့အချိန်နှင့်သူ၊ စနစ်တကျ တိကျမှန်ကန်စွာ သွားလာဝင်ထွက် လှုပ်ရှားလျက် ရှိကြပေသည်။ ထို့အတူ ဂြိုဟ်နက္ခတ် အားလုံးတို့သည်လည်း ကိုယ့်အချိန်နှင့်ကိုယ်၊ ကိုယ့်နေရာနှင့်ကိုယ်၊ ကိုယ့်လမ်းနှင့်ကိုယ် စနစ်တကျ သွားလာဝင်ထွက် လှုပ်ရှားလျက်ရှိကြပေသည်။ ဂြိုဟ်များသည် ကျယ်ဝန်းလှသော လဟာပြင်၌ လျင်မြန်စွာ သွားလာ လှုပ်ရှားနေကြပါလျက် တစ်ခုနှင့်တစ်ခု တိုက်ခိုက်မိသည်ဟူ၍ကား အလျှင်းမရှိ။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ လက္ခဏာတော်တစ်ပါးပင်။ နေ့နှင့်ညဉ့်၊ နေနှင့်လကို ယင်းသို့ ပြောင်းလဲပေးနေတော်မူသော အရှင်မြတ်အဖို့ လူသားတို့အား သေစေတော်မူပြီးနောက် တစ်ဖန် ပြန်လည်ရှင်ထစေတော်မူရန်မှာ အသို့လျှင် အခက်အခဲရှိနိုင်အံ့နည်း။

وَاِنْ نَّشَاْ نُغْرِقْهُمْ فَلَا صَرِيْخَ لَهُمْ وَلَا هُمْ يُنْقَذُوْنَ ﴿٤٣﴾

၄၃။ စင်စစ်သော်ကား အကယ်၍သာ ငါအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် ၎င်းတို့အား နှစ်မြှုပ်တော်မူပေမည်။ သို့နှစ်မြှုပ်တော်မူခဲ့လျှင် ၎င်းတို့အား ကူညီရိုင်းပင်းမည့်သူဟူ၍လည်း တစ်ဦးတစ်ယောက်မျှ ရှိလိမ့်မည်မဟုတ်ပေ။ ၎င်းတို့သည် လွတ်မြောက်စေခြင်း ခံကြရမည်လည်း မဟုတ်ပေ။

اِلَّا رَحْمَةً مِّنَّا وَمَتَاعًا اِلٰى حِيْنٍ ﴿٤٤﴾

၄၄။ (စင်စစ်) ငါအရှင်မြတ်သည် မိမိကရုဏာတော်အားဖြင့်လည်းကောင်း၊ သတ်မှတ်ပြီးဖြစ်သောအချိန်ကာလတိုင်အောင် အကျိုးခံစားစေခြင်းအားဖြင့်လည်းကောင်း၊ (ကယ်တင်ထားတော်မူခြင်းသာလျှင်) ဖြစ်ပေသတည်း။ (တစ်နည်း) သို့ရာတွင် (ဤသည်) ငါအရှင်မြတ်၏ ကရုဏာတော်ပင်ဖြစ်၏။ ထို့မှတစ်ပါး (၎င်းတို့အား) သတ်မှတ်ပြီးဖြစ်သော အချိန်ကာလတိုင်အောင် အကျိုးခံစားစေခြင်းလည်းဖြစ်ပေသတည်း။

---

(၂) <u>သင်္ဘော၊</u>

ဆိုလိုသည်ကား- တမန်တော် နူးဟ်လက်ထက်တွင် ရေဘေးကြီး ဆိုက်ရောက်လာခဲ့သည့်အခါ အလ္လာဟ်အရှင်မြတ်သည် တမန်တော်နူးဟ်အား သင်္ဘောဆောက်လုပ်စေတော်မူပြီး ယင်းသင်္ဘောပေါ်တွင် မိမိတင်ဆောင်စေတော်မူလိုသော လူသားတို့အား တင်ဆောင်စေတော်မူခဲ့သည်။ သို့မဟုတ်ပါက လူဆက်သည် ပြတ်သွားခဲ့ပေမည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် လူသားတို့ စီးနင်းသွားလာနိုင်ကြရန်အလို့ငှာ ထိုသင်္ဘောကဲ့သို့ပင် အခြားသင်္ဘောများကို ပြုလုပ်ပေးတော်မူခဲ့ပေသည်။ သို့တည်းမဟုတ် လူသားတို့ စီးနင်းသွားလာနိုင်ကြရန်အလို့ငှာ ထိုသင်္ဘောအလား အခြားအစီးအနင်းများကို ပြုလုပ်ပေးတော်မူခဲ့ပေသည်။ ဥပမာ-ကုလားအုတ်၊ ယင်းသည့် ကုလားအုတ်များကို အရဗ်တို့သည် "စဖာအ်နု-အလ်ဗရ်ရိ" ကြည်းသင်္ဘောများဟု ခေါ်ဝေါ်သမုတ်လေ့ရှိကြပေသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်တစ်ပါးပင် ။

ရေကြောင်းခရီးများတွင် စီးနင်းသွားလာနိုင်ရန်အလို့ငှာ လူသားတို့နှင့် လျော်ကန်သင့်မြတ်သော သင်္ဘောများဆောက်လုပ် မောင်းနှင်ရန်အသိဉာဏ်ကို အလ္လာဟ်အရှင်မြတ်သည်ပင်လျှင် ထည့်သွင်းပေးထားတော်မူခြင်း ဖြစ်သည်။

ဤအာယတ်တော်တွင် ပါရှိသော "ကုန်စည်အပြည့် တင်ဆောင်ထားသောသင်္ဘော" ဟူသည် ရေကြောင်းကုန်သွယ်ရေးကို ဆိုလိုသည်။ "ထိုသင်္ဘောကဲ့သို့သော အရာများ"ဟူသော စကားတွင် သင်္ဘောအမျိုးအစား အားလုံး အကျုံးဝင်သည်သာမက မီးရထား၊ မော်တော်ကား၊ လေယာဉ်ပျံ စသည့် အစီးအနင်းအားလုံးတို့သည်လည်း အကျုံးဝင်ပေသည်။ ကြည့်-မာဂျိဒီ။

وَإِذَا قِيلَ لَهُمُ اتَّقُوا مَا بَيْنَ أَيْدِيكُمْ وَمَا خَلْفَكُمْ لَعَلَّكُمْ تُرْحَمُونَ ﴿٤٥﴾

၄၅။ သို့ရာတွင် ၎င်းတို့အား အသင်တို့သည် ကရုဏာပြုတော်မူခြင်း ခံကြရအံ့သောငှာ မိမိတို့၏ ရှေ့မှောက်၌ရှိသော (ပြစ်ဒဏ်)ကိုလည်းကောင်း၊ မိမိတို့၏ နောက်၌ရှိသော ပြစ်ဒဏ်ကိုလည်းကောင်း၊ ကြောက်ရွံ့ စိုးရိမ်ကြလေကုန်ဟု ပြောခဲ့သောအခါ (၎င်းတို့သည် မျက်နှာလွှဲခဲ့ကြကုန်၏)။

وَمَا تَأْتِيهِم مِّنْ آيَةٍ مِّنْ آيَاتِ رَبِّهِمْ إِلَّا كَانُوا عَنْهَا مُعْرِضِينَ ﴿٤٦﴾

၄၆။ စင်စစ် ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်များအနက် အမိန့်တော် တစ်ပါးပါးသည် ၎င်းတို့ထံ ရောက်ရှိ၍ လာတိုင်းပင်၊ ၎င်းတို့သည် ယင်းအမိန့်တော်ဘက်မှ မျက်နှာလွှဲခဲ့ ကြသည်သာ ဖြစ်၏။

وَإِذَا قِيلَ لَهُمْ أَنفِقُوا مِمَّا رَزَقَكُمُ اللَّهُ قَالَ الَّذِينَ كَفَرُوا لِلَّذِينَ آمَنُوا أَنُطْعِمُ مَن لَّوْ يَشَاءُ اللَّهُ أَطْعَمَهُ إِنْ أَنتُمْ إِلَّا فِي ضَلَالٍ مُّبِينٍ ﴿٤٧﴾

၄၇။ ထိုမှတစ်ပါး ၎င်းတို့အား အသင်တို့သည် မိမိတို့အား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ပေးသနားတော်မူခဲ့သည်များအနက်မှ သုံးစွဲ လှူဒါန်းကြလေကုန်ဟု ပြောဆိုသောအခါ "ကာဖိရ်" သွေဖည်ငြင်းပယ်သော သူတို့က "အလ္လာဟ်အရှင်မြတ်သည် အကယ်၍ အလိုရှိတော်မူပါလျှင် ကိုယ်တော်တိုင် ကျွေးမွေးတော်မူမည်ဖြစ်သောသူတို့အား ကျွန်ုပ်တို့က ကျွေးမွေးကြရမည်လော၊ အသင်တို့သည် ထင်ရှားစွာသောလမ်းမှားမှု၌ ရှိနေကြသည်" ဟု မုအ်မင်န်သက်ဝင်ယုံကြည်သူတို့အား ပြောဆို(ဖြေကြား)ကြကုန်သတည်း။ [၁]

---

(၁) **ကာဖိရ်တို့၏ ယုတ်မာရိုင်းပြမှု၊**

ကာဖိရ်များအား အသင်တို့သည် မိမိတို့အား အလ္လာဟ်အရှင်မြတ် ချီးမြှင့် ပေးသနားထားတော်မူသော ဥစ္စာပစ္စည်းများအနက်မှ အချို့အဝက်ကို ထိုအရှင်မြတ်၏ လမ်းတော်၌ ဆင်းရဲသူ၊ ဆင်းရဲသားများအား ပေးကမ်း လှူဒါန်းကြပါဟု ပြောဆိုလျှင် ယင်းကာဖိရ်များက (ယင်းသို့ ပေးကမ်းလှူဒါန်းခြင်းကို ၎င်းတို့ကိုယ်တိုင် ကောင်းမြတ်သော အလုပ်ဟူ၍ လက်ခံကြပါလျက်၊ လက်ခံကြသည်သာမက ယင်းသို့ ပေးကမ်းလှူဒါန်းခြင်းကိုပင် ဂုဏ်ယူဝါကြွားကြပါလျက်) ထိုသို့ ပေးကမ်းလှူဒါန်းရန် လာရောက်ပြောဆိုကြသော မုစ်လင်မ်တို့အား ➤➤

وَيَقُوْلُوْنَ مَتٰى هٰذَا الْوَعْدُ اِنْ كُنْتُمْ صٰدِقِيْنَ ۝٤٨

၄၈။ ထို့ပြင် ၎င်းတို့က "အကယ်၍ အသင်တို့သည် သစ္စာဝါဒီများ ဖြစ်ကြလျှင် ဤချိန်းဆိုချက်သည် မည်သည့်အခါ၌ ဖြစ်မြောက်လတ္တံ့"ဟု မေးမြန်းကြကုန်၏။

مَا يَنْظُرُوْنَ اِلَّا صَيْحَةً وَّاحِدَةً تَاْخُذُهُمْ وَهُمْ يَخِصِّمُوْنَ ۝٤٩

၄၉။ (စင်စစ်သော်ကား) ၎င်းတို့သည် မိမိတို့အား ဖမ်းဆီးကွပ်မျက်အံ့သော ပြင်းထန်စွာ ဟစ်အော်သံ တစ်ခုကိုသာလျှင် စောင့်မျှော်၍ နေကြကုန်၏။ ထိုအခါ၌ ၎င်းတို့သည် မိမိတို့ အချင်းချင်း အငြင်းပွားလျက်ပင် ရှိကြပေမည်။

فَلَا يَسْتَطِيْعُوْنَ تَوْصِيَةً وَّلَآ اِلٰٓى اَهْلِهِمْ يَرْجِعُوْنَ ۝٥٠

၅၀။ သို့ဖြစ်ရာ ၎င်းတို့သည် တစ်စုံတစ်ရာသော သေတမ်းစကားကို မှာကြားနိုင်ကြမည် မဟုတ်ပေ။ မိမိတို့၏ အိမ်သူအိမ်သားတို့ထံ ပြန်သွားနိုင်ကြမည်လည်း မဟုတ်ပေ။ [၁]

وَنُفِخَ فِى الصُّوْرِ فَاِذَا هُمْ مِّنَ الْاَجْدَاثِ اِلٰى رَبِّهِمْ يَنْسِلُوْنَ ۝٥١

၅၁။ ထို့ပြင် တံပိုးခရာမှုတ်သောအခါ ရုတ်တရက် ၎င်းတို့သည် သင်္ချိုင်းများမှထွက်၍ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ် အထံတော်သို့ လျှင်မြန်စွာ လာကြပေမည်။

---

➤➤ "အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါလျှင် ထိုအရှင်မြတ်ကိုယ်တော်တိုင် ကျွေးမွေးတော်မူနိုင်သော သူများအား ကျွန်ုပ်တို့က ကျွေးမွေးကြရမည်လော၊ အသင်တို့သည် အထင်အရှား လွဲမှားနေကြပြီ" ဟူ၍ပင် ယုတ်မာရိုင်းပြစွာ ပြောဆိုကြပေသည်။ ကြည့်-ထာနဝီ။

(၁) **ကိယာမတ်သည် ရုတ်တရက် ဆိုက်ရောက်လာမည်၊**

ကာဖိရ်များက မုစ်လင်မ်တို့အား အသင်တို့ ပြောဆိုခြိမ်းခြောက်နေကြသည့် ကိယာမတ်နှင့်ပြစ်ဒဏ်သည် အဘယ်အခါဖြစ်အံ့နည်းဟု မိုက်မဲစွာ မေးကြပေသည်။ အမှန်မှာ ကိယာမတ်သည် ရုတ်တရက် ဆိုက်ရောက်လာပေမည်။ ထိုအချိန်တွင်၎င်းတို့သည် မိမိတို့၏ လုပ်ငန်းဆောင်တာများတွင် လုံးပန်းလျက် ရှိကြပေမည်။ အချင်းချင်း အငြင်းပွားလျက် ရှိကြပေမည်။ ပထမတံပိုး မှုတ်လိုက်သည့်အခါ အားလုံးသေသွားကြပေမည်။ တစ်စုံတစ်ရာ ပြောဆိုမှာကြားခွင့်ပင် ရရှိလိုက်ကြမည် မဟုတ်ပေ။ အိမ်အပြင်သို့ ရောက်ရှိနေကြပါက မိမိတို့၏ အိမ်သူ အိမ်သားများ ထံသို့ပင် ပြန်လာနိုင်ကြမည် မဟုတ်ပေ။

قَالُوا يٰوَيْلَنَا مَنْۢ بَعَثَنَا مِنْ مَّرْقَدِنَا ۜ هٰذَا مَا وَعَدَ الرَّحْمٰنُ وَصَدَقَ الْمُرْسَلُوْنَ ﴿٥٢﴾

၅၂။ ၎င်းတို့က "ဩော်-ငါတို့သည် အကျိုးနည်းကြရလေခြင်း။ မည်သူသည် ငါတို့အား ငါတို့၏ အိမ်ရာမှ ထစေသနည်း" ဟု ပြောဆိုညည်းညူကြပေမည်။ (ထိုအခါ "မလာအိကဟ်" ကောင်းကင်တမန်များက ဖြေကြားကြပေမည်။) ဤသည် "ရဟ်မာန်" အနန္တကရုဏာတော်ရှင် ချိန်းချက်ထားတော်မူခဲ့သော ချိန်းချက်ပင်ဖြစ်၏။ စင်စစ် ရစူလ်တမန်တော်များသည် မှန်ကန်စွာ ပြောကြားခဲ့ကြပေသည်။

اِنْ كَانَتْ اِلَّا صَيْحَةً وَّاحِدَةً فَاِذَا هُمْ جَمِيْعٌ لَّدَيْنَا مُحْضَرُوْنَ ﴿٥٣﴾

၅၃။ ယင်း(တပိုးခရာမှုတ်ခြင်း)မှာ ပြင်းထန်စွာ ဟစ်အော်သံတစ်ခုမျှသာလျှင် ဖြစ်ပေမည်။ ထိုအခါ ရုတ်တရက် ၎င်းတို့အားလုံးသည် (တစ်ယောက်မကျန်) ငါအရှင်မြတ်အထံတော်သို့ ခေါ်ဆောင်လာခြင်းကို ခံကြရပေမည်။

فَالْيَوْمَ لَا تُظْلَمُ نَفْسٌ شَيْـًٔا وَّلَا تُجْزَوْنَ اِلَّا مَا كُنْتُمْ تَعْمَلُوْنَ ﴿٥٤﴾

၅၄။ သို့ဖြစ်ရာ ယနေ့သော်ကား မည်သူတစ်ဦးတစ်ယောက်မျှပင် အနည်းငယ် စိုးစဉ်းမျှပင် မတရားပြုမူခြင်းကို ခံရမည်မဟုတ်ပေ။ ထိုမှတစ်ပါး အသင်တို့သည် မိမိတို့ ကျင့်မူခဲ့ကြသော အမှုကိစ္စတို့၏ အစားပေးခြင်းကိုသာလျှင် ခံကြရကုန်အံ့သတည်း။ [၁]

---

(၁) **ကိယာမတ်နေ့တွင် ကာဖစ်ရ်တို့၏ဖြစ်အင်၊**

ဒုတိယအကြိမ် တံပိုးမှုတ်လိုက်သည့်အခါ အားလုံးတို့သည် သင်္ချိုင်းများမှ အသီးသီး ရှင်ပြန်ထပြီး စာရင်းအင်းရှင်းရန် အလ္လာဟ်အရှင်မြတ်ထံတော်သို့ လျင်မြန်စွာ ထွက်လာကြရပေမည်။ ထိုအခါကာဖိရ်များသည် "ဩော်- ငါတို့ ပျက်စီးကြရပြီ၊ ငါတို့အား သင်္ချိုင်းများမှ မည်သူနှိုးသနည်း" ဟု ညည်းညူကြပေမည်။ ထိုအခါ ကောင်းကင်တမန်များက ဤသည် မဟာကရုဏာရှင် ချိန်းချက်ထားတော်မူသည့် ကိယာမတ်ပင်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ တမန်တော်များကလည်း အသီးသီး အမှန်အကန် ပြောဆိုသတိပေးခဲ့ကြပေသည်။ သို့သော် အသင်တို့သည် မနာခံခဲ့ကြပေ။ ယနေ့မူကား အသင်တို့သည် မိမိတို့ ပြုမူခဲ့ကြသည်များနှင့် အမျှသာ အစားပေးခြင်း ခံကြရပေမည်။ မည်သူ တစ်ဦးတစ်ယောက်မျှ မတရားပြုမူခြင်း ခံရမည်မဟုတ်ဟု ပြောဆိုကြပေမည်။

ဤကား ကိယာမတ်နေ့တွင် ကာဖိရ်တို့၏ ဖြစ်အင်တည်း။ ကိယာမတ်နေ့တွင် မုအ်မင်န်တို့၏ ဖြစ်အင်များကို ရှေ့တွင် မိန့်ဆိုထားတော်မူသည်။

إِنَّ اللَّهَ يَغْفِرُ الذُّنُوبَ جَمِيعًا ۚ إِنَّهُ هُوَ الْغَفُورُ الرَّحِيمُ ﴿٥٣﴾

ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ပြစ်မှု အလုံးစုံတို့ကို ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူ ပေမည်။ စင်စစ်ဧကန် ထိုအရှင်မြတ်သည်ပင် အလွန် တရာ ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူသောအရှင် အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင် ဖြစ်တော်မူ၏။ [၁]

وَأَنِيبُوا إِلَىٰ رَبِّكُمْ وَأَسْلِمُوا لَهُ مِن قَبْلِ أَن يَأْتِيَكُمُ الْعَذَابُ ثُمَّ لَا تُنصَرُونَ ﴿٥٤﴾

၅၄။ ၎င်းပြင် အသင်တို့သည် မိမိတို့ထံ ပြစ်ဒဏ် ဆိုက်ရောက်၍မလာမီပင် မိမိတို့အား ဖန်ဆင်းမွေးမြူ တော်မူသော အရှင်မြတ်ဘက်တော်သို့ ပြန်လှည့်ခြင်းကို လည်းကောင်း၊ ထိုအရှင်မြတ်၏ အမိန့်တော်များကို လိုက်နာခြင်းကိုလည်းကောင်း၊ ပြုကြလေကုန်။ ထို (ပြစ်ဒဏ်ဆိုက်ရောက်၍လာပြီး) နောက်တွင် အသင်တို့ သည် (မည်သည့်) အကူအညီ(ကိုမျှ) ရရှိကြမည် မဟုတ်ပေ။

---

➤➤ များစွာသော လူတော်လူကောင်းများသည်လည်း ဆင်းရဲနွမ်းပါးလျက် ရှိကြပေသည်။ ဤသည်မျက်မြင်ပင်။ အမှန်မှာဤသည် အလ္လာဟ်အရှင်မြတ်၏ စီရင်ဖန်တီးမှုပင်။ ဤသည့်သဘောကို မုရှ်ရစ်က်များသည် မသိကြပေ။

**(၁) အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ မည်သူမျှ မျှော်လင့်ချက် မကင်းရာ၊**

မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်တွင် မိမိ၏ ကရုဏာတည်းဟူသော တံခါးကို အမြဲတစေ ဖွင့်ထားတော်မူသည့် အကြောင်း အတိအလင်း ကြေညာထားတော် မူသည်။ ဤအာယတ်တော်သည် ပြစ်မှုဒုစရိုက်များတွင် နစ်မွန်း၍ မျှော်လင့်ချက်ပင် ကင်းမဲ့နေကြသော သူများအဖို့ အလွန်ကြီးမားသော မျှော်လင့်ချက်ကြီးတစ်ရပ်ပင်။

ကာဖိရ်၊ မုရှ်ရစ်က်၊ ဖာစိက်၊ အသူပင်ဖြစ်စေ၊ အဘယ်မျှ ကြီးမားသောပြစ်မှုကို ကျူးလွန်မိခဲ့လင့်ကစား ဤအာယတ်တော်ကို ကြားနာရပြီးသည့် နောက်ပိုင်းတွင်မူ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်မှ လုံးလုံးလျားလျား မျှော်လင့်ချက်ကင်းသွားရန် အကြောင်းမရှိတော့ပြီ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် အလိုတော် ရှိပါက အဘယ်မျှကြီးလေးသော အပြစ်ကိုမဆို ကျူးလွန်ထားသူအားလည်း လုံးလုံးလျားလျား ချမ်းသာခွင့် ပေးတော်မူနိုင်ပေသည်။ ဤအာယတ်တော်တွင်လည်း ပြစ်မှုကျူးလွန်ထားမိကြသော မိမိ၏ကျွန်များအား မိမိ၏ကရုဏာတော်မှ မျှော်လင့်ချက် မကင်းကြကုန်လင့်ဟု အတိအလင်း ကြေညာထားတော်မူသည်။

သို့ရာတွင် ဤနေရာ၌ အထူးသိထားအပ်သည်မှာ–အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင်ကပင် 'ရှရစ်က်' ယှဉ်တွဲကိုးကွယ်မှုကို ချမ်းသာခွင့် ပေးတော်မူမည် မဟုတ်ကြောင်း၊ ထိုမှတစ်ပါး အခြားပြစ်မှုများကိုမူ အလိုတော်ရှိက ချမ်းသာခွင့် ပေးတော်မူမည့်အကြောင်း အတိအလင်း ကြေညာထားတော်မူသည်။ ကြည့်–ကုရ်အာန်(၄:၁၁၄) ➤➤

وَاتَّبِعُوٓا اَحْسَنَ مَآ اُنْزِلَ اِلَيْكُمْ مِّنْ رَّبِّكُمْ مِّنْ قَبْلِ اَنْ يَّاْتِيَكُمُ الْعَذَابُ بَغْتَةً وَّاَنْتُمْ لَا تَشْعُرُوْنَ ۝٥٥

၅၅။ ထိုမှတစ်ပါး အသင်တို့သည် မိမိတို့ထံ ပြစ်ဒဏ်သည် အသင်တို့မသိခိုက်၊ ရုတ်တရက် ဆိုက်ရောက်၍မလာမီပင် မိမိတို့၏ အရှင်မြတ်အထံတော်မှ မိမိတို့ထံ ထုတ်ပြန်တော်မူခြင်း ခံခဲ့ရလေသော အကောင်းဆုံး အမိန့်တော် (ကုရ်အာန်ကျမ်းတော်မြတ်) ကို လိုက်နာ(ကျင့်သုံး)ကြလေကုန်။

اَنْ تَقُوْلَ نَفْسٌ يّٰحَسْرَتٰى عَلٰى مَا فَرَّطْتُّ فِىْ جَنْۢبِ اللّٰهِ وَاِنْ كُنْتُ لَمِنَ السّٰخِرِيْنَ ۝٥٦

၅၆။ (ဤသည့်အမိန့်တော်ကို ထုတ်ပြန်တော်မူခြင်းမှာ) မည်သူတစ်ဦးတစ်ယောက်မျှပင် "သြော်- ငါသည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ကို လိုက်နာခြင်းနှင့်စပ်လျဉ်း၍ ပျက်ကွက်လစ်ဟင်း ပေါ့ဆခဲ့သောကြောင့် ဝမ်းနည်းရလေခြင်း" ဟူ၍ မပြောဆိုနိုင်ရန်လည်းကောင်း။

اَوْ تَقُوْلَ لَوْ اَنَّ اللّٰهَ هَدٰىنِىْ لَكُنْتُ مِنَ الْمُتَّقِيْنَ ۝٥٧

၅၇။ သို့တည်းမဟုတ် (မည်သူမဆို) "ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် ငါ့အား အကယ်၍သာ တရားလမ်းမှန်သို့ ပို့ပေးတော်မူခဲ့ပါလျှင် ငါသည် "မွတ္တကီ" ပြစ်မှုများမှ ကြဉ်ရှောင်ကြကုန်သော သူတော်စင်တို့အနက် အမှန်ပင် အပါအဝင်ဖြစ်ခဲ့ပေမည်" ဟူ၍ မပြောဆိုနိုင်ရန်လည်းကောင်း။

اَوْ تَقُوْلَ حِيْنَ تَرَى الْعَذَابَ لَوْ اَنَّ لِىْ كَرَّةً فَاَكُوْنَ مِنَ الْمُحْسِنِيْنَ ۝٥٨

၅၈။ သို့တည်းမဟုတ် (မည်သူမဆို) ပြစ်ဒဏ်ကို တွေ့မြင်လေသောအချိန်အခါ၌ "ဧကန်မလွဲ ငါသည် အကယ်၍သာ (ကမ္ဘာလောကသို့) တဖန်ပြန်၍ သွားနိုင်လျှင်ကောင်းလေစွ။ သို့ဖြစ်ခဲ့လျှင် ငါသည် သူတော်ကောင်းတို့အနက် အပါအဝင်ဖြစ်ပေမည်" ဟူ၍ မပြောဆိုနိုင်ရန်လည်းကောင်း၊ (ထုတ်ပြန်တော်မူခြင်းဖြစ်၏၊)

➤➤ သို့ဖြစ်ရာ မည်သူမဆို (ရှရစ်က်)ယှဉ်တွဲ ကိုးကွယ်မှုကို ဝေးစွာကြဉ်ရှောင်က၊ ကျူးလွန်မိက အချိန်မီ ဝန်ချတောင်းပန်က အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များကို အသက်ထက်ဆုံး လိုက်နာကျင့်မှုပါက ထိုအရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံရမည်သာတည်း။

بَلٰى قَدْ جَآءَتْكَ اٰيٰتِىْ فَكَذَّبْتَ بِهَا وَاسْتَكْبَرْتَ وَكُنْتَ مِنَ الْكٰفِرِيْنَ ﴿٥٩﴾

၅၉။ အဘယ်ကြောင့်မဟုတ်သနည်း။ ငါအရှင်မြတ်၏ အမိန့်-အာယတ်တော်များသည် အသင့်ထံသို့ ဧကန်မလွဲ ရောက်ရှိလာခဲ့ပေသည်။ သို့ရာတွင် အသင်သည် ယင်းအမိန့်အာယတ်တော်များကို မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ပေသည်။ ထို့ပြင် အသင်သည် မာန်မာန ထောင်လွှားခဲ့ပေသည်။ ထိုမှတစ်ပါး အသင်သည် "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့တွင် အပါအဝင် ဖြစ်ခဲ့ပေသတည်း။

وَيَوْمَ الْقِيٰمَةِ تَرَى الَّذِيْنَ كَذَبُوْا عَلَى اللّٰهِ وُجُوْهُهُمْ مُّسْوَدَّةٌ ؕ اَلَيْسَ فِىْ جَهَنَّمَ مَثْوًى لِّلْمُتَكَبِّرِيْنَ ﴿٦٠﴾

၆၀။ စင်စစ်သော်ကား (အို-နဗီတမန်တော်၊) အသင်သည် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် အလ္လာဟ်အရှင်မြတ်အပေါ်၌ မုသားပြောဆို စွပ်စွဲခဲ့ကြကုန်သောသူတို့အား၊ ၎င်းတို့၏ မျက်နှာတို့မှာ မည်း၍ နေကြသည်ကို တွေ့မြင်ပေမည်။ မာန်မာန ထောင်လွှားကြသောသူတို့၏ နေထိုင်ရာဌာနသည် "ဂျဟန္နမ်" ငရဲဘုံ၌ ရှိသည်မဟုတ်လော။

وَيُنَجِّى اللّٰهُ الَّذِيْنَ اتَّقَوْا بِمَفَازَتِهِمْ ۫ لَا يَمَسُّهُمُ السُّوْٓءُ وَلَا هُمْ يَحْزَنُوْنَ ﴿٦١﴾

၆၁။ ၎င်းပြင် ပြစ်မှုဒုစရိုက်များမှ ကြဉ်ရှောင်ကြကုန်သော "မွတ္တကီ" သူတော်စင်တို့ကိုမူကား အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ အောင်မြင်မှုနှင့်တကွ လွတ်မြောက်စေတော်မူပေမည်။ ၎င်းတို့တွင် ဘေးဒုက္ခသည်လည်း ဆိုက်ရောက်မည် မဟုတ်ပေ။ ထိုမှတစ်ပါး ၎င်းတို့သည် ပူဆွေးကြရမည်လည်း မဟုတ်ပေတကား။

اَللّٰهُ خَالِقُ كُلِّ شَىْءٍ ۙ وَّهُوَ عَلٰى كُلِّ شَىْءٍ وَّكِيْلٌ ﴿٦٢﴾

၆၂။ အလ္လာဟ်အရှင်မြတ်သည်ပင် အရာရာကို ဖန်ဆင်းတော်မူသော အရှင်ဖြစ်တော်မူသည့်ပြင် ထိုအရှင်မြတ်သည်ပင် အရာခပ်သိမ်းတို့ အပေါ်ဝယ် ထိန်းသိမ်းတော်မူသော အရှင်ဖြစ်တော်မူ၏။

لَهٗ مَقَالِيۡدُ السَّمٰوٰتِ وَالۡاَرۡضِ ؕ وَ الَّذِيۡنَ كَفَرُوۡا بِاٰيٰتِ اللّٰهِ اُولٰٓـئِكَ هُمُ الۡخٰسِرُوۡنَ ﴿٦٣﴾

၆၃။ မိုးကောင်းကင်များ၏ သော့များသည်လည်းကောင်း၊ ကမ္ဘာမြေ၏ သော့များသည်လည်းကောင်း၊ *ထိုအရှင်မြတ်(၏ လက်တော်တွင်း)၌သာ ရှိကြကုန်၏။* [၁] သို့ပါလျက် အကြင်သူတို့သည် အလ္လာဟ်အရှင်မြတ်၏ "အာယတ်" အမိန့်တော်များကို ငြင်းပယ်ခဲ့ကြသည်ရှိသော် ထိုသူတို့သည်သာလျှင် ဆုံးရှုံးသောသူများ ဖြစ်ကြပေမည်။

قُلۡ اَفَغَيۡرَ اللّٰهِ تَاۡمُرُوۡٓنِّىۡۤ اَعۡبُدُ اَيُّهَا الۡجٰهِلُوۡنَ ﴿٦٤﴾

၆၄။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောဆို (မေးမြန်း)ပါလေ။ အို-အသိပညာ ကင်းမဲ့သူတို့၊ သို့ပါလျက် ငါသည် အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားကို ဆည်းကပ်ကိုးကွယ်ရန် အသင်တို့သည် *ငါ့အား တိုက်တွန်းကြလေသလော။* [၂]

وَلَقَدۡ اُوۡحِىَ اِلَيۡكَ وَاِلَى الَّذِيۡنَ مِنۡ قَبۡلِكَ ۚ لَئِنۡ اَشۡرَكۡتَ لَيَحۡبَطَنَّ عَمَلُكَ وَلَتَكُوۡنَنَّ مِنَ الۡخٰسِرِيۡنَ ﴿٦٥﴾

၆၅။ အမှန်စင်စစ်သော်ကား အသင့်ထံသို့လည်းကောင်း၊ အသင့်အလျင် (ပွင့်ခဲ့ကြလေသောနဗီတမန်တော်များ)ထံသို့လည်းကောင်း၊ မုချမလွဲ (ဤသို့) "ဝဟ်ယ်" အမိန့်တော်ထုတ်ပြန်ခြင်း ခံခဲ့ရလေ၏။ "အမှန်ပင် အကယ်၍ အသင်သည် (တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ်နှင့်) နှိုင်းယှဉ် တွဲဖက်ကိုးကွယ်မှုကို ကျူးလွန်မိခဲ့ပါလျှင် မုချစင်စစ် အသင်၏ ပြုမူကျင့်ဆောင်ချက်တို့သည် အချည်းနှီးဖြစ်သွားမည့်ပြင် ဧကန်မလွဲ အသင်သည် ဆုံးရှုံးကြကုန်သောသူတို့တွင်လည်း အပါအဝင် ဖြစ်ချေမည်။

---

(၁) အလ္လာဟ်အရှင်မြတ်သည်ပင် အရာခပ်သိမ်းကုန်တို့ကို စတင်ဖန်ဆင်းတော်မူသည်။ သို့ ဖန်ဆင်းတော်မူပြီး နောက် ယင်းအဖန်ဆင်းခံ အရာများကို ထိုအရှင်မြတ်သည်ပင် ထိန်းသိမ်းကာကွယ် စောင့်ရှောက်ထားတော်မူသည်။ အရာခပ်သိမ်းကုန်တို့တွင် ထိုအရှင်မြတ်သည်ပင် အလိုရှိတော်မူသည့်အတိုင်း ချယ်လှယ်တော်မူသည်။ အရာခပ်သိမ်း ကုန်တို့ကို ထိုအရှင်မြတ်သည်ပင် ပိုင်ဆိုင်တော်မူသည်။ မြေနှင့်မိုးများ၏ သော့များသည်လည်း ထိုအရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ သို့ဖြစ်ရာ ဤရွေ့ဤမျှ တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူသော အလ္လာဟ် အရှင်မြတ်အားသာ ဆည်းကပ် ကိုးကွယ်အပ်ပေသည်။ ထိုသို့သော အရှင်မြတ်၏ အမျက်တော်ကို ➤➤

بَلِ اللّٰهَ فَاعْبُدْ وَكُنْ مِّنَ الشّٰكِرِيْنَ ﴿٦٦﴾

၆၆။ သို့ဖြစ်ပေရာ အသင်သည် ထိုသို့ အလျင်း မပြုဘဲ အလ္လာဟ်အရှင်မြတ်အားသာလျှင် ဆည်းကပ် ကိုးကွယ်ပါလေ။ ထိုမှတစ်ပါး အသင်သည် ကျေးဇူး တော်ကို သိတတ်သောသူတို့တွင် အပါအဝင် ဖြစ် ပါလေ။

وَمَا قَدَرُوا اللّٰهَ حَقَّ قَدْرِهٖ ۖ وَالْاَرْضُ جَمِيْعًا قَبْضَتُهٗ يَوْمَ الْقِيٰمَةِ وَالسَّمٰوٰتُ مَطْوِيّٰتٌۢ بِيَمِيْنِهٖ ۚ سُبْحٰنَهٗ وَتَعٰلٰى عَمَّا يُشْرِكُوْنَ ﴿٦٧﴾

၆၇။ စင်စစ်သော်ကား ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်အား ကြည်ညိုလေးစားအပ်သည့် နည်း အတိုင်း *ကြည်ညိုလေးစားခြင်း မပြုခဲ့ကြပေ။* [၁] စင်စစ်မှာကား "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် ကမ္ဘာမြေတစ်ခုလုံးမှာ ထိုအရှင်မြတ်၏ လက်တစ်ဆုပ် စာပင် ရှိမည်သာမက၊ မိုးကောင်းကင်များမှာလည်း *ထိုအရှင်မြတ်၏ လက်ယာလက်တော်တွင်းဝယ် လိပ် ထားလျက်ပင် ရှိကြပေမည်။* [၂] ထိုအရှင်မြတ်မှာမူကား ၎င်းတို့ တွဲဖက် နိုင်းယှဉ် ကိုးကွယ်ကြသည်တို့မှ (လုံးဝ) စင်ကြယ်သန့်ရှင်းတော်မူသည့်ပြင် ထိုအရှင်မြတ် သည် (ထိုအရာတို့ထက် အတိုင်းမရှိ) မြင့်မြတ်လှတော် မူပေသတည်း။

---

➤➤ ကြောက်အပ်ပေသည်။ ထိုသို့သော အရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံရာသည်။

(၂) အလ္လာဟ်အရှင်မြတ်အား စွန့်ပယ်၍ အခြားအချည်းနှီးသော အရာများကို ဆည်းကပ်ကိုးကွယ်ခြင်းသည် အသိအလိမ္မာ ဉာဏ်ပညာကင်းမဲ့ခြင်း၊ မိုက်မဲခြင်းပင်။ ထိုမျှမကသေး အချို့မုရှ်ရစ်က်များသည် တမန်တော်မြတ် အားပင် ၎င်းတို့၏လမ်းစဉ်ပေါ်သို့ ရောက်ရှိလာရန်ကိုးကားခဲ့ကြ၏။ အချို့ (ရိဝါယတ်) ကျမ်းချက်များတွင် မုရှ်ရစ်က်များသည် တမန်တော်မြတ်အား ၎င်းတို့၏အချည်းနှီးသော အရုပ်များကို ဆည်းကပ်ကိုးကွယ်ရန် ဖိတ်ကြားခဲ့သည်ဟူ၍ လာရှိသည်။ ထိုအခါ ဤအာယတ်တော် ကျရောက်လာခဲ့ပေသည်။

(၁) အလ္လာဟ်အရှင်မြတ်အား ထိုအရှင်မြတ်နှင့် လျော်ကန်သည့် ကြည်ညိုလေးစားခြင်းမျိုးကိုမူ မည်သူမျှမပြုနိုင်ပေ။ သို့ရာတွင် လူသားတို့သည် မိမိတို့အနေဖြင့် မိမိတို့၌ တာဝန်ရှိသည်နှင့်အညီ အစွမ်းရှိသမျှ ကြည်ညိုလေးစား ကြရမည်သာဖြစ်သည်။ ထို မုရှ်ရစ်က်များသည် ထိုအရှင်မြတ်အား ဤမျှပင် မလေးစားခဲ့ကြပေ။

(၂) ကမ္ဘာသက်တမ်း ကုန်ဆုံး၍ ကမ္ဘာကြီးကို လက်ရှိပစ္စက္ခမှ နောင်တမလွန်ဘဝသို့ ပြောင်းလဲရန် အချိန်ကျရောက် လာသောအခါ အလ္လာဟ်အရှင်မြတ်သည် အတိုင်းမသိ ကြီးမားမြင့်စွင့်သော မိုးကောင်းကင်များကိုပင် စက္ကူပုံစံမှာ လိပ်ခေါက်၍ ထားတော်မူမည်ဖြစ်သည်။ အတိုင်းမသိ ထုထည်ကြီးမားလှသော ကမ္ဘာမြေကြီးသည် ➤➤

وَنُفِخَ فِي الصُّوْرِ فَصَعِقَ مَنْ فِي السَّمٰوٰتِ وَمَنْ فِي الْاَرْضِ اِلَّا مَنْ شَآءَ اللّٰهُ ؕ ثُمَّ نُفِخَ فِيْهِ اُخْرٰى فَاِذَا هُمْ قِيَامٌ يَّنْظُرُوْنَ ﴿۶۸﴾

၆၈။ ထိုမှတစ်ပါး တံပိုး ခရာမှုတ်သောအခါ အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူသောသူမှတစ်ပါး မိုးကောင်းကင်များ၌ ရှိကြကုန်သောသူတို့သည်လည်းကောင်း၊ ပထဝီမြေ၌ရှိကြကုန်သောသူတို့သည်လည်းကောင်း၊ သတိမေ့၍ သွားကြပေမည်။ ထို့နောက် တဖန် ယင်းတံပိုးကိုမှုတ်ခဲ့ပြန်သော် ၎င်းတို့မှာ ရုတ်တရက် မတ်တပ်ရပ်လျက် ကြည့်နေကြပေမည်။ [၁]

وَاَشْرَقَتِ الْاَرْضُ بِنُوْرِ رَبِّهَا وَوُضِعَ الْكِتٰبُ وَجِایْٓءَ بِالنَّبِيّٖنَ وَالشُّهَدَآءِ وَقُضِيَ بَيْنَهُمْ بِالْحَقِّ وَهُمْ لَا يُظْلَمُوْنَ ﴿۶۹﴾

၆၉။ ၎င်းပြင် ပထဝီမြေမှာ ၎င်းကို ဖန်ဆင်းတော်မူသောအရှင်မြတ်၏ ရောင်ခြည်တော်ကြောင့် လင်းထိန်၍သွားပေမည်။ ထို့ပြင် မှတ်တမ်းစာအုပ်များသည်လည်း (အဆင်သင့်)ထားရှိပြီး ဖြစ်ကြပေမည်။ ထိုမှတစ်ပါး နဗီတမန်တော်တို့သည်လည်းကောင်း၊ "ရှဟီးဒ်" (အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ ကျဆုံးခဲ့ကြရသောသူ)တို့သည်လည်းကောင်း၊ (ရှေ့တော်မှောက်သို့) ရောက်လာကြရပေမည်။ ထို့ပြင် ၎င်းတို့၏အကြားဝယ် တိကျမှန်ကန်စွာ စီရင်ဆုံးဖြတ်ပြီး ဖြစ်ချေမည်။ သို့ရာတွင် ၎င်းတို့မှာ (အနည်းငယ်စိုးစဥ်းမျှပင်) မတရားပြုလုပ်ခြင်းကို ခံကြရမည်မဟုတ်ပေ။ [၂]

---

➤➤ အလ္လာဟ်အရှင်မြတ်၏ လက်တစ်ဆုပ်အတွင်း၌ပင် ရောက်ရှိနေပေမည်။ စကြာဝဠာကြီးတစ်ခုလုံးကို ပြောင်းလဲရန်ကိစ္စမှာ အလ္လာဟ်အရှင်မြတ်အဖို့ အသို့မျှ အခက်အခဲမရှိ။ လက်တွင်းရှိစက္ကူပမာ၊ လွယ်ကူစွာ လိပ်ခေါက်ထားတော်မူနိုင်သည်။ လက်တွင်းရှိရေပမာ လွယ်ကူစွာ မှောက်လှန်တော်မူနိုင်သည်။ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်နှင့် ဂုဏ်တော်များကား အတိုင်းမသိ ကြီးမားပါဘိတကား။

(၁) အများ မုဖတ်စ်စိရ်များ၏ ယူဆချက်အရ ကိယာမတ်ဖြစ်သည့်အခါ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ သက်ဆိုင်ရာ ကောင်းကင်တမန်သည် တံပိုးနှစ်ကြိမ်မှုတ်မည်။ ပထမတစ်ကြိမ် တံပိုးမှုတ်လိုက်သည့်အခါ အားလုံးတို့သည် သတိလစ်သွားကြပေမည်။ ထို့နောက် အသက်ရှင်နေသူ အားလုံးတို့သည် သေသွားကြပေမည်။ သေနှင့်ပြီးဖြစ်သောသူ အားလုံးတို့၏ အသက်ဇီဝိန်များသည် မေ့မြောသွားကြပေမည်။ ဒုတိယအကြိမ် တံပိုးမှုတ်လိုက်သည့်အခါ သူသေများ၏ အသက်ဇီဝိန်များသည် ကိုယ်ခန္ဓာများနှင့် ပြန်လည် ဆက်စပ်သွားကြပေမည်။ မေ့မြောနေသူများသည် ပြန်လည် သတိရရှိလာပေမည်။ ထိုအခါ အသီးသီး သင်္ချိုင်းများမှ ထွက်လာကြပြီးလျှင် "မဟ်ရှရ်" ခေါ် ကမ္ဘာပြန်လည်စုရုံးရာ ကွင်းပြင်ကြီး၏ အံ့ဖွယ်သရဲ မြင်ကွင်းများကို အံ့သြကြီးစွာဖြင့် ➤➤

وَوُفِّيَتْ كُلُّ نَفْسٍ مَّا عَمِلَتْ وَهُوَ أَعْلَمُ بِمَا يَفْعَلُونَ ۝٧٠

၇၀။ ထိုမှတစ်ပါး လူတိုင်းလူတိုင်းသည် မိမိတို့ ကျင့်မှုပြုလုပ်ခဲ့ကြသည်တို့၏အစားကို အပြည့်အစုံ ပေးဆပ်ခြင်းကို ခံကြရပေမည်။ အမှန်စင်စစ်သော်ကား ထိုအရှင်မြတ်သည် ၎င်းတို့ပြုလုပ်သမျှတို့ကို အသိတော်မူဆုံးပင် ဖြစ်တော်မူပေသတည်း။

وَسِيقَ الَّذِينَ كَفَرُوا إِلَىٰ جَهَنَّمَ زُمَرًا ۖ حَتَّىٰ إِذَا جَاءُوهَا فُتِحَتْ أَبْوَابُهَا وَقَالَ لَهُمْ خَزَنَتُهَا أَلَمْ يَأْتِكُمْ رُسُلٌ مِّنكُمْ يَتْلُونَ عَلَيْكُمْ آيَاتِ رَبِّكُمْ وَيُنذِرُونَكُمْ لِقَاءَ يَوْمِكُمْ هَٰذَا ۚ

၇၁။ စင်စစ်သော်ကား "ကာဖိရ်" သွေဖည်ငြင်းပယ်ခဲ့ကြကုန်သော သူတို့သည် "ဂျဟန္နမ်" ငရဲဘုံသို့ အုပ်စုလိုက် မောင်းနှင်ခြင်းကို ခံကြရပေမည်။ နောက်ဆုံးတွင် ၎င်းတို့သည် ယင်း "ဂျဟန္နမ်" ငရဲဘုံသို့ ရောက်ရှိလာခဲ့ကြသောအခါ ယင်း "ဂျဟန္နမ်" ငရဲဘုံ၏ တံခါးများသည် ဖွင့်ပေးခြင်းကို ခံကြရပေမည်။ ထိုမှတစ်ပါး ယင်း "ဂျဟန္နမ်"ငရဲဘုံကို စောင့်ကြပ်သူ (ကောင်းကင်တမန်)တို့က ၎င်းတို့အား "အသင်တို့ထံ အသင်တို့အနက်မှပင် အကြင် "ရစူလ်" တမန်တော်များ ရောက်ရှိလာခဲ့ကြသည် မဟုတ်လော၊ ထိုရစူလ်တမန်တော်များသည် အသင်တို့ ရှေ့ဝယ် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အာယတ်တော်များကိုလည်း ဖတ်ကြားခဲ့ကြလေ၏။ ထိုမှတစ်ပါး အသင်တို့အား ဤနေ့နှင့် အသင်တို့ ဆုံစည်းကြရမည်ကိုလည်း သတိပေးနှိုးဆော်ကြကုန်၏။" ဟု ပြောဆိုကြပေမည်။

---

➢➢ ငေးငိုင်ကြည့်နေကြပေမည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ လျင်မြန်စွာ ခေါ်ဆောင် သွတ်သွင်းခြင်းကို ခံကြရပေမည်။

(၂) ထို့နောက် အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင် မိမိဂုဏ်တော်နှင့် လျော်ညီစွာ ကြွရောက်လာတော်မူပေမည်။ ထိုအခါ 'မဟ်ရှ်ရ်' ကွင်းပြင်ကြီးသည် အလ္လာဟ်အရှင်မြတ်၏ ရောင်ခြည်တော်ဖြင့် လင်းဝင်းသွားပေမည်။ မှတ်တမ်းများ အသင့်ရောက်ရှိလာပေမည်။ တမန်တော်မြတ်များနှင့် သက်ဆိုင်ရာ သက်သေများလည်း အသင့်ရောက်ရှိလာကြပေမည်။ အားလုံးတို့သည် တရားသဖြင့် စီရင်ဆုံးဖြတ်တော်မူခြင်းကို ခံကြရပေမည်။ မတရားပြုမူခြင်းကို အနည်းငယ် စိုးစဉ်းမျှပင် ခံကြရမည် မဟုတ်ပေ။

قَالُوا بَلٰى وَلٰكِنْ حَقَّتْ كَلِمَةُ الْعَذَابِ عَلَى الْكٰفِرِيْنَ ﴿٧١﴾

(ထိုအခါ) ၎င်းတို့က ဟုတ်ပေသည်။ သို့ရာတွင် "ကာဖိရ်" သွေဖည်ငြင်းပယ်ကြကုန်သော သူတို့အပေါ်၌ ပြစ်ဒဏ်၏ အမိန့်တော်သည် အတည်ဖြစ်ခဲ့ချေပြီ" ဟု ပြောဆို (ပြန်ကြား)ခဲ့ကြပေမည်။

قِيْلَ ادْخُلُوْٓا اَبْوَابَ جَهَنَّمَ خٰلِدِيْنَ فِيْهَا ۚ فَبِئْسَ مَثْوَى الْمُتَكَبِّرِيْنَ ﴿٧٢﴾

၇၂။ (ထိုရောအခါဝယ် ၎င်းတို့မှာ) အသင်တို့သည် "ဂျဟန္နမ်ငရဲဘုံ၏ တံခါးများအတွင်းသို့ အမြဲထာဝစဉ် နေထိုင်ကြရမည့်သူများအဖြစ် ဝင်ရောက်ကြလေကုန်" ဟူ၍ ပြောဆိုခြင်းကို ခံကြရပေမည်။ စင်စစ်မှာကား မာန်မာန ထောင်လွှားကြကုန်သောသူတို့၏ နေထိုင်ရာဌာနသည် လွန်စွာ ဆိုးရွားလှပေသတည်း။

وَسِيْقَ الَّذِيْنَ اتَّقَوْا رَبَّهُمْ اِلَى الْجَنَّةِ زُمَرًا ۗ حَتّٰٓى اِذَا جَآءُوْهَا وَفُتِحَتْ اَبْوَابُهَا وَقَالَ لَهُمْ خَزَنَتُهَا سَلٰمٌ عَلَيْكُمْ طِبْتُمْ فَادْخُلُوْهَا خٰلِدِيْنَ ﴿٧٣﴾

၇၃။ ထိုမှတစ်ပါး မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ကြောက်ရွံ့ကြကုန်သူတို့မှာ "ဂျန္နတ်" သုခဘုံသို့ အုပ်စုလိုက်၊ အုပ်စုလိုက် ပို့ပေးခြင်းကို ခံကြရပေမည်။ [၁] နောက်ဆုံးတွင် ထိုသူတို့သည် ယင်း"ဂျန္နတ်" သုခဘုံသို့ ရောက်ရှိလာခဲ့ကြပေမည်။ ယင်း "ဂျန္နတ်" သုခဘုံ၏ တံခါးများသည် (ယခင်ကတည်းက) ပွင့်လျက်ရှိပေမည်။ ၎င်းနောက် ယင်း "ဂျန္နတ်" သုခဘုံကို စောင့်ကြပ်သူ (ကောင်းကင်တမန်)တို့က ၎င်းတို့အား "ချမ်းမြေ့သာယာမှုသည် အသင်တို့အပေါ်ဝယ် ကျရောက်ပါစေသတည်း။ အသင်တို့သည် စင်ကြယ်သန့်ရှင်းခဲ့ကြပြီးဖြစ်ပေရာ ယင်း "ဂျန္နတ်" သုခဘုံသို့ အမြဲထာဝစဉ် နေထိုင်ကြရမည့်သူများအဖြစ် ဝင်ရောက်ကြလေကုန်" ဟု ပြောဆိုခဲ့ကြပေမည်။ [၂]

---

(၁) အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားကြကုန်သော မုစ်လင်မ်သူတော်စင်များသည် ကိယာမတ်နေ့တွင် ဂုဏ်အဆင့်အတန်းအလိုက် ရှေ့ဆုံးသည်တော်များနှင့်၊ အုပ်စုလိုက်အုပ်စုလိုက် ဂျန္နတ် အမတသုခဘုံသို့ ပင့်ဖိတ်ခေါ်ဆောင်သွားခြင်းကို ခံကြရပေမည်။ "အီမာန်"ယုံကြည်မှုနှင့် 'တက်ဝါ' ကြောက်ရွံ့ရိုသေ ခန့်ညားမှုတွင် ➤➤

وَقَالُوا الْحَمْدُ لِلَّهِ الَّذِي صَدَقَنَا وَعْدَهُ وَأَوْرَثَنَا الْأَرْضَ نَتَبَوَّأُ مِنَ الْجَنَّةِ حَيْثُ نَشَاءُ فَنِعْمَ أَجْرُ الْعَامِلِينَ ﴿٧٤﴾

၇၄။ (ထိုရောအခါဝယ်) ထို(သူတော်စင်)တို့က ချီးမွမ်းထောပနာအပေါင်းတို့သည် အကြင် အလ္လာဟ် အရှင်မြတ်နှင့်သာသက်ဆိုင်၏။ ထိုအရှင်မြတ်သည် ကျွန်တော်မျိုးတို့နှင့်ပတ်သက်၍ မိမိထားရှိတော်မူခဲ့သောကတိကို မှန်ကန်စေတော်မူခဲ့သည့်ပြင် ဤ ("ဂျန္နတ်" သုခဘုံ၏)မြေကို ကျွန်တော်မျိုးတို့အား အမွေအဖြစ် ပိုင်ဆိုင်စေတော်မူပြီးဖြစ်ရာ ကျွန်တော်မျိုးတို့မှာ "ဂျန္နတ်" သုခဘုံတွင် မိမိတို့အလိုရှိရာ နေရာများ၌ နေထိုင်နိုင်ကြပေသည်"ဟု (ဝမ်းမြောက်စွာ) ပြောဆိုကြပေမည်။ စင်စစ်မှာကား အားထုတ်သူတို့၏ အကျိုးကျေးဇူးသည် လွန်စွာ ကောင်းမြတ်လှပေတကား။ [၁]

---

➤➤ အဆင့်အတန်း အမျိုးမျိုးအစားစား ရှိပေရာ၊ မှစ်လင်မ်များသည်လည်း သူ့အဆင့်နှင့်သူ အုပ်စုအသီးသီး ဖြစ်ကာ ကိုယ့်အုပ်စုနှင့်ကိုယ် ပျော်ရွှင်စွာ ဂျန္နတ်သို့ ဝင်စံမြန်းကြပေမည်။

(၂) လူ့လောကတွင် ဧည့်ခံမဏ္ဍပ်သို့ ကြွရောက်လာကြသော ဧည့်သည်တော်များအား သက်ဆိုင်ရာ ဧည့်ခံကြိုဆိုရေး အဖွဲ့များက ရွှင်ပြုံးသောမျက်နှာဖြင့် နှုတ်ခွန်းဆက်သ၍ ခရီးဦးကြိုပြုကြသကဲ့သို့ ကိယာမတ်နေ့တွင် မှစ်လင်မ် သူတော်စင်များ ဂျန္နတ်သို့ ဝင်ကြသည့်အခါ ဂျန္နတ်မှူးများဖြစ်ကြသော ကောင်းကင်တမန်များက ခရီးဦးကြိုပြုကာ မေတ္တာပို့သကြမည်၊ နှုတ်ခွန်း ဆက်သကြမည်၊ ချီးမွမ်းစကား ပြောကြားကြမည်၊ ဂျန္နတ်တွင် အမြဲထာဝစဉ် စံမြန်းကြပါကုန်ဟူ၍ ကောင်းချီးသတင်းပေးကြမည်။

(၁) မှစ်လင်မ် သူတော်စင်များသည် လူ့လောကတွင် ရှိနေခဲ့ကြစဉ်က တမန်တော်များမှတစ်ဆင့် အလ္လာဟ်အရှင်မြတ် ထားရှိတော်မူခဲ့သော ကတိတော်များကို ယခု ဂျန္နတ်တွင် မျက်ဝါးထင်ထင် တွေ့မြင်ကြရသောအခါ အလ္လာဟ်အရှင်မြတ်၏ ကတိတော်သည် မှန်ကန်ပါဘိတကား၊ အလ္လာဟ်အရှင်မြတ်သည် ကတိတော်အတိုင်း ကျွန်တော်မျိုးတို့အား ဂျန္နတ်တွင် စံမြန်းခွင့်ပြုတော်မူလေပြီတကား၊ ကျွန်တော်မျိုးတို့သည် ဂျန္နတ်တွင် အလိုရှိရာဌာနများ၌ လွတ်လပ်စွာ နေနိုင်ကြပါပြီတကားဟု ကျူးရင့်ကာ အလ္လာဟ်အရှင်မြတ်အား ချီးမွမ်းထောပနာ ပြုကြပေမည်။ အလိုက်သည်းလိုက် ကျေးဇူးတင်ကြပေမည်။

وَتَرَى الْمَلٰٓئِكَةَ حَآفِّيْنَ مِنْ حَوْلِ الْعَرْشِ يُسَبِّحُوْنَ بِحَمْدِ رَبِّهِمْ ۚ وَقُضِىَ بَيْنَهُمْ بِالْحَقِّ وَقِيْلَ الْحَمْدُ لِلّٰهِ رَبِّ الْعٰلَمِيْنَ ﴿٧٥﴾

၇၅။ ထိုမှတစ်ပါး (အို–နဗီတမန်တော်) အသင်သည် "မလာအိကဟ်" ကောင်းကင်တမန်တို့အား "အရ်ရှ်" ပလ္လင်တော်၏ပတ်လည်၌ ဝန်းရံလျက် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ချီးမွမ်းထောပနာပြုခြင်းနှင့်တကွ (ထိုအရှင်မြတ်) စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုလျက်ရှိကြသည်ကို တွေ့မြင်ရပေမည်။

ထို့ပြင် ထို(လူသား)တို့၏ အကြားဝယ် တိကျမှန်ကန်စွာ (စစ်ဆေး)စီရင်ဆုံးဖြတ်ပြီး ဖြစ်ပေမည်။ ထိုမှတစ်ပါး "ချီးမွမ်းထောပနာ အပေါင်းတို့သည် စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်နှင့်သာ သက်ဆိုင်သည်" ဟူ၍ ပြောဆို(ချီးကျူးသြဘာပေး)ခြင်းကို ကြားရပေအံ့သတည်း။

# အီမာန်ယုံကြည်သူကဏ္ဍ



ဤကဏ္ဍသည် 'မုအ်မင်န်' အီမာန် ယုံကြည်သူ ကဏ္ဍမည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၈၅)ပါး၊ (ရုကူအ်) အပိုဒ် (၉)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

حٰمٓ ①

၁။ ဟာ၊ မီမ်။

تَنْزِيْلُ الْكِتٰبِ مِنَ اللّٰهِ الْعَزِيْزِ الْعَلِيْمِ ②

၂။ ဤသည် လွန်စွာ နိုင်နင်းလွှမ်းမိုးတော်မူသော အလွန်တရာ အသိပညာနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်မှ ချပေးသနားတော်မူသော ကျမ်းဂန်ပင် ဖြစ်ပေသည်။

غَافِرِ الذَّنْبِ وَقَابِلِ التَّوْبِ شَدِيْدِ الْعِقَابِ ذِى الطَّوْلِ لَآ اِلٰهَ اِلَّا هُوَ اِلَيْهِ الْمَصِيْرُ ③

၃။ (ထိုအရှင်မြတ်သည်) ပြစ်မှုဒုစရိုက်များကို ခွင့်လွှတ်ချမ်းသာ ပေးတော်မူသောအရှင်၊ ဝန်ချတောင်းပန်ခြင်းကို သဘောတူ လက်ခံတော်မူသော အရှင်၊ ပြင်းထန်စွာ ပြစ်ဒဏ်စီရင်တော်မူသော အရှင်၊ စွမ်းရည်သတ္တိနှင့်ပြည့်စုံတော်မူသော (ရက်ရောစွာ ပေးကမ်းစွန့်ကြဲတော်မူသော)အရှင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်မှတစ်ပါး ဆည်းကပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျင်းမရှိပေ။ နောက်ဆုံး ပြန်လည်ရာစခန်းသည် ထိုအရှင်မြတ်အထံတော်၌ပင်ဖြစ်ပေသတည်း၊[၁]

---

(၁) ဤကျမ်းဂန်မှာ သာမန်ကျမ်းဂန်မဟုတ်။ အရာရာကို နိုင်နင်းလွှမ်းမိုးတော်မူသော၊ အရာရာကို အကြွင်းမဲ့ သိတော်မူသော၊ ပြစ်မှုများကို ခွင့်လွှတ်တော်မူသော၊ ဝန်ချတောင်းပန်မှုကို လက်ခံသဘောတူတော်မူသော၊ ပြင်းထန်စွာ ပြစ်ဒဏ်ခတ်တော်မူသော၊ အရာရာကို ပြုစွမ်းတော်မူနိုင်သော၊ အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန် ဖြစ်တော်မူသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားကိုးကွယ်ရာဟူ၍ အလျှင်းမရှိပြီ။ အားလုံးတို့သည် ➤➤

مَا يُجَادِلُ فِيٓ ءَايَٰتِ ٱللَّهِ إِلَّا ٱلَّذِينَ كَفَرُواْ فَلَا يَغۡرُرۡكَ تَقَلُّبُهُمۡ فِي ٱلۡبِلَٰدِ ④

၄။ အလ္လာဟ်အရှင်မြတ်၏ အာယတ် အမိန့်တော်များနှင့်စပ်လျဉ်း၍ "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့သည်သာလျှင် အငြင်းအခုံ ပြုလေ့ရှိကြကုန်၏။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) တိုင်းပြည်နိုင်ငံများတွင် ၎င်းတို့၏ လှည့်ပတ်သွားလာ လှုပ်ရှားမှုသည် အသင့်အား ဖြားယောင်းခြင်း မရှိစေရ။ [၁]

كَذَّبَتۡ قَبۡلَهُمۡ قَوۡمُ نُوحٖ وَٱلۡأَحۡزَابُ مِنۢ بَعۡدِهِمۡۖ وَهَمَّتۡ كُلُّ أُمَّةِۭ بِرَسُولِهِمۡ لِيَأۡخُذُوهُۖ وَجَٰدَلُواْ بِٱلۡبَٰطِلِ لِيُدۡحِضُواْ بِهِ ٱلۡحَقَّ فَأَخَذۡتُهُمۡۖ فَكَيۡفَ كَانَ عِقَابِ ⑤

၅။ ဤသူတို့အလျှင် (နဗီတမန်တော်) "နူးဟ်" ၏အမျိုးသားတို့သည်လည်းကောင်း၊ ထို "နူးဟ်"၏ အမျိုးသားတို့၏နောက်တွင် (ပေါက်ဖွားခဲ့သော)အုပ်စုများသည်လည်းကောင်း၊ (ရစူလ်တမန်တော်များအား) မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြပေသည်။ ထို့ပြင် အုပ်စုတိုင်းသည် မိမိတို့(ထံ ပွင့်ရောက်ခဲ့သော) ရစူလ်တမန်တော်အား ဖမ်းဆီးရန် ကြံရွယ်ခဲ့ကြသည့်ပြင် ၎င်းတို့သည် အမှားကို လက်ကိုင်ထား၍ ယင်းအမှားဖြင့် အမှန်ကို တိမ်းပါးစေအံ့သောငှာ (ရစူလ်တမန်တော်များနှင့်) အငြင်းအခုံ ပြုခဲ့ကြလေသည်။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့အား ဖမ်းဆီးကွပ်မျက်ခဲ့ပေသည်။ ထို့နောက် ငါအရှင်မြတ်၏ အပြစ်ဒဏ်သည် မည်သို့ရှိခဲ့ဘိသနည်း။

---

▶▶ ထိုအရှင်မြတ်ထံတော်သို့ ပြန်လည်ရောက်ကြရမည် ဖြစ်သည်။ သို့ဖြစ်ရာ ထိုသို့သော ဂုဏ်တော်များနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကိုးကွယ်၍ ထိုအရှင်မြတ်၏ ကျမ်းဂန်လာ ဒေသနာတော်များကို ဦးထိပ် ပန်ဆင်ရန်သာ ရှိသည်။ ငြင်းခုံရန်အကြောင်း အလျှင်းမရှိပြီ။

(၁) အလ္လာဟ်အရှင်မြတ်၏ ဒေသနာတော်များနှင့် စပ်လျဉ်း၍ ကာဖိရ်များသာလျှင် အငြင်းအခုံ ပြုကြပေသည်။ ယင်းသို့ အငြင်းအခုံပြုသော ကာဖိရ်များသည် နောက်ဆုံးတွင် ပျက်စီးဆုံးရှုံးကြရမည်သာ ဖြစ်သည်။ ၎င်းတို့သည် မြို့ရွာများတွင် သွားလာလှုပ်ရှားနေကြသည်။ ဤသည်ကိုကြည့်၍ အထင်မမှားရာ။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ခေတ္တလျစ်လျူပြုထားတော် မူခြင်းသာလျှင်ဖြစ်သည်။ ၎င်းတို့သည် သွားလာလှုပ်ရှား၍ ခေတ္တခဏ လောကီစည်းစိမ်များကို ခံစားကြပါစေ၊ အမှန်တရားကို ဆန့်ကျင်ရန် ကြံစည်ကြပါစေ။ ဤသည့် အဖျက်လုပ်ငန်းများတွင်ပင် နစ်မွန်း၍နေကြပါစေ။ တစ်ရက် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ထိရောက်စွာ ▶▶

وَكَذٰلِكَ حَقَّتْ كَلِمَتُ رَبِّكَ عَلَى الَّذِيْنَ كَفَرُوْٓا اَنَّهُمْ اَصْحٰبُ النَّارِ ۟

၆။ စင်စစ်သော်ကား ဤနည်းအတိုင်းပင် "ကာဖိရ်" သွေဖည်ငြင်းပယ်သူတို့နှင့်ပတ်သက်၍ "ဇဟန်နမ်အမှန် ၎င်းတို့သည် ငရဲသားများ ဖြစ်ကြသည်" ဟူသော အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် (မိန့်ကြားတော်မူခဲ့သော) အမိန့်တော်သည် အတည် ဖြစ်ခဲ့ချေပြီတကား။ [၁]

اَلَّذِيْنَ يَحْمِلُوْنَ الْعَرْشَ وَمَنْ حَوْلَهٗ يُسَبِّحُوْنَ بِحَمْدِ رَبِّهِمْ وَيُؤْمِنُوْنَ بِهٖ وَيَسْتَغْفِرُوْنَ لِلَّذِيْنَ اٰمَنُوْا ۚ

၇။ "အရ်ရှ်" ပလ္လင်တော်ကို ထမ်းဆောင်လျက် ရှိကြကုန်သော ("မလာအိကဟ်"ကောင်းကင်တမန်) တို့သည်လည်းကောင်း၊ ယင်း "အရ်ရှ်" ပလ္လင်တော်၏ ပတ်လည်ဝန်းကျင်၌ရှိကြကုန်သော ("မလာအိကဟ်" ကောင်းကင်တမန်)တို့သည်လည်းကောင်း၊ မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ချီးမွမ်း ထောပနာပြုခြင်းနှင့်တကွ (ထိုအရှင်မြတ်) စင်ကြယ် သန့်ရှင်းတော်မူကြောင်း မြွက်ဆိုလျက် ရှိကြကုန်၏။ ထို့ပြင် ထိုကောင်းကင်တမန်တို့သည် ထိုအရှင်မြတ်အား သက်ဝင်ယုံကြည်ကြကုန်၏။ ထိုမှတစ်ပါး ၎င်းတို့သည် မုအ်မင်န် သက်ဝင်ယုံကြည်သောသူတို့အဖို့ (ဤသို့) လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားလျက်ရှိကြကုန်၏။

---

➤➤ အရေးယူတော်မူမည်မှာ အမှန်ပင်။ အတိတ်ခေတ် ကာဖိရ်များသည်လည်း အစပထမတွင် ဆိုးသွမ်းမိုက်မဲ နေခဲ့ကြပေသည်။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ အရေးယူတော်မူခြင်းကို ခံကြရပြီး မရှုမလှ ပျက်စီး ဆိတ်သုဉ်းသွားခဲ့ကြ ပေသည်။ လက်ရှိ ကာဖိရ်များသည်လည်း အချိန်မီ နောင်တမရကြပါက အတိတ်ခေတ် ကာဖိရ်များကဲ့သို့ပင် နောက်ဆုံးတွင် ပျက်စီးဆိတ်သုဉ်းသွားကြရမည်မှာ အမှန်ပင်။

(၁) ကာဖိရ်အုပ်စုတိုင်းသည် မိမိတို့ထံပွင့်လာသော တမန်တော်အား အမျိုးမျိုး အနှောင့်အယှက် ပေးခဲ့ကြသည် သာမက သတ်ဖြတ်ရန်ပင် ကြံစည်ခဲ့ကြသည်။ မမှန်ကန်သော ဝါဒများဖြန့်၍ အမှန်တရားကို ပျောက်ပျက်သွားရန် ကြိုးပမ်းခဲ့ကြသည်။ သို့တစေလည်း အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ အကြံအစည်၊ ကြိုးပမ်းမှုများကို ဘယ်သောအခါမှ အောင်မြင် ထမြောက်စေတော်မူခဲ့သည်မရှိ။ ၎င်းတို့သည် တမန်တော်များအား လုပ်ကြံ သတ်ဖြတ်နိုင်ရန် ဝေးစွ။ ၎င်းတို့သည်သာလျှင် ကွပ်မျက်ခြင်း ခံသွားခဲ့ကြရပေသည်။ အတိတ်ခေတ် ကာဖိရ်များ သည် မိမိတို့၏ မသမာမှုများကြောင့် ဤပစ္စက္ခတွင် ပြစ်ဒဏ်ကြီးငယ်ခံ၍ နောင်တမလွန်ဘဝတွင် ဂျဟန္နမ်ငရဲသို့ လားကြရမည်ဖြစ်သကဲ့သို့ ၎င်းတို့၏လမ်းစဉ်ကို ဖဝါးခြေထပ်လိုက်နာနေကြသော လက်ရှိ ➤➤

رَبَّنَا وَسِعْتَ كُلَّ شَيْءٍ رَّحْمَةً وَّعِلْمًا فَاغْفِرْ لِلَّذِيْنَ تَابُوْا وَاتَّبَعُوْا سَبِيْلَكَ وَقِهِمْ عَذَابَ الْجَحِيْمِ ⑦

အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ကရုဏာတော်အားဖြင့်လည်းကောင်း၊ အသိပညာအားဖြင့် လည်းကောင်း၊ ဝန်းခြုံလျက်ရှိတော်မူပါ၏။ သို့ဖြစ်ပါ၍ အရှင်မြတ်သည် အကြင်သူတို့အား ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူပါ။

ထိုသူတို့သည် ဝန်ချတောင်းပန်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် အရှင်မြတ်၏လမ်းကိုလည်း လိုက်ကြကုန်၏။ ထိုမှတစ်ပါး အရှင်မြတ်သည် ၎င်းတို့အား "ဂျဟန္နမ်" ငရဲဘုံ၏ ပြစ်ဒဏ်မှလည်း ကင်းလွတ်စေတော်မူပါ။

رَبَّنَا وَاَدْخِلْهُمْ جَنّٰتِ عَدْنِ ۨالَّتِيْ وَعَدْتَّهُمْ وَمَنْ صَلَحَ مِنْ اٰبَآئِهِمْ وَاَزْوَاجِهِمْ وَذُرِّيّٰتِهِمْ ؕ اِنَّكَ اَنْتَ الْعَزِيْزُ الْحَكِيْمُ ۙ⑧

၈။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ၎င်းပြင် အရှင်မြတ်သည် ထိုသူတို့အား အရှင်မြတ် ၎င်းတို့အား ကတိပြုတော်မူခဲ့သည့် အမြဲထာဝရ နေထိုင်ရအံ့သော ဥယျာဉ်များသို့လည်း ဝင်ရောက်စေတော်မူပါ။ ထို့ပြင် ထိုသူတို့၏ ဖခင်တို့အနက်မှလည်းကောင်း၊ ထိုသူတို့၏ သား၊ မြေး၊ မြစ်တို့အနက်မှလည်းကောင်း၊ (ဂျန္နတ်နှင့်) သင့်လျော်ကြကုန်သောသူတို့အားလည်း (ယင်း အမတ သုခဥယျာဉ်များသို့ ဝင်ရောက်စေတော်မူပါ၊) ဧကန်မလွဲ အရှင်မြတ်သည်ပင် လွန်စွာနိုင်နင်းလွှမ်းမိုးတော်မူသော အရှင်၊ ဆင်ခြင်တုံတရားနှင့် အလွန်တရာ ပြည့်စုံတော်မူသော အရှင် ဖြစ်တော်မူပါ၏။

➤➤ ကာဖိရ်များသည်လည်း မိမိတို့၏ ဆရာ ဆရာများကဲ့သို့ပင် နစ်ဘဝစလုံးတွင် ဆုံးရှုံးကြရမည်မှာ အမှန်ပင်။

وَقِهِمُ السَّيِّاٰتِ ۗ وَمَنْ تَقِ السَّيِّاٰتِ يَوْمَئِذٍ فَقَدْ رَحِمْتَهٗ ۗ وَذٰلِكَ هُوَ الْفَوْزُ الْعَظِيْمُ ۝٩

၉။ ထိုမှတစ်ပါး အရှင်မြတ်သည် ၎င်းတို့အား ဘေးဒုက္ခတို့မှလည်း လွတ်ကင်းစေတော်မူပါ။ စင်စစ်သော်ကား အရှင်မြတ်သည် ထိုနေ့တွင် အကြင်သူအား ဘေးဒုက္ခတို့မှ ကင်းလွတ်စေတော်မူခဲ့ပါလျှင် အရှင်မြတ်သည် အမှန်စင်စစ် ထိုသူအား သနားကရုဏာပြုတော်မူခဲ့သည်သာ စင်စစ်သော်ကား ဤသည်သာလျှင် ကြီးကျယ်မြင့်မြတ်လှစွာသော အောင်မြင်မှုတည်း။ [၁]

اِنَّ الَّذِيْنَ كَفَرُوْا يُنَادَوْنَ لَمَقْتُ اللّٰهِ اَكْبَرُ مِنْ مَّقْتِكُمْ اَنْفُسَكُمْ اِذْ تُدْعَوْنَ اِلَى الْاِيْمَانِ فَتَكْفُرُوْنَ ۝١٠

၁၀။ ဧကန်စင်စစ် ("ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင်) "ကာဖိရ်" သွေဖည်ငြင်းပယ်ခဲ့ကြသောသူတို့သည် (ဤသို့) ဟစ်ခေါ်(ပြောဆို)ခြင်းကို ခံကြရပေမည်။ "အသင်တို့သည် (ယခု) မိမိတို့ကိုယ်ကို မုန်းတီးစက်ဆုပ်၍ နေကြသည်ထက် အသင်တို့သည် "အီမာန်" သက်ဝင်ယုံကြည်မှုသို့ ဖိတ်ခေါ်ခြင်းကို ခံခဲ့ကြရစဉ် အသင်တို့ ငြင်းပယ်ခဲ့ကြသောအခါ၌ အမှန်ပင် (အသင်တို့အား) အလ္လာဟ်အရှင်မြတ်သည်သာ ပို၍ပင် မုန်းတီးစက်ဆုပ်တော်မူခဲ့၏"။

---

(၁) အလ္လာဟ်အရှင်မြတ်၏ ပလ္လင်တော်ကို ထမ်းဆောင်လျက်ရှိကြကုန်သော၊ ထိုပလ္လင်တော်၏ ပတ်ဝန်းကျင်၌ ရှိကြကုန်သော ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်အား အခါခပ်သိမ်း ဂုဏ်တော်မွမ်းလျက် ရှိကြကုန်၏။ ထိုသို့ အလ္လာဟ်အရှင်မြတ်၏ ထံတော်ပါး၌ အမြဲထာဝစဉ် ခံစားလျက် ရှိကြကုန်သော ကောင်းကင်တမန်များကပင်လျှင် အလ္လာဟ်အရှင်မြတ်ထံတော်၌ အီမာန် သက်ဝင်ယုံကြည်ကြကုန်သော မုအ်မင်န်များအဖို့ လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူပါမည့်အကြောင်း လျှောက်ထားလျက် ရှိကြကုန်၏။

ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို ဦးလည်မသုန် နာခံကြသည်သာ ဖြစ်ကြပေရာ ယင်းသို့ မုအ်မင်န်သူတော်စင်များအဖို့ လွတ်ငြိမ်းခွင့် လျှောက်ထားကြခြင်းမှာလည်း ထိုအရှင်မြတ်၏ ခွင့်ပြုချက်အရသာလျှင် ဖြစ်ရပေမည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် မုအ်မင်န်သူတော်စင်များ၏ ဂုဏ်အင်ဒြပ်ကား အဘယ်မျှ ကြီးကဲမြင့်မြတ်သည်ကို ကောင်းစွာသိနိုင်ပေသည်။

အလ္လာဟ်အရှင်မြတ်ထံတော်၌ မုအ်မင်န်များအဖို့ ကောင်းကင်တမန်များ မည်သို့မည်ပုံ ဆုပန်ကြသည့်အကြောင်း၊ ဤအာယတ်တော်များတွင် တိုတုပ် သိပ်သည်းစွာ ပါရှိပေသည်။

قَالُوا رَبَّنَآ أَمَتَّنَا اثْنَتَيْنِ وَأَحْيَيْتَنَا اثْنَتَيْنِ فَاعْتَرَفْنَا بِذُنُوبِنَا فَهَلْ إِلَىٰ خُرُوجٍ مِّن سَبِيلٍ ⑪

၁၁။ (ထိုရောအခါဝယ်) ၎င်းတို့သည် (ဤသို့) လျှောက်ထားပန်ကြားကြပေမည်။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား နှစ်ကြိမ်တိုင်တိုင် သူသေများအဖြစ်နှင့်ထားရှိတော်မူခဲ့ပါသည်၊ ထိုနည်းတူစွာ အရှင်မြတ်သည် နှစ်ကြိမ်တိုင်တိုင် ကျွန်တော်မျိုးတို့အား အသက်ရှင်စေတော်မူခဲ့ပါသည်။ [၁] ယခုသော်ကား ကျွန်တော်မျိုးသည် မိမိတို့၏ အပြစ်များကို ဝန်ခံကြပါပြီ။ သို့ဖြစ်ပါ၍ (ဤဒုက္ခမှ) လွတ်မြောက်ရန်နည်းလမ်း တစ်စုံတစ်ရာ ရှိပါ၏လော။

ذَٰلِكُم بِأَنَّهُۥٓ إِذَا دُعِىَ ٱللَّهُ وَحْدَهُۥ كَفَرْتُمْ ۖ وَإِن يُشْرَكْ بِهِۦ تُؤْمِنُوا۟ ۚ فَٱلْحُكْمُ لِلَّهِ ٱلْعَلِىِّ ٱلْكَبِيرِ ⑫

၁၂။ ယင်း(ကဲ့သို့ ထာဝရ ပြစ်ဒဏ်ခံကြရခြင်း)၏ အကြောင်းမှာ အလ္လာဟ်အရှင်မြတ် တစ်ဆူတည်းသာလျှင် ဟစ်ခေါ်တမ်းတခြင်း ခံရတော်မူသောအခါ၊ အသင်တို့သည် ငြင်းပယ်လေ့ရှိခဲ့ကြကုန်၏။ သို့ရာတွင် (တစ်စုံတစ်ရာကို) ထိုအရှင်မြတ်နှင့် တွဲဖက်နှိုင်းယှဉ်ပါသော် အသင်တို့သည် ယုံကြည်လက်ခံလေ့ ရှိကြကုန်၏။ သို့ဖြစ်ပေရာ (ယခုသော်) စီရင်ဆုံးဖြတ်မှု (အာဏာ)သည် လွန်စွာမြင့်မြတ်ကြီးကဲလှတော်မူသော အလ္လာဟ်အရှင်မြတ်၌သာ ရှိချေသည်။

---

(၁) ကာဖိရ်များသည် လူ့လောက၌ ရှိနေခဲ့ကြစဉ် သေပြီးနောက် ပြန်လည်ရှင်ထကြရမည်ဟူသော အချက်ကို ငြင်းပယ်ခဲ့ကြသည်။ ကိယာမတ်နေ့တွင် ပြန်လည်ရှင်ထကြရသည်ကို မိမိတို့ကိုယ်တိုင် မျက်ဝါးထင်ထင် တွေ့မြင်ကြရသောအခါ မိမိတို့၏အမှားကို ဝန်ခံပြောဆိုကြပေမည်။

ဤအာယတ်တော်တွင် ပါရှိသော သေခြင်းနှစ်ရပ်၊ ရှင်ခြင်းနှစ်ရပ် ဟူသည် လူသားတို့သည် အစပထမတွင် မြေ၊ သို့မဟုတ် သုတ်ရည်ဘဝ၌ ရှိခဲ့ကြပေသည်။ အသေများပင် ဖြစ်ခဲ့ကြပေသည်။ ထို့နောက် အသက်ဇီဝိန် သက်ဝင်လာသောအခါ ရှင်လာခဲ့ကြပေသည်။ ထို့နောက်တစ်ဖန် သေခဲ့ကြရသည်။ ထို့နောက် ယခုတစ်ဖန် ရှင်ပြန်ထခဲ့ကြရပြီ။ ဤသည် သေခြင်းနှစ်ရပ်၊ ရှင်ခြင်းနှစ်ရပ်ပင်။ ဤသည့် သဘောကို ကုရ်အာန်ကျမ်းမြတ် (၂း၂၈)တွင်လည်း မိန့်ဆိုထားတော်မူသည်။

هُوَ الَّذِىۡ يُرِيۡكُمۡ اٰيٰتِهٖ وَيُنَزِّلُ لَـكُمۡ مِّنَ السَّمَآءِ رِزۡقًا‌ ؕ وَمَا يَتَذَكَّرُ اِلَّا مَنۡ يُّنِيۡبُ ⑬

၁၃။ ထိုအရှင်မြတ်သည်ပင် အသင်တို့အား မိမိ သက်သေလက္ခဏာတော်များကို ပြသတော်မူ၏။ ထို့မှ တစ်ပါး ထိုအရှင်မြတ်သည်ပင် အသင်တို့အဖို့ မိုး ကောင်းကင်မှ စားနပ်ရိက္ခာကို ချပေးသနားတော်မူ၏။ သို့ရာတွင် (ထိုအရှင်မြတ်ဘက်သို့) ပြန်လှည့်သော သူသည်သာလျှင် စဉ်းစားဆင်ခြင်တရား ရယူလေ့ ရှိပေသည်။ [၁]

فَادۡعُوا اللّٰهَ مُخۡلِصِيۡنَ لَهُ الدِّيۡنَ وَلَوۡ كَرِهَ الۡـكٰفِرُوۡنَ ⑭

၁၄။ သို့ဖြစ်ပေရာ "ကာဖိရ်" သွေဖည်ငြင်းပယ် သောသူတို့သည် မနှစ်မြို့ကြငြားသော်လည်း အသင် တို့သည် ဆည်းကပ်ကိုးကွယ်မှုကို အလ္လာဟ်အရှင်မြတ် အတွက် သန့်သန့်ပြုကြလျက် ထိုအရှင်မြတ်အားသာ လျှင် တသကြလေကုန်။

رَفِيۡعُ الدَّرَجٰتِ ذُو الۡعَرۡشِ‌ ۚ يُلۡقِى الرُّوۡحَ مِنۡ اَمۡرِهٖ عَلٰى مَنۡ يَّشَآءُ مِنۡ عِبَادِهٖ لِيُنۡذِرَ يَوۡمَ التَّلَاقِ ⑮

၁၅။ (ထိုအရှင်မြတ်သည်) ဂုဏ်ရည်အဆင့်အတန်း များကို မြှင့်ပေးတော်မူသော မြင့်မြတ်သော ဂုဏ်ရည် အဆင့်အတန်းများနှင့် ပြည့်စုံတော်မူသော "အရ်ရှ်" ပလ္လင်တော်ကို စိုးပိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် "ဝဟ်ယ်" ထုတ်ပြန် ချက်တည်းဟူသော မိမိအမိန့်တော်ကို မိမိကျွန်တို့ အနက်မှ မိမိအလိုရှိတော်မူသောသူ၏ အပေါ်ဝယ် ချပေးတော်မူ၏။ (ယင်းသို့ ချပေးတော်မူခြင်းမှာ) ထိုကျွန်သည် စုရုံးမည့်နေ့ (ဝါ) "ကိယာမတ်" ရှင်ပြန် ထမည့်နေ့နှင့်စပ်လျဉ်း၍ (လူတို့အား) သတိပေးနိုးဆော် အံ့သောငှာ ဖြစ်ပေသည်။

(၁) အလ္လာဟ်အရှင်မြတ်သည် မိမိတစ်ပါးတည်း ရှိတော်မူကြောင်း၊ မိမိသည် အနန္တတန်ခိုးတော်ရှင် ဖြစ်တော် မူကြောင်းနှင့် စပ်လျဉ်း၍ လူသားတို့အား အရာရာတွင် သက်သေလက္ခဏာများကို ပြထားတော်မူသည်။ လူသားသည် ယုတ်စွအဆုံး နေ့စဉ်နှင့်အမျှ မိမိမှီဝဲစားသုံးနေသော အစာအာဟာရကိုပင် စေ့စေ့ငုငု စဉ်းစား ဆင်ခြင်ပါက ဤပြဿနာကို အလွယ်တကူ နားလည်သဘောပေါက်နိုင်ပေသည်။ သို့ရာတွင် အချို့လူသားသည် သို့ စဉ်းစားဆင်ခြင်ရန် ဝေးစွ၊ မေ့မှား၍မျှ အိပ်မက်တွင်မျှ မမြင်မက်ခဲ့ပေ။ ဤသို့ မိမိ၏အာရုံအရပ်ရပ်ကို ➤➤

يَوْمَ هُمْ بَارِزُونَ ۚ لَا يَخْفَىٰ عَلَى اللَّهِ مِنْهُمْ شَيْءٌ ۚ لِمَنِ الْمُلْكُ الْيَوْمَ ۖ لِلَّهِ الْوَاحِدِ الْقَهَّارِ ﴿١٦﴾

၁၆။ အကြင်နေ့တွင် ၎င်းတို့သည် (မိမိတို့၏ သင်္ချိုင်းများအတွင်းမှ ထိုအရှင်မြတ်၏)ရှေ့တော်မှောက်သို့ ထွက်လာကြရပေမည်။ (ထိုနေ့တွင်) ၎င်းတို့နှင့် ပတ်သက်၍ မည်သည့်တစ်စုံတစ်ရာမျှပင် အလ္လာဟ် အရှင်မြတ်၌ ဖုံးကွယ်၍ နေမည်မဟုတ်ပေ။ (ထိုနေ့တွင် ထိုအရှင်မြတ်က) "စိုးမိုးအုပ်ချုပ်သည့် အာဏာသည် ယနေ့ မည်သူ့၌ ရှိချေသနည်း"(ဟု မိန့်ကြားတော်မူပေမည်။ တဖန် မိမိကိုယ်တော်တိုင်) တစ်ဆူတည်းဖြစ်တော်မူသော၊ အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော အလ္လာဟ်အရှင်မြတ်၌သာရှိသည် (ဟု မိန့်ကြားတော်မူပေမည်)။ [၁]

اَلْيَوْمَ تُجْزٰى كُلُّ نَفْسٍۭ بِمَا كَسَبَتْ ۚ لَا ظُلْمَ الْيَوْمَ ۚ اِنَّ اللّٰهَ سَرِيْعُ الْحِسَابِ ﴿١٧﴾

၁၇။ ယနေ့သော်ကား လူတိုင်းလူတိုင်းသည် မိမိတို့ ရှာဖွေဆည်းပူးခဲ့သမျှနှင့်စပ်လျဉ်း၍ အစားပေးခြင်းကို ခံကြရပေမည်။ ယနေ့ မတရားပြုလုပ်မှုဟူ၍ကား အလျင်းမရှိပြီ။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ် သည် လျင်မြန်စွာ စာရင်းစစ်ဆေးတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ အဖက်ဖက်မှပိတ်ထားသော လူသားသည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များကို အသိုလျှင် မြင်နိုင်အံ့နည်း။ အမှန်မှာ အလ္လာဟ်အရှင်မြတ် ဘက်တော်သို့ ပြန်လှည့်သော၊ အာရုံပြုသော သူများသာလျှင် စဉ်းစားဆင်ခြင် တရားမြင်ကြပေသည်။

(၁) အမှန်မှာ စိုးမိုးအုပ်ချုပ်မှု အာဏာသည် လက်ရှိ ဤပစ္စက္ခတွင်လည်းကောင်း၊ နောင်တမလွန်ဘဝ၌ လည်းကောင်း၊ အခါခပ်သိမ်း အလ္လာဟ်အရှင်မြတ် တစ်ပါးတည်း၌သာ ရှိသည်။ ဤပစ္စက္ခတွင် မှချမဟုတ်သည့်တိုင် ဥပစာအားဖြင့် ငါ့အိမ်၊ ငါ့အိုး၊ ငါ့မင်း၊ ငါ့ချင်းဟု ပြောဆိုဝင့်ဝါသူများ ရှိကြသော်လည်း၊ ကိယာမတ်နေ့တွင်မူ ဥပစာအားဖြင့်ပင်လျှင် ပြောဆိုဝင့်ဝါနိုင်မည့်သူ တစ်ဦးတစ်ယောက်မျှပင် ရှိမည်မဟုတ်ပေ။ ခပ်သိမ်းကုန်သော စိုးမိုးအုပ်ချုပ်မှု အာဏာသည် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်း၌သာ တည်ရှိပေမည်။ အရာခပ်သိမ်းကုန်တို့သည် ထိုအရှင်မြတ်၏ ရှေ့တော်မှောက်တွင် ပျပ်ဝပ်ရိုကျိုးလျက် ရှိကြပေမည်။

وَأَنذِرْهُمْ يَوْمَ الْآزِفَةِ إِذِ الْقُلُوبُ لَدَى الْحَنَاجِرِ كَاظِمِينَ ۚ مَا لِلظَّالِمِينَ مِنْ حَمِيمٍ وَلَا شَفِيعٍ يُطَاعُ ﴿١٨﴾

**၁၈။** ထိုမှတစ်ပါး (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား နီးကပ်၍လာအံ့သော(ကိယာမတ်)နေ့နှင့်စပ်လျဉ်း၍ သတိပေးနှိုးဆော်ပါလေ။ ထိုရောအခါဝယ် စိတ်နှလုံးများမှာ လွန်စွာ ပူဆွေးသောကကိုချုပ်တည်းမျိုသိပ်လျက် လည်မျိုများသို့ ဆို့၍လာကြပေမည်။

(ထိုနေ့တွင်) မတရားကျူးလွန်သူတို့၌ ရင်းနှီးသော မိတ်ဆွေဟူ၍လည်း တစ်ဦးတစ်ယောက်မျှရှိလိမ့်မည် မဟုတ်ပေ။ ဩဇာညောင်းသော ကြားဝင်အသနားခံပေးအံ့သော သူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် ရှိလိမ့်မည် မဟုတ်ပေ။

يَعْلَمُ خَائِنَةَ الْأَعْيُنِ وَمَا تُخْفِي الصُّدُورُ ﴿١٩﴾

**၁၉။** ထိုအရှင်မြတ်သည် မျက်စိများ၏ သစ္စာဖောက်မှု ခိုးဝှက်မှုကိုလည်းကောင်း၊ စိတ်နှလုံးများကလျှို့ဝှက်ထားရှိသည်တို့ကိုလည်းကောင်း၊ သိရှိတော်မူ၏။

وَاللَّهُ يَقْضِي بِالْحَقِّ ۖ وَالَّذِينَ يَدْعُونَ مِن دُونِهِ لَا يَقْضُونَ بِشَيْءٍ ۗ إِنَّ اللَّهَ هُوَ السَّمِيعُ الْبَصِيرُ ﴿٢٠﴾

**၂၀။** စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် တရားသဖြင့် စီရင်ဆုံးဖြတ်တော်မူပေမည်။ သို့ရာတွင် ထိုအရှင်မြတ်အား စွန့်၍လည်းကောင်း၊ ("ကာဖိရ်" သွေဖည်ငြင်းပယ်သောသူ)တို့ဟစ်ခေါ် တသကြကုန်သော (၎င်းတို့၏) ကိုးကွယ်ရာတို့မှာမူကား မည်သို့မျှ စီရင်ဆုံးဖြတ်နိုင်ကြမည် မဟုတ်ပေ။

ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည်သာလျှင် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ မြင်တော်မူသောအရှင်ဖြစ်တော်မူပေသတည်း။

أَوَلَمْ يَسِيرُوا فِي الْأَرْضِ فَيَنظُرُوا كَيْفَ كَانَ عَاقِبَةُ الَّذِينَ كَانُوا مِن قَبْلِهِمْ ۚ كَانُوا هُمْ أَشَدَّ مِنْهُمْ قُوَّةً وَآثَارًا فِي الْأَرْضِ فَأَخَذَهُمُ اللَّهُ بِذُنُوبِهِمْ وَمَا كَانَ لَهُم مِّنَ اللَّهِ مِن وَاقٍ ﴿٢١﴾

၂၁။ ထိုသူတို့သည် ကမ္ဘာမြေဝယ် လှည့်လည်သွားလာခြင်း မပြုခဲ့ကြလေသလော၊ သို့ပြုခဲ့ကြလျှင်၊ ၎င်းတို့သည် မိမိတို့အလျင် ရှိခဲ့ဘူးကြသောသူတို့၏ နောက်ဆုံးအကျိုးသည် မည်သို့မည်ပုံ ရှိခဲ့သည်ကို မြင်ကြရပေမည်။

ထိုရှေးသူဟောင်းတို့သည် ထိုသူတို့ထက်ပင် သူရသတ္တိ၊ ခွန်အားဗလအားဖြင့်လည်းကောင်း၊ ပထဝီမြေဝယ် ချန်ရစ်ခဲ့ကြသော ခြေရာလက်ရာအားဖြင့်လည်းကောင်း၊ ပိုမို ထူးကဲသူများ ဖြစ်ခဲ့ကြပေသည်။ သို့တစေလည်း အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အား ၎င်းတို့၏ ပြစ်မှုဒုစရိုက်တို့ကြောင့် ဖမ်းဆီးကွပ်မျက်တော်မူခဲ့၏။ ၎င်းတို့၌ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်မှ လွတ်မြောက်စေမည့်သူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် မရှိခဲ့ပေ။ [၁]

ذَٰلِكَ بِأَنَّهُمْ كَانَت تَّأْتِيهِمْ رُسُلُهُم بِالْبَيِّنَاتِ فَكَفَرُوا فَأَخَذَهُمُ اللَّهُ ۚ إِنَّهُ قَوِيٌّ شَدِيدُ الْعِقَابِ ﴿٢٢﴾

၂၂။ ထိုသို့ (ဖမ်းဆီး ကွပ်မျက်ခြင်းခံခဲ့ကြရသည်မှာ) ၎င်းတို့၏ရစူလ်တမန်တော်များသည် ၎င်းတို့ထံ ထင်ရှားစွာသော သက်သေသာဓက အထောက်အထားများ ဆောင်ယူခဲ့လေ့ ရှိကြသော်လည်း ၎င်းတို့မှာမူကား ငြင်းပယ်လျက်ပင် ရှိခဲ့ကြသောကြောင့် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ဖမ်းဆီးကွပ်မျက်တော်မူခဲ့၏။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အလွန်တရာ ခွန်အားဗလနှင့် ပြည့်စုံတော်မူသော ပြင်းထန်စွာ ပြစ်ဒဏ်စီရင်တော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

---

(၁) (ကုဖ်ရ်) သွေဖည်မှု (ရှရစ်က်) ယှဉ်တွဲ ကိုးကွယ်မှုများ၏ ပြစ်ဒဏ်များမှာ မည်ရွေ့မည်မျှ ကြီးလေးသည်များကို ကြားနာရပြီးသည့်နောက်သော်မှပင် အမှုမဲ့ အမှတ်မဲ့နေကြသော ကာဖိရ်၊ မုရှ်ရစ်က်များသည် ကမ္ဘာတွင်လှည့်လည်၍ လေ့လာဆည်းပူးကြပါက ၎င်းတို့အလျင် အတိတ်ခေတ်များ၌ အဘက်ဘက်တွင် ၎င်းတို့ထက်သာခဲ့ကြသော ကာဖိရ်မုရှ်ရစ်က်တို့သည်ပင် သက်ဆိုင်ရာတမန်တော်များ၏ ဒေသနာတော်များကို သွေဖည်ငြင်းဆန်ခဲ့ကြ ➤➤

وَلَقَدۡ اَرۡسَلۡنَا مُوۡسٰی بِاٰیٰتِنَا وَسُلۡطٰنٍ مُّبِیۡنٍ ﴿٢٣﴾

၂၃။ ထို့ပြင် မလွဲဧကန် ငါအရှင်မြတ်သည် မူစာ အား ငါအရှင်မြတ်၏ အမိန့်ပညတ်တော်များအပြင် ထင်ရှားစွာသော သက်သေ လက္ခဏာတော်နှင့်တကွ စေလွှတ်တော်မူခဲ့၏။

اِلٰی فِرۡعَوۡنَ وَ هَامٰنَ وَقَارُوۡنَ فَقَالُوۡا سٰحِرٌ کَذَّابٌ ﴿٢٤﴾

၂၄။ "ဖစ်ရ်အောင်န်"၊ "ဟာမာန်" နှင့် "ကာရူန်" တို့ထံ။ ထိုအခါ ၎င်းတို့က (ထိုမူစာသည်) ပဉ္စလက် ဆရာတစ်ဦးသည်လည်းကောင်း၊ လွန်စွာ မုသားပြော ဆိုသူ တစ်ဦးသည်လည်းကောင်း၊ ဖြစ်သည်ဟု ပြော ဆိုခဲ့ကြ၏။

فَلَمَّا جَآءَهُمۡ بِالۡحَقِّ مِنۡ عِنۡدِنَا قَالُوا اقۡتُلُوۡۤا اَبۡنَآءَ الَّذِیۡنَ اٰمَنُوۡا مَعَهٗ وَاسۡتَحۡیُوۡا نِسَآءَهُمۡ ؕ وَمَا کَیۡدُ الۡکٰفِرِیۡنَ اِلَّا فِیۡ ضَلٰلٍ ﴿٢٥﴾

၂၅။ ထို့နောက် ထိုမူစာသည် ငါအရှင်မြတ် အထံ တော်မှ အမှန်တရားကိုဆောင်ယူ၍ ၎င်းတို့ထံ ရောက်ရှိ လာသောအခါ ၎င်းတို့က "အသင်တို့သည် ထို မူစာနှင့်အတူ 'အီမာန်' သက်ဝင်ယုံကြည်ခဲ့ကြသော သူတို့၏ သားယောကျ်ားကလေးများကို သတ်ဖြတ်ကြ ၍ ၎င်းတို့၏မိန်းမတို့ကိုမူကား သတ်ဖြတ်ခြင်းမပြုဘဲ အသက်ရှင်စွာ ထားရှိကြလေကုန်"ဟု ပြောဆိုခဲ့ကြ ကုန်၏။ သို့တစေလည်း "ကာဖိရ်" သွေဖည်ငြင်းပယ် ကြလေသောသူတို့၏အကြံအစည်မှာ လွဲမှားခဲ့သည်သာ။

وَقَالَ فِرۡعَوۡنُ ذَرُوۡنِیۡۤ اَقۡتُلۡ مُوۡسٰی وَلۡیَدۡعُ رَبَّهٗ ۚ اِنِّیۡۤ اَخَافُ اَنۡ یُّبَدِّلَ دِیۡنَکُمۡ

၂၆။ ထိုမှတစ်ပါး "ဖစ်ရ်အောင်န်" သည် (ဤသို့) ပြောဆိုခဲ့လေ၏။ "အသင်တို့သည် ငါ့အား မတားဆီး ကြကုန်လင့်။ ငါသည် မူစာအား သတ်ဖြတ်မည်။ ထို့ပြင် ထိုမူစာသည် ၎င်းကို ဖန်ဆင်းမွေးမြူတော် မူသော အရှင်မြတ်အား ဟစ်ခေါ်ပါစေ"။

---

▶▶ သည့်အခါ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ကွပ်မျက်တော်မူခဲ့သည့် အတိတ်ဖြစ်ရပ်များကို တွေ့မြင်ကြရပေမည်။ လက်ရှိ ကာဖိရ်၊ မုရှ်ရစ်က်များသည် ဤသည့် အတိတ်ဖြစ်ရပ်များမှ သင်ခန်းစာ မရယူကြပါက အတိတ်ခေတ် ကာဖိရ်၊ မုရှ်ရစ်က်များကဲ့သို့ပင် ကွပ်မျက်ခြင်းခံကြရမည်မှာ အမှန်မုချပင်။ ကြည့်-ကုရ်အာန် (၃၀း၉-၁၀)။

أَوْ أَن يُظْهِرَ فِى الْأَرْضِ الْفَسَادَ ﴿٢٦﴾

[(တစ်နည်း:) "အသင်တို့သည် ငါ့အား မူစာကို သတ်ဖြတ်ခြင်းမှ မတားဆီးကြကုန်လင့်၊ ထိုမူစာအားလည်း ၎င်း၏အရှင်မြတ်အား ဟစ်ခေါ်(အကူအညီတောင်းခံ)ပါစေ၊] အမှန်စင်စစ်သော်ကား ထိုမူစာသည် အသင်တို့၏သာသနာကို ပြောင်းလဲ(ဖျက်ဆီး)ပစ်မည် ကိုသော်လည်းကောင်း၊ တိုင်းပြည်၌ ပျက်စီးရာပျက်စီးကြောင်းကို ဖြစ်ပေါ်စေမည်ကိုသော်လည်းကောင်း၊ ငါသည် စိုးရိမ်မိ၏။

وَقَالَ مُوسَىٰٓ إِنِّى عُذْتُ بِرَبِّى وَرَبِّكُم مِّن كُلِّ مُتَكَبِّرٍ لَّا يُؤْمِنُ بِيَوْمِ الْحِسَابِ ﴿٢٧﴾

၂၇။ သို့ရာတွင် မူစာသည် (ဤသို့) ပြောကြားခဲ့လေ၏။ ဧကန်စင်စစ် ငါသည် စာရင်း မေးမြန်းမည့်နေ့ကို သက်ဝင်ယုံကြည်ခြင်းမရှိသော ဘဝင်မြင့်မာန်မာန ထောင်လွှားသူတိုင်း(၏ ဘေးရန်ခပ်သိမ်းတို့)မှ (ကင်းလွတ်အံ့သောငှာ) ငါ့အား လည်းကောင်း၊ အသင်တို့အား လည်းကောင်း၊ (အားလုံးတို့အား) ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ အကာအကွယ်ယူထားပြီး ဖြစ်သည်။

وَقَالَ رَجُلٌ مُّؤْمِنٌ مِّنْ ءَالِ فِرْعَوْنَ يَكْتُمُ إِيمَٰنَهُۥٓ أَتَقْتُلُونَ رَجُلًا أَن يَقُولَ رَبِّىَ ٱللَّهُ وَقَدْ جَآءَكُم بِٱلْبَيِّنَٰتِ مِن رَّبِّكُمْ ۖ وَإِن يَكُ كَٰذِبًا فَعَلَيْهِ كَذِبُهُۥ ۖ وَإِن يَكُ صَادِقًا يُصِبْكُم

၂၈။ ထို့ပြင် "ဖစ်ရ်အောင်န်" ၏ ဆွေမျိုးသားချင်းတို့အနက်မှ မိမိ "အီမာန်" ယုံကြည်မှုကို လျှို့ဝှက်၍ထားရှိလေသော "မုအ်မင်န်" ယောကျ်ားတစ်ဦးက (ဤသို့)ပြောဆိုခဲ့လေ၏။ "အသင်တို့သည် လူတစ်ယောက်အား ထိုသူက ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်မှာ အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူသည်"ဟု ပြောဆိုမှုကြောင့် သတ်ဖြတ်ကြမည်လော၊ အမှန်စင်စစ်သော်ကား ထိုသူသည် အသင်တို့ထံ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ ထင်ရှားစွာသော သက်သေ အထောက်အထားများကိုလည်း ယူဆောင်လာခဲ့လေ၏။

بَعْضُ الَّذِي يَعِدُكُمْ ۖ إِنَّ اللَّهَ لَا يَهْدِي مَنْ هُوَ مُسْرِفٌ كَذَّابٌ ﴿٢٨﴾

စင်စစ်သော်ကား အကယ်၍သာ ထိုသူသည် မုသားဝါဒီဖြစ်မူ ထိုသူ၏မုသားဝါဒသည် ၎င်း၏ အပေါ်၌သာကျရောက်ပေမည်။ သို့ရာတွင် အကယ်၍ ထိုသူသည် သစ္စာဝါဒီ ဖြစ်လျှင် အသင်တို့အား ထိုသူ ကြိုတင် ဗျာဒိတ် ပေးလျက်ရှိသည်တို့အနက် (ပြစ်ဒဏ်) တစိတ်တဒေသမှာ အသင်တို့၌ သက်ရောက်မည် ဖြစ်၏။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် စည်းကမ်းကျူးလွန်သော လွန်စွာမုသားပြောဆိုသောသူအား တရားလမ်းမှန်ကို ညွှန်ပြတော်မူသည်မဟုတ်ပေ။ [၁]

يَٰقَوْمِ لَكُمُ الْمُلْكُ الْيَوْمَ ظَٰهِرِينَ فِي الْأَرْضِ فَمَن يَنصُرُنَا مِنۢ بَأْسِ اللَّهِ إِن جَآءَنَا ۚ قَالَ

၂၉။ အို-ကျွန်ုပ်၏အမျိုးသားတို့၊ ယနေ့ အသင်တို့၌ သြဇာ၊ တိက္ကမ စိုးမိုးအုပ်ချုပ်မှုရှိနေ၍ အသင်တို့သည် တိုင်းပြည်အတွင်း လွှမ်းမိုးကြီးစိုးလျက်ရှိနေကြပေသည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်မှ အကယ်၍ ယင်းပြစ်ဒဏ်သည် ကျွန်ုပ်တို့၌ ဆိုက်ရောက်လာခဲ့သည်ရှိသော် ကျွန်ုပ်တို့အား မည်သူလွတ်မြောက်စေပါမည်နည်း။

---

① **ဖိရ်အောင်န်၏မျိုးနွယ်မှ မုအ်မင်န်သူတော်စင်၊**

ဖိရ်အောင်န်သည် တမန်တော်မူစာနှင့် တမန်တော်မူစာ တင်ပြနေသောဝါဒကို ဖျက်ဆီးရန် အမျိုးမျိုးကြံစည်ခဲ့သော်လည်း မအောင်မြင်သည့်အဆုံး၌ လက်နက်အားကိုးဖြင့် တမန်တော်မူစာအား သတ်ဖြတ်ရန် ကြုံးဝါးခဲ့လေသည်။ ထိုအခါ ဖိရ်အောင်န်၏ အမျိုးနွယ်မှပင် မိမိ၏ အီမာန်ယုံကြည်မှုကို အခြေအနေအရ လျှို့ဝှက်ထားခဲ့သော မုအ်မင်န် သူတော်စင်တစ်ဦးသည် မုအ်မင်န် တစ်ဦးပီပီ၊ မနေသာသည့်အဆုံး၌ ဖိရ်အောင်န်နှင့် ၎င်း၏ အမျိုးသားများအား "အသင်တို့သည် ပုဂ္ဂိုလ်တစ်ဦးအား မိမိ၏အရှင်မှာ အလ္လာဟ်အရှင်မြတ်ဖြစ်တော်မူပါသည်ဟုဆိုခြင်းကြောင့် သတ်ဖြတ်ကြတော့မည်လော၊ အမှန်မှာ ထိုပုဂ္ဂိုလ်သည် အသင်တို့ထံသို့ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်ထံတော်မှ ထင်ရှားသော သက်သေလက္ခဏာတော်များကိုလည်း ယူဆောင်လာခဲ့ချေပြီ။ အကယ်တန္တ ထိုပုဂ္ဂိုလ်သည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ မဟုတ်မမှန်သော စကားကိုဆိုပါက အလ္လာဟ်အရှင်မြတ်သည် ၎င်းအား လျစ်လျူပြုထားတော် မူမည်မဟုတ်၊ အရေးယူတော်မူမည်သာ ဖြစ်သည်။ ထိုပုဂ္ဂိုလ်အား သတ်ဖြတ်ရန်ပင်မလိုပေ။ အကယ်၍ထိုပုဂ္ဂိုလ်သည် မှန်ကန်သူဖြစ်နေပါက အသင်တို့သည် ထိုပုဂ္ဂိုလ်၏စကားကို သွေဖည်မိကြပါက အသင်တို့၌ပင် ဘေးအန္တရာယ် သက်ရောက်မည်ဖြစ်သည်။ သို့ဖြစ်ရာ ထိုပုဂ္ဂိုလ်အား သွေဖည်ဆန့်ကျင်ရန်လည်းမလို၊ သတ်ဖြတ်ရန်လည်းမလို" ဟု ကျိုးကြောင်းပြကာ ဝင်ရောက်ပြောဆိုခဲ့လေသည်။

فِرْعَوْنُ مَآ أُرِيكُمْ إِلَّا مَآ أَرَىٰ وَمَآ أَهْدِيكُمْ إِلَّا سَبِيلَ ٱلرَّشَادِ ﴿٢٩﴾

(ထိုအခါ) "ဖစ်ရ်အောင်န်က (အချင်းတို့၊) ငါသည် မိမိ ထင်မြင်ယူဆချက်ကိုသာ အသင်တို့အား အကြံပေးခြင်းဖြစ်သည်။ ထို့မှတစ်ပါး ငါသည် အသင်တို့အား သင့်လျော်မှန်ကန်သော နည်းလမ်းမှ တစ်ပါး တခြားမည်သည့်ကိုမှ ညွှန်ပြသည်မဟုတ်" ဟု ပြောဆိုခဲ့ပေသည်။[၁]

وَقَالَ ٱلَّذِىٓ ءَامَنَ يَٰقَوْمِ إِنِّىٓ أَخَافُ عَلَيْكُم مِّثْلَ يَوْمِ ٱلْأَحْزَابِ ﴿٣٠﴾

၃၀။ ထို့မှတစ်ပါး (ထို)"မုအ်မင်န်" သက်ဝင် ယုံကြည်သူသည် (ဤသို့) ပြောကြားခဲ့ပြန်လေ၏။ အို-ကျွန်ုပ်၏ အမျိုးသားတို့၊ ဧကန်စင်စစ် ကျွန်ုပ်သည် အသင်တို့အပေါ်၌(ရှေးအထက်ကျော်ကာလက) ဘာသာဝင် အုပ်စုများနည်းတူ (ဆိုးရွားသော)နေ့ (ဆိုက်ရောက်လာမည်)ကို စိုးရိမ်မိ၏။

مِثْلَ دَأْبِ قَوْمِ نُوحٍ وَعَادٍ وَثَمُودَ وَٱلَّذِينَ مِنۢ بَعْدِهِمْ ۚ وَمَا ٱللَّهُ يُرِيدُ ظُلْمًا لِّلْعِبَادِ ﴿٣١﴾

၃၁။ (နဗီတမန်တော်) "နူးဟ်" ၏အမျိုးသားတို့၏အခြေအနေကဲ့သို့လည်းကောင်း၊ "အာဒ်" အမျိုးသားတို့အခြေအနေကဲ့သို့လည်းကောင်း၊ "ဆမူဒ်" အမျိုးသားတို့၏အခြေအနေကဲ့သို့လည်းကောင်း၊ ထိုသို့သော အမျိုးသားတို့၏ နောက်ရှိခဲ့ဘူးကြသောသူတို့၏ အခြေအနေကဲ့သို့လည်းကောင်း၊ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် (မိမိ) ကျွန်တို့ အပေါ်ဝယ် မည်သို့မျှမတရား ပြုလုပ်တော်မူသည် မဟုတ်ပေ။

---

(၁) ထိုမုအ်မင်န် သူတော်စင်က ဆက်လက်၍ "အို-ကျွန်ုပ်၏ အမျိုးသားများ၊ ယနေ့အသင်တို့သည် မိမိတို့၏ဥစ္စာဓနေ၊ ခွဲရုံသင်းပင်း၊ စစ်သည်အင်အား ကြီးမားများပြားသည်ကိုအကြောင်းပြု၍ မာန်မာန ထောင်လွှားလျက် ရှိကြပေသည်။ အမှန်မှာ ဤသည်တို့ကို အကြောင်းပြု၍ ကြွားဝါရန်မဟုတ်။ အသင်တို့၏ ပြစ်မှုများကြောင့် နက်ဖြန် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သည် အသင်တို့၌ သက်ရောက်လာခဲ့သည်ရှိသော်၊ အသင်တို့အား မည်သူမျှ ကာကွယ်နိုင်မည်မဟုတ်ပေ။ ထိုအခါ အသင်တို့သည် ကျိုးယုတ်ရက်ရ ပျက်စီးခြင်းကြီးမလုပျက်စီး ကြရပေမည်ဟု သတိပေးခဲ့လေသည်။ ထိုအခါ ဖိရ်အောင်န်က ငါသည် မိမိကိုယ်တိုင် လျော်ကန်သင့်မြတ်သည်ဟု ထင်မြင်ယူဆသောအရာကိုသာ အသင်တို့အားဘင်ပြခြင်းဖြစ်သည်။ ငါ့ထံမှာ အကောင်းဆုံး လမ်းစဉ်မှာ ဤသူ(တမန်တော်မူစာ)အား သတ်ဖြတ်၍ လုံးဝသန့်ရှင်းလိုက်ခြင်းပင်ဖြစ်သည်"ဟု လူမိုက်စကားပြောကြားခဲ့လေ၏။

وَيٰقَوْمِ اِنِّىٓ اَخَافُ عَلَيْكُمْ يَوْمَ التَّنَادِ ۝٣٢

၃၂။ ထိုမှတစ်ပါး အို-ကျွန်ုပ်၏အမျိုးသားတို့၊ ဧကန်မလွဲ ကျွန်ုပ်သည် အသင်တို့နှင့်ပတ်သက်၍ ဟစ်အော်မည့်နေ့(၏အပြစ်ဒဏ်)ကိုလည်းစိုးရိမ်၏။ ①

يَوْمَ تُوَلُّوْنَ مُدْبِرِيْنَ ۚ مَا لَكُمْ مِّنَ اللّٰهِ مِنْ عَاصِمٍ ۚ وَمَنْ يُّضْلِلِ اللّٰهُ فَمَا لَهٗ مِنْ هَادٍ ۝٣٣

၃၃။ အကြင်နေ့တွင် အသင်တို့သည် ကျောခိုင်း၍ ထွက်ပြေးကြပေမည်။ (ထိုနေ့တွင်) အလ္လာဟ်အရှင်မြတ်အား ဆန့်ကျင်၍ ကာကွယ်စောင့်ရှောက်အံ့သောသူဟူ၍ တစ်ဦးတစ်ယောက်မျှပင် အသင်တို့၌ ရှိလိမ့်မည်မဟုတ်ပေ။ စင်စစ်သော်ကား မည်သူ့ကိုမဆို အလ္လာဟ်အရှင်မြတ်သည် လမ်းမှား၌ (ဆက်လက်၍) ထားရှိတော်မူပါလျှင် ထိုသူ၌ လမ်းမှန်သို့ ပို့ပေးအံ့သောသူဟူ၍ တစ်ဦးတစ်ယောက်မျှမရှိပေ။

وَلَقَدْ جَآءَكُمْ يُوْسُفُ مِنْ قَبْلُ بِالْبَيِّنٰتِ فَمَا زِلْتُمْ فِىْ شَكٍّ مِّمَّا جَآءَكُمْ بِهٖ ۗ حَتّٰٓى اِذَا هَلَكَ قُلْتُمْ لَنْ يَّبْعَثَ اللّٰهُ مِنْ بَعْدِهٖ رَسُوْلًا ۗ كَذٰلِكَ يُضِلُّ اللّٰهُ مَنْ هُوَ مُسْرِفٌ مُّرْتَابُ ۝٣٤

၃၄။ ထိုမှတစ်ပါး ဧကန်မလွဲ (နဗီတမန်တော်) ယူစွဖ်သည် အသင်တို့ထံ ရှေးဦးမဆွက သက်သေအထောက်အထားများ ယူဆောင်ခဲ့လေ၏။ သို့ရာတွင် အသင်တို့သည် ထို(နဗီတမန်တော်)ယူစွဖ် ယူဆောင်ခဲ့သည်တို့နှင့်စပ်လျဉ်း၍ ဒွိဟသံသယ၌ပင် ရှိမြဲရှိနေခဲ့ကြကုန်၏။ နောက်ဆုံးတွင် အသင်တို့သည် ထို(နဗီတမန်တော်)ယူစွဖ် ကွယ်လွန်ခဲ့လေသောအခါ အလ္လာဟ်အရှင်မြတ်သည် ထို(နဗီတမန်တော်)ယူစွဖ်၏နောက်တွင် မည်သည့်ရစူလ်တမန်တော်တပါးကိုမျှပင် အလျင်း စေလွှတ်တော်မူမည်မဟုတ်ဟု ပြောဆိုခဲ့ကြကုန်၏။ ဤနည်းအတိုင်းပင် အလ္လာဟ်အရှင်မြတ်သည် စည်းကမ်းကျူးလွန်သူ၊ ဒွိဟသံသယ၌ရှိနေသူအား လမ်းမှား၌ပင် ရှိနေစေတော်မူ၏။

① အဆိုပါမုအ်မင်န် သူတော်စင်က ဆက်လက်၍ မိမိ၏ အမျိုးသားများအား-အကယ်၍ အသင်တို့သည် ယခုအတိုင်းပင် သွေဖည်ဆန့်ကျင်နေပါက အတိတ်ခေတ်များတွင် သက်ဆိုင်ရာ တမန်တော်များအား သွေဖည်ဆန့်ကျင်ခဲ့ကြသည့်အတွက် ပြစ်ဒဏ်သက်ရောက်သည့် နေ့ဆိုး၊ ရက်ဆိုးများနှင့် တွေ့ကြုံသွားခဲ့ကြ ➤➤

الَّذِيْنَ يُجَادِلُوْنَ فِيْٓ اٰيٰتِ اللّٰهِ بِغَيْرِ سُلْطٰنٍ اَتٰىهُمْ ؕ كَبُرَ مَقْتًا عِنْدَ اللّٰهِ وَعِنْدَ الَّذِيْنَ اٰمَنُوْا ؕ كَذٰلِكَ يَطْبَعُ اللّٰهُ عَلٰى كُلِّ قَلْبِ مُتَكَبِّرٍ جَبَّارٍ ﴿٣٥﴾

၃၅။ အကြင် (စည်းကမ်းကျူးလွန်သူ၊ ဒွိဟ သံသယဥ္စရှိနေ)သူတို့သည် မိမိတို့ထံ မည်သည့် သက်သေအထောက်အထား၊ အကြောင်းပြချက် တစ်စုံတစ်ရာမျှပင် ရောက်လာခဲ့သည် မရှိဘဲလျက် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များ နှင့် စပ်လျဉ်း၍ အငြင်းအခုန် ပြုကြကုန်၏။ (ဤ သည်) အလ္လာဟ်အရှင်မြတ်အထံ၌လည်းကောင်း၊ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့၏ထံတော်၌ လည်းကောင်း၊ စက်ဆုပ်မှုအားဖြင့် လွန်စွာကြီးကျယ် လှ၏။ အလ္လာဟ်အရှင်မြတ်သည် ဤနည်းအတိုင်းပင် ဘဝင်မြင့် မာန်မာန ထောင်လွှားသူ၊ လွန်စွာ ဆိုးသွမ်း သူ၏ စိတ်နှလုံးတစ်ခုလုံးပေါ်ဝယ် တံဆိပ်ခတ်နှိပ်တော် မူပေသတည်း။

وَقَالَ فِرْعَوْنُ يٰهَامٰنُ ابْنِ لِيْ صَرْحًا لَّعَلِّيْٓ اَبْلُغُ الْاَسْبَابَ ﴿٣٦﴾

၃၆။ ထို့နောက် "ဖစ်ရ်အောင်န်" မှာ (ဤသို့) ပြောဆိုခဲ့၏။ အို-"ဟာမာန်" ငါသည် လမ်းများသို့ ရောက်ရှိအံ့သောငှာ အသင်သည် ငါ၏အဖို့ မြင့်စွင့် သော အဆောက်အအုံတစ်ခု တည်ဆောက်လော့။

---

▶▶ ရသည့် အလား အသင်တို့၌လည်း ဤပစ္စက္ခ၌ပင် ထိုသို့သော နေ့ဆိုး၊ရက်ဆိုးများ ဆိုက်ရောက်လာမည်ကို ကျွန်ုပ်စိုးရိမ်မိပါသည်။ အလ္လာဟ်အရှင်မြတ်သည် မည်သူ့ကိုမျှ မတရားပြုမူရန် ရည်ရွယ်တော်မူသည်မရှိ။ လူသားတို့သည်သာလျှင် မိမိတို့ကိုယ်ကို မိမိတို့ပင် ကျူးကျော်စော်ကားလျက် ရှိကြပေသည်။ ထို့ပြင်တစ်ဝ အို-ကျွန်ုပ်၏ အမျိုးသားများ ကျွန်ုပ်သည် အသင်တို့နှင့် ပတ်သက်၍ နောင်တမလွန်ဘဝတွင် ဟစ်အော်ရမည့်နေ့၏ ပြစ်ဒဏ်ကိုလည်း အထူးပင် စိုးရိမ်မိပါသည်။ ထိုနေ့တွင် အသင်တို့အား အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်မှ ကာကွယ်မည့်သူဟူ၍ တစ်ဦးတစ်ယောက်မျှပင် ရှိမည်မဟုတ်ပေဟု သတိပေးခဲ့လေသည်။

"ယောင်မွတ္တနာဒ်" ဟစ်အော်ရမည့်နေ့ဟူသည် ကိယာမတ်နေ့ကို ဆိုလိုသည်။ ဤသည်အများ မုဖတ်စ်စိရ်များ၏ ယူဆချက်ပင်။ ရှာဟ်ဆွာဟိဗ်၏ ယူဆချက်မှာမူ ဟစ်အော်ရမည့်နေ့ဟူသည် ဖိရ်အောင်န်နှင့်တကွ ၎င်း၏နောက်လိုက်ငယ်သားများ ပင်လယ်နီတွင် နစ်မြုပ်ခြင်းခံခဲ့ကြရသည့်နေ့ကို ဆိုလိုသည်။

ကိယာမတ်နေ့တွင် တစ်ဦးနှင့်တစ်ဦး၊ အုပ်စုတစ်စုနှင့်တစ်စု ဟစ်အော်ကြမည့်အကြောင်း ကုရ်အာန် (၇:၄၃-၅၁)တွင်ပါရှိသည်။

أَسْبَابَ السَّمٰوٰتِ فَأَطَّلِعَ إِلَىٰ إِلٰهِ مُوسَىٰ وَإِنِّي لَأَظُنُّهُ كَاذِبًا ۚ وَكَذٰلِكَ زُيِّنَ لِفِرْعَوْنَ سُوٓءُ عَمَلِهِۦ وَصُدَّ عَنِ السَّبِيلِ ۚ وَمَا كَيْدُ فِرْعَوْنَ إِلَّا فِي تَبَابٍ ﴿٣٧﴾

၃၇။ (ငါသည်) မိုးကောင်းကင်(ပေါ်တက်နိုင်ရန်) လမ်းများသို့ (တက်ရောက်နိုင်အံ့သောငှာ၊) သို့ (တက်ရောက်နိုင်ခဲ့)လျှင် ငါသည် မူစာ၏ကိုးကွယ်ရာ အရှင်မြတ်အား မြင်ပေမည်။ အမှန်စင်စစ်သော်ကား ငါသည် မူစာအား မုသားဝါဒီတစ်ဦးဟုပင် ထင်မြင်ယူဆပေသည်။ စင်စစ်သော်ကား ထိုနည်းအတိုင်းပင် "ဖစ်ရ်အောင်န်"၏အမြင်၌ ၎င်း၏ မကောင်းမှုသည် လှပ တင့်တယ်အောင် ပြုလုပ်ခြင်းခံခဲ့ရလေ၏။ ထိုမှတစ်ပါး ၎င်းသည် (ဖြောင့်မှန်သော)လမ်းမှလည်း တားဆီးခြင်းခံခဲ့ရလေ၏။ အမှန်သော်ကား "ဖစ်ရ်အောင်န်"၏အကြံအစည်မှာ ပျက်စီးခဲ့သည်သာတည်း။

وَقَالَ الَّذِيٓ ءَامَنَ يٰقَوْمِ اتَّبِعُونِ أَهْدِكُمْ سَبِيلَ الرَّشَادِ ﴿٣٨﴾

၃၈။ ထို့ပြင် (ထို)"မုအ်မင်န်" သက်ဝင်ယုံကြည်သူသည် (ဤသို့)ပြောဆိုခဲ့လေ၏။ အို-ကျွန်ုပ်၏အမျိုးသားတို့၊ အသင်တို့သည် ကျွန်ုပ်၏နောက်သို့ လိုက်ခဲ့ကြလေကုန်၊ ကျွန်ုပ်သည် အသင်တို့အား တရားလမ်းမှန်သို့ ပို့ဆောင်အံ့။ ၁

يٰقَوْمِ إِنَّمَا هٰذِهِ الْحَيٰوةُ الدُّنْيَا مَتَاعٌ وَإِنَّ الْءَاخِرَةَ هِيَ دَارُ الْقَرَارِ ﴿٣٩﴾

၃၉။ အို-ကျွန်ုပ်၏အမျိုးသားတို့၊ ဤမျက်မှောက်လောကီဘဝသည် အနည်းငယ်မျှ အကျိုးကျေးဇူးခံစားမှုသာ ဖြစ်ပေသည်။ သို့ရာတွင် အာခိရတ်တမလွန်ဘဝမှာမူကား ယင်းသည်သာလျှင် ဧကန်စင်စစ်အမြဲ နေထိုင်ရန်ဌာနဖြစ်၏။

---

(၁) ဖိရ်အောင်န်ကလည်း မိမိ၏ အမျိုးသားများအား "ငါသည် အသင်တို့အား မှန်ကန်သောလမ်းကိုသာ ညွှန်ပြနေခြင်းဖြစ်သည်" ဟု လိမ်လည်ပြောဆိုခဲ့၏။ ထိုသည့်စကားကို ချေပရန်အတွက် မုအ်မင်န်သူတော်စင်က ဖြောင့်မတ်မှန်ကန်သောလမ်းမှာ ဖိရ်အောင်န် ပြောပြသောလမ်းမဟုတ်။ အသင်တို့သည် အမှန်တကယ် ဖြောင့်မတ်မှန်ကန်သော လမ်းကိုလိုလားကြပါက ကျွန်ုပ်၏စကားကို နားထောင်ကြ။ ကျွန်ုပ်၏နောက်သို့လိုက်ကြ၊ ကျွန်ုပ်ကိုယ်တိုင် လိုက်နာကျင့်မူလျက်ရှိသော (တမန်တော်မူစာ ဟောကြားနေတော်မူသည့်) လမ်းသည်သာလျှင် ဖြောင့်မတ်မှန်ကန်သော လမ်းဖြစ်သည်ဟု ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း ဟောညွှန်ပြသခဲ့လေသည်။

مَنْ عَمِلَ سَيِّئَةً فَلَا يُجْزَىٰٓ إِلَّا مِثْلَهَا ۖ وَمَنْ عَمِلَ صَٰلِحًا مِّن ذَكَرٍ أَوْ أُنثَىٰ وَهُوَ مُؤْمِنٌ فَأُو۟لَٰٓئِكَ يَدْخُلُونَ ٱلْجَنَّةَ يُرْزَقُونَ فِيهَا بِغَيْرِ حِسَابٍ ﴿٤٠﴾

၄၀။ မည်သူမဆို မကောင်းမှုဒုစရိုက် တစ်စုံတစ်ရာကို ကျင့်မူခဲ့လျှင် ယင်းမကောင်းမှုနှင့် ညီမျှသည့် (ပြစ်ဒဏ်)ကိုသာ အစားပေးခြင်း ခံရပေမည်။ သို့ရာတွင် မည်သူမဆို ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ၊ ကောင်းမြတ်သောအကျင့်သီလကို ကျင့်မူဆောက်တည်ခဲ့မူ ထိုမှတစ်ပါး ထိုသူသည် မုအ်မင်န် သက်ဝင်ယုံကြည်သူလည်း ဖြစ်ပါမူ၊ ထိုကဲ့သို့သောသူတို့မှာ "ဂျန္နတ်" သုခဘုံသို့ ဝင်ရောက်ကြပေမည်။ ထိုသူတို့သည် ယင်း "ဂျန္နတ်" သုခဘုံတွင် ရေတွက်ခြင်းမရှိဘဲ စားနပ်ရိက္ခာကို ချီးမြှင့်ကျွေးမွေးခြင်းကို ခံကြရကုန်အံ့သတည်း။

وَيَٰقَوْمِ مَا لِىٓ أَدْعُوكُمْ إِلَى ٱلنَّجَوٰةِ وَتَدْعُونَنِىٓ إِلَى ٱلنَّارِ ﴿٤١﴾

၄၁။ သို့မှတစ်ပါး၊ အို - ကျွန်ုပ်၏ အမျိုးသားတို့၊ အသို့ပါနည်း၊ ကျွန်ုပ်သည် အသင်တို့အား (ပြစ်ဒဏ်မှ) ကင်းလွတ်ရာသို့ ဖိတ်ခေါ်နေပါသည်။ သို့သော် အသင်တို့သည်မူ ကျွန်ုပ်အား ငရဲမီးသို့ ဖိတ်ခေါ်နေကြပါသည်။

تَدْعُونَنِى لِأَكْفُرَ بِٱللَّهِ وَأُشْرِكَ بِهِۦ مَا لَيْسَ لِى بِهِۦ عِلْمٌ وَأَنَا۠ أَدْعُوكُمْ إِلَى ٱلْعَزِيزِ ٱلْغَفَّٰرِ ﴿٤٢﴾

၄၂။ အသင်တို့သည် ကျွန်ုပ်အား ကျွန်ုပ် အလ္လာဟ် အရှင်မြတ်အား သွေဖည်ငြင်းပယ်ရန်လည်းကောင်း၊ ကျွန်ုပ်တွင် မည်သည့် အသိပညာ၊ မည်သည့်သက်သေသာဓက တစ်စုံတစ်ရာမျှမရှိသောအရာကို ကျွန်ုပ် ထိုအရှင်မြတ်နှင့် တွဲဖက်နှိုင်းယှဉ်ကိုးကွယ်ရန်လည်းကောင်း၊ ဖိတ်ခေါ်ကြကုန်၏။ အမှန်စင်စစ်သော်ကား ကျွန်ုပ်သည် အသင်တို့အား လွန်စွာနိုင်နင်း၊ လွှမ်းမိုးတော်မူသော၊ အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးသနားတော်မူသော အရှင်မြတ်အထံတော်သို့ပင် ဖိတ်ခေါ်လျက်ရှိပေသည်။

لَا جَرَمَ أَنَّمَا تَدْعُونَنِيٓ إِلَيْهِ لَيْسَ لَهُۥ دَعْوَةٌ فِى ٱلدُّنْيَا وَلَا فِى ٱلْءَاخِرَةِ وَأَنَّ مَرَدَّنَآ إِلَى ٱللَّهِ وَأَنَّ ٱلْمُسْرِفِينَ هُمْ أَصْحَٰبُ ٱلنَّارِ ﴿٤٣﴾

၄၃။ မချွတ်မလွဲ ကျွန်ုပ်အား၊ အသင်တို့ ဖိတ်ခေါ်နေသောအရာသည် ဤပစ္စုပ္ပန်လောက၌လည်း ဟစ်ခေါ်ဘသရန်မထိုက်ပေ။ အာခိရတ်တမလွန်ဘဝ၌လည်း ဟစ်ခေါ်တသရန်မထိုက်ပေ။ [၁] ထို့ပြင် ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်အထံတော်သို့ ပြန်ကြရပေမည်။ ထိုမှတစ်ပါး စည်းကမ်းကျူးလွန်သောသူတို့သည် ငရဲသားများပင် ဖြစ်ကြကုန်၏။

فَسَتَذْكُرُونَ مَآ أَقُولُ لَكُمْ ۚ وَأُفَوِّضُ أَمْرِىٓ إِلَى ٱللَّهِ ۚ إِنَّ ٱللَّهَ بَصِيرٌۢ بِٱلْعِبَادِ ﴿٤٤﴾

၄၄။ စင်စစ်သော်ကား မကြာမြင့်မီ အသင်တို့သည် ကျွန်ုပ်တို့ အသင်တို့အား ပြောဆိုသောစကားများကို ပြန်လည်၍ သတိရရှိကြပေမည်။ ထို့ပြင် ကျွန်ုပ်မူကား မိမိအရေးကိစ္စကို အလ္လာဟ်အရှင်မြတ် အထံတော်သို့ လွှဲအပ်လိုက်ပြီ။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် (မိမိ)ကျွန်တို့အား ကောင်းမွန်စွာ ကြည့်ရှုစောင့်ရှောက်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

فَوَقَىٰهُ ٱللَّهُ سَيِّـَٔاتِ مَا مَكَرُوا۟ ۖ وَحَاقَ بِـَٔالِ فِرْعَوْنَ سُوٓءُ ٱلْعَذَابِ ﴿٤٥﴾

၄၅။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် ထို ("မုအ်မင်န်" သက်ဝင်ယုံကြည်သူအား ၎င်းတို့ ကြံစည်ခဲ့ကြကုန်သောအကြံအစည်၏ဘေးအန္တရာယ်တို့မှ ဖယ်ရှားပေးတော်မူခဲ့၏။ သို့ရာတွင် 'ဖစ်ရ်အောင်န်' ၏ ခြွေရံသင်းပင်တို့ကိုမူကား ဆိုးယုတ်သော ပြစ်ဒဏ်သည် ဝန်းဝိုင်းခဲ့ပေသည်။

---

(၁) ဤအာယတ်တော်၏ အလိုသဘောမှာ-အဆိုပါ မုအ်မင်န်သူတော်စင်က-မိမိ၏ အမျိုးသားများအား အသင်တို့သည် ကျွန်ုပ်အား အကြင်အရာကို ကိုးကွယ်ရန် ဖိတ်ခေါ်နေကြသည်။ အမှန်မှာ ထိုအရာသည် ဤပစ္စက္ခတွင် လောကီရေးရာ တစ်စုံတစ်ရာနှင့် စပ်လျဉ်း၍ ကူညီရန် ဟစ်ခေါ်တသထိုက်သည်လည်းမဟုတ်၊ နောင်တမလွန်ဘဝတွင် ပြစ်ဒဏ်တစ်စုံတစ်ရာကို ကာကွယ်ဖယ်ရှားပေးရန် ဟစ်ခေါ်တသထိုက်သည်လည်းမဟုတ်။ ဆိုလိုသည်ကား အသင်တို့၏ ကိုးကွယ်ရာများသည် ဤပစ္စက္ခတွင်လည်း အသုံးမဝင်၊ နောင်တမလွန်ဘဝတွင်လည်း အသုံးမကျ၊ အချည်းနှီးမျှသာဖြစ်သည်။ အချည်းနှီးမျှသာဖြစ်သော အရာများဘက်သို့ မည်သူ့အားမျှ မဖိတ်ခေါ်ရာဟု တုံ့ပြန်ဖြေကြားခဲ့လေသည်။ ကြည့်-ထာနဝီ။

**တစ်နည်း:** အသင်တို့၏ ကိုးကွယ်ရာများသည် ဤပစ္စက္ခတွင်လည်း တစ်ဦးတစ်ယောက်အား ➢➢

وَلَا تَسْتَوِى الْحَسَنَةُ وَلَا السَّيِّئَةُ ۚ اِدْفَعْ بِالَّتِىْ هِىَ اَحْسَنُ فَاِذَا الَّذِىْ بَيْنَكَ وَبَيْنَهٗ عَدَاوَةٌ كَاَنَّهٗ وَلِىٌّ حَمِيْمٌ ﴿٣٤﴾

၃၄။ အမှန်စင်စစ်သော်ကား ကောင်းမှုနှင့်မကောင်းမှုတို့မှာ တူကြသည်မဟုတ်ပေ၊ (သို့ဖြစ်ပေရာ) အသင်သည် (မကောင်းမှုကို) ကောင်းမှုဖြင့် ခုခံတွန်းလှန်ပါလေ။ သို့ဖြစ်လျှင် အကြင်သူနှင့် အသင်၏အကြား၌ ရန်ငြိုးရှိ၏။ ထိုသူသည် မိတ်ဆွေအရင်းကဲ့သို့ ဖြစ်လာပေမည်။ [၁]

---

➤➤ ဂျန္နတ်တွင် အသင်တို့သည် စိတ်အာသာဆန္ဒရှိသမျှ၊ တောင်းဆိုသမျှ လိုလေသေးသည်မရှိ အသင့်ရရှိကြမည်။ ဤသည် အလွန် လွတ်ငြိမ်းခွင့်ပေးတော်မူသော၊ အလွန် သနားကြင်နာတော်မူသော အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ဧည့်ခံမှုပင်၊ အသင်တို့သည် ထိုအရှင်မြတ်၏ ဧည့်သည်တော်များပင် ဖြစ်ကြသည်ဟု အားပေးစကား ပြောကြားကြပေမည်။ ကောင်းချီးပေးကြပေမည်။ ကာဖိရ်နှင့် မုအ်မင်န်၏ အကျိုးဆက်ချင်းကား ကွာခြားပါဘိတကား။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်အား နှလုံးသည်းပွတ်တွင်းမှ နှစ်နှစ်ကာကာယုံကြည်၍ ယင်းသည့်ယုံကြည်ချက်ပေါ်၌ပင် အသက်ထက်ဆုံး တည့်မတ်စွာ ရပ်တည်နေခဲ့ကြသော မုအ်မင်န်သူတော်စင်များ၏ အကျိုးဆက်ကို မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်များတွင် ယင်းသည့် မုအ်မင်န်သူတော်စင်များ၏ မြင့်မြတ်လှသော ဂုဏ်ရည်များကို မိန့်ဆိုထားတော်မူသည်။

လူ့လောကတွင် အကောင်းမြတ်ဆုံးသောပုဂ္ဂိုလ်ကား အခြားမဟုတ်၊ အကြင်ပုဂ္ဂိုလ်သည် လူသားတို့အား အလ္လာဟ်အရှင်မြတ် ဘက်တော်သို့ ဖိတ်ခေါ်၏။ မိမိကိုယ်တိုင်လည်း ထိုအရှင်မြတ်၏ ဒေသနာတော်များနှင့်အညီ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ကျင့်မူ၏။ ထို့ပြင်တဝ ကျွန်ုပ်သည် "မုစ်လင်မ်" တစ်ဦးဖြစ်ပါသည်ဟု ဂုဏ်ယူပြောဆို၏ ထိုသူကား အကောင်းမြတ်ဆုံးပင်။ ပွင့်လေသမျှသော တမန်တော်အပေါင်းတို့သည် အထက်ပါအတိုင်း ဖိတ်ခေါ်ခဲ့ကြ၏။ တမန်တော်မြတ်သည်လည်း ဤအတိုင်းပင် ဖိတ်ခေါ်တော်မူခဲ့၏။ တမန်တော်မြတ်၏ (ဆွဟာဗဟ်) သာဝကကြီးများသည်လည်း တမန်တော်မြတ်၏ လမ်းစဉ်ကိုပင် အသက်ထက်ဆုံး ဖဝါးခြေထပ် လိုက်နာကျင့်သုံးခဲ့ကြ၏။

အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဖိတ်ခေါ်သောပုဂ္ဂိုလ်များ၌ ကောင်းမြတ်သောကိုယ်ကျင့်တရားများ မုချရှိရပေမည်။ အကောင်းဆုံးနှင့် အဆိုးသည်မတူ။ အကျိုးဆက်ခြင်းလည်း မတူ။ အကောင်းသည် ကောင်းကျိုးပေး၏။ အဆိုးသည် ဆိုးကျိုးပေး၏။ သို့ဖြစ်ရာ အလ္လာဟ်အရှင်မြတ် ဘက်တော်သို့ ဖိတ်ခေါ်သော ပုဂ္ဂိုလ်မွန်တစ်ဦးသည် အဆိုးကို အဆိုးဖြင့်မတုံ့ပြန်ရာ။ အဆိုးကိုအကောင်းဖြင့်သာ တုံ့ပြန်ရာသည်။ ဥပမာ သူတပါးက မိမိအား မကောင်းပြုပါကလည်း မိမိကမူ ထိုသူအား အကောင်းပင်ပြုရမည်။ သူတပါးက မိမိအား ရိုင်းပြစွာ ဆက်ဆံပါကလည်း မိမိကမူ ယဉ်ကျေးသိမ်မွေ့စွာပင် ဆက်ဆံရမည်။ သူတပါးက မိမိအား ဆဲဆိုရေရွတ်ပါကလည်း မိမိကမူ ချိုအေးယဉ်ကျေးသော စကားကိုပင်ဆိုရမည်။ သူတပါးက မိမိအပေါ်၌ ဒေါသထားပါကလည်း မိမိကမူ ထိုသူ့အပေါ်၌ မေတ္တာပင်ထားရမည်။

သို့ဖြစ်လျှင် မိမိအပေါ်၌ ရန်ငြိုးထားသော ရန်သူ၏ ရန်ငြိုးသည်ပင်လျှင် ပြေလာပေမည်။ ရန်သူသည်ပင်လျှင် မိတ်ဆွေသဖွယ်ဖြစ်လာပေမည်။ နောက်ဆုံးတချိန် ရန်ငြိုးပြေကာ အမှန်တကယ် ➤➤

وَمَا يُلَقّٰىهَآ اِلَّا الَّذِيْنَ صَبَرُوْا ۚ وَمَا يُلَقّٰىهَآ اِلَّا ذُوْ حَظٍّ عَظِيْمٍ ﴿٣٥﴾

**၃၅။** သို့တစေလည်း ယင်းကောင်းမြတ်သောနည်းဟူသည် သည်းခံသောသူတို့သာလျှင် ပေးသနားခြင်း ခံကြရပေသည်။ ထိုနည်းတူစွာ ယင်းကောင်းမြတ်သောနည်းဟူသည် ကြီးကျယ်စွာသော ဝေစုဝေပုံကို ပိုင်ဆိုင်သောသူသည်သာ ပေးသနားခြင်းကို ခံရလေသည်။

وَاِمَّا يَنْزَغَنَّكَ مِنَ الشَّيْطٰنِ نَزْغٌ فَاسْتَعِذْ بِاللّٰهِ ۗ اِنَّهٗ هُوَ السَّمِيْعُ الْعَلِيْمُ ﴿٣٦﴾

**၃၆။** ၎င်းပြင် အကယ်၍ အသင့်အား "ရှိုင်တွာန်" ခိုစ္ဆာကောင်၏ဘက်မှ တစ်စုံတစ်ရာ နှောင့်ယှက်ဖျက်ဆီးခြင်း ရှိပါလျှင်၊ အသင်သည် အလ္လာဟ်အရှင်မြတ်ထံတော်မှ အကာအကွယ်ကို တောင်းခံပါလေ။ ဧကန်မလွဲ ထိုအရှင်မြတ်သည်သာလျှင် အကြွင်းမဲ့ ကြားတော်မူသောအရှင်၊ အကြွင်းမဲ့ သိတော်မူသောအရှင်ဖြစ်တော်မူပေသတည်း။

وَمِنْ اٰيٰتِهِ الَّيْلُ وَالنَّهَارُ وَالشَّمْسُ وَالْقَمَرُ ۗ لَا تَسْجُدُوْا لِلشَّمْسِ وَلَا لِلْقَمَرِ وَاسْجُدُوْا لِلّٰهِ الَّذِيْ خَلَقَهُنَّ اِنْ كُنْتُمْ اِيَّاهُ تَعْبُدُوْنَ ﴿٣٧﴾

**၃၇။** အမှန်သော်ကား "ည၌" သည်လည်းကောင်း၊ "နေ့" သည်လည်းကောင်း၊ "နေ" သည်လည်းကောင်း၊ "လ" သည်လည်းကောင်း၊ ထိုအရှင်မြတ်၏ သက်သေလက္ခဏာတော်တို့အနက်မှ ဖြစ်ကုန်၏။

(သို့ဖြစ်ပေရာ) အသင်တို့သည် "နေ" ကိုလည်း "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချ (ပူဇော်ဆည်းကပ်) ခြင်း မပြုကြကုန်လင့်။ ထိုနည်းတူစွာ အသင်တို့သည် "လ"ကိုလည်း ပျပ်ဝပ်ဦးချ (ပူဇော်ဆည်းကပ်) ခြင်း မပြုကြကုန်လင့်။

---

➢➢ ခင်မင်ရင်းနှီးသော မိတ်ဆွေရင်းချာပင် ဖြစ်လာနိုင်ပေသည်။ ဤကား အဆိုးကို အကောင်းနှင့် တုံ့ပြန်ခြင်း၏ အကျိုးပင်။ကြည့်-ကုရ်အာန် (၆၀:၇)။ ဤသည့်အချက်ကို အထူးသဖြင့် တမန်တော်မြတ်၏ ထေရပ္ပတ္တိတွင် လယ်ပြင်မှာ ဆင်သွားသည့်အလား အထင်အရှား တွေ့ရပေမည်။

သို့ရာတွင် ယင်းသက်သေ လက္ခဏာတော် (လေးပါး)ကို ဖန်ဆင်းတော်မူသောအလ္လာဟ်အရှင်မြတ်အားသာလျှင် "စဂျ်ဒဟ်" ပျပ်ဝပ် ဦးချလေကုန်။ အကယ်၍ အသင်တို့သည် အကယ်စင်စစ် ထိုအရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်သူများ ဖြစ်ကြလျှင်၊ [၁]

فَإِنِ اسْتَكْبَرُوا فَالَّذِينَ عِندَ رَبِّكَ يُسَبِّحُونَ لَهُ بِاللَّيْلِ وَالنَّهَارِ وَهُمْ لَا يَسْأَمُونَ ۩ ﴿٣٨﴾

၃၈။ သို့ရာတွင် အကယ်၍ ၎င်းတို့သည် (ဤအမိန့်တော်ကို လိုက်နာကျင့်သုံးခြင်းမရှိဘဲ) မာန်မာနထောင်လွှားခဲ့ကြလျှင်၊ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ထံတော်ပါး၌ ရှိကြသော "မလာအိကဟ်" ကောင်းကင်တမန်တို့မူ နေ့ရောညဉ့်ပါ ထိုအရှင်မြတ်စင်ကြယ် သန့်ရှင်းတော်မူကြောင်းကို မြွက်ဆိုလျက်ရှိကြကုန်၏။ ထိုမှတစ်ပါး ၎င်းတို့သည် ငြီးငွေ့ကြသည်ပင် မဟုတ်ပေ။

---

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဖိတ်ခေါ်မှုအကြောင်း ပါရှိ၏။ ဤအာယတ်တော်များတွင် ယင်းသို့ အလ္လာဟ်အရှင်မြတ် ဘက်တော်သို့ ဖိတ်ခေါ်ရာ၌ အလ္လာဟ်အရှင်မြတ် တပါးတည်း တည်ရှိတော်မူကြောင်း၊ ထိုအရှင်မြတ်သည် တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တရှင် ဖြစ်တော်မူကြောင်း၊ သေပြီးနောက် ရှင်ပြန်ထကြရမည့်အကြောင်းများကို တင်ပြရာတွင် အထောက်အကူဖြစ်စေရန် အလို့ငှာ အလ္လာဟ်အရှင်မြတ်၏ အချို့သက်သေ လက္ခဏာတော်များကို မိန့်ဆိုထားတော်မူသည်။ ဤသို့ မိန့်ဆိုထားတော်မူခြင်းမှာ တဖက်တွင် တမန်တော်များနှင့် မုအ်မင်န် သူတော်စင်များသည် ဝစီကံအားဖြင့်လည်းကောင်း၊ ကာယကံအားဖြင့်လည်းကောင်း လူသားတို့အား အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဖိတ်ခေါ်လျက်ရှိကြောင်းနှင့် အခြားတဖက်တွင် မိုး၊ မြေ၊ နေ၊ လစသည့် ကမ္ဘာ့တန်ဆာပလာများ၏ စနစ်တကျ လှုပ်ရှားသွားလာ ရပ်တည်နေမှုများသည်လည်း တွေးဆဆင်ခြင် မြော်မြင်သူတို့အား အလ္လာဟ်အရှင်မြတ် ဘက်တော်သို့ ပင့်ဖိတ်ခေါ်လျက်ရှိကြောင်းကို ရည်ညွှန်းပြထားတော် မူခြင်းပင်ဖြစ်သည်။ သို့ဖြစ်ရာ လူသားတို့သည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များကို စဉ်းစားဆင်ခြင်မြော်မြင်၍ မိုး၊မြေ၊နေ၊လနှင့်တကွ ကမ္ဘာ့စကြာဝဠာကြီးကို စတင်ဖန်ဆင်း စီမံကွပ်ကဲထားတော်မူသော တန်ခိုးတော် အနန္တရှင်၊ ဉာဏ်တော်အနန္တရှင် အားသာလျှင် ဆည်းကပ်ကိုးကွယ်ကြရသည်။

မိုး၊မြေ၊နေ၊လ စသည်တို့သည် ကိုးကွယ်ရာများမဟုတ်၊ ယင်းတို့ကို စတင်ဖန်ဆင်းတော်မူသော အလ္လာဟ်အရှင်မြတ်သည်သာလျှင် ကိုးကွယ်ရာဖြစ်တော်မူသည်။ မိုး၊မြေ၊နေ၊လ စသည်တို့သည် အခြား အဖန်ဆင်းခံများကဲ့သို့ လူသားတို့ အကျိုးငှာ အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူသော အဖန်ဆင်းခံများသာ ဖြစ်သည်။ အဖန်ဆင်းခံများတွင် လူသားသည် အမြတ်ဆုံးဖြစ်ပေရာ မိမိအကျိုးအတွက် ဖန်ဆင်းထားသော ➤➤

وَمِنْ اٰيٰتِهٖٓ اَنَّكَ تَرَى الْاَرْضَ خَاشِعَةً فَاِذَآ اَنْزَلْنَا عَلَيْهَا الْمَآءَ اهْتَزَّتْ وَرَبَتْ ؕ اِنَّ الَّذِيْٓ اَحْيَاهَا لَمُحْيِ الْمَوْتٰى ؕ اِنَّهٗ عَلٰى كُلِّ شَيْءٍ قَدِيْرٌ ﴿۳۹﴾

၃၉။ ထိုမှတစ်ပါး (ဤသည်လည်း) ထိုအရှင်မြတ်၏ သက်သေ လက္ခဏာတော်တို့ အနက်မှပင်ဖြစ်၏။ အသင်သည် ပထဝီမြေကို အခြေအနေညံ့ဖျင်းစွာ တွေ့မြင်ရ၏။ ထို့နောက် ငါအရှင်မြတ်သည် ပထဝီမြေ၏ အပေါ်၌ ရေကို ရွာသွန်းစေတော်မူသောအခါ၊ ယင်းပထဝီမြေမှာ တိုးတက်ထွန်းကား စိမ်းစို၍လည်းကောင်း၊ (သစ်ပင် အစရှိသည်တို့) ပေါက်ရောက်ဖွံ့ဖြိုး၍လည်းကောင်း၊ လာလေသည်။

(သို့ဖြစ်ပေရာ) ဧကန်မလွဲ ယင်းပထဝီမြေကို ရှင်စေတော်မူသော အရှင်မြတ်သည်ပင်လျှင် ဧကန်အမှန် သူသေတို့အား ရှင်စေတော်မူမည့်အရှင်ဖြစ်တော်မူ၏။ ဧကန်စင်စစ် ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းနိုင်တော်မူသော အရှင်မြတ်ပင်ဖြစ်တော်မူပေသတည်း။

اِنَّ الَّذِيْنَ يُلْحِدُوْنَ فِيْٓ اٰيٰتِنَا لَا يَخْفَوْنَ عَلَيْنَا ؕ اَفَمَنْ يُّلْقٰى فِي النَّارِ خَيْرٌ اَمْ مَّنْ يَّاْتِيْٓ اٰمِنًا يَّوْمَ الْقِيٰمَةِ ؕ اِعْمَلُوْا مَا شِئْتُمْ ۙ اِنَّهٗ بِمَا تَعْمَلُوْنَ بَصِيْرٌ ﴿۴۰﴾

၄၀။ ဧကန်စင်စစ် ငါအရှင်မြတ်၏ အာယတ်တော်များနှင့်စပ်လျဉ်း၍ မူရင်းအဓိပ္ပာယ်မှ သွေဖည်ကာ အမှားမှား အယွင်းယွင်း ကောက်ယူကြသောသူတို့မှာ ငါအရှင်မြတ်အပေါ်၌ ဖုံးကွယ်၍ နေကြသည်မဟုတ်ပေ။

သို့ဖြစ်ပေရာ ငရဲမီးထဲ၌ ပစ်ချခြင်းခံရအံ့သောသူသည် ပို၍ မြင့်မြတ်လေသလော။ သို့တည်းမဟုတ် "ကီယာမတ်" ရှင်ပြန်ထမည့်နေ့တွင် ပူပင်သောကကင်းစွာ လာရောက်အံ့သောသူသည် ပို၍ မြင့်မြတ်လေသလော။

➤➤ မိမိထက် နိမ့်ကျသောအရာများကို အသို့လျှင် ကိုးကွယ်အပ်သနည်း။ သခင်ဖြစ်ပါလျက် မိမိ၏ဘဝကိုမေ့ကာ မိမိ၏ကျွန်ကိုပင် ကိုးကွယ်ပါက မိမိ၏သိက္ခာကို မိမိကိုယ်တိုင်ချခြင်းပင်။

အသင်တို့သည် မိမိတို့ အလိုရှိရာကို ကျင့်မူကြလေကုန်။ စေကန်မလွဲ ထိုအရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှကို အကြွင်းမဲ့မြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ၁

إِنَّ الَّذِينَ كَفَرُوا بِالذِّكْرِ لَمَّا جَاءَهُمْ ۖ وَإِنَّهُ لَكِتَابٌ عَزِيزٌ ﴿٤١﴾

၄၁။ စင်စစ်စေကန် အကြင်သူတို့သည် (ဤ)ဆုံးမဩဝါဒ(ကျမ်း)ကို ယင်း ဆုံးမဩဝါဒ(ကျမ်း)သည် ၎င်းတို့ထံ ရောက်ရှိ၍လာသောအခါ ငြင်းပယ်ကြကုန်၏။ (ငါအရှင်မြတ်သည် ၎င်းတို့အား အပြစ်ပေးတော်မူမည်။) အမှန်စင်စစ်သော်ကား ယင်းသည် မြင့်မြတ်လှစွာသော ကျမ်းဂန်ပင် ဖြစ်ပေသည်။

(၁) အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ဖိတ်ခေါ်ကြကုန်သော သူတော်စင်များထံမှ ကောင်းကင်ကျကျမ်းဂန်လာဒေသနာတော်များကို ကြားနာပြီး စကြာဝဠာအဝန်း၌ ပျံ့နှံ့လျက်ရှိသော အလ္လာဟ်အရှင်မြတ်၏ သဘာဝသက်သေလက္ခဏာတော်များကို တွေ့မြင်ရပြီး နောက်သော်မှပင် အချို့သူများသည် ဖြောင့်မတ်သော တရားလမ်းစဉ်ကို ဖြောင့်မတ်တည်ကြည်စွာ မလိုက်နာကြပေ။ ဖြောင့်မတ်မှန်ကန်သော စကားများတွင်ပင် အဓိပ္ပာယ်မရှိသော၊ အချည်းနှီးသော သို့လောသို့လော ဒွိဟသံသယမှုများ လုပ်ကြံဖန်တီးကြ၏။အဖြောင့်ကို အကောက်၊ အတည့်ကို အစောင်းဖြစ်စေရန် ကြံစည်အားထုတ်ကြ၏။ အနက်အဓိပ္ပာယ် ရှင်းလင်းပြတ်သားသော ဒေသနာတော်များကိုပင် မူရင်းအနက်အဓိပ္ပာယ်မှ တိမ်းစောင်းမှောက်မှားသွားစေရန် အမှားမှားအယွင်းယွင်း အနက်ကောက်ကြ၏။ အဓိပ္ပာယ်ကင်းမဲ့သော၊ မမှန်ကန်သော အကြောင်းအမျိုးမျိုးပြကာ ဒေသနာတော်များကို နာခံခြင်းမှ သွေဖည်ကြ၏။ အမှန်မှာ ၎င်းတို့၏ စိတ်နေသဘောထားသည်ပင် မဖြူစင်ပေ၊ မဖြောင့်မတ်ပေ။ ကွေ့ကောက်လျက်ရှိ၏။ တိမ်းစောင်းလျက်ရှိ၏။ ထိုသို့သော သွေဖည်ရေးသမားများကို အလ္လာဟ်အရှင်မြတ်သည် ကောင်းစွာသိတော်မူသည်။ ယင်းသွေဖည်ရေးသမားများသည် မိမိတို့၏ ထင်မြင်ယူဆချက်အရ ငါတို့သည် လွန်စွာလိမ္မာပါးနပ်ကြသည်။ ငါတို့၏အကြံအစည်သည် လွန်စွာပီရိလှသည်ဟု ငါတကော ကောကောင်းကောနေကြပေမည်။ မိမိတို့ကိုယ်ကို မိမိတို့ အထင်ကြီးကောင်း ကြီးနေကြပေမည်။ သို့ရာတွင် ၎င်းတို့ တွေးတောကြံစည်ပြုမူကြသည်များကိုမူ အလ္လာဟ်အရှင်မြတ်သည် ကြွင်းမဲ့ဉဿုံအလုံးစုံ သိတော်မူသည်။ ထိုအရှင်မြတ်သည် ၎င်းတို့အား ခေတ္တလျစ်လျူရှုထားတော် မူခြင်းသာဖြစ်သည်။ မကြာမီအတွင်း ၎င်းတို့သည် မိမိတို့ သွေဖည်တိမ်းစောင်း မှောက်မှားခဲ့ကြသည်များ၏ ပြစ်ဒဏ်ကို လုလုကြီး ခံကြရပေမည်။ ငရဲတွင် ပစ်ချခြင်း ခံကြရပေမည်။ ပုဂ္ဂိုလ်တစ်ဦးသည် ကိယာမတ်နေ့တွင် မိမိ၏ သွေဖည်မှု၊ ဆိုးသွမ်းမှု၊ ကောက်ကျစ်စဉ်းလဲမှုများကြောင့် ငရဲလားရမည့် အခြားတစ်ဦးသည် မိမိ၏ သဘောဖြူအူစင်းမှု၊ ရိုးသားဖြောင့်မတ်မှု၊ အမိန့်နာခံမှု၊ အကျင့်သီလ ကောင်းမြတ်မှုတို့ကြောင့် ဘေးမသီ၊ ရန်မခဘဲ ဂျန္နတ်၏ အမတသုခကို ထာဝရ ခံစားရမည်။ ထိုသူနှစ်ဦးအနက် မည်သူကောင်းသည်၊ မည်သူ၏လမ်းစဉ်ကို လိုက်နာကျင့်မူအပ်သည်ကို ယင်းကာဖိရ်များ စဉ်းစားဆုံးဖြတ်ကြရပေမည်။

لَّا يَأْتِيهِ الْبَاطِلُ مِن بَيْنِ يَدَيْهِ وَلَا مِنْ خَلْفِهِ ۖ تَنزِيلٌ مِّنْ حَكِيمٍ حَمِيدٍ ﴿٤٢﴾

၄၂။ အမှားသည် ယင်းကျမ်းမြတ်တွင် ၎င်း၏ရှေ့မှလည်း လာရောက်စွက်ဖက်နိုင်ခြင်း မရှိချေ။ ၎င်း၏နောက်လည်း လာရောက်စွက်ဖက်နိုင်ခြင်းမရှိပေ။ ဤကျမ်းမြတ်မှာ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော ချီးမွမ်းထောပနာကို ခံယူထိုက်တော်မူသောအရှင်မြတ်အထံတော်မှ ချပေးတော်မူသော ကျမ်းမြတ်ပင် ဖြစ်ပေသည်။ [၁]

مَّا يُقَالُ لَكَ إِلَّا مَا قَدْ قِيلَ لِلرُّسُلِ مِن قَبْلِكَ ۚ إِنَّ رَبَّكَ لَذُو مَغْفِرَةٍ وَذُو عِقَابٍ أَلِيمٍ ﴿٤٣﴾

၄၃။ အသင့်အလျှင် ပွင့်ကြလေကုန်သော ရစူလ်တမန်တော်များ ပြောဆို(စွပ်စွဲ)ခြင်း ခံခဲ့ကြရသည့်အတိုင်းပင် အသင်လည်း ပြောဆို (စွပ်စွဲ)ခြင်းကို ခံရ၏။ ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အမှန်ပင် လွတ်ငြိမ်းချမ်းသာခွင့်ကို ပိုင်ဆိုင်တော်မူသောအရှင်၊ ပြင်းပြနာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်ကို ပိုင်ဆိုင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

وَلَوْ جَعَلْنَاهُ قُرْآنًا أَعْجَمِيًّا لَّقَالُوا لَوْلَا فُصِّلَتْ آيَاتُهُ ۖ أَأَعْجَمِيٌّ وَعَرَبِيٌّ ۗ قُلْ هُوَ لِلَّذِينَ آمَنُوا هُدًى

၄၄။ စင်စစ်သော်ကား အကယ်၍သာ ငါအရှင်မြတ်သည် ယင်းကျမ်းမြတ်ကို အရဗီဘာသာစကား မဟုတ်သော လူမျိုးခြား ဘာသာစကားဖြင့် (ကျရောက်သော) ကုရ်အာန် ကျမ်းတော်မြတ်အဖြစ် ထုတ်ပြန်တော်မူခဲ့ပါလျှင် အမှန်ပင် ၎င်းတို့က ယင်းကုရ်အာန်ကျမ်းတော်မြတ်၏အာယတ်တော်များသည် မည်သည့်အတွက်ကြောင့် ရှင်းလင်းစွာ ဖော်ပြထားခြင်း မရှိပါသနည်း။

---

(၁) ကုရ်အာန်ကျမ်းမြတ်သည် ဉာဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသော၊ ချီးမွမ်းထောပနာမှုအစုစုကို ခံထိုက်တော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်မှ ထုတ်ပြန်ချမှတ်ထားတော်မူသော ကျမ်းဂန်ဓမ္မကွန်ဖြစ်သည်။ ယင်းကျမ်းဂန်ကို ထိန်းသိမ်းရန် မိမိကိုယ်တော်တိုင် တာဝန်ယူထားတော်မူသည်။ ထိုကျမ်းဂန်တွင် မည်သူမျှ၊ မည်သို့မျှ၊ မည်သည့်ဘက်ကမျှ နှုတ်ပယ် ဖြည့်စွက်နိုင်သည်မရှိ။ အမှားအယွင်းသည် ထိုကျမ်းဂန်၌ရှိရန်ဝေးစွ၊ ထိုကျမ်းဂန်၏အနီးသို့ပင် မချဉ်းကပ်နိုင်ပေ။ သို့ပါလျက် ကာဖိရ်များသည် ယင်းသို့သော ကျမ်းဂန်ကိုပင် ငြင်းပယ်ကြ၏။ ဤကား ၎င်းတို့၏ မိုက်မဲမှုပင်။

وَشِفَآءٌ ۚ وَالَّذِينَ لَا يُؤْمِنُونَ فِىٓ ءَاذَانِهِمْ وَقْرٌ وَهُوَ عَلَيْهِمْ عَمًى ۚ أُولَٰٓئِكَ يُنَادَوْنَ مِن مَّكَانٍۭ بَعِيدٍ ﴿٤٤﴾

"ရစူလ်"တမန်တော်သည် 'အရဗ်'အမျိုးသား ဖြစ်ပြီး (ကုရ်အာန်ကျမ်းတော်မြတ်သည်) လူမျိုးခြား ဘာသာစကားဖြင့် ကျရောက်လာသည်လော ဟူ၍ ပြောဆိုခဲ့ကြမည်သာ။ (အို-နဗီတမန်တော်) အသင် သည် ပြောကြားပါလေ။ (အချင်းတို့၊) ယင်းကုရ်အာန် ကျမ်းတော်မြတ်သည် မုအ်မင်န် သက်ဝင်ယုံကြည် သူတို့အဖို့ တရားလမ်းညွှန်နှင့် ရောဂါဝေဒနာ ပျောက် ကင်းစေသောဆေးပင် ဖြစ်ပေသည်။

သို့ရာတွင် သက်ဝင်ယုံကြည်ခြင်းမရှိကြသော သူတို့၏နားများ၌မူကား နားပင်းမှု ဝေဒနာသည် ရှိနေပေရာ ယင်း ကုရ်အာန်ကျမ်းတော်မြတ်မှာလည်း ၎င်းတို့နှင့် ပတ်သက်၍ မျက်မမြင်(မမြင်ဖွယ်ရာ မထင်မရှား) ဖြစ်နေချေသည်။ ၎င်းတို့မှာ ရပ်ဝေးမှ ဟစ်ခေါ်ခြင်းခံကြရသူများပင် ဖြစ်ကြကုန်၏။ [၁]

---

(၁) အပြစ်ပင် ရှာလိုသူတစ်ဦးရှေ့၌ အကြောင်းပြခြင်းသည် အချည်းအနှီးပင်။ မနာခံလိုသူတစ်ဦးသည် ဆင်ခြေအမျိုးမျိုးလဲမည်ပင်။ မက္ကာမြို့သား ကာဖိရ်များသည် ကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍ တစ်စုံတစ်ရာ အပြစ်ရှာ၍ မရသည့်အဆုံး၌ တမန်တော်မြတ်သည် အရဗ် အမျိုးသားတစ်ဦးဖြစ်နေသဖြင့် တမန်တော်မြတ်အပေါ်၌ ကျရောက်သောကျမ်းသည် အရဗ်ဘာသာစကားဖြင့် မဟုတ်ဘဲ လူမျိုးခြားဘာသာစကားဖြင့် ကျရောက်ပါက တမန်တော်မြတ်၏ 'မုအ်ဂျိဇဟ်' တန်ခိုးပြာဋိဟာသည် ပိုမို၍ ထင်ရှားလာပေမည်ဟု ပြောဆိုခဲ့ကြ၏။ ကြက်တွန် တက်ခဲ့ကြ၏။ ဤသည် အခြေအမြစ်မရှိသောစကားပင်၊ ဆင်ဝှေ့ရန်ရှောင်စကားပင်။

အကယ်တန္တု ကုရ်အာန်ကျမ်းမြတ်သည် အရဗ်ဘာသာစကားမဟုတ်သော အခြားဘာသာစကားဖြင့် ဖြစ်ပါသော် ယင်းကာဖိရ်များသည် သွေဖည် ငြင်းဆန်ရန်အတွက် တမန်တော်မြတ်သည် အရဗ် လူမျိုး၊ ကုရ်အာန်ကို ဦးစွာပထမ ကြားနာရသော ကျွန်ုပ်တို့သည်လည်း အရဗ်လူမျိုး၊ ကျရောက်လာသောကျမ်း၏ ဘာသာစကားမှာ အရဗ်ဘာသာစကားမဟုတ်၊ လူမျိုးခြားစကားဖြစ်နေသည်။ ကျွန်ုပ်တို့သည် လူမျိုးခြား ဘာသာစကား တစ်လုံးတစ်ပါဒမျှ နားမလည်ကြပါဟူ၍ ဆင်ခြေလဲကြဦးမည်ပင်ဖြစ်သည်။

တမန်တော်မြတ်သည် အရဗ်လူမျိုးဖြစ်တော်မူသည်။ တမန်တော်မြတ် စတင်ဟောကြားရမည့် အမျိုးသားများမှာလည်း အရဗ်လူမျိုးဖြစ်သည်။ အရဗ် စာပေသည်လည်း စံမတူအောင် စာပေဂုဏ်မြောက်လှသည်။ ပွင့်လေသမျှသော တမန်တော်များသည်လည်း သက်ဆိုင်ရာမျိုးနွယ်မှပင် ဖြစ်ခဲ့ကြသည်။ သက်ဆိုင်ရာမျိုးနွယ်၏ စကားကိုပင် ပြောဆိုခဲ့ကြသည်။ ကျရောက်ခဲ့သမျှသော ကောင်းကင်ကျ ကျမ်းဂန်များမှာလည်း ဤအတိုင်းပင်။ သို့ဖြစ်ပေရာ စတင်ဟောကြားရမည့် အရဗ်အမျိုးသားများထံသို့ စတင်ပွင့်လာတော်မူခဲ့သော အရဗ်အမျိုးသား ➤➤

وَلَقَدْ اٰتَيْنَا مُوْسَى الْكِتٰبَ فَاخْتُلِفَ فِيْهِ ۗ وَلَوْلَا كَلِمَةٌ سَبَقَتْ مِنْ رَّبِّكَ لَقُضِيَ بَيْنَهُمْ ۗ وَاِنَّهُمْ لَفِيْ شَكٍّ مِّنْهُ مُرِيْبٍ ﴿٤٥﴾

၄၅။ ထိုမှတစ်ပါး မလွဲဧကန် ငါအရှင်မြတ်သည် (နဗီတမန်တော်) မူစာအားလည်း ကျမ်းဂန်ဒေသနာတော်ကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ သို့တစေလည်း ယင်းကျမ်းဂန်နှင့်စပ်လျဉ်း၍လည်း သဘောကွဲလွဲမှု ဖြစ်ခဲ့ရလေသည်။

အမှန်စင်စစ်သော်ကား အကယ်၍သာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ အမိန့်တော်တစ်ရပ်သည် ရှိနှင့်ပြီး မဖြစ်ခဲ့ပါလျှင် အမှန်ပင် ၎င်းတို့၏အကြား၌ စီရင်ဆုံးဖြတ်ပြီး ဖြစ်ခဲ့မည်သာ။ ထို့ပြင် ဧကန်အမှန် ၎င်းတို့သည် ယင်းအဆုံးအဖြတ် (ဝါ)ချိန်းချက်ထားသောပြစ်ဒဏ်နှင့်စပ်လျဉ်း၍ ဝိစိကိစ္ဆာ ဖြစ်စေသော ဒွိဟသံသယ၌ပင် ရှိနေကြကုန်သတည်း။

---

⮞⮞ ဖြစ်သော တမန်တော်မြတ်အပေါ်သို့ အရဗ် ဘာသာစာပေဖြင့် ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ပို့ချတော်မူခြင်းမှာ လျော်ကန်သင့်မြတ်လှပေသည်။ သဘာဝကျလှပေသည်။

အမှန်မှာ ကုရ်အာန်ကျမ်းမြတ်သည် မိမိအပေါ်၌ (အီမာန်) သက်ဝင်ယုံကြည်၍ လက်တွေ့လိုက်နာကျင့်မူသူများအား အံ့ဖွယ်သရဲ တရားဓမ္မတော် ညွှန်ပြသည်။ အနှစ်နှစ်က စွဲငြိနေသော ဒွိဟသံသယတည်းဟူသော အတွင်းရောဂါများကိုလည်း ပျောက်ကင်းစေသည်။ ဤကား လက်တွေ့မျက်မြင်ပင်။ အမှန်တရားကို ကြားပင်မကြားလိုသော ကြည့်ပင်မကြည့်လိုသော မျက်ကန်းများ၊ နားပင်းများအဖို့မှာကား ကုရ်အာန်၏ အသံသည် အဘယ်မျှပင် သာယာကြည်နူးဖွယ် ဖြစ်လင့်ကစား ကုရ်အာန်၏ တရားဓမ္မ ရောင်ခြည်သည် အဘယ်မျှပင် ထွန်းလင်းတောက်ပလင့်ကစား ထူးမည် မဟုတ်ပေ။ ဤကား ကုရ်အာန်၏ အပြစ်မဟုတ်။ "ညဉ့်အခါမမြင် နေ့တွင်ဝိုးဝါး၊ ယုံမှားလုစ်တွင့်၊ ကြက်မျက်သင့်သို့" သက်ဆိုင်ရာ အမှန်တရားကို မမြင်သော၊ မကြားသောသူများ၏ အပြစ်သာ ဖြစ်ချေသည်။ ၎င်းတို့သည် မိမိတို့၏ နားကိုကြားအောင်၊ မျက်စိကိုမြင်အောင် ကုစားကြရပေမည်။ ဤသည့်သဘောကို ကုရ်အာန် (၁၇:၈၂) တွင်လည်း မိန့်ဆိုထားတော်မူသည်။

مَنْ عَمِلَ صَالِحًا فَلِنَفْسِهٖ ۖ وَمَنْ اَسَاۗءَ فَعَلَيْهَا ۭ وَمَا رَبُّكَ بِظَلَّامٍ لِّلْعَبِيْدِ ۝

၄၆။ မည်သူမဆို ကောင်းမြတ်သောအကျင့်သီလကို ကျင့်မှုဆောက်တည်ပါလျှင် မိမိအကျိုးငှာ ကျင့်မှုဆောက်တည်ခြင်းပင် ဖြစ်ပေသည်။ ထိုနည်းတူစွာ မည်သူမဆို မကောင်းမှုကို ပြုလုပ်သည်ရှိသော် (ယင်းမကောင်းမှု၏ဆိုးကျိုးမှာ) ၎င်း၏အပေါ်၌သာ ကျရောက်မည်ဖြစ်၏။

အမှန်စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ကျွန်တို့အပေါ် ဝယ် နှိပ်စက်ကလူ ပြုတော်မူသောအရှင် မဟုတ်ပေတကား။[၁]

(၁) ကာဖိရ်များသည် အထောက်အထား၊ သက်သေလက္ခဏာများ အထင်အရှား ရှိနေပါလျက်နှင့်ပင် အဆိုပါ အဆုံးအဖြတ် (ဝါ) ချိန်းချက်ထားတော်မူသော ပြစ်ဒဏ်နှင့်စပ်လျဉ်း၍ ယခုထက်တိုင် သံသယဖြစ်နေကြပေသေးသည်။ အမှန်မှာ အဆိုပါ ဆုံးဖြတ်ချက်မှာ မုချ အတည်ဖြစ်မည်ပင်။ အဆိုပါ ဆုံးဖြတ်ချက်၏ အချုပ်မှာ မည်သူမဆို ကောင်းမြတ်သော အကျင့်သီလကို ဆောက်တည်ပါက မိမိအကျိုးငှာ ဆောက်တည်ခြင်းသာ ဖြစ်သည်။ နောင်တမလွန်ဘဝတွင် ကောင်းမြတ်သော ကုသိုလ်အကျိုးကို ခံစားရပေမည်။ မည်သူမဆို မကောင်းမှုကို ပြုကျင့်ပါမူ ထိုမကောင်း မှု၏ ဆိုးကျိုးကို ထိုသူသာလျှင် ခံစားရပေမည်။ အလ္လာဟ်အရှင်မြတ်သည် မည်သူ့ကိုမျှ မတရားပြုတော်မူသည်မရှိ။ ကောင်းသူအား ကောင်းကျိုး၊ မကောင်းသူအား မကောင်းကျိုးကို ပေးတော်မူ မည်သာ။ ကောင်းသူ၏ ကောင်းကျိုးလည်း အချည်းအနှီးဖြစ်စေတော် မူမည်မဟုတ်။ မကောင်းသူ၏ မကောင်းကျိုးကိုလည်း ပို၍ပေးတော်မူမည်မဟုတ်။ တရားသဖြင့် စီရင်ဆုံးဖြတ်တော်မူမည်သာ။

إِلَيْهِ يُرَدُّ عِلْمُ السَّاعَةِ ۚ وَمَا تَخْرُجُ مِن ثَمَرَاتٍ مِّنْ أَكْمَامِهَا وَمَا تَحْمِلُ مِنْ أُنثَىٰ وَلَا تَضَعُ إِلَّا بِعِلْمِهِ ۚ وَيَوْمَ يُنَادِيهِمْ أَيْنَ شُرَكَائِي قَالُوا آذَنَّاكَ مَا مِنَّا مِن شَهِيدٍ ﴿٤٧﴾

၄၇။ "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလနှင့် စပ်လျဉ်းသော အသိသည် *ထိုအရှင်မြတ်အထံတော်သို့ပင် လွှဲအပ်ရပေသည်။* [၁] ၎င်းပြင် မည်သည့် သစ်သီးဝလံများမဆို မိမိတို့၏(အဖူးဖုံးများမှ) (ထိုအရှင်မြတ်သိတော်မမူဘဲ) ထွက်ပေါ်လာသည် မဟုတ်ပေ။ ထိုမှတစ်ပါး မည်သည့် မိန်းမတစ်ဦးမျှပင် ထိုအရှင်မြတ်သိတော်မမူဘဲ ကိုယ်ဝန်ဆောင်ခြင်းလည်း မရှိပေ။ သားဖွားခြင်းလည်း မရှိချေ။

ထို့ပြင် အကြင်နေ့တွင် ထိုအရှင်မြတ်သည် ၎င်းတို့အား "ငါအရှင်မြတ်၏တွဲဖက်များသည် အဘယ်မှာနည်း" ဟု ဟစ်ခေါ် မေးမြန်းတော်မူသောအခါ ၎င်းတို့က "(ယနေ့) ကျွန်တော်မျိုးအနက်(ဤသည်နှင့်စပ်လျဉ်း၍) သက်သေခံအံ့သောသူဟူ၍ တစ်ဦးတစ်ယောက်မျှမရှိတော့သည်ကို ကျွန်တော်မျိုးသည် အရှင်မြတ်အထံတော်၌ *ဖြောင့်ချက်ဝန်ခံ လျှောက်ထားကြပါသည်၊*" [၂] ဟု ပြောဆိုကြပေမည်။

---

(၁) အထက်တွင် ကောင်းကျိုးဆိုးကျိုးများကို နောင်တမလွန်ဘဝ၌ အတိအကျ ခံ၊ စံကြရမည့်အကြောင်း ပါရှိခဲ့၏။ ယခု ဤအာယတ်တော်တွင် ကိယာမတ်နှင့် စပ်လျဉ်းသည့် အသိသည် အလ္လာဟ်အရှင်မြတ်၌သာ ရှိကြောင်းကို မိန့်ဆိုထားတော်မူသည်။

ကာဖိရ်များက ငြင်းပယ်သည့်သဘောဖြင့် ကိယာမတ်သည် ဘယ်သောအခါဖြစ်မည်နည်းဟု မေးမြန်းလေ့ရှိခဲ့ကြသည်။ ယင်းသို့သော ကာဖိရ်များအား ရည်ညွှန်း၍ ဖြေကြားထားတော်မူသည်မှာ ကိယာမတ်သည် တစ်ရက်မုချဖြစ်မည်။ သို့ရာတွင် ကိယာမတ်ဖြစ်မည့်နေ့ရက်၊ အချိန်အတိအကျကိုမူ အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားမည်သူ တစ်ဦးတစ်ယောက်မျှ အတိအကျမသိပေ။ ကောင်းကင်တမန် ဂျိဗ်ရီလ်က တမန်တော်မြတ်အား ကိယာမတ်ဖြစ်မည့် အချိန်နှင့်စပ်လျဉ်း၍ မေးမြန်းသောအခါ တမန်တော်မြတ်က ( ما المسؤول عنها بأعلم من السائل )"ကိယာမတ်ဖြစ်မည့်အချိန်နှင့် စပ်လျဉ်း၍ မေးမြန်းခြင်းခံရသောပုဂ္ဂိုလ်သည် မေးမြန်းသောပုဂ္ဂိုလ်ထက် ပို၍မသိပါ။ (ဝါ) ကိယာမတ်ဖြစ်မည့် အချိန်အတိအကျကို ကျွန်ုပ်လည်း မသိ၊ အသင်လည်း မသိ"ဟု ဖြေကြားတော်မူခဲ့လေသည်။ ကြည့်-(မစ်ရ်ကာတ်)။

လူ့လောကတွင် လူသားတို့မသိသောအရာ အမြောက်အမြားရှိပေသည်။ အရာတစ်ခုနှင့်စပ်လျဉ်း၍ မိမိမသိသည့်အတွက် ထိုအရာသည်မရှိဟူ၍ မဆိုနိုင်ချေ။ ➤➤

وَضَلَّ عَنْهُمْ مَّا كَانُوْا يَدْعُوْنَ مِنْ قَبْلُ وَظَنُّوْا مَا لَهُمْ مِّنْ مَّحِيْصٍ ﴿٤٨﴾

၄၈။ စင်စစ်သော်ကား (ထိုနေ့တွင်) ၎င်းတို့ ယခင်က ဟာစ်ခေါ်တသ (ရှိခိုးပူဇော်)ခဲ့ကြသည်တို့မှာ ၎င်းတို့ထံမှ ပျောက်ကွယ်၍ သွားကြပေမည်။ ထိုမှတစ်ပါး ၎င်းတို့သည် မိမိတို့၌ ထွက်ပြေး(လွတ်မြောက်)ရာဟူ၍လည်း မရှိတော့ကြောင်း ယုံကြည်သွားကြပေမည်။

لَا يَسْـَٔمُ الْاِنْسَانُ مِنْ دُعَآءِ الْخَيْرِ وَاِنْ مَّسَّهُ الشَّرُّ فَيَـُٔوْسٌ قَنُوْطٌ ﴿٤٩﴾

၄၉။ လူသားသည် ကောင်းကျိုး ချမ်းသာကို တောင်းဆိုခြင်းမှ ငြီးငွေ့သည်ဟူ၍ မရှိပေ။ [၁] သို့ရာတွင် အကယ်၍ ၎င်း၌ ဘေးအန္တရာယ်တစ်စုံတစ်ရာ သက်ရောက်ခဲ့သည်ရှိသော် ထိုအခါ (၎င်းမှာ) စိတ်အားလျှော့သူ၊ မျှော်လင့်ချက်လုံးဝကင်းသူ ဖြစ်လာလေ၏။

---

➤➤ ကိယာမတ်အကြောင်း အကြိမ်ကြိမ်ပါရှိခဲ့ပေပြီ။ ကြည့်-ကုရ်အာန်(၇း၁၈၇။ ၁၅း၈၅။ ၁၈း၂၁။ ၂၀း၁၅။ ၂၂း၁။ ၂၂း၇။ ၃၁း၃၄။ ၃၃း၆၃။ ၃၄း၂၉-၃၀။ ၄၀း၅၉)။

② ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်က မုရှ်ရစ်က်တို့အား လူ့လောကတွင် ငါအရှင်မြတ်နှင့်တွဲဖက်၍ အသင်တို့ဆည်းကပ် ကိုးကွယ်နေခဲ့ကြသော ငါ၏တွဲဖက်များ အဘယ်မှာနည်းဟု မေးမြန်းတော်မူပေမည်။ ထိုအခါ မုရှ်ရစ်က်များက ကျွန်တော်မျိုးတို့တွင် ဤပြစ်မှုကို မိမိကျူးလွန်ခဲ့ပါသည်ဟု ဝန်ခံဖြောင့်ချက်ပေးမည့်သူ တစ်ဦးတစ်ယောက်မျှ မရှိပါဟု မုသားလိမ်လည်လျှောက်ထား ကြပေမည်။

[မုရှ်ရစ်က်များသည် ကိယာမတ်နေ့တွင် မိမိတို့၏အပြစ်များကို အသို့လျှင် ဖုံးကွယ်ထားနိုင်ကြအံ့နည်း။ ၎င်းတို့၏နှုတ်များက လိမ်လည်ထွက်ဆိုသော်လည်း ၎င်းတို့၏ ကျန်ကိုယ်အင်္ဂါ အစိတ်အပိုင်းများကမူ ဟုတ်မှန်ရာကို ထွက်ဆိုကြမည်သာဖြစ်သည်။ ကြည့်-ကုရ်အာန်(၄၁း၂၀-၂၂)]။

① ဤအာယတ်တော်တွင်ပါရှိသော (အင်န်စာန်) လူသားဟူသည် ကာဖိရ်ကို ဆိုလိုသည်။ ကြည့်-မာဂျိဒီ၊ ထာနဝီ၊ ကုရ်တုဗီ၊ မအာလင်မ်။

(ကုဖ်ရ်) သွေဖည်ငြင်းပယ်မှု၊ (ရှရစ်က်) တွဲဖက်ကိုးကွယ်မှုများသည် သက်ဆိုင်ရာ ကာဖိရ်၊ မုရှ်ရစ်က်များ၏ စိတ်နေသဘောထားနှင့် အကျင့်အမူများတွင် ယုတ်မာသော လက္ခဏာများကို ပေါ်လွင်ထင်ရှားလာစေပေသည်။ ဤသည့်သဘောကိုပင် ဤအာယတ်တော်များတွင် မိန့်ဆိုထားတော်မူသည်။

ကာဖိရ်သည် အလ္လာဟ်အရှင်မြတ်အား မယုံကြည်ပေရာ၊ ကိယာမတ်ကို မယုံကြည်ပေရာ မျက်မှောက်ဘဝကိုသာ အဓိကထားကာ လောကီရေးရာများတွင် အနစ်မွန်းကြီးနစ်မွန်း၍ နေပေသည်။ လောကီရေးရာများတွင် အဘယ်မျှပင် တိုးတက်ကြီးပွားနေလင့်ကစား မိမိ၏လောဘကို မသတ်နိုင်ပေ။ မိမိ၏စိတ်ကို မချုပ်တည်းနိုင်ပေ။ တိုး၍တိုး၍သာ ကြီးပွားလိုသည်။ ကမ္ဘာ့အိမ်ထောင်စုကြီး တစ်ခုလုံးကိုပင် ဖြစ်နိုင်ပါက ပိုင်ဆိုင်လိုသည်။ ဤကား ကာဖိရ်၏ အတောမသတ် လောဘကြီးမှုပင်။

وَلَئِنْ أَذَقْنٰهُ رَحْمَةً مِّنَّا مِنْۢ بَعْدِ ضَرَّآءَ مَسَّتْهُ لَيَقُوْلَنَّ هٰذَا لِىْ ۙ وَمَآ أَظُنُّ السَّاعَةَ قَآئِمَةً ۙ وَّلَئِنْ رُّجِعْتُ إِلٰى رَبِّىْٓ إِنَّ لِىْ عِنْدَهٗ لَلْحُسْنٰى ۚ فَلَنُنَبِّئَنَّ الَّذِيْنَ كَفَرُوْا بِمَا عَمِلُوْا ۡ وَلَنُذِيْقَنَّهُمْ مِّنْ عَذَابٍ غَلِيْظٍ ﴿٥٠﴾

၅၀။ သို့တစေလည်း ၎င်း၌သက်ရောက်ခဲ့သော ဘေးဒုက္ခတစ်စုံတစ်ရာ၏နောက်တွင် ငါအရှင်မြတ်သည် ၎င်းအား မိမိကရုဏာတော်(၏ အရသာ)ကို မြည်းစမ်းစေတော်မူခဲ့ပါလျှင် ဧကန်အမှန် ၎င်းသည် (ဤသို့)ပြောဆိုလေတော့၏။ "ဤသည် ကျွန်ုပ်နှင့် ထိုက်သောကိစ္စပင် ဖြစ် သည်။ ၎င်းပြင် "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလ ဆိုက်ရောက်မည်ဟု ကျွန်ုပ် မယူဆပေ။ သို့တစေလည်း ကျွန်ုပ်သည် အကယ်၍ ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် အထံတော်သို့ ပြန်သွားခဲ့ရသည့်တိုင်အောင် ဧကန်မလွဲ ကျွန်ုပ်အဖို့ ထိုအရှင်မြတ်အထံတော်တွင် သာ၍ ကောင်းသော အကျိုးကျေးဇူးသည် အမှန်ပင် ရှိချေမည်၊"

သို့ဖြစ်ပေရာ ဧကန်မလွဲ ငါအရှင်မြတ်သည် "ကာဖိရ်" သွေဖည် ငြင်းပယ်သောသူတို့အား ၎င်းတို့ ကျင့်မူခဲ့သမျှတို့ကို သိစေတော်မူပေသည်။ ထိုမှတစ်ပါး ဧကန်မုချ ငါအရှင်မြတ်သည် ၎င်းတို့အား ပြင်းထန်သောပြစ်ဒဏ်၏ရသာကို မြည်းစမ်းစေတော်မူပေမည်။

وَإِذَآ أَنْعَمْنَا عَلَى الْإِنْسَانِ أَعْرَضَ وَنَاٰ بِجَانِبِهٖ ۚ وَإِذَا مَسَّهُ الشَّرُّ فَذُوْ دُعَآءٍ عَرِيْضٍ ﴿٥١﴾

၅၁။ စင်စစ်မှာကား ငါအရှင်မြတ်သည် လူသားတို့၏အပေါ်၌ ကျေးဇူးပြုတော်မူသောအခါ ၎င်းမှာ မျက်နှာလွှဲကာ အဝေးသို့ ရှောင်ဖယ်၍သွားလေ့ရှိ၏။ သို့တစေလည်း ၎င်း၌ ဘေးဒုက္ခသက်ရောက်သော အခါ (၎င်းမှာ) ကျယ်ဝန်းစွာ (တစ်နည်း) ရှည်လျားစွာ ဆုတောင်းပတ္ထနာ ပြုလေ့ရှိပေသတည်း။

قُلْ أَرَءَيْتُمْ إِنْ كَانَ مِنْ عِنْدِ اللّٰهِ ثُمَّ كَفَرْتُمْ بِهٖ مَنْ أَضَلُّ

၅၂။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည်ပင် ပြောပြကြလေကုန်။ အကယ်၍ ယင်း(ကုရ်အာန်ကျမ်းမြတ်)သည် အလ္လာဟ်အရှင်မြတ်အထံတော်မှ (ကျရောက်ခဲ့သည်)

مِمَّنْ هُوَ فِىْ شِقَاقٍۢ بَعِيْدٍ ﴿٥٢﴾

ဖြစ်ခဲ့အံ့၊ ထို့နောက်တစ်ဖန် အသင်တို့သည် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်)ကို ငြင်းပယ်ခဲ့ကြသည်ရှိအံ့၊ သို့ဖြစ်လျှင် ဝေးကွာလှသော ကွဲပြားမှု၌ ရှိနေသောသူထက် *ပိုမို၍လမ်းမှားသောသူ မည်သူရှိအံ့နည်း။* [၁]

سَنُرِيْهِمْ اٰيٰتِنَا فِى الْاٰفَاقِ وَفِىْٓ اَنْفُسِهِمْ حَتّٰى يَتَبَيَّنَ لَهُمْ اَنَّهُ الْحَقُّ ۗ اَوَلَمْ يَكْفِ بِرَبِّكَ اَنَّهٗ عَلٰى كُلِّ شَىْءٍ شَهِيْدٌ ﴿٥٣﴾

၅၃။ မကြာမြင့်မီပင် ငါအရှင်မြတ်သည် ထိုသူတို့အား မိုးကုပ်စက်ဝိုင်းများ၌လည်းကောင်း၊ ထိုသူတို့၏ကိုယ်များ၌လည်းကောင်း၊ မိမိသက်သေလက္ခဏာတော်များကို ပြတော်မူမည်။ နောက်ဆုံးတွင် ၎င်းတို့၌ ဧကန်စင်စစ် *ယင်း(ကုရ်အာန်ကျမ်းတော်မြတ်) မှန်ကန်ကြောင်း သိသာထင်ရှား၍ လာပေမည်။* [၂]

(အိုး-နဗီတမန်တော်၊) အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည်ပင် (အသင့်အဖို့) လုံလောက်တော်မူသည် မဟုတ်လော။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို မြင်တော်မူသော အသိသက်သေပင် ဖြစ်တော်မူ၏။

---

(၁) အထက်တွင် ကာဖိရ်များ၏ စိတ်နေသဘောထား သေးနုတ်သိမ်ဖျင်းပုံကို ကွင်းကွင်းကွက်ကွက် သရုပ်ပေါ်လာအောင် မိန့်ဆိုထားတော်မူသည်။ ယခု ဤအာယတ်တော်များတွင် ယင်းသို့သောကာဖိရ်များ၏ စိတ်နေသဘောထား သေးနုတ်သိမ်ဖျင်းပုံများကို ထောက်ပြပြီး၊ ၎င်းတို့အား သတိပေးနေသော ဤကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍ သတိပေးထားတော်မူသည်မှာ အကယ်၍ ဤကျမ်းမြတ်သည် အလ္လာဟ်ထံတော်မှ ထုတ်ပြန်ချမှတ်ထားတော်မူသော ကျမ်းမြတ်ဖြစ်နေပါသော် (အမှန်မှာလည်း ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်ပင်ဖြစ်သည်) သို့ပါလျက် အသင်တို့သည် ထိုကုရ်အာန်ကျမ်းမြတ်ကို သွေဖည်ငြင်းဆန်လက်မခံကြသော်၊ ကုရ်အာန်ကျမ်းလာဒေသနာတော်များကို သွေဖည်၍ မိမိတို့၏နောင်ရေးကို မစဉ်းစားကြသော်၊ အမှန်တရားနှင့် ဝေးသည်ထက်ဝေး၍ နေကြသော် အသင်တို့ထက် လမ်းမှားသူ၊ပျက်စီးဆုံးရှုံးသူ အသူရှိအံ့နည်း။

(၂) ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်ထံတော်မှ ထုတ်ပြန်ချမှတ်ထားတော်မူသော ကျမ်းဂန်အစစ်အမှန်ဖြစ်ကြောင်းနှင့် စပ်လျဉ်း၍ အတွင်း၊အပြင် သက်သေသာဓကေ အထောက်အထား အမြောက်အမြားရှိချေသည်။ တွေးဆဆင်ခြင် မြော်မြင်ကြသည့် မြောက်မြားစွာသော ပုဂ္ဂိုလ်များကလည်း လက်ခံထားကြပေသည်။

သို့ပါလျက် ဇွတ်မိုက်၍ငြင်းဆန်နေသော ပုဂ္ဂိုလ်များအား အလ္လာဟ်အရှင်မြတ်က သတိပေးထားတော်မူသည်မှာ- ငါအရှင်မြတ် သည် မိမိ၏တန်ခိုးတော်ဆိုင်ရာ သက်သေလက္ခဏာတော်များကို မကြာမီအတွင်း ၎င်းတို့၏ကိုယ်များတွင် လည်းကောင်း၊ ၎င်းတို့၏ပတ်ဝန်းကျင်ရှိ အာရေဗျပြည်တွင်လည်းကောင်း၊ ➤➤

أَلَآ إِنَّهُمْ فِى مِرْيَةٍ مِّن لِّقَآءِ رَبِّهِمْ ۗ أَلَآ إِنَّهُۥ بِكُلِّ شَىْءٍ مُّحِيطٌۢ ﴿٥٤﴾

၅၄။ သတိပြုကြလေကုန်။ ဧကန်အမှန် ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်နှင့် တွေ့ဆုံကြရမည်နှင့်စပ်လျဉ်း၍ အရာခပ်သိမ်းရှိနေကြကုန်၏။ သတိပြုကြလေကုန်။ မလွဲဧကန် ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ဝန်းခြံလျက် ရှိတော်မူပေသတည်း။

---

➤➤ အာရေဗျပြည်တွင်းသာမက ကမ္ဘာ့အဝှန်းတွင်လည်းကောင်း၊ ပြသတော်မူမည်။

ယင်းသည့် သက်သေလက္ခဏာတော်များကို ထောက်ရှုခြင်းအားဖြင့် ကုရ်အာန်ကျမ်းမြတ်နှင့် ကုရ်အာန်ကျမ်းမြတ်ကို ယူဆောင်လာသော တမန်တော်မြတ်၏ မှန်ကန်မှုသည် “လယ်ပြင်ဆင်သွားသည့်အလား” ထင်ရှားသွားပေမည်၊ ထိုသည့် သက်သေလက္ခဏာတော်များကား အခြားမဟုတ်။ ကုရ်အာန်ကျမ်းမြတ်၏ ကြိုတင်ဟောကြားချက်အရ ဖြစ်ပေါ်လာခဲ့သော ကမ္ဘာ့သမိုင်းစဉ်တွင် ဖြစ်ရိုးဖြစ်စဉ် အကြောင်းတရားများနှင့် ဖြောင့်ဖြောင့်ကြီးဆန့်ကျင်သော၊ ဉာဏ်နှင့်ယှဉ်၍ စဉ်းစားရန်ခဲယဉ်းလှသော ကြီးမားလှသော အစ္စလာမ်၏ အံ့ဖွယ်သရဲအောင်နိုင်မှုများပင်။

ယင်းသည့် သက်သေလက္ခဏာတော်များအနက် အချို့သက်သေလက္ခဏာတော်များကို မက္ကာမြို့သား ကာဖိရ်များသည် “ဗဒ်ရ်”စစ်ပွဲ၌ မိမိတို့၏ကိုယ်များတွင် လည်းကောင်း၊ မက္ကာမြို့တော်ကို မုစ်လင်မ်များ ပြန်လည်သိမ်းပိုက်ကြသည့်အခါ အာရေဗျပြည်၏ မြို့တော်တွင်လည်းကောင်း၊ “ခလီဖဟ်” သမ္မတကြီးလေးပါးလက်ထက်၌ ကမ္ဘာ့အရပ်ရပ်တွင်လည်းကောင်း မျက်ဝါးထင်ထင် တွေ့မြင်ခဲ့ကြရလေပြီမဟုတ်ပါလော။

# ဆွေးနွေးတိုင်ပင်ခြင်းကဏ္ဍ

سُورَةُ الشُّورَىٰ

ဤကဏ္ဍသည် “ရှူရာ”ဆွေးနွေးတိုင်ပင်ခြင်း အကြောင်းပါဝင်သော ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်(၅၃)ပါး၊ ရကူအ်အပိုဒ်(၅)ပိုဒ် အသီးသီးပါရှိသည်။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

حٰمٓ ①

၁။ ဟားမီမ်၊

عٓسٓقٓ ②

၂။ အိုင်န်၊ စီန်၊ ကာဖ်။

كَذٰلِكَ يُوْحِيْٓ اِلَيْكَ وَاِلَى الَّذِيْنَ مِنْ قَبْلِكَ ۙ اللّٰهُ الْعَزِيْزُ الْحَكِيْمُ ③

၃။ အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်သည် အသင့်ထံသို့လည်းကောင်း၊ အသင့်အလျင်ပွင့်ခဲ့ကြလေသော တမန်တော်များထံသို့ လည်းကောင်း၊ ဤနည်းအတိုင်းပင် ဝဟ်ယ်တော် ထုတ်ပြန်လေ့ရှိတော်မူခဲ့၏။ [၁]

لَهٗ مَا فِي السَّمٰوٰتِ وَمَا فِي الْاَرْضِ ۭ وَهُوَ الْعَلِيُّ الْعَظِيْمُ ④

၄။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ကမ္ဘာမြေ၌ ရှိသမျှတို့သည်လည်းကောင်း၊ ထိုအရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာများပင် ဖြစ်ကုန်၏။ ထို့မှတစ်ပါး ထိုအရှင်မြတ်သည် အလွန်မြင့်မြတ်လှတော်မူသော၊ ထူးကဲ ကြီးမြင့်လှတော်မူသောအရှင် ဖြစ်တော်မူ၏။

---

(၁) တမန်တော်မြတ်ထံသို့ အလ္လာဟ်အရှင်မြတ်ထံတော်မှ အာယတ်တော်များကို ထုတ်ပြန်ပို့ချပေးတော်မူခြင်းမှာ အထူးအဆန်းမဟုတ်ပေ၊ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်ထံ အာယတ်တော်များကို ထုတ်ပြန်ပို့ချတော်မူသကဲ့သို့ တမန်တော်မြတ်အလျင် ပွင့်လေခဲ့ကြကုန်သော တမန်တော်များထံသို့လည်း အာယတ်တော်များကို ထုတ်ပြန်ပို့ချတော်မူခဲ့သည်သာ ဖြစ်ပေသည်။ အလ္လာဟ်အရှင်မြတ်သည် အရာရာကို လွှမ်းမိုးတော်မူလျက်ရှိသည်။ ထိုအရှင်မြတ်၏ ဉာဏ်တော်သည် အရာရာကို လွှမ်းခြုံလျက်ရှိပေသည်။

تَكَادُ السَّمٰوٰتُ يَتَفَطَّرْنَ مِنْ فَوْقِهِنَّ وَالْمَلٰٓئِكَةُ يُسَبِّحُوْنَ بِحَمْدِ رَبِّهِمْ وَيَسْتَغْفِرُوْنَ لِمَنْ فِي الْاَرْضِ ۗ اَلَآ اِنَّ اللّٰهَ هُوَ الْغَفُوْرُ الرَّحِيْمُ ⑤

၅။ *မိုးကောင်းကင်များသည် မိမိတို့အပေါ်မှ အက်ကွဲပြိုကျအံ့ဆဲဆဲ ဖြစ်ကုန်၏။* [၁] ၎င်းပြင် "မလာအိကဟ်" ကောင်းကင်တမန်တို့သည် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ချီးမွမ်းထောပနာပြုခြင်းနှင့်တကွ (ထိုအရှင်မြတ်) စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုလျက်ရှိကြသည့်ပြင် ၎င်းတို့သည် ကမ္ဘာမြေ၌ရှိသူတို့အဖို့ လွတ်ငြိမ်းချမ်းသာခွင့်ကိုလည်း ပန်ကြားလျက်ရှိကြကုန်၏။ သတိပြုကြလေကုန်၊ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည်ပင် အလွန်တရာ ခွင့်လွှတ်တော်မူသော အလွန်တရာ သနားကြင်နာတော်မူသော အရှင်ဖြစ်တော်မူ၏။

وَالَّذِيْنَ اتَّخَذُوْا مِنْ دُوْنِهٖٓ اَوْلِيَآءَ اللّٰهُ حَفِيْظٌ عَلَيْهِمْ ۖ وَمَآ اَنْتَ عَلَيْهِمْ بِوَكِيْلٍ ⑥

၆။ ထိုအရှင်မြတ်မှတစ်ပါး အခြားကို ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးသူများအဖြစ် ရွေးချယ်ပြုလုပ်ခဲ့ကြသောသူတို့အား အလ္လာဟ်အရှင်မြတ်သည် ကြည့်ရှုစောင့်ကြပ်တော်မူလျက်ရှိ၏။ စင်စစ်သော်ကား အသင်သည် ၎င်းတို့နှင့်ပတ်သက်၍ တာဝန်ခံ မဟုတ်ပေတကား။ [၂]

---

(၁) "မိုးကောင်းကင်များသည် ၎င်းတို့အပေါ်သို့ အက်ကွဲပြိုကျအံ့ဆဲဆဲဖြစ်သည်"။ ဆိုလိုသည်ကား မိုးကောင်းကင်များသည် အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိ အလွန့်အလွန်ကြီးမားသော ဘုန်းအရှိန်ကြောင့်သော်လည်းကောင်း၊ အသင်္ချေ၊အသင်္ချာသော ကောင်းကင်တမန်တို့၏ ဝန်ရှိန်ကြောင့်သော်လည်းကောင်း၊ အသင်္ချေ၊ အသင်္ချာသော ကောင်းကင်တမန်တို့၏ အသင်္ချေ၊ အသင်္ချာသော ဂုဏ်တော်မွမ်းခြင်းများကြောင့်သော်လည်းကောင်း၊ အက်ကွဲပြိုကျလုဘနန်း ဖြစ်ပေသည်ဟူ၏။ တမန်တော်မြတ်၏ ဩဝါဒတော်များတွင် လာရှိသည်မှာ မိုးကောင်းကင်များသည် အလ္လာဟ်အရှင်မြတ်အား ပျပ်ဝပ်ဦးချလျက် ရှိသော ကောင်းကင်တမန်တော်များနှင့် လုံးဝပြည့်နှက်လျက်ရှိသည်။ လက်လေးသစ်မျှပင် နေရာလပ်မရှိ။

(၂) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် မုရှ်ရစ်က်တို့အား ဤပစ္စက္ခတွင် ခေတ္တခဏ လျစ်လျူပြုထားတော်မူသည်။ သို့ရာတွင် မုရှ်ရစ်က်များသည် ယင်းသို့ ခေတ္တခဏ လျစ်လျူပြုထားတော် မူသည်ကိုအကြောင်းပြု၍ ငါတို့သည် ရာသက်ပန် လွတ်မြောက်ကြပြီဟူ၍ကား အထင်မမှားကြရာ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ အပြုအမူ အားလုံးကို သိတော်မူသည်။ မှတ်သားထားတော်မူသည်။ မှတ်တမ်းတော်တွင် စေ့စေ့စပ်စပ် ရေးမှတ်ထားတော်မူသည်။ အချိန်ကျသည့်အခါ ဖွင့်ပြတော်မူပေမည်။

وَكَذٰلِكَ أَوْحَيْنَآ إِلَيْكَ قُرْاٰنًا عَرَبِيًّا لِّتُنذِرَ أُمَّ الْقُرٰى وَمَنْ حَوْلَهَا وَتُنذِرَ يَوْمَ الْجَمْعِ لَا رَيْبَ فِيهِ ۚ فَرِيقٌ فِى الْجَنَّةِ وَفَرِيقٌ فِى السَّعِيرِ ⑦

၇။ ထိုနည်းတူစွာ ငါအရှင်မြတ်သည် အသင်တို့ ထံသို့ အသင်သည် (ဦးစွာပထမ) မက္ကဟ်မြို့(သားတို့) ကိုလည်းကောင်း၊ ယင်းမက္ကဟ်မြို့၏ ပတ်ဝန်းကျင်(၌ နေထိုင်သူတို့)ကိုလည်းကောင်း၊ သတိပေး နှိုးဆော်အံ့ သောငှာ၊ ထို့ပြင် ဒွိဟသံသယ အလျှင်းမရှိသော ("ကိယာမတ်" ရှင်ပြန်ထမည့်)နေ့နှင့် စပ်လျဉ်း၍ အသိပေး နှိုးဆော်အံ့သောငှာလည်းကောင်း၊ အရဗီ ဘာသာစကားဖြင့်ဖြစ်သော (ဤ)ကုရ်အာန်ကျမ်းတော် မြတ်ကို ထုတ်ပြန်တော်မူခဲ့၏။ (၎င်းတို့အနက်) အုပ်စု တစ်စုမှာ "ဂျန္နတ်" သုခဘုံသို့ (လား၍) အုပ်စုတစ်စု မှာကား "ဂျဟန္နမ်" ငရဲဘုံသို့ (လားကြပေမည်)။ [၁]

وَلَوْ شَآءَ اللّٰهُ لَجَعَلَهُمْ أُمَّةً وَّاحِدَةً وَّلٰكِن يُّدْخِلُ مَن يَّشَآءُ فِى رَحْمَتِهِ ۚ وَالظّٰلِمُونَ مَا لَهُم مِّن وَّلِىٍّ وَّلَا نَصِيرٍ ⑧

၈။ စင်စစ်သော်ကား အကယ်၍သာ အလ္လာဟ် အရှင်မြတ်သည် အလိုတော်ရှိတော်မူခဲ့ပါလျှင် အမှန်ပင် ၎င်းတို့အား သာသနာဝင်အုပ်စုတစ်စုတည်း ပြုလုပ် တော်မူခဲ့မည်သာ။ သို့ရာတွင် ထိုအရှင်မြတ်သည် မိမိ အလိုရှိတော်မူသော သူတို့အားသာလျှင် မိမိကရုဏာ တော်သို့ ဝင်ရောက်စေတော်မူ၏။ စင်စစ်သော်ကား မတရားကျူးလွန်သူတို့အား ကာကွယ်စောင့်ရှောက် အံ့သောသူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် ရှိလိမ့် မည် မဟုတ်ပေ၊ ကူညီ စောင်မအံ့သောသူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် ရှိလိမ့်မည်မဟုတ်ချေ။

---

(၁) ဤအာယတ်တော်တွင် ပါရှိသော "အွန်မွုလ်ကုရာ" မြို့ရွာအပေါင်းတို့၏ အမိဟူသည် မက္ကဟ်မြို့တော်ကို ဆိုလိုသည်။ မက္ကဟ်မြို့တော်သည် အာရေဗျပြည်၏မြို့တော်လည်းဖြစ်သည်။ အရဗ် အမျိုးသားများသည်လည်း မက္ကဟ်မြို့တော်၌ပင် စုရုံးကြသည်။ ကမ္ဘာ့အဝှန်းတွင် အလ္လာဟ်အရှင်မြတ်၏ အိမ်တော်မှာလည်း မက္ကဟ်မြို့တော် ၌ပင် တည်ရှိပေသည်။ အဆိုပါအိမ်တော်သည် ကမ္ဘာမြေမျက်နှာပြင်ပေါ်တွင် ပထမဦးဆုံး ဝတ်ပြုရာဌာနလည်း ဖြစ်ခဲ့ပေသည်။ (ရိဝါယာတ်) ကျမ်းချက်များအရ ကမ္ဘာမြေကို စတင်ဖန်ဆင်းတော်မူရာတွင် အလ္လာဟ်အရှင်မြတ် သည် အဆိုပါအိမ်တော်တည်ရှိရာ နေရာမှာပင် ပထဝီမြေကြီးကို ဖြန့်တော်မူခဲ့ပေသည်။

အဆိုပါမြို့တော်၏ ပတ်ဝန်းကျင်ဟူသည် ပထမသော် အာရေဗျတိုင်းပြည်၊ ထို့နောက်သော် ➤➤

أَمِ اتَّخَذُوا مِن دُونِهِ أَوْلِيَاءَ ۖ فَاللَّهُ هُوَ الْوَلِيُّ وَهُوَ يُحْيِي الْمَوْتَىٰ وَهُوَ عَلَىٰ كُلِّ شَيْءٍ قَدِيرٌ ⑨

၉။ ၎င်းတို့သည် ထိုအရှင်မြတ်မှတစ်ပါး အခြားသူတို့အား ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးသူများအဖြစ် ရွေးချယ်ပြုလုပ် ထားခဲ့ကြလေသလော။ အမှန်စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သာလျှင် ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက်ပေးတော်မူသော အရှင်ဖြစ်တော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည်သာလျှင် သူသေတို့အား ရှင်စေတော်မူမည်။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည်သာလျှင် အရာခပ်သိမ်းတို့ကို ပြုစွမ်းနိုင်တော်မူသော အရှင်ဖြစ်တော်မူ၏။

وَمَا اخْتَلَفْتُمْ فِيهِ مِن شَيْءٍ فَحُكْمُهُ إِلَى اللَّهِ ۚ ذَٰلِكُمُ اللَّهُ رَبِّي عَلَيْهِ تَوَكَّلْتُ وَإِلَيْهِ أُنِيبُ ⑩

၁၀။ ၎င်းပြင် အကြင်ကိစ္စသည် ယင်းကိစ္စနှင့်စပ်လျဉ်း၍ အသင်တို့သည် (မုစ်လင်မ်တို့နှင့်) ကွဲပြားလျက်ရှိကြကုန်၏။ စင်စစ်သော်ကား ယင်းကိစ္စ၏ အဆုံးအဖြတ်မှာ အလ္လာဟ်အရှင်မြတ်အထံတော်၌ပင်ရှိ၏။ ဤသည်ပင် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ် ဖြစ်တော်မူ၏။ ငါသည် ထိုအရှင်မြတ်အပေါ်၌ပင် ယုံပုံလွှဲအပ်ပေသည်။ ၎င်းပြင် ငါသည် ထိုအရှင်မြတ်ဘက်သို့သာလျှင် ပြန်လှည့်၏။

فَاطِرُ السَّمَاوَاتِ وَالْأَرْضِ ۚ جَعَلَ لَكُم مِّنْ أَنفُسِكُمْ

၁၁။ (ထိုအရှင်မြတ်သည်ပင်) မိုးကောင်းကင်များကိုလည်းကောင်း၊ ကမ္ဘာမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသောအရှင် ဖြစ်တော်မူ၏။

---

➤➤ ကမ္ဘာ့အဝှန်း ကိုဆိုလိုသည်။ အလ္လာဟ်အရှင်မြတ်သည် အတိတ်ခေတ် တမန်တော်များထံသို့ (ဝဟ်ယ်) အမိန့်တော်များ ပို့ချတော်မူခဲ့သည့်အလား တမန်တော်မြတ်ထံသို့လည်း အရဗ်ဘာသာစာပေဖြင့် ဖြစ်သော ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ပို့ချ ပေးသနားတော်မူခဲ့သည်။

ယင်းသို့ ကုရ်အာန်ကျမ်းမြတ်ကို ပို့ချပေးသနားတော်မူခြင်းမှာ- တမန်တော်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ဖြင့် ဦးစွာပထမ မက္ကဟ်မြို့တော်သူ မြို့တော်သားများအား လည်းကောင်း၊ ထို့နောက် အာရေဗျတိုင်းသူပြည်သားများနှင့် ကမ္ဘာ့အဝှန်းအားလည်းကောင်း၊ သတိပေးနှိုးဆော်တော် မူရန်ပင်ဖြစ်ပေသည်။ အထူးသဖြင့် စုရုံးရမည့်နေ့ (ဝါ) ကိယာမတ်နေ့နှင့်စပ်လျဉ်း၍ သတိပေးနှိုးဆော်တော် မူရန်ဖြစ်သည်။ ထိုနေ့တွင် လူသားအားလုံးတို့ စုရုံးကြရမည်ဖြစ်သည်။ ကြည့်-ကုရ်အာန် (၆၄း၉)။

أَزْوَاجًا وَّمِنَ الْأَنْعَامِ أَزْوَاجًا ۚ يَذْرَؤُكُمْ فِيهِ ۚ لَيْسَ كَمِثْلِهِ شَيْءٌ ۖ وَهُوَ السَّمِيعُ الْبَصِيرُ ﴿١١﴾

ထိုအရှင်မြတ်သည်ပင် အသင်တို့အဖို့ အသင်တို့၏အမျိုးအစားထဲမှပင် ကြင်ရာကြင်ဖက်များကို ဖန်ဆင်းတော်မူခဲ့၏။ ထိုနည်းတူစွာ ခြေလေးချောင်း တိရစ္ဆာန်တို့၏ စုံတွဲများကိုလည်း ဖန်ဆင်းတော်မူခဲ့၏။ ယင်းသို့ ပြုလုပ်ခြင်းအားဖြင့် ထိုအရှင်မြတ်သည် အသင်တို့အား ပြန့်ပွားစေတော်မူ၏။ ထိုအရှင်မြတ်နှင့် တူသောအရာဟူ၍ကား မည်သည့် တစ်စုံတစ်ရာမျှပင် မရှိပြီ။ ထိုအရှင်မြတ်သည်ပင် အကြွင်းမဲ့ကြားတော်မူသောအရှင်၊ မြင်တော်မူသောအရှင်ဖြစ်တော်မူ၏။ [၁]

لَهُ مَقَالِيدُ السَّمٰوٰتِ وَالْأَرْضِ ۚ يَبْسُطُ الرِّزْقَ لِمَنْ يَّشَاءُ وَيَقْدِرُ ۚ إِنَّهُ بِكُلِّ شَيْءٍ عَلِيمٌ ﴿١٢﴾

၁၂။ *မိုးကောင်းကင်များနှင့်ပထဝီမြေ၏ သော့များသည် ထိုအရှင်မြတ်၌သာ ရှိကုန်၏။* [၂] ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား စားနပ်ရိက္ခာကို ကျယ်ဝန်းစွာ ချီးမြှင့်တော်မူ၏။ ထိုနည်းတူစွာ (မိမိအလိုရှိတော်မူသောသူအား စားနပ်ရိက္ခာကို) ကျပ်တည်းစေတော်မူ၏။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်သည် တန်ခိုးတော်အနန္တရှင်၊ ဉာဏ်တော်အနန္တရှင် ဖြစ်တော်မူသည်၊ တစ်ဆူတည်း၊ တစ်ပါးတည်း ဖြစ်တော်မူသည်။ ထိုအရှင်မြတ်၌ အစမရှိ၊အဆုံးမရှိ၊ ပြိုင်ဖက်၊ယှဉ်ဖက်မရှိ၊ ထိုအရှင်မြတ်၏ ဇာတိတော်တွင်လည်းတူသူမရှိ၊ ဂုဏ်တော်များတွင်လည်း တူသူမရှိ။ ထိုအရှင်မြတ်၏ဇာတိတော်၊ ဂုဏ်တော်များတွင်သာမက ထိုအရှင်မြတ်၏ အမိန့်ပညတ်တော်များ၊ အဆုံးအဖြတ်တော်များတွင်လည်း တူသောသာသနာလည်းမရှိ။ ထိုအရှင်မြတ်၏ဇာတိတော်ကို တွေးတောကြံဆ၍ မဖြစ်နိုင်ရကား ထိုအရှင်မြတ်နှင့်တူသောအရာသည် အသို့လျှင် ရှိနိုင်အံ့နည်း။

(၂) ဘဏ္ဍာတော်တိုက် အားလုံးတို့၏ သော့များသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ဆိုလိုသည်ကား အခွင့်အာဏာအားလုံးသည် အလ္လာဟ်အရှင်မြတ်၏လက်တော်တွင်း၌သာရှိပေသည်။ ထိုအရှင်မြတ်သည် မိမိ၏အာသာဆန္ဒတော်အတိုင်း စီမံခန့်ခွဲတော်မူသည်။ ခြယ်လှယ်တော်မူသည်။ သတ္တဝါအပေါင်းတို့အား စားနပ်ရိက္ခာကို ထိုအရှင်မြတ်သည်ပင် ပေးသနားတော်မူသည်။ မည်သူ့အား မည်ရွေ့မည်မျှ ပေးအပ်သင့်သည်ကို ထိုအရှင်မြတ်သည် အကြွင်းမဲ့သိတော်မူသည်။ ထို့အတူ အရေးကိစ္စအဝဝတွင် ထိုက်တန်သူအား ထိုက်တန်သည်နှင့်အမျှ ပေးသနားတော်မူသည်သာဖြစ်သည်။

ဤသည့်သဘောကို ကုရ်အာန် (၃၉း၆၃)တွင်လည်း မိန့်ဆိုထားတော်မူသည်။

شَرَعَ لَكُمْ مِّنَ الدِّيْنِ مَا وَصّٰى بِهٖ نُوْحًا وَّالَّذِيْٓ اَوْحَيْنَآ اِلَيْكَ وَمَا وَصَّيْنَا بِهٖٓ اِبْرٰهِيْمَ وَمُوْسٰى وَعِيْسٰٓى اَنْ اَقِيْمُوا الدِّيْنَ وَلَا تَتَفَرَّقُوْا فِيْهِ ؕ كَبُرَ عَلَى الْمُشْرِكِيْنَ مَا تَدْعُوْهُمْ اِلَيْهِ ؕ اَللّٰهُ يَجْتَبِيْٓ اِلَيْهِ مَنْ يَّشَآءُ وَيَهْدِيْٓ اِلَيْهِ

၁၃။ ထိုအရှင်မြတ်သည် အသင်တို့အဖို့ အကြင်သာသနာတော်ကိုပင် သတ်မှတ်ပြဋ္ဌာန်း၍ ပေးတော်မူခဲ့၏၊ ထိုအရှင်မြတ်သည် (နဗီတမန်တော်) "နူဟ်"အား ယင်းသာသနာတော်ကိုပင် နာယူကျင့်မူရန် အမိန့်ပေးတော်မူခဲ့၏။ ၎င်းပြင် ငါအရှင်မြတ်သည် ယင်းသာသနာတော်ကိုပင် အသင့်ထံသို့ ထုတ်ပြန်တော်မူခဲ့၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ယင်းသာသနာတော်ကိုပင် နာယူကျင့်မူရန် (နဗီတမန်တော်) "အီဗ်ရာဟီမ်" အားလည်းကောင်း၊ (နဗီတမန်တော်) "မူစာ" အားလည်းကောင်း၊ (နဗီတမန်တော်) "အီစာ" အားလည်းကောင်း၊ *အမိန့်ပေးတော်မူခဲ့၏*။ [၁] အသင်တို့သည် "ဒီန်"သာသနာတော်ကို ခိုင်မြဲ တည်ရှိစေကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် ယင်းသာသနာတော်နှင့်စပ်လျဉ်း၍ ကွဲပြားခြင်း၊ အုပ်စုကွဲခြင်း၊ မရှိကြကုန်လင့်ဟူ၍ အမိန့်ပေးတော်မူခဲ့၏။

---

(၁) **တမန်တော်အပေါင်းတို့၏ တစ်ခုတည်းသော (ဒီန်)သာသနာ၊**

ဖခင်ကြီးအာဒမ်နောက် ပထမဦးဆုံးသော (ရစူလ်)တမန်တော်မှာ တမန်တော် နူဟ်ပင်ဖြစ်ခဲ့ပေသည်။ (ရှရီအတ်) တရားဥပဒေ၊ အမိန့်ပညတ်ချက်များသည် တမန်တော် နူဟ်လက်ထက်တွင်မှ စတင်ဖြစ်ပေါ်လာခဲ့ပေသည်။ နောက်ဆုံးတမန်တော်မှာ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)ပင် ဖြစ်တော်မူပေသည်။ တမန်တော်အဖြစ် စေလွှတ်မှုသည်မှာလည်း တမန်တော်မြတ်၌ပင် ဆုံးခန်းတိုင်သွားခဲ့ပေပြီ။ တမန်တော်မြတ်နောက် တမန်တော်ပွင့်ရန် အလျင်းမရှိပြီ။ ပွင့်ရန်လည်းမလိုပြီ တမန်တော်မြတ်နှင့် တမန်တော် နူဟ်၏စပ်ကြားတွင် တမန်တော်အမြောက်အမြား ပွင့်တော်မူခဲ့ကြပေသည်။ ယင်းတမန်တော်များတွင် တမန်တော် အီဗ်ရာဟီမ်၊ တမန်တော်မူစာ တမန်တော်အီစာတို့သည် အထူး ကျော်ကြားခဲ့ကြပေသည်။

ဤတွင် အလ္လာဟ်အရှင်မြတ်က အတိအလင်း ဖွင့်ဟမြွက်ကြားထားတော်မူသည်မှာ (ဒီန်)သာသနာသည် တစ်ခုတည်းပင် အမြဲတစေ တည်ရှိခဲ့ပေသည်။ ပွင့်လေသမျှသော တမန်တော်အပေါင်းတို့၏ (ဒီန်)သာသနာသည်လည်း တစ်ခုတည်းပင်ဖြစ်ခဲ့ပေသည်။ အဘယ်ကြောင့်ဆိုသော် ပွင့်လေသမျှသော တမန်တော်အပေါင်းတို့၏ (ဒီန်)သာသနာသည် ယုံကြည်ချက်၊ ကိုယ်ကျင့်တရား၊ သာသနာရေးရာ အခြေခံသဘောတရားများတွင် အားလုံး တညီတညွတ်တည်းပင် ဖြစ်ခဲ့ပေသည်။ အသေးစိတ်များတွင်သာ ခေတ်အခါ၊ ပတ်ဝန်းကျင် အခြေအနေအရ ခြားနားမှုရှိခဲ့ပေသည်။ ကြည့်-ကုရ်အာန် (၅:၄၈)။

مَنۡ يُّنِيۡبُ ⑬

(အို-နဗီတမန်တော်) "မုရှ်ရစ်က်" တွဲဖက်နိုင်းယှဉ်ကိုးကွယ်ကြကုန်သော သူတို့၌ အသင် ၎င်းတို့အား ဖိတ်ခေါ်လျက်ရှိသော(တောင်ဟီဒ်)တရားတော်မှာ လွန်စွာခက်ခဲကြီးလေးလှ၏၊ (စင်စစ်မှာကား) အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား မိမိအထံတော်သို့ ရွေးချယ်တော်မူ၏၊ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် မိမိဘက်တော်သို့ ပြန်လှည့်သောသူအား လမ်းညွှန်တော်မူ၏။ [၁]

وَمَا تَفَرَّقُوۡۤا اِلَّا مِنۡۢ بَعۡدِ مَا جَآءَهُمُ الۡعِلۡمُ بَغۡيًاۢ بَيۡنَهُمۡ‌ؕ وَلَوۡلَا كَلِمَةٌ سَبَقَتۡ مِنۡ رَّبِّكَ اِلٰٓى اَجَلٍ مُّسَمًّى لَّقُضِىَ بَيۡنَهُمۡ‌ؕ وَاِنَّ الَّذِيۡنَ اُوۡرِثُوا الۡكِتٰبَ مِنۡۢ بَعۡدِهِمۡ لَفِىۡ شَكٍّ مِّنۡهُ مُرِيۡبٍ ⑭

၁၄။ အမှန်စင်စစ်သော်ကား ၎င်းတို့မှာ မိမိတို့ထံသို့ (တိကျမှန်ကန်သော) အသိပညာ ရောက်ရှိ၍လာပြီးနောက်သော်မှပင် မိမိတို့အချင်းချင်း မနာလိုမှုကြောင့် အုပ်စုကွဲခဲ့ကြကုန်၏။ စင်စစ်မှာကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ သတ်မှတ်ထားသည့်အချိန်ထိ (လျစ်လျူပြုထားရန် ရှေးဦးမဆွကပင် အမိန့်တော်တစ်ရပ် အတည်မဖြစ်ခဲ့ပါလျှင် ၎င်းတို့အကြားဝယ် အမှန်ပင် စီရင်ဆုံးဖြတ်ခဲ့ပြီးဖြစ်မည်သာ။

ထိုမှတစ်ပါး ဧကန်စင်စစ် ၎င်းတို့နောက်တွင် ကျမ်းဂန်ကို ပိုင်ဆိုင်စေခြင်းခံခဲ့ကြရသော သူတို့မှာမူကား ယင်းသာသနာတော်နှင့်စပ်လျဉ်း၍ ဝိစိကိစ္ဆာဖြစ်စေသော ဒွိဟသံသယ၌ ရှိနေကြကုန်သတည်း။

---

(၁) တမန်တော်မြတ်သည် လူသားတို့အား (တောင်ဟီးဒ်) တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အားသာ ဆည်းကပ်ကိုးကွယ်ရန် ဖိတ်ခေါ်တော်မူခဲ့၏။ တောင်ဟီးဒ်သည် ပွင့်လေသမျှသော တမန်တော်အပေါင်းတို့၏ အခြေခံ ယုံကြည်ချက်တရားပင်ဖြစ်သည်။ ယုတ္တိလည်းရှိသည်။ ဉာဏ်နှင့် ယှဉ်ကြည့်ကလည်း မှန်ကန်နေသည်။ သို့ပါလျက် ယင်းသည့်တောင်ဟီးဒ်သည်ပင် မုရှ်ရစ်က်များအဖို့မှာ ခက်ခဲ၊ကြီးလေးနေပေသည်။

၎င်းတို့သည် ဤမည်သော တောင်ဟီးဒ်နှင့်စပ်လျဉ်း၍ ငြင်းခုန်နေကြသည်။ ဤသည် ကမ်းကုန်အောင် မိုက်မဲခြင်းပင်။ အမှန်မှာ တရားရခြင်း စသည်များသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ထိုအရှင်မြတ်သည် မိမိ၏ကျွန်များအနက် မိမိအလိုရှိတော်မူသော ပုဂ္ဂိုလ်များအား ရွေးချယ်၍ ➤➤

فَلِذٰلِكَ فَادْعُ ۚ وَاسْتَقِمْ كَمَآ اُمِرْتَ ۚ وَلَا تَتَّبِعْ اَهْوَآءَهُمْ ۚ وَقُلْ اٰمَنْتُ بِمَآ اَنْزَلَ اللّٰهُ مِنْ كِتٰبٍ ۚ وَاُمِرْتُ لِاَعْدِلَ بَيْنَكُمْ ؕ اَللّٰهُ رَبُّنَا وَرَبُّكُمْ ؕ لَنَآ اَعْمَالُنَا وَلَكُمْ اَعْمَالُكُمْ ؕ لَا حُجَّةَ بَيْنَنَا وَبَيْنَكُمْ ؕ اَللّٰهُ يَجْمَعُ بَيْنَنَا ۚ وَاِلَيْهِ الْمَصِيْرُ ؕ ﴿١٥﴾

၁၅။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) ထိုသည့်အတွက်ကြောင့်ပင် အသင်သည် (၎င်းတို့အား မှန်ကန်သော "ဒီန်"သာသနာတော်သို့) ဖိတ်ခေါ်လျက်ရှိပါလေ။ ၎င်းပြင် အသင်သည် မိမိအမိန့်ပေးခြင်း ခံခဲ့ရသည့်အတိုင်း ဖြောင့်မတ်စွာ ရှိနေပါလေ။ ထို့ပြင် အသင်သည် ၎င်းတို့၏အလိုဆန္ဒများကို မလိုက်နာလေနှင့်၊ ထိုမှတစ်ပါး အသင်သည် ဤသို့ပြောကြားပါလေ။ ငါသည် အလ္လာဟ်အရှင်မြတ် ချပေးတော်မူခဲ့သော မည်သည့်ကျမ်းဂန်ကိုမဆို သက်ဝင်ယုံကြည်ပြီးဖြစ်၏။

၎င်းပြင် ငါသည် အသင်တို့အကြား၌ တရားမျှတရန် အမိန့်ပေးခြင်းကို ခံရ၏။ အလ္လာဟ်အရှင်မြတ်သည် ငါတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်လည်းဖြစ်တော်မူ၏။ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်လည်း ဖြစ်တော်မူ၏။ ငါတို့၏ အကျင့်အမူတို့မှာ ငါတို့အဖို့ ဖြစ်၍ အသင်တို့၏ အကျင့်အမူတို့ကား အသင်တို့အဖို့ ဖြစ်၏။ ငါတို့နှင့်အသင်တို့၏အကြား၌ မည်သို့မျှ အငြင်းအခုံပြုရန်မရှိပြီ။ အလ္လာဟ်အရှင်မြတ်သည်ပင် ငါတို့အားလုံးကို စုရုံးတော်မူပေမည်။ ထိုမှတစ်ပါး ထိုအရှင်မြတ်အထံတော်သို့ပင် ပြန်ကြရပေမည်။ [၁]

---

➤➤ မြှောက်စားတော်မူသည်။ ထို့အတူ မိမိတို့၏ကောင်းမြတ်သော အရည်အချင်းများဖြင့် အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ပြန်လှည့်ကြသော ပုဂ္ဂိုလ်မွန်တို့အားလည်း ထိုအရှင်မြတ်သည် ကူညီတော်မူသည်သာဖြစ်သည်။ အောင်မြင်စေတော်မူသည်သာဖြစ်သည်။ ကြည့်-ကုရ်အာန် (၂၂:၇၅။ ၂၈:၆၈။ ၃၉:၆၉)။

① **အမိန့်တော် (၁၀) ပါး၊**

အထက်တွင် ဖော်ပြပါရှိသည့်အတိုင်း အမှန်တရားနှင့်စပ်လျဉ်း၍ အမျိုးမျိုး ငြင်းခုံကွဲပြားနေခဲ့ကြပေရာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း အမိန့်တော်(၁၀)ပါး မိန့်ကြားထားတော်မူသည်။

ဆိုလိုသည်ကား - တမန်တော်မြတ်သည် -- ➤➤

وَالَّذِيْنَ يُحَآجُّوْنَ فِى اللّٰهِ مِنْۢ بَعْدِ مَا اسْتُجِيْبَ لَهٗ حُجَّتُهُمْ دَاحِضَةٌ عِنْدَ رَبِّهِمْ وَعَلَيْهِمْ غَضَبٌ وَّلَهُمْ عَذَابٌ شَدِيْدٌ ⑯

၁၆။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ ထိုအရှင်မြတ်အား ဟုတ်မှန်ကြောင်း ဝန်ခံပြီးဖြစ်သည့်နောက်သော်မှပင် အငြင်းအခုံပြုကြကုန်သောသူတို့၏ အငြင်းအခုံပြုခြင်းမှာ ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ အလွဲအချော်ပင် ဖြစ်ပေသည်။ ထို့ပြင် ၎င်းတို့အပေါ်၌ အမျက်တော်ကျရောက်မည့်အပြင် ၎င်းတို့၌ ပြင်းထန်လှစွာသော အပြစ်ဒဏ်သည်လည်း ရှိချိမ့်မည်။

---

➤➤ (၁) ဖခင်ကြီးအာဒမ်၊ တမန်တော်နူဟ်၊ တမန်တော်အီဗ်ရာဟီမ်၊ တမန်တော်မူစာ၊ တမန်တော်အီစာစသည့် ပွင့်လေကုန်သောတမန်တော်များကဲ့သို့ပင် လူသားတို့အား "တောင်ဟီးဒ်"ဘက်သို့ပင် ဖိတ်ခေါ်နေရမည်သာ။

(၂) မိမိနှင့်တကွ နောက်လိုက်ငယ်သားတို့သည် ယင်းသည့် တောင်ဟီးဒ်အပေါ်၌ပင် အမိန့်တော်နှင့်အညီ မယိမ်းမယိုင်တည့်မတ်ကြံ့ခိုင်စွာ နေရမည်သာ။

(၃) အမှန်တရားကို သွေဖည်နေကြသော သာသနာ့ရန်သူများ၏ စိတ်အာသာဆန္ဒကို စိုးစဉ်းမျှပင် လိုက်နာရန်မလို။ တမန်တော်မြတ်သည် အတိအလင်း ကြေညာအပ်သည်မှာ-

(၄) ကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ် ထုတ်ပြန်ချမှတ်တော်မူခဲ့သော ကျမ်းဂန်အားလုံးကို ယုံကြည်သည်။ ယင်းကျမ်းဂန်များတွင် တောင်ရာတ်၊ ဣန်ဂျီလ်၊ ဇဗူရ်၊ ကုရ်အာန်စသည့် ကျမ်းများအားလုံး အကျုံးဝင်သည်။

(၅) ကျွန်ုပ်သည် အသင်တို့၏ပြဿနာများကို ချိန်ခွင်ပမာ တရားမျှတစွာ စီရင်ဆုံးဖြတ်မည်။

(၆) အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့၏ အရှင်လည်းဖြစ်တော်မူသည်။ ဤသည်ကို ကျွန်ုပ်တို့သည် ကြည်ဖြူစွာ ဝန်ခံကြသည်။ ထိုအရှင်မြတ်သည် အသင်တို့၏ အရှင်လည်းဖြစ်တော်မူသည်။ သို့ရာတွင် အသင်တို့သည် ကြည်ဖြူစွာ ဝန်မခံကြပေ။

(၇) ကျွန်ုပ်တို့၏ အပြုအမူများသည် ကျွန်ုပ်တို့နှင့် အတူပါမည်သာ။ အသင်တို့၏ အပြုအမူများသည် အသင်တို့နှင့် အတူပါမည်သာ။ ကိုယ့်ဝန် ကိုယ်ထမ်းကြရမည်သာ။

(၈) သို့ဖြစ်ရာ ကျွန်ုပ်တို့သည် အချင်းချင်း အငြင်းအခုံ ပြုနေကြရန်မလို။

(၉) တစ်ရက် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့အားလုံးတို့အား စုရုံးတော်မူမည်သာ။

(၁၀) ကျွန်ုပ်တို့အားလုံးသည် ထိုအရှင်မြတ် ရှေ့တော်မှောက်သို့ ပြန်လည်ရောက်ရှိကြပြီး စာရင်းရှင်းကြရမည်။ ထိုအခါ မည်သူမှန်သည်၊ မည်သူမှားသည်၊ မည်သူကောင်းသည်၊ မည်သူဆိုးသည်၊ မည်သူမြတ်သည်၊ မည်သူရှုံးသည်၊ မည်သူမည်သို့စံ၍ မည်သူမည်သို့ခံရမည်ကို ကောင်းစွာသိရှိသွားကြရပေမည်။

ကြည့်-အီဗ်နုကဆီရ်။

اَللّٰهُ الَّذِيْٓ اَنْزَلَ الْكِتٰبَ بِالْحَقِّ وَالْمِيْزَانَ ؕ وَمَا يُدْرِيْكَ لَعَلَّ السَّاعَةَ قَرِيْبٌ ﴿١٧﴾

၁၇။ အလ္လာဟ်အရှင်မြတ်သည်ပင် ကျမ်းဂန်ဒေသနာတော်ကိုလည်းကောင်း၊ တရားမျှတမှုကိုလည်းကောင်း၊ *တိကျမှန်ကန်စွာ ချပေးတော်မူသောအရှင် ဖြစ်တော်မူ၏။* [၁] စင်စစ်သော်ကား (အို-နဗီတမန်တော်) အသင်မသိ၊ "ကိယာမတ် ရှင်ပြန်ထမည့် အချိန်ကာလသည် နီးကပ်စွာ ရှိတန်ရာသည်။"

يَسْتَعْجِلُ بِهَا الَّذِيْنَ لَا يُؤْمِنُوْنَ بِهَا ۚ وَالَّذِيْنَ اٰمَنُوْا مُشْفِقُوْنَ مِنْهَا ۙ وَيَعْلَمُوْنَ اَنَّهَا الْحَقُّ ؕ اَلَآ اِنَّ الَّذِيْنَ يُمَارُوْنَ فِى السَّاعَةِ لَفِىْ ضَلٰلٍۢ بَعِيْدٍ ﴿١٨﴾

၁၈။ ယင်း "ကိယာမတ်" ရှင်ပြန်ထမည့်အချိန်နှင့် စပ်လျဉ်း၍ ၎င်းကို မယုံကြည်သောသူတို့သည်သာ လျှင် အလျင်စလို ပြုလျက်ရှိကြကုန်၏။ သို့ရာတွင် "မုအ်မင်န်" သက်ဝင် ယုံကြည်သူတို့မှာမူကား ယင်း "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလကို စိုးရိမ်၍ နေကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် ၎င်းကို မှန်ကန်သည်ဟု ယုံကြည်ကြကုန်၏။ သတိပြုကြလေကုန်။ "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလနှင့်စပ်လျဉ်း၍ အငြင်းအခုံပြုကြသော သူတို့မှာမူကား လွန်စွာဝေးကွာလှသော လမ်းမှား၌ ရှိနေကြကုန်သတည်း။

---

(၁) ဤအာယတ်တော်တွင် ပါရှိသော "မီဇာန်"ဟူသောပုဒ်သည် "ဝဇန်"ဟူသောမူရင်းပုဒ်မှ ဆင်းသက်လာ၏။ 'မီဇာန်'သည် ချိန်တွယ်ရန် ပြုလုပ်ထားသော ကိရိယာ (ဝါ)ချိန်ခွင်ကိုဆိုလိုသည်။

အလ္လာဟ်အရှင်မြတ်သည် အရာဝတ္ထုပစ္စည်းများကို ချိန်တွယ်နိုင်ရန် ဝတ္ထုပစ္စည်းနှင့်ပြုလုပ်ထားသည့် ချိန်ခွင်ကိုလည်း ချပေးထားတော်မူသည်။ ထို့အတူ အသိဉာဏ်အမြော်အမြင်ဆိုင်ရာ ချိန်ခွင်ကိုလည်း ချပေးထားတော်မူသည်။ ဤသည့်ချိန်ခွင်ကား အခြားမဟုတ်။ ဖြောင့်မတ်မှန်ကန်စွာ တွေးတောဆင်ခြင်တတ်သော အသိဉာဏ်ပင်။

ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်သည် ကိုယ်ကျင့်တရားဆိုင်ရာ ချိန်ခွင်ကိုလည်း ချပေးထားတော်မူသည်။ ဤကား အခြားမဟုတ်။ တရားမျှတမှုပင်။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်သည် (ဒီန်) မှန်ကန်သော သာသနာတော်ကိုလည်း ချပေးထားတော်မူသည်။ ယင်းသာသနာတော်သည် ဖန်ဆင်းတော်မူသော အရှင်နှင့် အဖန်ဆင်းခံတို့၏စပ်ကြားတွင် အပြန်အလှန် စောင့်သိရှိသေအပ်သော တာဝန်ဝတ္တရားများကို တိကျမှန်ကန်စွာ ရှင်းလင်းညွှန်ပြထားသည်။ ဖော်ပြပါ ချိန်ခွင်များအနက် သာသနာတော်တည်းဟူသော ချိန်ခွင်သည် အကြီးဆုံးပင် ဖြစ်သည်။

اَللّٰهُ لَطِيْفٌۢ بِعِبَادِهٖ يَرْزُقُ مَنْ يَّشَآءُ ۚ وَهُوَ الْقَوِيُّ الْعَزِيْزُ ﴿١٩﴾

၁၉။ အလ္လာဟ်အရှင်မြတ်သည် မိမိကျွန်တို့၏အလွန်နက်နဲသိမ်မွေ့သော အရေးကိစ္စတို့ကိုပင် ကောင်းစွာသိတော်မူသော အရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား (မိမိအလိုရှိတော်မူသရွေ့) စားနပ်ရိက္ခာကို ပေးသနားတော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် စွမ်းရည်သတ္တိနှင့် အလွန်ပြည့်စုံတော်မူသောအရှင်၊ လွန်စွာ နိုင်နင်းလွှမ်းမိုးတော်မူသော အရှင်ဖြစ်တော်မူ၏။ [၁]

مَنْ كَانَ يُرِيْدُ حَرْثَ الْاٰخِرَةِ نَزِدْ لَهٗ فِىْ حَرْثِهٖ ۚ وَمَنْ كَانَ يُرِيْدُ حَرْثَ الدُّنْيَا نُؤْتِهٖ مِنْهَا وَمَا لَهٗ فِى الْاٰخِرَةِ مِنْ نَّصِيْبٍ ﴿٢٠﴾

၂၀။ မည်သူမဆို "အာခိရတ်" တမလွန်ဘဝ၏ လယ်ယာစိုက်ပျိုးမှုကို လိုလားသည်ရှိသော် ငါအရှင်မြတ်သည် ၎င်းအား ၎င်း၏လယ်ယာစိုက်ပျိုးမှုတွင် တိုးပွားစေတော်မူပေမည်။ သို့ရာတွင် မည်သူမဆို (ဤမျက်မှောက်)လောက၏ လယ်ယာစိုက်ပျိုးမှု လိုလားပါမူ ငါအရှင်မြတ်သည် ၎င်းအား(လည်း) ဤ(မျက်မှောက်)လောကမှ အနည်းငယ်ပေးတော်မူမည်။ သို့ရာတွင် "အာခိရတ်" တမလွန်ဘဝ၌မူကား ၎င်း၏အဖို့ မည်သည့် ဝေစုဝေပုံမျှပင် ရှိလိမ့်မည်မဟုတ်။

---

(၁) ထိုအရှင်မြတ်သည် မိမိ၏ကျွန်များ၏ နက်နဲသိမ်မွေ့မှုများကို သိတော်မူသည်။ ထောက်ထားတော်မူသည်။ အလွန်နူးညံ့သိမ်မွေ့စွာဖြင့် လူသားတို့အား မွေးမြူတော်မူသည်။ မိမိအလိုတော် ရှိတော်မူသောသူအား အလိုတော်ရှိသမျှ ချီးမြှင့်တော်မူသည်။ ထိုအရှင်မြတ်သည် လူသားတို့အား သနားတော်မူသည် မှန်၏။ မွေးမြူတော်မူသည် မှန်၏။

ဤသည့်ဂုဏ်တော်များကိုကြည့်၍ ငါတို့သည် အဘယ်မျှပင် အမိန့်တော်ကို ဖီဆန်ကြလင့်ကစား၊ ထိုအရှင်မြတ်သည် ငါတို့အား အရေးယူတော်မူမည် မဟုတ်ဟူ၍ကား အထင်မမှားရေ။ ထိုအရှင်မြတ်သည် အတိုင်းမသိ ကြီးမားသော စွမ်းရည်သတ္တိနှင့်လည်း ပြည့်စုံတော်မူသည်။ အရာရာကိုလည်း နိုင်နင်းလွှမ်းမိုးတော်မူသော အရှင်လည်း ဖြစ်တော်မူသည်။ သို့ဖြစ်ရာ ထိုအရှင်မြတ်သည် အမိန့်တော်ဖီဆန်သူများအား ထိုက်သည့်အားလျော်စွာ ပြစ်ဒဏ်ခတ်တော် မူနိုင်သည်ကိုလည်း မမေ့ရာ။ သို့ဖြစ်ရာ လူသားတို့သည် သခ်ါရမျှသာဖြစ်သော လောကီစည်းစိမ်များတွင်သာ နစ်မွန်း၍မနေဘဲ နောင်တမလွန်ဘဝ၏ အမတသုခကို ရရှိရန် ကြိုးစားရာသည်။

أَمْ لَهُمْ شُرَكَـٰٓؤُا۟ شَرَعُوا۟ لَهُم مِّنَ ٱلدِّينِ مَا لَمْ يَأْذَنۢ بِهِ ٱللَّهُ ۚ وَلَوْلَا كَلِمَةُ ٱلْفَصْلِ لَقُضِىَ بَيْنَهُمْ ۗ وَإِنَّ ٱلظَّـٰلِمِينَ لَهُمْ عَذَابٌ أَلِيمٌ ﴿٢١﴾

၂၁။ ၎င်းတို့၌ အလ္လာဟ်အရှင်မြတ်က ခွင့်ပြုတော်မူခြင်းမရှိသော "ဒီန်" သာသနာမျိုးကို ၎င်းတို့အဖို့ *သတ်မှတ်ပြဋ္ဌာန်း၍ပေးခဲ့ကြသော တွဲဖက်(ကိုးကွယ်ရာ)များရှိကြသလော။* [၁] အမှန်စင်စစ်သော်ကား စီရင်ဆုံးဖြတ်ရန် အမိန့်တော်တစ်ရပ်သည် (ရှေးဦးမဆွက) မရှိခဲ့ပါလျှင် ၎င်းတို့အကြား၌ စီရင်ဆုံးဖြတ်ခဲ့ပြီးဖြစ်မည်သာ။ သို့တစေလည်း မတရားသောသူတို့၌မူကား ပြင်းပြ နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည် ဧကန်မလွဲ ရှိချေအံ့သတည်း။

تَرَى ٱلظَّـٰلِمِينَ مُشْفِقِينَ مِمَّا كَسَبُوا۟ وَهُوَ وَاقِعٌۢ بِهِمْ ۗ وَٱلَّذِينَ ءَامَنُوا۟ وَعَمِلُوا۟ ٱلصَّـٰلِحَـٰتِ فِى رَوْضَاتِ ٱلْجَنَّاتِ ۖ لَهُم مَّا يَشَآءُونَ عِندَ رَبِّهِمْ ۚ ذَٰلِكَ هُوَ ٱلْفَضْلُ ٱلْكَبِيرُ ﴿٢٢﴾

၂၂။ (အို-နဗီတမန်တော်) အသင်သည် မတရားသော သူတို့အား မိမိတို့၏ ဆည်းပူးချက်တို့ကြောင့် ထိတ်လန့်ကြောက်ရွံ့ စိုးရိမ်လျက် ရှိကြသည်ကို တွေ့မြင်ရပေမည်။ စင်စစ်သော်ကား ယင်းဆည်းပူးချက်တို့၏ဆိုးကျိုးမှာ ၎င်းတို့၌ ကျရောက်မည် ဖြစ်ပေသည်။ ထို့ပြင် "အီမာန်" သက်ဝင်ယုံကြည်၍ ကောင်းမြတ်သောအကျင့်သီလများကို ကျင့်မှုဆောက်တည်ခဲ့ကြသောသူတို့မှာ "ဂျန္နတ်" သုခဘုံများ၏ဥယျာဉ်များ၌ ရှိကြပေမည်။ ၎င်းတို့အဖို့ ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်တွင် ၎င်းတို့အလိုရှိသမျှသောအရာများသည်ရှိကုန်၏။ ဤသည် ကြီးကျယ်လှစွာသော ကျေးဇူးတော်ပင် ဖြစ်ပေသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်သည် တမန်တော်များအား စေလွှတ်တော်မူ၍ နှစ်ဘဝ၏ ကောင်းကျိုးချမ်းသာကို ဆောင်ကြဉ်းသည့် သာသနာ့လမ်းစဉ်များကို ညွှန်ပြထားတော် မူပြီးဖြစ်သည်။ သို့ဖြစ်ရာ ထိုအရှင်မြတ်မှတပါး သာသနာ့လမ်းစဉ်တစ်ရပ်အဖြစ် သတ်မှတ်ပြဋ္ဌာန်းနိုင်သူ အသူရှိအံ့နည်း။ အလ္လာဟ်အရှင်မြတ်က (ဟလာလ်) တရားဝင်ဖြစ်သည်ဟူ၍ သတ်မှတ်ထားတော်မူသော အရာတစ်ခုကို (ဟရာမ်)တရားမဝင်ဟူ၍ အသူသတ်မှတ်နိုင်အံ့နည်း။ အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်၍ မုရှ်ရစ်က်တို့ ဆည်းကပ်ကိုးကွယ်နေကြသော ၎င်းတို့၏ ကိုးကွယ်ရာများ၌ သာသနာ့လမ်းစဉ်အဖြစ် သတ်မှတ်ပြဋ္ဌာန်းပိုင်သည့် အခွင့်အာဏာတစ်စုံတစ်ရာ ရှိပါသလော။ အလျှင်းမရှိ။ သို့ဖြစ်ရာ မုရှ်ရစ်က်များသည် တမန်တော်များ ဟောညွှန်ပြသခဲ့ကြသည့် အလ္လာဟ်အရှင်မြတ်၏ သာသနာ့လမ်းစဉ်များကို ကျော်ခိုင်းပြီး လမ်းစဉ်အသစ်များကို အသို့လျှင်သတ်မှတ်နိုင်ကြအံ့နည်း။ ▷▷

فَاسْتَمْسِكْ بِالَّذِيٓ أُوحِيَ إِلَيْكَ ۖ إِنَّكَ عَلَىٰ صِرَاطٍ مُّسْتَقِيمٍ ﴿٤٣﴾

၄၃။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် မိမိထံ "ဝဟ်ယ်" ထုတ်ပြန်ခြင်းခံရလေသော ကုရ်အာန်ကျမ်းတော်မြတ်ကိုပင် အထောက်အထားပြု လျက် ရှိပါလေ။ ဧကန်မလွဲ အသင်သည် ဖြောင့်မတ်သော လမ်းပေါ်၌ ရှိ၏။

وَإِنَّهُۥ لَذِكْرٌ لَّكَ وَلِقَوْمِكَ ۖ وَسَوْفَ تُسْـَٔلُونَ ﴿٤٤﴾

၄၄။ ထိုမှတစ်ပါး မုချဧကန် *ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် အသင်အဖို့လည်းကောင်း၊ အသင်၏ အမျိုးသားအဖို့လည်းကောင်း၊ (ထူးကဲမြင့်မြတ်လှစွာသော) ဂုဏ်ကျက်သရေပင် ဖြစ်၏။* [၁] ထိုမှတစ်ပါး အသင်တို့အားလုံးသည် မကြာမြင့်မီပင် စစ်ဆေးမေးမြန်းခြင်းကို ခံကြရပေမည်။

وَسْـَٔلْ مَنْ أَرْسَلْنَا مِن قَبْلِكَ مِن رُّسُلِنَآ أَجَعَلْنَا مِن دُونِ ٱلرَّحْمَـٰنِ ءَالِهَةً يُعْبَدُونَ ﴿٤٥﴾

၄၅။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် မိမိအလျင် ငါအရှင်မြတ် စေလွှတ်တော်မူခဲ့သော ရစူလ်တမန်တော်တို့အား "ငါအရှင်မြတ်သည် အနန္တကရုဏာတော်ရှင်မှတစ်ပါး ဆည်းကပ်ကိုးကွယ်ခြင်း ခံကြရန် အခြားကိုးကွယ်ရာများကို ပြဋ္ဌာန်း၍ ပေးတော်မူခဲ့ပါသလော" ဟု မေးမြန်းစုံစမ်း၍ ကြည့်ပါလေ။

---

(၁) ကုရ်အာန်ကျမ်းမြတ်သည် အမှန်မှာ တမန်တော်မြတ်အဖို့ လည်းကောင်း၊ တမန်တော်မြတ်၏ အမျိုးသားများအဖို့ လည်းကောင်း၊ အတိုင်းမသိ ကြီးကဲလှသော မြင့်မြတ်မှု ဂုဏ်တစ်ပါးပင်။ တမန်တော်မြတ်အဖို့မှာ နှစ်ဘဝ၏ သုခချမ်းသာဆောင်သော၊ ကမ္ဘာတစ်သက် တည်ရှိမည်ဖြစ်သော ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို တမန်တော်မြတ်သည် တိုက်ရိုက်ကြားနာတော်မူခဲ့ရသည်။ တမန်တော်မြတ်၏ အမျိုးသားများအဖို့မှာကား တမန်တော်မြတ်မှတဆင့် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို နာကြားရာ၌ ကမ္ဘာတဝှန်းတွင် ၎င်းတို့သည် ဦးစွာပထမ ကြားနာခဲ့ကြရပေသည်။ ကြားနာရာတွင်လည်း ကုရ်အာန်ကျမ်းမြတ်သည် ၎င်းတို့၏ အရဗ်ဘာသာစာပေဖြင့် ကျရောက်လာခဲ့သည့်အတွက် ကောင်းစွာသဘောပေါက် နားလည်ခဲ့ကြပေသည်။ ကျန်လူသားတို့မှာ ၎င်းတို့မှတဆင့် ကြားနာကြရပေသည်။

ဤသို့ဖြင့် ကုရ်အာန်ကျမ်းမြတ်သည် တမန်တော်မြတ်နှင့် တမန်တော်မြတ်၏ အမျိုးသားများအဖို့ ကိယာမတ်တိုင် မွေးကြိုင်လျက်ရှိမည့် အတိုင်းမသိ ကောင်းမြတ်လှသည့် ဂုဏ်သတင်းပင်။ အရဗ်အမျိုးသားများသည် အသိဉာဏ်ရှိပါက ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ဦးစွာပထမ ကြားနာကြရသူများ ➤➤

وَلَقَدْ أَرْسَلْنَا مُوسَىٰ بِآيَاتِنَا إِلَىٰ فِرْعَوْنَ وَمَلَئِهِ فَقَالَ إِنِّي رَسُولُ رَبِّ الْعَالَمِينَ ﴿٤٦﴾

၄၆။ ၎င်းပြင် စင်စစ်ကေန် ငါအရှင်မြတ်သည် မူစာအား မိမိသက်သေလက္ခဏာ တန်ခိုးပြာဋိဟာများနှင့်တကွ "ဖစ်ရ်အောင်န်" ၏ထံသို့လည်းကောင်း၊ "ဖစ်ရ်အောင်န်" ၏မှူးမတ်ထံသို့လည်းကောင်း၊ စေလွှတ်တော်မူခဲ့ရာ ထိုမူစာက ("ဖစ်ရ်အောင်န်နှင့်တကွ၎င်း၏မှူးမတ်တို့အား) ငါသည် စကြာဝဠာ ခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူသောအရှင်မြတ်၏ ရစူလ်တမန်တော်ဖြစ်သည်ဟု ပြောကြားခဲ့၏။

فَلَمَّا جَاءَهُم بِآيَاتِنَا إِذَا هُم مِّنْهَا يَضْحَكُونَ ﴿٤٧﴾

၄၇။ သို့ရာတွင် ထိုမူစာသည် ၎င်းတို့ထံ ငါအရှင်မြတ်၏သက်သေလက္ခဏာ တန်ခိုးပြာဋိဟာများကို ယူဆောင်ခဲ့လေသောအခါ ရုတ်တရက် ၎င်းတို့သည် ယင်းသက်သေလက္ခဏာ တန်ခိုးပြာဋိဟာများကို မြင်၍ ပြက်ရယ်သောအားဖြင့် ရယ်မောကြကုန်၏။

وَمَا نُرِيهِم مِّنْ آيَةٍ إِلَّا هِيَ أَكْبَرُ مِنْ أُخْتِهَا وَأَخَذْنَاهُم بِالْعَذَابِ لَعَلَّهُمْ يَرْجِعُونَ ﴿٤٨﴾

၄၈။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ၎င်းတို့အား ပြသတော်မူသော သက်သေလက္ခဏာ တန်ခိုးပြာဋိဟာတိုင်းမှာ ၎င်း၏အလျင်ပြခဲ့သော အခြားတန်ခိုးပြာဋိဟာထက် ပိုမိုကြီးကျယ်သော တန်ခိုးပြာဋိဟာသာလျှင် ဖြစ်ခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား (သွေဖည်ငြင်းပယ်မှုကို စွန့်၍) ပြန်လှည့်လာကြအံ့သောငှာ ပြစ်ဒဏ်၌ ဖမ်းဆီးအရေးယူတော်မူခဲ့၏။

وَقَالُوا يَا أَيُّهَ السَّاحِرُ ادْعُ

၄၉။ ထိုမှတစ်ပါး ၎င်းတို့သည် (မူစာအား ဤသို့) ပြောဆိုခဲ့ကြ၏။ အို–စုန်းအတတ်ကို ကျွမ်းကျင်သော ဆရာ၊ အသင်သည် ကျွန်ုပ်တို့အဖို့ အသင့်အားဖန်ဆင်း

➤➤ ဖြစ်ကြသည်နှင့် လျော်ညီစွာ ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ဦးလည်မသုန် လိုက်နာကျင့်၍ နစ်ဘဝ၏ အမတ သုခများကိုလည်း ဦးစွာစံစားနိုင်ရန် ကြိုးစားကြရာသတည်း။

لَنَا رَبَّكَ بِمَا عَهِدَ عِندَكَ ۚ إِنَّنَا لَمُهْتَدُونَ ﴿٤٩﴾

မွေးမြူတော်မူသော အရှင်မြတ်ထံတော်မှ အသင့်ထံ ကတိထားတော်မူခဲ့သည်နှင့်အညီ ဆုတောင်း၍ပေးပါ။ (ယခုသော်) မလွဲဧကန် ကျွန်ုပ်တို့သည် တရားလမ်းမှန် ကို လိုက်နာကြပါတော့မည်။

فَلَمَّا كَشَفْنَا عَنْهُمُ الْعَذَابَ إِذَا هُمْ يَنكُثُونَ ﴿٥٠﴾

၅၀။ သို့တစေလည်း ငါအရှင်မြတ်သည် ပြစ်ဒဏ် ကို ၎င်းတို့မှဖယ်ရှား၍ ပေးတော်မူသောအခါ ၎င်းတို့ သည် ရုတ်တရက် ချက်ချင်းပင် ကတိကို ဖျောက်ဖျက် ကြလေသတည်း။

وَنَادَىٰ فِرْعَوْنُ فِي قَوْمِهِ قَالَ يَا قَوْمِ أَلَيْسَ لِي مُلْكُ مِصْرَ وَهَٰذِهِ الْأَنْهَارُ تَجْرِي مِن تَحْتِي ۖ أَفَلَا تُبْصِرُونَ ﴿٥١﴾

၅၁။ ၎င်းပြင် ဖစ်ရ်အောင်န်သည် မိမိအမျိုးသားတို့ တွင် ကြေညာခဲ့၏။ ၎င်းက (ဤသို့)ပြောဆို(ကြေညာ) ခဲ့လေ၏။ အို-ငါ၏အမျိုးသားတို့ အီဂျစ်နိုင်ငံကို ငါသာလျှင် စိုးမိုးအုပ်ချုပ်သည်မဟုတ်ပါလော၊ ထိုမှ တစ်ပါး ဤသည့် ရေချောင်းတို့မှာ ငါ၏(ဘုံနန်း) အောက်မှ စီးတွေလျက် ရှိကြသည် (မဟုတ်လော)။ သို့ပါလျက် အသင်တို့သည် (ဤသည့် ဘုန်းတန်ခိုး များကို) မမြင်ကြလေသလော။

أَمْ أَنَا خَيْرٌ مِّنْ هَٰذَا الَّذِي هُوَ مَهِينٌ وَلَا يَكَادُ يُبِينُ ﴿٥٢﴾

၅၂။ သို့တည်းမဟုတ် ငါသည် ဤဂုဏ်အသရေ သေးသိမ်သူထက် မြင့်မြတ်သည်(ကို အသင်တို့သည် မမြင်ကြလေသလော)။ ၎င်းပြင် ဤသူသည် ရှင်းလင်း စွာ (စကား)ပြောဆိုနိုင်သည်လည်း မရှိပြီ။ [၁]

---

(၁) ဆိုလိုသည်ကား ဖစ်ရ်အောင်န်သည် မိမိ၏ယယ်သားများနှင့် ပတ်သက်၍ ပြစ်ဒဏ်သဘောပါရှိသော ဘန်ခိုး ပြာဋိဟာများကို တွေ့မြင်ခံစားရပြီး တမန်တော်မူစာအား တပည့်ခံသွားကြမည်ကို စိုးရိမ်လာခဲ့၏။

ထိုအခါ ဖစ်ရ်အောင်န်က မိမိယယ်သားများအား လှည့်စားဖြားယောင်းရန်အတွက် "အီဂျစ်ပြည်၏ အုပ်ချုပ်မှု အာဏာစက်သည် ငါ၏လက်တွင်း၌ရှိသည် မဟုတ်လော၊ ငါ၏စီမံမှုဖြင့် ငါ့နန်းတော် ဥယျာဉ်များ အောက်များတွင် အယဉ်ထွေထွေ စီးတွေလျက်ရှိသော တူးမြောင်းများကို အသင်တို့ မမြင်ကြလေသလော။ ငါ့၌ လိုလေသေးသည်မရှိ ဥစ္စာဓနရှိသည်။ တိုင်းပြည်မင်းလုပ် အုပ်ချုပ်သည့် အာဏာစက်လည်းရှိသည်။ (တမန်တော်)မူစာ၌ ဥစ္စာဓနလည်းမရှိ၊ အာဏာလည်းမရှိ၊ ဂုဏ်အသရေလည်းမရှိ၊ ထို့ပြင်တဝ စကားပင် ➢➢

فَلَوْلَآ أُلْقِىَ عَلَيْهِ أَسْوِرَةٌ مِّن ذَهَبٍ أَوْ جَآءَ مَعَهُ ٱلْمَلَٰٓئِكَةُ مُقْتَرِنِينَ ﴿٥٣﴾

၅၃။ တစ်ဖန် ၎င်း၏(လက်များတွင်) ရွှေလက်ကောက်၊ လက်မောင်းပတ်၊ လက်ကြပ်များ အဘယ်ကြောင့် ဆင်ယင်ပေးခြင်းကို မခံရသနည်း။ သို့တည်းမဟုတ် "မလာအိကဟ်" ကောင်းကင်တမန်များသည် အဘယ်ကြောင့် ၎င်းနှင့်အတူ အစဉ်မပြတ် လိုက်ပါလာခြင်း မရှိကြသနည်း။

فَٱسْتَخَفَّ قَوْمَهُۥ فَأَطَاعُوهُ ۚ إِنَّهُمْ كَانُوا۟ قَوْمًا فَٰسِقِينَ ﴿٥٤﴾

၅၄။ ဆိုလိုရင်းမှာ ထိုဖစ်ရ်အောင်န်သည် မိမိ၏ အမျိုးသားတို့အား လှုံ့ဆော်မှုများ ပြုလုပ်ခဲ့ပေရာ ထို အမျိုးသားတို့မှာ ၎င်းတို့၏စကားကို နာယူခဲ့ကြကုန်၏။ ဧကန်အမှန် ၎င်းတို့သည် စည်းကမ်းကျူးလွန်သော လေလွင့်သောအမျိုးသားများပင်ဖြစ်ခဲ့ကြကုန်၏။

فَلَمَّآ ءَاسَفُونَا ٱنتَقَمْنَا مِنْهُمْ فَأَغْرَقْنَٰهُمْ أَجْمَعِينَ ﴿٥٥﴾

၅၅။ ထို့နောက် ၎င်းတို့သည် ငါအရှင်မြတ်အား အမျက်ထွက်စေခဲ့ကြသောအခါ ငါအရှင်မြတ်သည် ၎င်းတို့အား လက်စားချေတော်မူခဲ့၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့အားလုံးကိုပင် နစ်မြုပ်စေတော်မူခဲ့၏။

فَجَعَلْنَٰهُمْ سَلَفًا وَمَثَلًا لِّلْءَاخِرِينَ ﴿٥٦﴾

၅၆။ ထို့နောက် ငါအရှင်မြတ်သည် ထိုသူတို့အား နောင်လာနောက်သားတို့အဖို့ ဦးစီးရှေ့ဆောင်နှင့် သင်ခန်းစာ ဖြစ်စေတော်မူခဲ့ပေသတည်း။ [၁]

---

➤➤ သွက်လက်စွာ မပြောနိုင်ရှာ၊ အမှန်မှာ ငါသည်အဘက်ဘက်၌ (တမန်တော်)မူစာထက် ထူးကဲမြင့်မြတ်သည်။ သို့ပါလျက် ငါကဲ့သို့ ဘုရင်တစ်ပါးသည် (တမန်တော်)မူစာကဲ့သို့ သာမန်ပုဂ္ဂိုလ်တစ်ဦးအား အညွှန့်ခံရမည်လောဟု ဖြီးဖျန်း၍ ပြောဆို ဟိန်းဟောက်ခဲ့လေသည်။

တမန်တော်မူစာ သွက်လက်စွာ စကားမပြောနိုင်သည့်အကြောင်း ကုရ်အာန်ကျမ်းမြတ် (၂၀:၂၇-၂၈)တွင် ပါရှိခဲ့ပေပြီ။

(၁) ဖစ်ရ်အောင်န်နှင့်တကွ ၎င်း၏နောက်လိုက်ငယ်သားတို့သည် တမန်တော်မူစာ ဟောကြားသော ဒေသနာတော်များကို အမြဲတစေ သွေဖည်ငြင်းဆန်၍ အလ္လာဟ်အရှင်မြတ်၏ အမျက်တော်ကို လက်ယပ်ခေါ်နေကြပေရာ နောက်ဆုံးတွင် ထိုအရှင်မြတ်သည် ၎င်းတို့အား နစ်မြုပ်ကွပ်မျက်တော် မူခဲ့လေသည်။ နောင်လာ နောက်သားတို့သည် ၎င်းတို့၏ အကြောင်းကိုကြည့်ပြီး နောင်တ သံဝေဂရနေရန် ၎င်းတို့အား နောက်လူဆက်တို့အဖို့➤➤

وَلَمَّا ضُرِبَ ابْنُ مَرْيَمَ مَثَلًا إِذَا قَوْمُكَ مِنْهُ يَصِدُّونَ ﴿٥٧﴾

၅၇။ ၎င်းပြင် မရိယမ်၏သား(နဗီတမန်တော်အီစာ) သည် စံနမူနာအဖြစ် ခိုင်းနှိုင်းတင်ပြခြင်းကို ခံရလေသောအခါ၊ အသင်၏အမျိုးသားတို့မှာ ယင်းဥပမာကြောင့် နှစ်ထောင်းအားရ ရွှင်ပြဟစ်အော်ခဲ့ကြကုန်၏။

وَقَالُوا أَآلِهَتُنَا خَيْرٌ أَمْ هُوَ ۚ مَا ضَرَبُوهُ لَكَ إِلَّا جَدَلًا ۚ بَلْ هُمْ قَوْمٌ خَصِمُونَ ﴿٥٨﴾

၅၈။ ထိုမှတစ်ပါး ၎င်းတို့က ကျွန်ုပ်တို့၏ ကိုးကွယ်ရာများက မြင့်မြတ်လေသလော။ သို့တည်းမဟုတ် ထိုမရိယမ်၏သား (အီစာ)က မြင့်မြတ်လေသလော ဟု ပြောဆိုခဲ့ကြကုန်၏။ ၎င်းတို့သည် ဤသည်ကို အသင့်ရှေ့ဝယ် အငြင်းအခုံပြု၍ တင်ပြခဲ့ခြင်းသာလျှင် ဖြစ်ပေသည်။ စင်စစ်မှာကား ၎င်းတို့သည် အငြင်းအခုံပြုလေ့ရှိသော အမျိုးသားများပင် ဖြစ်ကြကုန်၏။ [၁]

---

➤➤ တရားရှုဖွယ်ရာ အတိတ်အုပ်စု တစ်စုအဖြစ်လည်း ပြုလုပ်ထားတော်မူခဲ့လေသည်။ ဤကား မောက်မာပလွှားဝါကြွားသော ဖစ်ရ်အောင်န်တို့၏ နောက်ဆုံးအကျိုးဆက်ပင်။

(၁) တမန်တော်အီစာ၏အကြောင်း ပါရှိလာသည့်အခါ အရဗ်မုရှ်ရစ်က်များသည် လက်ခုပ်တီးလေ့ရှိကြသည်။ ဆူဆူညံညံ ပြုလုပ်လေ့ရှိခဲ့ကြသည်။ ဟစ်အော်လေ့ရှိခဲ့ကြသည်။ အမျိုးမျိုး ဝေဖန်ပြောဆိုလေ့ရှိခဲ့ ကြသည်။

ရိဝါယတ် ကျမ်းချက်များတွင် လာရှိသည်မှာ တစ်ခါသော် တမန်တော်မြတ်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်(၂၁း၉၈) ( إِنَّكُمْ وَمَا تَعْبُدُونَ مِن دُونِ اللَّهِ حَصَبُ جَهَنَّمَ أَنتُمْ لَهَا وَارِدُونَ )ကို ရွတ်ဖတ်တော်မူခဲ့၏။

ထိုအာယတ်တော်၏ အနက်အဓိပ္ပာယ်မှာ "မုချဧကန် အသင်တို့သည် လည်းကောင်း၊ အသင်တို့ ဆည်းကပ်ကိုးကွယ်ကြသော ကိုးကွယ်ရာများသည် လည်းကောင်း ဂျဟန္နမ်၏ ထင်းပင်ဖြစ်ကြသည်။ အသင်တို့သည် ထိုဂျဟန္နမ်အတွင်းသို့ ဝင်ကြရမည်"ဟူ၏။

ထိုအခါ အရဗ်မုရှ်ရစ်က်များက (နဆွာရာ)ခေါ် ခရစ်ယာန်ဘာသာဝင်များသည် တမန်တော်အီစာအား ဆည်းကပ် ကိုးကွယ်ကြသည်။ ယခု အသင်တို့ပြောကြ၊ အသင်တို့၏ ထင်မြင်ယူဆချက်အရ ငါတို့၏ ကိုးကွယ်ရာများ ကောင်းသလော၊ သို့မဟုတ် တမန်တော်အီစာ ကောင်းသလော၊ အသင်တို့သည် တမန်တော်အီစာအား ကောင်းသည်ဟူ၍ပင် ပြောဆိုကြပေမည်။

ဤသည် အထင်အရှားပင်။ တမန်တော်အီစာသည်ပင် အဆိုပါ အာယတ်တော်တွင် အကျုံးဝင်နေသည် ဖြစ်ရာ၊ ငါတို့၏ ကိုးကွယ်ရာများသည်လည်း အဆိုပါ အာယတ်တော်တွင် အကျုံးဝင်ကြပါစေဟု အမှားမှားအယွင်းယွင်း အနက်ကောက်၍ ဝေဖန်ကဲ့ရဲ့ ပြစ်တင်ပြောဆိုခဲ့ကြလေသည်။

အချို့ ကျမ်းချက်များတွင် လာရှိသည်မှာ

တစ်ခါသော် တမန်တော်မြတ်က ( ليس أحد يعبد من دون الله فيه خير ) ➤➤

إِنْ هُوَ إِلَّا عَبْدٌ أَنْعَمْنَا عَلَيْهِ وَجَعَلْنَٰهُ مَثَلًا لِّبَنِىٓ إِسْرَٰٓءِيلَ ﴿٥٩﴾

၅၉။ ထိုမရ်ယမ်၏သား (အီစာ)ကား ကျွန်တစ်ပါးမျှ ဖြစ်၏။ ငါအရှင်မြတ်သည် ၎င်း၏အပေါ်၌ ကျေးဇူး ပြုတော်မူခဲ့သည့်ပြင် ၎င်းအား အီစ္စရာအီလီအမျိုးသား တို့အဖို့ စံနမူနာတစ်ခု ပြုလုပ်တော်မူခဲ့၏။

وَلَوْ نَشَآءُ لَجَعَلْنَا مِنكُم مَّلَٰٓئِكَةً فِى ٱلْأَرْضِ يَخْلُفُونَ ﴿٦٠﴾

၆၀။ စင်စစ်သော်ကား အကယ်၍သာ ငါအရှင်မြတ် သည် အလိုရှိတော်မူခဲ့ပါလျှင် အသင်တို့မှ "မလာအိ ကဟ်" ကောင်းကင်တမန်များကို ဖန်ဆင်းတော်မူခဲ့မည် ဖြစ်ရာ ထိုကောင်းကင်တမန်တို့မှာ ကမ္ဘာမြေဝယ် (အသင်တို့၏) အရိုက်အရာကို ဆက်ခံကြမည်ဖြစ်၏။

وَإِنَّهُۥ لَعِلْمٌ لِّلسَّاعَةِ فَلَا تَمْتَرُنَّ بِهَا وَٱتَّبِعُونِ ۚ هَٰذَا صِرَٰطٌ مُّسْتَقِيمٌ ﴿٦١﴾

၆၁။ ထိုမှတစ်ပါး ဧကန်မလွဲ ထိုမရ်ယမ်၏သား (အီစာ)မှာ "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလနှင့် စပ်လျဉ်း၍ လက္ခဏာ၊ စည်းကမ်းချက်၊ သတ်မှတ်ချက် "ကိယာမတ်" *ရှင်ပြန်ထမည့်နေ့ကို ယုံကြည်ရန် အကြောင်းတစ်ရပ်ပင်ဖြစ်၏။* [၁] သို့ဖြစ်ပေရာ အသင်တို့ သည် ယင်းကိယာမတ်နှင့်စပ်လျဉ်း၍ ယုံမှားသံသယ မဖြစ်ကြကုန်လင့်။ ၎င်းပြင် အသင်တို့သည် ငါ၏ နောက်သို့ လိုက်ခဲ့ကြလေကုန် ဤသည် ဖြောင့်မတ် သော တရားလမ်းပင် ဖြစ်ပေသည်။

---

▶▶ "အလ္လာဟ်အရှင်မြတ်မှတပါး အခြားကိုးကွယ်ခြင်းခံရသူ တစ်ဦးတစ်ယောက်၌မျှ ကောင်းကျိုးချမ်းသာ တစ်စုံတစ်ရာမရှိ"ဟု မိန့်ကြားတော်မူခဲ့၏။

ထိုအခါ အရဗ်မုရှ်ရစ်က်များက "တမန်တော်အီစာ၌လည်း ကောင်းကျိုးချမ်းသာ တစ်စုံတစ်ရာ မရှိပါသလော"ဟု ပြောဆိုခဲ့ကြလေသည်။

အမှန်မှာ အထက်တွင်ဖော်ပြပါ ကုရ်အာန်ကျမ်းလာ အာယတ်(၂၁း၉၈)နှင့် တမန်တော်မြတ်၏ အထက်ပါ ဩဝါဒတော်သည် တမန်တော်အီစာနှင့် မည်သို့မျှမပတ်သက်ပေ။ လူသားတို့ လုပ်ကြံဖန်တီး၍ ကိုးကွယ်နေကြသော၊ ကျိုးပြစ်တစ်စုံတစ်ရာ မပြုစွမ်းနိုင်သော ယင်းသို့ မိမိအား ကိုးကွယ်နေကြသည်ကို မတားဆီးနိုင်သော သို့ကိုးကွယ်မှုသည် မိမိနှင့်မည်သို့မျှ မပတ်သက်ကြောင်း ဖွင့်ဟမပြောဆိုနိုင်သော အရာများ ကိုလည်း ရည်ညွှန်းထားခြင်းသာဖြစ်သည်။

(၁) ဤအာယတ်တော်တွင်ပါရှိသော (ဟု)ဟူသော နာမ်စားသည် တမန်တော်အီစာကို ရည်ညွှန်းသည်။ ဆိုလိုသည်ကား တမန်တော်အီစာသည် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ဖြင့် ဖခင်မပါဘဲ ▶▶

وَلَا يَصُدَّنَّكُمُ الشَّيْطٰنُ ۚ اِنَّهٗ لَكُمْ عَدُوٌّ مُّبِيْنٌ ﴿٦٢﴾

၆၂။ ထိုမှတစ်ပါး "ရှိုင်တွာန်" မိစ္ဆာကောင်သည် အသင်တို့အား (တရားလမ်းမှ) တားဆီးပိတ်ပင်ခြင်း မပြုစေရ။ ကေန်မလွဲ ၎င်းသည် အသင်တို့၏ ထင်ရှားစွာသော ရန်သူပင်ဖြစ်ပေ၏။

وَ لَمَّا جَآءَ عِيْسٰى بِالْبَيِّنٰتِ قَالَ قَدْ جِئْتُكُمْ بِالْحِكْمَةِ وَلِاُبَيِّنَ لَكُمْ بَعْضَ الَّذِيْ تَخْتَلِفُوْنَ فِيْهِ ۚ فَاتَّقُوا اللّٰهَ وَاَطِيْعُوْنِ ﴿٦٣﴾

၆၃။ ၎င်းပြင် အီစာသည် ထင်ရှားစွာသောသက်သေလက္ခဏာများနှင့်တကွ လာခဲ့သောအခါ (ဤသို့) ပြောကြားခဲ့လေ၏။ ကေန်စင်စစ် ငါသည် အသင်တို့ထံ နက်နဲသိမ်မွေ့သော ဉာဏ်ပညာကို ယူဆောင်ခဲ့သည်။ ၎င်းပြင် ငါသည် အသင်တို့ သဘောကွဲလွဲကြသော အချို့အရေးကိစ္စတို့ကို အသင်တို့အား ရှင်းလင်းဖော်ပြရန်လာခဲ့သည်။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့လေကြကုန်၊ ၎င်းပြင် ငါ၏စကားကို လိုက်နာကြလေကုန်။

اِنَّ اللّٰهَ هُوَ رَبِّيْ وَرَبُّكُمْ فَاعْبُدُوْهُ ؕ هٰذَا صِرَاطٌ مُّسْتَقِيْمٌ ﴿٦٤﴾

၆၄။ ကေန်စင်စစ် အလ္လာဟ်အရှင်မြတ်သည်ပင် ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် လည်းကောင်း၊ အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်လည်းကောင်း၊ ဖြစ်တော်မူ၏။ သို့ဖြစ်ပေရာ အသင်တို့သည် ထိုအရှင်မြတ်အားသာလျှင် ဆည်းကပ် ကိုးကွယ်ကြလေကုန်။ ဤသည် ဖြောင့်မတ်သော တရားလမ်းပင် ဖြစ်ချေသည်။

---

➤➤ မွေးဖွားလာခဲ့သည် ဖခင်မပါဘဲ မွေးဖွားခြင်းသည် ဖြစ်ရိုးဖြစ်စဉ်မရှိ၊ ဖြစ်လေ့ဖြစ်ထမရှိ၊ သို့တစေလည်း အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါက ယင်းသို့ ဖြစ်ရိုးဖြစ်စဉ်မရှိသော အရာကိုပင် ပြုစွမ်းတော်မူနိုင်ပေသည်။ အရဇ်မုရှ်ရစ်ကျ်များသည် တောင်ဟီးဒ်နှင့်စပ်လျဉ်း၍ အငြင်းအခုံပြုလေ့ရှိသကဲ့သို့၊ ကိယာမတ်နေ့နှင့် စပ်လျဉ်း၍လည်း ငြင်းခုံလေ့ရှိကြပေသည်။ ထို့အတွက် ဤအာယတ်တော်တွင် တမန်တော်အီစာသည် အစ္စရာအီလီ အမျိုးအနွယ်ဝင်များအဖို့ နာယူ ကျင့်မူရန် စံနမူနာဖြစ်သကဲ့သို့ ကိယာမတ်နေ့၏ သက်သေသာဓက တစ်ပါးလည်း ဖြစ်ပေသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ဖြစ်ရိုးဖြစ်စဉ်နည်းမျိုးဖြင့် မဟုတ်ဘဲ တမန်တော်အီစာအား ဖန်ဆင်းတော်မူခဲ့ပေရာ ဖြစ်ရိုးဖြစ်စဉ်မရှိသော ပြန်လည်ရှင်ပြန်ထမည့် ကိယာမတ်နေ့ကိုလည်း ဖြစ်ပေါ်စေနိုင်သည်မှာ ထင်ရှားလှပေသည်။ ကြည့်-ထာနဝီ။

فَاخْتَلَفَ الْأَحْزَابُ مِنْ بَيْنِهِمْ فَوَيْلٌ لِّلَّذِينَ ظَلَمُوا مِنْ عَذَابِ يَوْمٍ أَلِيمٍ ﴿٦٥﴾

၆၅။ သို့ပါလျက် ၎င်းတို့၏အကြားမှ အုပ်စု(ဂိုဏ်းဂဏ) အသီးသီးကွဲခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ မတရားကျူးလွန်သူများ၌ ပြင်းပြနာကျင်ဖွယ်သောနေ့၏ ပြစ်ဒဏ်ကြောင့် ပျက်စီးခြင်းသည် ရှိပေအံ့သတည်း။

هَلْ يَنظُرُونَ إِلَّا السَّاعَةَ أَن تَأْتِيَهُم بَغْتَةً وَهُمْ لَا يَشْعُرُونَ ﴿٦٦﴾

၆၆။ ၎င်းတို့သည် မိမိတို့ထံ "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလ ၎င်းတို့အမှုမဲ့ အမှတ်မဲ့ ရှိနေခိုက် ရုတ်တရက် ရှောင်တခင် ရောက်လာရန်ကိုသာလျှင် စောင့်စား၍ နေကြကုန်၏။

الْأَخِلَّاءُ يَوْمَئِذٍ بَعْضُهُمْ لِبَعْضٍ عَدُوٌّ إِلَّا الْمُتَّقِينَ ﴿٦٧﴾

၆၇။ ထိုနေ့တွင် "မွတ္တကီ" သူတော်စင်တို့မှတပါး အခြားမိတ်ဆွေရင်းချာတို့မှာ အချို့သည် အချို့၏ ရန်သူများပင် ဖြစ်ကြပေမည်။

يَا عِبَادِ لَا خَوْفٌ عَلَيْكُمُ الْيَوْمَ وَلَا أَنتُمْ تَحْزَنُونَ ﴿٦٨﴾

၆၈။ (ထိုရောကာလ အလ္လာဟ်အရှင်မြတ်အထံတော်မှ သူတော်စင်တို့နှင့် ပတ်သက်၍ ဤသို့ အမိန့်တော် ထုတ်ပြန်တော်မူမည်၊) "အို-ငါအရှင်မြတ်၏ကျွန်တို့ ယနေ့သော်ကား အသင်တို့၌ မည်သည့် စိုးရိမ်မှုမျှ မရှိပြီ။ ထိုမှတစ်ပါး အသင်တို့သည် စိတ်သောက ဖြစ်ရန်လည်း မရှိပြီ။

الَّذِينَ آمَنُوا بِآيَاتِنَا وَكَانُوا مُسْلِمِينَ ﴿٦٩﴾

၆၉။ (ထိုသူတို့ကား) အကြင်သူတို့ပင်၊ ၎င်းတို့သည် ငါအရှင်မြတ်၏အာယတ်တော် လက္ခဏာတော်များကို သက်ဝင်ယုံကြည်ခဲ့ကြသည်သာမက ၎င်းတို့သည် "မုစ်လင်မ်" အမိန့်တော်ကို (လက်တွေ့) လိုက်နာသူများလည်း ဖြစ်ခဲ့ကြကုန်၏။

ادْخُلُوا الْجَنَّةَ أَنتُمْ وَأَزْوَاجُكُمْ تُحْبَرُونَ ﴿٧٠﴾

၇၀။ အသင်တို့သည်လည်းကောင်း၊ အသင်တို့၏ ဇနီးကြင်ရာတို့သည်လည်းကောင်း၊ "ဂျန္နတ်" သုခဘုံတွင် ဝင်ရောက်ကြလေကုန်၊ (ယင်းသုခဘုံ၌) အသင်တို့ (အားလုံးတို့)သည် ဝမ်းမြောက်စေခြင်း၊ ရှိသေခြင်းကို ခံကြရပေမည်။

يُطَافُ عَلَيْهِم بِصِحَافٍ مِّن ذَهَبٍ وَأَكْوَابٍ ۖ وَفِيهَا مَا تَشْتَهِيهِ الْأَنفُسُ وَتَلَذُّ الْأَعْيُنُ ۖ وَأَنتُمْ فِيهَا خَالِدُونَ ﴿٧١﴾

၇၁။ ထိုသူတို့၏ရှေ့ဝယ် ရွှေပန်းကန်ပြားများသည်လည်းကောင်း၊ သောက်ရေဖလားများသည်လည်းကောင်း၊ လည်ပတ်လျက် ရှိကြပေမည်။ ထိုမှတစ်ပါး ယင်းသုခဘုံ၌ စိတ်အလိုဆန္ဒရှိသမျှတို့သည်လည်းကောင်း၊ မျက်စိအရသာခံစားအံ့သော အကြောင်းအရာတို့သည်လည်းကောင်း၊ ရှိကြပေမည်။ ၎င်းပြင် အသင်တို့သည် ယင်းသုခဘုံ၌ အမြဲထာဝရ နေထိုင်ကြမည်ပင် ဖြစ်ကုန်၏။

وَتِلْكَ الْجَنَّةُ الَّتِي أُورِثْتُمُوهَا بِمَا كُنتُمْ تَعْمَلُونَ ﴿٧٢﴾

၇၂။ စင်စစ်သော်ကား ဤသည်ပင် အကြင်"ဂျန္နတ်" သုခဘုံဖြစ်၏။ အသင်တို့သည် မိမိတို့ ကျင့်မူခဲ့ကြကုန်သော ကောင်းမှုသုစရိုက်များကြောင့် ယင်း"ဂျန္နတ်" သုခဘုံကို အမွေအဖြစ် ချီးမြှင့်ပေးသနားတော်မူခြင်းကို ခံကြရပြီ။

لَكُمْ فِيهَا فَاكِهَةٌ كَثِيرَةٌ مِّنْهَا تَأْكُلُونَ ﴿٧٣﴾

၇၃။ အသင်တို့အဖို့ ယင်းသုခဘုံ၌ မြောက်မြားစွာသော သစ်သီးဝလံများ ရှိကြပေသည်။ ယင်း သစ်သီးဝလံများမှ အသင်တို့သည် စားသုံးကြလေကုန်။

إِنَّ الْمُجْرِمِينَ فِي عَذَابِ جَهَنَّمَ خَالِدُونَ ﴿٧٤﴾

၇၄။ ဧကန်အမှန် ပြစ်မှုကျူးလွန်သော သူတို့ကား "ဂျဟန္နမ်" ငရဲဘုံ၏ပြစ်ဒဏ်၌ အမြဲထာဝရ နေထိုင်(ခံစား)ကြမည့်သူများပင် ဖြစ်ကြကုန်၏။

لَا يُفَتَّرُ عَنْهُمْ وَهُمْ فِيهِ مُبْلِسُونَ ﴿٧٥﴾

၇၅။ ယင်းပြစ်ဒဏ်မှာ ၎င်းတို့မှ ပေါ့လျော့စေခြင်း ခံရမည်လည်း မဟုတ်ပေ။ စင်စစ် ၎င်းတို့သည် ယင်းပြစ်ဒဏ်၌ပင် မျှော်လင့်ချက်ကင်းစွာဖြင့် ရှိနေကြရပေမည်။ [၁]

---

(၁) ဤအာယတ်တော်တွင်ပါရှိသော "မွဂ်ရိမိန်"- ပြစ်မှုကျူးလွန်သူများဟူသည် ကာဖိရ်၊ မုရ်ရစ်က်များကို ဆိုလိုသည်။ ကြည့်-ရှုဟ်၊ မအာလင်မ်၊ မာဂျိဒီ။ ကာဖိရ်၊ မုရ်ရစ်က်များသည် ဂျဟန္နမ်ငရဲဘုံတွင် ရုပ်နာမ်ဆိုင်ရာ ကြီးလေးလှသော ပြစ်ဒဏ်များကို အမြဲထာဝစဉ် ခံစားနေကြရပေမည်။ ငရဲ၏ပြစ်ဒဏ်သည် မည်သည့် ➤➤

وَمَا ظَلَمْنٰهُمْ وَلٰكِنْ كَانُوْا هُمُ الظّٰلِمِيْنَ ﴿٧٦﴾

၇၆။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ၎င်း တို့၏အား မတရား နှိပ်စက်တော်မူခဲ့သည် မဟုတ်ပေ။ သို့ရာတွင် ၎င်းတို့သည် မိမိတို့ကိုယ်တိုင်ပင် မတရား သောသူများ ဖြစ်ခဲ့ကြကုန်၏။ ၁

وَنَادَوْا يٰمٰلِكُ لِيَقْضِ عَلَيْنَا رَبُّكَ قَالَ اِنَّكُمْ مّٰكِثُوْنَ ﴿٧٧﴾

၇၇။ ထိုမှတစ်ပါး ၎င်းတို့သည် (ဂျဟန္နမ်" ငရဲဘုံ ကို ကွပ်ကဲအုပ်ချုပ်သူအား) အို-"မာလစ်က်၊ အသင့် အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ကျွန်ုပ်တို့အား အဆုံးစီရင်တော်မူပါစေ" ဟု ဟစ်အော် (ပြောဆို)ကြပေမည်။ (ထိုအခါ) ထို "မာလစ်က်" သည် (ဤသို့)ပြောဆို (ဖြေကြား)ပေမည်။ ဧကန်မလွဲ အသင်တို့ကား (ဤအခြေအနေ၌ပင် အမြဲထာဝစဉ်) နေမြဲ နေကြရမည့်သူများ ဖြစ်ကြကုန်၏။

---

➤➤ အချိန်တွင်မျှ ခေတ္တခဏမျှပင် ရွှေ့ဆိုင်းရပ်သိမ်းထားသည် ဟူ၍လည်း အလျင်းရှိမည်မဟုတ်။ လျော့ပါးသွားမည်လည်း မဟုတ်။ ကာဖိရ်၊ မုရှ်ရစ်က်များသည် ငရဲဘုံမှ ဘယ်သောအခါမျှ ထွက်ကြရမည်လည်း မဟုတ်၊ ၎င်းတို့သည် လွတ်မြောက်ရန်အတွက် မျှော်လင့်ချက် အကင်းကြီးကင်းလျက် ရှိကြပေမည်။ မျှော်လင့်ချက် ကင်းမဲ့ရခြင်းသည် စိတ်၏ဒုက္ခဖြစ်သည်။ စိတ်၏ဒုက္ခသည် ကိုယ်ခန္ဓာ၏ ဒုက္ခထက်ဆိုးရွားသည်။ ဤသည် ငရဲလားရာတွင် ဒုက္ခပေါ်၌ ဒုက္ခထပ်ဆင့် ခံစားရခြင်းပင်။

အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ယင်းသည့်ငရဲမှ ဝေးစွာဖယ်ရှားပေးတော် မူပါစေသတည်း။ အာမီန်။

① ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား ဤသည် မှန်သည်။ ဤသည် မှားသည်။ ဤသည် ကောင်းသည်။ ဤသည် မကောင်းစသည်ဖြင့် အမှန်နှင့်အမှား၊ အကောင်းနှင့်အဆိုး လမ်းစဉ်နှစ်ရပ် စလုံးကို အထင်အရှား ဟောညွှန်ပြထားတော်မူသည်။ တမန်တော်များကို စေလွှတ်၍ သတိပေးတော်မူသည်။ လူသားတို့၌ အမှန်ကိုလက်ခံ၍ အကောင်းကို ဆည်းပူးရန်သာ ရှိသည်။ အမှားကိုလက်ခံ၍ မကောင်းမှုကို ဆည်းပူးရန် အကြောင်းပင်မရှိပေ။

သို့ပါလျက် ကာဖိရ်၊ မုရှ်ရစ်က်များသည် မနာခံခဲ့ကြပေ။ သွေဖည်ခဲ့ကြပေသည်။ မိုက်မှားခဲ့ကြပေ သည်။ ရပ်တန်းက မရပ်တန့်ခဲ့ကြပေ။ အချိန်မီ နောင်တမရခဲ့ကြပေ။ ဤသို့သော ကာဖိရ်၊ မုရှ်ရစ်က်များအား ထိုက်သည့်အားလျော်စွာ ပြစ်ဒဏ်ခတ်ခြင်းကို မတရားဟူ၍ အသို့လျှင် ဆိုနိုင်အံ့နည်း။ ထို့အတွက် အလ္လာဟ်အရှင်မြတ်က "ငါအရှင်မြတ်သည် ထိုသူများအား ကျူးကျော်စော်ကားတော် မူမည်မဟုတ်။ သို့ရာတွင် ထိုသူများသာလျှင် ကျူးကျော်စော်ကားသူများ ဖြစ်ကြသည်"ဟု မိန့်ကြားထားတော်မူခြင်း ဖြစ်သတည်း။

لَقَدْ جِئْنٰكُمْ بِالْحَقِّ وَلٰكِنَّ اَكْثَرَكُمْ لِلْحَقِّ كٰرِهُوْنَ ﴿٧٨﴾

၇၈။ ဧကန်မလွဲ ငါအရှင်မြတ်သည် (နဗီတမန်တော်မှတစ်ဆင့်) မှန်ကန်သော "ဒီန်" သာသနာတော်ကို အသင်တို့ထံ ပို့ဆောင်တော်မူခဲ့သော်လည်း အသင်တို့အနက် အများစုမှာ မှန်ကန်သော "ဒီန်" သာသနာတော်ကို စက်ဆုပ်သူများပင် ဖြစ်ခဲ့ကြကုန်၏။

اَمْ اَبْرَمُوْٓا اَمْرًا فَاِنَّا مُبْرِمُوْنَ ﴿٧٩﴾

၇၉။ ၎င်းတို့သည် အရေးကိစ္စ တစ်စုံတစ်ရာကို စီမံပြဋ္ဌာန်းပြီး ဖြစ်ခဲ့ကြလေသလော၊ သို့ဖြစ်လျှင် မလွဲဧကန် ငါအရှင်မြတ်သည်လည်း စီမံပြဋ္ဌာန်းတော်မူမည်ဖြစ်၏။

اَمْ يَحْسَبُوْنَ اَنَّا لَا نَسْمَعُ سِرَّهُمْ وَنَجْوٰىهُمْ ؕ بَلٰى وَرُسُلُنَا لَدَيْهِمْ يَكْتُبُوْنَ ﴿٨٠﴾

၈၀။ သို့တည်းမဟုတ် ငါအရှင်မြတ်သည် ထိုသူတို့၏ လျှို့ဝှက်ချက်များကိုလည်းကောင်း၊ ထိုသူတို့၏ တီးတိုး ဆွေးနွေးချက်များကိုလည်းကောင်း၊ ကြားတော်မူသည်မဟုတ်ဟု ၎င်းတို့ ထင်မှတ်ကြလေသလော။ အမှန်ပင် (ငါအရှင်မြတ်သည် ကြားတော်မူ၏၊) ထိုမှတစ်ပါး ငါအရှင်မြတ်၏ စေတမန်များသည်လည်း (ထိုသည်တို့ကို) ၎င်းတို့ထံ၌ ရေးမှတ်လျက်ရှိကြကုန်သတည်း။

قُلْ اِنْ كَانَ لِلرَّحْمٰنِ وَلَدٌ ۖ فَاَنَا اَوَّلُ الْعٰبِدِيْنَ ﴿٨١﴾

၈၁။ (အို-နဗီတမန်တော်) အသင်ပြောကြားပါလေ။ (အချင်းတို့၊) အကယ်၍ အလ္လာဟ်အရှင်မြတ်၌ သားတစ်ဦးတစ်ယောက် ရှိပါအံ့။ ငါသည် ရှေးဦးပထမ (ထိုသားကို) ဆည်းကပ် ကိုးကွယ်သူဖြစ်အံ့။

سُبْحٰنَ رَبِّ السَّمٰوٰتِ وَالْاَرْضِ رَبِّ الْعَرْشِ عَمَّا يَصِفُوْنَ ﴿٨٢﴾

၈၂။ မိုးကောင်းကင်များကိုလည်းကောင်း၊ ကမ္ဘာမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသော အရှင်၊ "အရ်ရှ်" ပလ္လင်တော်ကိုလည်း ဖန်ဆင်းတော်မူသော အရှင် ဖြစ်တော်မူသည်။ (မုရှ်ရိစ်က်)တို့ ကြံဖန်(စွပ်စွဲ) ပြောဆိုကြသော စွပ်စွဲချက်တို့မှ (လုံး၀)ကင်းရှင်းစင်ကြယ်တော်မူသည်။

فَذَرْهُمْ يَخُوضُوا وَيَلْعَبُوا حَتَّىٰ يُلَاقُوا يَوْمَهُمُ الَّذِي يُوعَدُونَ ﴿٨٣﴾

၈၃။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) ထိုသူတို့သည် မိမိတို့ ချိန်းဆိုခြင်း ခံကြရလေသောနေ့နှင့် တွေ့ဆုံရင်ဆိုင်ကြရသည့်တိုင်အောင် ထိုသူတို့အား အချည်းနှီး အကျိုးမဲ့ဖြစ်သောစကားများ ပြောဆိုလျက်ရှိကြရန် ကစားခုန်စား ပျော်မြူးလျက်ရှိကြရန် စွန့်ထားပါလေ။

وَهُوَ الَّذِي فِي السَّمَاءِ إِلَٰهٌ وَفِي الْأَرْضِ إِلَٰهٌ ۚ وَهُوَ الْحَكِيمُ الْعَلِيمُ ﴿٨٤﴾

၈၄။ အမှန်သော်ကား ထိုအရှင်မြတ်သည်ပင် မိုးကောင်းကင်၌လည်း ဆည်းကပ်ကိုးကွယ်ရာအရှင် ဖြစ်တော်မူသည်။ ကမ္ဘာမြေ၌လည်း ဆည်းကပ်ကိုးကွယ်ရာအရှင် ဖြစ်တော်မူသည်။

ထိုမှတစ်ပါး ထိုအရှင်မြတ်သည်ပင် နက်နဲသိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ (အလုံးစုံတို့ကို) အကြွင်းမဲ့ သိတော်မူသောအရှင် ဖြစ်တော်မူသည်။

وَتَبَارَكَ الَّذِي لَهُ مُلْكُ السَّمَاوَاتِ وَالْأَرْضِ وَمَا بَيْنَهُمَا وَعِندَهُ عِلْمُ السَّاعَةِ وَإِلَيْهِ تُرْجَعُونَ ﴿٨٥﴾

၈၅။ ထိုမှတစ်ပါး အကြင်အရှင်မြတ်သည် ကောင်းခြင်းမင်္ဂလာအပေါင်းနှင့် ပြည့်စုံတော်မူသည်။ မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေနှစ်ခု၏ အကြား၌ ရှိသမျှတို့ကိုလည်းကောင်း၊ စိုးမိုးအုပ်ချုပ်မှုသည် ထိုအရှင်မြတ်၌သာ ရှိသည်။

ထိုမှတစ်ပါး "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလကိုလည်း ထိုအရှင်မြတ်ပင် သိမြင်တော်မူ၏။ ၎င်းပြင် အသင်တို့သည် ထိုအရှင်မြတ် အထံတော်သို့ပင် ပြန်သွားကြရမည်။

وَلَا يَمْلِكُ الَّذِينَ يَدْعُونَ مِن دُونِهِ الشَّفَاعَةَ

၈၆။ စင်စစ်မှာကား ထိုအရှင်မြတ်အားစွန့်၍ ၎င်းတို့ ဟစ်ခေါ်တသကြကုန်သောသူတို့၌ ကြားဝင်အသနား

إِلَّا مَن شَهِدَ بِالْحَقِّ وَهُمْ يَعْلَمُونَ ﴿٨٦﴾

ခံပေးနိုင်ခွင့် အလျှင်းမရှိချေ။ သို့ရာတွင် တရားကို သိရှိကြ၍ ဝန်ခံကြကုန်သောသူတို့မှာမူကား (ကြားဝင် အသနားခံ ပေးနိုင်ကြပေမည်)။ [၁]

وَلَئِن سَأَلْتَهُم مَّنْ خَلَقَهُمْ لَيَقُولُنَّ اللَّهُ فَأَنَّىٰ يُؤْفَكُونَ ﴿٨٧﴾

၈၇။ စင်စစ်သော်ကား (အို-နဗီတမန်တော်) အကယ် ၍သာ အသင်သည် ၎င်းတို့အား အသင်တို့ကို မည်သူ ဖန်ဆင်းခဲ့သနည်းဟု စုံစမ်းမေးမြန်းခဲ့ပါလျှင် ၎င်းတို့ က အလ္လာဟ်အရှင်မြတ်ပင် (ဖန်ဆင်းတော်မူခဲ့သည်)ဟု ဧကန်မလွဲ ပြောဆို(ဖြေကြား)ကြပေမည်။ သို့ပါလျက် ၎င်းတို့သည် အဘယ်သို့ ပြန်လှည့်သွားနေကြသနည်း။

وَقِيلِهِ يَا رَبِّ إِنَّ هَٰؤُلَاءِ قَوْمٌ لَّا يُؤْمِنُونَ ﴿٨٨﴾

၈၈။ ၎င်းပြင် အို-ကျွန်တော်မျိုးအားဖန်ဆင်းမွေးမြူ တော်မူသောအရှင်၊ ဤအမျိုးသားတို့မှာ "အီမာန်" သက်ဝင်ယုံကြည်ခြင်း မရှိကြသော အမျိုးသားတို့ပင် ဖြစ်ကြပါသည်ဟူသော ရစူလ်တမန်တော် လျှောက်ထား ချက်ကိုလည်း (ထိုအရှင်မြတ်သည် သိရှိတော်မူသည်)။

فَاصْفَحْ عَنْهُمْ وَقُلْ سَلَامٌ ۚ فَسَوْفَ يَعْلَمُونَ ﴿٨٩﴾

၈၉။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင် သည် ၎င်းတို့ဘက်မှ လျစ်လျူရှု၍နေပါလေ။ ထိုမှ တစ်ပါး အသင်သည် ၎င်းတို့အား "စလာမ်" ဆိုပါလေ။ ထို့နောက် မကြာမြင့်မီပင် ၎င်းတို့သည် သိရှိကြ ကုန်အံ့သတည်း။

---

(၁) ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်ထံတော်၌ 'ရှဖာအတ်' အသူပြုနိုင်အံ့နည်း။ အစ္စလာမ်၏ အမှန်တရားကို အမှန်အတိုင်း သိနားလည်သော၊ သိနားလည်သည့်အတိုင်း နှစ်နှစ်ကာကာ စွဲယူယုံကြည်သော သူတော်စင်များ သည်ပင် အလ္လာဟ်အရှင်မြတ်၏ ခွင့်ပြုချက်ရမှသာလျှင် ရှဖာအတ်ပြုနိုင်ကြပေမည်။ ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ကိုးကွယ်ရာများကား သူတပါးတို့အား ကယ်တင်နိုင်ရန်ဝေးစွ၊ မိမိတို့ကိုယ်တိုင်ပင် မိမိတို့ ကယ်နိုင်ကြမည် မဟုတ်ပေ။

# အခိုးအငွေ့ကဏ္ဍ




ဤကဏ္ဍသည် 'ဒုခါန်' အခိုးအငွေ့အကြောင်းပါဝင်သော ကဏ္ဍ ဖြစ်သည်။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်(၅၉)ပါး၊
ရကူအ်အပိုဒ်(၃)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော၊
အစဉ်သနားကြင်နာ ညှာတာတော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

حٰمٓ ①

၁။ ဟာ၊ မီမ်။

وَالْكِتٰبِ الْمُبِيْنِ ②

၂။ (ငါအရှင်မြတ်သည်) ရှင်းလင်းထင်ရှားသော (ဤ)ကျမ်းဂန်ကို သက်သေထူတော်မူ၏။

اِنَّآ اَنْزَلْنٰهُ فِيْ لَيْلَةٍ مُّبٰرَكَةٍ اِنَّا كُنَّا مُنْذِرِيْنَ ③

၃။ မုချကေန် ငါအရှင်မြတ်သည် ယင်းကျမ်းဂန်ကို *ကောင်းချီးမင်္ဂလာနှင့် ပြည့်စုံသော ညဉ့်တစ်ညဉ့်တွင် ချပေးသနားတော်မူခဲ့၏။* [①] ဧကန်စင်စစ် ငါအရှင်မြတ်သည် သတိပေးတော်မူမည့်အရှင် ဖြစ်တော်မူ၏။

فِيْهَا يُفْرَقُ كُلُّ اَمْرٍ حَكِيْمٍ ④

၄။ ယင်းညဉ့်တွင် နက်နဲသိမ်မွေ့သောအရေးကိစ္စများဟူသမျှတို့သည် အသေးစိတ် သတ်မှတ် အတည်ပြုခြင်း ခံကြရလေ၏။

---

① **မင်္ဂလာရှိသော ညဉ့်၊**

အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကို မင်္ဂလာရှိသောညဉ့်တွင် စတင်ထုတ်ပြန် ချမှတ်တော်မူခဲ့သည်။ မင်္ဂလာရှိသောညဉ့်ဟူသည် 'ကဒ်ရ်' ညဉ့်ကိုဆိုလိုသည်။ 'ကဒ်ရ်' ညဉ့်တွင် ကုရ်အာန်ကျမ်းမြတ်ကို စတင်ထုတ်ပြန် ချမှတ်တော်မူသည့်အကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အတိအလင်း မိန့်ဆိုထားတော်မူသည်။ ကြည့်-ကုရ်အာန် (၉၇း၁-၅)။

'ကဒ်ရ်' ညဉ့်သည် 'ရမသွာန်' လမြတ်တွင်ရှိသည်။ အဘယ်ကြောင့်ဆိုသော် ကုရ်အာန်ကျမ်းမြတ်သည် ရမသွာန် လမြတ်တွင် စတင်ကျရောက်လာခဲ့လေသည်။ ကြည့်-ကုရ်အာန် (၂း၁၈၅)။

တမန်တော်မြတ်ထံသို့ ဦးစွာပထမ ကျရောက်လာခဲ့သော ကုရ်အာန်ကျမ်းလာ အာယတ်တော်များမှာ ကုရ်အာန်ကျမ်းမြတ်ကဏ္ဍစဉ် (၉၆)၏ အစပထမ အာယတ်တော်ငါးပါးပင် ဖြစ်ပေသည်။ ဤအကြောင်း ကုရ်အာန် (၉၆း၁-၅)၏အဖွင့်တွင် အကျယ်ရေးသားပေမည်။ ➢➢

أَمْرًا مِّنْ عِنْدِنَا ۚ إِنَّا كُنَّا مُرْسِلِينَ ﴿٥﴾

၅။ ငါအရှင်မြတ်အထံတော်၌ ပြဋ္ဌာန်းတော်မူခြင်းအားဖြင့် ဧကန်မလွဲ ငါအရှင်မြတ်သည် (အသင့်အား ရစူလ်တမန်တော်အဖြစ်) စေလွှတ်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

رَحْمَةً مِّنْ رَّبِّكَ ۚ إِنَّهُ هُوَ السَّمِيعُ الْعَلِيمُ ﴿٦﴾

၆။ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ ကရုဏာတော်အားဖြင့် စင်စစ်ဧကန် ထိုအရှင်မြတ်သည်ပင် အလွန်တရာ ကြားတော်မူသော အရှင်၊ အလွန်တရာ သိတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

رَبِّ السَّمٰوٰتِ وَالْأَرْضِ وَمَا بَيْنَهُمَا ۘ إِنْ كُنْتُمْ مُّوقِنِينَ ﴿٧﴾

၇။ မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေ၏အကြား၌ ရှိသမျှတို့ကိုလည်းကောင်း၊ ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ပင်။ အကယ်၍ အသင်တို့သည် ယုံကြည်သောသူများ ဖြစ်ကြသော်။

لَا إِلٰهَ إِلَّا هُوَ يُحْيِي وَيُمِيتُ ۖ رَبُّكُمْ وَرَبُّ آبَائِكُمُ الْأَوَّلِينَ ﴿٨﴾

၈။ ထိုအရှင်မြတ်မှတစ်ပါး ခယရိုကျိုးဆည်းကပ်ကိုးကွယ်ရာအရှင်ဟူ၍ အလျှင်းမရှိပြီ။ ထိုအရှင်မြတ်သည် ရှင်စေတော်မူ၏။ ထိုအရှင်မြတ်သည်ပင် သေဆုံးစေတော်မူ၏။ ထိုအရှင်မြတ်သည် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ ရှေးသူဟောင်းများဖြစ်ကြသော အသင်တို့၏ အဘ ဘိုး ဘေးတို့အားလည်းကောင်း၊ ဖန်ဆင်းမွေးမြူတော်မူသော အရှင်ပင်ဖြစ်တော်မူပေသတည်း။

---

➤➤ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ရမဿွန်လမြတ်၊ ကဒ်ရ် ညဉ့်တွင် "လောင်ဟ်မဟ်ဖူဇ်" မှတ်တမ်းတော်မှ တမန်တော်မြတ်ထံသို့ စတင်ထုတ်ပြန် ချမှတ်ပေးတော်မူခဲ့သည်။ ထို့နောက် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို အခြေအနေအရ အခါကာလ အားလျော်စွာ တမန်တော်မြတ်ထံသို့ တဖြည်းဖြည်းချင်း ချပေးတော်မူခဲ့ရာ (၂၃) နှစ်ရှိသောအခါ ကုရ်အာန်ကျမ်းလာ အာယတ်တော်များသည် ပြီးပြည့်စုံသွားခဲ့လေသည်။

بَلْ هُمْ فِي شَكٍّ يَلْعَبُونَ ﴿٩﴾

၉။ စင်စစ်မှာကား ၎င်းတို့သည် ဒွိဟသံသယ၌ ကစားခုန်စားလျက်ပင် ရှိကြကုန်၏။ [၁]

فَارْتَقِبْ يَوْمَ تَأْتِي السَّمَاءُ بِدُخَانٍ مُّبِينٍ ﴿١٠﴾

၁၀။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် မိုးကောင်းကင်မှ ထင်ရှားစွာသော အခိုးအငွေ့ ဖြစ်ပေါ်လာမည့် နေ့ကိုသာလျှင် စောင့်စား၍နေပါလေ။

يَغْشَى النَّاسَ ۖ هَٰذَا عَذَابٌ أَلِيمٌ ﴿١١﴾

၁၁။ ယင်းအခိုးအငွေ့သည် (ဤ)သူအားလုံးတို့ကို ဖုံးလွှမ်း၍သွားပေမည်။ ဤသည် အလွန်တရာ နာကျင်ဖွယ်ကောင်းသော ပြစ်ဒဏ်ပင်ဖြစ်မည်။

رَّبَّنَا اكْشِفْ عَنَّا الْعَذَابَ إِنَّا مُؤْمِنُونَ ﴿١٢﴾

၁၂။ (ထိုရောကာလ ၎င်းတို့သည် ဤသို့ လျှောက်ထားပေမည်)။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ပြစ်ဒဏ်ကို ကျွန်တော်မျိုးမှ ဖယ်ရှား၍ ပေးသနားတော်မူပါ။ ဧကန်မလွဲ ကျွန်တော်မျိုးတို့သည် သက်ဝင်ယုံကြည်ကြပါတော့မည်။ [၂]

---

(၁) တစ်ဆူတည်းဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်ရမည့် အကြောင်းနှင့် စပ်လျဉ်း၍ ဤရွေ့ဤမျှ များပြားထင်ရှားသော သက်သေလက္ခဏာ၊ အထောက်အထားများ ရှိနေပါလျက်နှင့်လည်း ကာဖိရ်၊ မုရှ်ရစ်က်တို့သည် တစ်ဆူတည်းသော အလ္လာဟ်အရှင်မြတ်အား ဆည်းကပ်ကိုးကွယ်မှုနှင့် စပ်လျဉ်း၍ ဒွိဟသံသယ၌ပင် ရှိနေကြပေသည်။ လောကီရေးရာများတွင်ပင် နစ်မွန်းနေကြပေသည်။ နောင်တမလွန်အရေးကို အနည်းငယ်စိုးစဉ်းမျှပင် ဦးနှောက်တွင် ထည့်သွင်းမစဉ်းစားကြပေ။ ထို့အတွက်ကြောင့်ပင် အဆုံးအမသြဝါဒများကို ပြက်ချော်သမှု ပြုနေကြပေသည်။

(၂) အထက်တွင် ရေးသားဖော်ပြခဲ့သော ကုရ်အာန်ကျမ်းလာ အာယတ်တော် (၄၄း၁၀-၁၁)၏ အနက်ကို ဖွင့်ဆိုရာတွင် နှစ်မျိုးနှစ်စား ဖွင့်ဆိုသကဲ့သို့ ဤအာယတ်တော်များကိုလည်း နှစ်မျိုးနှစ်စားပင် ဖွင့်ဆိုရပေမည်။

၁။ ဆိုလိုသည်ကား ကိယာမတ်နီးသည့်အခါ အခိုးအငွေ့တစ်ခု ထွက်ပေါ်လာပေမည်။ လူသားတို့သည် ထိုသည့်အခိုးအငွေ့၏ဒဏ်ကို ခံစားကြရသောအခါ အို-အရှင်၊ ကျွန်တော်မျိုးတို့အား ဤပြစ်ဒဏ်မှ ဖယ်ရှားပေးတော်မူပါ၊ ကျွန်တော်မျိုးတို့ ယုံကြည်ကြပါပြီဟု လျှောက်ထားအသနားခံကြပေမည်။ ထိုအခါ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ယခုမှ သတိသံဝေဂနောင်တရဖို့ အဘယ်မှာအချိန်ရှိတော့သနည်း။

တမန်တော်မြတ်သည် အသင်တို့ထံသို့ ထင်ရှားသော သက်သေလက္ခဏာတော်များနှင့် ထင်ရှားသော တရားဒေသနာတော်များကို ယူဆောင်လာခဲ့ချေပြီ။ ထိုအချိန်က အသင်တို့သည် မနာခံခဲ့ကြပေ။ မနာခံခဲ့ကြသည် သာမက အသင်တို့က တမန်တော်မြတ်သည် သူတပါးထံမှသင်ကြား၍ ဤကျမ်းကို မိမိကိုယ်တိုင် ➢➢

أَنَّىٰ لَهُمُ الذِّكْرَىٰ وَقَدْ جَاءَهُمْ رَسُولٌ مُّبِينٌ ﴿١٣﴾

၁၃။ ၎င်းတို့အဖို့ သတိရခြင်းသည် အဘယ်မှာလျှင် ရှိတော့သနည်း။ အမှန်စင်စစ်သော်ကား ၎င်းတို့ထံ ရစူလ်တမန်တော်သည် ထင်ရှားစွာသော (သက်သေ လက္ခဏာများနှင့်တကွ) ဧကန်အမှန် ရောက်ရှိ၍ လာခဲ့ချေပြီ။

ثُمَّ تَوَلَّوْا عَنْهُ وَقَالُوا مُعَلَّمٌ مَّجْنُونٌ ﴿١٤﴾

၁၄။ ထို့နောက်သော်မှပင် ၎င်းတို့သည် ထိုရစူလ် တမန်တော်ဘက်မှ မျက်နှာလွှဲခဲ့ကြကုန်၏။ ထိုမှတစ်ပါး ၎င်းတို့က (ရစူလ်တမန်တော်အား သူတစ်ပါး) သင် ကြား ပို့ချ၍ပေးခြင်းကို ခံရသောသူ(ဟူ၍လည်း ကောင်း၊) ရူးသွပ်နေသောသူ(ဟူ၍လည်းကောင်း၊) စွပ်စွဲ ပြောဆိုခဲ့ကြကုန်၏။

إِنَّا كَاشِفُو الْعَذَابِ قَلِيلًا إِنَّكُمْ عَائِدُونَ ﴿١٥﴾

၁၅။ ဧကန်အမှန် ငါအရှင်မြတ်သည် အနည်းငယ်မျှ ကာလတိုင်အောင် ပြစ်ဒဏ်ကို ဖယ်ရှား၍ ပေးတော်မူ မည်ဖြစ်သည်။ သို့တစေလည်း ဧကန်မလွဲ အသင်တို့ သည် (မူလအခြေအနေသို့) ပြန်ပြောင်း၍လာကြအံ့သော သူတို့ပင် ဖြစ်ကြကုန်၏။

---

➤➤ လုပ်ကြံထားသည်။ တမန်တော်မြတ်သည် ရူးသွပ်နေသည်ဟူ၍ပင် စွပ်စွဲပြောဆိုခဲ့ကြသည်။ ထိုအချိန်က သတိသံဝေဂမရခဲ့ကြဘဲ ယခုသော်မှ သတိသံဝေဂ နောင်တရခြင်းမှာ အသို့လျှင်ဖြစ်နိုင်အံ့နည်းဟူ၍ ဖြေကြားတော် မူပေမည်။ (ဤကား အီဗ်နုအဗ္ဗားစ်၏ ဖွင့်ဆိုချက်တစ်ရပ်ပင်)။

၂။ အထက်တွင် ရေးသားဖော်ပြခဲ့သည့်အတိုင်း မက္ကာမြို့သားများသည် ဒုဗ္ဘိက္ခန္တရကပ်ဆိုက်၍ အငတ်ပြဿနာနှင့် ရင်ဆိုင်ကြရသောအခါ ဤအာယတ်တော်များတွင် လာရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ် ထံတော်၌ လျှောက်ထားပန်ကြားခဲ့ကြလေသည်။

အချို့ (ရိဝါယတ်) ကျမ်းချက်များတွင် လာရှိသည်မှာ မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်တို့၏ ခေါင်းဆောင်ဖြစ်သော အဗူစုဖ်ယာန်နှင့် အခြားအကြီးအကဲများသည် တမန်တော်မြတ်ထံ လာရောက်ပြီး "တမန်တော်မြတ်သည် မိမိမှာ ကရုဏာရှင်ဖြစ်သည်ဟု ဆိုပါသည်။ ယခုမူ တမန်တော်၏ အမျိုးသားများသည် ဒုဗ္ဘိက္ခန္တရကပ်ဆိုက်၍ ပျက်စီးနေကြပါသည်။ တမန်တော်မြတ်သည် ကရုဏာရှင်ဖြစ်ပါသည်။ ကျွန်တော်များသည် တမန်တော်မြတ်၏ သားချင်းများဖြစ်ကြပါသည်။

يَوْمَ نَبْطِشُ الْبَطْشَةَ الْكُبْرَىٰ ۚ إِنَّا مُنتَقِمُونَ ﴿١٦﴾

၁၆။ အကြင်နေ့တွင် ငါအရှင်မြတ်သည် အကြီးအကျယ် ဖမ်းဆီးအရေးယူတော်မူအံ့၊ မလွဲဧကန် (ထိုနေ့တွင်) ငါအရှင်မြတ်သည် လက်စားချေတော်မူမည် ဖြစ်ပေသတည်း။

وَلَقَدْ فَتَنَّا قَبْلَهُمْ قَوْمَ فِرْعَوْنَ وَجَاءَهُمْ رَسُولٌ كَرِيمٌ ﴿١٧﴾

၁၇။ ၎င်းပြင် အမှန်စင်စစ် ငါအရှင်မြတ်သည် ၎င်းတို့အလျင် ဖစ်ရ်အောင်န်၏ အမျိုးသားတို့အား စမ်းသပ်တော်မူခဲ့၏။ ထို့ပြင် ၎င်းတို့ထံ မြင့်မြတ်သော ရစူလ်တမန်တော်တစ်ပါးသည် ရောက်ရှိ၍လာခဲ့၏။

أَنْ أَدُّوا إِلَيَّ عِبَادَ اللَّهِ ۖ إِنِّي لَكُمْ رَسُولٌ أَمِينٌ ﴿١٨﴾

၁၈။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ ကျွန်တို့ကို ငါ့အား အပ်ကြလေကုန်၊ စင်စစ်ဧကန် ငါသည် အသင်တို့အဖို့ ယုံကြည်စိတ်ချအပ်သော ရစူလ်တမန်တော်တစ်ပါးပင် ဖြစ်သည်(ဟူ၍လည်းကောင်း)၊

وَأَن لَّا تَعْلُوا عَلَى اللَّهِ ۖ إِنِّي آتِيكُم بِسُلْطَانٍ مُّبِينٍ ﴿١٩﴾

၁၉။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့် ဆန့်ကျင်၍ ဆိုးသွမ်းသောင်းကျန်းမှုကို မပြုကြကုန်လင့်၊ ဧကန်မလွဲ ငါသည် အသင်တို့ထံ ရှင်းလင်းထင်ရှားစွာသော သက်သေအထောက်အထားကို ယူဆောင်ခဲ့သည် (ဟူ၍လည်းကောင်း)၊

وَإِنِّي عُذْتُ بِرَبِّي وَرَبِّكُمْ أَن تَرْجُمُونِ ﴿٢٠﴾

၂၀။ (ထိုအခါ ၎င်းတို့သည် ကျောက်ခဲများဖြင့် ပစ်ပေါက်၍သတ်ကြရန် ခြိမ်းခြောက်ရာ ထိုရစူလ်တမန်တော်က ဤသို့ပြောကြားခဲ့၏) ၎င်းပြင် ဧကန်အမှန် ငါသည် အသင်တို့ ငါ့အား ကျောက်ခဲများဖြင့် ပစ်ပေါက်၍ သတ်ကြမည်ကိုစိုး၍ ငါ့အား လည်းကောင်း၊ အသင်တို့အားလည်းကောင်း၊ ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ အကွယ်အကာ ယူထားပြီး ဖြစ်သည်။

وَإِنْ لَّمْ تُؤْمِنُوا لِي فَاعْتَزِلُونِ ﴿٢١﴾

၂၁။ ထို့ပြင် အကယ်၍ အသင်တို့သည် ငါ့အား မယုံကြည်ကြလျှင် ငါနှင့်ခွဲခွာ ရှောင်ရှား၍ နေကြလေကုန် (ဟူ၍လည်းကောင်း)၊

فَدَعَا رَبَّهُ أَنَّ هَٰؤُلَاءِ قَوْمٌ مُّجْرِمُونَ ﴿٢٢﴾

၂၂။ ထို့နောက် ထိုရစူလ်တမန်တော်(မူစာ)သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်တွင် အမှန်စင်စစ် ဤသူတို့သည် ပြစ်မှုကျူးလွန်ကြကုန်သော အမျိုးသားများ ဖြစ်ကြပါသည်ဟူ၍ လျှောက်ထား ပန်ကြားခဲ့လေသည်။

فَأَسْرِ بِعِبَادِي لَيْلًا إِنَّكُم مُّتَّبَعُونَ ﴿٢٣﴾

၂၃။ (ထိုအခါ အရှင်မြတ်သည် ဤသို့ မိန့်ကြားတော်မူခဲ့၏။ အို-မူစာ) အသင်သည် ငါအရှင်မြတ်၏ကျွန်တို့အား ညဉ့်အချိန်အခါဝယ် ခေါ်ဆောင်သွားပါလေ။ မလွဲဧကန် အသင်တို့သည် မိမိတို့နောက်မှ (ဖစ်ရ်အောင်န်နှင့် ၎င်း၏စစ်တပ်၏) လိုက်လံခြင်း ခံကြရပေမည်။

وَاتْرُكِ الْبَحْرَ رَهْوًا ۖ إِنَّهُمْ جُندٌ مُّغْرَقُونَ ﴿٢٤﴾

၂၄။ ၎င်းပြင် အသင်သည် ပင်လယ်ကို ရှိရင်းအတိုင်း ငြိမ်သက်စွာ ထားရစ်ခဲ့ပါလေ၊ မုချဧကန် ၎င်းတို့သည် နှစ်မြှုပ်ခြင်းခံကြရအံ့သော စစ်တပ်ပင် ဖြစ်ကြကုန်၏။

كَمْ تَرَكُوا مِن جَنَّاتٍ وَعُيُونٍ ﴿٢٥﴾

၂၅။ ထို(ဖစ်ရ်အောင်န်နှင့် ၎င်း၏အမျိုးသား)တို့သည် မြောက်မြားစွာသောဥယျာဉ်များကိုလည်းကောင်း၊ စမ်းချောင်းများကိုလည်းကောင်း၊

وَزُرُوعٍ وَمَقَامٍ كَرِيمٍ ﴿٢٦﴾

၂၆။ လယ်ယာများကိုလည်းကောင်း၊ ကောင်းမွန်သော နေအိမ်များကိုလည်းကောင်း၊

وَنَعْمَةٍ كَانُوا فِيهَا فَاكِهِينَ ﴿٢٧﴾

၂၇။ မိမိတို့ မွေ့လျော်စံပျော်လျက် ရှိခဲ့ကြသော စည်းစိမ်ချမ်းသာတို့ကိုလည်းကောင်း၊ စွန့်ထားခဲ့ကြကုန်၏။

كَذٰلِكَ وَاَوۡرَثۡنٰهَا قَوۡمًا اٰخَرِيۡنَ ۝٢٨

၂၈။ (ဤအဖြစ်အပျက်သည်) ဤအတိုင်းပင်ဖြစ်၏။ သို့ရာတွင် ငါအရှင်သည် ယင်းစည်းစိမ်ချမ်းသာများကို အခြားသောအမျိုးသားတို့အား အမွေဆက်ခံစေတော်မူခဲ့၏။

فَمَا بَكَتۡ عَلَيۡهِمُ السَّمَآءُ وَالۡاَرۡضُ وَمَا كَانُوۡا مُنۡظَرِيۡنَ ۝٢٩

၂၉။ သို့တစေလည်း (ယင်းဖစ်ရ်အောင်န်၏အမျိုးသား)တို့နှင့် ပတ်သက်၍ မိုးကောင်းကင်သည်လည်း ငိုကြွေး (ဝမ်းနည်းကြေကွဲ)သည် မရှိခဲ့ပေ။ ပထဝီမြေသည်လည်း ငိုကြွေး(ဝမ်းနည်း)သည် မရှိခဲ့ချေ၊ ထိုမှတစ်ပါး ၎င်းတို့မှာ ရွှေ့ဆိုင်းခွင့်လည်း မရခဲ့ကြပေ။

وَلَقَدۡ نَجَّيۡنَا بَنِىۡۤ اِسۡرَآءِيۡلَ مِنَ الۡعَذَابِ الۡمُهِيۡنِ ۝٣٠

၃၀။ ထိုမှတစ်ပါး မလွဲဧကန် ငါအရှင်မြတ်သည် အစ္စရာအီလီအမျိုးသားတို့အား ကျိုးယုတ်ရှက်ရခြင်းဖြစ်စေသော ပြစ်ဒဏ်မှ လွတ်မြောက်စေခဲ့တော်မူ၏။

مِنۡ فِرۡعَوۡنَ ؕ اِنَّهٗ كَانَ عَالِيًا مِّنَ الۡمُسۡرِفِيۡنَ ۝٣١

၃၁။ ဖစ်ရ်အောင်န်၏ထံမှဖြစ်သော။ မုချစင်စစ်၊ ထိုဖစ်ရ်အောင်န်သည် ဆိုးသွမ်းသောင်းကျန်းသူ၊ စည်းကမ်းကျူးလွန်သူ တစ်ဦးပင်ဖြစ်ခဲ့၏။

وَلَقَدِ اخۡتَرۡنٰهُمۡ عَلٰى عِلۡمٍ عَلَى الۡعٰلَمِيۡنَ ۝٣٢

၃၂။ စင်စစ်သော်ကား ဧကန်အမှန် ငါအရှင်မြတ်သည် သိတော်မူလျက် ထိုအစ္စရာအီလီအမျိုးသားတို့အား ကမ္ဘာသူကမ္ဘာသားတို့ ထက်ဝယ် ရွေးချယ်မြှောက်စားတော်မူခဲ့၏။

وَاٰتَيۡنٰهُمۡ مِّنَ الۡاٰيٰتِ مَا فِيۡهِ بَلٰٓـؤٌا مُّبِيۡنٌ ۝٣٣

၃၃။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အား ထင်ရှားစွာသော ကျေးဇူးတော်ပါရှိလေသော သက်သေလက္ခဏာတော်များကို ချီးမြှင့် ပေးသနားတော်မူခဲ့ပေသတည်း။

اِنَّ هٰٓؤُلَاۤءِ لَيَقُوۡلُوۡنَ ۝٣٤

၃၄။ ဧကန်မလွဲ ဤသူတို့သည် အမှန်ပင် (ဤသို့) ပြောဆိုကြကုန်၏။

إِنْ هِيَ إِلَّا مَوْتَتُنَا الْأُولَىٰ وَمَا نَحْنُ بِمُنشَرِينَ ﴿٣٥﴾

၃၅။ ထိုသေဆုံးခြင်းဟူသည် ကျွန်ုပ်တို့၏ ပထမ သေဆုံးခြင်းပင် ဖြစ်၏။ ၎င်းပြင် ကျွန်ုပ်တို့သည် (ဒုတိယအကြိမ်) ရှင်ပြန်ထစေခြင်းကို ခံကြရမည် မဟုတ်ပေ။

فَأْتُوا بِآبَائِنَا إِن كُنتُمْ صَادِقِينَ ﴿٣٦﴾

၃၆။ သို့ဖြစ်ပေရာ (အို-မုစ်လင်မ်အပေါင်းတို့၊) အကယ်၍ အသင်တို့သည် သစ္စာဝါဒီများဖြစ်ကြလျှင် သေဆုံးခဲ့ကြပြီးဖြစ်သော ကျွန်ုပ်တို့၏ အဘ၊ ဘိုး၊ ဘေးတို့အား (တစ်ဖန် ရှင်စေပြီး) ခေါ်ယူခဲ့ကြလေကုန်။

أَهُمْ خَيْرٌ أَمْ قَوْمُ تُبَّعٍ وَالَّذِينَ مِن قَبْلِهِمْ ۚ أَهْلَكْنَاهُمْ ۖ إِنَّهُمْ كَانُوا مُجْرِمِينَ ﴿٣٧﴾

၃၇။ *ထိုသူတို့ကား "တွဗ္ဗအ်"၏အမျိုးသားတို့ထက် လည်းကောင်း၊ ထိုအမျိုးသားတို့အလျင် ရှိခဲ့ကြသော သူတို့ထက်လည်းကောင်း၊ သာ၍ကောင်းကြလေ သလော။*[၁] ငါအရှင်မြတ်သည် ထိုသို့သော သူတို့ကို ပင် ၎င်းတို့သည် ပြစ်မှုကိုကျူးလွန်သူများ ဖြစ်ခဲ့ ကြသောကြောင့် ဖျက်ဆီးတော်မူခဲ့ပေသည်။

---

(၁) ဆိုလိုသည်ကား မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များသည် ဥစ္စာဂုဏ်၊ နေဂုဏ်၊ အာဏာဂုဏ်၊ ဆွေဂုဏ်၊ မျိုးဂုဏ်မောက်ကာ အမှန်တရားကို သွေဖည်နေခဲ့ကြ၏။ ပြစ်မှုအမျိုးမျိုးကို ကျူးလွန်နေခဲ့ကြ၏။ အမှန်မှာ မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များသည် ၎င်းတို့၏ အိမ်နီးချင်းဖြစ်သော 'တွဗ္ဗအ်' အမျိုးသားများ၊ 'တွဗ္ဗအ်'အမျိုးသားများ အလျင်ရှိခဲ့ကြသော အာဒ်၊ဆမူဒ်စသည့် အမျိုးသားများထက် သာခဲ့ကြသည်မဟုတ်။ တွဗ္ဗအ်၊ဆမူဒ်စသည့် အမျိုးသားများသည် ဥစ္စာဂုဏ်၊ အာဏာဂုဏ်၊ ကာယဗလဂုဏ်စသည့် လောကီရေးရာ ဂုဏ်များတွင် မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များထက် အသာကြီး သာခဲ့ကြပေသည်။ ဤသည်ကို မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များ အသိပင်ဖြစ်ခဲ့ကြပေသည်။

အလ္လာဟ်အရှင်မြတ်သည် ယင်းသို့သော အမျိုးသားများကိုပင် မောက်မာပလွှား၍ ပြစ်မှုကျူးလွန် ကြသည့်အတွက် ကွပ်မျက်တော်မူခဲ့ပေရာ၊ မက္ကာမြို့သား ကာဖိရ်၊ မုရှ်ရစ်က်များကိုမူ အသို့လျှင် လျစ်လျူပြု ထားတော်မူအံ့နည်း။

**"တွဗ္ဗအ်" အမျိုးသား၊**

"တွဗ္ဗအ်" (TUBBA)သည် (YEMEN)ယမန်ပြည်ဘုရင်၏ ဘွဲ့နာမည်ဖြစ်သည်။ ၎င်း၏ အုပ်ချုပ်မှုအာဏာစက်သည် ရှီဟာ၊ ဟသ္သရမောက်တ်စသည့် ပြည်များအထိ ပျံ့နှံ့ခဲ့သည်။ "တွဗ္ဗအ်" ဘွဲ့အမည်ဖြင့် ဘုရင်အမြောက်အမြား ရှိခဲ့ကြသည်။ ဤအာယတ်တော်တွင် အဘယ်"တွဗ္ဗအ်" ဘုရင်အား ရည်ညွှန်းတော်မူသည်ကို အတိအကျမသိ။

➢➢

وَمَا خَلَقْنَا السَّمٰوٰتِ وَالْاَرْضَ وَمَا بَيْنَهُمَا لٰعِبِيْنَ ﴿٣٨﴾

၃၈။ စင်စစ်သော်ကား ငါအရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေနှစ်ခု၏အကြား၌ ရှိသမျှတို့ကိုလည်းကောင်း၊ ကစားခုန်စားသောအားဖြင့် ဖန်ဆင်းတော်မူခဲ့သည် မဟုတ်ပေ။ [၁]

مَا خَلَقْنٰهُمَآ اِلَّا بِالْحَقِّ وَلٰكِنَّ اَكْثَرَهُمْ لَا يَعْلَمُوْنَ ﴿٣٩﴾

၃၉။ (အမှန်စင်စစ်) ငါအရှင်မြတ်သည် ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေနှစ်ခုစလုံးကို နက်နဲသိမ်မွေ့ တိကျမှန်ကန်သော အကြောင်းနှင့်တကွ ဖန်ဆင်းတော်မူခဲ့၏။ သို့ရာတွင် ၎င်းတို့အနက် များစွာသောသူတို့မှာ သိရှိကြသည် မဟုတ်ပေ။

اِنَّ يَوْمَ الْفَصْلِ مِيْقَاتُهُمْ اَجْمَعِيْنَ ﴿٤٠﴾

၄၀။ ဧကန်အမှန် စီရင်ဆုံးဖြတ်မည့် နေ့သည် ၎င်းတို့အားလုံးအဖို့ သတ်မှတ်ပြီးဖြစ်သော အချိန်ကာလပင် ဖြစ်၏။

يَوْمَ لَا يُغْنِيْ مَوْلًى عَنْ مَّوْلًى شَيْـًٔا وَّلَا هُمْ يُنْصَرُوْنَ ﴿٤١﴾

၄၁။ ထိုနေ့တွင် မည်သည့်ပတ်သက်သောသူတစ်ဦးတစ်ယောက်မျှပင်၊ မည်သည့်ပတ်သက်သောသူတစ်ဦးတစ်ယောက်အဖို့မျှ လုံးဝ အသုံးဝင်မည်မဟုတ်ပေ၊ ထိုမှတစ်ပါး ၎င်းတို့သည် ကူညီစောင်မခြင်းကိုလည်း ခံကြရမည် မဟုတ်ပေ။

---

➤➤ အသို့ပင်ရှိစေ အဆိုပါ "တွဗ္ဗအ်"၏ အမျိုးသားများသည် လောကီရေးရာများတွင် အထူးကျော်ကြား၍ တန်ခိုးအာဏာ အလွန်ကြီးထွားခဲ့ပေသည်။ အိဗ်နကဆီရ်၏ ယူဆချက်အရ တွဗ္ဗအ်၏ အမျိုးသားများသည် အခြားမဟုတ်၊ ကုရ်အာန်ကျမ်းမြတ် ရှီဗာကဏ္ဍတွင် ပါရှိသော ရှီဗာပြည်သားများပင် ဖြစ်ကြပေသည်။

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ဤမိုး၊မြေနှင့်တကွ စကြာဝဠာခပ်သိမ်းကို အကြောင်းမဲ့၊အကျိုးမဲ့ အချည်းနှီး၊အလဟဿ ဖန်ဆင်းထားတော် မူသည်မဟုတ်၊ အကြောင်းနှင့်အကျိုးနှင့် ဖန်ဆင်းထားတော်မူခြင်းသာဖြစ်သည်။

အကျိုးတစ်ရပ်မှာ အရာရာတွင် အကြောင်း၏နောက်တွင် အကျိုးရှိသကဲ့သို့ ဤစကြာဝဠာကြီး၏ အကျိုးသည်လည်း တစ်ရက်မှချထွက်ပေါ်လာပေမည်။ ထိုနေ့ကား ကိယာမတ်နေ့ပင်။ ထိုနေ့တွင် ➤➤

إِلَّا مَن رَّحِمَ ٱللَّهُ ۚ إِنَّهُۥ هُوَ ٱلْعَزِيزُ ٱلرَّحِيمُ ﴿٤٢﴾

၄၂။ သို့ရာတွင် အလ္လာဟ်အရှင်မြတ် ကရုဏာပြုတော်မူသောသူမှာမူကား (ကြားဝင်အသနားခံပေးခြင်းကို ခံရပေမည်)။ စင်စစ်ဧကန် ထိုအရှင်မြတ်သည် အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော အရှင်၊ အလွန်တရာ ကြင်နာသနားတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

إِنَّ شَجَرَتَ ٱلزَّقُّومِ ﴿٤٣﴾

၄၃။ ဧကန်မလွဲ “ဇက္ကူမ်” ရှားစောင်းကြီးပင်မှာ။

طَعَامُ ٱلْأَثِيمِ ﴿٤٤﴾

၄၄။ လွန်စွာ ပြစ်မှုကျူးလွန်သူ၏ အစားအစာ ဖြစ်၏။ [၁]

كَٱلْمُهْلِ يَغْلِى فِى ٱلْبُطُونِ ﴿٤٥﴾

၄၅။ ဆီအနည်ကဲ့သို့၊ ကြေးနီ၊ ကြေးဝါ၊ကြောင်းငွေ စသော အရည်ကျိုထားသောတွင်းထွက်သတ္တုကဲ့သို့။ ဝမ်းဗိုက်များတွင် ကျိုက်ကျိုက်ဆူလျက် ရှိပေမည်။

كَغَلْىِ ٱلْحَمِيمِ ﴿٤٦﴾

၄၆။ ရေနွေးပူ ပွက်ပွက်ဆူသကဲ့သို့ပင်။

خُذُوهُ فَٱعْتِلُوهُ إِلَىٰ سَوَآءِ ٱلْجَحِيمِ ﴿٤٧﴾

၄၇။ သို့ဖြစ်ပေရာ အသင်တို့သည် ၎င်းအား ဖမ်းဆီးပြီးလျှင် “ဂျဟန္နမ်” ငရဲဘုံ ဗဟိုအလယ်သို့ တရွတ်တိုက် ဆွဲချကြလေကုန်။

---

➤➤ အလ္လာဟ်အရှင်မြတ်သည် အားလုံးတို့၏ စာရင်းရှင်းတော်မူမည်။ ကျိုးပြစ်ပေးတော်မူမည်။ ထိုနေ့တွင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံကြရသူများမှတပါး မည်သူမျှ မည်သူအားမျှ၊ စိုးစဉ်းမျှ အကျိုးပြုနိုင်မည် မဟုတ်ပေ။

(၁) ဂျဟန္နမ်ငရဲတွင် ငရဲသားတို့သည် “ဇက္ကူမ်” ရှားစောင်းကြီးပင်ကိုပင် စားမျိုကြရပေမည်။ ဤမျက်မှောက်ရှိ ရှားစောင်းကြီးပင်၏ ပုံပန်းသဏ္ဍာန်၊ အရသာမှာ ဆိုးရွားလှပြီဖြစ်ရာ ဂျဟန္နမ်ငရဲတွင်ရှိသော ရှားစောင်းကြီးပင်ကား အတိုင်းမသိ ဆိုးရွားပေမည်။

ဂျဟန္နမ်ငရဲတွင်ရှိသော ရှားစောင်းကြီးပင်သည် ဤပစ္စက္ခရှိ ရှားစောင်းကြီးပင်နှင့် ပုံပန်းသဏ္ဍာန်၊ အနံ့၊အရသာ လုံးဝတစ်မျိုးတစ်စား တည်းဟူ၍ မထင်မှတ်ရာ၊ ထိုနည်းအတူ ဂျန္နတ် အမတသုခဘုံတွင်ရှိသော သစ်သီးဝလံများသည်လည်း ဤပစ္စက္ခရှိ သစ်သီးဝလံများနှင့် တစ်မျိုးတစ်စားတည်းဟူ၍ မထင်မှတ်ရာ။ လူသားတို့ ခန့်မှန်းသိရှိနိုင်ရန်အတွက် သာမန်ဆင်တူဖြစ်သည်ကို အကြောင်းပြု၍ ယင်းသို့ သုံးနှုန်းထားတော်မူခြင်းသာဖြစ်သည်။

ثُمَّ صُبُّوا فَوْقَ رَأْسِهِ مِنْ عَذَابِ الْحَمِيمِ ﴿٤٨﴾

၄၈။ ထို့နောက် အသင်တို့သည် ၎င်း၏ဦးခေါင်းထက်ဝယ် ပွက်ပွက်ဆူနေသော ရေနွေးပူ၏ပြစ်ဒဏ်ကို သွန်းလောင်းကြလေကုန်။

ذُقْ إِنَّكَ أَنْتَ الْعَزِيزُ الْكَرِيمُ ﴿٤٩﴾

၄၉။ (ထိုအခါ ၎င်းမှာ ဤသို့ပြောဆိုခြင်းကို ခံရပေမည်။) အသင်သည် (ဤပြစ်ဒဏ်၏ အရသာကို) မြည်းစမ်းလေ၊ မလွဲဧကန် အသင်သည် အလွန်မြင့်မြတ်သူ၊ ဂုဏ်မြင့်သူ ဖြစ်ပေသည်။

إِنَّ هَٰذَا مَا كُنْتُمْ بِهِ تَمْتَرُونَ ﴿٥٠﴾

၅၀။ ဧကန်မလွဲ ဤသည်ကား အသင်တို့ ယုံမှားသံသယဖြစ်လျက်ရှိခဲ့ကြသောအရာပင်ဖြစ်ချေသတည်း။

إِنَّ الْمُتَّقِينَ فِي مَقَامٍ أَمِينٍ ﴿٥١﴾

၅၁။ ဧကန်အမှန် "မွတ္တကီ" သူတော်စင်တို့မှာ ငြိမ်းချမ်းသာယာသောနေရာဌာနတွင် ရှိကြပေမည်။

فِي جَنَّاتٍ وَعُيُونٍ ﴿٥٢﴾

၅၂။ ဥယျာဉ်များ၌လည်းကောင်း၊ စမ်းချောင်းများ၌လည်းကောင်း။

يَلْبَسُونَ مِنْ سُنْدُسٍ وَإِسْتَبْرَقٍ مُتَقَابِلِينَ ﴿٥٣﴾

၅၃။ ၎င်းတို့သည် ပိုးထည်အပါးစားကိုလည်းကောင်း၊ ပိုးထည်အထူစားကိုလည်းကောင်း၊ ဝတ်ဆင်၍ မျက်နှာချင်းဆိုင် ထိုင်လျက် ရှိကြပေမည်။

كَذَٰلِكَ وَزَوَّجْنَاهُمْ بِحُورٍ عِينٍ ﴿٥٤﴾

၅၄။ (ဤဖြစ်ရပ်မှာ) ဤအတိုင်းဖြစ်၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အား ဖြူ၍ လှပတင့်တယ်သော၊ မျက်စိပြူး၍လှပသော၊ မိန်းမများနှင့် ထိမ်းမြား၍ ပေးတော်မူပေမည်။

يَدْعُونَ فِيهَا بِكُلِّ فَاكِهَةٍ آمِنِينَ ﴿٥٥﴾

၅၅။ ၎င်းတို့သည် ယင်းဥယျာဉ်များ၌ အလုံးစုံသော သစ်သီးဝလံတို့ကို အေးချမ်းစွာ မှာယူကြပေမည်။

لَا يَذُوقُونَ فِيهَا الْمَوْتَ

၅၆။ ၎င်းတို့သည် ပထမအကြိမ် သေဆုံးခဲ့ကြသည်မှတစ်ပါး ယင်းဥယျာဉ်များတွင် "မရဏ" သေခြင်း

إِلَّا الْمَوْتَةَ الْأُولَىٰ ۖ وَوَقَاهُمْ عَذَابَ الْجَحِيمِ ﴿٥٦﴾

တရား၏ ရသာကို မြည်းစမ်းကြရမည် မဟုတ်ပြီ၊ ထိုမှတစ်ပါး ၎င်းတို့အား ထိုအရှင်မြတ်သည် "ဂျဟန္နမ်" ငရဲဘုံ၏ ပြစ်ဒဏ်မှ(လည်း) လွတ်ကင်းစေတော်မူပေမည်။

فَضْلًا مِّن رَّبِّكَ ۚ ذَٰلِكَ هُوَ الْفَوْزُ الْعَظِيمُ ﴿٥٧﴾

၅၇။ (ဤသည်တို့ကား) အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ကျေးဇူးတော်ကြောင့် ဖြစ်ပေမည်။ ဤသည်ပင်လျှင် ကြီးကျယ်လှစွာသော အောင်မြင်မှုပင်။

فَإِنَّمَا يَسَّرْنَاهُ بِلِسَانِكَ لَعَلَّهُمْ يَتَذَكَّرُونَ ﴿٥٨﴾

၅၈။ ၎င်းပြင် ဧကန်မလွဲ ငါအရှင်မြတ်သည် ဤကုရ်အာန်ကျမ်းတော်ကို ၎င်းတို့ တရားရယူကြအံ့သောငှာ အသင်၏ဘာသာစကားဖြင့်ပင် လွယ်ကူစေတော်မူခဲ့၏။

فَارْتَقِبْ إِنَّهُم مُّرْتَقِبُونَ ﴿٥٩﴾

၅၉။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည်လည်း စောင့်စား၍နေပါလေ။ ၎င်းတို့သည်လည်း *စောင့်စား၍နေကြသူများပင် ဖြစ်ကြကုန်သတည်း*။ [၁]

---

(၁) ဆိုလိုသည်ကား ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ဦးစွာပထမ နာခံကြရသူများမှာ အရဗ်အမျိုးသားများ ဖြစ်ခဲ့ကြသည်။ အရဗ်အမျိုးသားများသည် ကုရ်အာန်ကျမ်းလာဒေသနာ တော်များကို လွယ်လင့်တကူ နားလည်သဘောပေါက်၍ တရားရယူ နာယူကျင့်မှုနိုင်ကြရန်အလို့ငှာ ကုရ်အာန်ကျမ်းမြတ်ကို တမန်တော်မြတ်၏ အမိဘာသာစာပေဖြစ်သော အရဗ်ဘာသာစာပေ၌ ထုတ်ပြန်ချမှတ် ပေးတော်မူခဲ့ပေသည်။

သို့ပါလျက် ၎င်းတို့သည် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို မနာခံကြပါက တမန်တော်မြတ်သည် ၎င်းတို့၌ ဘေးဒုက္ခသက်ရောက်မည်ကို စောင့်စား၍သာနေပါလေ၊ ၎င်းတို့သည်လည်း တမန်တော်မြတ်၌ ဘေးဒုက္ခသက်ရောက်မည်ကို စောင့်စား၍နေကြသည်။ အလ္လာဟ်အရှင်မြတ်သည် မကြာမီ စီရင်တော်မူမည်ဖြစ်သည်။ ထိုအခါ မည်သူသည် အရေးသာ၍ မည်သူသည် အရေးရှုံးနိမ့်မည်ကို သိသွားကြပေမည်။

# ပုဆစ်ဒူးထောက်လျက်နေခြင်းကဏ္ဍ



ဤကဏ္ဍသည် "ဂျာဆိယဟ်" ပုဆစ်ဒူးထောက်လျက် နေကြရမည့်အကြောင်း ပါဝင်သော ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၃၇)ပါး၊ ရကူအ် အပိုဒ်(၄)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော၊
အစဉ်သနားကြင်နာသညှာတာတော်မူသော၊
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

حٰمٓ ①

၁။ ဟာ၊ မီမ်။

تَنْزِيْلُ الْكِتٰبِ مِنَ اللّٰهِ الْعَزِيْزِ الْحَكِيْمِ ②

၂။ (ဤသည်) အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော၊ နက်နဲသိမ်မွေ့သော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်၏အထံတော်မှ ချပေးတော်မူသောကျမ်းဂန်ပင်။ [1]

اِنَّ فِى السَّمٰوٰتِ وَالْاَرْضِ لَاٰيٰتٍ لِّلْمُؤْمِنِيْنَ ③

၃။ ဧကန်စင်စစ် မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ "မုအ်မင်န်" သက်ဝင်ယုံကြည်ကြကုန်သောသူတို့အဖို့ အမှန်ပင် သက်သေလက္ခဏာများ ရှိကုန်၏။

وَفِيْ خَلْقِكُمْ وَمَا يَبُثُّ مِنْ دَآبَّةٍ اٰيٰتٌ لِّقَوْمٍ يُّوْقِنُوْنَ ④

၄။ ထို့ပြင် အသင်တို့အား ဖန်ဆင်းခြင်း၌လည်းကောင်း၊ ထိုအရှင်မြတ် ပျံ့နှံ့စေတော်မူသော တိရစ္ဆာန်တို့ကို ဖန်ဆင်းခြင်း၌လည်းကောင်း၊ ယုံကြည်ကြကုန်သောသူတို့အဖို့ သက်သေလက္ခဏာများသည် ရှိကုန်၏။

---

(၁) ဆိုလိုသည်ကား ဤကျမ်းဂန်သည် အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသော အတိုင်းမသိ နက်နဲသိမ်မွေ့သော၊ ဆင်ခြင်တုံတရားရှိတော်မူသော၊ တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့် ပြည့်ဝတော်မူသော အလ္လာဟ်အရှင်မြတ် ထံတော်မှ ချပေးတော်မူသော ကျမ်းဂန်ဓမ္မကဉ္စန်ဖြစ်တော်မူသည်။ သို့ဖြစ်ရာ ဤကျမ်းဂန်လာ ဒေသနာတော်များကို အထူးတလည် ဂရုမူ၍ နာခံကြရာသတည်း။ ကြည့်-ထာနဝီ။

وَاخْتِلَافِ الَّيْلِ وَالنَّهَارِ وَمَآ أَنْزَلَ اللّٰهُ مِنَ السَّمَآءِ مِنْ رِّزْقٍ فَأَحْيَا بِهِ الْأَرْضَ بَعْدَ مَوْتِهَا وَتَصْرِيفِ الرِّيٰحِ اٰيٰتٌ لِّقَوْمٍ يَّعْقِلُوْنَ ۝٥

၅။ ထိုမှတစ်ပါး ညဥ့်နှင့်နေ့တို့ကို ပြောင်းလဲခြင်း၌လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်မှ (မိုးရေကို ရွာသွန်းစေတော်မူ၍) စားနပ်ရိက္ခာကို ချပေးတော်မူခြင်း၊ တဖန် ယင်းမိုးရေဖြင့် ပထဝီမြေကို သေ့ခြောက် သေလွန်ပြီးနောက် ရှင်ပြန်(စိမ်းလန်း) စေတော်မူခြင်း၌လည်းကောင်း၊ လေများကို (ဒိသာ အရာခပ်သိမ်းသို့) ပြောင်းလဲတိုက်ခတ်စေခြင်း၌လည်း ကောင်း၊ သိနားလည်ကြသောသူတို့အဖို့ သက်သေ လက္ခဏာများသည် ရှိကြကုန်သတည်း။

تِلْكَ اٰيٰتُ اللّٰهِ نَتْلُوْهَا عَلَيْكَ بِالْحَقِّ ۚ فَبِأَيِّ حَدِيْثٍۭ بَعْدَ اللّٰهِ وَاٰيٰتِهٖ يُؤْمِنُوْنَ ۝٦

၆။ ဤသည်တို့ကား အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များပင် ငါအရှင်သည် ယင်း သက်သေလက္ခဏာတော်များကို အသင်၏ရှေ့ဝယ် တိကျ မှန်ကန်စွာ ဖတ်ကြားပြတော်မူ၏။ သို့ဖြစ်ပေရာ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်(မှတစ်ပါး ထို အရှင်မြတ်)၏ သက်သေလက္ခဏာတော်များမှတစ်ပါး မည်သည့်စကားကို ယုံကြည်ကြအံ့နည်း။ [၁]

وَيْلٌ لِّكُلِّ أَفَّاكٍ أَثِيْمٍ ۝٧

၇။ အကြင် လွန်စွာမုသားပြောဆိုသူ၊ လွန်စွာပြစ်မှု ကျူးလွန်သူတိုင်း၌ အကြီးအကျယ် ပျက်စီးခြင်းသည် ရှိပေမည်။

---

(၁) အထက်တွင်ဖော်ပြပါ သက်တော်လက္ခဏာတော်များသည် အလ္လာဟ်အရှင်မြတ်၏ အနန္တတန်ခိုးတော်၊ အနန္တဉာဏ်တော်များကို ထင်ရှားစွာ ညွှန်ပြနေသော သက်သေလက္ခဏာတော်များ ဖြစ်ပေသည်။ ယင်းသည့် သက်သေလက္ခဏာတော်များကို အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား ကုရ်အာန်ကျမ်းမြတ်တွင် ဘိကျမှန်ကန်စွာ ဖတ်ကြားပြထားတော်မူသည်။ ဤမျှေ့ဤမျှ ထင်ရှားသော သက်သေလက္ခဏာတော်များ အထင်အရှားရှိနေပါလျက် ကာဖိရ်များ၊ မယုံကြည်ပါက ၎င်းတို့ယုံကြည်ရန် အလ္လာဟ်အရှင်မြတ်အပြင် အခြားအသူရှိသေးသနည်း။ ၎င်းတို့နာခံကြရန် ထိုအရှင်မြတ်၏ အာယတ်တော်များအပြင် အခြားမည်သူ၏ စကားရှိသေးသနည်း။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ဤမျှေ့ဤမျှ တိကျမှန်ကန် ထင်ရှားသော အာယတ်တော်များကိုပင် မနာခံကြပေရာ၊ အဘယ်အရာကိုနာခံရန် စောင့်မျှော်နေကြသနည်း။ ကြည့်-အွတ်ဆ်မာနီ။

يَّسۡمَعُ اٰيٰتِ اللّٰهِ تُتۡلٰى عَلَيۡهِ ثُمَّ يُصِرُّ مُسۡتَكۡبِرًا كَاَنۡ لَّمۡ يَسۡمَعۡهَا ۚ فَبَشِّرۡهُ بِعَذَابٍ اَلِيۡمٍ ⑧

၈။ ထိုသူသည် မိမိရှေ့ဝယ် ဖတ်ကြားပြသော အလ္လာဟ်အရှင်မြတ်၏အာယတ်တော်များကို နားထောင်လေ၏။ သို့ပါလျက် ၎င်းမှာ ယင်းအာယတ်တော်များကို မကြားခဲ့ဘိသကဲ့သို့ပင် (မိမိ၏ဝါဒ လမ်းစဉ်ပေါ်၌ သာလျှင်) မာန်မာန ထောင်လွှားကာ ဆက်လက် တင်းမာ၍သာ နေလေ၏။ သို့ဖြစ်ပေရာ (အို-နဗီ တမန်တော်) အသင်သည် ၎င်းအား အလွန်တရာ နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်နှင့် စပ်လျဉ်း၍ သတင်းကောင်း ပြောကြားပါလေ။

وَاِذَا عَلِمَ مِنۡ اٰيٰتِنَا شَيۡـًٔا اتَّخَذَهَا هُزُوًا ؕ اُولٰٓـئِكَ لَهُمۡ عَذَابٌ مُّهِيۡنٌ ؕ ⑨

၉။ ၎င်းပြင် ထိုသူသည် ငါအရှင်မြတ်၏ အာယတ်တော်များအနက် အာယတ်တော် တစ်စုံတစ်ရာကို သိရှိခဲ့သောအခါ ၎င်းသည် ယင်းအာယတ်တော်ကိုပင် ပြက်ရယ်ပြောင်လှောင်ဖွယ်ရာ ပြုလုပ်လေ့ရှိ၏။ ထိုကဲ့သို့သောသူတို့၌ ကျိုးယုတ်ရှက်ရဖြစ်စေသော ပြစ်ဒဏ်သည် ရှိချေမည်။

مِنۡ وَّرَآئِهِمۡ جَهَنَّمُ ۚ وَلَا يُغۡنِىۡ عَنۡهُمۡ مَّا كَسَبُوۡا شَيۡـًٔا وَّلَا مَا اتَّخَذُوۡا مِنۡ دُوۡنِ اللّٰهِ اَوۡلِيَآءَ ۚ وَلَهُمۡ عَذَابٌ عَظِيۡمٌ ؕ ⑩

၁၀။ ၎င်း၏ရှေ့မှောက်ဝယ် "ဂျဟန္နမ်" ငရဲဘုံသည် ရှိနေလေ၏။ ထို့ပြင် ထိုသူတို့ ရှာဖွေ ဆည်းပူးခဲ့သမျှ တို့သည်လည်းကောင်း၊ ထိုသူတို့က အလ္လာဟ်အရှင် မြတ်အပြင် ကိစ္စအဝဝကို ပြီးစီးအောင် ဆောင်ရွက် ပေးသူများဟူ၍ ပြုလုပ်သတ်မှတ်ထားသူတို့သည် လည်းကောင်း၊ ထိုသူအဖို့ အနည်းငယ် စိုးစဉ်းမျှပင် အသုံးဝင်ကြမည် မဟုတ်ပေ။ ထိုမှတစ်ပါး ၎င်းတို့၌ ကြီးလေးလှစွာသော ပြစ်ဒဏ်သည် ရှိပေမည်။

هٰذَا هُدًى ۚ وَالَّذِيۡنَ كَفَرُوۡا بِاٰيٰتِ رَبِّهِمۡ

၁၁။ (ဤကုရ်အာန်ကျမ်းတော်မြတ်)သည် တရား လမ်းညွှန်ပင် ဖြစ်ပေသည်။ သို့ဖြစ်ရာ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အာယတ် တော်များကို ငြင်းပယ်ကြကုန်သောသူတို့၌ ပြင်းထန်

لَهُمْ عَذَابٌ مِّنْ رِّجْزٍ اَلِيْمٌ ⑪

သော ပြစ်ဒဏ်အနက်မှ အလွန်တရာ နာကျင်ဖွယ် ဖြစ်သော ပြစ်ဒဏ်သည် ရှိပေအံ့သတည်း။

اَللّٰهُ الَّذِيْ سَخَّرَ لَكُمُ الْبَحْرَ لِتَجْرِيَ الْفُلْكُ فِيْهِ بِاَمْرِهٖ وَلِتَبْتَغُوْا مِنْ فَضْلِهٖ وَلَعَلَّكُمْ تَشْكُرُوْنَ ⑫

၁၂။ အလ္လာဟ်အရှင်မြတ်သည်ပင် ပင်လယ်သမုဒ္ဒရာကို ယင်းပင်လယ်သမုဒ္ဒရာ၌ သင်္ဘောများ ထိုအရှင်မြတ်၏အမိန့်တော်နှင့် လှုပ်ရှားသွားလာအံ့သောငှာလည်းကောင်း၊ အသင်တို့သည် ထိုအရှင်မြတ်၏ကျေးဇူးတော်တည်းဟူသော စားနပ်ရိက္ခာကို ဆည်းပူးရှာဖွေကြအံ့သောငှာလည်းကောင်း၊ အသင်တို့သည် ကျေးဇူးတင်ကြအံ့သောငှာလည်းကောင်း၊ အသင်တို့၏ လက်အောက်ခံ ဖြစ်စေတော်မူခဲ့၏။

وَسَخَّرَ لَكُمْ مَّا فِي السَّمٰوٰتِ وَمَا فِي الْاَرْضِ جَمِيْعًا مِّنْهُ ۭ اِنَّ فِيْ ذٰلِكَ لَاٰيٰتٍ لِّقَوْمٍ يَّتَفَكَّرُوْنَ ⑬

၁၃။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် မိုးကောင်းကင်များ၌ရှိသမျှကိုလည်းကောင်း၊ ကမ္ဘာမြေဝယ် ရှိသမျှကိုလည်းကောင်း၊ အလုံးစုံတို့ကို မိမိအထံတော်မှ အသင်တို့၏လက်အောက်ခံ ဖြစ်စေတော်မူခဲ့၏။ ဧကန်မလွဲ ထိုသည်တို့၌ စဉ်းစားဆင်ခြင်ကြသော သူတို့အဖို့ အမှန်သက်သေ လက္ခဏာများသည် ရှိကုန်၏။

قُلْ لِّلَّذِيْنَ اٰمَنُوْا يَغْفِرُوْا لِلَّذِيْنَ لَا يَرْجُوْنَ اَيَّامَ اللّٰهِ لِيَجْزِيَ قَوْمًا بِمَا كَانُوْا يَكْسِبُوْنَ ⑭

၁၄။ (အို-နဗီတမန်တော်) အသင်သည် "မုအ်မင်န်" သက်ဝင်ယုံကြည်သူတို့အား ၎င်းတို့သည် *အလ္လာဟ်အရှင်မြတ်ပြုလုပ်တော်မူအံ့သောကိစ္စများကို* [၁] ယုံကြည်(စိုးရိမ်)ခြင်း မရှိကြသောသူတို့အား ခွင့်လွှတ်ကြရန် ပြောကြားပါလေ။ ထိုမှသာလျှင် ထိုအရှင်မြတ်သည် လူမျိုးတစ်မျိုးအား ၎င်းတို့ ရှာဖွေဆည်းပူးခဲ့ကြသည်များနှင့်စပ်လျဉ်း၍ အစားပေးတော်မူအံ့။

---

(၁) **အလ္လာဟ်အရှင်မြတ်၏နေ့များ၊**

"အလ္လာဟ်အရှင်မြတ်၏နေ့များ"ဟူသည် အကြင်နေ့များကို ဆိုလိုသည်။ ယင်းနေ့များတွင် အလ္လာဟ်အရှင်မြတ်သည် အမိန့်တော်မနာခံသော သာသနာ့ရန်သူများကို ပြစ်ဒဏ်တစ်စုံတစ်ရာ ခတ်တော်မူသည်။ သို့မဟုတ် အမိန့်တော်နာခံသော သူတော်စင်များအား တစ်စုံတစ်ရာ ကျေးဇူးအထူးပြုတော်မူသည်။ ➤➤

مَنْ عَمِلَ صَالِحًا فَلِنَفْسِهٖ ۚ وَمَنْ اَسَآءَ فَعَلَيْهَا ۖ ثُمَّ اِلٰى رَبِّكُمْ تُرْجَعُوْنَ ﴿١٥﴾

၁၅။ မည်သူမဆို ကောင်းမှုပြုခဲ့လျှင် ၎င်း၏အကျိုး ၄ှာ ဖြစ်ပေမည်။ ထို့နည်းတူစွာ မည်သူမဆို မကောင်းမှု ပြုခဲ့သော် ၎င်း၏အပေါ်၌သာ သက်ရောက်ပေမည်။ ထို့နောက် အသင်တို့အားလုံးတို့မှာ ထိုအရှင်မြတ်အထံ တော်သို့သာလျှင် ပြန်သွားကြရမည်။

وَلَقَدْ اٰتَيْنَا بَنِيْٓ اِسْرَآءِيْلَ الْكِتٰبَ وَالْحُكْمَ وَالنُّبُوَّةَ وَرَزَقْنٰهُمْ مِّنَ الطَّيِّبٰتِ وَفَضَّلْنٰهُمْ عَلَى الْعٰلَمِيْنَ ﴿١٦﴾ۚ

၁၆။ ၎င်းပြင် အမှန်စင်စစ် ငါအရှင်မြတ်သည် ဣစ်ရာအီလီအမျိုးသားတို့အား ကျမ်းဂန်ကိုလည်း ကောင်း၊ စီရင်ဆုံးဖြတ်မှုကိုလည်းကောင်း၊ နဗီ တမန်တော်အဖြစ်ကိုလည်းကောင်း၊ ချီးမြှင့်ပေးသနား တော်မူခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့အား သန့်ပြန့်စင်ကြယ်သော အစားအစာကို စားနပ်ရိက္ခာ အဖြစ် ပေးသနားတော်မူခဲ့၏။ ထိုမှတစ်ပါး ၎င်းတို့အား ငါအရှင်မြတ်သည် ကမ္ဘာသူ ကမ္ဘာသားတို့ထက် ထူးကဲစေတော်မူခဲ့၏။

وَاٰتَيْنٰهُمْ بَيِّنٰتٍ مِّنَ الْاَمْرِ ۚ

၁၇။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အား သာသနာ့အရေးနှင့် စပ်လျဉ်း၍ ထင်ရှားစွာသော သက်သေသာဓကများကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။

---

➢➢ သို့ဖြစ်ရာ "အလ္လာဟ်အရှင်မြတ်၏ နေ့များကို မမျှော်သောသူများ"ကား အကြင်ကာဖိရ်များပင်၊ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကိုလည်း မမျှော်လင့်ကြပေ၊ ထိုအရှင်မြတ်၏ ပြစ်ဒဏ်ကိုလည်း မစိုးရိမ်ကြပေ။

အချို့က "အလ္လာဟ်အရှင်မြတ်၏ နေ့များ"ဟူသည် အတိတ်ခေတ်များတွင် သက်ဆိုင်ရာ အမျိုးသားတို့ အပေါ်၌ ထိုအရှင်မြတ်၏ ပြစ်ဒဏ်များ၊ ကျေးဇူးတော်များ သက်ရောက်ခဲ့သည့် အဖြစ်အပျက်ကြီးများကို ဆိုလိုကြသည်။

အချို့က "အလ္လာဟ်အရှင်မြတ်၏နေ့များ" ဟူသည် ကိယာမတ်နေ့တွင် လူသားတို့နှင့်ပတ်သက်၍ အထူးတလည် စီမံဖန်တီးတော်မူမည့် အစီအမံများကို ဆိုလိုကြသည်။ ဥပမာ-ကိယာမတ်နေ့တွင် အလ္လာဟ် အရှင်မြတ်သည် အမိန့်တော်နာခံသော သူတော်စင်များအား အထူးမြှောက်စားတော်မူ၍ အမိန့်တော် မနာခံသော သူယုတ်တို့အား ကြီးလေးသော ပြစ်ဒဏ်များကို ခတ်တော်မူသည်။

"အလ္လာဟ်အရှင်မြတ်၏ နေ့များ"ဟူသော အသုံးအနှုန်းသည် ကုရ်အာန်(၁၄း၅)တွင်လည်း ပါရှိခဲ့ချေပြီ။ သက်ဆိုင်ရာအဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။

فَمَا اخْتَلَفُوٓا إِلَّا مِنۢ بَعْدِ مَا جَآءَهُمُ الْعِلْمُ بَغْيًۢا بَيْنَهُمْ ۚ إِنَّ رَبَّكَ يَقْضِى بَيْنَهُمْ يَوْمَ الْقِيَٰمَةِ فِيمَا كَانُوا فِيهِ يَخْتَلِفُونَ ﴿١٧﴾

သို့ပါလျက် ၎င်းတို့သည် မိမိတို့ထံ အသိပညာ ရောက်လာပြီးနောက်သော်မှပင် မိမိတို့အချင်းချင်း တုပြိုင်သောအားဖြင့် ကွဲလွဲခဲ့ကြကုန်၏။ ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ၎င်းတို့၏အကြားဝယ် "ကိယာမတ်" ရှင်ပြန်ထမည့်နေ့တွင် ၎င်းတို့ ကွဲပြားလျက်ရှိခဲ့ကြသောအရေးကိစ္စနှင့် စပ်လျဉ်း၍ စီရင်ဆုံးဖြတ်တော်မူပေမည်။

ثُمَّ جَعَلْنَٰكَ عَلَىٰ شَرِيعَةٍ مِّنَ الْأَمْرِ فَاتَّبِعْهَا وَلَا تَتَّبِعْ أَهْوَآءَ الَّذِينَ لَا يَعْلَمُونَ ﴿١٨﴾

၁၈။ ထို့နောက် (အို-နဗီတမန်တော်) ထိုအရှင်မြတ်သည် အသင့်အား သာသနာ့အရေးနှင့် စပ်လျဉ်း၍ အထူးလမ်းစဉ် တစ်ရပ်ပေါ်၌ ရပ်တည်စေတော်မူခဲ့၏။ သို့ဖြစ်ပေရာ အသင်သည် ထိုလမ်းစဉ်ကိုသာ လိုက်ပါလေ။ အသင်သည် အသိပညာ ကင်းမဲ့သောသူတို့၏ အလိုဆန္ဒများကို မလိုက်ပါလေနှင့်။ [၁]

إِنَّهُمْ لَن يُغْنُوا عَنكَ مِنَ اللَّهِ شَيْـًٔا ۚ وَإِنَّ الظَّٰلِمِينَ بَعْضُهُمْ أَوْلِيَآءُ بَعْضٍ ۖ وَاللَّهُ وَلِىُّ الْمُتَّقِينَ ﴿١٩﴾

၁၉။ ဧကန်စင်စစ် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်နှင့်ဆန့်ကျင်၍ အနည်းငယ်မျှပင် အသင့်အဖို့ အလျှင်းအသုံးဝင်ကြမည် မဟုတ်ပေ။ ၎င်းပြင် ဧကန်အမှန် မတရားသောသူတို့သည် ၎င်းတို့အနက် အချို့မှာအချို့၏အဆွေခင်ပွန်းများပင် ဖြစ်ကြကုန်၏။ အလ္လာဟ်အရှင်မြတ်မူကား "မွတ္တကီ" သူတော်စင်တို့၏ အဆွေခင်ပွန်း ဖြစ်တော်မူ၏။

---

(၁) အထက်၌ ပါရှိသည့်အတိုင်း အစ္စရာအီလီ မျိုးနွယ်ဝင်များသည် အသိတရားရရှိပါလျက် စိတ်အလိုလိုက်ကာ အချင်းချင်းသဘောကွဲလွဲပြီး အုပ်စုအမျိုးမျိုး ကွဲပြားအငြင်းပွားနေချိန်မှာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား အစ္စလာမ်၏ 'ရှရီအတ်'လမ်းစဉ်ကို အထူးတလည် ချီးမြှင့်တော်မူခဲ့သည်ဖြစ်ရာ၊ တမန်တော်မြတ်နှင့်တကွ တမန်တော်မြတ်၏ 'အွမ္မတ်' နောက်လိုက်တပည့်သားတို့သည် အစ္စလာမ်၏ ယင်းရှရီအတ်လမ်းစဉ်ကို တိကျမှန်ကန်စွာ လိုက်နာကြရမည်သာ။

အစ္စရာအီလီ မျိုးနွယ်ဝင်များ၏ စိတ်အလိုကို မေ့မှား၍မျှမလိုက်နာကြရာ ၎င်းတို့သည် တမန်တော်မြတ်နှင့်တကွ မုစ်လင်မ်တို့အား အမျိုးမျိုးကဲ့ရဲ့ပြစ်တင်၍ အမျိုးမျိုး ကျူးကျော်စော်ကား၍ စိတ်ဓာတ်ကျဆင်းစေပြီး အစ္စလာမ်၏ တရားဓမ္မဟောကြားမှုကို စွန့်ပယ်သွားကြရန်ကိုပင် လိုလားခဲ့ကြပေသည်။ ယုတ်စွအဆုံး➤➤

هَٰذَا بَصَائِرُ لِلنَّاسِ وَهُدًى وَرَحْمَةٌ لِّقَوْمٍ يُوقِنُونَ ﴿٢٠﴾

၂၀။ ဤ(ကုရ်အာန်ကျမ်းတော်မြတ်)သည် လူတို့အဖို့ ထင်ရှားစွာသော သက်သေသာဓကများလည်း ဖြစ်သည်။ ယုံကြည်သောသူတို့အဖို့ တရားလမ်းညွှန်လည်း ဖြစ်သည်၊ ကရုဏာတော်လည်း မည်သည်။

أَمْ حَسِبَ الَّذِينَ اجْتَرَحُوا السَّيِّئَاتِ أَن نَّجْعَلَهُمْ كَالَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ سَوَاءً مَّحْيَاهُمْ وَمَمَاتُهُمْ ۚ سَاءَ مَا يَحْكُمُونَ ﴿٢١﴾

၂၁။ မကောင်းမှုများကို ကျူးလွန်ကြသောသူတို့က ငါအရှင်မြတ်သည် ထိုသူတို့အား "အီမာန်" သက်ဝင်ယုံကြည်၍ ကောင်းမှုများကို ကျင့်မူခဲ့ကြကုန်သော သူတို့ကဲ့သို့ ထိုသူတို့၏အသက်ရှင်ခြင်းကို လည်းကောင်း၊ ထိုသူတို့၏အသက်သေဆုံးခြင်းကို ပြုလုပ်တော်မူမည်ဟု ထင်မှတ်ကြလေသလော။ ၎င်းတို့၏ စီရင်ဆုံးဖြတ်ချက်မှာ လွန်စွာ ဆိုးရွားလှပေ၏။ [၁]

وَخَلَقَ اللَّهُ السَّمَاوَاتِ وَالْأَرْضَ بِالْحَقِّ وَلِتُجْزَىٰ كُلُّ نَفْسٍ بِمَا كَسَبَتْ وَهُمْ لَا يُظْلَمُونَ ﴿٢٢﴾

၂၂။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကို လည်းကောင်း၊ နက်နဲသိမ်မွေ့သောဆင်ခြင်တုံတရားနှင့် လျော်ညီစွာ ဖန်ဆင်းတော်မူခဲ့၏။ ၎င်းပြင် လူတိုင်း လူတိုင်း မိမိတို့ ရှာဖွေဆည်းပူးခဲ့သော (ကောင်းမှု၊ မကောင်းမှု)နှင့်စပ်လျဉ်း၍ အစားပေးခြင်းခံရအံ့သော ငှာ(ဖန်ဆင်းတော်မူခဲ့၏၊) သို့ရာတွင် ၎င်းတို့သည် မတရားမှု ပြုလုပ်ခြင်းကို ခံကြရမည်မဟုတ်ပေ။

---

➤➤ ၎င်းတို့နည်းတူ မုစ်လင်မ်များအချင်းချင်း အုပ်စုကွဲကြရန်ကိုလည်း လိုလားခဲ့ကြပေသည်။ သို့ဖြစ်ရာ တမန်တော်မြတ် နှင့်တကွ တမန်တော်၏ နောက်လိုက်တပည့်တို့သည် ၎င်းတို့၏အလိုကို မေ့မှား၍မျှ မလိုက်နာမိကြရာ။ တရားဓမ္မဟောကြားမှုကို မစွန့်လွှတ်ကြရာ၊ အချင်းချင်း မကွဲကြရာ။

(၁) တစ်ခါသော် မက္ကာမြို့သား အချို့မုရှ်ရစ်က်များက မုစ်လင်မ်တို့အား "အသင်တို့ ပြောဆိုသော နောင်တမလွန်ဘဝသည် အကယ်ပင် ဖြစ်ရှိနေပါကလည်း ငါတို့သည် ဤပစ္စက္ခတွင် အသင်တို့ထက် သာကြသကဲ့သို့ နောင်တမလွန်ဘဝတွင်လည်း အသင်တို့ထက် မုချသာကြဦးမည်ပင်ဖြစ်သည်"ဟု ဆိုခဲ့ကြလေသည်။

ကြည့်-ခါဇင်န်။

ဆိုလိုသည်ကား- အကောင်းနှင့်မကောင်းသည်၊ မတူသကဲ့သို့ ကောင်းကျိုးနှင့် ဆိုးကျိုးလည်း မတူနိုင်ပေ။ အုပ်စုတစ်ခုသည် အလ္လာဟ်အရှင်မြတ်အား သွေဖည်ခဲ့၏။ မကောင်းမှု ဒုစရိုက်များတွင် ➤➤

أَفَرَءَيْتَ مَنِ ٱتَّخَذَ إِلَٰهَهُۥ هَوَىٰهُ وَأَضَلَّهُ ٱللَّهُ عَلَىٰ عِلْمٍ وَخَتَمَ عَلَىٰ سَمْعِهِۦ وَقَلْبِهِۦ وَجَعَلَ عَلَىٰ بَصَرِهِۦ غِشَٰوَةً فَمَن يَهْدِيهِ مِنۢ بَعْدِ ٱللَّهِ ۚ أَفَلَا تَذَكَّرُونَ ﴿٢٣﴾

၂၃။ (အိုး-နဗီတမန်တော်) မိမိစိတ်အလိုဆန္ဒကို မိမိဆည်းကပ်ကိုးကွယ်ရာ ပြုလုပ်ထားသောသူအား အသင်မမြင်လေသလော။ စင်စစ်သော်ကား အလ္လာဟ် အရှင်မြတ်သည် သိတော်မူပါလျက်နှင့်ပင် ၎င်းအား လမ်းမှား၌ရှိစေတော်မူခဲ့၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ထိုသူ၏နားပေါ်၌လည်းကောင်း၊ ထိုသူ၏ စိတ်နှလုံးပေါ်၌လည်းကောင်း၊ တံဆိပ်ခတ်နှိပ်တော်မူခဲ့၏။ ထို့မှ တစ်ပါး ထိုအရှင်မြတ်သည် ၎င်း၏မျက်စိပေါ်ဝယ် အကာအဖုံးကို ပြုလုပ်ထားတော်မူခဲ့၏။

သို့ဖြစ်ပေရာ ထိုသူအား အလ္လာဟ်အရှင်မြတ်မှ လွဲ၍ မည်သူ တရားလမ်းမှန်ကို ညွှန်ပြအံ့နည်း။ သို့ပါလျက် အသင်တို့သည် တရားရယူကြသည် မရှိလေသလော။

وَقَالُوا۟ مَا هِىَ إِلَّا حَيَاتُنَا ٱلدُّنْيَا نَمُوتُ وَنَحْيَا وَمَا يُهْلِكُنَآ إِلَّا ٱلدَّهْرُ ۚ وَمَا لَهُم بِذَٰلِكَ مِنْ عِلْمٍ ۖ إِنْ هُمْ إِلَّا يَظُنُّونَ ﴿٢٤﴾

၂၄။ ထို့ပြင် ၎င်းတို့က အသက်ရှင်ခြင်းဟူသည် (ဤ)လောကီဘဝ၌ ကျွန်ုပ်တို့၏ အသက်ရှင်ခြင်းမှ တစ်ပါးအခြားမရှိပြီ။ ကျွန်ုပ်တို့သည် (တစ်ကြိမ်တစ်ခါ သာလျှင်) အသက်သေဆုံးကြ၍ (တစ်ကြိမ်တစ်ခါ သာလျှင်) အသက်ရှင်ကြကုန်၏။ စင်စစ် ကျွန်ုပ်တို့အား ခေတ်ကာလသည်သာလျှင် ပျက်စီးစေ၏။ အမှန်စင်စစ် မှာမူကား ဤသည်နှင့်စပ်လျဉ်း၍ ၎င်းတို့၌ မည်သည့် အသိပညာမျှပင် မရှိချေ။ ၎င်းတို့သည် ရမ်းဆ(ပြောဆို) နေကြသည်သာ ဖြစ်သည်။

---

➢➢ နစ်မွန်းနေခဲ့၏။ အခြားအုပ်စုတစ်ခုသည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်၏။ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်၏။ ထိုအုပ်စုနှစ်ခုသည် အချင်းချင်း ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်လျက်ရှိပေရာ၊ ယင်းဆန့်ကျင်ဘက်အုပ်စု နှစ်ခု၏ အကျိုးဆက်သည် အသို့လျှင် တူညီနိုင်အံ့နည်း။ မက္ကာမြို့သား မုရှ်ရစ်က်များ၏ ပြောဆိုချက်သည် မှားခြင်းကြီးမကမှား၏။ ၎င်းတို့၏ ဆုံးဖြတ်ချက်မှာ ဆိုးရွားခြင်းကြီးမက ဆိုးရွား၏။

وَإِذَا تُتْلَىٰ عَلَيْهِمْ آيَاتُنَا بَيِّنَاتٍ مَا كَانَ حُجَّتَهُمْ إِلَّا أَنْ قَالُوا ائْتُوا بِآبَائِنَا إِنْ كُنْتُمْ صَادِقِينَ ﴿٢٥﴾

၂၅။ ထိုမှတစ်ပါး ၎င်းတို့ရှေ့ဝယ် ငါအရှင်မြတ်၏ ထင်ရှားစွာသော အာယတ်တော်များ ဖတ်ကြားခြင်း ခံရလေသောအခါ ၎င်းတို့က "အသင်တို့သည် သစ္စာဝါဒီများဖြစ်ကြလျှင် ကျွန်ုပ်တို့၏(သေဆုံးလေပြီးသော) အဘ၊ ဘိုး၊ ဘေးတို့အား (တစ်ဖန် ရှင်ပြန်ထစေပြီး) ခေါ်ယူခဲ့ကြလေကုန်" ဟု ပြောဆိုခြင်းမှတစ်ပါး မည်သို့မျှ ဆင်ခြေတက်နိုင်ကြသည် မရှိပေ။

قُلِ اللَّهُ يُحْيِيكُمْ ثُمَّ يُمِيتُكُمْ ثُمَّ يَجْمَعُكُمْ إِلَىٰ يَوْمِ الْقِيَامَةِ لَا رَيْبَ فِيهِ وَلَٰكِنَّ أَكْثَرَ النَّاسِ لَا يَعْلَمُونَ ﴿٢٦﴾ ع

၂၆။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အလ္လာဟ်အရှင်မြတ်သည်ပင် အသင်တို့အား ရှင်စေတော်မူသည်။ ထို့နောက် ထိုအရှင်မြတ်သည်ပင် အသင်တို့အား သေစေတော်မူမည်။ ထို့နောက် ထိုအရှင်မြတ်သည်ပင် အသင်တို့အား ဒွိဟ သံသယ အလျှင်းမရှိသော "ကိယာမတ်" ရှင်ပြန်ထမည့် နေ့တွင် စုရုံးတော်မူပေမည်။ သို့ရာတွင် အများဆုံးသော သူတို့မှာမူကား သိရှိကြသည် မဟုတ်ပေ။

وَلِلَّهِ مُلْكُ السَّمَاوَاتِ وَالْأَرْضِ ۚ وَيَوْمَ تَقُومُ السَّاعَةُ يَوْمَئِذٍ يَخْسَرُ الْمُبْطِلُونَ ﴿٢٧﴾

၂၇။ ၎င်းပြင် မိုးကောင်းကင်များကို စိုးမိုးအုပ်ချုပ်မှုသည်လည်းကောင်း၊ ကမ္ဘာမြေကို စိုးမိုးအုပ်ချုပ်မှုသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၌သာ ရှိ၏။ ထိုမှတစ်ပါး "ကိယာမတ်" ရှင်ပြန်ထမည့် အချိန်ကာလ ဆိုက်ရောက်လာမည့်နေ့တွင်မူ အမှားကို လိုက်စားကြကုန်သောသူတို့မှာ ပျက်စီးဆုံးရှုံးကြပေမည်။ [၁]

---

(၁) အထက်တွင် ကိယာမတ်နေ့၌ အလ္လာဟ်အရှင်မြတ်သည် လူသားအားလုံးတို့အား ရှင်ပြန်ထစေပြီး စုရုံးတော်မူမည့်အကြောင်း ပါရှိ၏။ ဤသည် ထိုအရှင်မြတ်အဖို့ အသို့မျှ အခက်အခဲမရှိ။ အဘယ်ကြောင့်ဆိုသော် မိုး၊မြေနှင့်တကွ စကြာဝဠာအဝန်းကို စိုးမိုးအုပ်ချုပ်သည့် အာဏာစက်သည် ထိုအရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ အလိုတော်ရှိသလို ခြယ်လှယ်တော်မူနိုင်ပေသည်။ သို့ဖြစ်ရာ ကိယာမတ်နေ့နှင့် စပ်လျဉ်း၍ လွဲမှားနေသော၊ ကိယာမတ်ကို မယုံကြည်သောသူများသည် ကိယာမတ်ဖြစ်သည့်နေ့တွင် အကြီးအကျယ် ဆုံးရှုံးပျက်စီးကြရပေမည်။

وَتَرٰى كُلَّ اُمَّةٍ جَاثِيَةً ۫ كُلُّ اُمَّةٍ تُدْعٰۤى اِلٰى كِتٰبِهَا ؕ اَلْيَوْمَ تُجْزَوْنَ مَا كُنْتُمْ تَعْمَلُوْنَ ﴿٢٨﴾

၂၈။ ထိုမှတစ်ပါး (အို-နဗီတမန်တော်) အသင်သည် ("ကိယာမတ်" နေ့တွင်) သာသနာဝင် အုပ်စုတိုင်းအား ဒူးထောက်လျက် ရှိကြမည်ကို တွေ့မြင်ရပေမည်။ သာသနာဝင် အုပ်စုတိုင်းမှ ၎င်းတို့၏ မှတ်တမ်းစာအုပ် (ရှိရာ)သို့ ဖိတ်ခေါ်ခြင်းကို ခံကြရပေမည်။ "ယနေ့ သော်ကား အသင်တို့သည် မိမိတို့၏ ကျင့်မှုချက်များနှင့် စပ်လျဉ်း၍ အစားပေးခြင်းကို ခံကြရပေမည်"။

هٰذَا كِتٰبُنَا يَنْطِقُ عَلَيْكُمْ بِالْحَقِّ ؕ اِنَّا كُنَّا نَسْتَنْسِخُ مَا كُنْتُمْ تَعْمَلُوْنَ ﴿٢٩﴾

၂၉။ ဤသည် ငါအရှင်မြတ်၏ မှတ်တမ်းစာအုပ်ပင်။ ယင်းမှတ်တမ်းစာအုပ်သည် အသင်တို့နှင့်ပတ်သက်၍ တိကျမှန်ကန်စွာ ပြောပြနေပေသည်။ ဧကန်မလွဲ ငါ အရှင်မြတ်သည် အသင်တို့ ကျင့်မှုခဲ့ကြသည်ကို ရေးမှတ်စေလျက် ရှိတော်မူခဲ့ပေသတည်း။ [၁]

فَاَمَّا الَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ فَيُدْخِلُهُمْ رَبُّهُمْ فِيْ رَحْمَتِهٖ ؕ ذٰلِكَ هُوَ الْفَوْزُ الْمُبِيْنُ ﴿٣٠﴾

၃၀။ သို့ဖြစ်ပေရာ သက်ဝင်ယုံကြည်၍ ကောင်းမှုများကို ကျင့်မှုကြကုန်သောသူတို့အား ၎င်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် မိမိကရုဏာတော်တွင်းသို့ ဝင်ရောက်စေတော်မူပေသည်။ ဤသည်ပင် လျှင် ထင်ရှားစွာသော အောင်မြင်မှု ဖြစ်ပေသည်။

وَاَمَّا الَّذِيْنَ كَفَرُوْا ۫ اَفَلَمْ تَكُنْ اٰيٰتِيْ تُتْلٰى عَلَيْكُمْ

၃၁။ သို့ရာတွင် သွေဖည်ငြင်းပယ်ကြကုန်သော သူတို့မှာမူကား (ဤသို့ပြောဆိုခြင်းကို ခံကြရပေမည်)။ ငါအရှင်မြတ်၏ အာယတ်တော်များသည် အသင်တို့ ရှေ့ဝယ် ဖတ်ကြားခြင်း ခံခဲ့ရသည် မဟုတ်လော။

---

(၁) အလ္လာဟ်အရှင်မြတ်၏ မှတ်တမ်းတော်သည် သက်ဆိုင်ရာတို့အား အပိုအလိုမပါ၊ တိကျမှန်ကန်စွာ ဖော်ပြပေမည်။ အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကို သိမြင်နိုင်စွမ်းရှိသော ဉာဏ်တော်ရှင် ဖြစ်တော်မူသည်။ အစအဆုံး အကြွင်းမဲ့သိတော်မူသည်။ ထိုအရှင်မြတ်အဖို့ကား လူသားတို့အား ကျိုးပြစ်ပေးတော်မူရန်အတွက် စစ်ဆေးနေတော်မူရန်ပင် မလိုပေ။ အစအဆုံး သိပြီးဖြစ်တော်မူသည်။ သို့တစေလည်း ဥပဒေစည်းကမ်းအရ အထောက်အထား ခိုင်လုံပြည့်စုံ ထင်ရှားစေရန်အလို့ငှာ ကောင်းကင်တမန်များအား ရေးမှတ်ထားစေတော်မူခဲ့သည်။ ကောင်းကင်တမန်များ၏ မှတ်တမ်းများသည် တစ်နည်းအားဖြင့် (မနှိုင်းစကောင်း) ပုလိပ်မှတ်တမ်းမျိုးပင်။

فَاسْتَكْبَرْتُمْ وَكُنْتُمْ قَوْمًا مُّجْرِمِيْنَ ﴿٣١﴾

သို့တစေလည်း အသင်တို့သည် မာနထောင်လွှားခဲ့ကြကုန်၏။ ၎င်းပြင် အသင်တို့သည် ပြစ်မှုကျူးလွန်သူများပင် ဖြစ်ခဲ့ကြကုန်၏။ **(တစ်နည်း)** အမှန်သော်ကား အသင်တို့သည် ပြစ်မှုကျူးလွန်သူများပင် ဖြစ်ခဲ့ကြကုန်၏။

وَاِذَا قِيْلَ اِنَّ وَعْدَ اللّٰهِ حَقٌّ وَّالسَّاعَةُ لَا رَيْبَ فِيْهَا قُلْتُمْ مَّا نَدْرِيْ مَا السَّاعَةُ اِنْ نَّظُنُّ اِلَّا ظَنًّا وَّمَا نَحْنُ بِمُسْتَيْقِنِيْنَ ﴿٣٢﴾

၃၂။ ထို့ပြင် ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်၏ ချိန်းဆိုချက်သည် မှန်ကန်သည် ဟူ၍လည်းကောင်း၊ ရှင်ပြန်ထမြည့် အချိန်ကာလနှင့်စပ်လျဉ်း၍ မည်သည့် ဒွိဟသံသယမျှပင် မရှိပြီဟူ၍လည်းကောင်း၊ ပြောဆိုခြင်းခံခဲ့ရလေသောအခါ အသင်တို့က "ရှင်ပြန်ထမြည့် အချိန်ကာလသည် အဘယ်နည်းဟူ၍ ကျွန်ုပ်တို့သည် မသိကြပြီ။ ကျွန်ုပ်တို့၌ (ယင်းရှင်ပြန်ထမြည့်အချိန်နှင့် စပ်လျဉ်း၍) ရမ်းဆတွေးထင်ခဲ့သော ထင်မြင်ယူဆချက် တစ်ခုသာလျှင်ရှိပေ၏။ သို့ရာတွင် ကျွန်ုပ်တို့သည် ယုံကြည်သူများ မဟုတ်ပေ" ဟု ပြောဆိုခဲ့ကြသည်။

وَبَدَا لَهُمْ سَيِّاٰتُ مَا عَمِلُوْا وَحَاقَ بِهِمْ مَّا كَانُوْا بِهٖ يَسْتَهْزِءُوْنَ ﴿٣٣﴾

၃၃။ ၎င်းပြင် (ထိုနေ့တွင်) ၎င်းတို့ရှေ့ဝယ် ၎င်းတို့ ပြုမူခဲ့ကြကုန်သောမကောင်းမှုများ၏ ဆိုးယုတ်မှုများသည် ပေါ်လွင်၍ လာခဲ့ပေမည်။ ထို့ပြင် ၎င်းတို့ ပြက်ရယ်ပြောင်လှောင်ခဲ့ကြသော အရာများသည်လည်း ၎င်းတို့အား ဝန်းဝိုင်းလျက် ရှိပေမည်။

وَقِيْلَ الْيَوْمَ نَنْسٰكُمْ كَمَا نَسِيْتُمْ لِقَآءَ يَوْمِكُمْ هٰذَا وَمَاْوٰىكُمُ النَّارُ وَمَا لَكُمْ مِّنْ نّٰصِرِيْنَ ﴿٣٤﴾

၃၄။ ထိုမှတစ်ပါး (၎င်းတို့သည် ဤသို့)ပြောဆိုခြင်း ခံရပေမည်။ အသင်တို့သည် မိမိတို့၏ ဤနေ့နှင့်တွေ့ဆုံခြင်းကို မေ့လျော့ခဲ့ကြသည့်နည်းတူ ငါအရှင်မြတ်သည်လည်း ယနေ့ အသင်တို့အား မေ့လျော့တော်မူမည်။ ထို့ပြင် အသင်တို့၏ ခိုလှုံရာဌာနမှာ ငရဲမီးပင်ဖြစ်သည်။ ထိုမှတစ်ပါး အသင်တို့၌ ကူညီစောင်မအံ့သောသူများဟူ၍လည်း မရှိတော့ပြီ။

ذٰلِكُمْ بِاَنَّكُمُ اتَّخَذْتُمْ اٰيٰتِ اللّٰهِ هُزُوًا وَّغَرَّتْكُمُ الْحَيٰوةُ الدُّنْيَا ۚ فَالْيَوْمَ لَا يُخْرَجُوْنَ مِنْهَا وَلَا هُمْ يُسْتَعْتَبُوْنَ ﴿٣٥﴾

၃၅။ ထိုသို့ဖြစ်ရခြင်းမှာ အသင်တို့သည် အလ္လာဟ် အရှင်မြတ်၏အာယတ်တော်များကို ပြက်ရယ် ပြောင်လှောင်ဖွယ်များ ပြုလုပ်ခဲ့ကြသောကြောင့်လည်း ကောင်း၊ လောကီဘဝသည် အသင်တို့အား ဖြားယောင်း ခဲ့သောကြောင့်လည်းကောင်း၊ ဖြစ်ပါသည်။ သို့ဖြစ်ပေ ရာ ယနေ့သော်ကား ၎င်းတို့သည် ယင်း၎ရဲမီးမှ ထွက် စေခြင်းကိုလည်း ခံကြရမည်မဟုတ်ပေ။ (အလ္လာဟ် အရှင်မြတ်အား) နှစ်သက်စေကြရန် တောင်းဆိုခြင်း ကိုလည်း ခံကြရမည် မဟုတ်ချေ။

فَلِلّٰهِ الْحَمْدُ رَبِّ السَّمٰوٰتِ وَرَبِّ الْاَرْضِ رَبِّ الْعٰلَمِيْنَ ﴿٣٦﴾

၃၆။ စင်စစ်မှာကား ချီးမွမ်းထောပနာအပေါင်းတို့ သည် မိုးကောင်းကင်များကို ဖန်ဆင်းတော်မူသော အရှင်၊ ကမ္ဘာမြေကို ဖန်ဆင်းတော်မူသောအရှင်၊ စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင် ဖြစ်တော်မူသည့် အလ္လာဟ်အရှင်မြတ်နှင့်သာ လျှင် ဆက်စပ်ပေသည်။

وَلَهُ الْكِبْرِيَآءُ فِى السَّمٰوٰتِ وَالْاَرْضِ ۖ وَهُوَ الْعَزِيْزُ الْحَكِيْمُ ﴿٣٧﴾

၃၇။ ထိုမှတစ်ပါး မိုးကောင်းကင်များ၌ လည်း ကောင်း၊ ကမ္ဘာမြေ၌လည်းကောင်း၊ ထူးကဲကြီးမြတ်ခြင်း သည် ထိုအရှင်မြတ်၌သာရှိပေသည်။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည်သာလျှင် လွန်စွာ နိုင်နင်းလွှမ်းမိုး တော်မူသောအရှင်၊ နက်နဲသိမ်မွေ့သော ဆင်ခြင်တုံ တရားဖြင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေ သည်။

## သဲတောင်များကဏ္ဍ



ဤကဏ္ဍသည် “အဟ်ကာဖ်” သဲတောင်များအကြောင်း ပါဝင်သောကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၃၅)ပါး၊ ရကူအ် အပိုဒ်ပေါင်း(၄)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော၊ အစဉ် သနားကြင်နာ ညှာတာတော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

حٰمٓ ①

၁။ ဟာ၊ မီမ်။

تَنْزِيْلُ الْكِتٰبِ مِنَ اللّٰهِ الْعَزِيْزِ الْحَكِيْمِ ②

၂။ (ဤသည်) လွန်စွာနိုင်နင်းလွှမ်းမိုးတော်မူသော နက်နဲသိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်အထံတော်မှ ချပေးသနားတော်မူသော ကျမ်းဂန်ပင်ဖြစ်၏။

مَا خَلَقْنَا السَّمٰوٰتِ وَالْاَرْضَ وَمَا بَيْنَهُمَآ اِلَّا بِالْحَقِّ وَاَجَلٍ مُّسَمًّى ۗ وَالَّذِيْنَ كَفَرُوْا عَمَّآ اُنْذِرُوْا مُعْرِضُوْنَ ③

၃။ ငါအရှင်မြတ်သည် မိုးကောင်းကင်များကိုလည်းကောင်း၊ ကမ္ဘာမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့်ကမ္ဘာမြေ နှစ်ခု၏အကြားတွင် ရှိသမျှတို့ကိုလည်းကောင်း၊ နက်နဲသိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် လျော်ညီစွာ ဖန်ဆင်းတော်မူခဲ့သည့်အပြင် အချိန်ကာလတစ်ခု သတ်မှတ်ပိုင်းခြား၍ ဖန်ဆင်းတော်မူခဲ့၏။ သို့တစေလည်း သွေဖည်ငြင်းပယ်သောသူတို့မှာမူ မိမိတို့ သတိပေးနှိုးဆော်ခြင်း ခံကြရသည်များမှ မျက်နှာလွှဲလျက်ပင် ရှိကြကုန်၏။

قُلْ اَرَءَيْتُمْ مَّا تَدْعُوْنَ مِنْ دُوْنِ اللّٰهِ اَرُوْنِيْ مَاذَا خَلَقُوْا مِنَ الْاَرْضِ

၄။ (အို-နဗီတမန်တော်၊) အသင်သည် ၎င်းတို့အား (ဤသို့)ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် ပြောပြကြလေကုန်။ အလ္လာဟ်အရှင်မြတ်မှ တစ်ပါး အသင်တို့ ဟစ်ခေါ်တသကြသော အရာ

أَمْ لَهُمْ شِرْكٌ فِي السَّمَٰوَٰتِ ائْتُونِي بِكِتَٰبٍ مِّن قَبْلِ هَٰذَآ أَوْ أَثَٰرَةٍ مِّنْ عِلْمٍ إِن كُنتُمْ صَٰدِقِينَ ④

များသည် မည်သည့်မြေကို ဖန်ဆင်းခဲ့ကြသည်ကို၊ သို့တည်းမဟုတ် ၎င်းတို့အဖို့ မိုးကောင်းကင်များ၌ ဖက်စပ်ပါဝင်ခြင်းရှိသည်ကို ငါ့အား အသင်တို့ ပြကြလေကုန်။

အသင်တို့သည် သစ္စာဝါဒီများဖြစ်ကြလျှင် ဤကျမ်းဂန်၏အလျှင် ကျရောက်ခဲ့သော ကျမ်းဂန် တစ်စုံတစ်ရာကိုသော်လည်းကောင်း၊ (ရှေးအဆက်ဆက်မှ လာရှိသော) အသိပညာမှ အရပ်အမြွက်ပြသော အကြောင်းအချက် တစ်စုံတစ်ရာကိုသော်လည်းကောင်း၊ ငါ့ထံ ယူခဲ့ကြလေကုန်။

وَمَنْ أَضَلُّ مِمَّن يَدْعُوا مِن دُونِ اللَّهِ مَن لَّا يَسْتَجِيبُ لَهُ إِلَىٰ يَوْمِ الْقِيَٰمَةِ وَهُمْ عَن دُعَآئِهِمْ غَٰفِلُونَ ⑤

၅။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်အပြင် အခြားသူများကို ဟစ်ခေါ်သောသူထက် ပို၍ လမ်းမှားသောသူ မည်သူရှိအံ့နည်း။ ၎င်းတို့သည် ထိုသူ၏စကားကို 'ကိယာမတ်' ရှင်ပြန်ထမည့်နေ့တိုင်အောင် ဖြေကြားကြမည် မဟုတ်သည်သာမက ၎င်းတို့မှာ ဤသူတို့၏ဟစ်ခေါ်ခြင်းကိုပင် သိကြရှာသူများမဟုတ်ပြီ။

وَإِذَا حُشِرَ النَّاسُ كَانُوا لَهُمْ أَعْدَآءً وَكَانُوا بِعِبَادَتِهِمْ كَٰفِرِينَ ⑥

၆။ ထိုမှတပါး လူတို့သည် စုရုံးခြင်းခံကြရသော အခါ ၎င်းတို့မှာ ထိုသူတို့၏ရန်သူများပင် ဖြစ်သွားကြပေမည်။ ထိုမှတပါး ၎င်းတို့သည် ထိုသူတို့၏ ဆည်းကပ် ကိုးကွယ်မှုကိုပင် ငြင်းပယ်ကြပေမည်။

وَإِذَا تُتْلَىٰ عَلَيْهِمْ ءَايَٰتُنَا بَيِّنَٰتٍ قَالَ الَّذِينَ كَفَرُوا لِلْحَقِّ لَمَّا جَآءَهُمْ هَٰذَا سِحْرٌ مُّبِينٌ ⑦

၇။ ထို့ပြင် ၎င်းတို့၏ရှေ့ဝယ် ငါအရှင်မြတ်၏ ထင်ရှားစွာသော အာယတ်တော်များ ဖတ်ကြားခြင်းခံရလေသောအခါ သွေဖည်ငြင်းပယ်သောသူတို့က အမှန်တရားတည်းဟူသော (ကုရ်အာန်ကျမ်းတော်)နှင့် စပ်လျဉ်း၍ ယင်းအမှန်တရားသည် ၎င်းတို့ထံ ရောက်လာသောအခါ ဤသည် ထင်ရှားစွာသောပဉ္စလက်အတတ်ပညာ ဖြစ်သည်ဟူ၍ ပြောဆိုကြကုန်၏။

أَمْ يَقُولُونَ افْتَرَاهُ ۖ قُلْ إِنِ افْتَرَيْتُهُ فَلَا تَمْلِكُونَ لِي مِنَ اللَّهِ شَيْئًا ۖ هُوَ أَعْلَمُ بِمَا تُفِيضُونَ فِيهِ ۖ كَفَىٰ بِهِ شَهِيدًا بَيْنِي وَبَيْنَكُمْ ۖ وَهُوَ الْغَفُورُ الرَّحِيمُ ﴿٨﴾

၈။ ၎င်းတို့က ဤသူ(မုဟမ္မဒ်)သည် ထိုကုရ်အာန်ကျမ်းတော်မြတ်ကို ကြံစည်ဖန်တီးထားသည်ဟု ပြောဆိုကြလေသလော။ (သို့ဖြစ်လျှင် အို-နဗီတမန်တော်၊) အသင်သည် (၎င်းတို့အား ဤသို့)ပြောကြားပါလေ။ (အချင်းတို့၊) အကယ်၍ ငါသည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို ကြံစည်ဖန်တီးထားပါလျှင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်ဆန့်ကျင်၍ ငါ့အား လုံးဝကယ်နိုင်ကြသည် မရှိချေ။ယင်းကုရ်အာန်ကျမ်းတော်မြတ်နှင့်စပ်လျဉ်း၍ အသင်တို့ ပြောဆိုလျက်ရှိကြသည်တို့ကို ထိုအရှင်မြတ်သည် အသိဆုံးပင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည်ပင် အသင်တို့နှင့် ငါ၏အကြားဝယ် လုံလောက်သောသက်သေဖြစ်တော်မူ၏။ သက်သေအဖြစ် လုံလောက်တော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

قُلْ مَا كُنْتُ بِدْعًا مِنَ الرُّسُلِ وَمَا أَدْرِي مَا يُفْعَلُ بِي وَلَا بِكُمْ ۖ إِنْ أَتَّبِعُ إِلَّا مَا يُوحَىٰ إِلَيَّ وَمَا أَنَا إِلَّا نَذِيرٌ مُبِينٌ ﴿٩﴾

၉။ (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) ငါသည် ရစူလ်တမန်တော်တို့အနက် အသစ်အဆန်းမဟုတ်ပြီ။ ထို့ပြင် ငါသည် မိမိနှင့်ပတ်သက်၍လည်းကောင်း၊ အသင်တို့နှင့် ပတ်သက်၍လည်းကောင်း၊ မည်သို့ ပြုလုပ်ခြင်းခံရမည်ကို သိရှိသည်မဟုတ်ပြီ။ ငါသည် မိမိထံ ထုတ်ပြန်ခြင်းခံရလေသော 'ဝဟ်ယ်' အမိန့်တော်ကိုသာလျှင် လိုက်နာ၏။ ထိုမှတပါး ငါသည် ရှင်းလင်းထင်ရှားစွာ သတိပေးနှိုးဆော်သူတစ်ဦးမှအပ အခြားမဟုတ်ပြီ။ [၁]

(၁) ဆိုလိုသည်ကား တမန်တော်မြတ်က ပြောကြားခဲ့သည်မှာ အချင်းတို့-ကျွန်ုပ်ကား တမန်တော်အသစ်အဆန်းမဟုတ်၊ တရားသစ် တရားဆန်းကို ယူဆောင်လာသည်လည်းမဟုတ်၊အတိတ်ကာလများ၌ ကမ္ဘာတစ်ခွင်တွင် တမန်တော်အမြောက်အမြား ပွင့်ခဲ့ကြချေပြီ။ ထိုထိုသောတမန်တော်များ ဟောကြားတော်မူခဲ့ကြကုန်သော ➤➤

قُلْ أَرَءَيْتُمْ إِنْ كَانَ مِنْ عِنْدِ اللَّهِ وَكَفَرْتُمْ بِهِۦ وَشَهِدَ شَاهِدٌ مِّنْ بَنِىٓ إِسْرَٰٓءِيلَ عَلَىٰ مِثْلِهِۦ فَـَٔامَنَ وَٱسْتَكْبَرْتُمْ ۖ إِنَّ ٱللَّهَ لَا يَهْدِى ٱلْقَوْمَ ٱلظَّٰلِمِينَ ﴿١٠﴾

၁၀။ (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် ငါ့အား ပြောပြကြလေကုန်။ အကယ်၍ ဤကုရ်အာန်ကျမ်းတော်မြတ်သည် အလ္လာဟ်အရှင်မြတ် အထံတော်မှ (ထုတ်ပြန်သော) ကျမ်းဂန်ဖြစ်အံ့။ သို့ရာတွင် အသင်တို့သည် ယင်း ကုရ်အာန်ကျမ်းတော်မြတ်ကို ငြင်းပယ်လျက်ရှိအံ့။ (သို့ဖြစ်လျှင် အသင်တို့၏ အခြေအနေသည် မည်သို့ဖြစ်အံ့နည်း။) အမှန်စင်စစ်သော်ကား ယင်း ကုရ်အာန်ကျမ်းတော်ကဲ့သို့သောကျမ်းဂန်(တောင်ရာတ်)ကို အိစ်ရာအီလီ အမျိုးသားတို့အနက် သက်သေတစ်ဦးသည် သက်သေခံခဲ့ပြီးနောက် သက်ဝင်ယုံကြည်ခဲ့ပြီးဖြစ်၏။ သို့ပါလျက် အသင်တို့မှာမူကား (သက်ဝင်ယုံကြည်ကြသည်မရှိ၊) မောက်မာ၍သာ နေခဲ့ကြကုန်၏။ ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် မတရားသောသူတို့အား တရားလမ်းမှန်သို့ ပို့ပေးတော်မူသည် မဟုတ်ပေ။

وَقَالَ ٱلَّذِينَ كَفَرُوا۟ لِلَّذِينَ ءَامَنُوا۟ لَوْ كَانَ خَيْرًا مَّا سَبَقُونَآ إِلَيْهِ ۚ

၁၁။ စင်စစ်သော်ကား သွေဖည်ငြင်းပယ်သောသူတို့သည် 'မုအ်မင်န်' သက်ဝင် ယုံကြည်သောသူတို့နှင့် ပတ်သက်၍ (ဤသို့)ပြောဆိုကြကုန်၏။ အကယ်၍ ထိုကုရ်အာန်သည် ကောင်းမြတ်သော အရာတစ်စုံတစ်ခု

---

➤➤ တရားကိုပင် ကျွန်ုပ် ဟောပြောနေခြင်း ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်အား တမန်တော်အပေါင်းတွင် နောက်ဆုံးတမန်တော်အဖြစ် စေလွှတ်တော်မူခြင်းဖြစ်သည်။ ဤသည့်အကြောင်းကိုလည်း ပွင့်လေသမျှသော တမန်တော်အပေါင်းသည် အသီးသီး ဗျာဒိတ်ပေးသွားခဲ့ကြသည်။ ကျွန်ုပ်မည်သို့ ပြုမူခြင်းခံရမည်ကိုလည်း ကျွန်ုပ်မသိ၊ အသင်တို့ မည်သို့ပြုမူခြင်းခံကြရမည်ကိုလည်း ကျွန်ုပ်မသိ။ ကျွန်ုပ်သည် အသင်တို့ကဲ့သို့ လူသားတစ်ဦးမျှသာ ဖြစ်သည်။ ထူးခြားချက်တစ်ရပ်မှာ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်ထံသို့ (ဝဟ်ယ်) အမိန့်တော်များကို ထုတ်ပြန်ချမှတ်ပေးတော်မူသည်။ ကျွန်ုပ်သည် ထိုသည့်အမိန့်တော်များကို ဦးလည်မသုန် နာယူကျင့်မူသည်။ ထိုသည့်အမိန့်တော်များအရ ကျွန်ုပ်သည် အသင်တို့အား အထင်အရှား သတိပေး နှိုးဆော်သည်။ သို့ပါလျက် အသင်တို့သည် ကျွန်ုပ်၏ တရားများကို နာယူကျင့်မူရာတွင် အဘယ်ကြောင့် ရွံ့တွန့်ဆုတ်ဆိုင်းနေကြသနည်း။

وَإِذْ لَمْ يَهْتَدُوا بِهِ فَسَيَقُولُونَ هَٰذَا إِفْكٌ قَدِيمٌ ﴿١١﴾

ဖြစ်ခဲ့မူ ထို 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့မှာ ငါတို့ထက်ဦးစွာ ယင်းကုရ်အာန်ကို သက်ဝင်ယုံကြည်နိုင်ကြမည်မဟုတ်ပေ။ တစ်ဖန် ၎င်းတို့သည် ယင်းကုရ်အာန်ကျမ်းတော်မြတ်ဖြင့် တရားလမ်းမှန်ကို မရခဲ့ကြသောအခါ ၎င်းတို့က ဤသည် ရှေးဟောင်းမုသားပင် ဖြစ်သည်ဟူ၍ ပြောဆိုကြကုန်၏။

وَمِن قَبْلِهِ كِتَابُ مُوسَىٰ إِمَامًا وَرَحْمَةً ۚ وَهَٰذَا كِتَابٌ مُّصَدِّقٌ لِّسَانًا عَرَبِيًّا لِّيُنذِرَ الَّذِينَ ظَلَمُوا وَبُشْرَىٰ لِلْمُحْسِنِينَ ﴿١٢﴾

၁၂။ အမှန်စင်စစ်မှာမူကား ဤကုရ်အာန်ကျမ်းတော်မြတ်အလျင် *မူစာ၏ကျမ်းဂန် (တောင်ရာတ်)သည် ရှေ့ဆောင်လမ်းပြအဖြစ်လည်းကောင်း၊ ကရုဏာအဖြစ်လည်းကောင်း၊ ရှိခဲ့၏။* [၁] ထို့ပြင် ဤကျမ်းဂန်မှာ (ယင်းတောင်ရာတ်ကျမ်းကို) ထောက်ခံသော ကျမ်းဂန်ဖြစ်၏။ မတရားကျူးလွန်သော (မက္ကာမြို့သား)တို့အား သတိပေးနှိုးဆော်ရန် အရဗီဘာသာစကားဖြင့် ထုတ်ပြန်ထား၏။ ၎င်းပြင် ကောင်းမှုပြုသူတို့အဖို့ သတင်းကောင်းလည်းဖြစ်၏။ [၂]

إِنَّ الَّذِينَ قَالُوا رَبُّنَا اللَّهُ ثُمَّ اسْتَقَامُوا فَلَا خَوْفٌ عَلَيْهِمْ وَلَا هُمْ يَحْزَنُونَ ﴿١٣﴾

၁၃။ ဧကန်မလွဲ ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်မှာ အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူသည်ဟု ပြောကြပြီးနောက် (ယင်းယုံကြည်ချက်ပေါ်ဝယ်) ကြံ့ခိုင်စွာ တည်ရှိကြကုန်သော သူတို့၌ မည်သည့်စိုးရိမ်မှုလည်း ရှိလိမ့်မည်မဟုတ်ပေ။ ထို့မှတပါး ၎င်းတို့သည် ပူပင်သောကဖြစ်ကြရမည်လည်း မဟုတ်ပေ။

---

(၁) ဆိုလိုသည်ကား ယနေ့ကုရ်အာန်က တင်ပြနေသော အခြေခံသဘောတရားများသည် အသစ်အဆန်းမဟုတ်။ ကုရ်အာန်မကျရောက်မီ နှစ်ပရိစ္ဆေဒ ထောင်ပေါင်းများစွာ အလျင်ကပင် တမန်တော် မူစာချီးမြှင့်တော်မူခြင်းခံခဲ့ရသော တောင်ရာတ်ကျမ်းသည် ယင်းသည့်အခြေခံသဘောတရားများကို တင်ပြခဲ့ပေသည်။ တောင်ရာတ်ကျမ်းသည် မိမိ၏ ဒေသနာတော်ဗျာဒိတ်တော်များဖြင့် အမှန်တရားကို ညွှန်ပြခဲ့သည်သာမက၊ ကရုဏာတော်တည်းဟူသော တံခါးကိုလည်း ဖွင့်ပေးခဲ့ပေသည်။

(၂) ဆိုလိုသည်ကား ဤကုရ်အာန်ကျမ်းမြတ်သည် အဆိုပါ တောင်ရာတ်ကျမ်းလာ ဒေသနာတော်များနှင့် ➤➤

أُولَٰئِكَ أَصْحَابُ الْجَنَّةِ خَالِدِينَ فِيهَا جَزَاءً بِمَا كَانُوا يَعْمَلُونَ ﴿١٤﴾

၁၄။ ထိုသူတို့မှာ 'ဂျန္နတ်'သုခ ဘုံသားများပင် ဖြစ်ကြကုန်၏။ ယင်းသုခဘုံ၌ အမြဲထာဝစဉ် နေထိုင်ကြရပေမည်။ (ဤသည်) ၎င်းတို့ကျင့်မူခဲ့ကြသော အကျင့်အမူတို့၏ အစားပေးခြင်းပင် ဖြစ်ပေသတည်း။

وَوَصَّيْنَا الْإِنسَانَ بِوَالِدَيْهِ إِحْسَانًا ۖ حَمَلَتْهُ أُمُّهُ كُرْهًا وَوَضَعَتْهُ كُرْهًا ۖ وَحَمْلُهُ وَفِصَالُهُ ثَلَاثُونَ شَهْرًا ۚ حَتَّىٰ إِذَا بَلَغَ أَشُدَّهُ وَبَلَغَ أَرْبَعِينَ سَنَةً

၁၅။ စင်စစ်သော်ကား ငါအရှင်မြတ်သည် 'မနူဿ' လူသားအား ၎င်း၏မိဘနှစ်ပါးနှင့်ပတ်သက်၍ ကောင်းစွာပြုစုရန် လေးနက်စွာအမိန့်ပေးတော်မူခဲ့၏။ ၎င်း၏မိခင်မှာ ၎င်းအား ဆင်းရဲဒုက္ခ ပင်ပန်းကြီးစွာနှင့် (မိမိဝမ်းတွင်းဝယ်) သယ်ပိုးလွယ်ပိုက်ခဲ့၏။ ထို့ပြင် ဆင်းရဲဒုက္ခ *ပင်ပန်းကြီးစွာနှင့်ပင် ၎င်းအားမွေးဖွားခဲ့၏။*[၁] ထို့ပြင် ၎င်းအား သယ်ပိုးလွယ်ပိုက်ခြင်းနှင့် ၎င်းအားနို့ဖြတ်ခြင်း(၏ အချိန်ကာလမှာ) လပေါင်း သုံးဆယ်ဖြစ်၏။ နောက်ဆုံးတွင် ထိုလူသားသည် မိမိ အရွယ်ရောက် လူလားမြောက်ခြင်းသို့ ရောက်ရှိ၍ အနှစ်လေးဆယ် (အရွယ်)သို့ရောက်လေသောအခါ (ဤသို့) ပန်ကြားလျှောက်ထားလေ၏။ [၂]

---

➤➤ ဗျာဒိတ်တော်များကို ထောက်ခံလျက်၊ သရုပ်ဖော်လျက်ရှိသည်။ တောင်ရာတ်နှင့် ကုရ်အာန်သည် အညမညဖြစ်သည်။ တောင်ရာတ်နှင့် ကုရ်အာန်သည် အညမည ဖြစ်သည်။ ကောင်းကင်ကျ ကျမ်းဂန်အားလုံးသည် ဤအတိုင်းပင်။ ကုရ်အာန်သည် စည်းကမ်းကျူးလွန်နေသူများအား သတိပေးသည်။ သူတော်ကောင်းများအား ကောင်းချီးသတင်းပေးသည်။

(၁) သားသမီးများအား လူလားမြောက်သည်အထိ ပြုစုပျိုးထောင်ပေးကြသော မိဘနှစ်ပါး၏ ကျေးဇူးကားကြီးမားလှပေသည်။ မိဘနှစ်ပါးတွင် မိခင်ဖြစ်သူသည် ကိုယ်ဝန်ဆောင်သည့်အချိန်မှစ၍ သားငယ်အား ပင်ပန်းကြီးစွာဖြင့် လပေါင်းများစွာ လွယ်ပိုး သယ်ပိုက်ထားခဲ့ရရှာသည်။ ပင်ပန်းကြီးစွာဖြင့်ပင် ဖွားမြင်ခဲ့ရရှာသည်။ ပင်ပန်းကြီးစွာဖြင့် ဖွားမြင်ပြီးပြန်သော် ဖဝါးလက်နှစ်လုံး ပခုံးလက် နှစ်သစ် ဘဝကစ၍ လပေါင်းများစွာ ယုယပိုက်ထွေး နို့ချိုတိုက်ကျွေးခဲ့ရရှာသည်။ သားငယ်အား ကိုယ်စွမ်းရှိသမျှ ဉာဏ်စွမ်းရှိသမျှပြုစုခဲ့ရှာသည်။ သားငယ်အတွက် မိမိ၏ချမ်းသာမှုအစုစုကို စွန့်ခဲ့ရှာသည်။ ဒုက္ခအဝဝကို ပျော်ရွှင်စွာ ခံခဲ့ရှာသည်။

မိခင်သည် ကျန်သံယောဇဉ်အားလုံးကို ဖြတ်နိုင်သော်လည်း သားသမီးသံယောဇဉ်ကိုမူ မဖြတ်နိုင်ရှာပေ။ ထို့အတွက် သားသမီးများသည် မိဘနှစ်ပါး၏ကျေးဇူးကို အထူးသိကြရာသည်။ မိဘနှစ်ပါးအား အထူးရိုသေလေးစားကြရာသည်။ အသက်ထက်ဆုံး ကောင်းစွာ ပြုစုကြရာသည်။ ➤➤

قَالَ رَبِّ أَوْزِعْنِيٓ أَنْ أَشْكُرَ نِعْمَتَكَ الَّتِيٓ أَنْعَمْتَ عَلَيَّ وَعَلَىٰ وَالِدَيَّ وَأَنْ أَعْمَلَ صَالِحًا تَرْضَىٰهُ وَأَصْلِحْ لِي فِي ذُرِّيَّتِيٓ إِنِّي تُبْتُ إِلَيْكَ وَإِنِّي مِنَ الْمُسْلِمِينَ ۝١٥

အိုး–ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအပေါ်၌လည်းကောင်း၊ ကျွန်တော်မျိုး၏မိဘနှစ်ပါးအပေါ်၌လည်းကောင်း၊ မိမိပြုတော်မူခဲ့သောကျေးဇူးတော်နှင့်စပ်လျဉ်း၍ ကျွန်တော်မျိုးအား အမြဲတစေကျေးဇူးသိတတ်စေတော်မူပါ။ ၎င်းပြင် မိမိနှစ်သက်တော်မူသော ကောင်းမှုများကို ကျွန်တော်မျိုးအား အမြဲကျင့်မှုနိုင်စွမ်း ပေးသနားတော်မူပါ။ ထိုမှတပါး အရှင်မြတ်သည် ကျွန်တော်မျိုးအဖို့ ကျွန်တော်မျိုး၏သားမြေးတို့၌လည်း အကျိုးဖြစ်စေတော်မူပါ။ (အရည်အချင်းဖန်တီးပေးတော်မူပါ။) ဧကန်အမှန် ကျွန်တော်မျိုးသည် အရှင်မြတ်အထံတော်၌ ဝန်ချတောင်းပန်ပါ၏။ ၎င်းပြင် ဧကန်မလွဲ ကျွန်တော်မျိုးသည် အလ္လာဟ်အမိန့်တော်ကို လိုက်နာသူတို့တွင် တစ်ဦးအပါအဝင်ဖြစ်ပါ၏။ [၁]

---

➤➤ တစ်ဖန် မိဘနှစ်ပါးတွင် မိခင်ဖြစ်သူသည် ဖခင်နှင့်စာလျှင် အစစအရာရာတွင် ပျော့ပျောင်းနွဲ့နှောင်း၍ ချို့တဲ့ရှာသည်ဖြစ်ရာ၊ သားသမီးများသည် မိခင်အား ပို၍ပင် သနားကြင်နာထောက်ထားကြရသည်။ တမန်တော်မြတ်ကလည်း အောက်ပါအတိုင်း မိန့်မှာတော်မူခဲ့လေသည်။

သာဝကကြီး အဗူဟုရိုင်ရဟ်သခင်ထံမှ တစ်ဆင့်ကြားသိရသည်မှာ တပည့်သားတစ်ဦးသည် တမန်တော်မြတ်ထံ လာရောက်၍ တမန်တော်မြတ်မည်သူအား ပို၍ပြုစုရပါမည်နည်းဟုလျှောက်ထားရာ တမန်တော်မြတ်က 'သင့်မိခင်' ဟု ဖြေကြားတော်မူခဲ့၏။ ထိုတပည့်သားက ထို့နောက် မည်သူအား ပြုစုရပါမည်နည်းဟု မေးလျှောက်ပြန်ရာ တမန်တော်မြတ်က 'သင့်မိခင်'ဟု ဖြေကြားတော်မူခဲ့၏။ တပည့်သားက ထို့နောက် မည်သူအား ပြုစုရပါမည်နည်းဟု လျှောက်ထားပြန်ရာ၊ တမန်တော်မြတ်က 'သင့်မိခင်' ဟုပင် ဖြေကြားတော်မူခဲ့၏။ ထိုတပည့်သားက ထို့နောက် မည်သူ့အား ပြုစုရပါမည်နည်းဟု လျှောက်ထားပြန်ရာ၊ တမန်တော်မြတ်က သင့်ဖခင်ဟု ဖြေကြားတော်မူခဲ့၏။ (ဗုခါရီ၊ မွတ်စ်လင်မ်)

(၂) လူသားတို့သည် များသောအားဖြင့် အသက် (၄၀) ရွယ်တွင် အသိဉာဏ် အမြော်အမြင်အတွေးအခေါ်၌ ပြည့်ဝစုံလင်လေ့ရှိကြပေသည်။ ထို့အတွက်ကြောင့် တမန်တော်များသည် သက်တော် (၄၀) အလျင် တမန်တော်အဖြစ် စေလွှတ်တော်မူခြင်းကို ခံခဲ့ကြရသည် မရှိပေ။

(၁) အသက်(၄၀)ရွယ်သို့ ရောက်ကြပြီးနောက် အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့် အခြေအနေ အဆင်ပြေသော အကြောင်းလုသောသူတော်စင်သည် အလ္လာဟ်အရှင်မြတ်ထံတော်၌ အရှင်မြတ် ကျွန်တော်မျိုးအပေါ်၌ ➤➤

أُولَٰئِكَ الَّذِينَ نَتَقَبَّلُ عَنْهُمْ أَحْسَنَ مَا عَمِلُوا وَنَتَجَاوَزُ عَنْ سَيِّئَاتِهِمْ فِي أَصْحَابِ الْجَنَّةِ ۖ وَعْدَ الصِّدْقِ الَّذِي كَانُوا يُوعَدُونَ ﴿١٦﴾

**၁၆။** ထိုသူတို့သည်ပင် အကြင်သူများ ဖြစ်ကြကုန်၏။ ငါအရှင်မြတ်သည် ၎င်းတို့ထံမှ ၎င်းတို့၏ ကောင်းမြတ်လှသော ကျင့်မှုချက်များကို သဘောတူ လက်ခံတော်မူပေမည်။ ထိုမှတပါး ငါအရှင်မြတ်သည် ၎င်းတို့၏ပြစ်မှုများကို (အရေးမယူ) လျစ်လျူရှုတော်မူပေမည်။ (၎င်းတို့မှာ) 'ဂျန္နတ်' သုခဘုံသားတို့တွင် အပါအဝင် ဖြစ်ကြပေမည်။ (ဤသည်) ၎င်းတို့ကတိပေးခြင်းခံခဲ့ကြရသော မှန်ကန်သော ကတိပြုချက်ပင် ဖြစ်ချေသတည်း။

---

➤➤ လည်းကောင်း၊ ကျွန်တော်မျိုး၏ မိဘနှစ်ပါးအပေါ်၌လည်းကောင်း၊ အရှင်မြတ် ပြုထားတော်မူသော ကျေးဇူးတော်များကို အမြဲတစေ၊ တုံ့ပြန်ကျေးဇူးတင်နိုင်ရန်နှင့် အရှင်မြတ် နှစ်သက်တော်မူသော အကျင့်သီလများကို အမြဲတစေ ဆောက်တည်နိုင်ရန် အရှင်မြတ်သည်ပင်၊ ကျွန်တော်မျိုးအား စွမ်းအားပေးသနားတော်မူပါ။ မိမိ၏ သားသမီးများကို ကောင်းစွာ သွန်သင်ပဲ့ပြင်ပေးနိုင်သည့် အရည်အချင်းကိုလည်း၊ ပေးသနားတော်မူပါ။

ကျွန်တော်မျိုးသည် မိမိ၏ မှားယွင်းမှု ချို့တဲ့မှုများနှင့် စပ်လျဉ်း၍လည်း အရှင်မြတ်ထံတော်၌ ဝန်ချတောင်းပန် အသနားခံပါသည်။ ကျွန်တော်မျိုးသည် အမိန့်တော်နာခံသော မွတ်စ်လင်မ်တစ်ဦးဖြစ်ပါသည်ဟု ကျိုးနွံစွာ ဆုပန်ကြားလေ့ရှိသည်။ ဤကား အကြောင်းလှသော သူတော်စင်များ၏ ဂုဏ်ရည်များပင်။

ဆွဟာဗဟ် သာဝကကြီးများတွင် အဗူဗတ်ကရ်၏ ထူးခြားချက်တစ်ရပ်မှာ သာဝကကြီး ကိုယ်တိုင်လည်း အစ္စလာမ်ကို သက်ဝင်ယုံကြည်ခဲ့သည်။ သာဝကကြီး အဗူဗတ်ကရ်၏ မိဘနှစ်ပါးတို့သည်လည်း အစ္စလာမ်ကို သက်ဝင်ယုံကြည်ခဲ့ကြပေသည်။ သာဝကကြီး အဗူဗတ်ကရ်၏ သားသမီးများသည်လည်း အစ္စလာမ်ကို သက်ဝင်ယုံကြည်ခဲ့ကြပေသည်။

ထို့ပြင်တစ်ဝ သာဝကကြီး အဗူဗတ်ကရ်၊ သာဝကကြီး အဗူဗတ်ကရ်၏ မိဘနှစ်ပါးနှင့် သားသမီးများသည် အစ္စလာမ်ကို သက်ဝင် ယုံကြည်ခဲ့ကြသည်သာမက၊ တမန်တော်မြတ်၏ တပည့်သား 'ဆွဟာဗီ'များ ဖြစ်ရသည့် အခွင့်ထူးကိုလည်း ရရှိခဲ့ကြပေသည်။ တမန်တော်မြတ်၏ တပည့်သာဝက လောကတွင် ဤသည့် အခွင့်အလမ်းကို သာဝကကြီး အဗူဗတ်ကရ်တစ်ပါးသာလျှင် ထူးထူးခြားခြား ရရှိခဲ့ပေသည်။

အလ္လာဟ်အရှင်မြတ်သည် ထိုသို့သော သူတော်စင်များ၏ ကုသိုလ် ကောင်းမှုများကို လက်ခံတော်မူသည်။ ၎င်းတို့၏ မေ့မှားမှုများကိုလည်း ခွင့်လွှတ်တော်မူသည်။ ထိုသို့သော သူတော်စင်များသည် ဂျန္နတ်၏ အမတသုခများကို အမြဲထာဝစဉ် ခံစားကြရမည်ဖြစ်သည်။ ဤကား ဤပစ္စက္ခတွင် လူသားတို့အား ကတိပြုထားတော်မူသည့် မှန်ကန်သော ကတိတော်၏ အကျိုးဆက်ပင်။

وَالَّذِي قَالَ لِوَالِدَيْهِ أُفٍّ لَّكُمَا أَتَعِدَانِنِي أَنْ أُخْرَجَ وَقَدْ خَلَتِ الْقُرُونُ مِن قَبْلِي وَهُمَا يَسْتَغِيثَانِ اللَّهَ وَيْلَكَ آمِنْ إِنَّ وَعْدَ اللَّهِ حَقٌّ فَيَقُولُ مَا هَٰذَا إِلَّا أَسَاطِيرُ الْأَوَّلِينَ ﴿١٧﴾

၁၇။ ၎င်းပြင် အကြင်သူသည် မိမိ၏ မိဘနှစ်ပါးအား (ဤသို့)ပြောဆိုခဲ့၏။ 'အသင်တို့နှစ်ဦးအဖို့ ရက်ဖွယ်ပင် ကောင်းလှ၏။ အသင်တို့နှစ်ဦးသည် ကျွန်ုပ်အား (သင်္ချိုင်းထဲမှ) ကျွန်ုပ် ပြန်ထွက်စေခြင်းကို ခံရမည်ဟု ခြိမ်းခြောက်ကြလေသလော။ အမှန်စင်စစ် မှာမူကား၊ ကျွန်ုပ်၏အလျင် (မြောက်မြားစွာသော) လူမျိုးဆက်တို့သည် လွန်လေခဲ့လေပြီ'၊ [၁]

သို့တစေလည်း ထိုမိဘနှစ်ပါးတို့မှာ အလ္လာဟ် အရှင်မြတ်အထံတော်၌ ဟစ်အော်ငိုကြွေး အကူအညီ တောင်းခံလျက်ရှိကြကုန်၏။ [၂] (တစ်ဖန် ထိုသို့သော သားသမီးအား ဤသို့ပြောဆိုကြလေ၏။) အသင် သည်ပျက်စီးရလေခြင်း၊ အသင်သည် သက်ဝင်ယုံကြည် ပါလေ၊ စင်စစ်ကေန် အလ္လာဟ်အရှင်မြတ်၏ချိန်းချက်မှု ကား မှန်ကန်သောချိန်းချက်မှုပင် ဖြစ်ပေ၏။ ထိုအခါ ၎င်းက 'ဤသည် ရှေးသူဟောင်းတို့၏ ယုံတမ်းစကား များသာလျှင် ဖြစ်သည်' ဟု ဆိုပြန်လေ၏။

---

(၁) အထက်တွင် အရွယ်ရောက်၍ အသိအလိမ္မာ ဉာဏ်ပညာနှင့်ပြည့်စုံသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကိုးကွယ်သော၊ ထိုအရှင်မြတ်၏ ကျေးဇူးတော် သိတတ်သော၊ ကျေးဇူးတုံ့ပြန် လိုစိတ်ရှိသော၊ ကျေးဇူးရှင် မိဘနှစ်ပါးတို့အား ရိုသေမြတ်နိုးသော အလ္လာဟ်အရှင်မြတ် နှစ်သက်တော်မူသည့် အကျင့်သီလများကို ဆောက်တည်လိုသော မိမိ၏သားသမီးများကိုပါ လူတော်လူကောင်းတွေ ဖြစ်စေလိုသော၊မိမိ၏ ချို့တဲ့မှုများကို ဝန်ခံလိုသော မိမိ 'မွတ်စ်လင်မ်' ဖြစ်ရသည်ကို ဂုဏ်ယူသော သူတော်စင်များအကြောင်းပါရှိသည်။

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်အား မယုံကြည်သော၊ သေပြီးနောက် ပြန်လည်ရှင်ထရ မည်ကို မယုံကြည်သော၊ မိဘနှစ်ပါးအား မရိုသေမလေးစား မခန့်ညားသော မိဘနှစ်ပါးနှင့်ပင် မိုက်ရိုင်းစွာ စကားပြောဆိုသော ကာဖိရ် သားမိုက်အကြောင်းကို မိန့်ဆိုထားတော်မူသည်။

(၂) ဆိုလိုသည်ကား - မိဘနှစ်ပါးတို့သည် မွတ်စ်လင်မ်များဖြစ်ကြပေရာ၊ ကာဖိရ် သားမိုက်၏ စကားများကို ကြားရပြီး ဝမ်းနည်းကြေကွဲကာ အလ္လာဟ်အရှင်မြတ်ထံတော်၌ အကူအညီတောင်းကြသည်။

သားမိုက်ကို အသင်ပျက်စီးရတော့မည်။ အသင်ယုံကြည်ပါ။ အလ္လာဟ်အရှင်မြတ်၏ ကတိတော်သည် မှန်ကန်သည်။ သေပြီးနောက်၊ အမှန်ရှင်ပြန်ထရမည်ဖြစ်သည်ဟု သံယောဇဉ် ကြီးစွာဖြင့် သွန်သင်ဆုံးမရှာကြလေ သည်။ ယခုခေတ်တွင်လည်း ဤသို့သော သားမိုက်များကြောင့် ပူဆွေးဒုက္ခ စိတ်သောကဖြစ်နေကြရရှာသော မိဘများကား မနည်းလှပေ။

أُولَٰئِكَ الَّذِينَ حَقَّ عَلَيْهِمُ الْقَوْلُ فِي أُمَمٍ قَدْ خَلَتْ مِن قَبْلِهِم مِّنَ الْجِنِّ وَالْإِنسِ ۖ إِنَّهُمْ كَانُوا خَاسِرِينَ ﴿١٨﴾

၁၈။ ထိုသူတို့ကား အကြင်သူတို့ပင်၊ ဂျင်န်အမျိုးသားတို့အနက်မှလည်းကောင်း၊ လူသားတို့အနက်မှလည်းကောင်း၊ လွန်လေပြီးဖြစ်သောအမျိုးသားတို့နှင့်အတူ ၎င်းတို့နှင့်ပတ်သက်သော အလ္လာဟ်အရှင်မြတ်၏အမိန့်တော်မှာ အမှန်ဖြစ်ခဲ့လေပြီ။ ဧကန်မလွဲ ၎င်းတို့မှာ ဆုံးရှုံးသူများပင် ဖြစ်ကြကုန်၏။

وَلِكُلٍّ دَرَجَاتٌ مِّمَّا عَمِلُوا ۖ وَلِيُوَفِّيَهُمْ أَعْمَالَهُمْ وَهُمْ لَا يُظْلَمُونَ ﴿١٩﴾

၁၉။ စင်စစ်သော်ကား (မုအ်မင်န်၊ကာဖိရ်) အသီးသီးတို့၌ ၎င်းတို့ ကျင့်မူခဲ့ကြကုန်သော အကျင့်အမူများအလိုက် အဆင့်အတန်းများ ရှိကြလေ၏။ ၎င်းပြင် (အလ္လာဟ်အရှင်မြတ်သည် ဤသို့ အကျိုးပေးတော်မူခဲ့ခြင်းမှာ) ထိုအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့၏ အကျင့်အမူများ၏အစားကို အပြည့်အစုံ ပေးတော်မူအံ့သောငှာ ဖြစ်ပေသည်။ သို့ရာတွင် ၎င်းတို့မှာ (မည်သို့မျှ) မတရားပြုမူခြင်းကို ခံကြရမည် မဟုတ်ပေ။

وَيَوْمَ يُعْرَضُ الَّذِينَ كَفَرُوا عَلَى النَّارِ أَذْهَبْتُمْ طَيِّبَاتِكُمْ فِي حَيَاتِكُمُ الدُّنْيَا وَاسْتَمْتَعْتُم بِهَا فَالْيَوْمَ تُجْزَوْنَ عَذَابَ الْهُونِ بِمَا كُنتُمْ تَسْتَكْبِرُونَ فِي الْأَرْضِ بِغَيْرِ الْحَقِّ وَبِمَا كُنتُمْ تَفْسُقُونَ ﴿٢٠﴾

၂၀။ ၎င်းပြင် ကာဖိရ် သွေဖည်ငြင်းပယ်ကြသောသူတို့သည် ငရဲမီး၏ရှေ့သို့ယူလာခြင်းကို ခံကြရသောအခါ (ဤသို့မိန့်ကြားတော်မူခြင်းကို ခံကြရပေမည်၊) အသင်တို့သည် မိမိတို့၏လောကီဘဝ၌ပင် မိမိတို့၏ကောင်းမြတ်သောအရာများ (ဝါ) စည်းစိမ်ချမ်းသာများကို ဖြုန်းတီးခဲ့ကြပြီ။ ယင်းစည်းစိမ်ချမ်းသာများဖြင့် အကျိုးလည်းခံစားခဲ့ကြပြီ။ သို့ဖြစ်ပေရာ ယနေ့သော်ကား အသင်တို့သည် ကမ္ဘာမြေဝယ် မိမိတို့ မတရားသဖြင့် ဘဝင်မြင့်မောက်မာလျက် ရှိခဲ့ကြသောကြောင့်လည်းကောင်း၊ အမိန့်တော်ကို သွေဖည်လျက်ရှိခဲ့ကြသောကြောင့်လည်းကောင်း၊ ကျိုးယုတ်ရှက်ရဖြစ်စေအံ့သော ပြစ်ဒဏ်ကိုအစားပေးခြင်း ခံကြရကုန်အံ့သတည်း။

وَاذْكُرْ أَخَا عَادٍ إِذْ أَنذَرَ قَوْمَهُ بِالْأَحْقَافِ وَقَدْ خَلَتِ النُّذُرُ مِن بَيْنِ يَدَيْهِ وَمِنْ خَلْفِهِ أَلَّا تَعْبُدُوا إِلَّا اللَّهَ إِنِّي أَخَافُ عَلَيْكُمْ عَذَابَ يَوْمٍ عَظِيمٍ ﴿٢١﴾

၂၁။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် (၎င်းတို့အား) 'အာဒ်' အမျိုးသားတို့၏နောင်တော် (တမန်တော်ဟူဒ်)၏ အကြောင်းပြောပြပါလေ။ တစ်ရံရောအခါဝယ် ထိုနောင်တော်သည် မိမိအမျိုးသားတို့အား 'အဟ်ကာဖ်' အမည်ရှိ သဲတောင်များ (ရွာ)၌ သတိပေးနှိုးဆော်ခဲ့၏။ [၁]

ထို့ပြင် ထိုနောင်တော်အလျင်လည်းကောင်း၊ ထိုနောင်တော် နောက်တွင်လည်းကောင်း၊ သတိပေးနှိုးဆော်သူများသည် လွန်လေခဲ့ပြီး ဖြစ်ကြကုန်၏။ (ထိုနောင်တော်က) အသင်တို့သည် အလ္လာဟ်အရှင်မြတ်မှတစ်ပါး အခြားတစ်စုံတစ်ရာကိုမျှ ဆည်းကပ်ကိုးကွယ်ခြင်း မပြုကြကုန်လင့်။ ဧကန်စင်စစ် ငါသည် အသင်တို့နှင့်ပတ်သက်၍ ကြီးကျယ်လှစွာသောနေ့၏ ပြစ်ဒဏ်ကို စိုးရိမ်သည်ဟူ၍(သတိပေးနှိုးဆော်ခဲ့၏။)

قَالُوا أَجِئْتَنَا لِتَأْفِكَنَا عَنْ آلِهَتِنَا فَأْتِنَا بِمَا تَعِدُنَا إِن كُنتَ مِنَ الصَّادِقِينَ ﴿٢٢﴾

၂၂။ ၎င်းတို့က (ဤသို့) ပြောဆိုခဲ့ကြကုန်၏။ 'အသင်သည် ကျွန်ုပ်တို့အား ကျွန်ုပ်တို့၏ ကိုးကွယ်ရာတို့မှ လွှဲဖယ်ရန် ကျွန်ုပ်တို့ထံ လာခဲ့လေသလော။ သို့ဖြစ်လျှင် အသင်သည် သစ္စာဝါဒီတစ်ဦး ဖြစ်ပါမူ အသင် ကျွန်ုပ်တို့အား ခြိမ်းခြောက်လျက်ရှိသော (ပြစ်ဒဏ်)ကို ကျွန်ုပ်တို့ထံ ယူဆောင်ခဲ့လော့'။

---

(၁) တမန်တော်ဟူဒ်သည် မိမိ၏ အမျိုးသားများအား အဟ်ကာဖ်တွင် သတိပေးခဲ့၏။ 'အဟ်ကာဖ်' ဟူသောပုဒ်၏ မူရင်းအနက်မှာ ရှည်လျားသော သဲတောင်များဟူ၍ဖြစ်သည်။ 'အဟ်ကာဖ်' သည် အဘယ်မှာနည်း။

ယမာမတ်၊ အွမ္မာန်၊ ဗဟ်ရိုင်န်၊ ဟဿရမောက်တ်နှင့် အနောက် ယမန်၏ စပ်ကြားတွင် 'ဒဟ်နာ'၊ 'ရုဗ်အုခါလီ' မည်တွင်သော အလွန်ကြီးမားသော သဲကန္တာရကြီးရှိသည်။ ထိုကန္တာရကြီးမှာ နေထိုင်ရန် မလျော်ကန်ခဲ့ပေ။

သို့တစေလည်း ထိုသဲကန္တာရကြီး၏ အစွန်အဖျားတွင် အချို့အချို့သောဒေသများမှာ လူများနေနိုင်ကြလောက်အောင် မြေဩဇာကောင်းပေသည်။ အထူးသဖြင့် ဟဿရမောက်တ်နှင့် နဂျ်ရာန်စပ်ကြားရှိဒေသမှာ မြေဩဇာ အတော်ပင်ကောင်းလှပေသည်။ 'အာဒ်အိရမ်'အမျိုးသားများသည် ထိုဒေသ၌ပင်နေထိုင်ခဲ့ကြပေသည် ➤➤

قَالَ اِنَّمَا الْعِلْمُ عِنْدَ اللّٰهِ ۖ وَاُبَلِّغُكُمْ مَّاۤ اُرْسِلْتُ بِهٖ وَلٰكِنِّيْۤ اَرٰىكُمْ قَوْمًا تَجْهَلُوْنَ ﴿٢٣﴾

၂၃။ ထိုနောင်တော်က (ဤသို့)ပြောကြားခဲ့လေ၏။ (အပြစ်ဒဏ်နှင့် စပ်လျဉ်း၍ တိကျသော)အသိပညာကား အလ္လာဟ်အရှင်မြတ်အထံတော်၌သာရှိ၏။ စင်စစ်သော်ကား ငါသည် အသင်တို့ထံ အကြင် အမိန့်တော်များကိုသာ ပို့ဆောင်၏။ ငါသည် ယင်းအမိန့်တော်များနှင့်တကွ စေလွှတ်ခြင်းခံခဲ့ရလေ၏။ သို့ရာတွင် ငါသည် အသင်တို့အား အသိပညာကင်းမဲ့သော အမျိုးသားများအဖြစ် တွေ့မြင်ရပေသည်။

فَلَمَّا رَاَوْهُ عَارِضًا مُّسْتَقْبِلَ اَوْدِيَتِهِمْ ۙ قَالُوْا هٰذَا عَارِضٌ مُّمْطِرُنَا ۭ بَلْ هُوَ مَا اسْتَعْجَلْتُمْ بِهٖ ۭ رِيْحٌ فِيْهَا عَذَابٌ اَلِيْمٌ ﴿٢٤﴾

၂၄။ ထို့နောက် ၎င်းတို့သည် ယင်းပြစ်ဒဏ်ကို မိမိတို့ (နေထိုင်ရာ)တောင်ကြားအရပ်ဒေသများသို့ ရှေ့တူရှုလာသော မိုးတိမ်အဖြစ် တွေ့မြင်ခဲ့ကြလေသောအခါ ဤသည် ကျွန်ုပ်တို့အပေါ်၌ ရွာသွန်းအံ့သော မိုးတိမ်ပင်ဖြစ်သည်ဟု ဆိုခဲ့ကြကုန်၏။ ထိုသို့အလျှင်းမဟုတ်၊ စင်စစ်မှာကား ယင်းသည် အသင်တို့အလျင်စလို တောင်းဆိုခဲ့ကြသော(ပြစ်ဒဏ်ပင်)ဖြစ်၏။ (ယင်းသည်) လေပြင်းမုန်တိုင်း တစ်ခုဖြစ်၏။ ယင်းလေပြင်းမုန်တိုင်း၌ နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်သည် ရှိပေသည်။

تُدَمِّرُ كُلَّ شَيْءٍ ۢ بِاَمْرِ رَبِّهَا فَاَصْبَحُوْا لَا يُرٰۤى اِلَّا مَسٰكِنُهُمْ ۭ كَذٰلِكَ نَجْزِي

၂၅။ ထိုလေကား မိမိအား ဖန်ဆင်းတော်မူသော အရှင်မြတ်၏အမိန့်တော်နှင့် အရာခပ်သိမ်းတို့ကို ဖျက်ဆီးပေမည်။ ထို့နောက် ထိုသူတို့မှာ ၎င်းတို့နေအိမ်များမှတပါး အခြားတစ်စုံတစ်ရာကိုမျှ မမြင်ရလေသောအဖြစ်သို့ ရောက်သွားခဲ့ကြကုန်၏။

---

➤➤ (အဆိုပါ ဒေသသည်ပင် 'အဟ်ကာဖ်) မည်၏။ ကြည့်-အရ်ဃွလ်ကုရ်အာန်၊ အစောင်-၁၊ စာမျက်နှာ(၉၅)၊ အွမ္မာန်မှ ယမန်အထိ၊ နဂျ်ဒ်မှ ဟာဃရမောက်တ်အထိ ကျယ်ပြန့်လျက်ရှိသော အဆိုပါသဲကန္တာရကြီးသည် စတုရန်းမိုင်ပေါင်း သုံးသိန်းခန့်ရှိသည်။ ထိုကန္တာရကြီး၏ အနောက်ဘက်ပိုင်းတွင် နီမြန်းသောသဲများရှိသည်။ ထိုဒေသကိုပင် 'အဟ်ကာဖ်' ဟူ၍ ခေါ်ဆိုကြသည်။ ကြည့်-မာဂျိဒီ။ အ-၆၊ စ-၁၀၀၈။ အအ-၂၄

ٱلْقَوْمَ ٱلْمُجْرِمِينَ ﴿٢٥﴾

ငါအရှင်မြတ်သည် အပြစ်ရှိသူတို့အား ထိုနည်း အတိုင်းပင် အစားပေးတော်မူပေသတည်း။

وَلَقَدْ مَكَّنَّٰهُمْ فِيمَآ إِن مَّكَّنَّٰكُمْ فِيهِ وَجَعَلْنَا لَهُمْ سَمْعًا وَأَبْصَٰرًا وَأَفْـِٔدَةً فَمَآ أَغْنَىٰ عَنْهُمْ سَمْعُهُمْ وَلَآ أَبْصَٰرُهُمْ وَلَآ أَفْـِٔدَتُهُم مِّن شَىْءٍ إِذْ كَانُوا۟ يَجْحَدُونَ بِـَٔايَٰتِ ٱللَّهِ وَحَاقَ بِهِم مَّا كَانُوا۟ بِهِۦ يَسْتَهْزِءُونَ ﴿٢٦﴾

၂၆။ ထိုမှတပါး ဧကန်မလွဲ ငါအရှင်မြတ်သည် အသင်တို့အား ပေးတော်မမူခဲ့သော ဆောင်ရွက်နိုင်ရန် စွမ်းရည်သတ္တိကိုပင် ၎င်းတို့အား ပေးတော်မူခဲ့၏။ ထိုမှတပါး ငါအရှင်မြတ်သည် ထိုသူတို့အား နား၊ မျက်စိနှင့် စိတ်နှလုံးများကိုလည်း ပေးသနားတော်မူခဲ့၏။ သို့တစေလည်း ထိုသူတို့၏ နားများသည် ထိုသူတို့အဖို့ လုံး၀ အသုံး၀င်ခဲ့သည် မဟုတ်ပေ။ ထိုနည်းတူစွာ ထိုသူတို့၏ မျက်စိများလည်း အသုံးမ၀င်ခဲ့ပေ။ ထိုသူတို့၏ စိတ်နှလုံးများလည်း အသုံး၀င်ခဲ့သည် မဟုတ်ပေ။ အကြောင်းသော်ကား ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များကို ငြင်းပယ်လျက် ရှိခဲ့ကြသောကြောင့်ပင်။ ထို့ပြင် ၎င်းတို့ ပြက်ရယ် ပြောင်လှောင်လျက် ရှိခဲ့ကြသော ပြစ်ဒဏ်သည် ၎င်းတို့အား ၀န်းဝိုင်းခဲ့လေ၏။

وَلَقَدْ أَهْلَكْنَا مَا حَوْلَكُم مِّنَ ٱلْقُرَىٰ وَصَرَّفْنَا ٱلْـَٔايَٰتِ لَعَلَّهُمْ يَرْجِعُونَ ﴿٢٧﴾

၂၇။ ထိုမှတပါး ဧကန်စင်စစ် ငါအရှင်မြတ်သည် အသင်တို့၏ပတ်ဝန်းကျင်၌ရှိခဲ့သော မြို့ရွာ(သား)တို့အား(လည်း) ဖျက်ဆီးတော်မူခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့ (တွဲဖက် ကိုးကွယ်မှုကို စွန့်၍) ပြန်လှည့်ကြအံ့သောငှာ (မိမိ၏) သက်သေလက္ခဏာတော်များကို အမျိုးမျိုး ပြောင်းလဲ မိန့်ကြားပြသတော်မူခဲ့၏။

فَلَوْلَا نَصَرَهُمُ ٱلَّذِينَ ٱتَّخَذُوا۟ مِن دُونِ ٱللَّهِ قُرْبَانًا ءَالِهَةًۢ

၂၈။ ထို့နောက် ၎င်းတို့ အလ္လာဟ်အရှင်မြတ်အား စွန့်၍ (မိမိတို့) ချဉ်းကပ်ရန်အလို့ငှာ ကိုးကွယ်ရာများ အဖြစ် သတ်မှတ်ခဲ့ကြသော ဘုရားများသည် ၎င်းတို့အား အဘယ်ကြောင့် မကူညီခဲ့ကြသနည်း။

بَلْ ضَلُّوا عَنْهُمْ ۚ وَذَٰلِكَ إِفْكُهُمْ وَمَا كَانُوا يَفْتَرُونَ ﴿٢٨﴾

စင်စစ်မှာကား ယင်းကိုးကွယ်ရာများသည် ၎င်းတို့ထံမှ ပျောက်ကွယ်၍ သွားခဲ့ကြကုန်၏။ အမှန်စင်စစ် ဤသည် ထိုသူတို့၏လီဆယ်မှုနှင့် ထိုသူတို့ကြံစည်ဖန်တီးခဲ့သောအရာပင် ဖြစ်ပေသတည်း။

وَإِذْ صَرَفْنَا إِلَيْكَ نَفَرًا مِّنَ الْجِنِّ يَسْتَمِعُونَ الْقُرْآنَ فَلَمَّا حَضَرُوهُ قَالُوا أَنصِتُوا ۖ فَلَمَّا قُضِيَ وَلَّوْا إِلَىٰ قَوْمِهِم مُّنذِرِينَ ﴿٢٩﴾

၂၉။ (အို-နဗီတမန်တော်၊ ပြန်လည်၍ ပြောပြပါလေ။) တစ်ရံရောအခါဝယ် ငါအရှင်မြတ်သည် ဂျင်န်တစ်စုကို အသင်ရှိရာသို့ ရောက်ရှိစေတော်မူခဲ့ရာ ၎င်းတို့သည် ကုရ်အာန်ကျမ်းတော်မြတ်ကို နားထောင်ကြကုန်၏။ သို့ဖြစ်ပေရာ ၎င်းတို့သည် ထိုတမန်တော်မြတ်ရှိရာသို့ ရောက်ရှိခဲ့ကြသောအခါ ၎င်းတို့က (မိမိတို့အချင်းချင်း) အသင်တို့သည် ဆိတ်ဆိတ်နေကြလေကုန်ဟု ပြောဆိုခဲ့ကြကုန်၏။ ထို့နောက် ယင်းကုရ်အာန်ကျမ်းတော်မြတ် (ဖတ်ကြား၍) ပြီးဆုံးသွားသောအခါ ၎င်းတို့သည် မိမိတို့အမျိုးသားတို့ထံ သတိပေးနှိုးဆော်သူတို့အဖြစ် လှည့်ပြန်ခဲ့ကြကုန်၏။ [၁]

---

(၁) **အချို့ဂျင်န်များ ကုရ်အာန်ကိုကြားနာ၍ အီမာန်ယုံကြည်ခဲ့ခြင်း။**

တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) မပွင့်ပေါ်မီ ဂျင်န်များသည် အထက်ကောင်းကင်၏ အချို့သတင်းများကို အနည်းငယ် ကြားသိ နေခဲ့ကြ၏။ တမန်တော်မြတ်ထံသို့ ဝဟီစတင်ကျရောက်လာခဲ့သည့် အချိန်မှစပြီး၊ ဂျင်န်များသည် အထက်ကောင်းကင်၏ သတင်းများကို ကြားသိခွင့်လုံးဝ မရရှိခဲ့ကြတော့ပေ။ ခိုးဝှက်နားထောင်ရန် ကြိုးစားကြသည့်အခါ မီးတောက်မီးလျှံများဖြင့် အကြီးအကျယ်ပစ်ပေါက်ခြင်း ခံခဲ့ကြရပေသည်။ကြည့် - ကုရ်အာန် (၁၅း၁၆-၁၈၊ ၃၇း၆-၁၀။ ၇၂း၈-၉)။

ယင်းသို့ဖြစ်ရသောအခါ ဂျင်န်များသည် ဤကမ္ဘာတွင် ဖြစ်ရပ်သစ် တစ်ရပ်ရပ် မုချပေါ်ပြီဟု တွေးတောမိပြီး၊ ယင်းသည့် ဖြစ်ရပ်သစ်ကို စူးစမ်းရန်အတွက် ကမ္ဘာအရပ်ရပ်သို့ အုပ်စုအသီးသီးဖြန့်၍ ထွက်ခဲ့ကြ၏။

ဂျင်န်အုပ်စုတစ်ခုသည် 'ဗတ္တနူနခ်လဟ်' အမည်ရှိသော နေရာမှ ဖြတ်သန်းသွားခဲ့၏။ အကြောင်းအားလျော်စွာ တမန်တော်မြတ်သည်လည်း မိမိ၏ အချို့တပည့်သာဝကများနှင့်အတူ 'ဆွလာတုလ် ဖဂျ်ရ်' နံနက်ချိန် ဆွလာတ်ဝတ်ပြုနေတော်မူခဲ့၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် အဆိုပါဂျင်န်အုပ်စုအား ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ကြားနာစေရန်အလို့ငှာ တမန်တော်မြတ်ရှိရာသို့ လှည့်ပေးတော်မူလိုက်၏။

အဆိုပါ ဂျင်န်အုပ်စုသည် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ကြားနာရသည့်အခါ၊ လွန်စွာပီတိဖြစ်ကာ အချင်းချင်း - အသင်တို့ ဆိတ်ဆိတ်နေကြ၊ ကောင်းစွာနားထောင်ကြဟူ၍ပင် ပြောဆိုခဲ့၏၊ ➤➤

قَالُوْا يٰقَوْمَنَآ اِنَّا سَمِعْنَا كِتٰبًا اُنْزِلَ مِنْۢ بَعْدِ مُوْسٰى مُصَدِّقًا لِّمَا بَيْنَ يَدَيْهِ يَهْدِيْٓ اِلَى الْحَقِّ وَاِلٰى طَرِيْقٍ مُّسْتَقِيْمٍ ۝٣٠

၃၀။ ၎င်းတို့က ပြောဆိုခဲ့ကြသည်မှာ "အို-ကျွန်ုပ်တို့၏အမျိုးသားတို့၊ စေကန်မလွဲ ကျွန်ုပ်တို့သည် (နဗီတမန်တော်)မူစာ၏နောက်တွင် ချပေးခြင်းခံခဲ့ရလေသော ကျမ်းဂန်တစ်စောင်ကို ကြားနာခဲ့ကြရကုန်၏။ (ယင်းကျမ်းဂန်သည်) ၎င်း၏အလျင်ရှိခဲ့သောကျမ်းဂန်တို့ကို ထောက်ခံလျက်ရှိ၏။ အမှန်တရားကိုလည်းကောင်း၊ ဖြောင့်မတ်သောတရားလမ်းကိုလည်းကောင်း၊ ညွှန်ပြ၏။

---

➤➤ အဆိုပါဂျင်န်အုပ်စုသည် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များကို ကြားနာပြီးသောအခါ၊ ဤသည်ပင် ငါတို့ စူးစမ်းနေကြသော အကြောင်းထူးဖြစ်ရပ်သစ်ဖြစ်သည်။ ဤသည်ကြောင့်ပင် ငါတို့သည် ကောင်းကင်သတင်းများ မကြားရခြင်းဖြစ်သည်ဟု ပြောဆိုခဲ့၏။

ထို့နောက် အဆိုပါ ဂျင်န်အုပ်စုသည် တမန်တော်မြတ်အား အီမာန် သက်ဝင်ယုံကြည်ခဲ့၏။ ထို့နောက် မိမိတို့၏ အမျိုးသားများကိုလည်း တမန်တော်မြတ်အား အီမာန်သက်ဝင်ယုံကြည်ကြရန် တရားဓမ္မဟောကြားခဲ့လေသည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၇၂း၁-၁၉)တွင် အကျယ် မိန့်ဆိုထားတော်မူသည်။

ဟဒီးဆ်သြဝါဒတော်များကို ထောက်ရှုခြင်းအားဖြင့် တမန်တော်မြတ်သည် မိမိထံ ယင်းသို့ ဂျင်န်များ ရောက်ရှိလာပြီး၊ ကုရ်အာန်ကျမ်းလာ ဒေသနာတော်များ ကြားနာ၍ အီမာန် သက်ဝင်ယုံကြည် သွားခဲ့ကြသည်ကို သိတော်မမူခဲ့ပေ။

အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ သစ်ပင်တစ်ပင်က ယင်းသည့်အကြောင်းနှင့်စပ်လျဉ်း၍ အမြွက်မျှ လျှောက်ထားခဲ့လေသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် ယင်းသည့်အကြောင်းနှင့် စပ်လျဉ်းပြီး ကုရ်အာန်ကျမ်းလာ အာယတ်တော်(၇၂း၁-၁၉)ကို ထုတ်ပြန်ချမှတ်ပြီး၊ တမန်တော်မြတ်အား အကျယ်တဝင့် အသိပေးတော်မူခဲ့လေသည်။

ထို့နောက် မြောက်မြားစွာသော ဂျင်န်များသည် တမန်တော်မြတ်အား အီမာန် သက်ဝင်ယုံကြည် လာခဲ့ကြပေသည်။ တမန်တော်မြတ်အား ဖူးတွေ့ရန်နှင့် သာသနာရေးရာများကို ဆည်းပူးရန် အလို့ငှာ တမန်တော်မြတ်ထံသို့ အကြိမ်ကြိမ် လာခဲ့ကြပေသည်။

ပညာရှင်ကြီး ခဖ်ဖာဂျီက - သက်ဆိုင်ရာ ဟဒီးဆ် သြဝါဒတော်များကို လေ့လာဆည်းပူးပြီးနောက် တမန်တော်မြတ်သည် ခြောက်ကြိမ်တိတိ ဂျင်န်များကို လက်ခံတွေ့ဆုံတော်မူခဲ့သည်ဟု အတိအလင်း ရေးသားသည်။

တမန်တော်မြတ်ထံသို့ ဂျင်န်များ လာရောက် တရားနာယူခဲ့ကြသည့် အကြောင်းနှင့်စပ်လျဉ်း၍ အကျယ်ကို သိလိုပါက အီဗ်နူကဆီရ်ကျမ်း အစောင် (၄)၊ စာမျက်နှာ - (၁၆၂-၁၇၁) တွင် ရှုပါကုန်။

يٰقَوْمَنَآ اَجِيْبُوْا دَاعِىَ اللّٰهِ وَاٰمِنُوْا بِهٖ يَغْفِرْ لَكُمْ مِّنْ ذُنُوْبِكُمْ وَيُجِرْكُمْ مِّنْ عَذَابٍ اَلِيْمٍ ﴿٣١﴾

၃၁။ အို-ကျွန်ုပ်တို့၏ အမျိုးသားတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်ဘက်သို့ ဖိတ်ခေါ်သူ၏ ဖိတ်ခေါ်ချက်ကို နာယူလက်ခံကြလေကုန်။ ထို့ပြင် အသင်တို့သည် ထိုဖိတ်ခေါ်သူအား သက်ဝင်ယုံကြည်ကြလေကုန်။ ထိုအရှင်မြတ်သည် အသင်တို့အဖို့ အသင်တို့၏ ပြစ်မှုတို့ကို ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူပေမည်။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့အား နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်မှလည်း ကာကွယ်စောင့်ရှောက်တော်မူပေမည်။

وَمَنْ لَّا يُجِبْ دَاعِىَ اللّٰهِ فَلَيْسَ بِمُعْجِزٍ فِى الْاَرْضِ وَلَيْسَ لَهٗ مِنْ دُوْنِهٖٓ اَوْلِيَآءُ ۚ اُولٰٓئِكَ فِىْ ضَلٰلٍ مُّبِيْنٍ ﴿٣٢﴾

၃၂။ သို့ရာတွင် မည်သူမဆို အလ္လာဟ်အရှင်မြတ်ဘက်သို့ ဖိတ်ခေါ်သူ၏ ဖိတ်ခေါ်ချက်ကို နာယူလက်ခံခြင်းမပြုခဲ့မူ ထိုသူသည် (အလ္လာဟ်အရှင်မြတ်အား) ကမ္ဘာမြေဝယ် မစွမ်းဆောင်နိုင်အောင် ပြုစွမ်းနိုင်သူမဟုတ်ပြီ။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်အပြင် ထိုသူ၌ ကာကွယ်စောင့်ရှောက်အံ့သောသူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် ရှိလိမ့်မည်မဟုတ်ပြီ။ ထိုသူတို့ကား ထင်ရှားစွာသောလမ်းမှားမှု၌ပင်ရှိနေကြကုန်သတည်း။

اَوَلَمْ يَرَوْا اَنَّ اللّٰهَ الَّذِىْ خَلَقَ السَّمٰوٰتِ وَالْاَرْضَ وَلَمْ يَعْىَ بِخَلْقِهِنَّ بِقٰدِرٍ عَلٰٓى اَنْ يُّحْىِۦَ الْمَوْتٰى ۚ بَلٰٓى اِنَّهٗ عَلٰى كُلِّ شَىْءٍ قَدِيْرٌ ﴿٣٣﴾

၃၃။ မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူခဲ့သည်သာမက ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေတို့ကို ဖန်ဆင်းတော်မူသောကြောင့် ညောင်းညာမောပန်းတော်မူခြင်း မရှိခဲ့သော အလ္လာဟ်အရှင်မြတ်သည် သူသေတို့အား ရှင်စေခြင်းကို စွမ်းနိုင်တော်မူသောအရှင် ဖြစ်တော်မူကြောင်း၊ ၎င်းတို့သည် မစဉ်းစား မဆင်ခြင် မတွေ့မမြင်ခဲ့ကြလေသလော။ အဘယ်ကြောင့် မဟုတ်ပါသနည်း။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းနိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

وَيَوْمَ يُعْرَضُ الَّذِينَ كَفَرُوا عَلَى النَّارِ أَلَيْسَ هَٰذَا بِالْحَقِّ قَالُوا بَلَىٰ وَرَبِّنَا قَالَ فَذُوقُوا الْعَذَابَ بِمَا كُنتُمْ تَكْفُرُونَ ﴿٣٤﴾

၃၄။ ၎င်းပြင် 'ကာဖိရ်' သွေဖည်ငြင်းပယ်ကြကုန်သောသူတို့သည် ငရဲမီး၏ရှေ့သို့ ယူဆောင်လာခြင်းကို ခံကြရသောအခါ ဤသည် အဟုတ်အမှန်ပင် မဟုတ်ပါလော (ဟုမေးမြန်းခြင်းကို ခံကြရပေမည်။) ထိုအခါ ၎င်းတို့က 'ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ကစမ်၊ ဟုတ်ပါသည်' ဟု လျှောက်ထားကြပေမည်။ ထိုအရှင်မြတ်က 'သို့ဖြစ်လျှင် အသင်တို့သည် မိမိတို့ သွေဖည် ငြင်းပယ်ခဲ့ကြသောကြောင့် ပြစ်ဒဏ်ကို မြည်းစမ်းကြလေကုန်' ဟု မိန့်ကြားတော်မူပေမည်။

فَاصْبِرْ كَمَا صَبَرَ أُولُو الْعَزْمِ مِنَ الرُّسُلِ وَلَا تَسْتَعْجِل لَّهُمْ كَأَنَّهُمْ يَوْمَ يَرَوْنَ مَا يُوعَدُونَ لَمْ يَلْبَثُوا إِلَّا سَاعَةً مِّن نَّهَارٍ بَلَاغٌ فَهَلْ يُهْلَكُ إِلَّا الْقَوْمُ الْفَاسِقُونَ ﴿٣٥﴾

၃၅။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် စိတ်ဓာတ်ခိုင်မာသော (ဖွဲ့သတ္တိရှိကြသော) ရစူလ်တမန်တော်များနည်းတူ ခန္တီတရား ထားရှိပါလေ။ ထို့ပြင် အသင်သည် ၎င်းတို့နှင့်ပတ်သက်၍ အလျင်စလို မပြုပါလေနှင့်။ ၎င်းတို့သည် မိမိတို့ ချိန်းချက်ခြင်းခံကြရလေသော ပြစ်ဒဏ်ကို တွေ့မြင်ကြသောနေ့တွင် မိမိတို့မှာ (လောကီဘဝ၌) နေ့အချိန်၏ တစ်နာရီခန့်မျှ အချိန်ထက်ပိုမို၍ နေထိုင်ခဲ့ကြသည် မဟုတ်ဘိသကဲ့သို့ပင် (ထင်မှတ်ကြပေမည်။) (ဤသည် အလ္လာဟ်အရှင်မြတ်အထံတော်မှ အသင်တို့ထံ အမိန့်တော်များ) ပို့ဆောင်ခြင်းပင်။ သို့ဖြစ်ပေရာ သွေဖည်သောသူတို့သည်သာလျှင် ဖျက်ဆီးခြင်းကို ခံကြရကုန်အံ့သတည်း။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားတို့အား ဆိုး၊ ကောင်း၊ မှား၊ မှန်၊ လမ်း ၂-တန်ကို ပြတော်မူပြီးပြီ။ တရားဓမ္မ ဟောညွှန်ပြတော်မူပြီးပြီ။ ထိုအရှင်မြတ်၌ တာဝန်ကုန်ပြီ။ ထိုအရှင်မြတ်သည် မည်သူ့ကိုမျှ အကြောင်းမဲ့ အရေးယူတော်မူသည်မရှိ။ မိမိကိုယ်ကို မိမိစော်ကားသော၊ မိမိကိုယ်မိမိပျက်စီးရာ ပျက်စီးကြောင်း ပြုလုပ်သူများကိုသာလျှင် ထိုက်သည့်အားလျော်စွာ အရေးယူတော်မူသည်သာ ဖြစ်သည်။ သို့ဖြစ်ရာ အမိန့်တော်များကို သွေဖည်ငြင်းဆန် မနာခံသောသူများမှအပ အသူအရေးယူတော်မူခြင်းကို ခံရအံ့နည်း။

# မုဟမ္မဒ်ကဏ္ဍ



ဤကဏ္ဍသည် တမန်တော် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)၏အကြောင်း ပါဝင်သော ကဏ္ဍမည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်ပေါင်း (၃၈)ပါး၊ ရုကူအ် အပိုဒ်ပေါင်း(၄)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အနန္တ ကရုဏာတော်ရှင် ဖြစ်တော်မူသော၊ အစဉ်သနားကြင်နာ ညှာတာတော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

اَلَّذِيْنَ كَفَرُوْا وَصَدُّوْا عَنْ سَبِيْلِ اللّٰهِ اَضَلَّ اَعْمَالَهُمْ ①

၁။ အကြင်သူတို့သည် သွေဖည်ငြင်းပယ်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ ပိတ်ပင်တားဆီးခဲ့ကြကုန်၏။ ထိုအရှင်မြတ်သည် ၎င်းတို့၏ ကျင့်မူ ဆောင်ရွက်ချက်များကို အချည်းနှီး ဖြစ်စေတော်မူမည်။

وَالَّذِيْنَ اٰمَنُوْا وَعَمِلُوا الصّٰلِحٰتِ وَاٰمَنُوْا بِمَا نُزِّلَ عَلٰى مُحَمَّدٍ وَّهُوَ الْحَقُّ مِنْ رَّبِّهِمْ كَفَّرَ عَنْهُمْ سَيِّاٰتِهِمْ وَاَصْلَحَ بَالَهُمْ ②

၂။ သို့ရာတွင် အကြင်သူတို့သည် သက်ဝင်ယုံကြည်ခဲ့ကြ၏။ ကောင်းမှုများကို ကျင့်မူ ဆောက်တည်ခဲ့ကြ၏။ (နဗီတမန်တော်)မုဟမ္မဒ်၏အပေါ်၌ ချပေးတော်မူခြင်းခံခဲ့ရသည့်အရာကို စင်စစ် ထိုအရာသည် ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်မှ (ချပေးခြင်းခံရသော) အမှန်တရားပင် ဖြစ်သည်ဟု ယုံကြည်ခဲ့ကြ၏။ ထိုအရှင်မြတ်သည် ၎င်းတို့၏မကောင်းမှုများကို ၎င်းတို့မှ ပပျောက်စေတော်မူမည့်ပြင် ၎င်းတို့၏ အခြေအနေကိုလည်း ကောင်းအောင် ပြုပြင်ပေးတော်မူပေမည်။

ذٰلِكَ بِاَنَّ الَّذِيْنَ كَفَرُوا اتَّبَعُوا الْبَاطِلَ وَاَنَّ الَّذِيْنَ اٰمَنُوا

၃။ ဤသို့ဖြစ်ရခြင်းမှာ ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့သည် အမှားကို လိုက်နာခဲ့ကြသောကြောင့် လည်းကောင်း၊ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့

اتَّبَعُوا الْحَقَّ مِنْ رَّبِّهِمْ ۚ كَذٰلِكَ يَضْرِبُ اللّٰهُ لِلنَّاسِ اَمْثَالَهُمْ ۝٣

မှာ အမှန်တရားကို လိုက်နာခဲ့ကြသောကြောင့်လည်း ကောင်း၊ ဖြစ်ပေသည်။ အလ္လာဟ်အရှင်မြတ်သည် ဤနည်းအတိုင်းပင် လူတို့၏အကျိုးငှာ ၎င်းတို့၏ အခြေအနေများကို ခိုင်းနှိုင်း မိန့်ကြားထားတော်မူပေသတည်း။

فَاِذَا لَقِيْتُمُ الَّذِيْنَ كَفَرُوْا فَضَرْبَ الرِّقَابِ ۭ حَتّٰٓى اِذَآ اَثْخَنْتُمُوْهُمْ فَشُدُّوا الْوَثَاقَ ۤ فَاِمَّا مَنًّۢا بَعْدُ وَاِمَّا فِدَاۗءً

၄။ ယခုသော် အသင်တို့သည် 'ကာဖိရ်'သွေဖည် ငြင်းပယ်သော သူတို့နှင့်ရင်ဆိုင် တွေ့ကြသောအခါ လည်ကုပ်များကို ခုတ်ဖြတ်ကြလေကုန်။ နောက်ဆုံးတွင် အသင်တို့သည် ၎င်းတို့အား ကောင်းစွာ သတ်ဖြတ်ခဲ့ကြပြီးသောအခါ သုံ့ပန်းများကို ကြိုးများဖြင့် ကောင်းစွာ တုပ်နှောင်ကြလေကုန်။ ထို့နောက် တစ်ဖန် (အသင်တို့သည်) ကျေးဇူးပြုခြင်းအားဖြင့် (လျော်ကြေးမယူဘဲ ပြန်လွှတ်ခြင်းကို)သော်လည်း ကောင်း၊ လျော်ကြေးယူ၍ (ပြန်လွှတ်)ခြင်းကိုသော် လည်းကောင်း၊ (ပြုနိုင်ခွင့်ရှိ၏၊) [၁]

---

(၁) ဆိုလိုသည်ကား - အမှန်နှင့် အမှားသည် ပြိုင်ဆိုင်နေခဲ့သည်သာ ဖြစ်သည်။ အစဉ် ပြိုင်ဆိုင်နေမည်သာ ဖြစ်သည်။ သို့ဖြစ်ရာ မွတ်စ်လင်မ်များသည် မလွှဲမရှောင်သာသည့်အဆုံး၌ ကာဖိရ်များနှင့် ဂျိဟာဒ် ပြိုင်ဆိုင် တိုက်ခိုက်ကြလျှင် ဖွဲ့သတ္တိရှိစွာဖြင့် တိုက်ခိုက်ကြရမည်။

ကာဖိရ်အကြီးအကဲများကို မသုတ်သင် မရှင်းလင်းနိုင်သမျှ ကာလပတ်လုံး ကာဖိရ်အုပ်စုကို မဖြိုခွဲနိုင်သမျှ ကာလပတ်လုံး၊ ဓမ္မန္တာရယ်များ၏ရန်စွယ် ကျိုးမည် မဟုတ်ရာ။မွတ်စ်လင်မ်များသည် ကာဖိရ်များကို တိုက်ခိုက်ရာတွင် စိုးစဉ်မျှ တာဝန်မပျက်ကွက်ကြရာ သတ္တိမကြောင်ကြရာ၊ မတွေဝေကြရာ၊ သို့လော သို့လော မဖြစ်ကြရာ။

ကာဖိရ်များအား ကောင်းစွာ တိုက်ခိုက်ချေမှုန်းပြီးနောက် ကာဖိရ်များ၏အင်အားစု ပြိုကွဲပြီး မွတ်စ်လင်မ် တို့၏ အရှိန်အဝါ လွှမ်းမိုးလာသည့်အခါတွင် ကာဖိရ်များအား ဖမ်းဆီးချုပ်နှောင်ထားခြင်းသည်ပင် လုံလောက်ပေ သည်။ ဤအကြောင်းကို ကုရ်အာန် (၈း၆၇) တွင်လည်း မိန့်ဆိုထားတော်မူသည်။ ယင်းသို့ ဖမ်းဆီးချုပ်နှောင် ထားခြင်းအားဖြင့် ကာဖိရ်များအဖို့ သတိသံဝေဂလည်း ဖြစ်နိုင်လေသည်။

မွတ်စ်လင်များထံတွင် နီးကပ်စွာ နေထိုင်ကြရသည့်အတွက် ကာဖိရ်များသည် မွတ်စ်လင်မ်တို့၏ ဘဝအခြေအနေနှင့် အစ္စလာမ်၏ အဆုံးအမသြဝါဒများကို လေ့လာခွင့်လည်း ရရှိကြပေမည်။

ယင်းသို့ဖြင့် တဖြည်းဖြည်း အမြင်မှန်ရကာ၊ နောက်ဆုံးတွင် အစ္စလာမ်၏အမှန်တရားကို လက်ခံ လာကြပေမည်။ သို့တည်းမဟုတ် မွတ်စ်လင်မ်များသည် အခြေအနေအရ သင့်လျော်သည်ဟု ထင်မြင် ➤➤

حَتّٰى تَضَعَ الْحَرْبُ اَوْزَارَهَا ۛ ذٰلِكَ ۛ وَلَوْ يَشَاۤءُ اللّٰهُ لَانْتَصَرَ مِنْهُمْ وَلٰكِنْ لِّيَبْلُوَا۟ بَعْضَكُمْ بِبَعْضٍ ؕ وَالَّذِيْنَ قُتِلُوْا فِيْ سَبِيْلِ اللّٰهِ فَلَنْ يُّضِلَّ اَعْمَالَهُمْ ۝٤

စစ်မက်တိုက်ခိုက်မှုသည် လက်နက်ချသည့် တိုင်အောင် (၎င်းတို့နှင့်ပတ်သက်၍ အမိန့်တော်သည်) ဤအတိုင်း ဖြစ်၏။ စစ်စစ်သော်ကား အကယ်၍သာ အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူပါလျှင် (စစ်မက် တိုက်ခိုက်ရန် အမိန့်ထုတ်ပြန်ခြင်း ပြုတော်မမူဘဲ ကိုယ်တော်တိုင်) ၎င်းတို့အား လက်စားချေ အပြစ်ပေး တော်မူခဲ့မည်သာ။ သို့ရာတွင် ထိုအရှင်မြတ်သည် အသင်တို့အနက် အချို့ကို အချို့ဖြင့် စမ်းသပ်တော် မူအံ့သောငှာ (စစ်တိုက်ရန်အမိန့်တော်ကို ထုတ်ပြန်တော် မူခဲ့၏။) အမှန်သော်ကား အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သတ်ဖြတ်ခြင်းခံခဲ့ကြရသော သူတို့၏ ဆောင်ရွက်ချက်များကို ထိုအရှင်မြတ်သည် အလျှင်း အချည်းနှီး ဖြစ်စေတော်မူမည် မဟုတ်ပေ။

سَيَهْدِيْهِمْ وَيُصْلِحُ بَالَهُمْ ۝٥

၅။ ထိုအရှင်မြတ်သည် အမှန်ပင် ၎င်းတို့အား လမ်းမှန်သို့ ပို့ပေးတော်မူသည့်ပြင် ၎င်းတို့၏ အခြေအနေကို လည်း ကောင်းအောင်ပြုပြင်၍ ပေးတော်မူပေမည်။

وَيُدْخِلُهُمُ الْجَنَّةَ عَرَّفَهَا لَهُمْ ۝٦

၆။ ထိုမှတပါး ထိုအရှင်မြတ်သည် ၎င်းတို့အား 'ဂျန္နတ်' သုခဘုံသို့ ဝင်ရောက်စေတော်မူပေမည်။ ထိုအရှင်မြတ်သည် ယင်း 'ဂျန္နတ်' သုခဘုံကို ၎င်းတို့ အား (ကောင်းစွာ) သိထားစေတော်မူမည် ဖြစ်၏။

---

➢➢ ယူဆကြပါက လျော်ကြေးတစ်စုံတစ်ရာမယူဘဲ ကျေးဇူးပြုသည့်အနေဖြင့် ဖမ်းဆီးချုပ်နှောင်ထားသည့် ကာဖိရ် စစ်သုံ့ပန်းများအား ချုပ်နှောင်ထားခြင်းမှ လွတ်ငြိမ်းချမ်းသာခွင့်လည်း ပေးနိုင်ကြပေသည်။

သို့ကျေးဇူးပြုသောအားဖြင့် လွတ်ငြိမ်းချမ်းသာခွင့် ပေးကြပါက များစွာသော ကာဖိရ်များသည် မွတ်စ်လင်မ်တို့၏ကျေးဇူးနှင့် ကောင်းမြတ်သော စိတ်နေသဘောထားကို ရှုမြင်ပြီး မွတ်စ်လင်မ်တို့ဘက်သို့ ယိမ်းညွှတ်ကောင်း ယိမ်းညွှတ်လာကြပေမည်။ အစ္စလာမ်ကို မြတ်နိုးကောင်း မြတ်နိုးလာကြပေမည်။ သို့တည်း မဟုတ်၊ မွတ်စ်လင်မ်များသည် လျော်ကြေးယူ၍သော်လည်းကောင်း၊ စစ်သုံ့ပန်းချင်းလဲလှယ်သည့် အနေဖြင့်သော် လည်းကောင်း၊ ဖမ်းဆီးချုပ်နှောင်ထားသော ကာဖိရ် စစ်သုံ့ပန်းများကို လွှတ်ပေးလိုကလည်း လွှတ်ပေးနိုင်ကြပေ သည်။ ယင်းသို့ ပြုလုပ်ခြင်းဖြင့်လည်း အကျိုးအမျိုးမျိုး ထွက်နိုင်ပေသည်။

وَهُوَ الَّذِي كَفَّ أَيْدِيَهُمْ عَنكُمْ وَأَيْدِيَكُمْ عَنْهُم بِبَطْنِ مَكَّةَ مِن بَعْدِ أَنْ أَظْفَرَكُمْ عَلَيْهِمْ ۚ وَكَانَ اللَّهُ بِمَا تَعْمَلُونَ بَصِيرًا ﴿٢٤﴾

၂၄။ ထို့ပြင် ထိုအရှင်မြတ်သည်ပင် ထို('ကာဖိရ်' သွေဖည်ငြင်းပယ်သော)သူတို့၏လက်များကို အသင်တို့(အား အန္တရာယ်ပြုခြင်း)မှလည်းကောင်း၊ အသင်တို့၏လက်များကို ထိုသူတို့(အား အန္တရာယ်ပြုခြင်းမှလည်းကောင်း၊) မက္ကာမြို့တွင်း၌ အသင်တို့အား ထိုသူတို့အပေါ်ဝယ် အောင်မြင်စေတော်မူပြီး နောက်သော်မှပင် တားဆီးထားတော်မူခဲ့၏။ [၁] စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ပြုမူချက်တို့ကို ကောင်းစွာ ရှုမြင်တော်မူလျက် ရှိတော်မူခဲ့ပေသတည်း။

هُمُ الَّذِينَ كَفَرُوا وَصَدُّوكُمْ عَنِ الْمَسْجِدِ الْحَرَامِ وَالْهَدْيَ مَعْكُوفًا أَن يَبْلُغَ مَحِلَّهُ ۚ وَلَوْلَا رِجَالٌ مُّؤْمِنُونَ وَنِسَاءٌ مُّؤْمِنَاتٌ

၂၅။ ထိုသူတို့သည်ပင် အကြင်သူများတည်း။ ထိုသူတို့သည် သွေဖည်ငြင်းပယ်ခဲ့ကြကုန်၏။ ထို့ပြင် ထိုသူတို့သည် အသင်တို့အား 'မတ်စ်ဂျစ်ဒ်ဟရာမ်' ရှိသေအပ်သော ဗလီကျောင်းတော်မှ တားဆီးခဲ့ကြ၏။ ထို့ပြင် (ဟုဒိုင်ဗိယဟ်၌) တားဆီးခြင်းခံနေခဲ့ရသော ကုရ်ဗာနီ သားကောင်ကိုလည်း ယင်း၏ ရောက်ရှိရန်နေရာသို့ မရောက်စေရန် (တားဆီးခဲ့ကြကုန်)။

---

(၁) ဆိုလိုသည်ကား - ဟုဒိုင်ဗိယဟ်တွင် တမန်တော်မြတ် ခေတ္တဆိုင်းငံ့နေတော်မူစဉ်၊ တမန်တော်မြတ်အား အခွင့်သင့်က လုပ်ကြံရန်အတွက် မက္ကာမြို့တော်၌ ကာဖိရ်၊ မုရှ်ရစ်က်များ၏ တပ်စိတ်ကလေးများသည် ဟုဒိုင်ဗိယဟ်သို့ ရောက်ရှိလာခဲ့ကြ၏။ သို့ရောက်ရှိလာပြီး မွတ်စ်လင်မ်များအား ရန်စခဲ့ကြ၏။ မွတ်စ်လင်မ်တစ်ဦးကိုပင် သတ်ဖြတ်ခဲ့ကြသေး၏။ မွတ်စ်လင်မ်တို့အား မခံချိမခံသာဖြစ်စေသည့် စကားများကို ပြောဆိုကလိသွားခဲ့ကြသေး၏။ နောက်ဆုံးတွင် မွတ်စ်လင်မ်များသည် ယင်းကာဖိရ်တပ်စိတ်ကလေးကို အရှင်လတ်လတ်ဖမ်းဆီးပြီး တမန်တော်မြတ်ရှေ့တော်သို့ သွင်းခဲ့ကြ၏။ သို့တစေလည်း တမန်တော်မြတ်သည် သဘောထားကြီးစွာဖြင့် တစ်စုံတစ်ရာ အရေးယူတော်မမူဘဲ ၎င်းတို့အား လွတ်ငြိမ်းခွင့် ပေးတော်မူခဲ့လေသည်။ ဤအာယတ်တော်တွင် ယင်းသည့် ဖြစ်ရပ်များကိုပင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

အဆိုတစ်ရပ်အရ အထက်ဖော်ပြပါ ဖြစ်ရပ်သည် မက္ကာမြို့တော်ကို ပြန်လည်အောင်နိုင်သည့်နေ့တွင် ဖြစ်ပေါ်ခဲ့ခြင်း ဖြစ်သည်။ ကြည့် - အဗူစုအူဒ်။

لَّمْ تَعْلَمُوهُمْ أَن تَطَـُٔوهُمْ فَتُصِيبَكُم مِّنْهُم مَّعَرَّةٌۢ بِغَيْرِ عِلْمٍ ۖ لِّيُدْخِلَ ٱللَّهُ فِى رَحْمَتِهِۦ مَن يَشَآءُ ۚ لَوْ تَزَيَّلُوا۟ لَعَذَّبْنَا ٱلَّذِينَ كَفَرُوا۟ مِنْهُمْ عَذَابًا أَلِيمًا ﴿٢٥﴾

စင်စစ်သော်ကား အကယ်၍သာ အသင်တို့ မသိခဲ့ကြသော (မြောက်မြားစွာသော)'မုအ်မင်န်' သက်ဝင်ယုံကြည်သူ ယောကျ်ား မိန်းမတို့အား တက်နင်းမိကြသဖြင့် ၎င်းတို့ကြောင့် အသင်တို့၌ အပြစ်သက်ရောက်မည်ကို မစိုးရိမ်ရပါလျှင် (အလုံးစုံသောကိစ္စတို့မှာ စီရင်ဆုံးဖြတ်ပြီး ဖြစ်ခဲ့မည်သာ။ သို့ရာတွင် ယင်းကဲ့သို့ မဖြစ်ခဲ့သည်မှာ) အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား မိမိကရုဏာတော်တွင်းသို့ ဝင်ရောက်စေတော်မူရန်ပင် ဖြစ်ခဲ့ပေသည်။ [၁]

အကယ်၍သာ ထို(မုစ်လင်မ် ယောကျ်ား မိန်းမတို့မှာ ကာဖိရ်များနှင့်) ခွဲခြား သိသာနိုင်ခဲ့ကြပါလျှင် ငါအရှင်မြတ်သည် ၎င်းတို့အနက် သွေဖည်ငြင်းပယ်ခဲ့ကြကုန်သော သူတို့အား ပြင်းပြစွာသော ပြစ်ဒဏ်ကို အမှန်ပင် ပေးတော်မူခဲ့မည်သာ။

---

(၁) ဟုဒိုင်ဗိယဟ်တွင် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်စဉ် မွတ်စ်လင်မ်တို့အား ဂျိဟာဒ်ပြုလုပ်ခွင့် ပြုတော်မမူဘဲ စစ်ဖြစ်ပွားမှုကို တားဆီးတော်မူခဲ့ခြင်း၏ အကြောင်းမှာ - ထိုအချိန်တွင် မက္ကာမြို့၌ ဖိနှိပ်ချုပ်ချယ်ခြင်း ခံနေကြရရှာသော မွတ်စ်လင်မ်အမျိုးသမီး၊ အမျိုးသားများ ရှိနေခဲ့ကြ၏။ မွတ်စ်လင်မ်များသည် ၎င်းတို့အား ကောင်းစွာ မသိခဲ့ကြပေ။ ထိုသို့သော အခြေအနေတွင် စစ်ဖြစ်ပွားခဲ့ပါက မွတ်စ်လင်မ်များသည် မွတ်စ်လင်မ်များကို အချင်းချင်း မသိကြသည့်အတွက် ချေမှုန်းမိကြပေမည်။ သို့ဖြစ်ရပါက မွတ်စ်လင်မ်များသည်ပင် ဝမ်းနည်းကြေကွဲကြရပေမည်။ ထို့ပြင်တစ်ဝ ကျောင်းတော်ကိုလည်း မရှိမသေပြုရာ ရောက်ကြပေမည်။ ၎င်းနောက် ကာဖိရ်များကလည်း မွတ်စ်လင်မ်များသည် ၎င်းတို့အချင်းချင်းပင် မထောက်ထား မညှာတာဘဲ သတ်ဖြတ်ရက်ကြသည်ဟူ၍ ကဲ့ရဲ့ပြစ်တင် ပြောဆိုကြပေဦးမည်။

အထက်ဖော်ပြပါ အကြောင်းများကြောင့်ပင် အလ္လာဟ်အရှင်မြတ်သည် စစ်ဖြစ်ပွားမှုကို ပိတ်ပင်တားဆီးထားတော်မူခဲ့ခြင်း ဖြစ်ပေသည်။သို့စစ်မဖြစ်ပွားခဲ့သည့်အတွက် မက္ကာမြို့တွင်းရှိ မွတ်စ်လင်မ်များသည်လည်း အသက်ဘေးမှလွတ်မြောက်သွားခဲ့ကြရပေသည်။

တမန်တော်မြတ်နှင့် အတူတကွ လိုက်ပါလာခဲ့ကြသော မွတ်စ်လင်မ်များသည်လည်း သူမတူအောင် သည်းခံချုပ်တည်းနိုင်ခဲ့ ကြသည့်အတွက် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို ခိုလှုံခဲ့ကြရပေသည်။ ထို့ပြင်တစ်ဝ ကာဖိရ်များအနက် မွတ်စ်လင်မ်ဖြစ်ရန် (တတ်ကဒီရ်) ခေါ် အလ္လာဟ်အရှင်မြတ်၏ စီမံကိန်း၌ ပါရှိပြီးဖြစ်သော သူများသည်လည်း စစ်၏ဘေးဒဏ်မှ လွတ်မြောက်ပြီး အစ္စလာမ်အတွင်းသို့ ဝင်လာနိုင်ကြပေမည်။

إِذْ جَعَلَ الَّذِينَ كَفَرُوا فِي قُلُوبِهِمُ الْحَمِيَّةَ حَمِيَّةَ الْجَاهِلِيَّةِ فَأَنزَلَ اللَّهُ سَكِينَتَهُ عَلَىٰ رَسُولِهِ وَعَلَى الْمُؤْمِنِينَ وَأَلْزَمَهُمْ كَلِمَةَ التَّقْوَىٰ وَكَانُوا أَحَقَّ بِهَا وَأَهْلَهَا ۚ وَكَانَ اللَّهُ بِكُلِّ شَيْءٍ عَلِيمًا ﴿٢٦﴾

၂၆။ (ပြန်လည် သတိရကြလေကုန်။) အကြင် အခါဝယ် 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူတို့သည် မိမိတို့၏ စိတ်နှလုံးများတွင် အမိုက်ခေတ်၏ အစွဲ အလမ်းကြီးမှုကို ထားရှိခဲ့ကြကုန်၏။ ထိုအခါ အလ္လာဟ် အရှင်မြတ်သည် မိမိရစူလ်တမန်တော်၏ အပေါ်၌ လည်းကောင်း၊ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့၏ အပေါ်၌လည်းကောင်း၊ *မိမိအထံတော်မှ စိတ်တည်ငြိမ်မှု (သည်းခံမှု)ကို ချပေးသနားတော်မူခဲ့၏။* ၁ ၎င်းပြင် ထိုအရှင်မြတ်သည် ၎င်းတို့အပေါ်၌ ကြဉ်ရှောင်ရန် ဟူသောစကားကို အတည်ပြုတော်မူခဲ့၏။(၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား (တာက်ဝါ) တရားအပေါ်၌ ရပ်တည်စေတော်မူခဲ့၏။)

စင်စစ်သော်ကား ထိုသူတို့သည် ယင်းစကား နှင့် ထိုက်တန်သူများသည်လည်းကောင်း၊ ကိုက်ညီ သူများသည်လည်းကောင်း၊ ဖြစ်ခဲ့ကြကုန်၏။ အမှန် စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည် အရာ ခပ်သိမ်းတို့ကို ကောင်းစွာသိတော်မူသော အရှင်မြတ် ပင် ဖြစ်တော်မူပေသတည်း။

---

(၁) ဆိုလိုသည်ကား - မက္ကာမြို့သား ကာဖိရ်များ၏ စိတ်နှလုံးများတွင် (ဟမီယတုလ် ဂျာဟိလီယဟ်) အမိုက်ခေတ်၏ အစွဲအလမ်းကြီးမှု၊ မောက်မာမှု၊ ဖွတ်တရွတ်ပြုမှုသည် ယခုထက်တိုင် ငြိတွယ်လျက်ရှိ၏။ ယင်းသည့် မောက်မာ၊ ဖွတ်တရွတ်ပြုမှုကြောင့်ပင် ကာဖိရ်များက စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုရာတွင် တမန်တော်မြတ်နှင့်တကွ မွတ်စ်လင်မ်များသည် ယခုနှစ်တွင် အွမ်ရဟ်မပြုကြရ။ မက္ကာမြို့မှ မွတ်စ်လင်မ် တစ်ဦးတစ်ယောက်သည် (ဟစ်ဂျ်ရတ်) ရွှေ့ပြောင်းသွားခဲ့ပါသော် တမန်တော်မြတ် ပြန်လည်ပို့ပေးရမည်။

မွတ်စ်လင်မ်များသည် နောင်နှစ် အွမ်ရဟ်ပြုရန် လာကြပါက မက္ကာမြို့တော်တွင် သုံးရက်သာလျှင် နေကြရမည်။ သို့လာရာတွင်လည်း လက်နက်များကို တပ်ဆင်ဆွဲကိုင် မလာကြရ။ စစ်ပြေငြိမ်းရေး စာချုပ်တွင်လည်း ( بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ ) 'ဗစ်မိလ္လာဟိရ်ရဟ္မာနိရ်ရဟီမ်' ဟူ၍ မရေးကြရ။ တမန်တော်မြတ်၏ အမည်နှင့်တွဲ၍ (رسول الله) 'ရစူလ်လုလ္လာဟ်' အလ္လာဟ်အရှင်မြတ်၏ တမန်တော်ဟူ၍ မရေးကြရ။ (ابن عبد الله) 'အစ်ဗ်နု အဗ်ဒုလ္လာဟ်' အဗ်ဒုလ္လာဟ်၏သား ဟူ၍သာ ရေးကြရမည် စသည်ဖြင့် တစ်ဖက်သတ်ကျူလွန်းလှသော စည်းကမ်းများကို မတရား တောင်းဆို ခဲ့ကြခြင်းဖြစ်သည်။ ➤➤

لَقَدْ صَدَقَ اللّٰهُ رَسُوْلَهُ الرُّءْيَا بِالْحَقِّ لَتَدْخُلُنَّ الْمَسْجِدَ الْحَرَامَ اِنْ شَآءَ اللّٰهُ اٰمِنِيْنَ مُحَلِّقِيْنَ رُءُوْسَكُمْ وَمُقَصِّرِيْنَ لَا تَخَافُوْنَ فَعَلِمَ مَا لَمْ تَعْلَمُوْا فَجَعَلَ مِنْ دُوْنِ ذٰلِكَ فَتْحًا

၂၇။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် မိမိ ရစူလ်တမန်တော်၏ အိပ်မက်ကို အဖြစ်မှန်နှင့်အညီ မှန်ကန်စေတော်မူခဲ့၏။ ① (ယင်းအိပ်မက်မှာ) 'မလွဲ ဧကန် အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူခဲ့လျှင် အသင်တို့သည် မိမိတို့၏ဦးခေါင်းများကို ရိတ်ကြလျက်၊ ဆံပင်များကို ညှပ်ကြလျက် (မည်သည့် တစ်စုံတစ်ရာကိုမျှပင်) စိုးရိမ်ကြောက်ရွံ့ခြင်း မရှိကြဘဲ ဘေးရန်ကင်းငြိမ်းစွာ 'မတ်စ်ဂျစ်ဒ်ဟရာမ်' ရှိသေအပ်သော ပလီဝတ်ကျောင်းတော်သို့ ဝင်ရောက်ကြမည်' (ဟု ဖြစ်ခဲ့၏။)

---

➢➢ တမန်တော်မြတ်သည် ယင်းသည့် တောင်းဆိုချက် အားလုံးကို လက်ခံတော်မူခဲ့၏။ မွတ်စ်လင်မ်များသည် လုံးဝမကျေနပ်ခဲ့ကြသော်လည်း တမန်တော်မြတ်၏ အဆုံးအဖြတ်ရှေ့တွင် ဦးညွှတ်ခဲ့ကြ၏။ နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် မိမိထံတော်မှ စိတ်တည်ငြိမ်မှုကို ချပေးတော်မူရာ မွတ်စ်လင်မ်များသည် တမန်တော်မြတ်၏ အဆုံးအဖြတ်ကို ကြည်ဖြူစွာကျေနပ်သွားခဲ့ကြလေသည်။

① ဤကဏ္ဍ၏ ပထမ အာယတ်တော်၏ အဖွင့်တွင် ရေးသားဖော်ပြပြီးဖြစ်သည့်အတိုင်း တမန်တော်မြတ်သည် မဒီနာမြို့တွင် 'ငါတို့သည် မက္ကာမြို့တော်သို့ အေးချမ်းသာယာစွာ သွားရောက်၍ အွမ်ရဟ် ပြုလုပ်ကြသည်'ဟူ၍ အိပ်မက် မြင်မက်တော်မူခဲ့၏။ မက္ကာမြို့တော်သို့ သွားရောက်ကြရမည့် အချိန်ကာလကိုမူ သတ်မှတ်ပြတော်မူခဲ့သည် မဟုတ်ပေ။ထိုသည့် အိမ်မက်အရ များစွာသော တပည့်သာဝကများက ငါတို့သည် ဤနှစ်အတွင်းမှာပင် မက္ကာမြို့တော်သို့ သွားရောက် အွမ်ရဟ်ပြုကြရတော့မည်ဟု ထင်မှတ်နေခဲ့ကြ၏။

အကြောင်းအားလျော်စွာ တမန်တော်မြတ်၌လည်း ဤနှစ်အတွင်းပင် အွမ်ရဟ်ပြုလုပ်ရန် ဆန္ဒဖြစ်ပေါ်လာခဲ့၏။ သို့နှင့် ဟုဒိုင်ဗိယဟ်တွင် စစ်ပြေငြိမ်းရေး စာချုပ် ချုပ်ဆိုပြီး ပြန်လာကြသည့်အခါ အချို့တပည့်သားများက တမန်တော်မြတ်ထံတွင် 'ငါတို့သည် မက္ကာမြို့တော်သို့ အေးချမ်းသာယာစွာ သွားရောက်ကြပြီး၊ အွမ်ရဟ်ပြုလုပ်ကြမည်ဟူ၍ တမန်တော်မြတ် မိန့်ကြားတော်မူခဲ့သည် မဟုတ်ပါလောဟု မေးလျှောက်ကြရာ၊ တမန်တော်မြတ်က 'ယင်းသို့ပြောခဲ့သည်မှာ မှန်ပါသည်။ သို့ရာတွင် ဤနှစ်အတွင်းမှာပင်ဟူ၍ ငါကပြောခဲ့ပါသလော' ဟု မေးမြန်းတော်မူရာ တပည့်သာဝကများက ထိုသို့ မိန့်ကြားတော်မူခဲ့သည် မရှိပါဟု လျှောက်ထားခဲ့ကြ၏။ ထိုအခါ တမန်တော်မြတ်က သို့ဖြစ်လျှင် ငါ၏အိမ်မက်အရ တစ်ရက် အသင်တို့သည် အေးချမ်းစွာ မက္ကာမြို့တော်သို့ မုချသွားရောက်ကြရမည်ဖြစ်သည်ဟု မိန့်တော်မူခဲ့လေသည်။ သို့မိန့်ကြားတော်မူခဲ့သည့်အတိုင်း တမန်တော်မြတ်နှင့်တကွ မွတ်စ်လင်မ်များသည် နောက်နှစ်တွင် ဟိဂျ်ရီသက္ကရာဇ် (၇)ခုနှစ်၊ ဇူကအ်ဒဟ်လ၌ မက္ကာမြို့တော်သို့ အေးချမ်းစွာ သွားရောက်၍ အွမ်ရဟ်ပြုခဲ့ကြလေသည်။ ဤသည်ကိုပင် ဤအာယတ်တော်တွင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

قَرِيبًا ﴿٢٧﴾

စင်စစ်မှာမူကား ထိုအရှင်မြတ်သည် အသင်တို့ မသိခဲ့ကြသောအရာကို သိရှိတော်မူခဲ့၏။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် ယင်းမက္ကာမြို့တော်၏ အလျင် နီးကပ်စွာသောအောင်မြင်မှုတစ်ရပ်ကို ချီးမြှင့် ပေးသနားတော်မူခဲ့၏။ [၁]

هُوَ الَّذِيٓ أَرْسَلَ رَسُولَهُۥ بِالْهُدَىٰ وَدِينِ الْحَقِّ لِيُظْهِرَهُۥ عَلَى الدِّينِ كُلِّهِۦ ۚ وَكَفَىٰ بِاللَّهِ شَهِيدًا ﴿٢٨﴾

၂၈။ ထိုအရှင်မြတ်သည် အကြင်အရှင်မြတ်ပင်။ ထိုအရှင်မြတ်သည် မိမိရစူလ်တမန်တော် 'မုဟမ္မဒ်' (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား တရားလမ်းညွှန်နှင့်တကွလည်းကောင်း၊ မှန်ကန်သော 'ဒီန်' သာသနာတော်နှင့်တကွလည်းကောင်း၊ ယင်းသာသနာတော်ကို အားလုံးသော သာသနာတို့ထက်ဝယ် လွှမ်းမိုးစေတော်မူအံ့သောငှာ စေလွှတ်တော်မူခဲ့၏။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည်ပင် သက်သေအဖြစ်လုံလောက်တော်မူပေသတည်း။

مُّحَمَّدٌ رَّسُولُ اللَّهِ ۚ وَالَّذِينَ مَعَهُۥٓ أَشِدَّآءُ عَلَى الْكُفَّارِ رُحَمَآءُ بَيْنَهُمْ ۖ تَرَىٰهُمْ رُكَّعًا سُجَّدًا يَبْتَغُونَ فَضْلًا مِّنَ اللَّهِ وَرِضْوَٰنًا ۖ سِيمَاهُمْ

၂၉။ မုဟမ္မဒ် [၂] သည် အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော် ဖြစ်သည်။ ၎င်းပြင် ထို 'မုဟမ္မဒ်' နှင့်အတူတကွ ရှိကြကုန်သော သူတို့သည် 'ကာဖိရ်' သွေဖည်ငြင်းပယ်သူတို့နှင့်ပတ်သက်လျှင် ပြင်းထန်သူများဖြစ်ကြပြီး မိမိတို့အချင်းချင်း(ဆက်ဆံရာတွင်) သနားကြင်နာသူများပင် ဖြစ်ကြကုန်၏။ [၂]

---

(၁) တမန်တော်မြတ်၏ အိမ်မက်အရ ချက်ချင်း အွမ်ရဟ်ပြုခွင့် မရရှိဘဲ တစ်နှစ်ကြာပြီးနောက်မှ အွမ်ရဟ်ပြုလုပ်ခွင့် ရခြင်း၌လည်း အကျိုးအမျိုးမျိုးရှိသည်။ ယင်းတို့ကို အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။ လူသားတို့ မသိကြပေ။ အိမ်မက်အရ ချက်ချင်းအွမ်ရဟ် မပြုခဲ့ကြရသည်ကို ပြန်လည် ဖြည့်တင်းနိုင်ရန် အလို့ငှာ အလ္လာဟ်အရှင်မြတ်သည် မွတ်စ်လင်မ်တို့အား ခိုင်ဗရ်ကို အောင်နိုင်စေတော်မူခဲ့လေသည်။ ဤအာယတ်တော်တွင် ပါရှိသည့် နီးကပ်လျက်ရှိသော အောင်မြင်မှုဟူသည် ခိုင်ဗရ်အောင်မြင်မှုကိုပင် ဆိုလိုသည်။ ကြည့်-မာဂျိဒီ။

(၂) **တမန်တော်မြတ် မုဟမ္မဒ်။**

တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော် ဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံးသည် တမန်တော်မြတ်အပေါ်၌ ကျခဲ့ပေရာ၊ ➢➢

فِي وُجُوهِهِم مِّنْ أَثَرِ السُّجُودِ ذَٰلِكَ مَثَلُهُمْ فِي التَّوْرَاةِ وَمَثَلُهُمْ فِي الْإِنجِيلِ كَزَرْعٍ أَخْرَجَ شَطْأَهُ فَآزَرَهُ فَاسْتَغْلَظَ فَاسْتَوَىٰ عَلَىٰ سُوقِهِ يُعْجِبُ الزُّرَّاعَ لِيَغِيظَ بِهِمُ الْكُفَّارَ وَعَدَ اللَّهُ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ مِنْهُم مَّغْفِرَةً وَأَجْرًا عَظِيمًا ﴿٢٩﴾

အသင်သည် ၎င်းတို့အား (ရံဖန်ရံခါ) 'ရုကူအ်' ဦးညွတ်ကြလျက် (ရံဖန်ရံခါ) 'စဂျ်ဒဟ်' ပျပ်ဝပ်ဦးချကြလျက်၊ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကိုလည်းကောင်း၊ (ထိုအရှင်မြတ်၏)နှစ်သက်ကျေနပ်မှုကိုလည်းကောင်း၊ ဖွေရှာဆည်းပူးလျက် ရှိကြသည်ကို တွေ့မြင်ရပေမည်။

၎င်းတို့၏ အမှတ်လက္ခဏာကား 'စဂျ်ဒဟ်' ပျပ်ဝပ်ဦးချခြင်းကြောင့် ၎င်းတို့၏ မျက်နှာများတွင် ထင်ပေါ်လျက် ရှိနေပေ၏။ ထိုသည်ကား 'တောင်ရာတ်' ကျမ်းတော်၌လာရှိသော ၎င်းတို့၏ထူးခြားချက်ပင်။ ထိုမှတစ်ပါး 'အင်န်ဂျီလ်' ကျမ်းတော်၌ လာရှိသော ၎င်းတို့၏ ထူးခြားချက်မှာကား (ဤသို့တည်း။) မျိုးစေ့နှင့်ပမာတူ၏။ ယင်းမျိုးစေ့သည် မိမိ၏ အစို့အညှောက်ကို ထွက်စေခဲ့၏။ ထို့နောက် မိမိအစို့အညှောက်ကို သန်စွမ်းစေခဲ့၏။

➤➤ ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံးသည်ပင် တမန်တော်မြတ်နှင့် ဆက်စပ်လျက်ရှိပေသည်။

တမန်တော်မြတ်၌ ဘွဲ့နာမည်များသည် အများအပြားရှိပေသည်။ တမန်တော်မြတ်၏ ကျော်ကြားသော နာမံတော်များမှာ 'မုဟမ္မဒ်' နှင့် 'အဟ်မဒ်' ပင်ဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ်တွင် 'မုဟမ္မဒ်' ဟူသော နာမံတော်ကို (၄)နေရာတွင် တွေ့ရှိသည်။

② ဆိုလိုသည်ကား သာသနာရေးတွင် လျော့လျည်းမဖြစ်ရာ။ တမန်တော်မြတ်နှင့်အတူ ရှိခဲ့ကြသော (ဆွဟာဗဟ်) တပည့်သား မွတ်စ်လင်မ်များသည် ကာဖိရ်များနှင့် မှားမှန်ပြိုင်ဆိုင်ရာတွင် အလွန်ပြတ်သားခဲ့ကြပေသည်။ လျော့လျည်း မဖြစ်ခဲ့ကြပေ။ မပျော့ခဲ့ကြပေ။ ကြည့်-ကုရ်အာန် (၉း၁၂၃။ ၉း၇၃။ ၅း၅၄)

မွတ်စ်လင်မ် အချင်းချင်း ဆက်ဆံရာတွင် အလွန်နူးညံ့ သိမ့်မွေ့ခဲ့ကြပေသည်။

( الحُبّ فى الله والبغض فى الله )

'အလ္လာဟ်အရှင်မြတ်အတွက်ပင် ချစ်၊ အလ္လာဟ်အရှင်မြတ်အတွက်ပင် မုန်း' ဟူသော ဩဝါဒတော်၏ အနက်သဘော မှာလည်း ဤသည်ပင်။

ဤဒေသနာတော်သည် မွတ်စ်လင်မ်တိုင်းနှင့် သက်ဆိုင်ပေသည်။ ဤဒေသနာတော်ပါ ဂုဏ်ရည်များကို တမန်တော်မြတ်၏ တပည့်သားများတွင် အထူးသဖြင့် ဟုဒိုင်ဗိယဟ် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုရာ၌ ပါဝင်ခဲ့ကြသော တပည့်သားများတွင် အပြည့်အဝ တွေ့ရှိရပေသည်။

ထို့နောက် ထိုအညှောက်အစို့မှာ တုတ်ခိုင်၍ လာပြီးလျှင် မိမိပင်ရိုး၊ ပင်တံ၊ ပင်စည်၊ ပင်မပေါ်၌ တည့်မတ်စွာ ထောင်တက် လာခဲ့ပေရာ လယ်သမားတို့အား အထူးနှစ်မြို့ အကြည်ဆိုက်စေခဲ့၏။ (ယင်းသို့ ဖြစ်စေတော်မူခြင်းမှာ) ထို(မုဟမ္မဒ်၏အပေါင်းအဖော်)တို့ဖြင့် 'ကာဖိရ်' သွေဖည်ငြင်းပယ်သူတို့အား အမျက်ဒေါသထွက်စေရန် ဖြစ်ပေသည်။

အလ္လာဟ်အရှင်မြတ်မှာမူကား 'အီမာန်' သက်ဝင်ယုံကြည်ပြီးနောက် ကောင်းမှုများကို ကျင့်မူ ဆောက်တည်ကြကုန်သောသူတို့အား ခွင့်လွှတ်ချမ်းသာပေးတော်မူရန်နှင့် *ကြီးကျယ်လှစွာသော အကျိုးကို ချီးမြှင့်ပေးသနားတော်မူရန်ကတိပေးတော်မူခဲ့ပေသတည်း။* [၁]

---

(၁) **အလ္လာဟ်အရှင်မြတ်၏ ကတိတော်။**

အလ္လာဟ်အရှင်မြတ်အား စိတ်စေတနာ ဖြူစင်စွာဖြင့် အီမာန်သက်ဝင်ယုံကြည်၍ ထိုအရှင်မြတ်၏ အမိန့်တော်နှင့် လျော်ညီစွာ ကောင်းမြတ်သော အကျင့်သီလများကို ဆောက်တည်ကြကုန်သော သူမွန်သူမြတ်တို့အား အလ္လာဟ်အရှင်မြတ်က လွတ်ငြိမ်းချမ်းသာခွင့် ပေးတော်မူမည့်အကြောင်း၊ မြင့်မြတ်သော ဆုလာဘ်တော်များကို ချီးမြှင့်တော်မူမည့် အကြောင်း ဤအာယတ်တော်တွင် အတိအလင်း ကတိပြုထားတော်မူသည်။ တမန်တော်မြတ်၏ တပည့်သားအားလုံးတို့သည် ဤအာယတ်တော်လာ ဂုဏ်ရည်များနှင့် ကိုက်ညီခဲ့ကြသည်သာ ဖြစ်ပေသည်။

အလ္လာဟ်အရှင်မြတ်၏ ကတိတော်သည် မှန်ကန်သည်ချည်းသာဖြစ်ပေရာ၊ ကျွန်ုပ်တို့သည် ဉာဏ်စွမ်းရှိသမျှ၊ ကိုယ်စွမ်းရှိသမျှ ဤအာယတ်တော်နှင့် လျော်ညီစွာ လိုက်နာကျင့်မူကြရာသတည်း။

# အတွင်းဆောင်များကဗ္ဗာ




ဤကဗ္ဗာသည် "စူရဟ်တုလ် ဟုဂျုရာတ်" အတွင်းဆောင်များ ကဗ္ဗာမည်၏။
မဒီနာမြို့၌ ကျရောက်ခဲ့၏။
ဤကဗ္ဗာတွင် အာယတ်တော် (၁၈)ပါး၊ ရကူအ် အပိုဒ်(၂)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အနန္တ ကရုဏာတော်ရှင် ဖြစ်တော်မူသော၊
အစဉ်သနားကြင်နာ ညှာတာတော်မူသော၊
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

يٰۤاَيُّهَا الَّذِيْنَ اٰمَنُوْا لَا تُقَدِّمُوْا بَيْنَ يَدَىِ اللّٰهِ وَرَسُوْلِهٖ وَاتَّقُوا اللّٰهَ ۭ اِنَّ اللّٰهَ سَمِيْعٌ عَلِيْمٌ ①

၁။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် (မည့်သည့်ကိစ္စ၌မဆို) အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်၌လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်၏ရှေ့၌လည်းကောင်း၊ ရှေ့သို့ *မကျော်တက်ကြကုန်လင့်*။ [၁] ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် (အလုံးစုံသော ပြောဆိုမှုတို့ကို) အကြွင်းမဲ့ကြားတော်မူသောအရှင်၊ (အလုံးစုံသော အခြေအနေ၊ အပြုအမူ၊ အတွင်းအပြင်တို့ကို) အကြွင်းမဲ့သိတော်မူသောအရှင် ဖြစ်တော်မူပေသည်။

---

(၁) ဆိုလိုသည်ကား - အကြောင်ကိစ္စတစ်ရပ်တွင် ယင်းကိစ္စနှင့် စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ ဘမန်တော်မြတ်ထံတော်မှ အမိန့်၊ အဆုံးအဖြတ် ရဖွယ်ရှိပါက ယင်းကိစ္စမျိုးတွင် အလျင်စလို မပြုရာ၊ ရှေ့မရောက်ရာ၊ ကြိုတင်၍ အဆုံးအဖြတ် မပေးရာ။ အလ္လာဟ်အရှင်မြတ်ထံတော်မှ အမိန့်တော်ကို စောင့်မျှော်ရမည်။

တမန်တော်မြတ်က တစ်စုံတစ်ရာ မိန့်ကြားတော်မူပါလျှင် ဆိတ်ငြိမ်စွာ နားထောင်ရမည်။ တမန်တော်မြတ် မိန့်ကြားတော်မမူမီ အလျင် တစ်စုံတစ်ရာ မပြောဆိုရာ။ တမန်တော်မြတ်က တစ်စုံတစ်ရာ မိန့်ကြားတော်မူပါလျှင် ထိုအမိန့်ကို ကြည်ဖြူစွာ နာယူရမည်။ ကြက်တွန့်မတက်ရာ၊ ဆုတ်ဆိုင်း ဖင့်နွှဲခြင်း အလျှင်းမရှိစေရာ။ မိမိ၏ အလိုဆန္ဒ၊ မိမိ၏အကြံဉာဏ်များကို တမန်တော်မြတ်၏ အမိန့်တော်များထက် မေ့မှား၍မျှ ဦးစားမပေးရာ၊ ရှေ့မထားရာ။ မိမိ၏ အာသာဆန္ဒများကို အခါခပ်သိမ်း အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်၏ အမိန့်တော်များ၏ နောက်လိုက်သာ ဖြစ်စေရာသတည်း။

يَاَيُّهَا الَّذِيْنَ اٰمَنُوْا لَا تَرْفَعُوْٓا اَصْوَاتَكُمْ فَوْقَ صَوْتِ النَّبِيِّ وَلَا تَجْهَرُوْا لَهٗ بِالْقَوْلِ كَجَهْرِ بَعْضِكُمْ لِبَعْضٍ اَنْ تَحْبَطَ اَعْمَالُكُمْ وَاَنْتُمْ لَا تَشْعُرُوْنَ ﴿٢﴾

၂။ အို-မုအ်မင်န် သက်ဝင် ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် မိမိတို့၏အသံများကို နဗီတမန်တော်၏အသံထက် မကျယ်မမြင့် စေကြကုန်လင့်။ ထိုမှတပါး အသင်တို့သည် မိမိတို့အချင်းချင်း တစ်ဦးကိုတစ်ဦး ဟစ်အော်ကျယ်လောင်စွာ ပြောဆိုသကဲ့သို့ ထိုနဗီတမန်တော်နှင့် စကားပြောဆိုရာ၌ ဟစ်အော်ကျယ်လောင်စွာ ပြောဆိုခြင်းကို မပြုကြကုန်လင့်။ (သို့ပြုကြလျှင်) အသင်တို့ မသိကြဘဲလျက် အသင်တို့၏အပြုအမူများသည် အချည်းနှီးဖြစ်သွားပေမည်။[၁]

اِنَّ الَّذِيْنَ يَغُضُّوْنَ اَصْوَاتَهُمْ عِنْدَ رَسُوْلِ اللّٰهِ اُولٰٓئِكَ الَّذِيْنَ امْتَحَنَ اللّٰهُ قُلُوْبَهُمْ لِلتَّقْوٰى ۭ لَهُمْ مَّغْفِرَةٌ وَّاَجْرٌ عَظِيْمٌ ﴿٣﴾

၃။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်၏ရှေ့ဝယ် မိမိတို့၏အသံများကို နှိမ့်ချကြကုန်သောသူတို့သည်အကြင်သူများပင်။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏စိတ်နှလုံးများကို ပြစ်မှုများမှ ကြဉ်ရှောင်ခြင်းငှာ ရွေးချယ်တော်မူခဲ့၏။ ထိုသူတို့အဖို့ လွတ်ငြိမ်းချမ်းသာခွင့်သည်လည်းကောင်း၊ ကြီးကျယ်လှစွာသောအကျိုးသည်လည်းကောင်း၊ ရှိချေသတည်း။

---

(၁) ဆိုလိုသည်ကား - တမန်တော်မြတ်၏ ရှေ့မှောက်တွင် ဆူဆူညံညံမပြုရာ ဟစ်အော် ကျယ်လောင်စွာ မပြောဆိုရာ။ အချင်းချင်း အားမနာတမ်း ပြောဆိုသကဲ့သို့ တမန်တော်မြတ်နှင့် ဆက်ဆံရာတွင် ယင်းသို့ ပြောဆိုခြင်းသည် မရိုသေ၊ မလေးစား၊ မခန့်ညားရာ ရောက်သည်။

တမန်တော်မြတ်နှင့် ပြောဆိုရာတွင် ရိုသေခန့်ညားစွာဖြင့် ယဉ်ကျေးသိမ်မွေ့စွာဖြင့် နူးညံ့သိမ်မွေ့သော အသံဖြင့် ပြောဆိုရာသည်။ လိမ္မာသော သားသည် ဖခင်နှင့်စကားပြောဆိုရာတွင်၊ သိမ်မွေ့သော တပည့်သည် ဆရာနှင့် စကားပြောဆိုရာတွင် အဘယ်မျှ ယဉ်ကျေးသိမ်မွေ့စွာ ပြောဆိုကြသည်ကို သူငါအများ အသိပင်။ တမန်တော်မြတ်၏ အဆင့်အတန်းသည် ထိုထိုသော ဖခင်၊ ဆရာ စသည်တို့ထက် အတိုင်းမသိမြင့်မားလှသည် ဖြစ်ရာကား၊ တမန်တော်မြတ်နှင့် စကားပြောဆိုရာတွင် အထူး သတိဝီရိယကြီးစွာဖြင့် ရိုသေခန့်ညားကာ ယဉ်ကျေးသိမ်မွေ့စွာ ပြောဆိုရပေမည်။ မရိုသေမလေးစားသော အမူအရာ အနည်းငယ် စိုးစဉ်မျှပင် မပေါ်စေရာ။ သို့မရိုသေ။ မလေးစားသောအမူအရာ ပေါ်ရှိသွားပါက တမန်တော်မြတ် စိတ်ဆင်းရဲတော်မူပေမည်။ တမန်တော်မြတ် စိတ်ဆင်းရဲရတော်မူပါက သို့တမန်တော်မြတ်အား စိတ်ဆင်းရဲတော်မူရသည်အထိ ရိုင်းပြစွာ ပြောဆိုသောသူ၏ အပြစ်ကား ကြီးမားလှပါဘိတကား။ ထိုသို့သောသူ၏ ကောင်းမှုကုသိုလ်များသည်ပင် အချည်းနှီး ဖြစ်သွားနိုင်ပေ သည်။ သို့ဖြစ်ရာ တမန်တော်မြတ်အား အထူးချစ်ကြည်လေးစားမြတ်နိုးရာသတည်း၊ မေ့မှား၍မျှ မရိုမသေ၊ မလေးမစား၊ မခန့်မညားမပြုရာ။

إِنَّ الَّذِينَ يُنَادُونَكَ مِن وَرَاءِ الْحُجُرَاتِ أَكْثَرُهُمْ لَا يَعْقِلُونَ ④

၄။ ဧကန်စင်စစ် အသင့်အား အခန်းများ၏ အပြင်ဘက်မှ ဟစ်ခေါ်ကြကုန်သော သူတို့အနက် အများစုမှာ မသိ နားမလည်ကြပေ။

وَلَوْ أَنَّهُمْ صَبَرُوا حَتَّىٰ تَخْرُجَ إِلَيْهِمْ لَكَانَ خَيْرًا لَّهُمْ ۚ وَاللَّهُ غَفُورٌ رَّحِيمٌ ⑤

၅။ စင်စစ်သော်ကား အကယ်၍သာ ၎င်းတို့သည် အသင် ၎င်းတို့ထံ ထွက်လာသည်အထိ သည်းခံခဲ့ကြပါလျှင် ၎င်းတို့အဖို့ အကောင်းဆုံးပင် ဖြစ်ခဲ့ပေမည်။ [၁] အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် လွန်စွာခွင့်လွှတ်ချမ်းသာပေးတော်မူသော အရှင်၊ လွန်စွာ သနားကရုဏာပြုတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

---

(၁) တစ်နေ့သော် ဗနီတမီမ်မျိုးနွယ်ဝင်များသည် တမန်တော်မြတ်နှင့်တွေ့ဆုံရန် တမန်တော်မြတ်ထံ ရောက်ရှိလာခဲ့ကြ၏။ ထိုအချိန်တွင် တမန်တော်မြတ်သည် အဆောင်တော်တွင်း ရှိနေတော်မူခဲ့၏။ ဗနီတမီမ် မျိုးနွယ်ဝင်များသည် တမန်တော်မြတ်နှင့်တွေ့လိုသည့် စိတ်ဇောဖြင့် အဆောင်တော်အပြင်မှ (يامحمد اخرج الينا) 'ယာ-မုဟမ္မဒ်၊ အွခ်ရုဂျ်အေ့ လိုင်နာ'၊ 'အို-မုဟမ္မဒ် ကျွန်ုပ်တို့ထံ အပြင်သို့လာပါ'ဟု အော်ဟစ်ခဲ့ကြ၏။ ဤသည် အသိဉာဏ်ကင်းမှုပင်၊ မရိုသေ မလေးစား မခန့်ညားမှုပင်၊ ရိုင်းစိုင်းမှုပင်။ ၎င်းတို့သည် တမန်တော်မြတ်၏ ကြီးကဲမြင့်မြတ်လှသော အဆင့်အတန်းကို မသိခဲ့ကြပေ။

ထိုအချိန်တွင် တမန်တော်မြတ်အပေါ်သို့ (ဝဟီ) အာယတ်တော်များ ကျရောက်နေသည်လည်း ဖြစ်နိုင်ပေသည်။ သို့တည်းမဟုတ် အလွန်အရေးကြီးသော ကိစ္စတစ်ခုခုတွင် လုံးပန်းနေတော်မူသည်လည်း ဖြစ်နိုင်ပေသည်။

တမန်တော်မြတ်သည် မွတ်စ်လင်မ် တစ်မျိုးသားလုံး၏ မိခိုအားထားရာ ဖြစ်တော်မူပေရာ၊ လောကီ၊ လောကုတ္တရာဆိုင်ရာ ပြဿနာ အဖြာဖြာကို ဆောင်ရွက်တော်မူနိုင်ရန် အချိန်ဇယား ပြုလုပ် ထားတော်မူ၏။ သို့မဟုတ်ပါမူ တမန်တော်မြတ်အဖို့ မဆိုထားနှင့်၊ သာမန် တာဝန်ရှိသော ပုဂ္ဂိုလ်တစ်ဦးအဖို့ပင် အလုပ်လုပ်ရန် လွန်စွာအခက်အခဲ ဖြစ်ပေမည်။

ဗနီတမီမ် မျိုးနွယ်ဝင်များသည် ယင်းသို့ တမန်တော်မြတ်အား အဆောင်တော်အပြင်မှ အော်ကြီးဟစ်ကျယ်မပြုဘဲ တစ်ဦးတစ်ယောက်အား အဆောင်တော်အတွင်းသို့ စေလွှတ်၍ မိမိတို့ ရောက်ရှိနေကြောင်း အသိပေးသင့်ကြပေသည်။ တမန်တော်မြတ်အပြင်သို့ ကြွလာတော်မူသည်အထိ သည်းခံ၍ စောင့်ဆိုင်းနေသင့်ကြပေသည်။ တမန်တော်မြတ်အပြင်သို့ ကြွလာပြီး မိမိတို့ဘက်သို့ အာရုံပြုတော်မူသည့်အခါကျမှ မိမိတို့ တင်ပြလိုသည်များကို ယဉ်ကျေးသိမ်မွေ့စွာ လျှောက်ထားသင့်ကြပေသည်။ ဤသို့ ပြုလုပ်ခြင်းသည် ၎င်းတို့အဖို့ ပို၍ပင် သင့်မြတ်ပေမည်။

အစ္စလာမ်၏ စုစည်းမှုသည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားမှုနှင့် ▶▶

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓاْ إِن جَآءَكُمْ فَاسِقُۢ بِنَبَإٍ فَتَبَيَّنُوٓاْ أَن تُصِيبُواْ قَوْمًۢا بِجَهَٰلَةٍ فَتُصْبِحُواْ عَلَىٰ مَا فَعَلْتُمْ نَٰدِمِينَ ٦

၆။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အကယ်၍ စာရိတ္တဖောက်ပြန်သူ တစ်ဦးတစ်ယောက်သည် အသင်တို့ထံ တစ်စုံတစ်ရာ သတင်းကို ယူဆောင်လာခဲ့သည်ရှိသော် အသင်တို့သည် မသိဘဲလျက် လူမျိုးတစ်မျိုးကို အန္တရာယ် မပြုမိကြရန် (ယင်းသတင်း)မှန်မမှန်ကို (စူးစမ်း) စစ်ဆေးကြလေကုန်။ (သို့မဟုတ်လျှင်) အသင်တို့သည် မိမိတို့ပြုမိခဲ့ကြသောကိစ္စကြောင့် ကြေကွဲကြရပေမည်။ [၁]

---

➤➤ တမန်တော်မြတ်အား ချစ်ကြည်လေးစားမှု၌ တည်ရှိနေပေရာ မွတ်စ်လင်မ်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညား၍ တမန်တော်မြတ်အား ချစ်ကြည် လေးစားကြရမည်သာတည်း။

ဤအာယတ်တော်တွင် ပါရှိသော (ဟုဂျုရာတ်)အခန်းများ၊ အဆောင်များဟူသည် တမန်တော်မြတ်၏ ကြင်ရာတော်များ နေထိုင်ကြသော အဆောင်များကို ဆိုလိုသည်။ ကြည့်-အဗူစုအုဒ်။

(၁) များစွာသော အငြင်းပွားမှု ခိုက်ရန်ဖြစ်မှု၊ ကွဲပြားမှုများသည် မမှန်သတင်းများမှ စတင်ဖြစ်ပေါ်လာသည်မှာ များသည်။ ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် ယင်းအငြင်းပွားမှု၊ ခိုက်ရန်ဖြစ် ပွားမှု၊ ကွဲပြားမှုများ ဖြစ်ပေါ်စေမည့် ရေသောက်မြစ်ကို ဖြတ်တောက်ပိတ်ပင်ထားတော်မူသည်။

ဆိုလိုသည်ကား - မည်သည့်သတင်းစကားကိုမျှ မစုံစမ်း၊ မဆင်ခြင်ပဲ လက်မခံရာ၊ ဥပမာ- လူရှုပ်၊ လူပွေ တစ်ယောက်က လူတစ်စုနှင့်ပတ်သက်၍ မိမိမကျေနပ်မှုတစ်ခုခုကြောင့် မမှန်သတင်းလွှင့်ခဲ့သော်၊ အသင်တို့သည်လည်း ထိုသူ၏ စကားကို ယုံ၍ အဆိုပါ လူတစ်စုအား စိတ်လိုက် မာန်ပါ တိုက်ခိုက်ကြသော်၊ သို့ ကိုယ်ထိလက်ရောက် တိုက်ခိုက်ပြီးနောက်မှ အဆိုပါသတင်းမမှန်ကြောင်း သိရှိကြသော်၊ ထိုအချိန်တွင် အသင်တို့သည် တစ်ယောက်စကားကို မစုံစမ်းမဆင်ခြင်ဘဲ ယုံစား၍ လက်ရောက် ပြုမိကြသည့်အတွက် ကြေကွဲကြရပေမည်။ ဝမ်းနည်းကြရပေမည်။ ဤသို့ဖြင့် မေတ္တာပျက်ပြားမည်။ အစ္စလာမ်၏ စုစည်းမှုကြီးသည်လည်း ပြိုကွဲသွားပေမည်။ ဤသို့ကား အလျှင်းမဖြစ်စေရာ။

(ဖုကဟာ) ဓမ္မသတ်ရှင်များသည် ဤအာယတ်တော်ကို အကြောင်းပြု၍ အောက်ပါအတိုင်း ဓမ္မသတ်များပင် ရေးမှတ်ထားခဲ့ကြပေသည်။

(၁) မည်သူမည်ဝါသည် 'မုရ်တဒ်' ဖြစ်နေသည်။ မည်သူမည်ဝါသည် သူတစ်ပါးအား လုပ်ကြံနေသည် - စသည်ဖြင့် သတင်းစကားကို (ခလီဖဟ်) မွတ်စလင်မ်သမ္မတက ကြားရသည်ရှိသော် ယင်းသတင်းစကားကို စုံစမ်း ထောက်လှမ်းခြင်းသည် ဝါဂျိဗ် ဖြစ်သည်။ အချိန်မီ မစုံစမ်း မထောက်လှမ်းပါက ဝါဂျိဗ် တာဝန်ကို ပျက်ကွက်ရာရောက်သည်။

(၂) မည်သူမည်ဝါသည် မိမိ၏ ဥစ္စာပစ္စည်းကိုသော်လည်းကောင်း၊ ကိုယ်ခန္ဓာကိုသော်လည်းကောင်း၊ အန္တရာယ်ပြုလိုသည်ဟု ကြားသော်၊ အန္တရာယ်ကို ကာကွယ်ရန်အတွက် အဆိုပါသတင်းနှင့်စပ်လျဉ်း၍ စုံစမ်း ထောက်လှမ်းခြင်းသည် (ဂျာအဇ်) ပြုပိုင်သည်။ ➤➤

وَاعْلَمُوٓا اَنَّ فِيكُمْ رَسُولَ اللّٰهِ ۚ لَوْ يُطِيعُكُمْ فِى كَثِيرٍ مِّنَ الْاَمْرِ لَعَنِتُّمْ وَلٰكِنَّ اللّٰهَ حَبَّبَ اِلَيْكُمُ الْاِيمَانَ وَزَيَّنَهُ فِى قُلُوبِكُمْ وَكَرَّهَ اِلَيْكُمُ الْكُفْرَ وَالْفُسُوقَ وَالْعِصْيَانَ ۚ اُولٰٓئِكَ هُمُ الرّٰشِدُونَ ۝٧

၇။ ၎င်းပြင် အသင်တို့သည် မိမိတို့၌ အလ္လာဟ်အရှင်မြတ်၏ ရဆူလ်တမန်တော်ရှိနေတော်မူသည်ကို (ကောင်းစွာ) သိထားကြလေကုန်။

အကယ်၍ ထိုရဆူလ်တမန်တော်မြတ်သည် များစွာသော အရေးကိစ္စတို့၌ အသင်တို့၏ ပြောဆိုချက်ကို လိုက်နာပါလျှင် အမှန်ပင် အသင်တို့သာလျှင် ဒုက္ခတွေ့ကြမည်သာ။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား 'အီမာန်' သက်ဝင်ယုံကြည်မှုကို နှစ်သက်မြတ်နိုးစေတော်မူခဲ့၏။ ထို့ပြင် ယင်း 'အီမာန်' ယုံကြည်မှုကို အသင်တို့၏စိတ်နှလုံးများတွင် မြတ်နိုးစေတော်မူခဲ့၏။ လှပ တင့်တယ်စေတော်မူခဲ့၏။ ထိုမှတပါး ထိုအရှင်မြတ်သည် အသင်တို့အား 'ကုဖ်ရ်' သွေဖည်မှုကိုလည်းကောင်း၊ ပြစ်မှု ကျူးလွန်ခြင်းကိုလည်းကောင်း၊ အမိန့်မနာခံမှုကိုလည်းကောင်း၊ စက်ဆုပ်စေတော်မူခဲ့၏။

ယင်းကဲ့သို့သော သူတို့သည်သာလျှင် လမ်းမှန်ကို ရရှိသူများ ဖြစ်ကြကုန်၏။

فَضْلًا مِّنَ اللّٰهِ وَنِعْمَةً ۚ وَاللّٰهُ عَلِيمٌ حَكِيمٌ ۝٨

၈။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကြောင့်လည်းကောင်း၊ ဆုချီးမြှင့်တော်မူခြင်းကြောင့်လည်းကောင်း၊ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် (အရာခပ်သိမ်းတို့ကို) အကြွင်းမဲ့သိတော်မူသောအရှင်၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

---

➤➤ (၃) မည်သူမည်ဝါသည် လျှို့ဝှက်စွာ သေရည်အရက်သောက်သည်ဟု သတင်းကြားသော် ယင်းသတင်းစကားနှင့် စပ်လျဉ်း၍ မစုံစမ်း မထောက်လှမ်းပါက မိမိ၌ တစ်စုံတစ်ရာနစ်နာသည်မရှိ။ စုံစမ်းထောက်လှမ်းပါက တစ်ဖက်သားသည် အရက်တကွဲ အကျိုးနည်းဖြစ်ရမည်။ ဤအခြေအနေတွင် သတင်းစုံစမ်းထောက်လှမ်းခြင်းသည် (ဟရာမ်) ဖြစ်သည်။ အလျှင်းမပြုပိုင်။ ကြည့် - မာဂျိဒီ၊ ထာနဝီ။

وَاِنۡ طَآٮِٕفَتٰنِ مِنَ الۡمُؤۡمِنِيۡنَ اقۡتَتَلُوۡا فَاَصۡلِحُوۡا بَيۡنَهُمَا‌ ۚ فَاِنۡۢ بَغَتۡ اِحۡدٰٮهُمَا عَلَى الۡاُخۡرٰى فَقَاتِلُوا الَّتِىۡ تَبۡغِىۡ حَتّٰى تَفِىۡٓءَ اِلٰٓى اَمۡرِ اللّٰهِ‌ ۚ فَاِنۡ فَآءَتۡ فَاَصۡلِحُوۡا بَيۡنَهُمَا بِالۡعَدۡلِ وَاَقۡسِطُوۡا‌ ؕ اِنَّ اللّٰهَ يُحِبُّ الۡمُقۡسِطِيۡنَ ۝٩

၉။ ၎င်းပြင် အကယ်၍ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အနက်မှ အုပ်စုနှစ်စုသည် အချင်းချင်းစစ်တိုက်ခဲ့ကြလျှင် အသင်တို့သည် ယင်းအုပ်စုနှစ်စု၏ အကြားဝယ် စစ်ပြေငြိမ်းအောင် ပြုလုပ်ဆောင်ရွက်ကြလေကုန်။ သို့ရာတွင် အကယ်၍ ယင်းအုပ်စုနှစ်စု အနက်မှ အုပ်စုတစ်စုသည် (စစ်ပြေငြိမ်းမှုကို လက်မခံဘဲ ဆက်လက်၍) အခြားအုပ်စုအပေါ်၌ မတရားကျူးကျော်လာခဲ့လျှင် အသင်တို့သည် ယင်းကျူးကျော်လျက် ရှိသောအုပ်စုကို ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဘက်သို့ ပြန်၍ လှည့်လာကြသည်အထိ ပြိုင်ဆိုင် တိုက်ခိုက်ကြလေကုန်။

တစ်ဖန် အကယ်၍ ထိုအုပ်စုသည် (အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ဘက်သို့) ပြန်လှည့်လာခဲ့လျှင် အသင်တို့သည် ယင်းအုပ်စုနှစ်စု၏အကြား၌ တရားသဖြင့် စေ့စပ်၍ပေးကြလေကုန်။ ထိုမှတပါး အသင်တို့သည် တရားမျှတစွာ ဆောင်ရွက်ကြလေကုန်။ ဧကန်အမှန် *အလ္လာဟ်အရှင်မြတ်သည် တရားမျှတသောသူတို့အား ချစ်မြတ်နိုးတော်မူ၏။* [၁]

---

① **အချင်းချင်း ရန်မီးငြိမ်းသတ်နည်း။**

အထက်တွင် မွတ်စ်လင်မ်တို့၏ စုစည်းမှု၊ ညီညွတ်မှု၊ ချစ်ကြည်မှု မပျက်ပြားစေရန် အလို့ငှာ စည်းကမ်းချက် အမျိုးမျိုး သတ်မှတ်ထားတော်မူသည်။ ဘောင်ခတ်ထားတော်မူသည်။ ထိုသည့် အထဲမှပင် အကြောင်းအားလျော်စွာ မမျှော်လင့်ဘဲ မွတ်စ်လင်မ် အုပ်စု ၂-ခုသည် အချင်းချင်း တိုက်ခိုက်ကြသော် ကျန်မွတ်စ်လင်မ်များသည် မိမိတို့၏ ညီနောင်များဖြစ်သော ထိုမွတ်စ်လင်မ်အုပ်စု ၂-ခုစပ်ကြားတွင် ပြေလည်စေရန် အစွမ်းကုန် ကြိုးစားကြရမည်။ သို့ကြိုးစားပါလျက် မအောင်မြင်သော်၊ အုပ်စုတစ်စုသည် အခြားအုပ်စုအပေါ်၌ မတရားကျူးကျော်စော်ကားလာခဲ့သော်၊ ကျန်မွတ်စ်လင်မ်များသည် လက်ပိုက်၍ ပွဲကြည့်မနေကြရာ၊ ဘေးထိုင်မနေကြရာ။ မွတ်စ်လင်မ် အားလုံးတို့သည် စုပေါင်း၍ မတရားကျူးကျော်စော်ကားလာသော အုပ်စုကို အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဘက်သို့ ပြန်လည် ယိမ်းယိုင်လာသည်အထိ တိုက်ခိုက်ကြရမည်။

သို့တိုက်ခိုက်၍ ကျူးကျော်စော်ကားလာသောအုပ်စုသည် အမြင်မှန်ရကာ စစ်ပြေငြိမ်းရန် ပြောဆိုလာသည့်အခါ၊ ကျန်မွတ်စ်လင်မ်များသည် အဆိုပါ အုပ်စု ၂-ခုကြားတွင် အနည်းငယ်စိုးစဉ်မျှ ဘက်မလိုက်ပဲ၊ တရားမျှတစွာဖြင့် ပြန်လည် စေ့စပ်ပေးကြရမည်။ ဤကား မွတ်စ်လင်မ် အချင်းချင်း ရန်မီးငြိမ်းသတ်နည်းပင်။

إِنَّمَا الْمُؤْمِنُونَ إِخْوَةٌ فَأَصْلِحُوا بَيْنَ أَخَوَيْكُمْ وَاتَّقُوا اللَّهَ لَعَلَّكُمْ تُرْحَمُونَ ﴿١٠﴾

၁၀။ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့မှာ (အချင်းချင်း) ညီအစ်ကိုများသာဖြစ်ကုန်၏။ သို့ဖြစ်ပေရာ အသင်တို့သည် မိမိတို့၏ ညီအစ်ကိုနှစ်ယောက်၏ စပ်ကြားဝယ် ရန်ငြိမ်းအောင်(ဇွေစပ်မှုကို) ပြုလုပ်ဆောင်ရွက်ကြလေကုန်။ ထိုမှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ သို့မှသာလျှင် အသင်တို့သည် သနားကရုဏာပြုတော်မူခြင်းကို ခံကြရကုန်အံ့သတည်း။ [၁]

---

၁ **မွတ်စ်လင်မ်များသည် ညီနောင်များသာ ဖြစ်ကြသည်။**

မွတ်စ်လင်မ်များသည် အစ္စလာမ့်ညီနောင်များသာလျှင် ဖြစ်ကြပေသည်။တမန်တော်မြတ်က -

'မွတ်စ်လင်မ်များသည် မွတ်စ်လင်မ်၏ ညီနောင်ဖြစ်သည်။ အချင်းချင်း မကျူးကျော်မစော်ကားရ၊ ဒုက္ခမပေးရ' ဟူ၍လည်းကောင်း၊

'လူတစ်ယောက်သည် မိမိ၏ ညီနောင်အား ကူညီရိုင်းပင်နေသမျှ ကာလပတ်လုံး အလ္လာဟ်အရှင်မြတ်သည် ထိုသူအား ကူညီ ရိုင်းပင်းတော်မူသည်သာ ဖြစ်သည်' ဟူ၍လည်းကောင်း၊

မွတ်စ်လင်မ်တစ်ဦးသည် မိမိ၏ ညီနောင်အတွက် နောက်ကွယ်ရာတွင် ဆုပန်ကြားပါက ကောင်းကင်တမန်က (အာမီန်)ဤအတိုင်းဖြစ်ပါစေ၊ အသင်သည်လည်း မိမိ ထိုဆုပန်ကြားသည်နှင့်အမျှ ရသည်ဖြစ်ပါစေဟု ဆိုလေသည်' ဟူ၍လည်းကောင်း၊

'မွတ်စ်လင်မ်တို့သည် အချင်းချင်း မေတ္တာ၊ ကရုဏာ၊ ဆက်ဆံရာတွင် ကိုယ်ခန္ဓာတစ်ခုတည်းကဲ့သို့ ဖြစ်ကြသည်။ ကိုယ်ခန္ဓာ၏ အစိတ်အပိုင်းတစ်ခု နာကျင်လျှင် ခန္ဓာတစ်ခုလုံး နာကျင်သည်သာ ဖြစ်သည်' ဟူ၍လည်းကောင်း၊

'မွတ်စ်လင်မ်များသည် အုတ်နံရံနှင့် တူသည်။ အုတ်နံရံရှိ အချို့အစိတ်အပိုင်းများသည် အချို့အစိတ်အပိုင်းများကို ခိုင်မာ တောင့်တင်းစေလျှက်ရှိသည်' ဟူ၍လည်းကောင်း၊

အမျိုးမျိုးပုံဆောင်ကာ လေးနက်စွာ မိန့်ကြားတော်မူခဲ့ပေသည်။ မွတ်စ်လင်မ်များသည် အချင်းချင်း ညီနောင်များဖြစ်ကြပေရာ၊ ရန်ခိုက် ဒေါသဖြစ်ရန်ပင် အကြောင်းမရှိပေ။

ထိုသို့သော မွတ်စ်လင်မ်ညီနောင်များသည် အကယ်တည့် ခိုက်ရန်ဖြစ်ပွားကြပါက ညီနောင်ချင်း ခိုက်ရန် ဖြစ်ပွားခြင်းသာ ဖြစ်ပေရာ၊ ကျန် မွတ်စ်လင်မ်များသည် လျစ်လျူပြုမနေကြရာ၊ ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ ပြေလည်အောင် ဆောင်ရွက်ပေးကြရမည်။ ဇွေစပ်ပေးကြရမည်။ သို့ဇွေစပ်ပေးရာတွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားကာ တရားမျှတမှုကို ရှေးရှုကြရမည်။ အနည်းငယ်စိုးစဉ်းမျှ တစ်ဘက်ဘက်သို့ မယိမ်းယိုင်ကြရာ ဘက်မလိုက်ကြရာ။ သို့ဖြစ်လျှင်၊ အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်ကို အားလုံး ခံစားကြရပေမည်။

يَا أَيُّهَا الَّذِينَ آمَنُوا لَا يَسْخَرْ قَوْمٌ مِّن قَوْمٍ عَسَىٰ أَن يَكُونُوا خَيْرًا مِّنْهُمْ وَلَا نِسَاءٌ مِّن نِّسَاءٍ عَسَىٰ أَن يَكُنَّ خَيْرًا مِّنْهُنَّ ۖ وَلَا تَلْمِزُوا أَنفُسَكُمْ وَلَا تَنَابَزُوا بِالْأَلْقَابِ ۖ بِئْسَ الِاسْمُ الْفُسُوقُ بَعْدَ الْإِيمَانِ ۚ وَمَن لَّمْ يَتُبْ فَأُولَٰئِكَ هُمُ الظَّالِمُونَ ⑪

၁၁။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ ယောကျ်ားများသည် ယောကျ်ားအား သရော်သမှုမပြုရ။ (အကြောင်းသော်ကား) ထို(သရော်သမှုပြုခြင်းခံကြရသော) ယောကျ်ားများသည် ထို(သရော်သောယောကျ်ား)တို့ထက်ပို၍ ကောင်းမြတ်သူများဖြစ်တန်ကြရာကုန်၏။ ထိုနည်းတူစွာ မိန်းမများသည်လည်း မိန်းမများအား သရော်သမှု မပြုကြရ။ ထို(သရော်သမှုပြုခြင်းကို ခံကြရသော)မိန်းမများသည် ထို(သရော်ကြသော မိန်းမ)များထက် ပို၍ ကောင်းမြတ်သူများ ဖြစ်တန်ကြရာကုန်၏။

ငင်းပြင် အသင်တို့သည် မိမိတို့အချင်းချင်း တစ်ဦးကိုတစ်ဦး ပြစ်တင်ကဲ့ရဲ့ ကဲ့ရဲ့ပြစ်တင်ခြင်းလည်း မပြုကြကုန်လင့်။ ထိုမှတပါး အသင်တို့သည် မိမိတို့အချင်းချင်း တစ်ဦးကိုတစ်ဦး *သရော်သမှုပြုကြသော အမည်နာမများဖြင့်လည်း မှည့်ခေါ်ခြင်း မပြုကုန်လင့်။* [၁] 'အီမာန်' သက်ဝင်ယုံကြည်ပြီးနောက် ပြစ်မှုတည်းဟူသော အမည်နာမသည် လွန်စွာဆိုးရွားလှ၏။ သို့ပါလျက် မည်သူမဆို ဝန်ချတောင်းပန်ခြင်း မပြုခဲ့သော် ယင်းကဲ့သို့ သူတို့သည်သာလျှင် မတရားသောသူများ ဖြစ်ကြပေသတည်း။

---

(၁) **သူတပါးအား အထင်မသေးရာ။**

များသောအားဖြင့် လူနှစ်ယောက် သို့မဟုတ် အဖွဲ့နှစ်ဖွဲ့၊ သို့မဟုတ် အုပ်စုနှစ်ခုတွင် သဘောကွဲလွဲမှုဖြစ်ပေါ်သည့်အခါ တစ်ဦးနှင့်တစ်ဦး၊ တစ်ဖွဲ့နှင့် တစ်ဖွဲ့၊ တစ်အုပ်စုနှင့် တစ်အုပ်စု အချင်းချင်း အထင်အမြင်သေးကာ ပြက်ချော် ပြောင်လှောင်လေ့ရှိကြသည်။ သရော်လေ့ရှိကြသည်။ ပြစ်တင် စောင်းမြောင်းလေ့ရှိကြသည်။ ကဲ့ရဲ့ပြစ်တင် ရှုတ်ချ ပြောဆိုလေ့ရှိကြသည်။ မကောင်းသော မဖွယ်ရာသော ဘွဲ့နာမည်များဖြင့် ခေါ်ဝေါ်သုံးနှုန်းလေ့ရှိကြသည်။

သို့ရာတွင် သိထားအပ်သည်မှာ မိမိကိုယ်မိမိ ခြောက်ပစ်ကင်း သဲလဲစင်ဟု ထင်မှတ်ကာ သူတစ်ပါးအား ကဲ့ရဲ့ပြစ်တင်နေသူသည် တွင်း၊ ပြင် အားလုံး သိတော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်၌ မိမိသာလျှင် ကဲ့ရဲ့ပြစ်တင်ဖွယ်ရာ ဖြစ်နေတတ်ပေသည်။ ➢➢

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا ٱجْتَنِبُوا كَثِيرًا مِّنَ ٱلظَّنِّ إِنَّ بَعْضَ ٱلظَّنِّ إِثْمٌ وَلَا تَجَسَّسُوا وَلَا يَغْتَب بَّعْضُكُم بَعْضًا أَيُحِبُّ أَحَدُكُمْ أَن يَأْكُلَ لَحْمَ أَخِيهِ مَيْتًا

၁၂။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် များစွာသော ထင်မြင်ယူဆချက်များမှ ကြဉ်ရှောင်ကြလေကုန်။ စင်စစ်ဧကန် အချို့သောထင်မြင်ယူဆချက်များမှာ အပြစ်ပင်ဖြစ်ပေသည်။ ၎င်းပြင် အသင်တို့သည် (သူတစ်ပါးတို့၏ ချွတ်ယွင်းမှုများကို) ထောက်လှမ်းစူးစမ်းခြင်း မပြုကြကုန်လင့်။ ထို့ပြင် အသင်တို့အနက် တစ်ဦးသည်တစ်ဦး၏ နောက်ကွယ်၌ *အတင်းပြောဆိုခြင်းကို မပြုရ။* [၁]

---

➤➤ ဥပမာ- အလ္လာဟ်အရှင်မြတ်ထံတော်၌ ကဲ့ရဲ့ ပြစ်တင်သူထက် ကဲ့ရဲ့ပြစ်တင်ခြင်း ခံရသူက ပို၍ကောင်းနေတတ်ပေသည်။ သို့ဖြစ်လျှင် သူတစ်ပါးအား ကဲ့ရဲ့ပြစ်တင်သူသည်သာလျှင် အရှက်တကွဲ အကျိုးနည်းဖြစ်ပေမည်။

တစ်ခါတစ်ရံ မိမိကိုယ်တိုင်က လက်ခံနှစ်ခြိုက်ခဲ့သော အချက်ကို အချင်းချင်း သဘောကွဲလွဲပြီးနောက်ပိုင်းတွင် ယင်းအချက်ကိုပင် တစ်ဖက်သားက ပြောဆိုလာသည့်အခါ မလိုမုန်းတီးမှု၊ ဇွတ်တရွတ်ပြုလိုမှု၊ သူဖြူလျှင် ငါမည်းမည်ဟူသော မတရား ဆန့်ကျင်လိုမှုများကြောင့် မျက်စိမိုတ်၍ ဆန့်ကျင်တတ်ကြပေသည်။ သူတစ်ပါး၏ သေးငယ်သော အပြစ်ကို မြင်တတ်ကြသည်။ မိမိ၌ရှိသော အပြစ်ကြီးများကိုမူ မမြင်တတ်ကြပေ။ ဤသို့ဖြင့် အချင်းချင်း တစ်ဦးနှင့်တစ်ဦး ပို၍ပို၍ ကင်းကွာလာတတ်ကြသည်။ ပို၍ပို၍ မုန်းတီးလာတတ်ကြသည်။ အမုန်းလွန်လာသည့်အခါ ပြန်လည်စေ့စပ်မှု၊ သင့်မြတ်မှု လမ်းစသည်ပင် ပျောက်ခြင်းခြင်းမလှ ပျောက်ကွယ်သွားပြီး တစ်ဦးနှင့်တစ်ဦး တစ်ဖွဲ့နှင့် တစ်ဖွဲ့ တစ်အုပ်စုနှင့် တစ်အုပ်စု အသက်ထက်ဆုံး မုန်းသွားတတ်ကြပေသည်။

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် ယင်းသို့ မဖြစ်စေရန် အလို့ငှာ - သူတစ်ပါးအား အထင်မသေးရ၊ ကဲ့ရဲ့ပြစ်တင်ခြင်း မပြုရ၊သူတစ်ပါး၏ အပြစ်ကိုမရှာရ၊သူတစ်ပါးအားမဖွယ်ရာသော အမည်များနှင့် မခေါ်ရဟူ၍ ပိတ်ပင်တားမြစ်ထားတော်မူခြင်းဖြစ်သည်။

အကယ်၍ ယခုခေတ်မွတ်စ်လင်မ်များသည် ဤကဏ္ဍလာ ဒေသနာတော်များကိုပင် လက်တွေ့လိုက်နာကျင့်သုံးကြပါက ယနေ့ ၎င်းတို့၌ စွဲကပ်နေသော ရောဂါကြီးငယ်များသည် ပျောက်ကင်းသွားနိုင်ပေသည်။

'လူတစ်ယောက်သည် မိမိ၌ရှိသော အပြစ်များကို သတိပြုမိပါမူ သူတစ်ပါးအား ကဲ့ရဲ့ပြစ်တင်ရန် နှုတ်ပင် ဖွင့်ဟဝံ့မည် မဟုတ်ပေ'။ ကြည့်-မာရိဒီ။

(၁) များသောအားဖြင့် အချင်းချင်း သဘောကွဲလွဲမှုများ များပြားပြီး ပြင်းထန်လာသောအခါ၊ အုပ်စုတစ်ခုသည် အခြားအုပ်စုတစ်ခုနှင့်ပတ်သက်၍ ကောင်းသော အတွေးအထင်များကို မတွေးမထင်တော့ပေ။ မကောင်းသော အတွေးအထင်များကိုသာ တွေးထင်တတ်တော့၏။

မိမိနှင့်ဆန့်ကျင်ဘက်အုပ်စုမှ ပြောဆိုသည့်စကားရပ်တစ်ခုတွင် ကောင်းမြတ်သည့် အနက်သဘောကို ဆောင်သည့် ရှုထောင့် အမြောက်အမြား ရှိနေသော်လည်း ယင်းသည့် ရှုထောင့်များကို မမြင်နိုင်တော့ဘဲ၊➤➤

فَكَرِهْتُمُوهُ ۚ وَاتَّقُوا اللَّهَ ۚ إِنَّ اللَّهَ تَوَّابٌ رَّحِيمٌ ﴿١٢﴾

အသင်တို့အနက် တစ်ဦးတစ်ယောက်သည် မိမိညီအစ်ကို၏ အသေသားကို စားသုံးရန် နှစ်သက်ပါမည်လော။ စင်စစ် အသင်တို့သည် ထို*(အသေသားစားခြင်း)*ကို *စက်ဆုပ်ကြမည်သာ။* [၁] ထိုမှတပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေကြလေကုန်။ မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် ဝန်ချတောင်းပန်ခြင်းကို အလွန်တရာ လက်ခံတော်မူသောအရှင်၊ အလွန်တရာ သနားကြင်နာတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း၊

---

➤➤ မကောင်းသည့် ရှုထောင့်တစ်ခုကိုသာ မြင်တတ်တော့၏။ ထိုသည့် မကောင်းသည့် သာမန်ရှုထောင့်ကိုသာ ပုံကြီးချဲ့ကာ၊ အမှန်တကယ် ပြုလုပ်ကာ တစ်ဘက်အုပ်စုအား ယိုးမယ်ဖွဲ့ကာ အမျိုးမျိုး သွားပုပ်လေလွင့်စွပ်စွဲပြောဆိုလေတော့၏။

ဆန့်ကျင်ဘက်အုပ်စုနှင့်ပတ်သက်၍ စကားတစ်ခုရရှိလိုက်လျှင် ပထမသော် ထိုစကားကို မကောင်းသော အနက်ပေးရုံမျှမက ဆန့်ကျင်ဘက်အုပ်စု၏ အတွင်းရေးများကိုပင် ပင်ပန်းကြီးစွာဖြင့် နှိုက်နှိုက်ချွတ်ချွတ် စူးစမ်းရှာဖွေသေး၏။ သို့စူးစမ်းရှာဖွေပြီးနောက် မိမိတို့ရရှိလာသည့် တစ်ဖက်သား၏ အတွင်းရေးကို (မှားသည် မှန်သည် အပထား) အရောင်အမျိုးမျိုးဆိုးပြီး၊ မိမိတို့၏ အသိုင်းအဝန်းတွင် မြိန်မြိန်ရှက်ရှက် ပြော၏။ နောက်ကွယ်ရာတွင် အတင်းဆို၏။ ဤသို့ပြုလုပ်ခြင်းဖြင့် သဘောကွဲလွဲမှုသည် ပိုမို၍ ကြီးထွားလာတတ်ပေသည်။ ဤသည် အလွန်ယုတ်မာသော အကျင့်အကြံပင်။ ဤအာယတ် တော်တွင် ဤသည့် ယုတ်မာသော အကျင့်အကြံကို မကျင့်ကြံမိရန် လေးနက်စွာ ပိတ်ပင်တားမြစ်ထားတော်မူသည်။

မွတ်စ်လင်မ်များသည် ဤအာယတ်တော်လာ ဒေသနာတော်များအရ အချင်းချင်း မကောင်းသော အတွေးအထင် မတွေးထင်ကြလျှင် သူတစ်ပါး၏ အတွင်းရေးများကို မရှာဖွေကြလျှင်၊ နောက်ကွယ်ရာတွင် အတင်းမဆိုကြလျှင် ယနေ့ဖြစ်ပေါ်နေသည့် စိတ်မချမ်းမြေ့ဖွယ်ရာ ကွဲလွဲမှု၊ မလိုမုန်းတီးမှု၊ အာဃာတထားမှု၊ ရန်ငြိုးထားမှု၊ ဆန့်ကျင်မှု၊ ခိုက်ရန် ဖြစ်ပွားမှုများသည် ပျောက်ကွယ်သွားနိုင်ပေသည်။

**(၁) မိမိ၏ ညီနောင်၏ အသေသား စားရက်ပါသလား၊**

မိမိညီနောင်တစ်ဦးအား ၎င်း၏နောက်ကွယ်ရာတွင် အတင်းဆိုခြင်းသည် သေနေသော မိမိညီနောင်၏ အသေသားကို စားမျိုခြင်းပင်။ ဤသည်ကို အသူနှစ်ခြိုက်အံ့နည်း။။ အတင်းဆိုခြင်းသည် ဤသည်ထက်ပင် ဆိုးရွားရွံ့မုန်းဖွယ်ရာတည်း။ တစ်ဦးတစ်ယောက်နှင့် ပတ်သက်၍ ၎င်း၏ နောက်ကွယ်ရာတွင် ဖြစ်ရပ်မှန်အတိုင်း ပြောဆိုခြင်းသည် ဖြစ်ရပ်မှန်အတိုင်း ပြောဆိုခြင်းဖြစ်သည့်အတွက် အတင်းဆိုရာမရောက်ဟူ၍ အချို့က ထင်မှတ်ကြသည်။ ဤသည် မမှန်၊ အဘယ်ကြောင့်ဆိုသော် တမန်တော်မြတ်က အတင်းဆိုခြင်းနှင့်စပ်လျဉ်း၍ (ذكرك أخاك بما يكره) 'အသင်၏ညီနောင် မနှစ်ခြိုက်သောအရာကို ၎င်း၏နောက်ကွယ်ရာတွင် အသင်ပြောဆိုခြင်းသည်လည်း အတင်း ပြောဆိုခြင်းပင်ဖြစ်သည်' ဟု မိန့်ကြားတော်မူခဲ့ပေသည်။ ➤➤

يَٰٓأَيُّهَا ٱلنَّاسُ إِنَّا خَلَقْنَٰكُم مِّن ذَكَرٍ وَأُنثَىٰ وَجَعَلْنَٰكُمْ شُعُوبًا وَقَبَآئِلَ لِتَعَارَفُوٓا۟ ۚ إِنَّ أَكْرَمَكُمْ عِندَ ٱللَّهِ أَتْقَىٰكُمْ ۚ إِنَّ ٱللَّهَ عَلِيمٌ خَبِيرٌ ﴿١٣﴾

၁၃။ အိုလူခပ်သိမ်းတို့။ စကန်မလွဲ ငါအရှင်မြတ်သည် အသင်တို့အား ယောကျာ်းတစ်ယောက်၊ မိန်းမတစ်ယောက်မှ (စတင်)ဖန်ဆင်းတော်မူခဲ့၏။ [1] ထို့ပြင် ငါအရှင်မြတ်သည် အသင်တို့အချင်းချင်း တစ်ဦးကို တစ်ဦး ခွဲခြားသိမြင်မှတ်မိကြအံ့သောငှာ လူမျိုးစုအသီးသီး၊ မျိုးနွယ်အသွယ်သွယ်ပြုလုပ်တော်မူခဲ့၏။ ဧကန်စင်စစ် အသင်တို့အနက် (အလ္လာဟ်အရှင်မြတ်အား) *အကြောက်ရွံ့ဆုံး၊ အပြစ်များမှ အများဆုံးကြဉ်ရှောင်သောသူသည်သာလျှင် အလ္လာဟ်အရှင်မြတ်အထံတော်၌ အမြင့်မြတ်ဆုံးသောသူဖြစ်၏။* [2] စင်စစ်တစ်မူကား အလ္လာဟ်အရှင်မြတ်သည် အသိတော်မူဆုံး၊ အကြားတော်မူဆုံးအရှင် ဖြစ်တော်မူပေသတည်း။

---

➤➤ တမန်တော်မြတ်က ( الغيبة أشد من الزنا ) 'ဃီဗတ်' အတင်းဆိုခြင်းသည် 'ဇိနာ' သူတစ်ပါးသားမယားအား ပြစ်မှားခြင်းထက်ပင် ပိုမို၍ ဆိုးရွားသည်ဟု မိန့်ကြားတော်မူခဲ့သည်။ သို့ဖြစ်ရာ ကျွန်ုပ်တို့သည် မည်သူ့အားမျှ မည်သည့်အခါမျှ အတင်းအလျှင်း မဆိုကြရာ။

① **တစ်မိ တစ်ဘတည်းမှ ဆင်းသက်လာသော ညီနှင့်အစ်ကို၊ မောင်နှင့် နှမများသာ။**

များသောအားဖြင့် သူတစ်ပါးအား အထင်သေးခြင်း၊ အပြစ်ရှာခြင်း၊ ကဲ့ရဲ့ပြစ်တင်ခြင်းများ၏ အကြောင်းရင်းမှာ မိမိကိုယ်ကို မိမိ၊ အထင်ကြီးခြင်းပင်ဖြစ်သည်။ လူသားသည် များသောအားဖြင့် မိမိကိုယ်ကို အထင်ကြီးသည်။ သူတစ်ပါးကို အထင်သေးသည်။ ထိုသို့သော အမြင်မှားနေသော လူသားများအား ဤအာယတ်တော်တွင် ရည်ညွှန်းမိန့်ကြား ထားတော်မူသည်မှာ - လူတစ်ဦး၏ ကြီးခြင်း၊ ငယ်ခြင်း၊ ဂုဏ်ရှိခြင်း၊ ဂုဏ်မဲ့ခြင်းများသည် မျိုးရိုးဇာတိနှင့်မဆိုင်။

မည်သူမဆို အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညား၍ ထိုအရှင်မြတ်၏ ဒေသနာတော်များနှင့်အညီ အကျင့်စာရိတ္တ ကောင်းမွန်သည်နှင့်အမျှ ယဉ်ကျေး သိမ်မွေ့သည်နှင့်အမျှ အလ္လာဟ်အရှင်မြတ်ထံတော်၌ ကောင်းသည်၊ မွန်ရည်သည် ဂုဏ်ရှိသည်သာ ဖြစ်ပေသည်။

မျိုးရိုးဇာတိကား လူတစ်ဦးတစ်ယောက်၏ ကောင်းမှု၊ မကောင်းမှု၊ ဂုဏ်ရှိမှု၊ ဂုဏ်မရှိမှုများကို ခွဲခြားသိစေနိုင်သည့် မှတ်ကျောက်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် လူသားအားလုံးတို့သည် တစ်မိ၊ တစ်ဖတည်းမှ ဖခင်ကြီး အာဒမ်နှင့် မိခင်ကြီး ဟောင်ဝါမှ ဆင်းသက်ပေါက်ဖွားလာခဲ့ကြသော ညီနှင့်အစ်ကို၊ မောင်နှင့်နှမများသာဖြစ်ကြပေသည်။

② ဆိုလိုသည်ကား - 'တာက်ဝါ' သည် အမှန်စင်စစ် စိတ်နှလုံးနှင့်သာ ဆိုင်သည်။ စိတ်နှလုံးတွင်းကိစ္စကို အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။ သို့ဖြစ်ရာ မည်သူမည်ဝါသည် မုတ္တကီ ဖြစ်သည်။ မဖြစ်သည်ကို အပေါ်ရံကြည့်ဆုံးဖြတ်ရန် မဖြစ်နိုင်ပေ။ ➤➤

قَالَتِ الْأَعْرَابُ اٰمَنَّا قُلْ لَّمْ تُؤْمِنُوْا وَلٰكِنْ قُوْلُوْٓا اَسْلَمْنَا وَلَمَّا يَدْخُلِ الْاِيْمَانُ فِيْ قُلُوْبِكُمْ وَاِنْ تُطِيْعُوا اللّٰهَ وَرَسُوْلَهٗ لَا يَلِتْكُمْ مِّنْ اَعْمَالِكُمْ

၁၄။ ကျေးတောသားအရဗ်တို့က 'ကျွန်ုပ်တို့သည် 'အီမာန်'သက်ဝင်ယုံကြည်ခဲ့ကြပါပြီ' ဟု ပြောဆိုကြကုန်၏။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) အသင်တို့သည် သက်ဝင်ယုံကြည်ကြသည် မရှိသေးပေ။ သို့ရာတွင် 'ကျွန်ုပ်တို့သည် အမိန့်ကိုနာခံကြပါပြီ' ဟူ၍သာ ပြောဆိုကြလေကုန်။ စင်စစ်တမူကား 'အီမာန်' ယုံကြည်မှုသည် အသင်တို့၏ စိတ်နှလုံးများတွင် မဝင်သေးပေ။ [၁]

---

➢➢ အချို့ပုဂ္ဂိုလ်သည် အမြင်အားဖြင့် မွတ္တကီဟု တွေ့မြင်ရာသည်။ သို့ရာတွင် ထိုပုဂ္ဂိုလ်သည် အမှန်တကယ် မွတ္တကီဖြစ်သည်၊ မဖြစ်သည်၊ မည်သို့ရှိသည်၊ နောက်နောင်မည်သို့ရှိမည်များကို အလ္လာဟ်အရှင်မြတ်သည်သာလျှင် အသိဆုံးဖြစ်တော်မူပေသည်။ ထို့ပြင်တစ်ဝ ပုဂ္ဂိုလ်တဦးနှင့် ပတ်သက်၍ ၎င်း၏ ယနေ့လက်ရှိ အခြေအနေကို ကြည့်ပြီး ကောင်းသည် မကောင်းသည်ဟု ဆုံးဖြတ်ရန်လည်း မဖြစ်နိုင်ပေ။

အဘယ်ကြောင့်ဆိုသော် လူတစ်ဦးသည် ယနေ့ကောင်းသော်လည်း သေခါနီးနောက်ဆုံးအချိန် ဆိုးသွားသည်လည်း ရှိသည်။ ထို့အတူ အချို့သည် ယနေ့ဆိုးနေသော်လည်း သေခါနီးတွင် ကောင်းသွားသည်လည်း ရှိသည်။ ဆိုးကောင်း အဆုံးအဖြတ်ပေးရမည့် အဓိက အခြေအနေသည် သေခါနီးနောက်ဆုံးအခြေအနေသာလျှင် ဖြစ်သည်။ (اِنما العبرة بالخواتيم) သို့ဖြစ်ရာ လူတိုင်း လူတိုင်းသည် သေခါနီးနောက်ဆုံးအချိန်တွင် အီမာန်နှင့် တာက်ဝါအပေါ်၌ ရပ်တည်နေနိုင်ရန် ကြိုးစားရပေမည်။

အလ္လာဟ်အရှင်မြတ်သည် အားလုံးသိတော်မူသည်၊ အားလုံးကြားတော်မူသည်။ မည်သူမည်ဝါ၌ 'တာက်ဝါ' ရှိသည်။ မရှိသည်ကို အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။ ထိုအရှင်မြတ်မှတစ်ပါး အခြားမည်သူမျှ မသိနိုင်ပေ။ သို့ဖြစ်ရာ မိမိ၌ 'တာက်ဝါ' ရှိသည်ကို အကြောင်းပြု၍ အထင်မကြီးရာ။

**(၁) <u>အီမာန်နှင့် အစ္စလာမ်။</u>**

ဤအာယတ်တော်တွင် ပါရှိသော အရဗ်တောကျေးသားများ ဟူသည် ဗနုအစဒ်စသည့် အရဗ်တောကျေးသားများကို ဆိုလိုသည်။ ကြည့်-ထာနဝီ။

တစ်ရက် အဆိုပါ အရဗ်တောကျေးသားများသည် တမန်တော်မြတ်ထံ လာရောက်ပြီးလျှင် 'ကျွန်တော်တို့သည် အီမာန် သက်ဝင်ယုံကြည်ကြပါပြီ'ဟု ပြောဆိုခဲ့ကြ၏။ အမှန်မှာ ၎င်းတို့သည် စိတ်နှလုံးသားအတွင်းမှ ကြည်ဖြူစွာ အီမာန်သက်ဝင်ယုံကြည်ခဲ့ကြသည် မဟုတ်သေးပေ။ အပေါ်ယံ နှုတ်လျှာမှ အီမာန်သက်ဝင်ယုံကြည်ပါပြီဟု ပြောဆိုခြင်းမျှသာ ဖြစ်ခဲ့ပေသည်။

ထို့အတွက် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား အဆိုပါ အရဗ်တောကျေးသားများကို 'အသင်တို့သည် အီမာန် သက်ဝင်ယုံကြည်ကြသည် မဟုတ်သေးပေ။ ကျွန်တော်တို့သည် (ဆန့်ကျင်မှုကို စွန့်လွှတ်ပြီး) အမိန့်တော် နာခံကြပါပြီ' ဟူ၍သာ ပြောဆိုကြကုန်။ အဘယ်ကြောင့်ဆိုသော် အီမာန်သက်ဝင်ယုံကြည်မှုသည် ယခုထက်တိုင် အသင်တို့၏ နှလုံးသားများအတွင်းသို့ မသက်ရောက်သေးပေ' ဟူ၍ ဖြစ်ရပ်မှန်ကို ဆုတ်ဖော် ပြောကြားစေတော်မူခဲ့ပေသည်။ ➢➢

شَيْـًٔا ۚ إِنَّ اللّٰهَ غَفُورٌ رَّحِيمٌ ﴿١٤﴾

သို့ရာတွင် အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်များကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၏ အမိန့်တော်များကိုလည်းကောင်း၊ (အကယ်စင်စစ်) လိုက်နာကြလျှင် ထိုအရှင်မြတ်သည် အသင်တို့၏ ကျင့်မှုဆောင်ရွက်ချက်တို့အနက်မှ မည်သည့် တစုံတရာကိုမျှပင် အသင်တို့၌ လျော့နည်းစေတော်မူမည် မဟုတ်ပေ။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် လွန်စွာခွင့်လွှတ်တော်မူသောအရှင်၊ လွန်စွာကရုဏာပြုတော်မူသောအရှင် ဖြစ်တော်မူ၏။

إِنَّمَا الْمُؤْمِنُونَ الَّذِينَ اٰمَنُوا بِاللّٰهِ وَرَسُولِهٖ ثُمَّ لَمْ يَرْتَابُوا وَجٰهَدُوا بِأَمْوَالِهِمْ وَأَنْفُسِهِمْ فِي سَبِيلِ اللّٰهِ ۚ أُولٰٓئِكَ هُمُ الصّٰدِقُونَ ﴿١٥﴾

၁၅။ အကြင်သူတို့သည်သာလျှင် (ပြည့်ဝစုံလင်သော) 'မုအ်မင်န်' သက်ဝင်ယုံကြည်သူများ ဖြစ်ကြကုန်၏။ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ သက်ဝင်ယုံကြည်ခဲ့ကြသည်။ ပြီးနောက် ၎င်းတို့သည် သံသယ ဖြစ်ခဲ့ကြသည် မရှိချေ။ ထိုမှတပါး ထိုသူတို့သည် မိမိတို့၏ ပစ္စည်းဥစ္စာများဖြင့်လည်းကောင်း၊ မိမိတို့၏ အသက်ဇီဝိန်များဖြင့်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သက်စွန့်ကြိုးပမ်း ဆောင်ရွက်ခဲ့ကြကုန်၏။ *ထိုသူတို့သည်သာလျှင် သစ္စာဝါဒီများ ဖြစ်ကြကုန်၏။* [၁]

---

➤➤ ဆိုလိုသည်ကား အမှန်တကယ် စိတ်နှလုံးသားအတွင်းမှ နှစ်နှစ်ကာကာ ကြည်ဖြူစွာ အီမာန်သက်ဝင်ယုံကြည်မှု မရှိသေးပါဘဲလျက် ကျွန်တော်တို့သည် 'အီမာန်' သက်ဝင်ယုံကြည်ကြပါပြီ။ 'မုအ်မင်န်' များဖြစ်ကြပါပြီဟူ၍ကား၊ လိမ်လည်ကာ ဂုဏ်ဖော် မပြောကြားရာ။ ကြည့်-ထာနဝီ။

**(၁) <u>စစ်မှန်သော မုအ်မင်န်တို့၏ ဂုဏ်ရည်များ။</u>**

စစ်မှန်သော မုအ်မင်န်များမှာ-

(၁) အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ တမန်တော်မြတ်အားလည်းကောင်း ယုံကြည်ကြသည်။ ယင်းသည့် ယုံကြည်ချက်အပေါ်၌ပင် အသက်ထက်ဆုံး တည့်မတ်စွာ ရပ်တည်နေကြပေသည်။➤➤

قُلْ أَتُعَلِّمُونَ اللَّهَ بِدِينِكُمْ ۚ وَاللَّهُ يَعْلَمُ مَا فِي السَّمَاوَاتِ وَمَا فِي الْأَرْضِ ۚ وَاللَّهُ بِكُلِّ شَيْءٍ عَلِيمٌ ﴿١٦﴾

၁၆။ (အို-နဗီတမန်တော်)။ အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် မိမိတို့၏ 'ဒီန်'သာသနာကို အလ္လာဟ်အရှင်မြတ်အား အသိပေးကြလေသလော။ စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များ၌ရှိသမျှတို့ကိုလည်းကောင်း၊ ပထဝီမြေများ၌ ရှိသမျှတို့ကိုလည်းကောင်း၊ ကောင်းစွာသိရှိတော်မူ၏။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

يَمُنُّونَ عَلَيْكَ أَنْ أَسْلَمُوا ۖ قُلْ لَا تَمُنُّوا عَلَيَّ إِسْلَامَكُمْ ۖ بَلِ اللَّهُ يَمُنُّ عَلَيْكُمْ أَنْ هَدَاكُمْ لِلْإِيمَانِ إِنْ كُنْتُمْ صَادِقِينَ ﴿١٧﴾

၁၇။ (အို-နဗီတမန်တော်)၊ ၎င်းတို့သည် (အမိန့်ကို) နာခံခဲ့ကြကြောင်း အသင့်ရှေ့ဝယ် ဂုဏ်ဖော်၍ နေကြကုန်၏။ အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် ငါ၏ရှေ့ဝယ် မိမိတို့ အမိန့်နာခံမှုကို ဂုဏ်ဖော်ခြင်း မပြုကြကုန်လင့်။ စင်စစ်မှာမူကား အကယ်၍ အသင်တို့သည် သစ္စာဝါဒီများ ဖြစ်ကြလျှင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား အီမာန်သက်ဝင်ယုံကြည်နိုင်ရန် တရားလမ်းကို ပြသတော်မူခဲ့သောကြောင့် *ထိုအရှင်မြတ်ကသာလျှင် အသင်တို့အပေါ် ကျေးဇူးပြုထားတော်မူခြင်း ဖြစ်ပေသည်။* [၁]

---

>> (၂) အနည်းငယ်စိုးစဉ်းမျှ ဒွိဟသံသယမဖြစ်ကြပေ။ စိတ်နှလုံးတွင်းမှ နှစ်နှစ်ကာကာ ကြည်ဖြူစွာ ယုံကြည်ကြပေသည်။ ထို့ပြင်တဝ-

(၃) အလ္လာဟ်အရှင်မြတ်၏လမ်းတော်တွင် မိမိတို့၏ ဥစ္စာပစ္စည်းများကိုလည်းကောင်း၊ အသက် ဇီဝိန်များကိုလည်းကောင်း ရက်ရောစွာ လှူဒါန်းကြပေသည်။ အနည်းငယ် စိုးစဉ်းမျှ တွန့်တိုဆုတ်ဆိုင်းကြသည် မရှိပေ။ ယင်းသို့သော ဂုဏ်ရည်များနှင့်ပြည့်စုံသော သူများသာလျှင် စစ်မှန်သော မုအ်မင်န်များဖြစ်ကြပေသည်။

(၁) ယင်းသို့သော အရပ်တောကျေးသားတို့ကို 'အသင်တို့သည် မိမိတို့ အစ္စလာမ်ကို လက်ခံကြသည့်အတွက် ကျွန်ုပ်ရှေ့တွင် ဂုဏ်မဖော်ကြနှင့်၊ အမှန်မှာ အလ္လာဟ်အရှင်မြတ်ကသာ အသင်တို့အား အီမာန် သက်ဝင်ယုံကြည်နိုင်ရန် တရားပြတော်မူ၍ အသင်တို့အပေါ်၌ ကျေးဇူးပြုထားတော်မူခြင်းသာ ဖြစ်သည်'ဟု တမန်တော်မြတ်အား ဖြေကြားစေတော်မူခြင်းဖြစ်သည်။ >>

إِنَّ اللَّهَ يَعْلَمُ غَيْبَ السَّمَٰوَٰتِ وَالْأَرْضِ ۚ وَاللَّهُ بَصِيرٌۢ بِمَا تَعْمَلُونَ ﴿١٨﴾

**၁၈။** ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် မိုးကောင်းကင်များနှင့်ပထဝီမြေဥ္စရှိကုန်သော လျှို့ဝှက်ချက်တို့ကို ကောင်းစွာ သိရှိတော်မူ၏။ ထိုမှတပါး အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူဆောင်ရွက်လျက် ရှိကြသည်တို့ကို ကောင်းစွာ မြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ အမှန်မှာ မည်သူမဆို ကောင်းမှုတစ်ရပ်ကို မိမိ၏လက်ဖြင့် ပြုလုပ်ထားသည်ပင်ဆိုစေ။ သို့ ပြုလုပ်နိုင်ခြင်း အတွက် မိမိကိုယ်ကို မိမိချီးမွမ်းရန်မဟုတ်။ ယင်းသို့ ကောင်းမှု ပြုနိုင်စွမ်း ချီးမြှင့်တော်မူသော အလ္လာဟ်အရှင်မြတ်အားသာ ချီးမွမ်းရမည်သာ။

အချုပ်အားဖြင့်ဆိုသော် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များနှင့် အစ္စလာမ်၏ အဆုံးအမများကို လိုက်နာကျင့်သုံးခွင့်ရရှိပါက ဂုဏ်ဖော်ရန်မဟုတ်၊ မိမိတို့အား ယင်းသို့ လိုက်နာကျင့်သုံးနိုင်စွမ်း ချီးမြှင့်တော်မူသော အလ္လာဟ်အရှင်မြတ်အားသာလျှင် ကျေးဇူးတင်ကြရပေမည်။ အစ္စလာမ်ရေးရာများကို ဆောင်ရွက်ရသည့်အတွက် မိမိတို့က ဂုဏ်ဖော်ရန်ဝေးစွ၊ အလ္လာဟ်အရှင်မြတ်က မိမိတို့အား သာသနာရေးရာများကို ဆောင်ရွက်ရန် အသုံးပြုထားတော်မူသည့်အတွက် ထိုအရှင်မြတ်အား ကျေးဇူးတင်ရဦးမည်သာ။

# ကား့ဖ် ကဏ္ဍ



ဤကဏ္ဍသည် "ကား့ဖ်" ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၄၅)ပါး၊ ရုကူအ် အပိုဒ်(၃)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

အနန္တ ကရုဏာတော်ရှင်ဖြစ်တော်မူသော၊ အစဉ် သနားကြင်နာ ညှာတာတော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

قٓ ۚ وَالْقُرْاٰنِ الْمَجِيْدِ ۝١

၁။ 'ကား့ဖ်' [၁] (ငါအရှင်မြတ်သည်) အထူးဂုဏ်ဝိသေသနှင့် ပြည့်စုံသော ကုရ်အာန်ကျမ်းတော်မြတ်ကို သက်သေထူတော်မူ၏။ [၂]

بَلْ عَجِبُوْٓا اَنْ جَآءَهُمْ مُّنْذِرٌ مِّنْهُمْ فَقَالَ الْكٰفِرُوْنَ هٰذَا شَيْءٌ عَجِيْبٌ ۝٢

၂။ စင်စစ်မှာကား ၎င်းတို့သည် မိမိတို့ထံ မိမိတို့အနက်မှပင် သတိပေးနှိုးဆော်သူတစ်ဦး ရောက်ရှိ၍ လာခဲ့သည်ကိုပင် အံ့သြလျက်ရှိနေကြကုန်၏။ သို့ဖြစ်ပေရာ 'ကာဖိရ်' သွေဖည်ငြင်းပယ်သော သူတို့က ပြောဆိုခဲ့ကြသည်မှာ ဤသည်လွန်စွာ အံ့ဖွယ် အကြောင်းပင် ဖြစ်သည်။

---

(၁) 'ကား့ဖ်' ဟူသော အက္ခရာသည် ကုရ်အာန်ကျမ်းမြတ်၏ အချို့ကဏ္ဍများ၏ အစတွင် ပါရှိသည့် အနက် အဓိပ္ပာယ် လျှို့ဝှက်ထားသည့် သင်္ကေတအက္ခရာများနည်းတူ ဤကဏ္ဍ၏အစတွင် ပါရှိသော သင်္ကေတအက္ခရာပင်ဖြစ်သည်။ 'ကား့ဖ်' ဟူသော သင်္ကေတအက္ခရာသည် ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံးတွင် ဤတစ်နေရာတည်း၌သာ လာရှိပေသည်။

အမှန်မှာ ဤသင်္ကေတ အက္ခရာစုများ၏ အနက်ကို အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူပေသည်၊

ကြည့်- ထာနဝီ၊ အိဗ်နုကဆီရ်။

**(၂) ဂုဏ်ထူးဝိသေသနှင့် ပြည့်စုံသော ကုရ်အာန်။**

ကုရ်အာန်ကျမ်းမြတ်၏ ဂုဏ်ထူးဝိသေသကား ထင်ရှားလှပေသည်။ အထူးထုတ်ဖော်ရေးသားနေရန်ပင် မလိုပေ။ ကုရ်အာန်ကျမ်းမြတ်သည် ကောင်းကင်ကျ ကျမ်းဂန်အပေါင်းတွင် နောက်ဆုံး ကျရောက်သောကျမ်းဖြစ်သည်။ အတိတ်ခေတ် ကျမ်းဂန်အပေါင်းတွင် ပါရှိခဲ့သော အနှစ်သာရအားလုံးနှင့် ပြည့်စုံသည်သာမက၊ ကမ္ဘာတသက် တည်ရှိမည့် ကျမ်းကြီးတဆူလည်း ဖြစ်ပေသည်။

ကုရ်အာန်ကျမ်းမြတ်သည် အဘက်ဘက်မှ ပြည့်စုံသည်။ ချို့တဲ့မှု၊ ချွတ်ယွင်းမှုဟူ၍ အလျင်းမရှိ။ လက်ညှိုးညွှန်ပြဖွယ်ရာ အပြစ်ဟူ၍ တစ်ကွက်မျှမရှိ။ ကုရ်အာန်ကျမ်းမြတ်၏ ဂုဏ်ထူးဝိသေသများနှင့် ➤➤

ءَاِذَا مِتْنَا وَكُنَّا تُرَابًا ۚ ذٰلِكَ رَجْعٌۢ بَعِيْدٌ ﴿٣﴾

၃။ ကျွန်ုပ်တို့ သေဆုံးခဲ့ကြပြီးနောက် မြေကြီးဖြစ်သွားခဲ့ကြသောအခါ (ရှင်ပြန်ထကြရဦးမည်လော၊) ထိုသည်ကား အလွန်တရာဝေးလံစွာသော ပြန်လည်ခြင်းပင်။ [ထိုသို့ ပြန်လည်ရှင်ထခြင်းသည် (အသိဉာဏ်နှင့်) အလွန်ဝေးလံပေသည်။]

قَدْ عَلِمْنَا مَا تَنْقُصُ الْاَرْضُ مِنْهُمْ ۚ وَعِنْدَنَا كِتٰبٌ حَفِيْظٌ ﴿٤﴾

၄။ မြေကြီးက ၎င်းတို့(၏ ကိုယ်ခန္ဓာများ)အနက်မှ (စား၍) လျော့နည်းစေမည့် အစိတ်အပိုင်းကို ဧကန်မလွဲ ငါအရှင်မြတ်သည် သိရှိတော်မူ၏။ စင်စစ်မှာကား ငါအရှင်မြတ်အထံတော်တွင် ထိန်းသိမ်း စောင့်ရှောက်ထားသောမှတ်တမ်းစာအုပ်သည်လည်းရှိနေပေသည်။ [၁]

بَلْ كَذَّبُوْا بِالْحَقِّ لَمَّا جَآءَهُمْ فَهُمْ فِيْٓ اَمْرٍ مَّرِيْجٍ ﴿٥﴾

၅။ စင်စစ်မှာကား ထိုသူတို့သည် ၎င်းတို့ထံ အမှန်တရား ရောက်ရှိ၍ လာခဲ့သောအခါ ယင်းအမှန်တရားကိုပင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ စင်စစ်မှာကား ၎င်းတို့သည် မတည်ငြိမ်သော အခြေအနေ၌ပင် ရှိနေကြကုန်သတည်း။

---

➤➤ စပ်လျဉ်း၍ အထူးသက်သေထူရန် မလို။ (သူရိယ)နေ၏ ထွန်းလင်းတောက်ပမှုနှင့်စပ်လျဉ်း၍ နေကိုယ်တိုင် သက်သေဖြစ်သကဲ့သို့၊ ကုရ်အာန်၏ ဂုဏ်ထူးဝိသေသနှင့်စပ်လျဉ်း၍ ကုရ်အာန်သည်ပင် မိမိကိုယ်တိုင် သက်သေဖြစ်ပေသည်။

သို့ပါသော်လည်း ကာဖိရ်များသည် ကုရ်အာန်ကို လက်မခံကြပေ။ ကုရ်အာန်ကို ၎င်းတို့ လက်မခံခြင်းမှာ ၎င်းတို့၌ ကုရ်အာန်နှင့်ဆန့်ကျင်၍ တစ်စုံတစ်ရာ အထောက်အထားရှိ၍ မဟုတ်။ ၎င်းတို့၏ မိုက်မဲမှု၊ အစွဲအလမ်းကြီးမှု၊ ဇွတ်တရွတ်ပြုမှု၊ မောက်မာမှုများကြောင့်သာဖြစ်ပေသည်။ ကြည့်-အွတ်ဆ်မာနီ။

(၁) ဆိုလိုသည်ကား လူသားများ သေပြီးနောက် ၎င်းတို့၏ ကိုယ်ခန္ဓာများသည် အားလုံးမြေဖြစ်သွားသည်မဟုတ်၊ (ရူဟ်) အသက်ဇီဝိန်သည် ကြွင်းကျန်လျက်ရှိပေသည်။ ကိုယ်ခန္ဓာ၏ အစိတ်အပိုင်းများသည် မြေတွင် ရောယှက်၍ အသို့ပင်ပျံ့လွင့်သွားလင့်ကစား ပျံ့လွင့်သွားသော ယင်းအစိတ်အပိုင်း အားလုံးတို့သည် အလ္လာဟ်အရှင်မြတ်၏ အသိတော်အတွင်း၌ပင် ရှိနေပေသည်။

အလ္လာဟ်အရှင်မြတ်သည် အရေးကိစ္စအဝဝနှင့်စပ်လျဉ်း၍ အသေးစိတ် အကြွင်းမဲ့ သိတော်မူသည်သာမက၊ အရာရာနှင့် စပ်လျဉ်း၍ အသေးစိတ် အတိအကျ ရေးမှတ်ထားတော်မူသည့် 'လောင်ဟ်မဟ်ဖူဇ်' ခေါ် မှတ်တမ်းတော်သည်လည်း ထိုအရှင်မြတ်၏ ရှေ့တော်၌ အသင့်ရှိနေပေသည်။ သို့ဖြစ်ရာ ထိုအရှင်မြတ်အဖို့ ပျံ့လွင့်နေသော အစိတ်အပိုင်းများကို စုပေါင်း၍ ပြန်လည်အသက်သွင်းပြီး ရှင်ထစေတော် မူခြင်းမှာ အသို့လျှင် အခက်အခဲ ရှိနိုင်အံ့နည်း။

၆။ ၎င်းတို့သည် မိမိတို့၏အထက်၌ မိုးကောင်းကင်ကို မကြည့်မမြင်ခဲ့ကြလေသလော။ ငါအရှင်မြတ်သည် ယင်းမိုးကောင်းကင်ကို မည်သို့ပြုလုပ်ထားတော်မူသနည်း။ ၎င်းပြင် ငါအရှင်မြတ်သည် ထိုမိုးကောင်းကင်ကို မည်သို့လှပစွာ ဆင်ယင်ထားတော်မူသနည်း။ ထိုမှတပါး ယင်းမိုးကောင်းကင်၌ အဟာ၊ အကွဲ၊ အအက်များဟူ၍လည်း အလျှင်းမရှိပြီတကား။

أَفَلَمْ يَنظُرُوٓا۟ إِلَى ٱلسَّمَآءِ فَوْقَهُمْ كَيْفَ بَنَيْنَٰهَا وَزَيَّنَّٰهَا وَمَا لَهَا مِن فُرُوجٍ ۝٦

၇။ ထိုမှတပါး ငါအရှင်မြတ်သည် ပထဝီမြေကို ဖြန့်ခင်းထားတော်မူ၏။ ၎င်းပြင် ယင်းပထဝီမြေ၌ တောင်များကို စိုက်ထူထားတော်မူ၏။ ထို့ပြင် ငါအရှင်မြတ်သည် ယင်းပထဝီမြေ၌ လှပတင့်တယ် ရှုချင်စဖွယ်ကောင်းသော အရာဝတ္ထုမျိုးစုံတို့ကို ပေါက်ရောက်စေထားတော်မူ၏။

وَٱلْأَرْضَ مَدَدْنَٰهَا وَأَلْقَيْنَا فِيهَا رَوَٰسِىَ وَأَنۢبَتْنَا فِيهَا مِن كُلِّ زَوْجٍۭ بَهِيجٍ ۝٧

၈။ (ထိုအလုံးစုံတို့မှာ) သံဝေဂရသော ကျွန်တိုင်းအဖို့ ဆင်ခြင်သုံးသပ်အပ်သောအရာသည်လည်းကောင်း၊ တရားရယူအပ်သောအရာသည်လည်းကောင်း၊ ဖြစ်ပေသည်။

تَبْصِرَةً وَذِكْرَىٰ لِكُلِّ عَبْدٍ مُّنِيبٍ ۝٨

၉။ ထိုမှတပါး ငါအရှင်မြတ်သည် မိုးကောင်းကင်မှ ကျက်သရေ မင်္ဂလာနှင့်ပြည့်စုံသော (မိုး)ရေကို ရွာသွန်းစေတော်မူ၏။ တစ်ဖန် ထိုရေဖြင့် ငါအရှင်မြတ်သည် ဥယျာဉ်များကိုလည်းကောင်း၊ ရိတ်သိမ်းပြီးဖြစ်သော ကောက်ပင်မျိုးနွယ်များကိုလည်းကောင်း၊ ပေါက်ရောက်စေတော်မူ၏။

وَنَزَّلْنَا مِنَ ٱلسَّمَآءِ مَآءً مُّبَٰرَكًا فَأَنۢبَتْنَا بِهِۦ جَنَّٰتٍ وَحَبَّ ٱلْحَصِيدِ ۝٩

၁၀။ ထိုနည်းတူစွာ ရှည်လျားမြင့်မားသော စွန်ပလွံပင်များကို (ပေါက်ရောက်စေတော်မူရာ) ယင်းစွန်ပလွံပင်များ၌ ပွတ်၍ သီးနေသော အခိုင်များရှိနေပေသည်။

وَٱلنَّخْلَ بَاسِقَٰتٍ لَّهَا طَلْعٌ نَّضِيدٌ ۝١٠

وَّ رِزْقًا لِّلْعِبَادِ ۙ وَ اَحْيَيْنَا بِهٖ بَلْدَةً مَّيْتًا ؕ كَذٰلِكَ الْخُرُوْجُ ﴿١١﴾

၁၁။ ကျွန်များအဖို့ စားနပ်ရိက္ခာအဖြစ် ထိုမှတပါး ငါအရှင်မြတ်သည် ထိုမိုးရေဖြင့် သေလွန်ခြောက်သွေ့ လျက်ရှိသော မြေကို ရှင်စေတော်မူ၏။ (လူအပေါင်းတို့ ရှင်၍) ပြန်ထွက်ခြင်းမှာလည်း ထိုနည်းအတိုင်းပင် ဖြစ်ချေအံ့သတည်း။

كَذَّبَتْ قَبْلَهُمْ قَوْمُ نُوْحٍ وَّ اَصْحٰبُ الرَّسِّ وَ ثَمُوْدُ ۙ﴿١٢﴾

၁၂။ ထိုသူတို့အလျင် 'နူဟ်'၏အမျိုးသားတို့သည် လည်းကောင်း၊ ရတ်စ်(စ်)၌ နေထိုင်သူတို့သည် လည်းကောင်း၊ 'ဆမူဒ်' အမျိုးသားတို့သည်လည်း ကောင်း၊ မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။

وَ عَادٌ وَّ فِرْعَوْنُ وَ اِخْوَانُ لُوْطٍ ۙ﴿١٣﴾

၁၃။ ထိုမှတပါး 'အာဒ်' အမျိုးသားတို့သည် လည်းကောင်း၊ 'ဖစ်ရ်အောင်န်' သည်လည်းကောင်း၊ 'လူတ်' ၏ ညီအစ်ကိုတို့သည်လည်းကောင်း၊

وَّ اَصْحٰبُ الْاَيْكَةِ وَ قَوْمُ تُبَّعٍ ؕ كُلٌّ كَذَّبَ الرُّسُلَ فَحَقَّ وَعِيْدِ ﴿١٤﴾

၁၄။ ထို့ပြင် (အိုက်ကဟ်)တောအုပ်၌ နေထိုင်သူတို့ သည်လည်းကောင်း၊ 'သွဗ္ဗအ်' အမျိုးသားသည်လည်း ကောင်း၊ အားလုံးတို့သည်ပင် ရစူလ်တမန်တော်များ အား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြပေရာ ငါ အရှင်မြတ်၏ချိန်းချက်မှုသည် (၎င်းတို့အပေါ်၌) သက်ရောက်ခဲ့၏။ [၁]

(၁) ဆိုလိုသည်ကား အရဗ်ကာဖိရ်များ သိထားအပ်သည်မှာ ၎င်းတို့ ယနေ့ တောင်ဟီးဒ်၊ ရိစာလတ်နှင့် ကိယာမတ်ကို သွေဖည်ငြင်းဆန် မဟုတ်မမှန်ဟု ပြောဆိုနေကြသကဲ့သို့၊ ၎င်းတို့အလျင်က တမန်တော်နူဟ်၏ အမျိုးသားများ၊ 'ရတ်စ်' ၌ နေထိုင်သူများ၊ ဆမူဒ်၊ အာဒ်၊ ဖိရ်အောင်န်နှင့် တမန်တော် လူတွ်၏ အမျိုးသားများ၊ 'အိုင်ကဟ်' တောအုပ်၌ နေထိုင်သူများ၊ 'တွဗ္ဗအ်' အမျိုးသားများသည်လည်း အသီးသီး ဤသည့် တောင်ဟီးဒ်၊ ရိစာလတ်နှင့် ကိယာမတ်ကို သွေဖည်ငြင်းဆန် မဟုတ်မမှန်ဟု ဆိုခဲ့ကြပေသည်။

နောက်ဆုံးတွင် ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သင့်၍ ပျက်စီးသွားခဲ့ကြရပေသည်။ အရဗီကာဖိရ်များသည်လည်း အချိန်မီ သတိသံဝေဂ ရရှိကြပါက ၎င်းတို့အလျင်ရှိခဲ့ကြသော ၎င်းတို့၏ ဆရာ့ ဆရာများကဲ့သို့ပင် အနေးနှင့်အမြန် အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်သင့်ကြရပေမည်။

أَفَعَيِينَا بِالْخَلْقِ الْأَوَّلِ ۚ بَلْ هُمْ فِي لَبْسٍ مِّنْ خَلْقٍ جَدِيدٍ ﴿١٥﴾

၁၅။ ငါအရှင်မြတ်သည် ပထမအကြိမ် ဖန်ဆင်းတော်မူခဲ့သောကြောင့် ပင်ပန်း နွမ်းနယ်တော်မူခဲ့လေသလော။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ်မှာကား ၎င်းတို့သည် အသစ်တစ်ဖန် ပြန်လည်ဖန်ဆင်းခြင်းနှင့် စပ်လျဉ်း၍ ယုံမှားသံသယ၌ ရှိနေကြကုန်သတည်း။

وَلَقَدْ خَلَقْنَا الْإِنسَانَ وَنَعْلَمُ مَا تُوَسْوِسُ بِهِ نَفْسُهُ ۖ وَنَحْنُ أَقْرَبُ إِلَيْهِ مِنْ حَبْلِ الْوَرِيدِ ﴿١٦﴾

၁၆။ ထိုမှတပါး ဧကန်မလွဲ ငါအရှင်မြတ်သည် မနုဿလူသားအား ဖန်ဆင်းတော်မူခဲ့၏။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်း၌ ၎င်း၏စိတ်က မသိမသာ ပေါ်ပေါက်စေသောအရာကိုလည်း သိတော်မူ၏။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ၎င်း၏လည်ချောင်း သွေးကြောထက်ပင် ၎င်းနှင့် ပိုမိုနီးကပ်စွာ ရှိနေတော်မူ၏။

إِذْ يَتَلَقَّى الْمُتَلَقِّيَانِ عَنِ الْيَمِينِ وَعَنِ الشِّمَالِ قَعِيدٌ ﴿١٧﴾

၁၇။ (အို-နဗီတမန်တော် သတိပေးပါလေ။) အကြင်အခါဝယ် အကြင်အခါ၌ မှတ်သားသူနှစ်ဦးသည် (ထိုမနုဿလူသား၏) လယ်ယာဘက်မှလည်းကောင်း၊ လက်ဝဲဘက်မှလည်းကောင်း၊ ထိုင်၍ မှတ်သားလျက် ရှိကြ၏။ [1]

---

(၁) မှတ်တမ်းရေး ကောင်းကင်တမန် ၂-ပါး။

လူသားတိုင်း၌ အလ္လာဟ်အရှင်မြတ်သည် ကောင်းကင်တမန် ၂-ပါးကို အထူးခန့်အပ်ထားတော်မူ၏။ ကောင်းကင်တမန်တစ်ပါးသည် ညာဘက်၌ရှိ၏။ အခြားတစ်ပါးသည် ဝဲဘက်၌ရှိ၏။ ညာဘက်၌ရှိသော ကောင်းကင်တမန်သည် ကောင်းမှုများကို မှတ်သား၏။ ဝဲဘက်၌ရှိသော ကောင်းကင်တမန်သည် မကောင်းမှုများကို မှတ်သား၏။

ဆိုလိုသည်ကား လူသားတစ်ဦး၏ အကျင့်အကြံ၊ အပြုအမူများကို အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင် အကြွင်းမဲ့ သိတော်မူသည်သာမက၊ ကောင်းကင်တမန်များကလည်း လူတိုင်းနှင့်ပတ်သက်၍ အမှုတွဲဖွင့်ထားပြီး၊ မှတ်တမ်းများလည်း အသေးစိတ် ရေးထားကြသည်။

သို့ဖြစ်ပေရာ လူသားအား ကျိုးပြစ်ပေးရာတွင် အလ္လာဟ်အရှင်မြတ်အဖို့ အသို့လျှင် အခက်အခဲ ရှိနိုင်အံ့နည်း။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၁၃:၁၁။ ၈၂:၁၀-၁၂)တွင်လည်း မိန့်ဆိုထား တော်မူသည်။

လူသားတစ်ဦးသည် ဤသည့်အချက်ကို နှလုံးသွင်းထားပါက ပြစ်မှုတစ်စုံတစ်ရာကို ကျူးလွန်ဝံ့မည် မဟုတ်ပေ။

مَا يَلْفِظُ مِنْ قَوْلٍ إِلَّا لَدَيْهِ رَقِيبٌ عَتِيدٌ ﴿١٨﴾

၁၈။ ထိုမနုဿလူသားသည် (နှုတ်ဖြင့်) မည်သည့် စကားကိုမျှ မြွက်ဟသည်ဟူ၍မရှိချေ။ သို့ရာတွင် ချောင်းမြောင်း၍ နေသူတစ်ဦးသည် ၎င်း၏အနီး၌ပင် အသင့်ရှိနေ၏။

وَجَاءَتْ سَكْرَةُ الْمَوْتِ بِالْحَقِّ ذَٰلِكَ مَا كُنْتَ مِنْهُ تَحِيدُ ﴿١٩﴾

၁၉။ စင်စစ်သော်ကား 'မရဏ' သေခြင်းတရား၏ *မိန်းမောမှုသည် မှန်ကန်စွာ ရောက်လာခဲ့ချေပြီ။* [၁] ထိုသည်ပင် အကြင်အရာတည်း။ အသင်သည် ၎င်းမှ (လွတ်မြောက်ရန်) တိမ်းရှောင်လျက် ရှိခဲ့၏။

وَنُفِخَ فِي الصُّورِ ذَٰلِكَ يَوْمُ الْوَعِيدِ ﴿٢٠﴾

၂၀။ ထိုမှတပါး တံပိုးခရာမှုတ်ခြင်း ခံရပေမည်။ ထိုသည်ပင် ချိန်းချက်ထားသောနေ့ ဖြစ်၏။ [၂]

وَجَاءَتْ كُلُّ نَفْسٍ مَعَهَا سَائِقٌ وَشَهِيدٌ ﴿٢١﴾

၂၁။ ထိုမှတပါး လူတိုင်းသည် 'မဟ်ရှရ်' (စုရုံးရာဌာနသို့) လာရပေမည်။ (ထိုအခါ) ၎င်းနှင့်အတူ မောင်းနှင်သူတစ်ဦးနှင့် သက်သေတစ်ဦးရှိကြပေမည်။

لَقَدْ كُنْتَ فِي غَفْلَةٍ مِنْ هَٰذَا فَكَشَفْنَا عَنْكَ غِطَاءَكَ فَبَصَرُكَ الْيَوْمَ حَدِيدٌ ﴿٢٢﴾

၂၂။ ဧကန်မလွဲ အသင်သည် ဤနေ့နှင့် စပ်လျဉ်း၍ ပေါ့ဆမှု၌ ရှိနေခဲ့ပေသည်။ သို့ဖြစ်ပေရာ (ယခုမူ) ငါအရှင်မြတ်သည် အသင့်အပေါ်မှ အကွယ်အကာကို ဖယ်ရှား၍ ပေးတော်မူလိုက်ပြီ။ ထို့ကြောင့် ယနေ့သော်ကား အသင်၏မြင်နိုင်သောသတ္တိမှာ ထိုးဖောက်၍ မြင်နိုင်စွမ်းရှိနေပြီ ဖြစ်ပေသတည်း။

---

(၁) သေခြင်းတရားနှင့် တစ်ရက်ရင်ဆိုင်ရမည်ကို မည်သူမျှ မငြင်းနိုင်ပေ။ သို့တစေလည်း များသောအားဖြင့် ကိယာမတ်ကို လက်မခံခြင်း၏ အကြောင်းတစ်ရပ်မှာ သေခြင်းတရားကို မေ့ပျောက်နေတတ်ခြင်းကြောင့်ပင်ဖြစ်သည်။ ထို့အတွက် ကိယာမတ်အကြောင်း အလျင်၊ ကိယာမတ်၏ ရှေ့ပြေးဖြစ်သော သေခြင်းအကြောင်းကို မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

(၂) ကိယာမတ်အငယ်သည် သေချိန်၌ပင် ဖြစ်ပေါ်ခဲ့ချေပြီ။ ထို့နောက် ကိယာမတ်အကြီးသည် ရှေ့မှောက်တွင် အသင့်ရောက်ရှိနေချေပြီ။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ သက်ဆိုင်ရာ ကောင်းကင်တမန်က တံပိုးခရာမှုတ်လိုက်သည်နှင့် တပြိုင်တည်း ကြောက်မက်ဖွယ်ကောင်းလှသော ကိယာမတ်ကြီးဖြစ်လာချေမည်။ ဤကား အခြားမဟုတ်၊ ပွင့်လေသမျှသော တမန်တော်အသီးသီး သတိပေးခဲ့ကြသည့် ရက်ချိန်းနေ့ကြီးပင်။

وَقَالَ قَرِيْنُهٗ هٰذَا مَا لَدَيَّ عَتِيْدٌ ﴿٢٣﴾

၂၃။ ထို့ပြင် ၎င်း၏အဖော်- (ကောင်းကင်တမန်) ကပြောဆိုပေမည်။ ဤသည် ကျွန်ုပ်၏ထံ၌ အဆင်သင့်ရှိသော (နေ့စဉ်မှတ်တမ်း) ဖြစ်၏။

اَلْقِيَا فِيْ جَهَنَّمَ كُلَّ كَفَّارٍ عَنِيْدٍ ﴿٢٤﴾

၂၄။ (ထိုအရှင်မြတ်သည် ကောင်းကင်တမန် နှစ်ပါးတို့အား မိန့်ကြားတော်မူပေမည်။) အသင်တို့ နှစ်ဦးသည် အကြင်သူတိုင်းအား 'ဂျဟန္နမ်' ငရဲဘုံထဲသို့ ပစ်ချကြလေကုန်။ ထိုသူသည် ကျေးဇူးကန်းသော၊ ဖွတ်တရွတ်နိုင်သော၊

مَّنَّاعٍ لِّلْخَيْرِ مُعْتَدٍ مُّرِيْبٍ ﴿٢٥﴾

၂၅။ ကောင်းမှု(ပြုခြင်း)မှ တားမြစ်သော စည်းကမ်းကျူးလွန်သော၊ ဒွိဟသံသယဖြစ်သော၊

الَّذِيْ جَعَلَ مَعَ اللّٰهِ اِلٰهًا اٰخَرَ فَاَلْقِيٰهُ فِي الْعَذَابِ الشَّدِيْدِ ﴿٢٦﴾

၂၆။ အလ္လာဟ်အရှင်မြတ်နှင့်အတူ အခြားသောကိုးကွယ်ရာကို တွဲဖက်သတ်မှတ်သောသူဖြစ်သည်။ သို့ဖြစ်ပေရာ အသင်တို့နှစ်ဦးသည် ထို(ကဲ့သို့သော)သူအား *ပြင်းထန်စွာသောပြစ်ဒဏ်၌ပစ်ချကြလေကုန်။* [၁]

قَالَ قَرِيْنُهٗ رَبَّنَا مَا اَطْغَيْتُهٗ وَلٰكِنْ كَانَ فِيْ ضَلٰلٍ بَعِيْدٍ ﴿٢٧﴾

၂၇။ ၎င်း၏အဖော် (ရှိုင်တွာန် မိစ္ဆာကောင်) ကပြောဆို (လျှောက်ထား)ပေမည်။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၊ ကျွန်တော်မျိုးသည် ၎င်းအား ဆိုးသွမ်းမိုက်ကန်းစေခဲ့သည်မဟုတ်ပါ။ စင်စစ်မှာ ၎င်းကိုယ်တိုင်သည်ပင်လျှင်ဝေးလံစွာသော လမ်းမှားမှု၌ ရှိနေခဲ့ပါသည်။

---

(၁) **ကာဖိရ်များနှင့်ပတ်သက်သည့် စီရင်ချက်။**

ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်ခြတ်သည် ကာဖိရ်များနှင့်ပတ်သက်၍ ဤအာယတ်တော်တွင်လာရှိသည့်အတိုင်း အဆိုပါ ကောင်းကင်တမန် ၂-ပါးအား 'အသင်တို့ ၂-ဦးသည် ဖွတ်တရွတ်နိုင်သော၊ ကောင်းမှုမှ ပိတ်ပင်သော၊ စည်းကမ်း ကျူးလွန်သော၊ သံသယဖြစ်သော၊ ယှဉ်တွဲကိုးကွယ်သော ကာဖိရ်တိုင်းကို ဂျဟန္နမ်ငရဲဘုံအတွင်းသို့ ပစ်ချကြ'ဟု မိန့်ကြားကာ စီရင်ချက် ချမှတ်တော်မူပေမည်။

قَالَ لَا تَخۡتَصِمُوا۟ لَدَیَّ وَقَدۡ قَدَّمۡتُ إِلَیۡكُم بِٱلۡوَعِیدِ ۝٢٨

၂၈။ ထိုအရှင်မြတ်သည် မိန့်ကြားတော်မူပေမည်။ အသင်တို့သည် ငါအရှင်မြတ်၏အထံတော်၌ အငြင်းအခုံ မပြုကြကုန်လင့်။ အမှန်စင်စစ်မှာမူကား ငါအရှင်မြတ်သည် (ပြစ်ဒဏ်နှင့်စပ်လျဉ်း၍) ချိန်းဆိုချက်ကို အသင်တို့ထံသို့ တင်ကြို ပို့နှင့်တော်မူခဲ့ပြီးဖြစ်၏။

مَا یُبَدَّلُ ٱلۡقَوۡلُ لَدَیَّ وَمَاۤ أَنَا۠ بِظَلَّـٰمࣲ لِّلۡعَبِیدِ ۝٢٩

၂၉။ ငါအရှင်မြတ်အထံတော်၌ စကားပြောင်းလဲသည် ဟူ၍မရှိပြီ။ ထိုမှတပါး ငါအရှင်မြတ်သည် ကျွန်တို့အား *မတရားပြုလုပ်တော်မူသော အရှင်လည်း မဟုတ်ပြီ။* [၁]

یَوۡمَ نَقُولُ لِجَهَنَّمَ هَلِ ٱمۡتَلَأۡتِ وَتَقُولُ هَلۡ مِن مَّزِیدࣲ ۝٣٠

၃၀။ (အို-နဗီတမန်တော် အသင်သည် သတိရစေပါလေ။) အကြင်နေ့တွင် ငါအရှင်မြတ်သည် 'ဂျဟန္နမ်' ငရဲဘုံကို အသင်သည် ပြည့်လေပြီလောဟု မိန့်ကြားတော်မူမည်။ ထိုအခါ *ယင်းဂျဟန္နမ်ငရဲဘုံက 'နောက်ထပ် ရှိပါသေးသလော' ဟုလျှောက်ထားပေမည်။* [၂]

---

(၁) ကိယာမတ်နေ့တွင် ကာဖိရ်များနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်ထံတော်မှ စီရင်ချက် ကျသောအခါ၊ ကာဖိရ်များသည် မိမိတို့ကိုယ်ကို ကာကွယ်နိုင်ရန်အတွက် မိမိတို့အား သွေးဆောင် ဖြားယောင်း လွဲမှားစေခဲ့ကြသော သူများအပေါ်၌ အပြစ်ဖို့ကြပေမည်။ ဤအကြောင်းကို ကုရ်အာန် (၃၄း၃၁-၃၃)တွင်လည်း မိန့်ဆိုထားတော်မူသည်။

ယင်းသွေးဆောင်ဖြားယောင်းသူများတွင် ရှိုင်တွာန်များလည်း ပါဝင်နေကြပေရာ၊ ကာဖိရ် လူသား၏ အဖော်ဖြစ်သော ရှိုင်တွာန်က ဤအာယတ်တော်တွင် ပါရှိသည့်အတိုင်း ကျွန်တော်မျိုးသည် ဤလူသားအား အတင်းအဓမ္မ လွဲမှားစေခဲ့သည် မဟုတ်ပါ။ ကျွန်တော်မျိုးသည် ဤသူ့အား သာမန်အားဖြင့် ဖြားယောင်းခဲ့ခြင်းသာ ဖြစ်ပါသည်။ အတင်းအဓမ္မမဟုတ်ပါ။ အမှန်မှာ ဤသူကိုယ်တိုင် ၎င်း၏ စေတနာအလျောက် အကြီးအကျယ် လွဲမှားနေခဲ့ပါသည်။ ထို့အတွက် ဤသူ၏ လွဲမှားမှုဒဏ် ကျွန်တော်မျိုး မခံထိုက်ပါဟု လျှောက်ထားပေမည်။

ထိုအခါ အလ္လာဟ်အရှင်မြတ်က အသင်တို့သည် ငါ့ထံတော်၌ ငြင်းခုံမနေကြနှင့်။ သွေဖည်ငြင်းဆန် မနာခံသူများနှင့်ပတ်သက်၍ မည်သို့မည်ပုံ အရေးယူတော်မူမည့်အကြောင်း အသင်တို့အားလုံးကို အသိပေးထားပြီး ဖြစ်သည်။ ငါ၏ထံတော်၌ စကားအပြောင်းအလဲမရှိ။

ဤသို့ ဆုံးဖြတ်ရာတွင် ငါအရှင်မြတ်သည် မည်သူအားမျှ မတရားပြုတော်မူသည်လည်းမဟုတ်၊ တရားသဖြင့် စီရင်ဆုံးဖြတ်တော်မူခြင်းသာဖြစ်သည်ဟု မိန့်ကြားတော်မူပေမည်။

وَأُزْلِفَتِ الْجَنَّةُ لِلْمُتَّقِينَ غَيْرَ بَعِيدٍ ﴿٣١﴾

၃၁။ ထိုမှတပါး 'ဂျန္နတ်' သုခဘုံသည် မွတ္တကီ သူတော်စင်များအနီးသို့ ယူလာခြင်းကို ခံရပေမည်။ (ယင်း'ဂျန္နတ်' သုခဘုံမှာ) ဝေးကွာလှမည် မဟုတ်ပေ။

هَٰذَا مَا تُوعَدُونَ لِكُلِّ أَوَّابٍ حَفِيظٍ ﴿٣٢﴾

၃၂။ ဤသည် (အလ္လာဟ်အရှင်မြတ်ဘက်သို့) ပြန်လှည့်သူ (ထိုအရှင်မြတ်၏ စည်းကမ်းသတ်မှတ်ချက်များကို )စောင့်စည်းသူတိုင်းအဖို့ ဖြစ်သည်ဟူ၍ အသင်တို့ ကတိပေးခြင်းခံကြရသောအရာပင် ဖြစ်ပေသည်။

مَنْ خَشِيَ الرَّحْمَٰنَ بِالْغَيْبِ وَجَاءَ بِقَلْبٍ مُنِيبٍ ﴿٣٣﴾

၃၃။ ထိုသူသည် 'ရဟ်မာန်' အနန္တကရုဏာတော်ရှင်အား မမြင်ဘဲလျက် ကြောက်ရွံ့ခဲ့၏။ ထိုမှတပါး ထိုသူသည် ပြန်လှည့်သော စိတ်နှလုံးကို ယူဆောင်လာခဲ့၏။

ادْخُلُوهَا بِسَلَامٍ ۖ ذَٰلِكَ يَوْمُ الْخُلُودِ ﴿٣٤﴾

၃၄။ (ထိုကဲ့သို့သော သူတို့သည် ဤသို့ မိန့်ကြားတော်မူခြင်းကို ခံကြရပေမည်။) အသင်တို့သည် ယင်း'ဂျန္နတ်' သုခဘုံသို့ငြိမ်းချမ်းစွာ ဝင်ရောက်ကြလေကုန်။ ဤသည် အမြဲထာဝရ နေထိုင်ရမည့်နေ့ ဖြစ်၏။ ၁

---

② **'ဂျဟန္နမ်' ၏ အကျယ်အဝန်း။**

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်များအား ဂျဟန္နမ်အတွင်းသို့ ထည့်သွင်းပြီးနောက် ဂျဟန္နမ်ကို 'အသင် ပြည့်ပြီလော' ဟု မေးတော်မူပေမည်။ ထိုအခါ ဂျဟန္နမ်က 'နောက်ထပ် ရှိပါသေးသလော' ဟု လျှောက်ထားပေမည်။ ဂျဟန္နမ်ကား ကျယ်ဝန်းပါဘိတကား၊ ကြောက်လန့်ဖွယ်ပါဘိတကား။

(အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဂျဟန္နမ်မှ ဖယ်ရှားတော်မူပါစေသတည်း)။

① ဆိုလိုသည်ကား ကိယာမတ်နေ့တွင် ဂျန္နတ်သည် မွတ္တကီ သူတော်စင်များအနီးသို့ပင် ယူဆောင်လာပြီးလျှင်၊ ယင်းမွတ္တကီများအား သက်ဆိုင်ရာ ကောင်းကင်တမန်များက ဤသည် အသင်တို့အား ကတိပြုထားသည့်အတိုင်း၊ အလ္လာဟ်အရှင်မြတ်ဘက်တော်သို့ ပြန်လှည့်သော၊ အမိန့်တော်များကို စောင့်စည်းသော၊ ထိုအရှင်မြတ်အား မမြင်ဘဲလျက် ကြောက်ရွံ့ခန့်ညားသော၊ ထိုအရှင်မြတ်ဘက်တော်သို့ ပြန်လှည့်သည့် စိတ်နှလုံးကို ယူဆောင်လာသော၊ သူမှန်သူမြတ်များ အဖို့သာလျှင်ဖြစ်သည်။ အသင်တို့သည် အေးချမ်းသာယာစွာဖြင့် ဤဂျန္နတ်တွင် ဝင်ရောက် စံမြန်းကြလော့။ ဤသည် အမြဲထာဝစဉ်ဖြစ်သည်ဟု ကောင်းချီးစကား ပြောဆိုကြပေမည်။

لَهُمْ مَا يَشَاءُونَ فِيهَا وَلَدَيْنَا مَزِيدٌ ﴿٣٥﴾

၃၅။ ၎င်းတို့အဖို့ ယင်း'ဂျန္နတ်' သုခဘုံ၌ ၎င်းတို့ အလိုရှိကြသော အရာဟူ၍ ရှိရုံမျှမက ငါအရှင်မြတ် အထံတော်၌ (ထိုထက်) အပိုကျေးဇူးတော်များလည်း ရှိချေသတည်း။

وَكَمْ أَهْلَكْنَا قَبْلَهُمْ مِنْ قَرْنٍ هُمْ أَشَدُّ مِنْهُمْ بَطْشًا فَنَقَّبُوا فِي الْبِلَادِ هَلْ مِنْ مَحِيصٍ ﴿٣٦﴾

၃၆။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ထိုသူတို့ အလျင် မြောက်မြားစွာသောလူမျိုးဆက်တို့ကို ဖျက်ဆီးတော်မူခဲ့၏။ ၎င်းတို့မှာ ထိုသူတို့ထက် ရဲစွမ်းသတ္တိခွန်အားဗလ ကြီးမားကြံ့ခိုင်သူများ ဖြစ်ခဲ့ကြကုန်၏။ ထိုအခါ ၎င်းတို့သည် အမြို့မြို့ အရွာရွာ၌ (ခိုလှုံရာ နေရာများကို)လိုက်လံ ရှာဖွေခဲ့ကြကုန်၏။ (သို့တစေလည်း ၎င်းတို့သည်) ထွက်ပြေး တိမ်းရှောင်ရာ နေရာဟူ၍ ရှာဖွေတွေ့ရှိခဲ့ကြလေသလော။

إِنَّ فِي ذَٰلِكَ لَذِكْرَىٰ لِمَنْ كَانَ لَهُ قَلْبٌ أَوْ أَلْقَى السَّمْعَ وَهُوَ شَهِيدٌ ﴿٣٧﴾

၃၇။ စင်စစ်ဧကန် ဤသည်၌ စိတ်နှလုံးရှိသော သူတို့အဖို့ သို့မဟုတ် စိတ်ပါဝင်စားစွာ အသင့်ရောက်ရှိ၍ နားစိုက်သော သူတို့အဖို့ အမှန်ပင် သင်ခန်းစာ ရှိ၏။

وَلَقَدْ خَلَقْنَا السَّمَاوَاتِ وَالْأَرْضَ وَمَا بَيْنَهُمَا فِي سِتَّةِ أَيَّامٍ وَمَا مَسَّنَا مِنْ لُغُوبٍ ﴿٣٨﴾

၃၈။ ထိုမှတပါး ဧကန်မလွဲ ငါအရှင်မြတ်သည် မိုးကောင်းကင်များကို လည်းကောင်း၊ ပထဝီမြေကို လည်းကောင်း၊ ထိုမိုးများနှင့်မြေကြားရှိ အရာများကို လည်းကောင်း၊ ခြောက်ရက်အတွင်း ဖန်ဆင်းတော်မူခဲ့၏။ သို့တစေလည်း ငါအရှင်မြတ်၌ ပင်ပန်းနွမ်းနယ်မှုဟူ၍ အလျှင်း သက်ရောက်ခဲ့သည်မရှိချေ။

فَاصْبِرْ عَلَىٰ مَا يَقُولُونَ وَسَبِّحْ بِحَمْدِ رَبِّكَ قَبْلَ طُلُوعِ الشَّمْسِ

၃၉။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်)၊ အသင်သည် ၎င်းတို့၏ ပြောဆိုမှုများနှင့် စပ်လျဉ်း၍ သည်းခံပါလေ။ ထို့ပြင် အသင်သည် နေမထွက်မီ လည်းကောင်း၊ နေမဝင်မီလည်းကောင်း၊ အသင့်အား

وَقَبْلَ الْغُرُوبِ ﴿٣٩﴾

ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ချီးမွမ်းထောပနာပြုခြင်းနှင့်တကွ (ထိုအရှင်မြတ်) စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုလျက် ရှိပါလေ။

وَمِنَ الَّيْلِ فَسَبِّحْهُ وَأَدْبَارَ السُّجُودِ ﴿٤٠﴾

၄၀။ ထိုမှတပါး အသင်သည် ညဥ့်အချိန်၌လည်းကောင်း၊ 'ဆွလာတ်'[၁] ဝတ်ပြုမှုများ၏ နောက်တွင်လည်းကောင်း၊ ထိုအရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုပါလေ။ [၂]

وَاسْتَمِعْ يَوْمَ يُنَادِ الْمُنَادِ مِنْ مَّكَانٍ قَرِيبٍ ﴿٤١﴾

၄၁။ ထို့ပြင် (အို-ကြားနာသူ) အသင်သည် နားထောင်လော့၊ အကြင်နေ့တွင် ဟစ်အော်သူ (တစ်ဦး) သည် နီးကပ်စွာသော နေရာမှ ဟစ်အော်မည်။

يَوْمَ يَسْمَعُونَ الصَّيْحَةَ بِالْحَقِّ ذٰلِكَ يَوْمُ الْخُرُوجِ ﴿٤٢﴾

၄၂။ အကြင်နေ့တွင် ယင်း(ကြောက်မက်ဖွယ်ကောင်းသော) ဟစ်အော်သံကို (အားလုံးတို့ပင်) မုချဧကန် မှန်ကန်စွာ ကြားကြရပေမည်။ ထိုနေ့သည် (သင်္ချိုင်းများမှ) ထွက်ကြရမည့်နေ့ပင်။ [၃]

---

(၁) ဤအာယတ်တော်တွင် 'စုဂျူဒ်' ဟူသည် ဆွလာတ်ကိုပင် ဆိုလိုသည်။ ဆိုလိုသည်ကား ဝတ်ပြုပြီးနောက်တွင် (တတ်စ်ဗီဟ်) အလ္လာဟ်အရှင်မြတ်အား ဂုဏ်တော်များ မွမ်းရသည်။ အဆို တစ်ရပ်အရ ဤအာယတ်တော်တွင် ပါရှိသော တတ်စ်ဗီဟ်သည် ဖရ်စ်ဆွလာတ်များနောက် အပိုအဖြစ် ဆောက်တည်ရသော နဖ်လ် ဆွလာတ်များကို ဆိုလိုသည်။ ကြည့်- မာဂိုဒီ၊ ရာဃိဗ်။

(၂) ဤကဲ့သို့ ရှင်းလင်းပြတ်သားသော အချက်များကိုပင် မက္ကာမြို့သား ကာဖိရ်များ နားမလည်ကြပါက နားမလည်သူများ၏အပြစ်ပင်။ တမန်တော်မြတ်သည် ထိုသို့သောသူများနှင့်ပတ်သက်၍ စိတ်ဆင်းရဲရန် မလိုပေ။ ၎င်းတို့ သွားပုပ်လေလွင့် ပြောဆိုနေသည်များအပေါ်၌သည်းခံကာ မိမိ၏အရှင်သခင်အားသာ အမြဲတစေအောက်မေ့တသ သတိရကာ ဂုဏ်တော်မွမ်း၍ နေရမည်သာ။ ဤအာယတ်တော်တွင် ဖော်ပြပါရှိသော အချိန်များသည် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရရန်အတွက် အထူးလျော်ကန်သင့်မြတ်သော အချိန်များဖြစ်သည်။ ထိုအချိန်များတွင် ဆုပန်ကြားခြင်း၊ ဝတ်ပြုခြင်းများကို အလ္လာဟ်အရှင်မြတ်သည် အထူးတလည်လက်ခံတော်မူသည်။

အချို့ (ရိဝါယတ်) ကျမ်းချက်များအရ အစပထမတွင် တမန်တော်မြတ်အပေါ်၌ ဆွလာတ်သုံးကြိမ်သာ 'ဖရသ်' တာဝန်ရှိခဲ့သည်။ (၁) ဖဂ်ျရ် ဆွလာတ်။ (၂) အတ်ဆ်ရ် ဆွလာတ်။ (၃) တဟဂ်ျဂျုဒ် ဆွလာတ်။ ယခုလည်း ဤအချိန် သုံးချိန်တွင် ဆွလာတ်ဝတ်ပြုမှု၊ ဆုပန်ကြားမှုများသည် ထူးကဲမြင့်မြတ်လှပေသည်။ အချို့က ဤအာယတ်တော်တွင် နေမထွက်မီအချိန်သည် ဖဂ်ျရ်ဆွလာတ်ကိုရည်ညွှန်းသည်။ နေမဝင်မီအချိန်သည် ဇုဟ်ရ်ဆွလာတ်နှင့် အတ်ဆ်ရ်ဆွလာတ်ကို ရည်ညွှန်းသည်။ ညဥ့်အချိန်ဟူသည် မဃ်ရိဗ်နှင့် အိရှာဆွလာတ်ကို ရည်ညွှန်းသည်ဟု ဆိုလိုသည်။

إِنَّا نَحْنُ نُحْيِ وَنُمِيتُ وَإِلَيْنَا الْمَصِيرُ ﴿٤٣﴾

၄၃။ ဧကန်မလွဲ ငါအရှင်မြတ်သည်ပင် ရှင်စေတော်မူ၏။ ၎င်းပြင် ငါအရှင်မြတ်သည်ပင် သေဆုံးစေတော်မူ၏။ ထိုမှတပါး ငါအရှင်မြတ်အထံတော်သို့ပင် ပြန်လာကြရပေမည်။

يَوْمَ تَشَقَّقُ الْأَرْضُ عَنْهُمْ سِرَاعًا ذَٰلِكَ حَشْرٌ عَلَيْنَا يَسِيرٌ ﴿٤٤﴾

၄၄။ အကြင်နေ့တွင် (၎င်းတို့) ပြေးလျက်ရှိကြစဉ် မြေသည် ၎င်းတို့အပေါ်မှ ပွင့်ထွက်သွားပေမည်။ ဤသည် ငါအရှင်မြတ်အဖို့ လွယ်ကူသောစုရုံးခြင်းပင်။

نَحْنُ أَعْلَمُ بِمَا يَقُولُونَ وَمَا أَنتَ عَلَيْهِم بِجَبَّارٍ فَذَكِّرْ بِالْقُرْآنِ مَن يَخَافُ وَعِيدِ ﴿٤٥﴾

၄၅။ ငါအရှင်မြတ်သည် ၎င်းတို့ပြောဆိုသမျှတို့ကို အသိတော်မူဆုံးပင်ဖြစ်တော်မူ၏။ စင်စစ်သော်ကား (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အပေါ်၌ အနိုင်အထက်ပြုသူမဟုတ်ပေ။ သို့ဖြစ်ပေရာ အသင်သည် ငါအရှင်မြတ်၏ ချိန်းဆိုချက်ကို ကြောက်ရွံ့သူအား ကုရ်အာန်ကျမ်းတော်မြတ်ဖြင့် သြဝါဒပေးလျက် နေပါလေ။ [၁]

---

(၃) ကိယာမတ်ဖြစ်စေရန် ဟစ်အော်တံပိုးမှုတ်ရန် တာဝန်မှာ ကောင်းကင်တမန် အီစ်ရာဖီလ်၏ တာဝန်ဖြစ်သည်။ ကောင်းကင်တမန် အီစ်ရာဖီလ်၏အသံကို လူတိုင်းလူတိုင်းသည် အနီးမှပင် ကြားရပေမည်။ ကောင်းကင်တမန် အီစ်ရာဖီလ်၏ ဟစ်အော်သံကို ကြားကြရသည့်နေ့သည် သင်္ချိုင်းများမှ ထွက်ကြရမည့်နေ့ပင်။

ဟဒီးဆ် သြဝါဒတော်များတွင် လာရှိသည်မှာ ကောင်းကင်တမန် အီစ်ရာဖီလ် ပထမအကြိမ် တံပိုးမှုတ်လိုက်သည့်အခါ အားလုံးသေကြေ ပျက်စီးသွားကြပေမည်။ ဒုတိယအကြိမ် တံပိုးမှုတ်လိုက်သည့်အခါ အားလုံး ရှင်ပြန်ထလာကြပေမည်။ ဆိုလိုသည်ကား ဖန်ဆင်းသောအရှင်၊ ပြုစုပျိုးထောင်သောအရှင်၊ ကွပ်မျက်သော အရှင်၊ ကမ္ဘာပျက်ပြုန်း နိဂုံးနေ့ နောက်ဆုံးတွင် စီရင်ချက်ချမည့်အရှင်သည် အပြောမဟုတ်၊ အများမဟုတ်၊ အလ္လာဟ်အရှင်မြတ် တပါးတည်းပင်။

(၁) ဆိုလိုသည်ကား လူတိုင်းလူတိုင်းအား မိမိ၏ တရားများကို အတင်းအဓမ္မ အကျပ်ကိုင်၍ နာခံစေခြင်းမှာ တမန်တော်မြတ်၏ တာဝန်မဟုတ်။ ယင်းသို့ အကျပ်ကိုင်၍ နာခံစေခြင်းမှ ဖြစ်ပေါ်လာမည့် နာခံမှုသည်လည်း စေတနာမပါသော အယောင်ဆောင် နာခံမှုသာဖြစ်ပေမည်။ တရားမဝင်။ အချည်းအနှီးပင်။

သို့ဖြစ်ရာ အလ္လာဟ်အရှင်မြတ်၏ ချိန်းချက်သတိပေးချက်ကို ကြောက်ရွံ့သောသူများအား ကုရ်အာန် ကျမ်းလာ ဒေသနာတော်များဖြင့် အထူးတလည် သွန်သင်ဆုံးမ တရားချ၍နေရမည်သာ။ ကုရ်အာန်ကျမ်းမြတ်သည် ကမ္ဘာသူကမ္ဘာသား အားလုံးတို့အား တရားပြသည်ကားမှန်၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားသော စိတ်နှလုံးရှိသောသူများသာလျှင် ကုရ်အာန်ကျမ်းလာ ဒေသနာတော်များဖြင့် လက်တွေ့အကျိုးခံစားကြပေသည်။ ဤအချက်ကို ဤအာယတ်တော်တွင် ရည်ညွှန်းထားတော်မူသည်။

# လွင့်ပါးစေသောလေများ ကဏ္ဍ



ဤကဏ္ဍသည် "ဇာရိယာတ်" လွင့်ပါးစေသော လေများ ကဏ္ဍမည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၆၀)ပါး၊
ရုကူအ် အပိုဒ်(၃)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော၊ အစဉ် သနားကြင်နာ ညှာတာတော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ဖြင့် အစပြုပါ၏။

وَالذّٰرِيٰتِ ذَرْوًا ①

၁။ (ငါအရှင်မြတ်သည်) လွင့်ပါးစေခြင်းအားဖြင့် ကစဥ့်ကလျား ဖြစ်စေသောလေများကို သက်သေထူတော်မူ၏။

فَالْحٰمِلٰتِ وِقْرًا ②

၂။ တစ်ဖန် ဝန်ကို တင်ဆောင်ကြကုန်သော လေများ၊ တိမ်များကို သက်သေထူတော်မူ၏။

فَالْجٰرِيٰتِ يُسْرًا ③

၃။ တစ်ဖန် ညင်သာစွာတိုက်ခတ်ကြသော သွားလာလှုပ်ရှားကြသော လေ၊ လှေများကို သက်သေထူတော်မူ၏။

فَالْمُقَسِّمٰتِ اَمْرًا ④

၄။ တစ်ဖန် အမိန့်တော်အရ ခွဲဝေပေးသော လေများကို၊ အရာဝတ္ထုများကို ခွဲဝေပေးသော 'မလာအိကဟ်' ကောင်းကင်တမန်များကို သက်သေထူတော်မူ၏။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ်သည် ဤကဏ္ဍ၏အစ အာယတ်တော် (၄) ပါးတွင် လေးမျိုးလေးစားသော လေများကို ဆင်ခြင်ရန်အလေးအနက် မိန့်ဆိုထားတော်မူသည်။ (၁) လွင့်ပါးစေသောလေများ၊ (၂) တိမ်များကို သယ်သော လေများ၊ (၃) မိုးမရွာသွန်းမီ ညင်သာစွာတိုက်ခတ်သော လေများ၊ (၄) မိုးရေများကို ခွဲဝေဖြန့်ဖြူးသောလေများ၊ ဤသို့ဖြင့် ကမ္ဘာမြေပြင်တွင် အံ့ဖွယ်သရဲ မိုးများ ရွာသွန်းလျက် ရှိသည်။ ဤသည်တို့သည် အလ္လာဟ်အရှင်မြတ်၏ စီရင်ဖန်တီးမှု၏ အကျိုးပင်။ ဤသည်တို့ကိုပင် စဉ်းစားဆင်ခြင်မြော်မြင်ပါက အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော် အနန္တကို သိမြင်နိုင်ပေသည်။ ➤➤

إِنَّمَا تُوعَدُونَ لَصَادِقٌ ﴿٥﴾

၅။ ဧကန်မလွဲ အသင်တို့ ချိန်းဆိုခြင်းခံကြရလေသော ချိန်းဆိုချက်မှာ အမှန်ပင် မှန်ကန်သော ချိန်းဆိုချက် ဖြစ်၏။

وَإِنَّ الدِّينَ لَوَاقِعٌ ﴿٦﴾

၆။ ၎င်းပြင် ဧကန်စင်စစ် အစားပေးမည့်နေ့မှာ အမှန်ပင် ဆိုက်ရောက်လာအံ့သော နေ့ဖြစ်၏။

وَالسَّمَاءِ ذَاتِ الْحُبُكِ ﴿٧﴾

၇။ (ငါအရှင်မြတ်သည်) လမ်းကြောင်းများရှိသော မိုးကောင်းကင်ကို သက်သေထူတော်မူ၏။ [၁]

إِنَّكُمْ لَفِي قَوْلٍ مُّخْتَلِفٍ ﴿٨﴾

၈။ မလွဲဧကန် အသင်တို့သည် ကွဲပြားခြားနားသော ပြောဆိုမှုများ၌ ရှိနေကြကုန်၏။

يُؤْفَكُ عَنْهُ مَنْ أُفِكَ ﴿٩﴾

၉။ ထို('ကိယာမတ်' ရှင်ပြန်ထမည့်နေ့ကို ယုံကြည်ခြင်း)မှ သွေဖည်သူသည်(ကောင်းမြတ်ခြင်းအားလုံးမှ) သွေဖည်သူသာ ဖြစ်သည်။ [၂]

---

➤➤ အချို့ (အာလင်မ်) ပညာရှင်များက ဤအာယတ်တော်တွင် (ဇာရိယာတ်) တိုက်ခတ်သောအရာများဟူသည် လေများကို ရည်ညွှန်းသည်။ (ဟာမိလာတ်) သယ်ဆောင်သောအရာများဟူသည် တိမ်များကိုရည်ညွှန်းသည်။ (ဂျာရိယာတ်) စီးတွေသွားလာနေသော အရာများသည် ကြယ်များကို ရည်ညွှန်းသည်။ (မုကတ်စိမာတ်) ခွဲဝေဖြန့်ဖြူးပေးသော အရာများဟူသည် ကောင်းကင်တမန်များကို ရည်ညွှန်းသည်ဟု ဆိုကြသည်။

ဤအာယတ်တော်နှင့်စပ်လျဉ်း၍ သာဝကကြီး အလီသခင်ထံမှတဆင့် ကြားသိရသည်မှာ (ဇာရိယာတ်) သည် လေများကို ဆိုလိုသည်။ (ဟာမိလာတ်)သည် တိမ်များကို ဆိုလိုသည်။(ဂျာရိယာတ်)သည် လှေများကို ဆိုလိုသည်။(မုကတ်စိမာတ်)သည် ကောင်းကင်တမန်များကို ဆိုလိုသည်။

(၁) ဆိုလိုသည်ကား မိုးကောင်းကင်သည် မြင့်စွင့်လှ၏။ ကြည်လင်လှ၏။ ကြယ်တာရာအပေါင်းနှင့် ဆင်ယင်ထားသည်မှာလည်း ရှုမငြီးပင်။ ယင်းမိုးကောင်းကင်တွင် လမ်းကြောင်းများရှိသည်မှာလည်း အံ့မဆုံးပင်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ စီရင်ဖန်တီးမှု၏ အကျိုးပင်။

ကောင်းကင်၌ရှိသော လမ်းများကား အဘယ်နည်း။ ဤတွင် အဆို ၂-ရပ်ရှိ၏။ (၁) အချို့က မိုးကောင်းကင်ရှိ လမ်းကြောင်းများဟူသည် ကြယ်တာရာများကို အကြောင်းပြု၍ တွေ့မြင်နေရသော လမ်းများကို ရည်ညွှန်းသည်ဟု ဆိုကြသည်။ (၂) အချို့က အသိဉာဏ်နှင့်ယှဉ်၍ သိရှိရသော အသိဉာဏ်ဆိုင်ရာ လမ်းများကို ရည်ညွှန်းသည်ဟု ဆိုကြသည်။ ဤသည့်သဘောကို ကုရ်အာန် (၃:၁၈၉-၁၉၀) တွင်လည်း မိန့်ဆိုထားတော်မူသည်။ ကြည့် - ရာဃိဗ်။

(၂) ဆိုလိုသည်ကား- အချို့သူများသည် ကိယာမတ်နှင့်စပ်လျဉ်း၍ တစ်စုံတစ်ရာ စဉ်းစားဆင်ခြင်ခြင်း➤➤

قُتِلَ الْخَرّٰصُوْنَ ⑩

၁၀။ (သာသနာ့ရေးရာများနှင့် စပ်လျဉ်း၍) ရမ်းဆပြောဆိုကြကုန်သောသူတို့သည် ပျက်စီးကြရပေမည်။

الَّذِيْنَ هُمْ فِيْ غَمْرَةٍ سَاهُوْنَ ⑪

၁၁။ အကြင်သူတို့သည် မသိမိုက်မဲမှု၌ မေ့လျော့လျက် ရှိနေကြကုန်၏။

يَسْـَٔلُوْنَ اَيَّانَ يَوْمُ الدِّيْنِ ⑫

၁၂။ ၎င်းတို့သည် (မထီမဲ့မြင်ပြုသောအားဖြင့်) အစားပေးမည့်နေ့သည် မည်သည့်အခါ၌ ဆိုက်ရောက်ပါမည်နည်း ဟု မေးမြန်းကြကုန်၏။

يَوْمَ هُمْ عَلَى النَّارِ يُفْتَنُوْنَ ⑬

၁၃။ အကြင်နေ့တွင် ၎င်းတို့သည် မီးထဲ၌ချခြင်းကို ခံကြရပေမည်။

ذُوْقُوْا فِتْنَتَكُمْ ۭ هٰذَا الَّذِيْ كُنْتُمْ بِهٖ تَسْتَعْجِلُوْنَ ⑭

၁၄။ (ထိုနေ့တွင် ၎င်းတို့မှာ) အသင်တို့သည် မိမိတို့၏ ပြစ်ဒဏ်၏ရသာကို မြည်းစမ်းကြလေကုန်။ ဤသည်ပင်လျှင် အသင်တို့ အလျင်စလို တောင်းဆိုခဲ့ကြသောနေ့ဖြစ်သည်။ (ဟုပြောဆိုခြင်းကို ခံကြရကုန်အံ့သတည်း။)

اِنَّ الْمُتَّقِيْنَ فِيْ جَنّٰتٍ وَّعُيُوْنٍ ⑮

၁၅။ ဧကန်မလွဲ 'မွတ္တကီ' သူတော်စင်တို့မှာ ဥယျာဉ်များနှင့် စမ်းချောင်းများ၌ ရှိနေကြပေမည်။

اٰخِذِيْنَ مَآ اٰتٰىهُمْ رَبُّهُمْ ۭ اِنَّهُمْ كَانُوْا قَبْلَ ذٰلِكَ مُحْسِنِيْنَ ⑯

၁၆။ (၎င်းတို့သည်) မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်က မိမိတို့အား ချီးမြှင့်ပေးသနားတော်မူသည်တို့ကို ယူငင်လျက် ရှိကြပေမည်။ စင်စစ်ဧကန် ၎င်းတို့မှာ ထိုသည့်အလျင် ကောင်းမှုပြုသူများပင် ဖြစ်ခဲ့ကြကုန်၏။

---

➤➤ မပြုဘဲ အကြောင်းမဲ့ ငြင်းခုံနေကြသည်။ ထိုသို့သောသူများသည် စကြာဝဠာကြီး၏ အခြားအစိတ်အပိုင်းများကို ထားဘိဦး။ မိုးကောင်းကင်၏ ရပ်တည်နေပုံကိုပင် စဉ်းစားဆင်ခြင် မြော်မြင်ပါက၊ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်အနန္တနှင့် ကိယာမတ်ကို ကောင်းစွာ တွေ့မြင်လာနိုင်ပေသည်။ သို့ပါလျက် ကိယာမတ်အကြောင်းကို သွေဖည်ငြင်းဆန်ပါက ထိုသူသည် ကောင်းခြင်းအဖြာဖြာမှ ကင်းဝေးရမည်သာတည်း။

كَانُوْا قَلِيْلًا مِّنَ الَّيْلِ مَا يَهْجَعُوْنَ ﴿١٧﴾

၁၇။ ၎င်းတို့သည် ညဥ့်တွင် အနည်းငယ်မျှသော အချိန်၌သာ အိပ်စက်လေ့ ရှိခဲ့ကြကုန်၏။

وَبِالْاَسْحَارِ هُمْ يَسْتَغْفِرُوْنَ ﴿١٨﴾

၁၈။ ထို့ပြင် ၎င်းတို့သည် ညဥ့်၏နောက်ဆုံးယံများတွင် လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြား အသနားခံလေ့ရှိခဲ့ကြကုန်၏။

وَفِيْٓ اَمْوَالِهِمْ حَقٌّ لِّلسَّآئِلِ وَالْمَحْرُوْمِ ﴿١٩﴾

၁၉။ ထိုမှတပါး ထိုသူတို့၏ ပစ္စည်းဥစ္စာများတွင် တောင်းရမ်းသော သူဆင်းရဲအဖို့လည်းကောင်း၊ (သိက္ခာစောင့်စည်းသောအားဖြင့်) တောင်းရမ်းခြင်းမပြုသော သူဆင်းရဲအဖို့လည်းကောင်း၊ ဝေစုဝေပုံ (အခွင့်အရေး) ရှိခဲ့၏။ [၁]

وَفِى الْاَرْضِ اٰيٰتٌ لِّلْمُوْقِنِيْنَ ﴿٢٠﴾

၂၀။ စင်စစ်သော်ကား ယုံကြည်လိုသောသူတို့အဖို့ ပထဝီမြေ၌ များစွာသောသက်သေ လက္ခဏာများ ရှိကုန်၏။

---

(၁) ဆိုလိုသည်ကား မွတ္တကီသူတော်စင်များသည် ဂျန္နတ်တွင် အေးချမ်းသာယာစွာ စံစားလျက် ရှိကြပေမည်။ မိမိတို့၏ အရှင်သခင်က မိမိတို့အား ချီးမြှင့်တော်မူမည့် သုခချမ်းသာအဖြာဖြာ ကိုလည်း ကြည်ဖြူစွာ လက်ခံလျက် ရှိကြပေမည်။

ဤသို့ ဂျန္နတ်၏ အမတသုခများကို စံစားရခြင်းမှာ အကြောင်းမဲ့မဟုတ်။ ယင်းမွတ္တကီ သူတော်စင်များသည် ပစ္စက္ခဘဝတွင် ရှိခဲ့ကြစဉ်က ကောင်းမှုများ ပြုခဲ့ကြပေသည်။ နေ့အချိန်များတွင် မဆိုထားနှင့်၊ ညဥ့်၌ပင် နိုးထကာ အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုလေ့ရှိခဲ့ကြသည်။ ယင်းသို့ ဝတ်ပြုခဲ့ကြသည့်အတွက် အထင်မကြီးခဲ့ကြပေ။ ညဥ့်၏ နောက်ဆုံးယံများ၌ မိမိတို့၏ ချို့တဲ့မှုများနှင့် စပ်လျဉ်း၍ ချမ်းသာခွင့် ပန်ကြားလေ့ရှိခဲ့ကြပေသည်။

ထိုသူတော်စင်များသည် ဇကာတ်အပြင် မိမိတို့၏ ဥစ္စာပစ္စည်းများတွင် တောင်းရမ်းစားသုံးရရှာသော သူဆင်းရဲများအဖို့ လည်းကောင်း၊ တောင်းရမ်း မစားသုံးဝံ့ရှာသော သူဆင်းရဲအဖို့ လည်းကောင်း၊ ဆင်းရဲသူဆင်းရဲသား အားလုံးတို့အဖို့ ဝေစုဝေပုံများ၊ အခွင့်အရေးများ ရှိသည်ဟူ၍ပင် စေတနာအလျောက် သတ်မှတ်၍ ထားခဲ့ကြပေသည်။

မွတ္တကီသူတော်စင်များသည် ယင်းသို့ ကောင်းမှုများကို ဆည်းပူးခဲ့ကြသည့်အတွက် ယင်းကောင်းမှုတို့၏ သီးပွင့်များဖြစ်သော ဂျန္နတ်၏ အမတသုခများကို နောင်တမလွန်ဘဝတွင် စံစားကြရခြင်း ဖြစ်ပေသည်။

وَفِيٓ أَنفُسِكُمۡۚ أَفَلَا تُبۡصِرُونَ ﴿٢١﴾

၂၁။ ထိုနည်းတူစွာ အသင်တို့ကိုယ်များတွင်လည်း (သက်သေလက္ခဏာများ) ရှိကုန်၏။ သို့ပါလျက် အသင်တို့သည် မမြင်ကြလေသလော။

وَفِي ٱلسَّمَآءِ رِزۡقُكُمۡ وَمَا تُوعَدُونَ ﴿٢٢﴾

၂၂။ ထို့ပြင် မိုးကောင်းကင်၌ အသင်တို့၏ စားနပ်ရိက္ခာသည်လည်းကောင်း၊ အသင်တို့ကတိပေးခြင်းခံကြရလေသောအရာသည်လည်းကောင်း၊ ရှိပေသည်။ [၁]

فَوَرَبِّ ٱلسَّمَآءِ وَٱلۡأَرۡضِ إِنَّهُۥ لَحَقّٞ مِّثۡلَ مَآ أَنَّكُمۡ تَنطِقُونَ ﴿٢٣﴾

၂၃။ သို့ဖြစ်ပေရာ မိုးကောင်းကင်ကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသောအရှင်မြတ်၏ 'ကစမ်'၊ ယင်း ('ကိယာမတ်' ဖြစ်ခြင်း၊ စားနပ်ရိက္ခာရရှိခြင်း၊ တမလွန်ဘဝ ဆိုက်ရောက်ခြင်းနှင့် အလ္လာဟ်အရှင်မြတ်၏ ကတိတော်အတိုင်း စံစား၊ ခံစားရခြင်းတို့)သည် အသင်တို့ စကားပြောဆိုကြဘိသကဲ့သို့ပင် မှန်ကန်လှပေသတည်း။ [၂]

هَلۡ أَتَىٰكَ حَدِيثُ ضَيۡفِ إِبۡرَٰهِيمَ ٱلۡمُكۡرَمِينَ ﴿٢٤﴾

၂၄။ (အို–နဗီတမန်တော်၊) အသင့်ထံသို့ (နဗီတမန်တော်) အီဗ်ရာဟီမ်၏ ဂုဏ်သရေရှိ ဧည့်သည်တော်များ၏အကြောင်း ရောက်ရှိခဲ့လေသလော။

---

(၁) ဆိုလိုသည်ကား မိမိတို့၏ ဥစ္စာပစ္စည်းများကို ဆင်းရဲသူဆင်းရဲသားများအား ပေးကမ်းသည့်အတွက် မိမိတို့ကိုယ်ပိုင် စား၊ ဝတ်၊ နေရေးတွင် ကသီလင်တ ဖြစ်သွားကြလိမ့်မည်ဟူ၍ ပူပန်ရန် လည်းမလို၊ ဆင်းရဲသူ ဆင်းရဲသားများအား လှူဒါန်းပြီးနောက် ဂုဏ်ဖော်ရန်လည်းမလို။ အဘယ်ကြောင့်ဆိုသော် အားလုံးတို့၏ ရိက္ခာနှင့် ကျိုးပြစ်များသည် ကောင်းကင်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိပေသည်။ ရိက္ခာသည် သူ့အချိန်နှင့်သူ သက်ဆိုင်ရာထံသို့ ရောက်ရှိလာမည်သာဖြစ်သည်။ မည်သူမျှမပိတ်ပင် မတားဆီးနိုင်။ သူတပါးအား လှူဒါန်းပါက လှူဒါန်းသည့် အတွက် ကုသိုလ်အကျိုး သီးခြားရရှိဦးမည်ပင်။
(၂) ဆိုလိုသည်ကား လူသားတို့သည် မိမိတို့အချင်းချင်း စကားပြောဆိုကြ၏။ သို့စကားပြောဆိုရာတွင် တစ်စုံတစ်ရာ ဒွိဟသံသယ မဖြစ်ကြပေ။ စကားပြောဆိုရာတွင် ဒွိဟသံသယ မရှိသကဲ့သို့၊ ဤအာယတ်တော်တွင် လည်း တစ်စုံတစ်ရာ ဒွိဟသံသယ အလျင်းမရှိပေ။ (ဝါ) ရိက္ခာသည် သက်ဆိုင်ရာထံသို့ သူ့အချိန်နှင့်သူ မုချ ရောက်ရှိလာမည်။ ကိယာမတ် မုချဖြစ်မည်။ နောင်တမလွန်ဘဝတွင် ကျိုးပြစ်ခံ စံကြရမည်။ အလ္လာဟ် အရှင်မြတ်၏ ကတိတော်များသည် အားလုံးအတည်ဖြစ်မည်သာတည်း။

إِذْ دَخَلُوا عَلَيْهِ فَقَالُوا سَلَامًا ۖ قَالَ سَلَامٌ قَوْمٌ مُّنكَرُونَ ﴿٢٥﴾

၂၅။ အကြင်အခါဝယ် ထိုဧည့်သည်တော်တို့သည် ထိုအီဗ်ရာဟီမ်၏ထံသို့ ဝင်ရောက်ခဲ့၍ 'စလာမ်' (ငြိမ်းချမ်းစွာ ရှိပါစေသား)ဟူ၍ ပြောဆိုခဲ့ကြကုန်၏။ ထိုအီဗ်ရာဟီမ်ကလည်း 'စလာမ်'ဟူ၍ ပြန်ကြားခဲ့၏။ (တစ်ဖန် မိမိစိတ်ထဲတွင် ဤသူတို့မှာ ငါ)မသိသော သူစိမ်းများပင် ဖြစ်ကြသည်(ဟု မှတ်ချက်ချခဲ့လေ၏။)

فَرَاغَ إِلَىٰ أَهْلِهِ فَجَاءَ بِعِجْلٍ سَمِينٍ ﴿٢٦﴾

၂၆။ တစ်ဖန် ထိုအီဗ်ရာဟီမ်သည် မိမိအိမ်(ထဲ)သို့ ဝင်ပြီးလျှင် (ကင်ထားသော) ဝဖြိုးသည့် နွားကလေး တစ်ကောင်ကို ယူလာခဲ့လေ၏။

فَقَرَّبَهُ إِلَيْهِمْ قَالَ أَلَا تَأْكُلُونَ ﴿٢٧﴾

၂၇။ ပြီးနောက် (ကင်ထားသော) ထိုနွားကလေးကို ထိုဧည့်သည်တို့အပါး၌ နေရာတကျ တည်ခင်း(ဧည့်ခံ)ခဲ့လေ၏။ (ထို့နောက် ဧည့်သည်တို့အား) အသင်တို့သည် အဘယ်ကြောင့် မစားကြပါသနည်းဟု မေးမြန်းခဲ့၏။

فَأَوْجَسَ مِنْهُمْ خِيفَةً ۖ قَالُوا لَا تَخَفْ ۖ وَبَشَّرُوهُ بِغُلَامٍ عَلِيمٍ ﴿٢٨﴾

၂၈။ ထို့နောက် (၎င်းတို့စားသုံးခြင်း မပြုကြသော ကြောင့်) ထိုအီဗ်ရာဟီမ်သည် မိမိစိတ်ထဲတွင် ၎င်းတို့ ဘက်မှ စိုးရိမ်လာခဲ့လေ၏။ (ထိုအခါ) ၎င်းတို့က အသင်သည် မစိုးရိမ်ပါလေနှင့်ဟု ပြောဆိုကြ၏။ ထို့ပြင် ၎င်းတို့သည် ထိုအီဗ်ရာဟီမ်အား အလွန်တရာ အသိပညာနှင့်ပြည့်စုံသော သားရတနာတစ်ပါးနှင့် ပတ်သက်၍ သတင်းကောင်း ပြောကြားခဲ့ကြ၏။

فَأَقْبَلَتِ امْرَأَتُهُ فِي صَرَّةٍ فَصَكَّتْ وَجْهَهَا وَقَالَتْ عَجُوزٌ عَقِيمٌ ﴿٢٩﴾

၂၉။ ထိုရောကာလ ထိုအီဗ်ရာဟီမ်၏ ဇနီးကြင်ရာ သည် အသံကျယ်စွာ ပြောဆိုညည်းညူလျက် ရှေ့သို့ ရောက်ရှိ၍လာပြီးလျှင် မိမိနဖူးကို လက်ဝါးဖြင့်ရိုက်ကာ အသက်အရွယ် ကြီးရင့်အိုမင်းလျက်ရှိသော မြုံ၍ နေသော မိန်းမတစ်ဦးသည် (သားဖွားဦးမည်လော)ဟု ပြောဆိုခဲ့လေ၏။

قَالُوا كَذَٰلِكِ قَالَ رَبُّكِ ۖ إِنَّهُ هُوَ الْحَكِيمُ الْعَلِيمُ ﴿٣٠﴾

၃၀။ (ထိုအခါ) ထိုဧည့်သည်တို့က 'အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ဤအတိုင်းပင် မိန့်ကြားတော်မူခဲ့သည်။ ဧကန်မလွဲ ထိုအရှင်မြတ်သည် နက်နဲသိမ်မွေ့သောအသိပညာနှင့် ပြည့်စုံတော်မူသောအရှင်၊ (အရာခပ်သိမ်းတို့ကို) အကြွင်းမဲ့ သိရှိတော်မူသောအရှင် ဖြစ်တော်မူသည်'ဟူ၍ ပြန်ကြားခဲ့ကြကုန်သတည်း။ [၁]

(၁) တမန်တော် အီဗ်ရာဟီမ် (အလိုင်ဟစ်စလာမ်)ထံသို့ ကောင်းကင်တမန်များ ရောက်ရှိလာပြီး 'စလာမ်' ဆိုသည့်အကြောင်း၊ တမန်တော် အီဗ်ရာဟီမ်က 'စလာမ်' ပြန်သည့်အကြောင်း၊ ဧည့်ခံ ကျွေးမွေးသည့်အကြောင်း၊ ကောင်းကင်တမန်များ မစားသုံးကြသည်ကို တွေ့မြင်သောအခါ တမန်တော် အီဗ်ရာဟီမ် စိုးရိမ်မကင်းဖြစ်ခဲ့သည့်အကြောင်း၊ ကောင်းကင်တမန်များက တမန်တော်အီဗ်ရာဟီမ်အား မစိုးရိမ်ရန် ပြောခဲ့ကြသည့်အကြောင်း၊ သားတော်တစ်ပါး ထွန်းကားမည်ဟူ၍ ကောင်းချီးသတင်းပေး ခဲ့ကြသည့်အကြောင်း၊ အသက်အရွယ် ကြီးရင့်ခါမှ သားတော်တစ်ပါး ထွန်းကားမည်ဟူသော စကားနှင့်စပ်လျဉ်း၍ တမန်တော် အီဗ်ရာဟီမ်၏ ကြင်ရာတော် စာရဟ်သခင်မက အံ့ဩခဲ့သည့်အကြောင်း၊ ကောင်းကင်တမန်များက ဤအတိုင်းပင်ဖြစ်မည် ဟူ၍ ထပ်ဆင့်ပြောကြားခဲ့သည့် အကြောင်းများသည် ကုရ်အာန် (၁၁း၆၉-၇၆။ ၁၅း၅၁-၆၀)တွင် ပါရှိခဲ့ပေပြီ။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။

قَالَ فَمَا خَطْبُكُمْ أَيُّهَا الْمُرْسَلُونَ ﴿٣١﴾

၃၁။ (ထိုအခါ) ထိုအီဗ်ရာဟီမ်က သို့ဖြစ်လျှင် အသင်တို့၌ မည်သည့် အရေးကိစ္စ ရှိသနည်းဟု မေးမြန်းခဲ့လေ၏။

قَالُوا إِنَّا أُرْسِلْنَا إِلَىٰ قَوْمٍ مُّجْرِمِينَ ﴿٣٢﴾

၃၂။ ၎င်းတို့က ပြောကြားခဲ့ကြလေသည်။ ဧကန် အမှန် ကျွန်ုပ်တို့သည် အပြစ်ကျူးလွန်ကြကုန်သော အမျိုးသားတို့ထံ စေလွှတ်ခြင်း ခံခဲ့ကြရကုန်၏။

لِنُرْسِلَ عَلَيْهِمْ حِجَارَةً مِّن طِينٍ ﴿٣٣﴾

၃၃။ ကျွန်ုပ်တို့သည် ၎င်းတို့အပေါ်၌ ရွှံ့စေးဖြင့် ပြီးသော (ကျောက်)ခဲများကို ရွာသွန်းချစေရန် (စေလွှတ်ခြင်း ခံခဲ့ကြရလေသည်)။

مُّسَوَّمَةً عِندَ رَبِّكَ لِلْمُسْرِفِينَ ﴿٣٤﴾

၃၄။ (ယင်းကျောက်ခဲများမှာ) တရားစည်းကမ်း ကျူးလွန်သူတို့အဖို့ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ မှတ်သားပြီးဖြစ်၏။

فَأَخْرَجْنَا مَن كَانَ فِيهَا مِنَ الْمُؤْمِنِينَ ﴿٣٥﴾

၃၅။ ထိုအခါ ငါအရှင်မြတ်သည် ယင်းမြို့ရွာ၌ ရှိကုန်သော 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အား ထုတ်ယူ လွတ်မြောက်စေတော်မူခဲ့၏။

فَمَا وَجَدْنَا فِيهَا غَيْرَ بَيْتٍ مِّنَ الْمُسْلِمِينَ ﴿٣٦﴾

၃၆။ သို့ရာတွင် ငါအရှင်မြတ်သည် ထိုမြို့ရွာ၌ မုစ်လင်မ်အိမ်တစ်အိမ်သာလျှင် တွေ့ရှိတော်မူခဲ့၏။ [၁]

---

၁ **'မုအ်မင်န်'၊ 'မွတ်စ်လင်မ်'**

ဤအာယတ်တော်[ကုရ်အာန်(၅၁း၃၅-၃၆)]တွင် တမန်တော်နူဟ်၏ အိမ်သူအိမ်သားတပည့်သားများနှင့် ပတ်သက်၍ 'မုအ်မင်န်' များဟူ၍ လည်းကောင်း၊ 'မွတ်စ်လင်မ်' များ ဟူ၍လည်းကောင်း သုံးနှုန်းထားတော်မူသည်။ ဤသည်ကိုအကြောင်းပြု၍ အချို့မုဖတ်စ်စစ်ရ်ပညာရှင်များက မုအ်မင်န်နှင့် မွတ်စ်လင်မ်၊ အီမာန်နှင့် အစ္စလာမ်သည် အနက်တူ၊ အဓိပ္ပာယ်တူပုဒ်များဖြစ်သည်ဟု ယူဆကြသည်။

သို့ရာတွင် အများမုဖတ်စ်စစ်ရ်များ၏ ယူဆချက်အရမူ မုအ်မင်န်နှင့် မွတ်စ်လင်မ်၊ အီမာန်နှင့် အစ္စလာမ် မတူ အနည်းငယ်ခြားနားသည်။ 'မွတ်စ်လင်မ်'ဟူသော ပုဒ်သည် မုအ်မင်န်၊ မွတ်စ်လင်မ် အားလုံးနှင် ပတ်သက်၍ သုံးနိုင်သောပုဒ် ဖြစ်သည်။ မုအ်မင်န်ဟူသောပုဒ်မှာကား စိတ်နှလုံးသည်းပွတ်အတွင်းမှ နှစ်နှစ်ကာကာ (အီမာန်) စွဲယူယုံကြည်သော ပုဂ္ဂိုလ်များနှင့် ပတ်သက်၍သာ သုံးနှုန်းရသော သီးသန့်ပုဒ်ဖြစ်သည်။ 'မုအ်မင်န်'ကို 'မွတ်စ်လင်မ်' ဟု သုံးနှုန်းခေါ်ဝေါ်လိုက်ရုံမျှဖြင့် မုအ်မင်န်နှင့် မွတ်စ်လင်မ်သည် အဓိပ္ပါယ်တူ၊ အနက်တူ ➢➢

وَتَرَكْنَا فِيهَا آيَةً لِّلَّذِينَ يَخَافُونَ الْعَذَابَ الْأَلِيمَ ﴿٣٧﴾

၃၇။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထိုမြို့ရွာတွင် နာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်ကို ကြောက်ရွံ့စိုးရိမ်သောသူတို့အကျိုးငှာ သက်သေလက္ခဏာတစ်ပါးကို ကျန်ရစ်စေတော်မူခဲ့ပေသတည်း။

وَفِي مُوسَىٰ إِذْ أَرْسَلْنَاهُ إِلَىٰ فِرْعَوْنَ بِسُلْطَانٍ مُّبِينٍ ﴿٣٨﴾

၃၈။ ၎င်းပြင် မူစာ(၏အကြောင်း အတ္တုပ္ပတ္တိ)တွင်လည်း (သက်သေလက္ခဏာ)ရှိ၏။ အကြင်အခါဝယ် ငါအရှင်မြတ်သည် ထိုမူစာအား 'ဖစ်ရ်အောင်န်'၏ထံသို့ ထင်ရှားစွာသော သက်သေသာဓကနှင့်တကွ စေလွှတ်တော်မူခဲ့၏။

فَتَوَلَّىٰ بِرُكْنِهِ وَقَالَ سَاحِرٌ أَوْ مَجْنُونٌ ﴿٣٩﴾

၃၉။ သို့ရာတွင် 'ဖစ်ရ်အောင်န်'မှာ မိမိစွမ်းအင်ကို အားကိုး၍ မျက်နှာလွှဲခဲ့၏။ (မိမိ၏အခြွေအရံ အသင်းအပင်းများနှင့်အတူ သွေဖည် ကျောခိုင်းသွားခဲ့၏။) ထို့ပြင် ၎င်းက တမန်တော်(မူစာအား) ပဉ္စလက်ဆရာ သို့မဟုတ် ရူးသွပ်သူဖြစ်သည်ဟူ၍ ပြောဆိုခဲ့လေ၏။

فَأَخَذْنَاهُ وَجُنُودَهُ فَنَبَذْنَاهُمْ فِي الْيَمِّ وَهُوَ مُلِيمٌ ﴿٤٠﴾

၄၀။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ထို 'ဖစ်ရ်အောင်န်' အားလည်းကောင်း၊ ထို 'ဖစ်ရ်အောင်န်'၏ စစ်သည်တို့အားလည်းကောင်း၊ ဖမ်းဆီး၍ သမုဒ္ဒရာပင်လယ်ထဲသို့ပစ်ချတော်မူခဲ့၏။ စင်စစ် ထိုဖစ်ရ်အောင်န်မှာ ပြင်းထန်စွာ ပြစ်တင်ရှုတ်ချအပ်သောသူ ဖြစ်ခဲ့၏။

وَفِي عَادٍ إِذْ أَرْسَلْنَا عَلَيْهِمُ الرِّيحَ الْعَقِيمَ ﴿٤١﴾

၄၁။ ထို့ပြင် 'အာဒ်' အမျိုးသားတို့(၏ အဖြစ်အပျက်)၌လည်း (သင်ခန်းစာ)ရှိပေသည်။ တစ်ရံရောအခါဝယ် ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ မင်္ဂလာကင်းမဲ့သော လေပြင်းမုန်တိုင်းကို စေလွှတ်တော်မူခဲ့၏။

---

➤➤ ဖြစ်မသွားပေ။ ဤအတိုင်း ကဗီရ်၊ ရူဟ်၊ ဗိုင်ဿွာဝီ၊ အစ်ဗ်နုကဆီရ် ကျမ်းကြီးများတွင် ဖွင့်ဆိုရေးသားထားကြသည်ကို တွေ့ရှိရပေသည်။

مَا تَذَرُ مِنْ شَيْءٍ أَتَتْ عَلَيْهِ إِلَّا جَعَلَتْهُ كَالرَّمِيمِ ﴿٤٢﴾

၄၂။ ယင်းလေပြင်းမုန်တိုင်းသည် မည်သည့်တစ်စုံတစ်ရာပေါ်၌မဆို သက်ရောက်ခဲ့သည်ရှိသော် ထိုအရာဝတ္ထုကို ဆွေးမြည့်ပြီး အပိုင်းပိုင်းအစစ ဖြစ်ဘိသကဲ့သို့ ပြုလုပ်ခဲ့သည်ချည်းသာ။

وَفِي ثَمُودَ إِذْ قِيلَ لَهُمْ تَمَتَّعُوا حَتَّىٰ حِينٍ ﴿٤٣﴾

၄၃။ ထိုမှတစ်ပါး 'ဆမူဒ်' အမျိုးသားတို့(၏အဖြစ်အပျက်)၌လည်း (သင်ခန်းစာ)ရှိ၏။ အခါတစ်ပါး၌ ၎င်းတို့သည် ပြောကြားခြင်းကို ခံခဲ့ကြရလေ၏။ 'အသင်တို့သည် အနည်းငယ်မျှ ကာလတိုင်အောင် အကျိုးကျေးဇူး ခံစားကြလေကုန်'

فَعَتَوْا عَنْ أَمْرِ رَبِّهِمْ فَأَخَذَتْهُمُ الصَّاعِقَةُ وَهُمْ يَنْظُرُونَ ﴿٤٤﴾

၄၄။ သို့ရာတွင် ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်ကို ပုန်ကန်ခဲ့ကြပေရာ ပြစ်ဒဏ်သည် ၎င်းတို့အား ၎င်းတို့ ရှုမြင်ရှိနေကြစဉ်မှာပင် ဖမ်းဆီးကွပ်မျက်ခဲ့လေသည်။

فَمَا اسْتَطَاعُوا مِنْ قِيَامٍ وَمَا كَانُوا مُنْتَصِرِينَ ﴿٤٥﴾

၄၅။ ထိုအခါ ၎င်းတို့မှာ မတ်တပ်ရပ်နေရန်ပင် မတတ်စွမ်းနိုင်ခဲ့ကြပေ။ ထိုမှတစ်ပါး ၎င်းတို့သည် လက်စားချေနိုင်ခဲ့ကြသည်လည်း မရှိချေ။

وَقَوْمَ نُوحٍ مِنْ قَبْلُ ۖ إِنَّهُمْ كَانُوا قَوْمًا فَاسِقِينَ ﴿٤٦﴾

၄၆။ ထိုနည်းတူစွာ (ငါအရှင်မြတ်သည်) (၎င်းတို့) အလျင် နူဟ်၏အမျိုးသားတို့အားလည်း (ဖျက်ဆီးတော်မူခဲ့၏)။ စင်စစ် ၎င်းတို့မှာကား အမိန့်တော်ကို ဖောက်ဖျက်ကျူးလွန်သော အမျိုးသားတို့ပင် ဖြစ်ခဲ့ကြကုန်သတည်း။

وَالسَّمَاءَ بَنَيْنَاهَا بِأَيْدٍ وَإِنَّا لَمُوسِعُونَ ﴿٤٧﴾

၄၇။ ၎င်းပြင် ငါအရှင်မြတ်သည် မိုးကောင်းကင်ကို တန်ခိုးတော်ဖြင့် ပြုလုပ်တော်မူခဲ့၏။ စင်စစ်သော်ကား ဧကန်မလွဲ ငါအရှင်မြတ်သည် ကျယ်ဝန်းစွာသော တန်ခိုးတော်ရှင် ဖြစ်တော်မူ၏။

وَالْأَرْضَ فَرَشْنَاهَا فَنِعْمَ الْمَاهِدُونَ ﴿٤٨﴾

၄၈။ ထိုနည်းတူစွာ ငါအရှင်မြတ်သည် ပထဝီမြေကို ခင်းကျင်းတော်မူခဲ့၏။ စင်စစ်မှာကား (ငါအရှင်မြတ်သည်) လွန်စွာကောင်းမြတ်သော ခင်းကျင်းတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

وَمِن كُلِّ شَيْءٍ خَلَقْنَا زَوْجَيْنِ لَعَلَّكُمْ تَذَكَّرُونَ ﴿٤٩﴾

၄၉။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် အသင်တို့ တရားရယူကြအံ့သောငှာ *အရာဝတ္ထုတိုင်းကို နှစ်မျိုးနှစ်စား ဖန်ဆင်းတော်မူခဲ့၏။* [1]

فَفِرُّوا إِلَى اللَّهِ ۖ إِنِّي لَكُم مِّنْهُ نَذِيرٌ مُّبِينٌ ﴿٥٠﴾

၅၀။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အထံတော်သို့ ပြေးလွှားကြလေကုန်။ ဧကန်စင်စစ် ငါသည် အသင်တို့အဖို့ ထိုအရှင်မြတ်၏အထံတော်မှ ထင်ရှားစွာ သတိပေးနှိုးဆော်သူဖြစ်၏။

وَلَا تَجْعَلُوا مَعَ اللَّهِ إِلَٰهًا آخَرَ ۖ إِنِّي لَكُم مِّنْهُ نَذِيرٌ مُّبِينٌ ﴿٥١﴾

၅၁။ ၎င်းပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်အတူ အခြားတစ်စုံတစ်ရာ ကိုးကွယ်ရာကို ဖက်စပ်သတ်မှတ်ခြင်း မပြုကြကုန်လင့်။ ဧကန်အမှန် ငါသည် အသင်တို့အဖို့ ထိုအရှင်မြတ်အထံတော်မှ ထင်ရှားစွာ သတိပေး နှိုးဆော်သူပင် ဖြစ်ပေသတည်း။

كَذَٰلِكَ مَا أَتَى الَّذِينَ مِن قَبْلِهِم مِّن رَّسُولٍ إِلَّا قَالُوا سَاحِرٌ أَوْ مَجْنُونٌ ﴿٥٢﴾

၅၂။ ထိုနည်းတူစွာ ၎င်းတို့အလျင် ရှိခဲ့ကြသော သူတို့ထံသို့ ရစူလ်တမန်တော်တစ်ပါးပါး လာရောက်ခဲ့တိုင်း ထိုသူတို့သည် (ရစူလ်တမန်တော်)အား ပဉ္စလက်ဆရာဖြစ်သည် ဟူ၍သော်လည်းကောင်း၊ ရူးသွပ်သောသူဖြစ်သည် ဟူ၍သော်လည်းကောင်း၊ ပြောဆိုခဲ့ကြကုန်၏။

---

(၁) ဤအာယတ်တော်တွင် ပါရှိသော 'ဇောင်ဂျိုင်န်' ဟူသော ပုဒ်၏အနက်မှာ အဖို-အမဟူ၍လည်း ဖြစ်၏။ ဆန့်ကျင်ဘက် နှစ်မျိုးနှစ်စားဟူ၍လည်းရ၏။

ဆိုလိုသည်ကား- အလ္လာဟ်အရှင်မြတ်သည် အရာရာ၌ အဖိုနှင့်အမ ဖန်ဆင်းထားတော်မူသည်။ ဤသည် မျက်မြင်ပင်၊ ထို့အတူအလ္လာဟ်အရှင်မြတ်သည် မိုးနှင့်မြေ၊ နေ့နှင့်ည၊ နေနှင့်လ၊ အလင်းနှင့်အမှောင်၊ ➢➢

أَتَوَاصَوْا بِهِ ۚ بَلْ هُمْ قَوْمٌ طَاغُونَ ﴿٥٣﴾

၅၃။ ၎င်းတို့သည် အချင်းချင်း တစ်ဦးကိုတစ်ဦး ဤအတိုင်း ပြောဆိုကြရန် မှာကြားခဲ့ကြလေသလော။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ် ၎င်းတို့(အားလုံး)မှာကား ဆိုးသွမ်းသူတို့ပင် ဖြစ်ခဲ့ကြကုန်၏။

فَتَوَلَّ عَنْهُمْ فَمَا أَنتَ بِمَلُومٍ ﴿٥٤﴾

၅၄။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည် ၎င်းတို့အား လျစ်လျူရှုနေပါလေ။ အကြောင်းသော်ကား အသင်သည် ပြစ်တင်ခြင်းခံရမည် မဟုတ်သောကြောင့်ပင်။

وَذَكِّرْ فَإِنَّ الذِّكْرَىٰ تَنفَعُ الْمُؤْمِنِينَ ﴿٥٥﴾

၅၅။ ထိုမှတစ်ပါး အသင်သည် ဆုံးမဩဝါဒပေးလျက်ရှိပါလေ။ အဘယ်ကြောင့်ဆိုသော် ဆုံးမဩဝါဒသည် 'မုအ်မင်န်' သက်ဝင် ယုံကြည်သူတို့အား အကျိုးရှိစေသောကြောင့်ပင်။ [၁]

---

➤➤ အဖြူနှင့်အမည်း၊ အကောင်းနှင့်အဆိုး အမျိုးမျိုးလည်း ဖန်ဆင်းထားတော်မူသည်။ ဤသည်လည်း မျက်မြင်ပင်။ ဤသည်ကို စဉ်းစားဆင်ခြင် မြော်မြင်ပါက အလ္လာဟ်အရှင်မြတ်၏ အတိုင်းအဆမရှိ တန်ခိုးတော်ကို သိမြင် နိုင်ပေသည်။ ဤသည့်သဘောကို ကုရ်အာန် (၁၃း၃၊ ၃၆း၃၆၊ ၅၁း၄၉၊ ၅၃း၄၅၊ ၅၅း၅၂၊ ၇၅း၃၉) တွင်လည်း မိန့်ဆိုထားတော်မူသည်။ (၃၆း၃၆) တွင် အကျယ်ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

(၁) ဆိုလိုသည်ကား - တမန်တော်မြတ်သည် မိမိ၌ အဓိက တာဝန်ဖြစ်သော (တဗ်လီဃ်) တရားဟောကြားမှုကို ကျေပွန်စွာ ဆောင်ရွက်ပြီးတော်မူချေပြီ။ သို့ဖြစ်ရာ သွေဖည်ငြင်းဆန်နေကြသော ကာဖိရ်များနှင့် ပတ်သက်၍ စိတ်ပူပင်နေတော်မူရန် မလိုပေ။ တရားဟောကြားပါလျက်၊ မနာခံပါက၊ မနာခံသူ၏ အပြစ်သာဖြစ်သည်။ တမန်တော်မြတ်၌ မည်သို့မျှ အပြစ်ဆိုဖွယ်ရာမရှိချေ။

တမန်တော်မြတ်၏ အဓိကတာဝန်မှာ တရားဟောကြားရန်ဖြစ်ပေရာ၊ တမန်တော်မြတ်သည် တာဝန်အရ ဆက်လက်၍ တရားဟောကြားနေတော်မူရမည်သာဖြစ်သည်။

သို့ တရားဟောကြားခြင်းသည် နောင်တစ်ချိန်၊ အီမာန်၊ သက်ဝင်ယုံကြည်လာကြမည့် ပုဂ္ဂိုလ်များ အဖို့လည်း၊ အသုံးဝင်ပေမည်။ အီမာန်ယုံကြည်ပြီးသော မုအ်မင်န်များ၌လည်း အကျိုးထူးဖြစ်စေမည်။ ထို့ပြင်တစ်ဝ၊ သို့တရားဟောကြားတော်မူခြင်းဖြင့် သွေဖည်ငြင်းဆန်မနာခံသော ကာဖိရ်များသည်လည်း တစ်စုံတစ်ရာ ငြင်းချက်ထုတ်နိုင်ကြတော့မည် မဟုတ်ပေ။

وَمَا خَلَقْتُ الْجِنَّ وَالْإِنسَ إِلَّا لِيَعْبُدُونِ ﴿٥٦﴾

၅၆။ စင်စစ်သော်ကား ငါအရှင်မြတ်သည် ဂျင်န် သတ္တဝါတို့အားလည်းကောင်း၊ မနုဿ လူသားတို့အား လည်းကောင်း၊ ငါအရှင်မြတ်အား ဆည်းကပ် ကိုးကွယ် ကြရန်သာလျှင် ဖန်ဆင်းတော်မူခဲ့၏။ [၁]

مَا أُرِيدُ مِنْهُم مِّن رِّزْقٍ وَمَا أُرِيدُ أَن يُطْعِمُونِ ﴿٥٧﴾

၅၇။ ငါအရှင်မြတ်သည် ၎င်းတို့ထံမှ စားနပ်ရိက္ခာ ကိုလည်း အလိုရှိတော်မူသည် မဟုတ်ပေ။ ငါအရှင် မြတ်အား ၎င်းတို့ ကျွေးမွေးကြရန်ကိုလည်း ငါအရှင် မြတ်သည် အလိုရှိတော်မူသည် မဟုတ်ပေ။

---

(၁) ဤအာယတ်တော်တွင်ပါရှိသော 'အိဗာဒတ်' ၏ အနက်ကား ကျယ်ဝန်းလှသည်။ ဤနေရာ၌ 'အိဗာဒတ်'သည် အရေးကိစ္စအဝဝကို အလ္လာဟ်အရှင်မြတ်၏ အလိုတော်ကျ ဆောင်ရွက်ခြင်း အနက်၌ဖြစ်သည်။

သုခမိန်ကြီး အေမာမ် ရာဇီက 'အိဗာဒတ်' အရပ်ရပ်၏ အချုပ်မှာ -

(၁) အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို ရိုသေလေးစားခြင်းနှင့်

(၂) ထိုအရှင်မြတ် ဖန်ဆင်းထားတော်မူသည့် အဖန်ဆင်းခံတို့အား သနားကြင်နာခြင်းပင်ဖြစ်သည်။ ဟု ဖွင့်ဆိုရေးသားခဲ့သည်။

တစ်နည်းဆိုသော် 'အိဗာဒတ်' ဟူသည် (ဟုကူကုလ္လာဟ်) အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်သော တာဝန်များနှင့် (ဟုကူကုလ် အိဗာဒ်) သတ္တဝါအပေါင်းတို့နှင့် ပတ်သက်သော တာဝန်များကို ထမ်းဆောင်ခြင်းပင် ဖြစ်သည်။ ကြည့်- မာဂျိဒိ၊

အလ္လာဟ်အရှင်မြတ်သည် လူသားနှင့် ဂျင်န်တို့အား 'အိဗာဒတ်' အတွက်သာလျှင် ဖန်ဆင်းထားတော် မူခြင်းဖြစ်သည်ဟု ဆိုထားတော်မူရာ၊ အိဗာဒတ်ကား အဘယ်နည်း၊ အိဗာဒတ်ဟူသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို လေးစားခန့်ညား နာယူကျင့်မူခြင်းနှင့်၊ ထိုအရှင်မြတ် ဖန်ဆင်းထားတော်မူသော အရာခပ်သိမ်းကန်တို့ အပေါ်ဝယ်၊ သနားကြင်နာခြင်းကို ဆိုလိုသည်။ ဤသည့်ဂုဏ်ရည် နှစ်ရပ်သည် သာသနာတိုင်းတွင် ပါရှိသည်သာ ဖြစ်သည်။ ကဗီရ်။

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က 'ငါအရှင်မြတ်သည် ဂျင်န်နှင့် လူသားအား ဖန်ဆင်း ထားတော်မူခြင်းမှာ ငါ့အား အိဗာဒတ်ပြုကြရန်အတွက်သာ ဖြစ်သည်' ဟူ၍ ဂျင်န်နှင့် လူသားအား အိဗာဒတ်ပြုရန် အထူးတာဝန်ပေးထားတော်မူခြင်းမှာ အဖန်ဆင်းခံအပေါင်းတွင် ဂျင်န်နှင့်လူသား၌သာ အလ္လာဟ်အရှင်မြတ် သည် မိမိစေတနာအလျောက် ရွေးချယ်ပြုလုပ်နိုင်သည့် စွမ်းရည်သတ္တိကို ချီးမြှင့်ထားတော်မူသည်။ သို့ချီးမြှင့် ထားတော်မူသည့်အလျောက် ဂျင်န်နှင့် လူသားအား စမ်းသပ်တော်မူခြင်းကိုလည်း ပြုလုပ်တော်မူသည်။

ကောင်းကင်တမန်များတွင် စမ်းသပ်မှုမရှိ။

တိရိစ္ဆာန်များတွင် မိမိစေတနာအလျောက် ရွေးချယ်ပြုလုပ်နိုင်သည့် စွမ်းရည်သတ္တိမရှိ။

ထို့အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်သည် ဤအာယတ်တော်တွင် ဂျင်န်နှင့် လူသားအား အပြည့်အဝ တာဝန်ရှိသူများအဖြစ် ထုတ်ဖော်မိန့် ဆိုထားတော်မူခြင်းဖြစ်သည်။ ➢➢

إِنَّ ٱللَّهَ هُوَ ٱلرَّزَّاقُ ذُو ٱلْقُوَّةِ ٱلْمَتِينُ ﴿٥٨﴾

၅၈။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင်ပင် စားနပ်ရိက္ခာ ချီးမြှင့် ပေးသနားတော်မူသောအရှင်၊ စွမ်းအားကို ပိုင်ဆိုင်တော်မူသောအရှင်၊ ကြံ့ခိုင်တော်မူသောအရှင်၊ ဖြစ်တော်မူ၏။

فَإِنَّ لِلَّذِينَ ظَلَمُوا۟ ذَنُوبًا مِّثْلَ ذَنُوبِ أَصْحَـٰبِهِمْ فَلَا يَسْتَعْجِلُونِ ﴿٥٩﴾

၅၉။ သို့ဖြစ်ပေရာ မတရားမှုကို ကျူးလွန်ကြကုန်သောသူတို့၌ ၎င်းတို့နှင့် ဝါဒတူဖြစ်ခဲ့ကြသော သူတို့၌ ရှိခဲ့သော ပြစ်ဒဏ်၏ ဝေစုဝေပုံကဲ့သို့ ၎င်းတို့၌လည်း ပြစ်ဒဏ်၏ ဝေစုဝေပုံ ရှိချေမည်။ သို့ဖြစ်ပေရာ ၎င်းတို့သည် ငါအရှင်မြတ်အထံတော်တွင် (ပြစ်ဒဏ်)ကို အဆောတလျင် တောင်းဆိုခြင်း မပြုကြရ။

فَوَيْلٌ لِّلَّذِينَ كَفَرُوا۟ مِن يَوْمِهِمُ ٱلَّذِى يُوعَدُونَ ﴿٦٠﴾

၆၀။ အချုပ်မှာကား 'ကာဖိရ်' သွေဖည် ငြင်းပယ်သောသူတို့၌ ၎င်းတို့ ချိန်းဆိုခြင်းခံကြရသောနေ့တွင် ပျက်စီးခြင်းသည် ရှိချေအံ့သတည်း။

➤➤ သို့ဖြစ်ရာ ဂျင်န်နှင့် လူသားများသည် မိမိတို့အား အလ္လာဟ်အရှင်မြတ် ဖန်ဆင်းထားတော်မူသည့် ရည်ရွယ်ချက်ကို အမြဲတစေ ရှေးရှုကြရပေမည်။ ဟုကူကုလ္လာဟ်နှင့် ဟုကူကုလ်အိဗာဒ်ကို ကျေပွန်စွာ ထမ်းဆောင်ကြရပေမည်။ ကြည့် - မာရိဒီ။

# တူရ်တောင်ကဏ္ဍ

سُوْرَةُ الطُّوْرِ

ဤကဏ္ဍသည် 'တူရ်' တောင် ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၄၉) ပါး၊ ရုကူအ်အပိုဒ် (၂) ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊
အထူး ကရုဏာတော်ပြုတော်မူသော၊
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

وَالطُّوْرِ ①

၁။ (ငါအရှင်မြတ်သည်)တောင်ကို-တူရ်တောင်[၁] ကို သက်သေထူတော်မူ၏။

وَكِتٰبٍ مَّسْطُوْرٍ ②

၂။ ၎င်းပြင် (ငါအရှင်မြတ်သည်) ရေးသားပြီး *ဖြစ်သော (ဤ)ကျမ်းဂန် (မှတ်တမ်း)တော်ကို*[၂] သက်သေထူတော်မူ၏။

فِيْ رَقٍّ مَّنْشُوْرٍ ③

၃။ ဖြန့်ထားသော စာရွက်ပေါ်၌၊

وَّالْبَيْتِ الْمَعْمُوْرِ ④

၄။ ၎င်းပြင် စည်ပင်သာယာသော အိမ်တော် *'ဗိုက်တိမအ်မူရ်'*[၃] အိမ်တော်ကိုသက်သေထူတော်မူ၏။

---

(၁) 'တူရ်' ဟူသောပုဒ်၏ မူရင်းအနက်မှာ (Mountain)တောင်ဟူ၍ ဖြစ်သည်။ (Syriac) ရှုရိယပြည် ဘာသာစကားတွင်လည်း တောင်၏ အနက်၌ပင် ဖြစ်သည်။ ထို့အတွက်ကြောင့် ဤအာယတ်တော်တွင် ပါရှိသော 'တူရ်' ဟူသည် ကမ္ဘာပေါ်ရှိ တောင်များကို ဆိုလိုသည်ဟု အချို့က ဆိုကြသည်။

အချို့ပညာရှင်များကမူ ဤအာယတ်တော်တွင်ပါရှိသော 'တူရ်' ဟူသည် အလ္လာဟ်အရှင်မြတ် တမန်တော်မူစာနှင့် စကားပြောကြားတော်မူခဲ့သော သိနကျွန်းစွယ်ရှိ တူရ်မည်သော တောင်ကို ရည်ညွှန်းသည်ဟု ဆိုကြသည်။

(အဆိုပါတောင်၏ အကြောင်းကို ကုရ်အာန် (၂း၆၃။ ၂း၉၃။ ၄း၁၅၄။၁၉း၅၂။ ၂၀း၈၀။ ၂၃း၂၀။ ၂၈း၂၉။ ၂၈း၄၆။ ၅၂း၁။၉၅း၂)တွင်ပါရှိသည်။

(၂) ဤအာယတ်တော်တွင် 'ရေးသားထားသော စာအုပ်' ဟူသည် 'လောင်ဟ်မဟ်ဖူဇ်' မှတ်တမ်းတော်ကိုလည်း ဆိုနိုင်ပေသည်။ လူသားတို့၏ မှတ်တမ်းကိုလည်း ဆိုနိုင်ပေသည်။ ကုရ်အာန်ကျမ်းမြတ် ကိုလည်း ဆိုနိုင်ပေသည်။ 'တူရ်' တောင် အကြောင်းနှင့် ဆက်စပ်လျက်ရှိသည်ကိုအကြောင်းပြု၍ တောင်ရာတ်ကျမ်းကိုလည်း ဆိုနိုင်ပေသည်။ ကောင်းကင်ကျကျမ်းဂန်များကိုလည်း ဆိုနိုင်ပေသည်။

وَالسَّقْفِ الْمَرْفُوعِ ⑤

၅။ ထို့ပြင် (ငါအရှင်မြတ်သည်) မြင့်စွင့်သော အမိုးကို သက်သေထူတော်မူ၏။

وَالْبَحْرِ الْمَسْجُورِ ⑥

၆။ ထို့ပြင် (ငါအရှင်မြတ်သည်) လျှံတက်လျက်ရှိသော သမုဒ္ဒရာပင်လယ်ကို သက်သေထူတော်မူ၏။

إِنَّ عَذَابَ رَبِّكَ لَوَاقِعٌ ⑦

၇။ ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏အပြစ်ဒဏ်သည် အမှန်ပင် ကျရောက်မည်ဖြစ်၏။

مَا لَهُ مِنْ دَافِعٍ ⑧

၈။ ယင်းပြစ်ဒဏ်ကို ပယ်ရှားအံ့သော သူဟူ၍ အလျှင်း မရှိပြီ။

يَوْمَ تَمُورُ السَّمَاءُ مَوْرًا ⑨

၉။ (ယင်းပြစ်ဒဏ်သည်) အကြင်နေ့တွင် (ကျရောက်ပေမည်)၊ ထိုနေ့တွင် မိုးကောင်းကင်မှာ တုန်လှုပ်အက်ကွဲ၍ သွားပေမည်။

وَتَسِيرُ الْجِبَالُ سَيْرًا ⑩

၁၀။ ၎င်းပြင် တောင်များသည် ရွေ့လျား၍သွားကြပေမည်။

فَوَيْلٌ يَوْمَئِذٍ لِلْمُكَذِّبِينَ ⑪

၁၁။ သို့ဖြစ်ပေရာ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ကြကုန်သောသူတို့၌ ပျက်စီးခြင်းသည် ရှိချေမည်။

الَّذِينَ هُمْ فِي خَوْضٍ يَلْعَبُونَ ⑫

၁၂။ အကြင်သူတို့သည် အချည်းနှီးသော ပြောဆိုမှု၌ မွေ့လျော်လျက် ရှိကြကုန်၏။

---

(၃) ဤအာယတ်တော်တွင် 'စည်ပင်သာယာသော အိမ်တော်' ဟူသည် 'ကအ်ဗဟ်' ကျောင်းတော်ကိုလည်း ဆိုနိုင်ပေသည်။ သို့တည်းမဟုတ်၊ ကအ်ဗဟ်ကျောင်းတော်၏ အထက်တည့်တည့် သတ္တမ မိုးကောင်းကင်၌တည်ရှိသော ကောင်းကင်တမန်များ၏ ကအ်ဗဟ်ဖြစ်သော 'ဗိုက်တ်မအ်မူရ်' ကိုလည်း ဆိုနိုင်ပေသည်။

'ဗိုက်တ်မအ်မူရ်' အကြောင်း ဟဒီးဆ်သြဝါဒတော်များတွင် အများအပြား တွေ့ရှိရစေသည်။

يَوْمَ يُدَعُّونَ إِلَىٰ نَارِ جَهَنَّمَ دَعًّا ﴿١٣﴾

၁၃။ အကြင်နေ့တွင် ၎င်းတို့သည် 'ဂျဟန္နမ်' ငရဲ၏ မီးရှိရာသို့ တွန်းပို့ခြင်းကို ခံကြရပေမည်။

هَٰذِهِ النَّارُ الَّتِي كُنتُم بِهَا تُكَذِّبُونَ ﴿١٤﴾

၁၄။ ဤသည်ပင် မဟုတ်မမှန်ဟူ၍ အသင်တို့ ငြင်းပယ်လျက်ရှိခဲ့ကြသော ငရဲမီးပင် ဖြစ်၏။

أَفَسِحْرٌ هَٰذَا أَمْ أَنتُمْ لَا تُبْصِرُونَ ﴿١٥﴾

၁၅။ သို့ဖြစ်ပေရာ ဤသည် စုန်းပယောဂ ဖြစ်လေသလော၊ သို့တည်းမဟုတ် အသင်တို့သည် (ယခုတိုင်) မမြင်ကြလေသလော။

اصْلَوْهَا فَاصْبِرُوا أَوْ لَا تَصْبِرُوا سَوَاءٌ عَلَيْكُمْ ۖ إِنَّمَا تُجْزَوْنَ مَا كُنتُمْ تَعْمَلُونَ ﴿١٦﴾

၁၆။ အသင်တို့သည် ယင်းငရဲမီးထဲသို့ ဝင်ရောက်ကြလေကုန်။ ထို့နောက် အသင်တို့သည် သည်းခံကြသည်ဖြစ်စေ၊ သည်းမခံကြသည်ဖြစ်စေ၊ အသင်တို့အဖို့ အကြောင်းမထူးပြီ။ အသင်တို့သည် မိမိတို့ကျင့်မူခဲ့ကြသော အမှုကိစ္စများနှင့်စပ်လျဉ်း၍ အစားပေးခြင်းကို ခံကြရသည်သာတည်း။

إِنَّ الْمُتَّقِينَ فِي جَنَّاتٍ وَنَعِيمٍ ﴿١٧﴾

၁၇။ ဧကန်မလွဲ 'မွတ္တကီ' သူတော်စင်တို့မှာကား ဥယျာဉ်များ၌လည်းကောင်း၊ အံ့မခန်းသုခ၌လည်းကောင်း၊ ရှိကြပေမည်။

فَاكِهِينَ بِمَا آتَاهُمْ رَبُّهُمْ وَوَقَاهُمْ رَبُّهُمْ عَذَابَ الْجَحِيمِ ﴿١٨﴾

၁၈။ ၎င်းတို့သည် ၎င်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်က ၎င်းတို့အား ချီးမြှင့်ပေးသနားတော်မူခဲ့သော သစ်သီးဝလံများကို စားသုံးလျက်ရှိကြပေမည်။ (တစ်နည်း) [ချီးမြှင့်ပေးသနားတော်မူခဲ့သော စည်းစိမ်များကြောင့် ဝမ်းမြောက်ပျော်ရွှင်လျက်ရှိကြပေမည်။]

ထိုမှတစ်ပါး ၎င်းတို့ကို ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အလျှံပြောင်ပြောင်တောက်လောင်လျက်ရှိသော ငရဲမီး ပြစ်ဒဏ်မှလည်း လွတ်ကင်းစေတော်မူပေမည်။

كُلُوا وَاشْرَبُوا هَنِيٓـًٔا بِمَا كُنتُمْ تَعْمَلُونَ ﴿١٩﴾

၁၉။ (ထိုမှတစ်ပါး ၎င်းတို့သည် ဤသို့ မိန့်ကြားတော်မူခြင်းကို ခံကြရပေမည်)။ အသင်တို့သည် မိမိတို့ ကျင့်မူလျက် ရှိခဲ့ကြလေသော ကောင်းမှုတို့၏အစားအရသာခံစားကြလျက် (မြိန်ရှက်စွာ) စားသောက်ကြလေကုန်။

مُتَّكِـِٔينَ عَلَىٰ سُرُرٍ مَّصْفُوفَةٍ ۖ وَزَوَّجْنَاهُم بِحُورٍ عِينٍ ﴿٢٠﴾

၂၀။ (၎င်းတို့သည်) စနစ်တကျ ခင်းကျင်း၍ထားရှိသော သလွန်များထက်ဝယ် မှီအုံးများ မှီလျက်ရှိကြပေမည်။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အား လွန်စွာဖြူ၍ လှပတင့်တယ်သော၊ မျက်စိလှပသော မိန်းမများနှင့် ထိမ်းမြား၍ ပေးတော်မူအံ့သတည်း။

وَالَّذِينَ آمَنُوا وَاتَّبَعَتْهُمْ ذُرِّيَّتُهُم بِإِيمَانٍ أَلْحَقْنَا بِهِمْ ذُرِّيَّتَهُمْ وَمَا أَلَتْنَاهُم مِّنْ عَمَلِهِم مِّن شَيْءٍ ۚ كُلُّ امْرِئٍ بِمَا كَسَبَ رَهِينٌ ﴿٢١﴾

၂၁။ ထိုမှတစ်ပါး အကြင်သူတို့သည် သက်ဝင်ယုံကြည်ခဲ့ကြကုန်၏။ ထို့ပြင် ၎င်းတို့၏သားမြေးတို့သည်လည်း 'အီမာန်' သက်ဝင်ယုံကြည်မှုနှင့်တကွ ၎င်းတို့၏နောက်သို့ လိုက်ခဲ့ကြကုန်၏။ ငါအရှင်မြတ်သည် ၎င်းတို့၏သားမြေးတို့အား ၎င်းတို့နှင့်အတူ ပူးပေါင်းထားတော်မူပေမည်။ ထို့ပြင် ငါအရှင်မြတ်သည် ၎င်းတို့၏ ကျင့်မူဆောင်ရွက်ချက်တို့ အနက်မှလည်း မည်သည့် တစ်စုံတစ်ရာကိုမျှ *လျော့နည်းစေတော်မူမည် မဟုတ်ပြီ။* [၁] လူတိုင်းမှာ မိမိရှာဖွေဆည်းပူးမှု၌ ပေါင်နှံ ချုပ်နှောင်ထားပြီး ဖြစ်၏။ [၂]

---

(၁) **မိဘ၏ဂုဏ်ကျေးဇူး။**

ဆိုလိုသည်ကား - မွတ္တကီ သူတော်စဉ်များ၏ သားသမီး၊ တပည့်သားများသည် အီမာန်သက်ဝင်ယုံကြည်၍ အဆိုပါ သူတော်စင်များ၏ လမ်းစဉ်ကို လိုက်နာကြပါက' အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် အဆိုပါ သားသမီး တပည့်သားများကိုလည်း တကယ်တန္တု ၎င်းတို့၏အကျင့်သီလများသည် မိဘတို့၏အကျင့်သီလများထက် နိမ့်ကျ၍နေလင့်ကစား၊ ၎င်းတို့၏ မိဘများနှင့်အတူတူ ဂျန္နတ်တွင် စံစားခွင့်ပြုတော်မူပေမည်။ ဤသည် မိဘများ၏ ဂုဏ်ကျေးဇူးကြောင့် သားသမီးများအား မြှောက်စားတော်မူခြင်းပင်။

အလ္လာဟ်အရှင်မြတ်သည် သားသမီးများအား မိဘများနှင့် အတူတူ ခံစားခွင့်ပြုတော်မူရာတွင် မိဘများ၏ အကျင့်သီလ၊ ကုသိုလ် အကျိုးကို စိုးစဉ်းမျှ လျော့နည်းစေတော်မူမည်မဟုတ်၊ မြင့်သူကို ▶▶

وَاَمۡدَدۡنٰهُمۡ بِفَاكِهَةٍ وَّلَحۡمٍ مِّمَّا يَشۡتَهُوۡنَ ﴿٢٢﴾

၂၂။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထိုသူတို့အား ထိုသူတို့ အလိုဆန္ဒရှိကြလေသော အမျိုးအစားမှ သစ်သီးဝလံများကိုလည်းကောင်း၊ အသားများကိုလည်း ကောင်း၊ အစဉ်မပြတ် တိုး၍ပေးသနားတော်မူပေမည်။

يَتَنَازَعُوۡنَ فِيۡهَا كَاۡسًا لَّا لَغۡوٌ فِيۡهَا وَلَا تَاۡثِيۡمٌ ﴿٢٣﴾

၂၃။ ၎င်းတို့မှာ ယင်း 'ဂျန္နတ်' သုခဘုံ၌ အရက် အပြည့်ရှိသော ခွက်များကို လုယက်ယူငင်ကြပေမည်။ ယင်းအရက်(ကို သောက်သုံးခြင်း)၌ အချည်းနှီးသော စကားပြောဆိုမှု ရှိလိမ့်မည်မဟုတ်ပေ။ အပြစ်ဖြစ်ရန် အကြောင်းလည်း ရှိချိမ့်မည် မဟုတ်ပေ။

وَيَطُوۡفُ عَلَيۡهِمۡ غِلۡمَانٌ لَّهُمۡ كَاَنَّهُمۡ لُؤۡلُؤٌ مَّكۡنُوۡنٌ ﴿٢٤﴾

၂၄။ ထိုမှတစ်ပါး ၎င်းတို့ထံ ၎င်းတို့ ပိုင်ဆိုင်ကြကုန်သော လုလင်တို့သည် (ထိုမှ-ဤမှ) လှည့်ပတ် သွားလာလျက် ရှိကြပေမည်။ ထို ကံကျွေးလုလင်တို့မှာ လုံခြုံစွာထားရှိသော ပုလဲများကဲ့သို့ပင် ရှိကြပေမည်။

وَاَقۡبَلَ بَعۡضُهُمۡ عَلٰى بَعۡضٍ يَّتَسَآءَلُوۡنَ ﴿٢٥﴾

၂၅။ ထို့ပြင် ၎င်းတို့အနက် တစ်ဦးသည်တစ်ဦး၏ ဘက်သို့လှည့်ကာ အချင်းချင်းစုံစမ်းမေးမြန်းကြပေမည်။

قَالُوۡۤا اِنَّا كُنَّا قَبۡلُ فِيۡۤ اَهۡلِنَا مُشۡفِقِيۡنَ ﴿٢٦﴾

၂၆။ ၎င်းတို့သည် (ဤသို့) ပြောဆိုကြပေမည်။ ဧကန်စင်စစ် ကျွန်ုပ်တို့သည် ယခင်က မိမိတို့အိမ်သူ အိမ်သားတို့နှင့်ရှိနေစဉ် ကြောက်ရွံ့စိုးရိမ်လျက် ရှိခဲ့ကြကုန်၏။

---

➤➤ နိမ့်စေတော်မူမည်မဟုတ်။ နိမ့်သူကို မြှင့်၍ မြင့်သူနှင့်အတူတူ ထားရှိတော်မူပေမည်။

ဤသည် မိဘ၏ ဂုဏ်ကျေးဇူးပင်၊ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်။

(၂) အထက်တွင် အလ္လာဟ်အရှင်မြတ် ကျေးဇူးပြုတော်မူသည့် အကြောင်းပါရှိ၏။ ဤအာယတ်တော်တွင် ထိုအရှင်မြတ်၏ တရားမျှတမှု အကြောင်းပါရှိ၏။ ဆိုလိုသည်ကား လူတိုင်းသည် မိမိ ဆိုးကောင်း ဆည်းပူးသည် နှင့်အမျှ ခံစံရသည်သာဖြစ်သည်။ မည်သူမျှ အခြားသူ၏ ဒဏ်ကို မျှခံရမည်မဟုတ်ပေ။ လူတိုင်းသည် မိမိ၏ ကောင်းကျိုးကို မိမိစံရမည်ပင်။ မိမိ၏ ဆိုးကျိုးကို မိမိခံရမည်ပင်။ ဤကား တရားမျှတမှုပင်။

သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် တစ်ဦး တစ်ယောက်အား ခွင့်လွှတ်တော်မူပါက၊ သို့တည်းမဟုတ်၊ တစ်ဦးတစ်ယောက်အား ထိုက်တန်သည်ထက်ပိုမို၍ ချီးမြှင့်တော်မူပါက၊ ထိုအရှင်မြတ်၏ ကျေးဇူးတော်ပင်။ ထိုက်တန်သည်ထက်ပိုမို၍ ချီးမြှင့် တော်မူသည်ကို အဘယ်သူက မတရားဟုဆိုအံ့နည်း။

فَمَنَّ اللّٰهُ عَلَيْنَا وَوَقٰنَا عَذَابَ السَّمُوْمِ ﴿٢٧﴾

၂၇။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့အပေါ်၌ ကျေးဇူးပြုတော်မူခဲ့၏။ ၎င်းပြင် ထိုအရှင်မြတ်သည် ကျွန်ုပ်တို့အား အပူအရှိန် ပြင်းလှစွာသော 'ဂျဟန္နမ်' ငရဲ၏ပြစ်ဒဏ်မှလည်း ကင်းလွတ်စေတော်မူခဲ့၏။

اِنَّا كُنَّا مِنْ قَبْلُ نَدْعُوْهُ ۗ اِنَّهٗ هُوَ الْبَرُّ الرَّحِيْمُ ﴿٢٨﴾

၂၈။ ဧကန်အမှန် ကျွန်ုပ်တို့သည် ရှေးအထက်ကျော်ကာလ၌ ထိုအရှင်မြတ်အထံတော်တွင် ဆုတောင်းလျက်ရှိခဲ့ကြကုန်၏။ ဧကန်မလွဲ ထိုအရှင်မြတ်မှာကား လွန်စွာကျေးဇူးပြုတော်မူသောအရှင်၊ လွန်စွာ သနားကြင်နာတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။

فَذَكِّرْ فَمَآ اَنْتَ بِنِعْمَتِ رَبِّكَ بِكَاهِنٍ وَّلَا مَجْنُوْنٍ ۗ ﴿٢٩﴾

၂၉။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည် သတိပေးဆုံးမလျက် ရှိပါလေ။ စင်စစ်သော်ကား အသင်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ကျေးဇူးတော်အားဖြင့် အနာဂတ်ဟောဆရာလည်း မဟုတ်ပေ၊ ရူးသွပ်သူလည်း မဟုတ်ပေ။

اَمْ يَقُوْلُوْنَ شَاعِرٌ نَّتَرَبَّصُ بِهٖ رَيْبَ الْمَنُوْنِ ﴿٣٠﴾

၃၀။ သို့တည်းမဟုတ် ၎င်းတို့က (ဤမုဟမ္မဒ်) (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် ကဗျာဆရာဖြစ်သည်။ ကျွန်ုပ်တို့သည် ၎င်းနှင့်ပတ်သက်၍ ကံအားလျော်စွာ ဆိုက်ရောက်လာအံ့သော ခေတ်ကာလ၏ဘေးအန္တရာယ်ကို ဆိုက်ရောက်လာအံ့သော သေဘေးကိုစောင့်ဆိုင်း၍နေကြသည်ဟု ပြောဆိုကြလေသလော။

قُلْ تَرَبَّصُوْا فَاِنِّيْ مَعَكُمْ مِّنَ الْمُتَرَبِّصِيْنَ ۗ ﴿٣١﴾

၃၁။ (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အသင်တို့သည် စောင့်ဆိုင်း၍ နေကြလေကုန်။ သို့ဖြစ်လျှင် ဧကန်အမှန် ငါသည်လည်း အသင်တို့နှင့်အတူ စောင့်ဆိုင်းသူတို့တွင် အပါအဝင်ဖြစ်၏။

أَمْ تَأْمُرُهُمْ أَحْلَامُهُم بِهَٰذَا ۚ أَمْ هُمْ قَوْمٌ طَاغُونَ ﴿٣٢﴾

၃၂။ သို့တည်းမဟုတ် ၎င်းတို့၏ အသိဉာဏ်များက ဤသည်နှင့်စပ်လျဉ်း၍ ၎င်းတို့အား အမိန့်ပေးလေသလော။ သို့တည်းမဟုတ် ၎င်းတို့ကိုယ်တိုင်ပင် ဆိုးသွမ်းသူများ ဖြစ်ကြလေသလော။

أَمْ يَقُولُونَ تَقَوَّلَهُ ۚ بَل لَّا يُؤْمِنُونَ ﴿٣٣﴾

၃၃။ သို့တည်းမဟုတ် ၎င်းတို့က ထိုသူ(တမန်တော်မြတ်)သည် ဤ(ကုရ်အာန်ကျမ်းတော်မြတ်)ကို ကြံစည်ဖန်တီးခဲ့သည်ဟု ပြောဆိုကြလေသလော။ ထိုသို့အလျှင်း မဟုတ်၊ စင်စစ်မှာကား ၎င်းတို့ ကိုယ်တိုင်သက်ဝင်ယုံကြည်ခြင်း မရှိကြပေ။

فَلْيَأْتُوا بِحَدِيثٍ مِّثْلِهِ إِن كَانُوا صَادِقِينَ ﴿٣٤﴾

၃၄။ သို့ဖြစ်လျှင် အကယ်၍ ၎င်းတို့သည် သစ္စာဝါဒီများဖြစ်ကြလျှင် ယင်း(ကုရ်အာန်ကျမ်းမြတ်)ကဲ့သို့သော အာယတ်တော် တစ်စုံတစ်ရာကို ၎င်းတို့ယူဆောင်၍ လာကြရပေမည်။

أَمْ خُلِقُوا مِنْ غَيْرِ شَيْءٍ أَمْ هُمُ الْخَالِقُونَ ﴿٣٥﴾

၃၅။ သို့တည်းမဟုတ် ၎င်းတို့သည် (ဖန်ဆင်းသူ) တစ်စုံတစ်ယောက်မျှ မရှိဘဲ ဖန်ဆင်းခြင်း ခံခဲ့ကြရလေသလော။ သို့တည်းမဟုတ် ၎င်းတို့ကိုယ်တိုင် (မိမိတို့ကိုယ်ကို) ဖန်ဆင်းသူများ ဖြစ်လေသလော။

أَمْ خَلَقُوا السَّمَاوَاتِ وَالْأَرْضَ ۚ بَل لَّا يُوقِنُونَ ﴿٣٦﴾

၃၆။ သို့တည်းမဟုတ် ထိုသူတို့သည် မိုးကောင်းကင်များနှင့်ပထဝီမြေကို ဖန်ဆင်းခဲ့ကြလေသလော။ စင်စစ်မှာကား ၎င်းတို့သည် ယုံကြည်ကြသည် မဟုတ်ပေ။

أَمْ عِندَهُمْ خَزَائِنُ رَبِّكَ أَمْ هُمُ الْمُصَيْطِرُونَ ﴿٣٧﴾

၃၇။ သို့တည်းမဟုတ် ၎င်းတို့ထံ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ဘဏ္ဍာတော်များ ရှိလေသလော။ သို့တည်းမဟုတ် ၎င်းတို့သည် ကွပ်ကဲ အုပ်ချုပ်သူများပင် ဖြစ်ကြလေသလော။

أَمْ لَهُمْ سُلَّمٌ يَسْتَمِعُونَ فِيهِ ۖ فَلْيَأْتِ مُسْتَمِعُهُم بِسُلْطَانٍ مُّبِينٍ ﴿٣٨﴾

၃၈။ သို့တည်းမဟုတ် ၎င်းတို့၌ လှေကား တစ်စုံတစ်ခုရှိနေ၍ ၎င်းတို့သည် ထိုလှေကားဖြင့် (မိုးကောင်းကင်မှ စကားများကို) နားထောင်ကြလေသလော။ သို့ဖြစ်လျှင် ၎င်းတို့အနက်မှ နားထောင်သောသူသည် ထင်ရှားစွာသော သက်သေသာဓကကို ဆောင်ယူခဲ့ရပေမည်။

أَمْ لَهُ الْبَنَاتُ وَلَكُمُ الْبَنُونَ ﴿٣٩﴾

၃၉။ သို့တည်းမဟုတ် ထိုအရှင်မြတ်၌ သမီး မိန်းကလေးများ ရှိကြပြီး၊ ၎င်းတို့၌မူ သားယောကျ်ားကလေးများ ရှိကြလေသလော။

أَمْ تَسْأَلُهُمْ أَجْرًا فَهُم مِّن مَّغْرَمٍ مُّثْقَلُونَ ﴿٤٠﴾

၄၀။ သို့တည်းမဟုတ် အသင်သည် ၎င်းတို့ထံ အခကြေးငွေတစ်စုံတစ်ရာကို တောင်းဆိုသောကြောင့် ၎င်းတို့သည် ကြွေးမြီပေးဆပ်ရန် တာဝန်၌ပိလျက် ရှိနေကြလေသလော။

أَمْ عِندَهُمُ الْغَيْبُ فَهُمْ يَكْتُبُونَ ﴿٤١﴾

၄၁။ သို့တည်းမဟုတ် ၎င်းတို့ထံတွင် အကွယ်၌ရှိသည်တို့ကို (သိစွမ်းနိုင်သော အသိပညာရှိသောကြောင့်) ၎င်းတို့သည် ရေးမှတ်ထားကြလေသလော။

أَمْ يُرِيدُونَ كَيْدًا ۖ فَالَّذِينَ كَفَرُوا هُمُ الْمَكِيدُونَ ﴿٤٢﴾

၄၂။ သို့တည်းမဟုတ် ၎င်းတို့သည် တစ်စုံတစ်ရာ မကောင်း ကြံစည်ရန် ရည်ရွယ်ကြလေသလော။ သို့ဖြစ်လျှင် 'ကာဖိရ်' သွေဖည် ငြင်းပယ်ကြကုန်သော သူတို့သည်ပင်လျှင် မကောင်းသော အကြံအစည်၌ မိနေကြကုန်၏။ [၁]

---

(၁) ဆိုလိုသည်ကား - ကာဖိရ်များ ယင်းသို့ ဆိုးသွမ်းမိုက်မဲနေကြခြင်းမှာ ၎င်းတို့သည် မိမိတို့ကိုယ်တိုင် မိုးမြေများကို ဖန်ဆင်းထားကြလေသလော။ ဤသို့လည်း မဟုတ်။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ ဘဏ္ဍာတော်များကို ပိုင်ဆိုင်၍ ကွပ်ကဲအုပ်ချုပ်နေကြသလော။ ဤသို့လည်းမဟုတ်။ ၎င်းတို့သည် မိုးကောင်းကင်သို့ လှေကားထောင်၍ တက်ရောက်ပြီး၊ အထက်ကမ္ဘာ၏ စကားများ နားထောင်ကြလေသလော။ ဤသို့လည်းမဟုတ်။ ၎င်းတို့၌ ၎င်းတို့ နှစ်ခြိုက်သော သားယောကျ်ားကလေးများရှိပြီး၊ အလ္လာဟ်အရှင်မြတ်၌ ၎င်းတို့ မနှစ်ခြိုက်သော သမီးမိန်းကလေးများ ရှိသည်ဟူ၍ ၎င်းတို့ ထင်မှတ်နေကြသလော။ ဤသို့လည်းမဟုတ်။ ➢➢

أَمْ لَهُمْ إِلَٰهٌ غَيْرُ اللَّهِ ۚ سُبْحَانَ اللَّهِ عَمَّا يُشْرِكُونَ ﴿٤٣﴾

၄၃။ သို့တည်းမဟုတ် ၎င်းတို့၌ အလ္လာဟ်အရှင်မြတ်အပြင် ကိုးကွယ်ရာအရှင်မြတ်တစ်ပါးပါးရှိလေသလော။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ တွဲဖက် ကိုးကွယ်ကြသည်တို့မှ လုံးဝစင်ကြယ် သန့်ရှင်းတော်မူပေသတည်း။

وَإِن يَرَوْا كِسْفًا مِّنَ السَّمَاءِ سَاقِطًا يَقُولُوا سَحَابٌ مَّرْكُومٌ ﴿٤٤﴾

၄၄။ စင်စစ်သော်ကား အကယ်၍သာ ၎င်းတို့သည် မိုးကောင်းကင်၏ အစိတ်အပိုင်းတစ်ခုခု ကျလာသည်ကိုတွေ့မြင်ကြသည် ရှိအံ့ငြားလည်း (ဤသည်)အထပ်ထပ် ထပ်ဆင့်ထားသောမိုးတိမ်သာလျှင် ဖြစ်သည်ဟု ဆိုကြဦးပေမည်။

فَذَرْهُمْ حَتَّىٰ يُلَاقُوا يَوْمَهُمُ الَّذِي فِيهِ يُصْعَقُونَ ﴿٤٥﴾

၄၅။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား ၎င်းတို့၏အကြင်နေ့နှင့် တွေ့ကြုံကြရသည်အထိ စွန့်လွှတ်၍ ထားရှိပါလေ၊ ထိုနေ့တွင် ၎င်းတို့သေဆုံးကြပေမည်။

يَوْمَ لَا يُغْنِي عَنْهُمْ كَيْدُهُمْ شَيْئًا وَلَا هُمْ يُنصَرُونَ ﴿٤٦﴾

၄၆။ အကြင်နေ့တွင် ၎င်းတို့အဖို့ ၎င်းတို့၏အကြံအစည်သည် လုံးဝအသုံးမဝင်မည့်အပြင် ၎င်းတို့သည် ကူညီစောင်မခြင်းကိုလည်း ခံကြရမည်မဟုတ်ပေ။[၁]

---

⮞⮞ တမန်တော်မြတ်သည် ၎င်းတို့ထံမှ တစ်စုံတစ်ရာ အဖိုးအခ တောင်းဆိုသဖြင့် ၎င်းတို့သည် ကြွေးမြီ ပေးဆပ်ရန် တာဝန်လေးနေကြသလော။ ဤသို့လည်းမဟုတ်။ ၎င်းတို့သည် အကွယ်၌ ရှိသည်တို့ကို သိစွမ်းနိုင်သော အသိပညာ တစ်စုံတစ်ရာ ရှိသဖြင့်၊ ရေးမှတ်ထားကြလေသလော။ ဤသို့လည်း မဟုတ်။

အထက်ပါ စကားရပ်များအနက် မည်သည့်စကားရပ်မျှ မဟုတ်ပေရာ၊ ၎င်းတို့သည် တမန်တော်မြတ်အား လုပ်ကြံသတ်ဖြတ်ရန် ကြံစည် နေကြလေသလော။ သို့ကြံစည်အားထုတ်ကြပါက ၎င်းတို့သည်ပင် ကိုယ့်ရှူး ကိုယ်ပတ် ဆိုသကဲ့သို့ ကိုယ့်တွင်းကိုယ်တူး၊ ကိုယ့်ဒုက္ခ ကိုယ်ရှာရာ ရောက်ကြပေမည်။ ၎င်းတို့၌ အလ္လာဟ်အရှင်မြတ်အပြင် အခြားကိုးကွယ်ရာ ရှိနေသလော။ ဤသို့လည်းမဟုတ။ အမှန်မှာ ၎င်းတို့၌ ဆိုးသွမ်းမိုက်မဲနေကြရန် တစ်စုံတစ်ရာ အကြောင်းမရှိပါဘဲလျက်၊ ယင်းသို့ ဆိုးသွမ်းမိုက်မဲနေကြခြင်းမှာ တမင် ဆိုးသွမ်းလို၍ ဆိုးသွမ်းနေခြင်းသာဖြစ်သည်။ ဆိုးသွမ်းမိုက်မဲမှုသည် ၎င်းတို့၏ အသားထဲ၊ အသွေးထဲ၊ အရိုးခြင်ဆီထဲ အစွဲကြီးစွဲလျက် ရှိချေပြီ။ ယင်းသို့သော သူမိုက်တို့အား မည်သို့မည်ပုံ အရေးယူ ကွပ်မျက်တော်မူမည့်အကြောင်း ရှေ့အာယတ်တော်များတွင် မိန့်ဆိုထားတော်မူသည်။

(၁) ဆိုလိုသည်ကား- ကာဖိရ်များ ယင်းသို့ဆိုးသွမ်း မိုက်မဲနေကြခြင်းမှာ အခြားအကြောင်းကြောင့် မဟုတ်၊⮞⮞

وَإِنَّ لِلَّذِينَ ظَلَمُوا عَذَابًا دُونَ ذَٰلِكَ وَلَٰكِنَّ أَكْثَرَهُمْ لَا يَعْلَمُونَ ﴿٤٧﴾

၄၇။ ထိုမှတစ်ပါး မတရားမှုကို ကျူးလွန်ခဲ့ကြသော သူတို့၌ ယင်းသည့်အလျင်လည်း ပြစ်ဒဏ်(ကျရောက်မည်ဖြစ်၏၊) သို့ရာတွင် ၎င်းတို့အနက် အများစုသော သူတို့မှာ သိရှိကြသည်မဟုတ်ပေ။

وَاصْبِرْ لِحُكْمِ رَبِّكَ فَإِنَّكَ بِأَعْيُنِنَا ۖ وَسَبِّحْ بِحَمْدِ رَبِّكَ حِينَ تَقُومُ ﴿٤٨﴾

၄၈။ (သို့ဖြစ်ပေရာ) အသင်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်ကို သည်းခံ၍စောင့်ဆိုင်းပါလေ။ အကြောင်းသော်ကား အသင်သည် ငါအရှင်မြတ်၏ ကြည့်ရှုစောင့်ရှောက်မှုအောက်တွင် ရှိနေသောကြောင့်ပင်။ ထိုမှတစ်ပါး အသင်သည် (ထိုင်ရာမှပြန်)ထသောအခါ အသင့်အား မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်အား ချီးမွမ်းထောပနာပြုခြင်းနှင့်တကွ (ထိုအရှင်မြတ်) စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုပါလေ။

وَمِنَ اللَّيْلِ فَسَبِّحْهُ وَإِدْبَارَ النُّجُومِ ﴿٤٩﴾

၄၉။ ထိုမှတစ်ပါး အသင်သည် ညဉ့်၌လည်းကောင်း၊ ကြယ်များ (ကွယ်ပျောက်သွားသည့်) နောက်ပိုင်းတွင်လည်းကောင်း၊ ထိုအရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုပါလေ။

---

➤➤ ဖွတ်တရွတ် ပြုလိုမှု၊ မလိုမုန်းတီးမှုကြောင့်ပင် ဖြစ်သည်။ ထိုသည့် ဖွတ်တရွတ်ပြုလိုမှု၊ မလိုမုန်းတီးမှုကြောင့်ပင် ၎င်းတို့သည် အမှန်တရားမှန်သမျှကို ဖွတ်မိုတ်၍ သွေဖည် ဆန့်ကျင်နေခဲ့ကြပေသည်။ ကာဖိရ်များသည် အဘယ်မျှ ဆိုးသွမ်း မိုက်မဲနေခဲ့ကြသည်ဆိုသော်၊ အကယ်တန္တိ ၎င်းတို့ တောင်းဆိုချက်အရ၊ ၎င်းတို့အား ကွပ်မျက်ရန်၊ ၎င်းတို့ထံ မိုးကောင်းကင်၏ အစိတ်အပိုင်းတစ်ခုကို ပို့လိုက်သော် (ကြည့်-ကုရ်အာန် ၁၇:၉၂။ ၂၆:၁၈၇) ၎င်းတို့သည် မိမိတို့ထံ စိုက်စိုက်လာနေသော ထိုအစိတ်အပိုင်းကို မျက်ဝါးထင်ထင် တွေ့မြင်နေကြရသော်၊ ထိုသည့်အခြေအနေမျိုးမှာပင်၊ ထိုသည့်အစိတ်အပိုင်းကိုပင် 'ဤသည် ထပ်ဆင့်လျက်ရှိသော မိုးတိမ်သာဖြစ်သည်' ဟူ၍ပင် မိုက်မဲစွာ ပြောဆိုကြပေဦးမည်။

ဤရွေ့ဤမျှ ဖွတ်တရွတ်နိုင်လှသော၊ ကမ်းကုန်အောင် ဖောက်ပြန်နေသော သူမိုက်များသည် အမှန်တရားကို အသို့လျှင် လက်ခံကြတော့မည်နည်း။ ၎င်းတို့အဖို့ တရားရရန် မျှော်လင့်ချက် အဘယ်မှာလျှင် ရှိနိုင်တော့အံ့နည်း။ သို့ဖြစ်ရာ တမန်တော်မြတ်သည် ထိုရွေ့ထိုမျှ ဆိုးသွမ်း မိုက်ကန်းနေသူများအား လျစ်လျူပြုထားတော်မူရမည်သာ။ ၎င်းတို့သည် ပြစ်ဒဏ်ကို ကိုယ်ထိလက်ရောက်၊ မြက်မြက်သက်သက် မခံစားကြရသမျှ ကာလပတ်လုံး၊ ဆိုးသွမ်းမိုက်မဲနေကြမည်ပင်။ ➤➤

# ကြယ်တာရာကဏ္ဍ




ဤကဏ္ဍသည် ကြယ်တာရာ ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၆၂)ပါး၊ ရကူအ် အပိုဒ် (၃)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊
အထူး ကရုဏာတော် ပြုတော်မူသော၊
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

وَالنَّجْمِ إِذَا هَوٰى ①

၁။ (ငါအရှင်မြတ်သည်) ကြယ်တာရာကို သက်သေထူတော်မူ၏။ အကြင်အခါဝယ် ထိုကြယ်တာရာသည် ကွယ်ပျောက်၍သွားလေ၏။

مَا ضَلَّ صَاحِبُكُمْ وَمَا غَوٰى ②

၂။ အသင်တို့၏အဖော် (တမန်တော်မြတ် မုဟမ္မဒ်)သည် လမ်းလွဲနေသည်လည်း မဟုတ်ပေ။ လမ်းမှားကို လိုက်ခဲ့သည်လည်း မဟုတ်ပေ။

وَمَا يَنْطِقُ عَنِ الْهَوٰى ③

၃။ ထိုမှတစ်ပါး ထိုအဖော် (တမန်တော်မြတ် မုဟမ္မဒ်)သည် (မိမိ) စိတ်အလိုဆန္ဒအရ စကားပြောဆိုလေ့ရှိသည်လည်း မဟုတ်ပေ။ [၁]

---

➤➤ နောက်ဆုံးတွင် တစ်ရက် အလ္လာဟ်အရှင်မြတ်၏ အမျက်တော်တည်းဟူသော မိုးကြိုးလောင်မီးသည် ၎င်းတို့အား ကွပ်မျက်ပေမည်။ ထိုအခါ ၎င်းတို့အား ၎င်းတို့၏ အကြံအစည်များသည် အသို့မျှ အကျိုးပေးနိုင်မည် မဟုတ်ပေ။ ၎င်းတို့သည် မည်သည့် အကူအညီကိုမျှလည်း ရရှိကြမည် မဟုတ်ပေ။ မိမိတို့ ဆိုးမိုက်ခဲ့ကြသမျှ ဒဏ်ကို လှလှကြီး ခံကြရပေမည်။ ထိုနေ့ကား အခြားမဟုတ်၊ ကိယာမတ်နေ့ပင်။

⓵ ဤအာယတ်တော်တွင်ပါရှိသော (ဆွာဟိဗုကွန်မ်) 'အသင်တို့၏အဖော်' ဟူသည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) ကို ဆိုလိုသည်။တမန်တော်မြတ်သည် နားလည်လွဲမှား၍ တရားလမ်းမှ တိမ်းစောင်းတော်မူခဲ့သည်လည်း မရှိ၊ စေတနာအလျောက် သိပါလျက် လမ်းမှားကို လိုက်တော်မူခဲ့သည်လည်းမရှိ၊ မိုးကောင်းကင်ရှိ ကြယ်တာရာများသည် ထွက်သည့်အချိန်မှ ဝင်သည့်အချိန်အထိ သတ်မှတ်ထားသည့် လမ်းကြောင်းများတွင် သတ်မှတ်ထားသည့် ခရီးနှုန်းထားအတိုင်း အနည်းငယ် စိုးစဉ်းမျှ တိမ်းစောင်းသည်မရှိဘဲ၊ တိကျမှန်ကန်စွာ သွားလာလှုပ်ရှားလျက် ရှိသည့်အလား၊ တမန်တော်မြတ်တည်းဟူသော သူရိယနေမင်းကြီး သည်လည်း အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသည့် တရားလမ်းကြောင်းပေါ်တွင် တိကျမှန်ကန်စွာ သွားလာလျက် ရှိတော်မူပေသည်။ ➤➤

إِنْ هُوَ إِلَّا وَحْيٌ يُوحَىٰ ④

၄။ ယင်းပြောဆိုမှုကား (အလ္လာဟ်အရှင်မြတ် အထံတော်မှ) ထုတ်ပြန်ခြင်း ခံရလေသော ထုတ်ပြန်ချက်သာလျှင်ဖြစ်ပေသည်။

عَلَّمَهُ شَدِيدُ الْقُوَىٰ ⑤

၅။ (အသင်တို့၏) ထိုအဖော်အား အလွန်အားအင်ကြီးမားသူ (ကောင်းကင်တမန်)သည် သင်ကြားပို့ချ၍ ပေးခဲ့လေ၏။

ذُو مِرَّةٍ فَاسْتَوَىٰ ⑥

၆။ စွမ်းအင်နှင့်ပြည့်စုံသူဖြစ်သော လွန်စွာလှပတင့်တယ်သူဖြစ်သော၊ ထို့နောက် ထို(ကောင်းကင်တမန်)သည် နဂိုမူလ ရုပ်သဏ္ဍာန်နှင့် အထင်အရှားပေါ်လာခဲ့၏။

وَهُوَ بِالْأُفُقِ الْأَعْلَىٰ ⑦

၇။ ထိုစဉ်အခါဝယ် ထို(ကောင်းကင်တမန်)သည် မြင့်စွင့်လှစွာသော မိုးကုပ်စက်ဝိုင်း၌ ရှိနေခဲ့၏။

ثُمَّ دَنَا فَتَدَلَّىٰ ⑧

၈။ ထို့နောက် ထို(ကောင်းကင်တမန်)သည် ချဉ်းကပ်၍ လာခဲ့၏။ ထို့နောက်တစ်ဖန် ထပ်မံ၍ ချဉ်းကပ်ခဲ့ပေရာ၊

فَكَانَ قَابَ قَوْسَيْنِ أَوْ أَدْنَىٰ ⑨

၉။ လေးနှစ်ပြန်မျှသာ ဝေးကွာလေတော့၏။ စင်စစ်ထို့ထက်ပင် ပို၍ နီးကပ်စွာ ရှိခဲ့လေ၏။

---

➤➤ ပွင့်လေသမျှသော တမန်တော်အပေါင်းသည် ကြယ်တာရာများနှင့် တူကြသည်။ လူသားတို့အား မိမိတို့၏ အလင်းရောင်ခြည်ဖြင့်လည်းကောင်း၊ သွားလာလှုပ်ရှားမှုဖြင့်လည်းကောင်း အကျိုးပြုကြသည်၊ လမ်းပြကြသည်။ ကြယ်တာရာအပေါင်း ဝင်သွားပြီးနောက် သူရိယနေမင်း ထွက်လာသည့်အလား၊ တမန်တော်အပေါင်း အသီးသီး ပြန်ကြွသွားပြီးနောက်တွင် တမန်တော်မြတ်တည်းဟူသော သူရိယနေမင်းကြီးသည် ထွက်ပေါ်လာတော်မူခဲ့ပေသည်။ အလ္လာဟ်အရှင်မြတ်သည် ရုပ်လောကရှိ ကြယ်တာရာအပေါင်းကိုပင် အံ့မကုန်စနစ်တကျ ခိုင်ခံ့စွာ ပြုစီရင်ထားတော်မူပေရာ၊ လူသားထုကြီး တစ်ရပ်လုံးနှင့် ပတ်သက်သည့် နာမ်လောကဆိုင်ရာကြယ်တာရာအပေါင်းနှင့် နေလတို့ကိုမူ ပို၍ပင် စနစ်တကျ ခိုင်ခံ့စွာ အံ့ဖွယ်သရဲ ပြုစီရင်ထားတော်မူသည် မဟုတ်ပါလော။ ဤသည့်သဘောကိုပင် ဤအာယတ်တော်တွင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

فَأَوْحَىٰٓ إِلَىٰ عَبْدِهِۦ مَآ أَوْحَىٰ ﴿١٠﴾

၁၀။ ထိုအခါ ထိုအရှင်မြတ်သည် မိမိ၏ ကျွန် (မုဟမ္မဒ်)ထံသို့ မိမိထုတ်ပြန်(လိုသော)ထုတ်ပြန်ချက်များကို ထုတ်ပြန်တော်မူခဲ့လေ၏။

مَا كَذَبَ ٱلْفُؤَادُ مَا رَأَىٰٓ ﴿١١﴾

၁၁။ (ထိုအသင်တို့အဖော်၏) စိတ်နှလုံးသည် တွေ့မြင်ခဲ့သော အရာများနှင့်စပ်လျဉ်း၍ *မှားယွင်းခြင်းမရှိခဲ့ပေ။* [၁]

أَفَتُمَٰرُونَهُۥ عَلَىٰ مَا يَرَىٰ ﴿١٢﴾

၁၂။ သို့ပါလျက် အသင်တို့သည် ထိုအဖော်နှင့် ၎င်းတွေ့မြင်ခဲ့သောအရာများတွင် အငြင်းအခုံ ပြုနေကြလေသလော။

وَلَقَدْ رَءَاهُ نَزْلَةً أُخْرَىٰ ﴿١٣﴾

၁၃။ ထိုမှတစ်ပါး ထိုအဖော်သည် ထို(ကောင်းကင်တမန်)အား ဒုတိယအကြိမ် ဆင်းသက်ရာ၌ မုချဧကန်တွေ့မြင်ခဲ့၏။

عِندَ سِدْرَةِ ٱلْمُنتَهَىٰ ﴿١٤﴾

၁၄။ နယ်စွန်နယ်ဖျား၌ရှိသော ဆီးပင် *'စစ်ဒ်ရတုလ်မွန်တဟာ' ဆီးပင်၏အနီးတွင်၊* [၂]

---

(၁) ဆိုလိုသည်ကား- တမန်တော်မြတ်သည် ကောင်းကင်တမန် ဂျစ်ဗ်ရီလ်အား မိမိ၏ မျက်စိများဖြင့် တပ်အပ်သေချာ မြင်တော်မူခဲ့၏။ ယင်းသို့ ကောင်းကင်တမန်အား တမန်တော်မြတ်က မျက်စိဖြင့် တပ်အပ်သေချာ မြင်နေတော်မူသည်မှာ၊ အမှန်တကယ် ဖြစ်သည်ကို တမန်တော်မြတ်၏ စိတ်နှလုံးသားအတွင်းမှ ခြေခြေမြစ်မြစ် ပိုင်ပိုင်နိုင်နိုင် ထောက်ခံနေပေသည်။

ဆိုလိုသည်ကား-တမန်တော်မြတ်သည် ကောင်းကင်တမန် ဂျစ်ဗ်ရီလ်အား အမှန်တကယ် မြင်တော်မူခဲ့သည်။ ယင်းသို့ မြင်တော်မူခဲ့သည်ကို တမန်တော်မြတ်၏ စိတ်နှလုံးကလည်း အလေးအနက် ယုံကြည်ခဲ့ပေသည်။ ဤသို့ဖြင့် အလ္လာဟ်အရှင်မြတ်သည် သက်ဆိုင်ရာ တမန်တော်များ၏ စိတ်နှလုံးများတွင် ကောင်းကင်တမန် ဂျစ်ဗ်ရီလ်အား သိကျွမ်းမှုကို ထည့်သွင်းပေးတော်မူပေသည်။

(၂) တမန်တော်မြတ်သည် ကောင်းကင်တမန် ဂျစ်ဗ်ရီလ်အား ၎င်း၏မူရင်း ရုပ်ဆင်းသဏ္ဌာန်၌ မိအ်ရာဂျ်ည၌တွင် မိုးကောင်းကင် ခုနစ်ထပ်အထက် 'စစ်ဒ်ရတုလ်မွန်တဟာ' အနီး၌ ဒုတိယတစ်ကြိမ် တွေ့မြင်တော်မူခဲ့သည်။

'စစ်ဒ်ရဟ်' ၏အဓိပ္ပာယ်မှာ အဘိဓာန်အရ ဆီးပင် ဟူ၍ဖြစ်သည်။ 'စစ်ဒ်ရတုလ်မွန်တဟာ'သည် ဤကမ္ဘာရှိ အပင်များနှင့် အမည်အားဖြင့် တူငြားသော်လည်း၊ အထက်ဂွင် အကြိမ်ကြိမ် ရေးသားထားခဲ့သကဲ့သို့၊ အရည်အချင်းအားဖြင့်ကား အလျှင်းတူမည် မဟုတ်ပေ။

စစ်ဒ်ရတုလ်မွန်တဟာသည် သတ္တမ မိုးကောင်းကင်အထက်၌ တည်ရှိသည်။ အချို့အဆိုအရ ➤➤

عِندَهَا جَنَّةُ الْمَأْوَىٰ ⑮

၁၅။ ယင်းဆီးပင်၏ အနီး၌ပင် 'ဂျန္နတုလ်မအ်ဝါ' သုခဘုံ ရှိ၏။

إِذْ يَغْشَى السِّدْرَةَ مَا يَغْشَىٰ ⑯

၁၆။ အကြင်အခါဝယ် ဆီးပင်ကို ဖုံးလွှမ်းလျက်ရှိသောအရာများသည် ဖုံးလွှမ်းလျက်ရှိ၏။ [၁]

مَا زَاغَ الْبَصَرُ وَمَا طَغَىٰ ⑰

၁၇။ (ထိုအဖော်၏) မျက်စိသည် သွေဖယ်ချော်ခဲ့သည်လည်းမရှိချေ။ ကျော်လွန်သွားခဲ့သည်လည်း မရှိချေ။

لَقَدْ رَأَىٰ مِنْ آيَاتِ رَبِّهِ الْكُبْرَىٰ ⑱

၁၈။ ဧကန်မလွဲ ထိုအဖော်သည် ၎င်းအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ ကြီးကျယ်လှစွာသော သက်သေလက္ခဏာတော်များကို တွေ့မြင်ခဲ့သည်မှာ အမှန်ပေတည်း။

---

➤➤ ဆဋ္ဌမ မိုးကောင်းကင်၏ အထက်၌ တည်ရှိသည်။ အဆိုတစ်ရပ်အရ ဆဋ္ဌမ မိုးကောင်းကင်နှင့် သတ္တမ မိုးကောင်းကင် ၂ ခုလုံး၌ တည်ရှိသည်။ စိဒ်ရတုလ်မွန်တဟာ အထက်ကမ္ဘာနှင့် အောက်ကမ္ဘာ အဆုံးစွန်ဌာနဖြစ်သည်။ အထက်ကမ္ဘာမှ ဆင်းသက်သော တရားတော် စသည်များသည် စိဒ်ရတုလ်မွန်တဟာတွင် ပထမ ဆုံးခန်းတိုင်သည်။ ထိုမှတစ်ဆင့် ကောင်းကင်တမန်များသည် အောက်ကမ္ဘာသို့ ယူဆောင်လာကြရသည်။ ထိုနည်းအတူ အောက်ကမ္ဘာမှအထက်ကမ္ဘာသို့တက်သောအကျင့်အမူ စသည်များသည်လည်း စိဒ်ရတုလ်မွန်သဟာတွင်ပင် ပထမဆုံးခန်းတိုင်သည်။ ထိုမှတစ်ဆင့် အထက်ကမ္ဘာသို့ ယူဆောင်သွားရပေသည်။

ကြည့်-မာရိဖ်ဒီ၊ မဒါရိက်၊ ဗိုင်ဇ္ဇာဝီ၊ ကဗီရ်။

(၁) 'စိဒ်ရတုလ်မွန်တဟာ' ကို ဖုံးအုပ်လွှမ်းခြုံလျက်ရှိသော အရာကား အခြားမဟုတ်၊ အလ္လာဟ်အရှင်မြတ်၏ ရောင်ခြည်တော်များပင်။ ထို့ပြင်တစ်ဝ စိဒ်ရတုလ်မွန်တဟာပေါ်၌ ကောင်းကင်တမန်များသည် အဘယ်မျှ များပြားစွာ ရှိနေကြသည်ဆိုသော်- အရွက်တိုင်းအပေါ်၌ ကောင်းကင်တမန်တစ်ပါးကို တွေ့မြင်ရပေမည်။ အဆိုတစ်ရပ်အရ ဖုံးအုပ် လွှမ်းခြုံလျက်ရှိသော အရာဟူသည် ရွှေရောင်တောက်ပလျက်ရှိသော ပိုးဖလံများကို ဆိုလိုသည်။ ဆိုလိုသည်ကား-စိဒ်ရတုလ်မွန်တဟာသည် ပြော၍ပင် မဖြစ်နိုင်အောင်ပင် လှပတင့်တယ် ရှုစဖွယ် ဖြစ်ပေသည်။

အမှန်မှာ 'စိဒ်ရတုလ်မွန်တဟာ' ကို အဘယ်အရာများက ဖုံးအုပ် လွှမ်းခြုံထားသည်၊ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ သက်သေလက္ခဏာတော်များအနက် မည်ရွေ့မည်မျှ မည်သို့မည်ပုံ တွေ့မြင်တော်မူခဲ့သည်များကို အလ္လာဟ်အရှင်မြတ်နှင့် ကာယကံရှင် ဖြစ်တော်မူသော တမန်တော်မြတ်သာလျှင် အတိအကျ သိရှိတော်မူကြပေမည်။

أَفَرَءَيْتُمُ اللَّٰتَ وَالْعُزَّىٰ ﴿١٩﴾

၁၉။ သို့ဖြစ်ပေရာ အသင်တို့သည် 'လားတ်'နှင့် စပ်လျဉ်း၍လည်းကောင်း၊ 'အွဇ္ဇာ' နှင့်စပ်လျဉ်း၍လည်းကောင်း၊

وَمَنَوٰةَ الثَّالِثَةَ الْأُخْرَىٰ ﴿٢٠﴾

၂၀။ အခြား တတိယမြောက်ဖြစ်သော 'မနားတ်'နှင့် စပ်လျဉ်း၍လည်းကောင်း၊ ဆင်ခြင်သုံးသပ်ခြင်းကို ပြုခဲ့ကြလေသလော။

أَلَكُمُ الذَّكَرُ وَلَهُ الْأُنثَىٰ ﴿٢١﴾

၂၁။ အသင်တို့၌ သားယောကျ်ားကလေးများ ရှိကြ၍ ထိုအရှင်မြတ်၌ သမီးမိန်းကလေးများ ရှိကြလေသလော။

تِلْكَ إِذًا قِسْمَةٌ ضِيزَىٰ ﴿٢٢﴾

၂၂။ *ဤသည်ကားလွန်စွာမမျှတသောခွဲဝေမှုပင်၊* [၁]

إِنْ هِيَ إِلَّا أَسْمَاءٌ سَمَّيْتُمُوهَا أَنتُمْ وَآبَاؤُكُم مَّا أَنزَلَ اللَّهُ بِهَا مِن سُلْطَانٍ ۚ إِن يَتَّبِعُونَ إِلَّا الظَّنَّ وَمَا تَهْوَى الْأَنفُسُ ۖ وَلَقَدْ جَاءَهُم مِّن رَّبِّهِمُ الْهُدَىٰ ﴿٢٣﴾

၂၃။ ယင်း(ဆိုခဲ့ပြီးသော ရုပ်တု)တို့မှာ အသင်တို့ ကိုယ်တိုင်သည်လည်းကောင်း၊ အသင်တို့၏ အဘ၊ ဘိုး ဘေးတို့သည်လည်းကောင်း၊ မှည့်ခေါ်ထားသော အမည်နာမများသာလျှင် ဖြစ်ကြကုန်၏။ အလ္လာဟ် အရှင်မြတ်သည် ယင်းတို့(ကိုကိုးကွယ်ရန်)နှင့် စပ်လျဉ်း၍ မည်သည့်သက်သေသာဓက တစ်စုံတစ်ရာကိုမျှပင် ချပေးတော်မူခဲ့သည် မဟုတ်ပေ။ ထိုသူတို့ကား ရမ်းဆ ထင်မြင်ချက်နှင့် စိတ်အလိုဆန္ဒများကိုသာလျှင် လိုက်နာလျက် ရှိကြကုန်၏။ အမှန်မှာ ၎င်းတို့ထံသို့ ၎င်းတို့၏အရှင်ထံမှ အမှန်တရားသည် ရောက်ရှိလာခဲ့ချေပြီ။

---

(၁) ကာဖိရ်၊ မုရှ်ရစ်က်များက လားတ်၊ အွဇ္ဇာနှင့် မနားတ်သည် မပြောစကောင်း၊ အလ္လာဟ်အရှင်မြတ်၏ သမီးများဖြစ်သည်ဟု ဆိုခဲ့ကြ၏။ အမှန်မှာ အလ္လာဟ်အရှင်မြတ်သည် မိဘ သားသမီးနှင့် လုံး၀ ကင်းစင်တော်မူသည်။ ကြည့်-ကုရ်အာန် (၁၁၂း၁-၄)

အကယ်တန္တိ မပြောကောင်း မဆိုအပ် အလ္လာဟ်အရှင်မြတ်၌ သားသမီးရှိသည်ဟူ၍ပင် ဆိုပါဦးစို့။ သို့လင့်ကစား မိမိတို့အဖို့ မိမိတို့ နှစ်ခြိုက်သော သားယောကျ်ားများ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အဖို့ မိမိတို့ မနှစ်ခြိုက်သော သမီးမိန်းကလေးများဖြစ်သည် ဟူသော ခွဲဝေမှုမှာကား နည်းလမ်းမကျလှပေ။

أَمْ لِلْإِنسَانِ مَا تَمَنَّىٰ ﴿٢٤﴾

၂၄။ 'မနုဿ'လူသား၌ ၎င်းအာသာဆန္ဒရှိသမျှ ရရှိလေသလော။

فَلِلَّهِ الْآخِرَةُ وَالْأُولَىٰ ﴿٢٥﴾

၂၅။ စင်စစ်မှာကား တမလွန်ဘဝသည် လည်းကောင်း၊ လောကီဘဝသည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်(၏ လက်တော်တွင်း)၌သာရှိ၏။

وَكَم مِّن مَّلَكٍ فِي السَّمَاوَاتِ لَا تُغْنِي شَفَاعَتُهُمْ شَيْئًا إِلَّا مِن بَعْدِ أَن يَأْذَنَ اللَّهُ لِمَن يَشَاءُ وَيَرْضَىٰ ﴿٢٦﴾

၂၆။ စင်စစ်သော်ကား မိုးကောင်းကင်များ၌ မြောက်မြားစွာသော ကောင်းကင်တမန်တို့သည် ရှိကြကုန်၏။ (သို့ရာတွင်) ၎င်းတို့၏ ကြားဝင်အသနားခံပေးမှုသည်ပင် အလ္လာဟ်အရှင်မြတ်က မိမိအလိုရှိတော်မူ၍ ကျေနပ်တော်မူသောသူနှင့် ပတ်သက်၍ ခွင့်ပြုတော်မူပြီး နောက်မှသာလျှင် အသုံးဝင်နိုင်အံ့သတည်း။[၁]

إِنَّ الَّذِينَ لَا يُؤْمِنُونَ بِالْآخِرَةِ لَيُسَمُّونَ الْمَلَائِكَةَ تَسْمِيَةَ الْأُنثَىٰ ﴿٢٧﴾

၂၇။ ဧကန်စင်စစ် 'အာခိရတ်'တမလွန်ကို မယုံကြည်သော သူတို့သည် 'မလာအိကဟ်' ကောင်းကင်တမန်တို့အား မိန်းမများ၏ အမည်နာမများဖြင့် မှည့်ခေါ်ကြကုန်၏။

---

(၁) ကာဖိရ်၊ မုရှ်ရစ်က်များသည် မိမိတို့၏ ရုပ်တုများကို အထူးတလည် အားကိုးနေခဲ့ကြ၏။ ယင်းရုပ်တုများသည် မိမိတို့အား ချွတ်ကယ်ကြလိမ့်မည်ဟု ထင်မှတ်နေခဲ့ကြ၏။ အပါးတော်၌ ခစားလျက် ရှိကြကုန်သော ကောင်းကင်တမန်များ၏ အသနားခံပေးမှုသည်ပင်လျှင် အသို့မျှ အကျိုးပြုနိုင်သည် မဟုတ်ပေ။

သို့ရာတွင် အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင်က အကြင်သူ တစ်ဦးတစ်ယောက်နှင့် ပတ်သက်၍ အသနားခံပေးရန် ခွင့်ပြုတော်မူပါသော်၊ ထိုသူအားလည်း ကျေနပ်တော်မူပါသော်၊ အသနားခံပေးမှုသည် အကျိုးသက်ရောက်နိုင်ပေသည်။

ယခုသော် အလ္လာဟ်အရှင်မြတ်သည် ရုပ်တုများကို အသနားခံပေးရန် ခွင့်ပြုထားတော်မူသည်လည်း မဟုတ်၊ ကာဖိရ်၊ မုရှ်ရစ်က်များကို ကျေနပ်တော်မူသည်လည်း မဟုတ်၊ သို့ဖြစ်ပေရာ ကျိုးပြစ် တစ်စုံတစ်ရာ မပြုစွမ်းနိုင်သော အဆိုပါ ရုပ်တုများ၏ အသနားခံပေးမှုကို မျှော်ကိုးနေခြင်းမှာ ကိုယ့်ကိုယ်ကို လှည့်စားခြင်းသာ ဖြစ်သည်။

وَمَا لَهُم بِهِۦ مِنْ عِلْمٍ ۖ إِن يَتَّبِعُونَ إِلَّا ٱلظَّنَّ ۖ وَإِنَّ ٱلظَّنَّ لَا يُغْنِى مِنَ ٱلْحَقِّ شَيْـًٔا ﴿٢٨﴾

၂၈။ စင်စစ်သော်ကား ဤသည်နှင့်စပ်လျဉ်း၍ ၎င်းတို့၌ မည်သည့် သက်သေ အထောက်အထား အသိပညာမျှ မရှိပြီ။ ၎င်းတို့သည် ရမ်းဆထင်မြင်မှုကိုသာလျှင် လိုက်နာကြကုန်၏။ သို့ရာတွင် ရမ်းဆ ထင်မြင်မှုမှာ အမှန်တရားနှင့် ယှဉ်ပြိုင်၍ လုံးဝ အသုံးဝင်သည် မဟုတ်ပေ။

فَأَعْرِضْ عَن مَّن تَوَلَّىٰ عَن ذِكْرِنَا وَلَمْ يُرِدْ إِلَّا ٱلْحَيَوٰةَ ٱلدُّنْيَا ﴿٢٩﴾

၂၉။ သို့ဖြစ်ပေရာ (အို–နဗီတမန်တော်၊) အသင်သည် အကြင်သူတို့အား လျစ်လျူရှု၍ နေပါလေ။ ထိုသူတို့သည် ငါအရှင်မြတ်၏ ဆုံးမဩဝါဒတော်မှ မျက်နှာလွှဲ၍ နေခဲ့ကြကုန်၏။ ထိုမှတစ်ပါး ၎င်းတို့သည် လောကီဘဝမှတစ်ပါး အခြား တစ်စုံတစ်ရာကို ရည်ရွယ်ကြသည် မဟုတ်ပေ။ [၁]

ذَٰلِكَ مَبْلَغُهُم مِّنَ ٱلْعِلْمِ ۚ إِنَّ رَبَّكَ هُوَ أَعْلَمُ بِمَن ضَلَّ عَن سَبِيلِهِۦ وَهُوَ أَعْلَمُ بِمَنِ ٱهْتَدَىٰ ﴿٣٠﴾

၃၀။ ဤသည် ၎င်းတို့၏ အမြင့်ဆုံးသော အသိပညာပင်။ ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်ပင်လျှင် ထိုအရှင်မြတ်၏လမ်းမှ လွဲချော်သူအား အသိတော်မူဆုံး ဖြစ်တော်မူ၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည်သာလျှင် တရားလမ်းရရှိသောသူအား အသိတော်မူဆုံး ဖြစ်တော်မူပေသတည်း။

---

(၁) ဆိုလိုသည်ကား – ကာဖိရ်များသည် (အာခိရတ်) နောင်တမလွန်ဘဝကို မယုံကြည်ကြသည့်အတွက်၊ နောင်တမလွန်ဘဝတွင် ခံစားရမည့်ပြစ်ဒဏ်ကို အမေ့ကြီးမေ့နေကြ၏။ စိတ်အလိုလိုက်ကာ ဆိုးမိုက်နေကြ၏။ မပြောသင့် မပြောအပ် မပြုသင့် မပြုအပ်သည်များကို ပြောဆိုပြုလုပ်ကြ၏။ ဥပမာ–ယင်း ကာဖိရ်များက ကောင်းကင်တမန်များသည် အလ္လာဟ်အရှင်မြတ်၏ သမီးတော်များဖြစ်သည် ဟူ၍ပင် အထောက်အထား တစ်စုံတစ်ရာ မရှိပါဘဲလျက် ပြောဆိုကြ၏။ ဤသည် ၎င်းတို့၏ မိုက်မဲမှုပင်။

အလ္လာဟ်အရှင်မြတ်၌ ဂုဏ်ရည်တူမရှိ၊ သားလည်းမရှိ၊ သမီးလည်းမရှိ၊ မည်သည့် သံယောဇဉ်မျှလည်း မရှိ။ အမှန်မှာ ကာဖိရ်များသည် ဤပစ္စက္ခဘဝကိုပင် အဓိကဟူ၍ ထင်မှတ်ကာ လောကီရေးရာများတွင် လုံးဝနစ်မွန်းနေကြ၏။ နောင်တမလွန်ဘဝကို အမေ့ကြီးမေ့နေကြ၏။ ဤပစ္စက္ခဘဝမှ ကျော်လွန်၍ တစ်စုံတစ်ရာမျှ မြော်မြင်နိုင်ကြသည်လည်း မရှိ။ ထို့အတွက် ၎င်းတို့သည် စိတ်၏တွေးထင်ရာနောက်သို့သာ အခေါက်ခေါက် ➤➤

وَلِلّٰهِ مَا فِي السَّمٰوٰتِ وَمَا فِي الْاَرْضِ ۙ لِيَجْزِيَ الَّذِيْنَ اَسَآءُوْا بِمَا عَمِلُوْا وَيَجْزِيَ الَّذِيْنَ اَحْسَنُوْا بِالْحُسْنٰى ﴿٣١﴾

၃၁။ ထိုမှတစ်ပါး မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ပထဝီမြေ၌ရှိသမျှတို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် ပိုင်ဆိုင်တော်မူသော အရာများသာလျှင် ဖြစ်ကြကုန်၏။ နောက်ဆုံးတွင် ထိုအရှင်မြတ်သည် ဒုစရိုက်မှုကို ကျူးလွန်ခဲ့ကြသော သူတို့အား ၎င်းတို့ကျူးလွန်ခဲ့ကြသည်၏ အကျိုးကို ပေးတော်မူအံ့၊ ထိုနည်းတူစွာ ထိုအရှင်မြတ်သည် ကောင်းမှု ပြုခဲ့ကြသောသူတို့အား ကောင်းမြတ်သော အကျိုးကို ပေးတော်မူအံ့။

اَلَّذِيْنَ يَجْتَنِبُوْنَ كَبٰٓئِرَ الْاِثْمِ وَالْفَوَاحِشَ اِلَّا اللَّمَمَ ؕ

၃၂။ (ထိုကောင်းမှုပြုသူတို့မှာ) အသေးအဖွဲပြစ်မှုများကို (မတော်တဆ) ပြုမိကြသော်လည်း ကြီးလေးသောပြစ်မှုတို့မှလည်းကောင်း၊ ညစ်ညမ်းမှုတို့မှလည်းကောင်း၊ (အထူး)ကြဉ်ရှောင်ကြကုန်၏။ [၁]

---

➤➤ လိုက်နေကြ၏။ ၎င်းတို့၏ အသိဉာဏ်ကား တိမ်ဘိ၏။ သိမ်ဖျင်းဘိ၏။ သို့ဖြစ်ရာ တမန်တော်မြတ်သည် ထိုသို့ အတွေးတိမ်သော၊ စိတ်ထင်ရာစိုင်းနေသော၊ လောကီရေးရာများတွင် နစ်မွန်းနေသော၊ နောင်တမလွန်ဘဝကို မေ့ကာ အလ္လာဟ်အရှင်မြတ်အား သွေဖည်ကျောခိုင်းနေသော ကာဖိရ်များနှင့် ပတ်သက်၍ တမန်တော်မြတ်သည် စိတ်သောက ဖြစ်နေတော်မူရန် မလိုပေ။ ၎င်းတို့အား လျစ်လျူပြုထားတော်မူရမည်သာတည်း။

(၁) အထက်တွင် ကောင်းမှုပြုသူများအား ကောင်းကျိုးပေးတော်မူမည့်အကြောင်း ပါရှိ၏။ ကောင်းမှုပြုသော သူတော်စင်များသည် ကြီးလေးသော အပြစ်များ၊ ရက်ဖွယ်ရာ ညစ်ညမ်းမှုများမှ အထူးရှောင်ကြဉ်ကြပေသည်။ သို့ရာတွင် လူ့သဘာဝအလျောက် ယင်း သူတော်စင်များ၌ပင် (လမမ်)ခေါ် သာမန်အသေးအဖွဲ ပြစ်မှုများ မတော်တဆ ဖြစ်ပေါ်တတ်ပေသည်။

'လမမ်' ဟူသော အပြစ်ကား အဘယ်နည်း။ 'လမမ်' ဟူသည် ကိုယ်ထိလက်ရောက် ပြုလုပ်သည့် အဖြစ်သို့ မရောက်သေးသည့် မကောင်းသောအကြံအစည် အတွေးအခေါ်များကို ဆိုလိုသည်ဟု အချို့က ဖွင့်ဆိုကြသည်။ အချို့က 'လမမ်' ဟူသည် သေးငယ်သော အပြစ်များကို ဆိုလိုသည်ဟု ဖွင့်ဆိုကြသည်။

အချို့ကမူ 'လမမ်' ဟူသည် အကြင်သို့သော အပြစ်ကို ဆိုလိုသည်။ ယင်း အပြစ်ကို ကျူးလွန်မိပြီး နောက် ထိုအပြစ်ကို ဆက်လက်၍ အစဉ်တစိုက် မကျူးလွန်တော့ပေ။ သို့တည်းမဟုတ် အပြစ်ကို ဆက်လက် ကျူးလွန်ရန် အကျင့်ပြုလုပ်မထားပေ။ သို့တည်းမဟုတ် အပြစ်တစ်ခုကို ကျူးလွန်မိပြီးနောက် အချိန်မီ ဝန်ချ တောင်းပန်၏။ ထိုထိုသော အပြစ်များသည် 'လမမ်' တွင် အကျုံးဝင်သည်ဟု ဖွင့်ဆိုကြပေသည်။

رَبَّكَ وَاسِعُ الْمَغْفِرَةِ هُوَ اَعْلَمُ بِكُمْ اِذْ اَنْشَاَكُمْ مِّنَ الْاَرْضِ وَاِذْ اَنْتُمْ اَجِنَّةٌ فِيْ بُطُوْنِ اُمَّهٰتِكُمْ فَلَا تُزَكُّوْٓا اَنْفُسَكُمْ هُوَ اَعْلَمُ بِمَنِ اتَّقٰى ﴿٣٢﴾

ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် ကျယ်ဝန်းလှစွာသော လွတ်ငြိမ်းချမ်းသာခွင့်ကို ပိုင်ဆိုင်တော်မူသော အရှင်မြတ်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် အသင်တို့အား မြေဖြင့် ဖန်ဆင်းတော်မူခဲ့စဉ်အခါ၌ အသင်တို့အား ကောင်းစွာသိရှိတော်မူ၏။ အသင်တို့သည် မိမိတို့၏ မိခင်များ၏ ဝမ်းဗိုက်များတွင် သန္ဓေတည်စ ကလေးဘဝ၌ရှိခဲ့စဉ်အခါ၌လည်း အသင်တို့အား ကောင်းစွာ သိရှိတော်မူ၏။ သို့ဖြစ်ပေရာ အသင်တို့သည် မိမိတို့ကိုယ်ကို မိမိတို့ မြင့်မြတ်သည် စင်ကြယ် သန့်ရှင်းသည်ဟု မထင်ကြကုန်လင့်၊ ထိုအရှင်မြတ်သည်သာလျှင် ပြစ်မှုဒုစရိုက်တို့မှ ကြဉ်ရှောင်ကြကုန်သော သူတို့အား အသိတော်မူဆုံး ဖြစ်တော်မူပေသတည်း။ [၁]

---

(၁) ဆိုလိုသည်ကား-အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် တစ်ဦးတစ်ယောက်သည် 'တာက်ဝါ' သူတော်ကောင်းတရားကို လက်ခံနာယူကျင့်မှုခွင့် ရရှိထားပါသော်၊ ထိုသူသည် မိမိကိုယ်ကို အထင်မကြီးရာ၊ ဘဝင်မမြင့်ရာ၊ မကြွားဝါရာ။ အလ္လာဟ်အရှင်မြတ်သည် မည်သူ မည်ဝါ မည်မျှ သူတော်ကောင်းတရားထားရှိသည်၊ အဘယ်မျှ စင်ကြယ်သန့်ရှင်း အပြစ်ကင်းသည်များကို အသိဆုံး ဖြစ်တော်မူသည်။ ယနေ့ သူတော်ကောင်းသည် နက်ဖြန် ဖောက်ပြန်သွားနိုင်သည်။ ယနေ့ဖောက်ပြန်နေသူတစ်ဦးသည် နက်ဖြန် သူတော်ကောင်းလည်းဖြစ်သွားနိုင်သည်။ ဤသည်ကို သူ ငါမသိ၊ အလ္လာဟ်အရှင်မြတ်သိတော်မူသည်။ အလ္လာဟ်အရှင်မြတ်သည် အဘယ်မျှ သိတော်မူသည်ဆိုသော်၊ လူ့ဘဝတွင် ခြေမချမီ အလျင်ကတည်းက ထိုသူ၏ အကြောင်းကို စ၊ လယ်၊ ဆုံး သိတော်မူသည်။

သို့ဖြစ်ရာ လူသားသည် မိမိ၏ မူလဘူတ အစကို မမေ့ရာ။ လူသားသည် မြေမှ စတင်ဖြစ်ပေါ်လာခဲ့သည်။ (ဖခင်ကြီး အာဒမ်သခင်သည် မြေမှ ဖန်ဆင်းခြင်း ခံခဲ့ရပေသည်)။ ထို့နောက် လူသားတို့သည် ကလလရေကြည် တစ်စက်မှ စတင်ခဲ့သည်။ အမိဝမ်းဗိုက်တွင် လပေါင်းများစွာ နေခဲ့ရသည်။ ထို့နောက် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ရုပ်နာမ်ဆိုင်ရာ ဘဝအမျိုးမျိုးကို ကျော်လွန်ကာ၊ နောက်ဆုံးတွင် လူတစ်လုံး သူတစ်လုံး ဖြစ်လာခဲ့သည်။ သို့ဖြစ်ရာ ထိုသို့သော လူသားတစ်ဦးသည် စကားကြီး စကားကျယ် မပြောဆိုရာ။

စစ်မှန်သော သူတော်စင်များသည်ပင် မိမိတို့ကိုယ်ကို မိမိတို့ သူတော်စင်များပါဟူ၍ ပြောဆိုရန် ရှက်ကြပေသည်။ အဘယ်ကြောင့်ဆိုသော် သူတော်စင်များသည် အဘယ်မျှပင် သူတော်စင်များ ဖြစ်လင့်ကစား၊ ပြစ်မှုအပေါင်းမှ လုံးဝစင်ကြယ်သန့်ရှင်း အပြစ်ကင်းခြင်း မဖြစ်နိုင်သည်ကို သိနားလည်ကြပေသည်။ ▶▶

أَفَرَءَيْتَ الَّذِي تَوَلَّىٰ ﴿٣٣﴾

၃၃။ (အို-နဗီတမန်တော်)၊ အသင်သည် အကြင်သူအား မမြင်ခဲ့လေသလော။ ထိုသူသည် မျက်နှာလွှဲသွားခဲ့၏။

وَأَعْطَىٰ قَلِيلًا وَأَكْدَىٰ ﴿٣٤﴾

၃၄။ ၎င်းပြင် ထိုသူသည် အနည်းငယ်မျှ (ပစ္စည်း) ကိုပေး၍ (ယခု) ပိတ်ပင်ခဲ့၏။ ①

أَعِندَهُ عِلْمُ الْغَيْبِ فَهُوَ يَرَىٰ ﴿٣٥﴾

၃၅။ ၎င်း၏ထံတွင် အကွယ်၌ရှိသည်ကို သိစွမ်းနိုင်သော အသိပညာရှိနေသောကြောင့် ၎င်းသည် တွေ့မြင်လေသလော။

أَمْ لَمْ يُنَبَّأْ بِمَا فِي صُحُفِ مُوسَىٰ ﴿٣٦﴾

၃၆။ ၎င်းသည် 'မူစာ'၏ ကျမ်းများ၌ လာရှိသည်ကိုလည်းကောင်း၊

وَإِبْرَاهِيمَ الَّذِي وَفَّىٰ ﴿٣٧﴾

၃၇။ (အမိန့်တော်များကို) ကျေပွန်စွာဆောင်ရွက်ခဲ့သော 'အီဗ်ရာဟီမ်'၏ ကျမ်းတော်များ၌ လာရှိသည်ကိုလည်းကောင်း၊ သတင်းပေးခြင်း မခံခဲ့ရလေသလော။

---

➤➤ လူသားတို့၌ လူ့သဘာဝအလျောက် အနည်းနှင့်အများ အပြစ်ရှိသည်သာ ဖြစ်သည်။ တစ်ဦးတစ်ယောက်အား အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင်က မိမိကျေးဇူးတော်ဖြင့် စင်ကြယ်သန့်ရှင်း အပြစ်ကင်းအောင် ကာကွယ်ထိန်းသိမ်းထားတော်မူပါသော်၊ ဤကား တစ်ဘာသာပင်။

① အထက်တွင် သူတော်စင်များ၏ အချို့ဂုဏ်ရည်များကို မိန့်ဆိုထားတော်မူသည်။

ဤအာယတ်တော်တွင် သူယုတ်မာများ၏ အချို့အကျင့်ကို မိန့်ဆိုထားတော်မူသည်။

ဆိုလိုသည်ကား- အချို့သူယုတ်မာများသည် ဤသို့လည်း ရှိကြသည်။ ပထမသော် အနည်းငယ်အီမာန် သက်ဝင်ယုံကြည်လာခဲ့၏။ ထို့နောက်တွင်သော် သူ၏ စိတ်ဓာတ်သည် ခဲယဉ်းသွားပြန်၏။

မုဂျာဟိဒ်စသည့် ပညာရှင်များ၏ ဖွင့်ဆိုချက်အရ ဤ အာယတ်တော်သည် ဝလီဒ် အစ်ဗ်နုမုဃီရဟ်နှင့် ပတ်သက်၍ ကျရောက်လာခဲ့ခြင်းဖြစ်သည်။ ဝလီဒ်သည် တမန်တော်မြတ်၏ တရားတော်များကို ကြားနာ၍၊ ပထမသော် အစ္စလာမ်ဘက်သို့ အနည်းငယ် တိမ်းညွှတ်လာခဲ့၏။ 'ကုဖ်ရ်' သွေဖည် ငြင်းဆန်မှု၏ ပြစ်ဒဏ်များကို ကြောက်ရွံ့ပြီး အစ္စလာမ်ဘောင်အတွင်းသို့ ကူးပြောင်းလာအံ့ဆဲဆဲပင် ဖြစ်လာခဲ့၏။

ထိုအချိန်တွင် ကာဖိရ်တစ်ယောက်က ဝလီဒ်အား အသင် ဤသို့ မပြုလုပ်လေနှင့်။ အသင်၏ အပြစ်အားလုံးကို ကျွန်ုပ် ထမ်းဆောင်ပါမည်။ အသင့်ကိုယ်စား ကျွန်ုပ် အပြစ်ဒဏ်ခံပါမည်။ သို့ရာတွင် အသင်သည် ကျွန်ုပ်အား ဤရွေ့ဤမျှ ငွေပေးရမည်ဟု ပြောဆိုသောအခါ၊ ဝလီဒ်က ကောင်းပါပြီ၊ အသင်တောင်းဆိုသောငွေကို ကျွန်ုပ် အရစ်ကျ ပေးသွားပါမည်ဟု ကတိပြုကာ၊ ပထမသော်- တစ်ရစ်၊ နှစ်ရစ်၊ ငွေများ ပေးခဲ့သေး၏။ ထို့နောက်သော် ကျန်ငွေများကို ပေးခြင်းမှ ငြင်းပယ်ခဲ့လေသည်။

أَلَّا تَزِرُ وَازِرَةٌ وِّزْرَ أُخْرَىٰ ﴿٣٨﴾

၃၈။ စေကန်စင်စစ် မည်သည့်သယ်ပိုးသူ တစ်ဦးတစ်ယောက်မျှပင် သူတစ်ပါး၏ဝန်ထုပ်ကို သယ်ပိုးရွက်ဆောင်မည် မဟုတ်ဟူ၍လည်းကောင်း။ [၁]

وَأَن لَّيْسَ لِلْإِنسَانِ إِلَّا مَا سَعَىٰ ﴿٣٩﴾

၃၉။ စေကန်မလွဲ မနုဿလူသားၓ် ၎င်း၏ကြိုးပမ်းဆောင်ရွက်ချက်သာလျှင် ရှိမည်ဟူ၍လည်းကောင်း၊

وَأَنَّ سَعْيَهُ سَوْفَ يُرَىٰ ﴿٤٠﴾

၄၀။ မုချစေကန် ထိုမနုဿလူသား၏ ကြိုးပမ်းဆောင်ရွက်ချက်မှာ မကြာမြင့်မီပင် တွေ့မြင်ရမည်ဟူ၍လည်းကောင်း၊

ثُمَّ يُجْزَاهُ الْجَزَاءَ الْأَوْفَىٰ ﴿٤١﴾

၄၁။ ထို့နောက် ထိုမနုဿ လူသားသည် ယင်းကြိုးပမ်းမှုနှင့်စပ်လျဉ်း၍ လွန်စွာပြည့်စုံသော အစားပေးခြင်းကို ခံရမည်ဟူ၍ လည်းကောင်း၊ (သတင်းပေးခြင်း မခံခဲ့ရလေသလော)။

وَأَنَّ إِلَىٰ رَبِّكَ الْمُنتَهَىٰ ﴿٤٢﴾

၄၂။ ၎င်းပြင် (အို-နဗီတမန်တော်၊) စေကန်အမှန် လမ်းဆုံးမှာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ဖြစ်သည်ဟူ၍လည်းကောင်း၊ [၂]

وَأَنَّهُ هُوَ أَضْحَكَ وَأَبْكَىٰ ﴿٤٣﴾

၄၃။ စင်စစ်စေကန် ထိုအရှင်မြတ်သည်ပင် ရယ်စေတော်မူသည်၊ ငိုကြွေးစေတော်မူသည်ဟူ၍လည်းကောင်း၊

---

(၁) ဆိုလိုသည်ကား- လူတိုင်းသည် မိမိဆည်းပူးသမျှကို ရရှိမည်သာဖြစ်သည်။ မိမိ ဆည်းပူးထားသည့်ကောင်းကျိုးကို သူတစ်ပါးက ယူနိုင်သည်မရှိ။ သို့ရာတွင် တစ်ဦးတစ်ယောက်သည် မိမိ ဆည်းပူးထားသည့် အချို့ကောင်းကျိုးကို မိမိစေတနာအလျောက် သူတစ်ပါးအား လွှဲပြောင်းပေးသော်၊ အလ္လာဟ်အရှင်မြတ်ကလည်း ယင်းသို့ ပြောင်းလွှဲပေးခြင်းကို သဘောတူတော်မူပါသော်၊ ဤကား တစ်ဘာသာပင်။ ဤအကြောင်း ဟဒီးဆ်သြဝါဒတော်များတွင်လည်းကောင်း၊ ဖိက်ဟ် ဓမ္မသတ်ကျမ်းကြီးများတွင်လည်းကောင်း အကျယ်လာရှိပေသည်။

(၂) **အလ္လာဟ်အရှင်မြတ်ထံ ပြန်လည်ရောက်ရမည်သာ။**

ဆိုလိုသည်ကား - အချို့လူသားများသည် ယနေ့ အလ္လာဟ်အရှင်မြတ်အား အဘယ်မျှပင် သွေဖည်ကျောခိုင်းနေကြလင့်ကစား၊ နက်ဖြန် ကိယာမတ်နေ့တွင် အားလုံးတို့သည် ထိုအရှင်မြတ် ရှေ့တော်မှောက်သို့ ပြန်လည်ရောက်ရှိကြရမည်သာ။ ကျိုး-ပြစ် ခံ-စံ ကြရမည်သာ။ လူသားတို့သည် ဤသည့် တစ်ခုတည်းသော အချက်ကိုပင် နှလုံးသွင်းထားနိုင်ပါက အရေးကိစ္စ အဝဝတွင် အလိုအလျောက် ဖြောင့်မတ်သွားကြပေမည်။

وَاَنَّهٗ هُوَ اَمَاتَ وَ اَحْيَا ﴿٤٤﴾

၄၄။ ထိုအရှင်မြတ်သည် မချွတ်မလွဲ သေစေတော်မူသည်၊ ရှင်စေတော်မူသည်ဟူ၍လည်းကောင်း၊

وَاَنَّهٗ خَلَقَ الزَّوْجَيْنِ الذَّكَرَ وَالْاُنْثٰى ﴿٤٥﴾

၄၅။ ဧကန်စင်စစ် ထိုအရှင်မြတ်သည်ပင် ဖိုနှင့်မ နှစ်မျိုးနှစ်စားလုံးကို ဖန်ဆင်းတော်မူခဲ့သည် ဟူ၍ လည်းကောင်း၊

مِنْ نُّطْفَةٍ اِذَا تُمْنٰى ﴿٤٦﴾

၄၆။ ကလလရေကြည်ဖြင့်၊ ယင်းကလလရေကြည်သည် သွန်းလောင်းခြင်းခံရသောအခါ၊

وَاَنَّ عَلَيْهِ النَّشْاَةَ الْاُخْرٰى ﴿٤٧﴾

၄၇။ ထိုမှတစ်ပါး မုချစင်စစ် ဒုတိယအကြိမ် ဖန်ဆင်းမှုသည် ထိုအရှင်မြတ်၏တာဝန်ပင် ဖြစ်သည်ဟူ၍ လည်းကောင်း၊

وَاَنَّهٗ هُوَ اَغْنٰى وَ اَقْنٰى ﴿٤٨﴾

၄၈။ အမှန်ဧကန် ထိုအရှင်မြတ်သည် ကုံလုံကြွယ်ဝစေတော်မူသည်၊ ဆင်းရဲနွမ်းပါးစေ- ဥစ္စာပစ္စည်း ချီးမြှင့်ပေးသနား တည်မြဲစေတော်မူသည်ဟူ၍ လည်းကောင်း၊ [၁]

وَاَنَّهٗ هُوَ رَبُّ الشِّعْرٰى ﴿٤٩﴾

၄၉။ အမှန်စင်စစ် ထိုအရှင်မြတ်သည်ပင် 'ရှစ်အ်ရာ' (လုဒ္ဒက)ကြယ်ကို ဖန်ဆင်းတော်မူသော အရှင်မြတ် ဖြစ်တော်မူသည် ဟူ၍လည်းကောင်း၊ [၂]

---

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည်ပင် ကုံလုံကြွယ်ဝစေတော်မူသည်။ ထိုအရှင်မြတ်သည်ပင် ဥစ္စာပစ္စည်း ချီးမြှင့်၍ တိုးပွားစေတော်မူသည်။ တည်မြဲစေတော်မူသည်။ အချို့က ဤအာယတ်တော်တွင်ပါရှိသည့် (اَقْنٰى) 'အာကနာ' ဟူသော ပုဒ်ကို 'ထိုအရှင်မြတ်သည် ဆင်းရဲနွမ်းပါးစေတော်မူသည်' ဟူ၍ အနက် ပြန်ကြသည်။

ဆိုလိုသည်ကား- ချမ်းသာကြွယ်ဝမှု၊ ဆင်းရဲနွမ်းပါးမှုသည်လည်း ထိုအရှင်မြတ်၏ စီရင် ဖန်တီးမှုသာလျှင် ဖြစ်ချေသည်ဟူ၏။ အထက်တွင် ဆန့်ကျင်ဘက်ပစ္စည်း အမျိုးမျိုး အစားစားကို ဖန်ဆင်းထားတော်မူသည့် အကြောင်း ပါရှိခဲ့ပေရာ၊ ဤအနက်သည်လည်း သင့်မြတ်လှပေသည်။

ရှေ့တွင် သွေဖည်သောင်းကျန်းခဲ့ကြသည့် ဓနရှင်၊ အာဏာရှင်၊ မာနရှင်များကို ကွပ်မျက်တော်မူသည့် အကြောင်း ပါရှိနေပေရာ၊ အထက်ပါ ပထမအနက်သည်လည်း သူ့နေရာနှင့်သူ သင့်မြတ်သည်သာ ဖြစ်ပေသည်။

وَأَنَّهُ أَهْلَكَ عَادًا الْأُولَىٰ ﴿٥٠﴾

၅၀။ မလွဲကေန်ထိုအရှင်မြတ်သည်ပင် ပထမ'အာဒ်' အမျိုးသားတို့အား ဖျက်ဆီးတော်မူခဲ့သည်ဟူ၍ လည်းကောင်း၊

وَثَمُودَا فَمَا أَبْقَىٰ ﴿٥١﴾

၅၁။ (ထိုအရှင်မြတ်သည်ပင်) 'ဆမူဒ်' အမျိုးသားတို့အားလည်း (ဖျက်ဆီးတော်မူခဲ့ပေရာ) တစ်ဦးတစ်ယောက်ကိုမျှ ခြွင်းချန်တော်မူခဲ့သည် မဟုတ်ပေ။

وَقَوْمَ نُوحٍ مِّن قَبْلُ ۖ إِنَّهُمْ كَانُوا هُمْ أَظْلَمَ وَأَطْغَىٰ ﴿٥٢﴾

၅၂။ ထိုနည်းတူစွာ ရှေးအထက်ကျော်ကာလ၌ 'နူဟ်'၏အမျိုးသားတို့အားလည်း (ဖျက်ဆီးတော်မူခဲ့၏)။ ဧကန်စင်စစ် ထို 'နူဟ်' ၏ အမျိုးသားတို့မှာ ပိုမို၍ပင် မတရားသောသူများ၊ ပိုမို၍ပင် ဆိုးသွမ်းသူများ ဖြစ်ခဲ့ကြကုန်၏။

وَالْمُؤْتَفِكَةَ أَهْوَىٰ ﴿٥٣﴾

၅၃။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည်ပင် ထက်အောက် ပြောင်းပြန်လှန်ပြီးဖြစ်သော ရွာများကိုလည်း ကိုင်ပေါက်တော်မူခဲ့၏။

فَغَشَّاهَا مَا غَشَّىٰ ﴿٥٤﴾

၅၄။ ထို့နောက် ယင်းရွာများကို ဝန်းဝိုင်း ဖုံးလွှမ်းခဲ့သောအရာသည် ဝန်းဝိုင်း ဖုံးလွှမ်းခဲ့၏။

فَبِأَيِّ آلَاءِ رَبِّكَ تَتَمَارَىٰ ﴿٥٥﴾

၅၅။ သို့ဖြစ်ပေရာ (အို-ကြားနာသူ၊) အသင်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များနှင့် စပ်လျဉ်း၍ ဒွိဟ သံသယဖြစ်လျက် ရှိသည်နည်း။

---

(၂) 'ရှစ်အ်ရာ' သည် ကြယ်ကြီးတစ်လုံး၏ အမည်ဖြစ်သည်။ (Sirius; Dog - Star) လုဒ္ဒကကြယ်၊ မုဆိုးပုံရှိ လုဒ္ဒက ခေါ် ကောင်းကင်တွင် အတောက်ဆုံးကြယ်ဖြစ်သည်။ အရဗ်၊ မုရှိရစ်က်တို့သည် ယင်းကြယ်ကို ကိုးကွယ်လေ့ ရှိခဲ့ကြသည်။ ဤကမ္ဘာ၏ ပြောင်းလဲမှုများတွင် ထိုကြယ်ကြီး၏ အရှိန်အဝါ ပါဝင်သည်ဟုလည်း ယူဆခဲ့ကြပေသည်။ ဤအာယတ်တော်တွင် ဖော်ပြမိန့်ဆိုထားတော်မူသည်မှာ 'ရှစ်အ်ရာ' ကြယ်သည် အဘယ်မျှပင် ကြီးလင့်ကစား၊ အဘယ်မျှပင် တောက်ပလင့်ကစား၊ ယင်းကြယ်ကြီး၏ အရှင်သခင်မှာလည်း အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူပေသည်။ 'ရှစ်အ်ရာ' သည် အခြား အဖန်ဆင်းခံများကဲ့သို့၊ အဖန်ဆင်းခံ တစ်ခုသာလျှင်ဖြစ်ပေသည်။ ကိုးကွယ်ရာမဟုတ်။ အကယ်စင်စစ်ကိုးကွယ်ရာမှကား အလ္လာဟ်အရှင်မြတ်သာလျှင်ဖြစ်တော်မူပေသည်။

هٰذَا نَذِيْرٌ مِّنَ النُّذُرِ الْاُوْلٰى ﴿٥٦﴾

၅၆။ ဤ(တမန်တော်)သည် ရှေးဟောင်း သတိပေးနှိုးဆော်သူတို့တွင် တစ်ပါးအပါအဝင်ဖြစ်၏။

اَزِفَتِ الْاٰزِفَةُ ﴿٥٧﴾

၅၇။ နီးကပ်၍လာသောအရာသည် နီးကပ်၍လာခဲ့လေပြီ။

لَيْسَ لَهَا مِنْ دُوْنِ اللّٰهِ كَاشِفَةٌ ﴿٥٨﴾

၅၈။ ထိုနီးကပ်၍လာသောအရာကို အလ္လာဟ်အရှင်မြတ်မှတစ်ပါး ဖယ်ရှားအံ့သောသူဟူ၍ အလျင်းမရှိပြီ။

اَفَمِنْ هٰذَا الْحَدِيْثِ تَعْجَبُوْنَ ﴿٥٩﴾

၅၉။ အသင်တို့သည် ဤအာယတ်တော်ကြောင့် အံ့ဩ၍ နေကြလေသလော။

وَتَضْحَكُوْنَ وَلَا تَبْكُوْنَ ﴿٦٠﴾

၆၀။ ထို့ပြင် အသင်တို့သည် ငိုကြွေးခြင်းမရှိကြသည့်ပြင် ရယ်မော၍ နေကြလေသလော။

وَاَنْتُمْ سٰمِدُوْنَ ﴿٦١﴾

၆၁။ ထိုမှတစ်ပါး အသင်တို့သည် ဂရုမစိုက်ဘဲ ကစားခုန်စား မာန်မာနထောင်လွှားလျက် ရှိကြလေသလော။

فَاسْجُدُوْا لِلّٰهِ وَاعْبُدُوْا ﴿٦٢﴾ السجدة

၆၂။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ် ရှေ့တော်မှောက်ဝယ် 'စဂျ်ဒဟ်' ပျပ်ဝပ်ဦးချကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် (ထိုအရှင်မြတ်အားသာလျှင်) ကိုးကွယ်ကြလေကုန်။ [၁]

---

(၁) ဆိုလိုသည်ကား- ကိယာမတ်နှင့် ယင်းကိယာမတ်ဖြစ်ပေါ်ရန် အချိန်နီးကပ်လာပြီဖြစ်ကြောင်း ကြားသိရသောအခါ၊ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားသောအားဖြင့် ငိုကြွေးကြရမည်သာ ဖြစ်သည်။ မိမိတို့၏ လွတ်မြောက်ရေးအတွက် ကြိုးပမ်းကြရမည်သာဖြစ်သည်။ ယခုမူ အသင်တို့သည် ဤအကြောင်းကိုပင် အံ့ဩနေကြသည်၊ ပြက်ရယ်ပြုနေကြသည်၊ ရယ်မောနေကြသည်။ အမှန်မှာ အမြော်အမြင်ရှိသူများသည် ဖြစ်ပေါ်လာမည့် အန္တရာယ်ကို လျစ်လျူပြုကာ သွန်သင်ဆုံးမတရားချသည့် စကားများကို ပြက်ချော်သမှု မပြုကြရ၊ ကျိုးနွံကြရသည်၊ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားကာ ဦးချကြရသည်၊ ကိုးကွယ်ကြရသည်။

**မှတ်ချက်။** တမန်တော်မြတ်သည် ဤကြယ်တာရာကဏ္ဍကို ရွတ်ဖတ်ပြီးနောက် စဂျ်ဒဟ် ပျပ်ဝပ် ဦးချတော်မူခဲ့၏။ မွတ်စ်လင်မ်၊ မုရှ်ရစ်က်၊ ဂျင်န်နှင့် လူသား အားလုံးတို့သည်လည်း ဦးချခဲ့ကြလေသည်။

# စန်းသော်တာ လ ကဏ္ဍ



ဤကဏ္ဍသည် လကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော်(၅၅)ပါး၊ (ရကူအ်) အပိုဒ်သုံးပိုဒ် အသီးသီး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အလွန်တရာ သနားကြင်နာညှာတာတော်မူသော၊
အထူး ကရုဏာပြုတော်မူသော၊
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

اِقْتَرَبَتِ السَّاعَةُ وَانْشَقَّ الْقَمَرُ ①

၁။ 'ကိယာမတ်' ရှင်ပြန်ထရန် အချိန်ကာလသည် နီးကပ်၍လာခဲ့ချေပြီ။ ၎င်းပြင် 'လ'သည် (နှစ်ခြမ်း) ကွဲခဲ့လေပြီ။ [၁]

---

(၁) ဆိုလိုသည်ကား - ကိယာမတ်ဖြစ်ရန် အချိန် နီးကပ်လာချေပြီ။ ကိယာမတ်ကို မယုံကြည်က ဒုက္ခကြီးစွာ တွေ့ရမည်။ မကြာမီ ကိယာမတ်ဖြစ်မည့် အကြောင်းနှင့် စပ်လျဉ်း၍ အထောက်အထားလည်း ရှိနေချေပြီ။ ထိုအရာကားအခြားမဟုတ်၊ လ အက်ကွဲသွားခဲ့ခြင်းပင်ဖြစ်သည်။ လင်းပြဦးအံ့ - လကို နှစ်ခြမ်းခွဲပြခြင်းမှာ တမန်တော်မြတ်၏ (မုအ်ဂျိဇဟ်)တန်ခိုးတော်ဖြစ်သည်။ ထိုတန်ခိုးတော်ကို ကြည့်ခြင်းအားဖြင့် တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်တစ်ပါး ဖြစ်ကြောင်း ထင်ရှားသည်။ တမန်တော်၏ စကားတိုင်းသည် မှန်ကန်သည်သာဖြစ်သည်။ သို့ဖြစ်ရာ 'ကိယာမတ်ဖြစ်ရန်အချိန်သည် နီးကပ်လာပြီဖြစ်သည်' ဟူသော ဘမန်တော်မြတ်၏ စကားသည်လည်း မလွဲမသွေ မှန်ကန်သည်သာဖြစ်သည်။ ကြည့်-ထာနဝီ။

**လကို နှစ်ခြမ်းခွဲပြသည့် တန်ခိုးတော်။**

တမန်တော်မြတ်သည် မဒီနာသို့ (ဟိဂျ်ရတ်) ရွှေ့ပြောင်းမသွားမီ၊ မိနာ၌ တစ်နေ့ ရောက်ရှိနေတော်မူခဲ့၏။ အနီး၌ ကာဖိရ်များလည်း ရှိနေခဲ့ကြ၏။ ကာဖိရ်များက တမန်တော်မြတ်ထံ တန်ခိုး တစ်မျိုးမျိုးပြရန် တောင်းဆိုကြ၏။ ထိုအခါ တမန်တော်မြတ်က ကာဖိရ်များအား အသင်တို့သည် မိုးကောင်းကင်သို့ ကြည့်ရှုကြကုန်ဟု ပြောကြားတော်မူ၏။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် လသည် ရုတ်တရက် နှစ်ခြမ်းကွဲသွားခဲ့၏။ လတစ်ခြမ်းသည် အနောက်ဘက်သို့ ရွေ့လျားသွားခဲ့၏။ အခြားတစ်ခြမ်းသည် အရှေ့ဘက်သို့ ရွေ့လျားသွားခဲ့၏။ ယင်းသို့ လနှစ်ခြမ်းကွဲသွားသည်ကို အားလုံးတို့ တပ်အပ်သေချာ တွေ့မြင်လိုက်ကြပြီးသည့်နောက်တွင်၊ အဆိုပါ လနှစ်ခြမ်းသည် ပြန်လည် ပေါင်းစပ်သွားခဲ့၏။

ကာဖိရ်များသည် ယင်းသို့ လနှစ်ခြမ်းခွဲပြသည့် တန်ခိုးတော်ကို မိမိတို့ကိုယ်တိုင် မျက်ဝါးထင်ထင် တပ်အပ်သေချာ တွေ့မြင်ခဲ့ကြရသော်လည်း၊ 'ကျားကျား မီးယပ်' ဆိုသကဲ့သို့၊ ဤသည် ရှေးအစဉ်အလာ ပဉ္စလက်အတတ်သာ ဖြစ်သည်ဟု ပြောဆိုခဲ့ကြလေသည်။

ဤတန်ခိုးတော်ကို 'ရှက္ကုလ်ကမရ်' လနှစ်ခြမ်းခွဲပြသော တန်ခိုးတော်ဟုခေါ်သည်။ ဤတန်ခိုးတော်သည် ကိယာမတ်၏ နိမိတ်လက္ခဏာတစ်ပါးပင်ဖြစ်သည်။ ဆိုလိုသည်ကား-လနှစ်ခြမ်းကွဲသွားသည့်အလား၊ ➤➤

وَإِنْ يَرَوْا آيَةً يُعْرِضُوا وَيَقُولُوا سِحْرٌ مُسْتَمِرٌّ ﴿٢﴾

၂။ သို့ရာတွင် ၎င်းတို့သည် သက်သေလက္ခဏာ တစ်စုံတစ်ရာကို တွေ့မြင်ကြလျှင် ကျောခိုင်း၍သွား ကြသည့်ပြင် (ဤသည်) အစွန့်ရှည်သော ရှေးအစဉ် အလာဖြစ်သော ပဉ္စလက်အတတ်ပညာဖြစ်သည် ဟူ၍ ပြောဆိုလေ့ ရှိခဲ့ကြကုန်၏။ ၁

وَكَذَّبُوا وَاتَّبَعُوا أَهْوَاءَهُمْ وَكُلُّ أَمْرٍ مُسْتَقِرٌّ ﴿٣﴾

၃။ ထို့ပြင် ၎င်းတို့သည် မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြ၍ မိမိတို့၏ အလိုဆန္ဒများကိုသာ လိုက်နာခဲ့ကြကုန်၏။ စင်စစ်သော်ကား အရေးကိစ္စ တိုင်းမှာ (သတ်မှတ်ထားသော အချိန်ကာလတွင်) ဆုံးဖြတ်ပြီး ဖြစ်၏။

وَلَقَدْ جَاءَهُمْ مِنَ الْأَنْبَاءِ مَا فِيهِ مُزْدَجَرٌ ﴿٤﴾

၄။ ထို့ပြင် ၎င်းတို့ထံ ဇကန်မလွဲ သင်ခန်းစာ လုံလောက်စွာပါရှိသော သတင်းများသည် ရောက်ရှိခဲ့ ပေပြီ။

---

➤➤ ကိယာမတ်ဖြစ်သည့်အခါ အားလုံး ကွဲအက်သွားမည်ဖြစ်သည်။

ဤလနှစ်ခြမ်း ကွဲသွားခဲ့သည့်အကြောင်း ဟဒီးဆ်ကျမ်းကြီးအားလုံးတွင် အခိုင်အမာ လာရှိပေသည်။ တွဟာဝီ၊ အစ်ဗ်နုကဆီရ် စသည့် ပညာရှင်ကြီးများက လနှစ်ခြမ်း ကွဲခဲ့သည့်အကြောင်းနှင့် စပ်လျဉ်း၍ ဟဒီးဆ် ဩဝါဒတော်သည် 'မုတဝါတိရ်' ဖြစ်သည်။ ခေတ်တိုင်းတွင် မြောက်မြားစွာသော ပညာရှင်များက အဆက်မပြတ် ဖွင့်ဟ ဟောပြောခဲ့ကြသည်ဟု အခိုင်အမာ ဆိုထားကြသည်။

① ဤ အာယတ်တော်တွင် ပါရှိသော ( مُسْتَمِرّ ) 'မွတ်စ်တမိရ်ရ်' ဟူသောပုဒ်ကို ပညာရှင်များသည် အမျိုးမျိုး ဘာသာပြန်ဆိုကြသည်။

(၁) မကြာမီ ပြီးဆုံးသွားမည့် အရာ။ ထာနဝီ။

(၂) ရှေးအစဉ်အလာ ဖြစ်သော။ အွတ်ဆ်မာနီ။

(၃) ပျက်စီး ပပျောက်သွားမည့်အရာ၊ မတည်မြဲသောအရာ။ အစ်ဗ်နုကဆီရ်။

(၄) တည်မြဲသော၊ ခိုင်မာသော။ ခါဇင်န်။

ဆိုလိုသည်ကား-လ နှစ်ခြမ်းခွဲပြခဲ့သည့် တန်ခိုးတော်ကို တွေ့မြင်ကြရသောအခါ ကာဖိရ်များက 'အတိတ်ခေတ်များတွင်လည်း ပဉ္စလက်ဆရာများ ပေါ်ခဲ့ကြသည်။ ပဉ္စလက်အတတ်များကို ပြသခဲ့ကြသည်။ သို့ရာတွင် ၎င်းတို့၏ ပဉ္စလက်သည် မတည်မြဲပေ၊ ပျက်စီးသွားခဲ့သည်သာဖြစ်သည်။ ထို့အတူ တမန်တော်မြတ် မုဟမ္မဒ်၏ ပဉ္စလက်သည်လည်း မကြာမီအတွင်း ပျက်စီးသွားမည်သာဖြစ်သည်' ဟု ဆိုခဲ့ကြပေသည်။ တမန်တော်မြတ်သည် ပဉ္စလက်ဆရာမဟုတ်၊ တမန်တော်တစ်ပါး ဖြစ်တော်မူသည်။ တမန်တော်မြတ် ပြသတော်မူခဲ့သော အရာသည် ပဉ္စလက် မဟုတ်၊ တန်ခိုးတော်ဖြစ်သည်။ ဤကား အထင်အရှားပင်။

حِكْمَةٌ بَالِغَةٌ فَمَا تُغْنِ النُّذُرُ ۝٥

၅။ (ဤကုရ်အာန် ကျမ်းတော်မြတ်သည်) ပြည့်စုံသော နက်နဲသိမ်မွေ့သည့် ဉာဏ်ပညာပင် ဖြစ်ချေသည်။ သို့တစေလည်း (ယင်းသို့သော သူများအား) သတိပေးနှိုးဆော်သော အကြောင်းအရာများသည် အကျိုးရှိစေမည် မဟုတ်ပေတကား။ [၁]

فَتَوَلَّ عَنْهُمْ يَوْمَ يَدْعُ الدَّاعِ إِلَىٰ شَيْءٍ نُّكُرٍ ۝٦

၆။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်၊) အသင်သည် ၎င်းတို့ဘက်မှ မျက်နှာလွှဲ၍ နေပါလေ။ အကြင်နေ့တွင် ဆင့်ခေါ်သူ (ကောင်းကင်တမန်)သည် (၎င်းတို့အား) မနှစ်မြို့ဖွယ်ဖြစ်သော ကိစ္စတစ်ခုသို့ ဆင့်ခေါ်ပေမည်။

خُشَّعًا أَبْصَارُهُمْ يَخْرُجُونَ مِنَ الْأَجْدَاثِ كَأَنَّهُمْ جَرَادٌ مُّنتَشِرٌ ۝٧

၇။ (ထိုနေ့တွင်) ၎င်းတို့၏မျက်စိများမှာ အောက်သို့စိုက်လျက် ရှိကြပေမည်။ ၎င်းတို့သည် ပျံ့နှံ့လျက်ရှိသော ကျိုင်းကောင်များကဲ့သို့ပင် သင်္ချိုင်းများမှ ထွက်လာကြပေမည်။

مُّهْطِعِينَ إِلَى الدَّاعِ يَقُولُ الْكَافِرُونَ هَٰذَا يَوْمٌ عَسِرٌ ۝٨

၈။ ဆင့်ခေါ်သူ(ရှိရာ)သို့ ပြေးလျက်လာကြပေမည်။ 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူတို့မှာ 'ဤနေ့ကား လွန်စွာ ခက်ထန်သောနေ့ဖြစ်သည်' ဟု ပြောဆိုလျက် ရှိကြကုန်အံ့သတည်း။ [၂]

---

(၁) ဆိုလိုသည်ကား- ကုရ်အာန်ကျမ်းမြတ်သည် နက်နဲသိမ်မွေ့သောဆင်ခြင်တုံတရား၊ ဉာဏ်ပညာ၊ အမြော်အမြင်များနှင့် ပြည့်နက်လျက်ရှိပေသည်။ ပုဂ္ဂိုလ်တစ်ဦးသည် ဖြူစင်သောစိတ်ထားဖြင့် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ဖတ်ရှုလေ့လာဆင်ခြင်ပါက အလွယ်တကူ နားလည်သဘောပေါက်လာနိုင်ပေသည်။ သို့တစေလည်း ဤကာဖိရ်များသည် စိတ်ဓာတ်လွန်စွာခဲယဉ်းနေသည့်အတွက် မည်သည့် အဆုံးအမ၊ မည်သည့် သတိပေးချက်ကိုမျှ ဂရုမမူကြပေ။ ဤရွေ့ဤမျှ စိတ်ဓာတ်ခဲယဉ်းနေသူများနှင့် ပတ်သက်၍၊ တမန်တော်မြတ်သည် တာဝန်ရှိသည့်အတိုင်း ဟောသင့်ဟောအပ်သည်များကို ဟောကြားတော်မူပြီးဖြစ်ပေရာ၊ နောက်ထပ် စိတ်ဒုက္ခခံနေရန် မလိုတော့ပြီ။ ၎င်းတို့အား လျစ်လျူပြုထားတော်မူရမည်သာ။ ၎င်းတို့သည် ကိယာမတ်နေ့တွင် ယခု မောက်မာ ခက်ထန်နေကြသည့် အကျိုးများကို လှလှကြီး ခံစားကြရပေမည်။ ဤသည့်သဘောကို ရှေ့အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

كَذَّبَتْ قَبْلَهُمْ قَوْمُ نُوحٍ فَكَذَّبُوا عَبْدَنَا وَقَالُوا مَجْنُونٌ وَازْدُجِرَ ⑨

၉။ ၎င်းတို့အလျှင် 'နူဟ်'၏ အမျိုးသားတို့သည်လည်း မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြကုန်၏။ အမှန်သော်ကား ၎င်းတို့သည် ငါအရှင်မြတ်၏ 'ကျွန်တော်' (နူဟ်)အား မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြသည့်ပြင် 'သူရူး' ဖြစ်သည်ဟူ၍လည်း ပြောဆိုခဲ့ကြကုန်၏။ ထိုမှတစ်ပါး ထို 'နူဟ်'သည် ခြိမ်းခြောက်မှုကိုလည်း ခံခဲ့ရလေ၏။

فَدَعَا رَبَّهُ أَنِّي مَغْلُوبٌ فَانْتَصِرْ ⑩

၁၀။ ထိုအခါ ထို'နူဟ်'သည် ၎င်းအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်၌ (အို-အရှင်) ဧကန်စင်စစ် ကျွန်တော်မျိုးသည် အရေးမလှသူ (ဖိနှိပ်ခြင်းခံရသူ) ဖြစ်နေပါသည်။ သို့ဖြစ်ပါ၍ အရှင်မြတ်သည် လက်စားချေတော်မူပါဟု ပန်ကြားခဲ့လေ၏။

فَفَتَحْنَا أَبْوَابَ السَّمَاءِ بِمَاءٍ مُنْهَمِرٍ ⑪

၁၁။ ထိုအခါ ငါအရှင်မြတ်သည် မိုးကောင်းကင်၏ တံခါးများကိုဖွင့်၍ မိုးသည်းထန်စွာရွာသွန်းစေတော်မူ၏။

وَفَجَّرْنَا الْأَرْضَ عُيُونًا فَالْتَقَى الْمَاءُ عَلَىٰ أَمْرٍ قَدْ قُدِرَ ⑫

၁၂။ ၎င်းပြင် ငါအရှင်မြတ်သည် ပထဝီမြေမှ စမ်းများကို ပန်း၍ထွက်စေတော်မူခဲ့ရာ (ထက်အောက်) ရေသည် တင်ရင်စီမံထားသော အရေးကိစ္စ (ပြည့်ဝစေရန်) ရောစပ်၍ သွားခဲ့လေ၏။

---

(၂) ဆိုလိုသည်ကား-ယနေ့ ခက်ထန်နေကြသော ကာဖိရ်များသည် နက်ဖြန် ကိယာမတ်နေ့တွင် အပျော့ကြီးပျော့သွားပေမည်။ ယနေ့ ဖိတ်ခေါ်ရာသို့ မလိုက်နာသော ကာဖိရ်များသည်၊ ကိယာမတ်နေ့တွင် အပြေးအလွှားလိုက်ကြပေမည်။ ယနေ့ မောက်မာ ခက်ထန်နေသော ကာဖိရ်များသည် ကိယာမတ်နေ့တွင် အကြောက်ကြီးကြောက်ကာ မော့၍ပင် ကြည့်ဝံ့ကြမည် မဟုတ်ပေ။ မိမိတို့ တစ်သက်တာလုံး သွေဖည် ငြင်းဆန်နေခဲ့ကြသည်များကို မျက်ဝါးထင်ထင် တွေ့မြင်၍၊ လွတ်မြောက်ရန်လမ်း မရှိသည်ကို သိရှိကြသောအခါ၊ ဤနေ့သည် လွန်စွာ ခက်ထန်ပါဘိတကားဟု ပြောဆို ညည်းညူကြပေမည်။ ဤကား မည်သူမပြု မိမိမှုပင်။

ကာဖိရ်များသည် မိမိတို့ သွေဖည်ခဲ့ကြသည့်အတွက် ကိယာမတ်နေ့တွင် ပြစ်ဒဏ်များကို မလွဲမသွေ ခံစားကြရမည်ဖြစ်သည်။ ဤအကြောင်း အထက်တွင် မိန့်ဆိုထားတော်မူသည်။ သို့ရာတွင် အချို့ များစွာသော ကာဖိရ်များသည် ကိယာမတ်အလျှင် ဤပစ္စက္ခမှာပင် ကွပ်မျက်ဖျက်ဆီးခြင်း ခံသွားခဲ့ကြရပေသည်။ ဤအကြောင်းကို ရှေ့အာယတ်တော်များတွင် မိန့်ဆိုထားတော်မူသည်။

وَحَمَلْنٰهُ عَلٰى ذَاتِ اَلْوَاحٍ وَّدُسُرٍ ﴿١٣﴾

၁၃။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထို 'နူဟ်' အား ပျဉ်ချပ်များဖြင့်လည်းကောင်း၊ သံများဖြင့်လည်းကောင်း၊ ပြုလုပ်၍ထားသော (သင်္ဘော)ပေါ်သို့ စီးနင်းစေတော်မူခဲ့၏။

تَجْرِيْ بِاَعْيُنِنَا جَزَآءً لِّمَنْ كَانَ كُفِرَ ﴿١٤﴾

၁၄။ ယင်းသင်္ဘောမှာ ငါအရှင်မြတ်၏စောင့်ရှောက်မှုအောက်တွင် သွားလာ လှုပ်ရှားလျက် ရှိနေခဲ့၏။ (ထိုသည်ကား) ငြင်းပယ်ခြင်း ခံခဲ့ရသောသူ(နူဟ်)နှင့် ပတ်သက်၍ လက်စားချေတော်မူခြင်းပင် ဖြစ်ပေသည်။

وَلَقَدْ تَّرَكْنٰهَآ اٰيَةً فَهَلْ مِنْ مُّدَّكِرٍ ﴿١٥﴾

၁၅။ ထို့ပြင် ဧကန်မလွဲ ငါအရှင်မြတ်သည် ယင်းအဖြစ်အပျက်ကို (သင်ခန်းစာ ရယူနိုင်ရန်) သက်သေလက္ခဏာတစ်ပါးအဖြစ် ကျန်ရစ်စေတော်မူခဲ့ရာ၊ သင်ခန်းစာရယူအံ့သောသူ တစ်ဦးတစ်ယောက် ရှိလေသလော။[၁]

فَكَيْفَ كَانَ عَذَابِيْ وَنُذُرِ ﴿١٦﴾

၁၆။ သို့ဖြစ်ပေရာ ငါအရှင်မြတ်၏ ပြစ်ဒဏ်သည်လည်းကောင်း၊ ငါအရှင်မြတ်၏ သတိပေးနှိုးဆော်မှုများသည်လည်းကောင်း၊ မည်သို့မည်ပုံ ရှိခဲ့သည်ကို (ဆင်ခြင်သုံးသပ်ကြလေကုန်)။

---

(၁) ဆိုလိုသည်ကား- တမန်တော်နူဟ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများ၏ဖြစ်ရပ်တွင် စဉ်းစားဆင်ခြင် မြော်မြင်တတ်သူများအဖို့ သင်ခန်းစာ အမြောက်အမြား ပါရှိပေသည်။ တစ်နည်း ယနေ့ကမ္ဘာအရပ်ရပ်တွင် ရှိနေသော သင်္ဘောသားများသည် တမန်တော်နူဟ်၏သင်္ဘောကို ညွှန်ပြလျက်ရှိပေသည်။ တစ်နည်း အချို့၏ ယူဆချက်အရ ဤအာယတ်တော်တွင်ပါရှိသည့် သက်သေလက္ခဏာဟူသည် တမန်တော်နူဟ်၏ သင်္ဘောကိုပင် ဆိုလိုသည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်နူဟ်၏သင်္ဘောသည် တမန်တော်နူဟ်၏နောက်တွင်လည်း နှစ်ပရိစ္ဆေဒ အတော်အတန် ကြာသည်အထိ ဂျူဒီတောင်ထိပ်တွင် တည်ရှိနေခဲ့ပေသည်။ ယင်းသည့် ဖြစ်ရပ်ကို ရည်ညွှန်း၍ အလ္လာဟ်အရှင်မြတ်က 'သင်ခန်းစာယူမည့်သူ တစ်ဦးတစ်ယောက်ရှိသည်လော' ဟူ၍ သတိပေး မေးထားတော်မူသည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန် (၁၁:၃၆-၄၉) တွင် အကျယ် ရေးသားထားခဲ့ပေပြီ။

وَلَقَدْ يَسَّرْنَا الْقُرْاٰنَ لِلذِّكْرِ فَهَلْ مِنْ مُّدَّكِرٍ ﴿١٧﴾

၁၇။ ထိုမှတစ်ပါး ဧကန်မလွဲ ငါအရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ကျက်မှတ်တရားရယူနိုင်ရန်အလို့ငှာ လွယ်ကူစေတော်မူခဲ့ရာ ကျက်မှတ်တရားရယူသူ တစ်ဦးတစ်ယောက် ရှိသည်လော။ [၁]

---

(၁) **ကုရ်အာန်သည် လွယ်၏။ နက်၏။**

ကုရ်အာန်သည် လွယ်လည်း လွယ်လှ၏။ နက်လည်း နက်လှ၏။ ဆိုလိုသည်ကား ကုရ်အာန်ကျမ်းမြတ်မှ တရားရယူလိုသူ တစ်ဦးအဖို့ တရားရယူရန် အလွန် လွယ်ကူလှပေသည်။ အဘယ်ကြောင့်ဆိုသော် ညွှန်ပြမှု၊ လှုံ့ဆော်မှု၊ ကောင်းချီးသတင်းပေးမှု၊ သတိပေးမှုများနှင့် စပ်လျဉ်းသည့် အာယတ်တော်များသည် အလွန်တရာမှပင် ရှင်းလှ၏။ လင်းလှ၏။ လွယ်ကူလှ၏။ ထိမိလှ၏။ သို့တစေ ဤသည် တရားယူလိုသူအဖို့သာ၊ တရား မယူလိုသူအဖို့မှာကား အလွယ်လည်း အခက်ပင်။ ဆင်ခြေအမျိုးမျိုး တက်ဦးမည်ပင်။

'ငါအရှင်မြတ်သည် မုချဧကန် ကုရ်အာန်ကျမ်းမြတ်ကို တရားရယူနိုင်ရန်အလို့ငှာ လွယ်ကူစေတော်မူထားသည်' ဟူသော အာယတ်တော်ကို သာမန်ကြည့်ပြီး ကုရ်အာန် ကျမ်းမြတ်သည် အလွန်လွယ်ကူသည်၊ မပြောကောင်း မဆိုအပ်၊ ကုရ်အာန်ကျမ်းမြတ်သည် သာမန်ကျမ်းတစ်စောင်မျှဖြစ်သည်၊ သူငါအများ အလွယ်တကူ နားလည်နိုင်သည်၊ ကုရ်အာန်ကျမ်းမြတ်တွင် အလွန်နက်နဲသော အလွန်သိမ်မွေ့သော အဓိပ္ပာယ်၊ အလွန်နက်သော အကြောင်းများ၊ သဘောတရားများ မပါဟူ၍ကား မေ့များ၍မျှ မတွေးအပ်၊ မထင်အပ်၊ မပြောအပ်။

အလ္လာဟ်အရှင်မြတ်သည် အတိုင်းအဆမရှိ တန်ခိုးတော်ရှင် ဖြစ်တော်မူသည်။ အားလုံးသိတော်မူသည်၊ အားလုံး စွမ်းတော်မူသည်၊ အံ့မဆုံးသည့် စကြာဝဠာကြီးကို အံ့ဖွယ်သရဲ ဖန်ဆင်းထားတော်မူသည်။ စကြာဝဠာကြီး တစ်ခုလုံးကို မဆိုထားနှင့်၊ စကြာဝဠာအတွင်းရှိ အလွန်သေးငယ်လှသော အရာဝတ္ထု ပစ္စည်းတစ်ခု၏ အံ့ဖွယ်သရဲ ရပ်တည်နေပုံ၊ နက်နဲပုံ၊ သိမ်မွေ့ပုံ၊ ဆန်းကျယ်ပုံများကို သုတေသီများသည် သုတေသန ပြုလုပ်ကြသည်နှင့်အမျှ ပို၍ပို၍ ဆန်းကြယ်လာသည်ကိုသာ တွေ့နေရသည်ဖြစ်ရကား၊ ထိုသို့သော အရှင်မြတ်၏ ကျမ်းမြတ်သည် အခြားကျမ်းများနှင့် အသို့လျှင် တူနိုင်အံ့နည်း။ ထိုအရှင်မြတ်၏ အာယတ်တော်များတွင် အလွန့်အလွန်နက်သော၊ အလွန့်အလွန် သိမ်မွေ့သော အကြောင်းများ၊ သဘောတရားများ၊ အသို့လျှင် မပါမရှိ ဖြစ်နိုင်အံ့နည်း။ မုချပါသည်၊ မလွဲမသွေရှိသည်။

ထို့အတွက်ကြောင့်ပင် တမန်တော်မြတ်က (لاتنقضى عجائبه) 'ကုရ်အာန်ကျမ်းမြတ်၏ အံ့ဖွယ်နက်နဲသိမ်မွေ့မှုများသည် ဘယ်သောအခါမျှ ကုန်ဆုံးမည်မဟုတ်' ဟူ၍ မိန့်ကြားတော်မူခဲ့ခြင်း ဖြစ်သည်။ တမန်တော်မြတ်၏မိန့်ကြားချက်ကား မှန်ကန်တိကျလှ၏။ ဤကားမျက်မြင်ပင်။ ကုရ်အာန်ကျမ်းမြတ် စတင်ကျရောက်ခဲ့သည့်အချိန်မှ ယနေ့တိုင် မြောက်မြားစွာသော ပညာရှင် အကျော်အမော်တို့သည် ခေတ်တိုင်းခေတ်တိုင်းတွင် ကုရ်အာန်ကျမ်းမြတ်ကို ရှုထောင့်အမျိုးမျိုးမှ သုတေသန ပြုနေခဲ့ကြ၏။ လေ့လာ ဆည်းပူးနေခဲ့ကြ၏။ ယခုလည်း ဆည်းပူးလျက်ပင်၊ နောင်တွင်လည်း ကိယာမတ်တိုင် ဆည်းပူးနေကြဦးမည်ပင်။

သို့တစေလည်း မဟာသမုဒ္ဒရာဝယ် ယုန်သူငယ် မထောက်နိုင်သကဲ့သို့၊ ကုရ်အာန်ကျမ်းမြတ်၏ အလွန့်အလွန် နက်သည့် နောက်ဆုံးစွန်အနက်ကိုမူ မည်သူမျှ မထောက်နိုင်ခဲ့သေးပေ။

كَذَّبَتْ عَادٌ فَكَيْفَ كَانَ عَذَابِي وَنُذُرِ ﴿١٨﴾

**၁၈။** 'အာဒ်' အမျိုးသားတို့သည်လည်း မဟုတ်မမှန် ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ပေရာ ငါအရှင်မြတ်၏ပြစ်ဒဏ်နှင့် ငါအရှင်မြတ်၏ သတိပေး နှိုးဆော်မှုများသည် မည်သို့ရှိခဲ့ပေသနည်း။

إِنَّا أَرْسَلْنَا عَلَيْهِمْ رِيحًا صَرْصَرًا فِي يَوْمِ نَحْسٍ مُّسْتَمِرٍّ ﴿١٩﴾

**၁၉။** စင်စစ်ကေန် ငါအရှင်မြတ်သည် ၎င်းတို့အပေါ်၌ အစွန့်ရှည်စွာ မင်္ဂလာကင်းမဲ့သောနေ့တွင် ပြင်းထန်လှစွာသော လေပြင်းမုန်တိုင်းကို စေလွှတ်တော်မူခဲ့၏။

تَنزِعُ النَّاسَ كَأَنَّهُمْ أَعْجَازُ نَخْلٍ مُّنقَعِرٍ ﴿٢٠﴾

**၂၀။** ယင်းလေပြင်းမုန်တိုင်းမှာ လူတို့အား ဆွဲနှုတ်ခဲ့ရာ ၎င်းတို့သည် အမြစ်မှ ပြုတ်ထွက်ပြိုလဲခဲ့လေသော စွန်ပလွံပင်၏ပင်မကြီးများကဲ့သို့ ဖြစ်သွားခဲ့ကြ၏။ [၁]

فَكَيْفَ كَانَ عَذَابِي وَنُذُرِ ﴿٢١﴾

**၂၁။** သို့ဖြစ်ပေရာ ငါအရှင်မြတ်၏ ပြစ်ဒဏ်သည်လည်းကောင်း၊ ငါအရှင်မြတ်၏ သတိပေးနှိုးဆော်မှုများသည်လည်းကောင်း၊ မည်သို့ရှိခဲ့သနည်း။

وَلَقَدْ يَسَّرْنَا الْقُرْآنَ لِلذِّكْرِ فَهَلْ مِن مُّدَّكِرٍ ﴿٢٢﴾

**၂၂။** ထိုမှတစ်ပါး ဧကန်မလွဲ ငါအရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ကျက်မှတ်တရားရယူအံ့သောငှာ လွယ်ကူစေတော်မူခဲ့ရာ ကျက်မှတ်တရားရယူသူ တစ်ဦးတစ်ယောက် ရှိလေသလော။

كَذَّبَتْ ثَمُودُ بِالنُّذُرِ ﴿٢٣﴾

**၂၃။** 'ဆမူဒ်'အမျိုးသားတို့သည်လည်း သတိပေးနှိုးဆော်သူတို့အား မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ [၂]

---

(၁) အာဒ်အမျိုးသားများသည်လည်း မိမိတို့၏တမန်တော်အား သွေဖည်ဆန့်ကျင်ခဲ့ကြသည့်အတွက် ဤပစ္စက္ခတွင်ပင် ပြစ်ဒဏ်သင့်၍ ထန်းဆစ်လည်ကျိုး အသေဆိုးနှင့် မရှုမလှ သေကျေ ပျက်စီးသွားခဲ့ကြပေသည်။ အာဒ် အမျိုးသားများအကြောင်း အကြိမ်ကြိမ် ပါရှိခဲ့ပေပြီ။ ကုရ်အာန် (၇:၆၅)တွင် အကျယ်ရေးသားခဲ့ပေပြီ။

(၂) ဆမူဒ်အမျိုးသားများသည်လည်း မိမိတို့၏တမန်တော်အား သွေဖည် ဆန့်ကျင်ခဲ့ကြသည့်အတွက် ဤပစ္စက္ခမှာပင် ပြစ်ဒဏ်သင့်၍ မရှုမလှ သေကြေပျက်စီးသွားခဲ့ကြရပေပြီ။ ဆမူဒ် အမျိုးသားများအကြောင်း အကြိမ်ကြိမ် ပါရှိခဲ့ပေပြီ။ ကုရ်အာန် (၇:၇၃-၇၉) ၏ အဖွင့်များတွင် အကျယ် ရေးသားခဲ့ပေပြီ။

فَقَالُوٓا أَبَشَرًا مِّنَّا وَاحِدًا نَّتَّبِعُهُۥٓ إِنَّآ إِذًا لَّفِى ضَلَٰلٍ وَسُعُرٍ ﴿٢٤﴾

၂၄။ ထို့ပြင် ၎င်းတို့က ကျွန်ုပ်တို့သည် မိမိတို့အမျိုးအစားထဲမှဖြစ်သော လူသားတစ်ဦး၏နောက်သို့ လိုက်ကြရမည်လော။ သို့ဖြစ်လျှင် ဧကန်မလွဲ ကျွန်ုပ်တို့သည် လမ်းလွဲမှု၌၊ ထို့မျှမက ရူးသွပ်မှု၌ ကျရောက်သွားကြပေမည်။

أَءُلْقِىَ ٱلذِّكْرُ عَلَيْهِ مِنۢ بَيْنِنَا بَلْ هُوَ كَذَّابٌ أَشِرٌ ﴿٢٥﴾

၂၅။ ကျွန်ုပ်တို့အနက်မှ ၎င်း၏အပေါ်၌သာ (ရွေးကောက်၍) 'ဝဟ်ယ်' အမိန့်တော် ဆုံးမဩဝါဒတော် ချပေးခြင်း ခံခဲ့ရလေသလော။ ထိုသို့ အလျှင်းမဟုတ်။ စင်စစ်မှာကား ၎င်းသည် လွန်စွာမုသားပြောဆိုသူ၊ ဝင့်ကြွားသူပင် ဖြစ်ပေသည်။

سَيَعْلَمُونَ غَدًا مَّنِ ٱلْكَذَّابُ ٱلْأَشِرُ ﴿٢٦﴾

၂၆။ ၎င်းတို့သည် မည်သူ လွန်စွာမုသားပြောဆိုသူ၊ ဝင့်ကြွားသူ၊ ဖြစ်ကြောင်း မကြာမြင့်မီ နက်ဖြန်ပင် သိရှိကြရပေမည်။

إِنَّا مُرْسِلُوا۟ ٱلنَّاقَةِ فِتْنَةً لَّهُمْ فَٱرْتَقِبْهُمْ وَٱصْطَبِرْ ﴿٢٧﴾

၂၇။ ဧကန်အမှန် ငါအရှင်မြတ် ၎င်းတို့အား စမ်းသပ်တော်မူရန် ကုလားအုတ်မကို စေလွှတ်တော်မူအံ့၊ သို့ဖြစ်ပေရာ (အို-နဗီတမန်တော် 'ဆွာလစ်ဟ်'၊) အသင်သည် ၎င်းတို့အား သည်းခံ၍ စောင့်စားပါလေ။

وَنَبِّئْهُمْ أَنَّ ٱلْمَآءَ قِسْمَةٌۢ بَيْنَهُمْ ۖ كُلُّ شِرْبٍ مُّحْتَضَرٌ ﴿٢٨﴾

၂၈။ ထို့ပြင် အသင်သည် ၎င်းတို့အား ၎င်းတို့(၏ တိရစ္ဆာန်များနှင့်ကုလားအုတ်မ)၏အကြား၌(အလှည့်ကျသောက်သုံးရန်) ရေခွဲဝေပြီးဖြစ်ကြောင်း၊ အလှည့်အတိုင်း အသီးသီး လာရောက်ကြရမည်ဖြစ်ကြောင်း သတင်းပေးပါလေ။

فَنَادَوْا۟ صَاحِبَهُمْ فَتَعَاطَىٰ فَعَقَرَ ﴿٢٩﴾

၂၉။ ထိုအခါ၎င်းတို့သည် မိမိတို့အဖော်အား ဟစ်ခေါ်ခဲ့ရာ ထိုအဖော်သည် လာရောက်ပြီးလျှင် ကုလားအုတ်မ၏ ခြေများကို ဖြတ်တောက်ခဲ့လေ၏။

فَكَيْفَ كَانَ عَذَابِيْ وَنُذُرِ ﴿٣٠﴾

၃၀။ သို့ဖြစ်ပေရာ ငါအရှင်မြတ်၏ ပြစ်ဒဏ်နှင့် ငါအရှင်မြတ်၏ သတိပေးနှိုးဆော်မှုများသည် မည်သို့ ရှိခဲ့ပေသနည်း။

إِنَّآ أَرْسَلْنَا عَلَيْهِمْ صَيْحَةً وَّاحِدَةً فَكَانُوْا كَهَشِيْمِ الْمُحْتَظِرِ ﴿٣١﴾

၃၁။ စင်စစ်ဧကန် ငါအရှင်မြတ်သည် ၎င်းတို့အပေါ် ၌ ပြင်းထန်လှစွာသော အသံတစ်ခုကိုသာလျှင် စေလွှတ်တော်မူခဲ့ရာ ၎င်းတို့သည် ကျွဲ၊ နွား၊ တိရစ္ဆာန်များ နေထိုင်ရန် ခြံခတ်သူ၏ သွေ့ခြောက်ကြေမွနေသော သစ်ကိုင်းသစ်လက်များကဲ့သို့ ဖြစ်သွားခဲ့ကြကုန်၏။

وَلَقَدْ يَسَّرْنَا الْقُرْاٰنَ لِلذِّكْرِ فَهَلْ مِنْ مُّدَّكِرٍ ﴿٣٢﴾

၃၂။ ၎င်းပြင် မလွဲဧကန် ငါအရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ကျက်မှတ် တရားရယူအံ့သောငှာ လွယ်ကူစေတော်မူခဲ့ရာ ကျက်မှတ် တရားရယူသူ တစ်ဦးတစ်ယောက် ရှိလေသလော။

كَذَّبَتْ قَوْمُ لُوْطٍ بِالنُّذُرِ ﴿٣٣﴾

၃၃။ 'လူတွ်'၏အမျိုးသားတို့သည်လည်း သတိပေးနှိုးဆော်သူတို့အား မဟုတ်မမှန်ဟူ၍ စွပ်စွဲပြောဆို ငြင်းပယ်ခဲ့ကြကုန်၏။

إِنَّآ أَرْسَلْنَا عَلَيْهِمْ حَاصِبًا إِلَّآ اٰلَ لُوْطٍ نَّجَّيْنٰهُمْ بِسَحَرٍ ﴿٣٤﴾

၃၄။ ဧကန်အမှန် ငါအရှင်မြတ်သည် ၎င်းတို့အပေါ် ၌ ခဲမိုးကို ရွာသွန်းစေတော်မူခဲ့၏။ သို့ရာတွင် လူတွ် ၏နောက်လိုက်တပည့်သား မျိုးနွယ်တို့ကိုမူကား ငါအရှင်မြတ်သည် ညဥ့်၏ နောက်ဆုံးယံ၌ပင် လွတ်ကင်းစေတော်မူခဲ့၏။

نِّعْمَةً مِّنْ عِنْدِنَا كَذٰلِكَ نَجْزِيْ مَنْ شَكَرَ ﴿٣٥﴾

၃၅။ ငါအရှင်မြတ် အထံတော်မှ ကျေးဇူးပြုတော်မူသောအားဖြင့် ကျေးဇူးသိတတ်သောသူအား ငါအရှင်မြတ်သည် ထိုနည်းအတိုင်းပင် အစားပေးလေ့ ရှိတော်မူ၏။

وَلَقَدْ أَنذَرَهُم بَطْشَتَنَا فَتَمَارَوْا بِالنُّذُرِ ﴿٣٦﴾

၃၆။ စင်စစ်သော်ကား ဧကန်မလွဲ ထို 'လူတ်'က ငါအရှင်မြတ် ဖမ်းဆီးအရေးယူတော်မူမည် ဖြစ်ကြောင်း ၎င်းတို့အား သတိပေးနှိုးဆော်ခဲ့သော်လည်း ၎င်းတို့မှာ (ယင်း)သတိပေးနှိုးဆော်မှုများနှင့် စပ်လျဉ်း၍ အငြင်းအခုံ ပြုခဲ့ကြကုန်၏။

وَلَقَدْ رَاوَدُوهُ عَن ضَيْفِهِ فَطَمَسْنَا أَعْيُنَهُمْ فَذُوقُوا عَذَابِي وَنُذُرِ ﴿٣٧﴾

၃၇။ ထိုမှတစ်ပါး ၎င်းတို့သည် ထိုလူတ်၏ ဧည့်သည်များကို ၎င်း၏ထံ၌ (မကောင်းသော ရည်ရွယ်ချက်နှင့်) တောင်းဆိုခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ (ငါအရှင်မြတ်သည် ၎င်းတို့၏မျက်စိများကို ကန်းစေတော်မူခဲ့၏။ ထို့နောက် ၎င်းတို့အား) အသင်တို့သည် ငါအရှင်မြတ်၏ ပြစ်ဒဏ်၏ရသာကိုလည်းကောင်း၊ ငါအရှင်မြတ်၏ သတိပေးနှိုးဆော်မှုများ၏ ရသာကိုလည်းကောင်း၊ မြည်းစမ်းကြလေကုန်(ဟု မိန့်ကြားတော်မူခဲ့၏)။ [၁]

وَلَقَدْ صَبَّحَهُم بُكْرَةً عَذَابٌ مُّسْتَقِرٌّ ﴿٣٨﴾

၃၈။ ထိုမှတစ်ပါး ဧကန်မလွဲ အခွန့်ရှည်စွာ တည်မြဲအံ့သောငှာ ပြစ်ဒဏ်သည် ၎င်းတို့၌ နံနက်စောစောအချိန်တွင်ပင် သက်ရောက်ခဲ့လေ၏။

فَذُوقُوا عَذَابِي وَنُذُرِ ﴿٣٩﴾

၃၉။ သို့ဖြစ်ပေရာ အသင်တို့သည် ငါအရှင်မြတ်၏ ပြစ်ဒဏ်ကိုလည်းကောင်း၊ ငါအရှင်မြတ်၏ သတိပေးနှိုးဆော်မှုများကို လည်းကောင်း၊ မြည်းစမ်းကြလေကုန် (ဟု မိန့်ကြားတော်မူခဲ့၏။)

---

(၁) တမန်တော် လူတ်(အလိုင်ဟစ္စလာမ်)၏ အမျိုးသားများသည်လည်း တမန်တော် လူတ်အား သွေးဖည်ဆန့်ကျင်ခဲ့ကြသည့်အတွက် ပြစ်ဒဏ်သင့်၍ မျက်ကန်းများ ဖြစ်သွားခဲ့ကြရ၏။ ထို့နောက် ၎င်းတို့၏ မြို့ရွာများ ထက်အောက် ပြောင်းပြန် ဖြစ်သွားခဲ့ကြရ၏။ ထို့ပြင်တစ်ဝ ခဲမိုးများ ရွာသွန်းခြင်းကိုလည်း ခံခဲ့ကြရ၏။

သို့ရာတွင် တမန်တော် လူတ်နှင့်တကွ တမန်တော် လူတ်အား သက်ဝင်ယုံကြည်သော နောက်လိုက်တပည့်သားတို့သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ပြစ်ဒဏ်မှ လွတ်မြောက်သွားခဲ့ကြလေသည်။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ် ပါရှိပြီးဖြစ်သည်။

وَلَقَدْ يَسَّرْنَا الْقُرْآنَ لِلذِّكْرِ فَهَلْ مِن مُّدَّكِرٍ ۝٤٠

၄၀။ မလွဲကန် ငါအရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်ကို ကျက်မှတ် တရားရယူအံ့သောငှာ လွယ်ကူစေတော်မူခဲ့ပေရာ ကျက်မှတ်တရားရယူသူ တစ်ဦးတစ်ယောက် ရှိလေသလော။

وَلَقَدْ جَاءَ آلَ فِرْعَوْنَ النُّذُرُ ۝٤١

၄၁။ ထိုမှတစ်ပါး မုချဧကန် 'ဖစ်ရ်အောင်န်' ၏ ခြွေရံသင်းပင်းတို့ထံလည်း သတိပေးနှိုးဆော်ချက်များ ရောက်ရှိလာခဲ့၏။

كَذَّبُوا بِآيَاتِنَا كُلِّهَا فَأَخَذْنَاهُمْ أَخْذَ عَزِيزٍ مُّقْتَدِرٍ ۝٤٢

၄၂။ ၎င်းတို့သည် ငါအရှင်မြတ်၏ သက်သေလက္ခဏာအလုံးစုံတို့ကို မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းတို့အား နိုင်နင်းလွှမ်းမိုးတော်မူသော တန်ခိုးနှင့် ပြည့်စုံတော်မူသောအရှင်၏ ဖမ်းဆီးပုံမျိုးနှင့် ဖမ်းဆီး အရေးယူတော်မူခဲ့၏။

أَكُفَّارُكُمْ خَيْرٌ مِّنْ أُولَٰئِكُمْ أَمْ لَكُم بَرَاءَةٌ فِي الزُّبُرِ ۝٤٣

၄၃။ အသင်တို့ခေတ်၌ရှိကုန်သော 'ကာဖိရ်'သွေဖည် ငြင်းပယ်သူတို့သည် ၎င်းတို့ထက် သာလွန် မြင့်မြတ်ကြလေသလော၊ သို့တည်းမဟုတ် ကျမ်းဂန်များ၌ အသင်တို့အဖို့ လွတ်ငြိမ်းခွင့်ရှိသည်ဟူ၍ လာရှိလေသလော။

أَمْ يَقُولُونَ نَحْنُ جَمِيعٌ مُّنتَصِرٌ ۝٤٤

၄၄။ သို့တည်းမဟုတ် ၎င်းတို့က 'ကျွန်ုပ်တို့သည် အောင်နိုင်မှု ရရှိကြအံ့သောအုပ်စုဖြစ်သည်' ဟု ပြောဆိုကြလေသလော။

سَيُهْزَمُ الْجَمْعُ وَيُوَلُّونَ الدُّبُرَ ۝٤٥

၄၅။ ယင်းအုပ်စုမှာ မကြာမြင့်မီမှာပင် အရေးရှုံးနိမ့်ကြပြီး ကျောခိုင်း၍ ထွက်ပြေးကြရပေမည်။

بَلِ السَّاعَةُ مَوْعِدُهُمْ وَالسَّاعَةُ أَدْهَىٰ وَأَمَرُّ ۝٤٦

၄၆။ စင်စစ်မှာကား 'ကိယာမတ်' ရှင်ပြန်ထမည့် အချိန်ကာလသည် ၎င်းတို့အား ချိန်းချက်ထားသော ချိန်းချက်မှုဖြစ်၏။ ထိုမှတစ်ပါး 'ကိယာမတ်' ရှင်ပြန်

ထမည့်အချိန်ကာလသည် ပို၍ပင် ပြင်းထန်သည့်ပြင် ပို၍ပင် နာကြည်းဖွယ် ဖြစ်ပေသတည်း။

إِنَّ الْمُجْرِمِينَ فِي ضَلَالٍ وَسُعُرٍ ﴿٤٧﴾

၄၇။ ဧကန်အမှန် ပြစ်မှုကျူးလွန်သူတို့သည် လမ်းလွဲမှု၌လည်းကောင်း၊ ဉာဏ်ကင်းမဲ့မှု၌ လည်းကောင်း၊ ရှိနေကြကုန်၏။

يَوْمَ يُسْحَبُونَ فِي النَّارِ عَلَىٰ وُجُوهِهِمْ ذُوقُوا مَسَّ سَقَرَ ﴿٤٨﴾

၄၈။ ၎င်းတို့သည် မှောက်လျက် ငရဲမီး၌ တရွတ်တိုက် ဆွဲချခြင်းကို ခံကြရသောနေ့တွင် 'အသင်တို့သည်ငရဲမီး ထိရောက်ခြင်း၏ ရသာကို မြည်းစမ်းကြကုန်'(ဟု မိန့်ကြားတော်မူခြင်းကို ခံကြရလတ္တံ့)။ [၁]

إِنَّا كُلَّ شَيْءٍ خَلَقْنَاهُ بِقَدَرٍ ﴿٤٩﴾

၄၉။ ဧကန်မလွဲ ငါအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို ချင့်ချိန်၍ ဖန်ဆင်းတော်မူခဲ့၏။

وَمَا أَمْرُنَا إِلَّا وَاحِدَةٌ كَلَمْحٍ بِالْبَصَرِ ﴿٥٠﴾

၅၀။ စင်စစ်သော်ကား ငါအရှင်မြတ်၏ အမိန့်တော်မှာ တစ်ကြိမ်တည်း အမိန့်ပေးရုံကာမျှဖြင့် မျက်စိတစ်မှိတ်အတွင်း ဖြစ်မြောက်သွားပေမည်။ [၂]

---

(၁) ဆိုလိုသည်ကား- အထက်တွင် အတိတ်ခေတ် ကာဖိရ်များကဲ့သို့ပင် လက်ရှိ ကာဖိရ်များလည်း ဤပစ္စက္ခမှာပင် ပြစ်ဒဏ်သင့်ကြရမည့်အကြောင်း၊ ကိယာမတ်နေ့တွင်မူ မလွဲဧကန် ပြစ်ဒဏ် လုလုကြီး ခံကြရမည့်အကြောင်း သတိပေးထားတော်မူ၏။ သို့တစေလည်း ပြစ်မှု ကျူးလွန်လျက်ရှိသော ကာဖိရ်များသည် အဆိုပါ သတိပေးချက်နှင့် စပ်လျဉ်း၍ အမှားကြီးမှားလျက်ရှိနေကြပေသည်။ အသိတုံးအမြင်တုံး ဉာဏ်တုံးလျက် ရှိကြပေသည်။ အမိုက်မှောင်များတွင် နစ်မွန်းကာ ကမူးရှူးထိုးဖြစ်လျက်၊ မူးမော်လျက် ယစ်မူးလျက် ရှိကြပေသည်။ တုံးတိုက်တိုက် ကမ်းတိုက်တိုက် ရူးမူးဆိုးမိုက်လျက်ရှိကြပေသည်။ သို့ရာတွင် ငရဲမီးတွင်မှောက်လျက် တရွတ်ဆွဲခြင်း ခံကြရပြီး၊ ငရဲမီး၏ရသာကို မြည်းစမ်းကြရသောအခါ၊ မိမိတို့ ဆိုးမိုက်ခဲ့ကြသည့် အမှားများကို ကောင်းကောင်း သိရှိသွားကြပေမည်။

(၂) ဆိုလိုသည်ကား-အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်တည်ရာတွင် အတိုင်းမသိ လျင်မြန်လွန်းလှပေသည်။ ထိုအရှင်မြတ်သည် မိမိဖြစ်စေတော်မူလိုသောအရာကို 'ဖြစ်' ဟု တစ်ကြိမ်တစ်ခါတည်း မိန့်ကြားတော်မူရုံကာမျှဖြင့်၊ ထိုအရာသည် မျက်စိတစ်မှိတ် လျှပ်တစ်ပြက်အတွင်း တစ်မဟုတ်ပြင်း ဖြစ်ရှိလာပေသည်။ ဒုတိယအကြိမ် ထပ်မံ မိန့်ကြားတော်မူရန် မလိုပြီ။ သို့ဖြစ်ရာ ထိုသို့သော အရှင်မြတ်အဖို့ ကိယာမတ် ဖြစ်စေတော်မူရာတွင် အသို့လျှင် အခက်အခဲ ရှိနိုင်အံ့နည်း။

وَلَقَدْ أَهْلَكْنَآ أَشْيَاعَكُمْ فَهَلْ مِن مُّدَّكِرٍ ﴿٥١﴾

၅၁။ မချွတ်ဧကန် ငါအရှင်မြတ်သည် အသင်တို့နှင့်ဝါဒတူတို့အား ကွပ်မျက်ဖျက်ဆီးတော်မူခဲ့ရာ တရားရယူသူများဟူ၍ ရှိကြပါသလော။[၁]

وَكُلُّ شَىْءٍ فَعَلُوهُ فِى ٱلزُّبُرِ ﴿٥٢﴾

၅၂။ စင်စစ်သော်ကား ၎င်းတို့ပြုမူခဲ့သမျှတို့သည် မှတ်တမ်းများ၌လည်း ရှိကုန်၏။

وَكُلُّ صَغِيرٍ وَكَبِيرٍ مُّسْتَطَرٌ ﴿٥٣﴾

၅၃။ ထိုမှတစ်ပါး အကြီးအသေး ဟူသမျှတို့သည် ရေးသား၍ထားရှိပြီး ဖြစ်ကုန်၏။

إِنَّ ٱلْمُتَّقِينَ فِى جَنَّٰتٍ وَنَهَرٍ ﴿٥٤﴾

၅၄။ မလွဲဧကန် 'မွတ္တကီ' သူတော်စင်တို့မှာ ဥယျာဉ်များ၌လည်းကောင်း၊ စမ်းချောင်းများ၌လည်းကောင်း၊ ရှိကုန်အံ့။

فِى مَقْعَدِ صِدْقٍ عِندَ مَلِيكٍ مُّقْتَدِرٍۭ ﴿٥٥﴾

၅၅။ တန်ခိုးတော်နှင့် ပြည့်စုံတော်မူသော ဘုရင်၏ ထံတော်ပါး၌ မြင့်မြတ်မှန်ကန်သော နေရာဌာနတွင် ရှိကုန်အံ့သတည်း။

---

(၁) ဆိုလိုသည်ကား -ကာဖိရ်များသည် မိမိတို့ ယခုလက်တွေ့ ကျင့်သုံးနေသော ဝါဒလမ်းစဉ်မှာ အလ္လာဟ်အရှင်မြတ် မနှစ်သက်တော်မူသော လမ်းစဉ်မဟုတ်၊ ကိယာမတ် အကယ်စင်စစ်ဖြစ်လင့်ပင်ကစား ငါတို့သည် ပြစ်ဒဏ်ခံကြရမည်မဟုတ်ဟူ၍ကား ထင်မှားမနေကြရာ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်သည် လက်ရှိ ကာဖိရ်များနှင့် ဝါဒတူလမ်းစဉ်တူ အတွေးတူအကျင့်တူ ကာဖိရ်များကို ကွပ်မျက်တော်မူခဲ့ချေပြီ။ ဤသည်ကိုထောက်ရှုခြင်းအားဖြင့် လက်ရှိကာဖိရ်များ၏ ဝါဒလမ်းစဉ်ကို အလ္လာဟ်အရှင်မြတ် နှစ်သက်တော်မမူကြောင်း၊ ယင်း ဝါဒလမ်းစဉ်ကို လိုက်နာသူများမှာ ပြစ်ဒဏ် ခံကြရမည်ဖြစ်ကြောင်း ထင်ရှားနေပေသည်။ တရားရယူဖွယ်ရာပင်။ ကြည့်-ကုရ်အာန်(၃၄:၅၄)။

## အထူးကရုဏာတော်ရှင်ကဏ္ဍ



ဤ ကဏ္ဍသည် 'အရ်-ရဟ်မာန်' အထူး ကရုဏာတော်ရှင်ကဏ္ဍ မည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၇၈) ပါး၊
ရကူအ်အပိုဒ် (၃)ပိုဒ် အသီးသီး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊
အထူး ကရုဏာတော်ပြုတော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

اَلرَّحْمٰنُ ۙ﴿۱﴾

၁။ 'ရဟ်မာန်' အထူး ကရုဏာတော်ရှင်ပင်။ [၁]

عَلَّمَ الْقُرْاٰنَ ؕ﴿۲﴾

၂။ 'ကုရ်အာန်'ကျမ်းတော်မြတ်ကို သင်ကြားပို့ချတော်မူခဲ့၏။ [၂]

---

(၁) ကုရ်အာန်ကျမ်းမြတ်၏ အစပထမတွင်ပင် အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကို ဖွင့်ရာ၌ ပထမဆုံး ဂုဏ်တော်မှာ ဤ 'ရဟ်မာန်' အထူးကရုဏာတော်ရှင်တည်းဟူသော ဂုဏ်တော်ပင် ဖြစ်သည်။ 'ရဟ်မာန်' ဟူသော ပုဒ်သည် အတိုင်းမသိ သနားကြင်နာတော်မူသော၊ အလွန့်အလွန် ကရုဏာသက်တော်မူသော၊ ဖြူနက် မခြား အားလုံးတို့အား ထောက်ထား ညှာတာတော်မူသောအရှင်၏ အနက်ကိုဟောသည်။ အလ္လာဟ်အရှင်မြတ်၌ ကြီးကျယ်မြင့်မြတ်တော်မူသော ဂုဏ်တော်များရှိသည်။ ယင်းသည့် ဂုဏ်တော်များအနက် ဤသည့် အထူးကရုဏာတော်ရှင် တည်းဟူသော ဂုဏ်တော်ကို အထူးတလည် ဖွင့်ဟ မြွက်ကြားတော်မူခြင်းမှာလည်း အတိုင်းမသိ ကြီးမားလှဘိသော ကရုဏာတော်တစ်ပါးပင်။

(၂) အလ္လာဟ်အရှင်မြတ်သည် (ရဟ်မာန်) အထူးကရုဏာတော်ရှင် ဖြစ်တော်မူသည်။ ဤကဏ္ဍတွင် မိမိ၏ ကျေးဇူးတော်များကို ဖွင့်ဟ မြွက်ကြားထားတော်မူသည်။ ယင်းသည့် ကျေးဇူးတော်များအနက် အကြီးဆုံးနှင့် အမြင့်မြတ်ဆုံး ကျေးဇူးတော်မှာ ကုရ်အာန်ကျမ်းမြတ်ပင်ဖြစ်သည်။

ကုရ်အာန်ကျမ်းမြတ်သည် အစမှ အဆုံးတိုင် ကရုဏာတော်ချည်းသာဖြစ်သည်။ လောကီ လောကုတ္တရာ နှစ်ဘဝဆိုင်ရာ အကောင်းမြတ်ဆုံးတရားဖြစ်သည်၊ အပြည့်အစုံဆုံး တရားဥပဒေလည်းဖြစ်သည်၊ ကောင်းကင်ကျ ကျမ်းဂန်အပေါင်းတို့၏ အချုပ်လည်းဖြစ်သည်။ ဤကျမ်းမြတ်နောက် ကျမ်းဂန်သစ် ကျရောက်ရန် မရှိပြီ၊ မလိုပြီ။

ဤကျမ်းမြတ်သည် ကမ္ဘာတစ်သက် တည်ရှိမည်ဖြစ်သည်။ ယင်းသို့သော ကျမ်းထူး ကျမ်းမြတ်ကို သင်ကြားပို့ချ ပေးတော်မူခြင်းထက် ကြီးကဲမြင့်မြတ်သော ကရုဏာတော်သည် အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။ ထို့အတွက်ကြောင့်ပင် ကျေးဇူးတော်များကို ဖွင့်ဟ မြွက်ကြားတော်မူရာတွင်၊ ဤသည့် အမြင့်မြတ်ဆုံးနှင့် အကြီးဆုံး ကျေးဇူးတော်ကို ဦးစွာပထမ စတင်ဖွင့်ဟ မြွက်ကြားတော်မူခြင်းဖြစ်သည်။

خَلَقَ الْإِنْسَانَ ﴿٣﴾

၃။ ထိုအရှင်မြတ်သည်ပင် 'မနုဿ' လူသားအား ဖန်ဆင်းတော်မူခဲ့၏။ [၁]

عَلَّمَهُ الْبَيَانَ ﴿٤﴾

၄။ ထိုအရှင်မြတ်သည်ပင် ထိုလူသားအား စကားပြောဆိုမှုကို သင်ပေးတော်မူခဲ့၏။ [၂]

الشَّمْسُ وَالْقَمَرُ بِحُسْبَانٍ ﴿٥﴾

၅။ 'သူရိယ'နေသည်လည်းကောင်း၊ 'စန္ဒာ' လသည်လည်းကောင်း၊ အတွက်အချက် အချိန်နှင့်ကိုက်ညီစွာ (သွားလာ လှုပ်ရှားလျက်) ရှိကြ၏။ [၃]

وَالنَّجْمُ وَالشَّجَرُ يَسْجُدَانِ ﴿٦﴾

၆။ ကြယ်-ပင်စည်မပါသော အပင်ငယ်များသည်လည်းကောင်း၊ ပင်စည်ပါသော အပင်များသည်လည်းကောင်း၊ အမိန့်နာခံ ပျပ်ဝပ်ဦးချလျက်ရှိကုန်၏။ [၄]

---

(၁) အလ္လာဟ်အရှင်မြတ်သည် အဖန်ဆင်းခံ အပေါင်းတို့တွင် လူသားကို အမြင့်မြတ်ဆုံး၊ အပြည့်အစုံဆုံး၊ အစုံလင်ဆုံး ဖန်ဆင်းထားတော်မူသည်။ ကမ္ဘာ့ အိမ်ထောင်စုကြီးတွင် မိမိ၏ခလီဖဟ်(ကိုယ်စားလှယ်) အဖြစ် ခန့်အပ်ထားတော်မူသည်။ ယင်းသို့ လူသားအား မွေးဖွားတော်မူရာတွင် လူသား၏ ကြိုးပမ်းမှုတစ်စုံတစ်ရာ အလျှင်း မပါရှိပေ။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်သာလျှင် အရင်းခံဖြစ်ပေသည်။ လူ့ဘဝသည် အလွန်ရခဲလှသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

(၂) အလ္လာဟ်အရှင်မြတ်သည် လူသားအား မိမိ၏စိတ်တွင်း၌ရှိသည်တို့ကို သူတစ်ပါးအား နားလည်သဘောပေါက်အောင် ကောင်းမွန် ရှင်းလင်းပြတ်သားစွာ ထုတ်ဖော်ဖွင့်ဟ ပြောဆိုနိုင်သည့် အံ့မဆုံးသည့် စွမ်းရည်သတ္တိကိုလည်း အထူးတလည် ချီးမြှင့်ထားတော်မူသည်။ ယင်းသည့် စွမ်းရည်သတ္တိဖြင့် လူသားသည် အလ္လာဟ်အရှင်မြတ်၏ တရားတော်များကို မိမိကိုယ်တိုင် သင်ယူသည်၊ သူတစ်ပါးအား သင်ကြားပို့ချသည်။ အဆိုးအကောင်း အမှားအမှန် ယုံကြည်မှု သွေဖည်မှု၊ လောကီ လောကုတ္တရာဆိုင်ရာ စကားများကိုလည်း ကောင်းမွန်စွာ နားလည်သည်၊ နားလည်အောင် ပြောပြနိုင်သည်။

'ဗယာန်' ဟူသောပုဒ်တွင် ဖွင့်ဟ ပြောကြားမှု၊ ရေးသားပြသမှု၊ ညွှန်ပြမှု အားလုံး အကျုံးဝင်ပေသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

(၃) ကမ္ဘာ့အိမ်ထောင်စုကြီးတွင် အထက်ကောင်းကင်၌ လူသားတို့ နေ့၊ ည၌ တွေ့မြင်နေရသော ဝတ္ထုကြီး ၂ ခုမှာ၊ နေနှင့် လပင် ဖြစ်ပေသည်။ နေနှင့် လသည် အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသည့် အချင့်အချိန် အတိုင်းအတာနှင့်အညီ စနစ်တကျ အချိန်မှန်မှန် ဝင်ထွက်သွားလာ လှုပ်ရှားလျက်၊ ကမ္ဘာ့အိမ်ထောင်စုကြီးအား အကျိုး အမျိုးမျိုးပေးလျက် ရှိကြပေသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသည့် ကျေးဇူးတော်တစ်ပါးပင်။ (ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၃၆း၃၈-၄၀)တွင် အကျယ်ရေးသားခဲ့ပေပြီ။

(၄) ကမ္ဘာ့အိမ်ထောင်စုကြီးတွင် မြေမျက်နှာပြင်၌ ပင်စည်ရှိသော၊ ပင်စည်မရှိသော အပင်ကြီးငယ် ➤➤

وَالسَّمَآءَ رَفَعَهَا وَوَضَعَ الْمِيزَانَ ⑦

၇။ မိုးကောင်းကင်များကို ထိုအရှင်မြတ်သည်ပင် မြင့်မြင့်စေတော်မူခဲ့၏။ [၁] ထိုမှတစ်ပါး ထိုအရှင်မြတ်သည်ပင် ချိန်ခွင်ကို တီထွင်စီစဉ်၍ ပေးတော်မူခဲ့၏။

أَلَّا تَطْغَوْا فِى الْمِيزَانِ ⑧

၈။ အသင်တို့သည် ချိန်တွယ်ရာ၌ မတရားမပြုကြရန်၊ [၂]

وَأَقِيمُوا الْوَزْنَ بِالْقِسْطِ وَلَا تُخْسِرُوا الْمِيزَانَ ⑨

၉။ ထို့ပြင် အသင်တို့သည် ချိန်တွယ်မှုကို တရားမျှတစွာ စောင့်ထိန်းကြရန်လည်းကောင်း၊ ချိန်တွယ်ရာ၌ ယုတ်လျော့စေခြင်း မရှိစေကြရန်လည်းကောင်း၊

وَالْأَرْضَ وَضَعَهَا لِلْأَنَامِ ⑩

၁၀။ ထိုမှတစ်ပါး ပထဝီမြေကို ထိုအရှင်မြတ်သည်ပင် အဖန်ဆင်းခံတို့၏အကျိုးငှာ ထားရှိတော်မူခဲ့၏။

---

➤➤ အသွယ်သွယ်တို့သည်လည်း အလ္လာဟ်အရှင်မြတ်အား ဦးချလျက်ရှိကြပေသည်။ ထိုအရှင်မြတ်၏ စီမံဖန်တီးမှုနှင့်အညီ စနစ်တကျ ပေါက်ရောက်သီးပွင့်လျက် ရှိကြပေသည်။ လူသားတို့အား အကျိုး အမျိုးမျိုး ပေးလျက်ရှိကြပေသည်။ လူသားတို့သည် ယင်းအပင်ကြီးငယ်တို့ကို အမျိုးမျိုး အသုံးပြုလျက်ရှိကြပေသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

(၁) မိုးကောင်းကင် အတိုင်းမသိ မြင့်မြင့်လှ၏။ အဘယ်မျှ ကျယ်ဝန်းမြင့်မြင့်သည်ကို မည်သူမျှမသိ၊ ယင်း မိုးကောင်းကင်များတွင် မြားမြောင်လှသော ဂြိုဟ်တာရာများ အဲ့ဖွယ်သရဲသွားလာ လှုပ်ရှားနေသည်မှာလည်း ရှုမငြီးပင်။ ယနေ့လူသားတို့သည် အထက်ကောင်းကင်တွင် လေယာဉ်ပျံကြီးငယ်များဖြင့် ပျံသန်းသွားလာလျက် ရှိကြ၏။ ဂြိုလ်တု ကြီးငယ်များကို ပစ်လွှတ်လျက်ရှိကြ၏။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ခြယ်လှယ်စီမံမှုပင်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

(၂) 'မီဇာန်' ၏မူရင်းအနက်မှာ ချိန်တွယ်ရသော ကိရိယာ ချိန်ခွင်ဟူ၍ ဖြစ်၏။ အများအားဖြင့် အတိတ်ခေတ် အာလင်မ်ပညာရှင်များက ဤအာယတ်တော်တွင် 'မီဇာန်' ကို တရားမျှတစွာပြုလုပ်ခြင်းအနက်၌ ယူဆခဲ့ကြသည်။

ဆိုလိုသည်ကား - အလ္လာဟ်အရှင်မြတ်သည် မိုးမြေတွင်ရှိ အရာခပ်သိမ်းတို့ကို တရားမျှတမှု၏ အခြေခံပေါ်၌ အတိုင်းမသိ ကြီးကဲမြင့်မြတ်လှသည့် အတိုင်းအတာ အချိန်အတွယ်အမှန်ဖြင့် စီမံဖန်းတီးထားတော်မူသည်။ ဤသည့်တရားမျှတမှုအပေါ်၌ပင် စကြာဝဠာကြီးတစ်ခုလုံး ရပ်တည်လျက်ရှိပေသည်။ ဤသည့် တရားမျှတမှု မရှိပါက စကြာဝဠာကြီးတစ်ခုလုံးသည် ပျက်ပြုန်းဆိတ်သုဉ်းသွားပေမည်။ ဤသည်ကို ရည်၍ တမန်တော်မြတ်ကလည်း 'ဤမိုး ဤမြေများသည် ဤသည့်မျှတမှုကြောင့်ပင် ရပ်တည်လျက်ရှိပေသည်' ဟု မိန့်ကြားတော်မူခဲ့ပေသည်။

فِيهَا فَاكِهَةٌ وَالنَّخْلُ ذَاتُ الْأَكْمَامِ ⑪

၁၁။ ယင်းပထဝီမြေ၌ သစ်သီးဝလံများသည်လည်း ကောင်း၊ အစွပ်များဖြင့် ငုံ-ဉာတံများဖြင့်အုပ်လျက် ရှိသော စွန်ပလွံပင်များသည်လည်းကောင်း၊

وَالْحَبُّ ذُو الْعَصْفِ وَالرَّيْحَانُ ⑫

၁၂။ ဖွဲနုပါသော ကောက်ပဲသီးနှံများသည်လည်း ကောင်း၊ အရွက်ရှိသောအစေ့များသည်လည်းကောင်း၊ မွှေးကြိုင်လျက်ရှိသော ပန်းများ အစာအာဟာရများ သည်လည်းကောင်း၊ ရှိကုန်၏။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ⑬

၁၃။ သို့ပါလျက် (အို-ဂျင်န်နှင့်လူသတ္တဝါအပေါင်း တို့)၊ အသင်တို့သည် မိမိတို့အား ဖန်ဆင်း မွေးမြူတော် မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြကုန်အံ့နည်း။ [၁]

خَلَقَ الْإِنسَانَ مِن صَلْصَالٍ كَالْفَخَّارِ ⑭

၁၄။ ထိုအရှင်မြတ်သည်ပင် 'မနုဿ' လူသားအား မြေအိုး-အိုးခြမ်းကွဲပမာ အသံမည်သော ရွှံ့ခြောက်ဖြင့် ဖန်ဆင်းတော်မူခဲ့၏။

---

(၁) အထက်ပါ အာယတ်တော်များတွင်အလ္လာဟ်အရှင်မြတ်သည် မိမိ၏ အလွန့်အလွန်ကြီးကျယ်မြင့်မြတ်သော၊ အံ့မဆုံးနိုင်သော အချို့ ကျေးဇူးတော်များနှင့် တန်ခိုးတော်များကို မိန့်ဆိုထားတော်မူသည်။ သို့မိန့်ဆိုတော်မူပြီးနောက် လူနှင့် ဂျင်န်အုပ်စုကြီး ၂-ခုလုံးအား အသင်တို့ အုပ်စု-၂ခုသည် မိမိတို့အရှင်သခင်၏ ကျေးဇူးတော်များအနက် အဘယ်မည်သော ကျေးဇူးတော်ကို ငြင်းပယ်ဝံ့ကြအံ့နည်း' ဟု မေးမြန်းထားတော်မူသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များအနက် အဘယ်ကျေးဇူးတော်မျှပင် ငြင်းပယ်ဖွယ်ရာ အလျှင်းမရှိပြီ။

တမန်တော်မြတ်သည် ဂျင်န်များရှေ့တွင် ဤကဏ္ဍကို ရွတ်ဖတ်ပြတော်မူသည့်အခါ ဤအာယတ်တော်ကို ရွတ်ဖတ်တော်မူသည့် အခါတိုင်းတွင် ဂျင်န်များက ( لا بشیء من نعمك ربنا نكذب فلك الحمد ) 'အို-ကျွန်တော်မျိုး၏အရှင်၊ ကျွန်တော်မျိုးတို့သည် အရှင်မြတ်၏ ကျေးဇူးတော်များအနက် အဘယ်တစ်စုံတစ်ရာကိုမျှ ငြင်းပယ်ဝံ့ကြသည်မရှိပါ။ ခပ်သိမ်းကုန်သော ချီးမွမ်းထောမနာခြင်းအပေါင်းသည် အရှင်မြတ်နှင့်သာလျှင် ထိုက်တန်ပါဘိသည်' ဟု ဖွင့်ဟဝန်ခံလျှောက်ထားခဲ့ကြလေသည့်အကြောင်း၊ ဟဒီးဆ်သြဝါဒတော်တစ်ပါးတွင် လာရှိပေသည်။

ဤသည့် သြဝါဒတော်ကို ထောက်ချင့်၍ မည်သူမဆို ဤအာယတ်တော်ကို ရွတ်ဖတ်သည့်အခါ ကြားနာရသည့်အခါ အထက်တွင် ဖော်ပြပါ ဂျင်န်များနည်းတူ ဖွင့်ဟဝန်ခံလျှောက်ထားအပ်ကြောင်း အာလင်မ် ပညာရှင်များက ဖွင့်ဆိုရေးသားခဲ့ကြလေသည်။ (ကြည့်-အွတ်ဆ်မာနီ၊ အစ်ဗ်နုကဆီရ်)

وَخَلَقَ الْجَآنَّ مِنْ مَّارِجٍ مِّنْ نَّارٍ ﴿١٥﴾

၁၅။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည်ပင် ဂျင်န်သတ္တဝါတို့ကို ဂျင်န်သတ္တဝါတို့၏ဖခင် 'အစ်ဗ်လီစ်'ကို မီးခဲမီးခိုးမရှိသောမီးတောက်ဖြင့် ဖန်ဆင်းတော်မူခဲ့၏။

فَبِاَيِّ اٰلَآءِ رَبِّكُمَا تُكَذِّبٰنِ ﴿١٦﴾

၁၆။ သို့ပါလျက် (အို-ဂျင်န်နှင့် လူသတ္တဝါတို့)၊ အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

رَبُّ الْمَشْرِقَيْنِ وَرَبُّ الْمَغْرِبَيْنِ ﴿١٧﴾

၁၇။ (ထိုအရှင်မြတ်သည်ပင်) နေထွက်ရာအရပ်နှစ်ခုလုံးကို ဖန်ဆင်းတော်မူသောအရှင်၊ နေဝင်ရာအရပ်နှစ်ခုလုံးကို ဖန်ဆင်းတော်မူသောအရှင်ဖြစ်တော်မူ၏။[၁]

فَبِاَيِّ اٰلَآءِ رَبِّكُمَا تُكَذِّبٰنِ ﴿١٨﴾

၁၈။ သို့ပါလျက် (အို-ဂျင်န်နှင့် လူသတ္တဝါတို့)၊ အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

مَرَجَ الْبَحْرَيْنِ يَلْتَقِيٰنِ ﴿١٩﴾

၁၉။ ထိုအရှင်မြတ်သည်ပင် သမုဒ္ဒရာပင်လယ်နှစ်ခုကို လွှတ်တော်မူခဲ့ရာ ထိုသမုဒ္ဒရာ ပင်လယ်နှစ်ခုမှာ ဆုံဆည်း ဆက်စပ်လျက်ရှိကြ၏။ (တစ်နည်း) ထိုအရှင်မြတ်သည်ပင် ဆက်စပ် စီးဆင်းလျက်ရှိသော သမုဒ္ဒရာနှစ်ခုကို လွှတ်တော်မူခဲ့၏။

---

(၁) ဆောင်းဥတု၊ နွေဥတုများတွင် နေထွက်ရာအရပ် ၂-ခု၊နေဝင်ရာအရပ် ၂-ခု ပြောင်းလဲလျက်ဖြစ်ရှိနေသည်မှာ အထင်အရှားပင် ဤသည်ကိုရည်၍ ဤအာယတ်တော်တွင် နေထွက်ရာ အရပ်၂-ခု၏အရှင်၊ နေဝင်ရာအရပ် ၂-ခု၏အရှင်ဟု မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

အချို့က ဤအာယတ်တော်တွင်ပါရှိသော အရှေ့ ၂-ခု၊ အနောက်၂-ခု ဟူသည် နေနှင့်လထွက်ရာအရပ် ၂-ခုနှင့် နေနှင့်လ ဝင်ရာအရပ် ၂-ခုကို ဆိုလိုသည်ဟု ဖွင့်ဆိုကြသည်။ (ကြည့်မာဂျိဒီ၊ ကဗီရ်)။

အသို့ရှိစေ ယင်းသို့ နေ၊ သို့မဟုတ် နေနှင့်လ ထွက်ဝင်သွားလာလှုပ်ရှားရာတွင် အရပ်ဒိသာ ပြောင်းလဲနေသည့်အတွက် ဥတုရာသီ အမျိုးမျိုး ပြောင်းလဲလျက်ရှိပေသည်။အပူအအေးအမျိုးမျိုးပြောင်းလဲလျက် ရှိပေသည်။ ယင်းသို့ ဥတုရာသီ ပြောင်းလဲနေသည့်အလျောက် လူသားတို့သည် အကျိုးအမျိုးမျိုး ခံစားလျက် ရှိကြပေသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားဘိသော တန်ခိုးတော်နှင့် ကျေးဇူးတော်ပင်။

بَيْنَهُمَا بَرْزَخٌ لَّا يَبْغِيَانِ ﴿٢٠﴾

၂၀။ ယင်းပယ်လယ်နှစ်ခု၏အကြား၌ အဆီးအတား တစ်ခု ရှိနေပေရာ ၎င်းတို့နှစ်ခုလုံး ပိုင်နက်ကျူးလွန်နိုင်ကြသည် မရှိပေ။ [၁]

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٢١﴾

၂၁။ သို့ပါလျက် (အို-ဂျင်န်နှင့် လူသတ္တဝါတို့၊) အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

يَخْرُجُ مِنْهُمَا اللُّؤْلُؤُ وَالْمَرْجَانُ ﴿٢٢﴾

၂၂။ ယင်းပင်လယ်နှစ်ခုမှ ပုလဲရတနာများသည်လည်းကောင်း၊ သန္တာ ပင်လယ်ထွက် ကျောက်နီများသည်လည်းကောင်း၊ ထွက်ကြပေသည်။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٢٣﴾

၂၃။ သို့ပါလျက် (အို-ဂျင်န်နှင့် လူသတ္တဝါတို့) အသင်တို့သည် မိမိတို့အား မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

وَلَهُ الْجَوَارِ الْمُنشَآتُ فِي الْبَحْرِ كَالْأَعْلَامِ ﴿٢٤﴾

၂၄။ သမုဒ္ဒရာပင်လယ်၌ တောင်များပမာ(မားမား မတ်မတ်) ရပ်တည်နေကြသော၊ အထင်အရှား ရှိနေကြသော၊ သင်္ဘောများမှာလည်း ထိုအရှင်မြတ်၏ အာဏာစက်အတွင်း၌ ရှိကုန်၏။ [၂]

---

(၁) အလ္လာဟ်အရှင်မြတ်သည် အရောင် အရသာမတူသော ပင်လယ်များမြစ်များကို အံ့ဖွယ်သရဲ ပေါင်းစပ်ထားတော်မူသည်။ သို့ပေါင်းစပ်ထားတော်မူရာတွင် အမြင်၌ ရေပြင် -၂ခု ပေါင်းစပ်နေသည်ဟု ထင်မြင်ရသော်လည်း၊ ရေပြင် ၂-ခုဆုံမိရာ၌ အလ္လာဟ်အရှင်မြတ်သည် သေးသွယ်သော အရံအတားတစ်ခုကို အံ့ဖွယ်သရဲ ပြုလုပ်ထားတော်မူသည်။ ထို့အတွက်ကြောင့်ပင် ရေကြည်သည် ကြည်လျက်ပင်၊ ရေနောက်သည် နောက်လျက်ပင်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော တန်းခိုးတော်နှင့်ကျေးဇူးတော်ပင်။

ဤအကြောင်းကို ကုရ်အာန် (၂၅း၅၃၊ ၂၇း၆၁) တွင် ပါရှိခဲ့လေပြီ။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။

(၂) သမုဒ္ဒရာပင်လယ်များတွင် သင်္ဘောများသည် တောင်ကြီးများပမာ သွားလာ လှုပ်ရှားလျက်ရှိသည်။ သင်္ဘောများဖြင့် လူသားတို့သည် အကျိုးအမျိုးမျိုး ခံစားလျက်ရှိကြသည်။ ➤➤

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٢٥﴾

၂၅။ သို့ပါလျက် (အို-ဂျင်န်နှင့် လူသတ္တဝါတို့)၊ အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

كُلُّ مَنْ عَلَيْهَا فَانٍ ﴿٢٦﴾

၂၆။ ယင်းပထဝီမြေပေါ်၌ ရှိသမျှတို့သည် (မမြဲ) ပျက်စီးဆိတ်သုဉ်းအံ့သောအရာများပင် ဖြစ်ကုန်၏။

وَيَبْقَىٰ وَجْهُ رَبِّكَ ذُو الْجَلَالِ وَالْإِكْرَامِ ﴿٢٧﴾

၂၇။ စင်စစ်သော်ကား အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော၊ တန်ခိုးတော်နှင့် ပြည့်စုံတော်မူသော၊ ကျေးဇူးတော်ရှင်ဖြစ်တော်မူသော၊ *အရှင်မြတ်(တစ်ပါးတည်း)သာလျှင် (ထာဝရ)ကျန်ရှိတော်မူပေမည်။* [၁]

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٢٨﴾

၂၈။ သို့ပါလျက် (အို-ဂျင်န်နှင့် လူသတ္တဝါတို့)၊ အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

---

➤➤ သာမန်အမြင်အားဖြင့် သင်္ဘောများကို လူသားတို့က ပြုလုပ်ကြသည်။ သို့ရာတွင် ထိုလူသားကိုလည်း အလ္လာဟ်အရှင်မြတ်ကပင် ဖန်ဆင်းထားတော်မူသည်။ လူသားအား အသိညဏ်နှင့် စွမ်းရည် သတ္တိများကိုလည်း အလ္လာဟ်အရှင်မြတ်ကပင် ချီးမြှင့်ထားတော်မူသည်။ ယင်းသည့် အသိညဏ်နှင့်စွမ်းရည်သတ္တိများဖြင့် လူသားတို့သည် သင်္ဘောများကို ဆောက်လုပ်ကြည်ဖြစ်ရာ၊ လူသားတို့နှင့် တကွ၊ လူသားတို့ ပြုလုပ်သမျှသော ပစ္စည်းများကိုလည်း အလ္လာဟ်အရှင်မြတ်သည်ပင် ပိုင်ဆိုင်တော်မူသည် မဟုတ်ပါလော။ ဤသည်လည်း အတိုင်းမသိ ကြီးမားဘိသော တန်ခိုးတော်နှင့် ကျေးဇူးတော်ပင်။

(၁) အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိ ကြီးမားဘိသော ကျေးဇူးတော်များကို ခံစားနေကြရသော လူသားတို့သည် ယင်းသည့် ကျေးဇူးတော်များကိုကြည့်ပြီး ငါတို့သည် ကမ္ဘာမြေပေါ်တွင် အမြဲထာဝစဉ် နေကြရတော့မည်ဟူ၍ကား မထင်မှတ်ကြရာ။ ဤကမ္ဘာရှိ သက်ရှိ သက်မဲ့အရာဝတ္ထုအစုစုတို့သည် သခ်ါရမျှသာ ဖြစ်ကြသည်။ ပျက်စီးဆိတ်သုဉ်းသွားကြရမည်သာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်တစ်ပါး တည်းသာလျှင် အမြဲထာဝရ တည်ရှိနေတော်မူမည်ဖြစ်သည်။ အရှင်မြတ်သည် အတိုင်းမသိ ကြီးမားလှဘိသော တန်ခိုးတော်နှင့်လည်း ပြည့်စုံတော်မူသည်။ အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်ရှင်လည်း ဖြစ်တော်မူသည်။ ထိုသည့် ဂုဏ်တော် ၂-ပါးကို ထောက်ချင့်၍ အချို့ပညာရှင်များက တန်ခိုးတော်သည် ကမ္ဘာဆိတ်သုဉ်းမှုကို ရည်ညွှန်းသည်၊ ကျေးဇူးတော်သည် ပြန်လည်ရှင်ထမှုကို ရည်ညွှန်းသည်ဟု အနက်ဖွင့်ကြပေသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။ ကြည့် -မာဂျိဒီ။

يَسْـَٔلُهٗ مَنْ فِى السَّمٰوٰتِ وَالْاَرْضِ ۭ كُلَّ يَوْمٍ هُوَ فِىْ شَاْنٍ ﴿٢٩﴾

၂၉။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည် လည်းကောင်း၊ ပထဝီမြေ၌ ရှိသမျှတို့သည် လည်းကောင်း၊ ထိုအရှင်မြတ်ထံတော်၌သာလျှင် (မိမိတို့၏ အလိုဆန္ဒများကို) တောင်းခံ ကြကုန်၏။ ထိုအရှင်မြတ်သည် နေ့စဉ် အရေးကိစ္စတစ်ခုခုကို ဆောင်ရွက်လျက် ရှိနေတော်မူ၏။ [၁]

فَبِاَيِّ اٰلَاۗءِ رَبِّكُمَا تُكَذِّبٰنِ ﴿٣٠﴾

၃၀။ သို့ပါလျက် (အို-ဂျင်န်နှင့် လူသတ္တဝါတို့)၊ အသင်တို့သည် မိမိတို့အား မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

سَنَفْرُغُ لَكُمْ اَيُّهَ الثَّقَلٰنِ ﴿٣١﴾

၃၁။ အို-ဂျင်န်နှင့် လူသတ္တဝါအပေါင်းတို့၊ မကြာမြင့်မီပင် *ငါအရှင်မြတ်သည် အသင်တို့ဘက်သို့ လှည့်တော်မူမည်။* [၂]

فَبِاَيِّ اٰلَاۗءِ رَبِّكُمَا تُكَذِّبٰنِ ﴿٣٢﴾

၃၂။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

---

(၁) မိုးမြေရှိ သက်ရှိ၊သက်မဲ့ ခပ်သိမ်းကုန်တို့သည် အလ္လာဟ်အရှင်မြတ်အား တောင့်တ ကြောင့်ကြနေကြရကုန်သည်။ ထိုအရှင်မြတ်ထံတော်၌ပင် မိမိတို့၏ လိုအင်ဆန္ဒအဝဝကို ပန်ကြားလျက် ရှိကြကုန်သည်။ ထိုအရှင်မြတ်သည်လည်း မိမိ၏ ကျေးဇူးတော်ဖြင့် အားလုံးတို့အား ထိုက်တန်သည့် အားလျော်စွာ ဖြည့်တင်းပေးတော်မူလျက်ပင် ရှိတော်မူသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားဘိသော ကျေးဇူးတော်တစ်ပါးပင်။

(၂) ဆိုလိုသည်ကား - အလ္လာဟ်အရှင်မြတ်က အို-လူနှင့် ဂျင်န်များ ငါအရှင်မြတ်သည် မကြာမီအတွင်း ဤပစ္စက္ခဘဝ၏ အရေးကိစ္စအဝဝကို နိဂုံးချုပ်တော်မူအံ့။ နောင်တမလွန်ဘဝကို စတင်တော်မူအံ့။ စာရင်းရှင်းတော်မူအံ့။ ကျိုးပြစ်ပေးတော်မူအံ့ဟု သတိပေးထားတော်မူသည်။ ပြစ်မှုကျူးလွန်လျက်ရှိသူများအား မိမိတို့၏ ပြစ်ဒဏ်မလွဲမသွေ မုချခံကြရမည့် အကြောင်းကို ကြိုတင် သတိပေးတော်မူခြင်းဖြင့် အလွန်ကြီးမားသော ကျေးဇူးတော်ပင်၊ အဘယ့်ကြောင့်ဆိုသော် ယင်းသို့ ကြိုတင် သတိပေးတော်မူခြင်းဖြင့် ပြစ်မှုကျူးလွန်လျက်ရှိသော ပုဂ္ဂိုလ်များသည် မိမိတို့၏ အမှားများကို အချိန်မီပြုပြင်နိုင်ကြပေသည်။ ဝန်ချတောင်းပန်နိုင်ကြပေသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

يٰمَعۡشَرَ الۡجِنِّ وَالۡاِنۡسِ اِنِ اسۡتَطَعۡتُمۡ اَنۡ تَنۡفُذُوۡا مِنۡ اَقۡطَارِ السَّمٰوٰتِ وَالۡاَرۡضِ فَانۡفُذُوۡا ؕ لَا تَنۡفُذُوۡنَ اِلَّا بِسُلۡطٰنٍ ۚ﴿۳۳﴾

၃၃။ အို-ဂျင်န်နှင့်လူပရိသတ်အပေါင်းတို့၊ အကယ်၍ အသင်တို့သည် မိုးကောင်းကင်များနှင့် ကမ္ဘာမြေ၏ နယ်နိမိတ်များအတွင်းမှ ထွက်သွားနိုင်ကြလျှင် ထွက်သွားကြကုန်လော့။ (စင်စစ်သော်ကား) စွမ်းအားမရှိဘဲလျက် အသင်တို့သည် ထွက်သွားနိုင်ကြမည်မဟုတ်ပေ။

فَبِاَیِّ اٰلَآءِ رَبِّکُمَا تُکَذِّبٰنِ ﴿۳۴﴾

၃၄။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

یُرۡسَلُ عَلَیۡکُمَا شُوَاظٌ مِّنۡ نَّارٍ ۬ۙ وَّ نُحَاسٌ فَلَا تَنۡتَصِرٰنِ ﴿۳۵﴾

၃၅။ အသင်တို့နှစ်ဦး၏ အပေါ်ဝယ် မီးခိုးမပါသော မီးတောက်မီးလျှံသည်လည်းကောင်း၊ (မီးမပါသော)အခိုးများသည်လည်းကောင်း၊ စေလွှတ်ခြင်းခံရလတ္တံ့။ ထိုအခါ အသင်တို့သည် ဖယ်ရှားနိုင်ကြမည်မဟုတ်။ [၁]

فَبِاَیِّ اٰلَآءِ رَبِّکُمَا تُکَذِّبٰنِ ﴿۳۶﴾

၃၆။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

فَاِذَا انۡشَقَّتِ السَّمَآءُ فَکَانَتۡ وَرۡدَۃً کَالدِّہَانِ ﴿ۚ۳۷﴾

၃၇။ စင်စစ်သော်ကား အကြင်အခါဝယ် မိုးကောင်းကင်သည်အက်ကွဲ၍ အသားနီကဲ့သို့နီရဲလာပေမည်။ [၂]

---

(၁) ဆိုလိုသည်ကား ကိယာမတ်နေ့တွင် အပြစ်ရှိသော ဂျင်န်နှင့် လူသားတို့သည် မိမိတို့အပေါ်သို့ အခိုးအငွေ့များ မီးတောက်မီးလျှံများ လွှတ်ခြင်းကိုပင် ခံကြရပေမည်။ အနည်းစိုးစဉ်းမျှ ဖယ်ရှားနိုင်ကြမည်မဟုတ်ပေ။ တုံ့ပြန်လက်စား ချေနိုင်ကြမည်လည်း မဟုတ်ပေ။

အပြစ်ရှိသူကို အပြစ်ရှိသည့်အလျောက် ပြစ်ဒဏ်ခတ်ခြင်းသည်၊ အမိန့်တော်ကို ရိုသေလေးစားကာ ပြစ်မှုကို ကြဉ်ရှောင်သူများအား ကျေးဇူးပြုရာမည်သည်။ ပြစ်ဒဏ်ခတ်သည့် အကြောင်းကို ပြောပြခြင်းသည်လည်း ကျေးဇူးတော်တစ်ပါးပင်။ အဘယ်ကြောင့်ဆိုသော် ယင်းသို့ပြစ်ဒဏ်ခတ်သည့်အကြောင်းကို ကြားသိရသော သူများသည် မိမိတို့ကိုယ်တိုင် အပြစ်ကျူးလွန်ခြင်းမှ ရှောင်ကြဉ်ကြပေမည်။ ဤသည်လည်း အတိုင်းမသိကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

فَبِاَيِّ اٰلَآءِ رَبِّكُمَا تُكَذِّبٰنِ ﴿٣٨﴾

၃၈။ သို့ဖြစ်ပါလျှက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

فَيَوْمَئِذٍ لَّا يُسْـَٔلُ عَنْ ذَنْۢبِهٖٓ اِنْسٌ وَّلَا جَآنٌّ ﴿٣٩﴾

၃၉။ စင်စစ် ထိုနေ့တွင် မည်သည့်လူ တစ်ဦးတစ်ယောက်မျှလည်းကောင်း၊ မည်သည့်ဂျင်န် တစ်ဦးတစ်ယောက်မျှလည်းကောင်း၊ မိမိအပြစ်နှင့်စပ်လျဉ်း၍ မေးမြန်းခြင်းခံရမည် မဟုတ်ပေ။[၁]

فَبِاَيِّ اٰلَآءِ رَبِّكُمَا تُكَذِّبٰنِ ﴿٤٠﴾

၄၀။ သို့ပါလျှက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့်ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

يُعْرَفُ الْمُجْرِمُوْنَ بِسِيْمٰهُمْ فَيُؤْخَذُ بِالنَّوَاصِيْ وَالْاَقْدَامِ ﴿٤١﴾

၄၁။ အပြစ်ရှိသူများမှာ မိမိတို့၏ ရုပ်ရည်လက္ခဏာဖြင့် သိရှိခြင်း ခံကြရပေမည်။ ထိုအခါ ၎င်းတို့သည် (နဖူးများ)ဦးထိပ်များနှင့် ခြေများကို ဆွဲကိုင် ဖမ်းဆီးခြင်းကို ခံကြရပေမည်။

---

(၂) ကိယာမတ်ဖြစ်သည့်အခါ အလွန်သာယာရှုဖွယ်ရာသော မိုးသည် အက်ကွဲသွားပြီး၊ နီရဲနေသော သားရေကဲ့သို့ ကြောက်ဖွယ်လိလိ ရဲရဲနီ အနီချင်းချင်း ဖြစ်သွားပေမည်။ ကမ္ဘာတွင် အပြောင်း အလဲများ ဖြစ်ခြင်းကြီးမက ဖြစ်သွားချိမ့်မည်။ ဤအကြောင်း ကုရ်အာန် (၂၅း၂၅၊ ၆၉း၁၆၊ ၈၄း၁) တွင်လည်း ပါရှိသည်။ ကိယာမတ်နေ့၏ ဖြစ်အင်ကား အတိုင်းမသိ ကြောက်ရွံ့ဖွယ် ကောင်းလှ ဘိတော့၏။ ဤသည်ကို ကြိုတင် သိရှိရခြင်းမှာလည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

(၁) ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် ကျိုးပြစ်ပေးတော်မူရာ၌ ဖြစ်ရပ်မှန်ကို သိရှိရန်အတွက် မည်သူ့ကိုမျှ မေးမြန်းစုံးစမ်းနေတော်မူမည်မဟုတ်ပေ။ ထိုအရှင်မြတ်အဖို့ မေးမြန်း စုံးစမ်းနေတော်မူရန်လည်း မလိုပေ။ အကြောင်းသော် ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့ သိရှိတော်မူပြီး ဖြစ်သည်။ မေးမြန်းတော်မူခြင်းမှာ- သက်ဆိုင်ရာပုဂ္ဂိုလ်အား သိစေတော်မူရန် အခြားပုဂ္ဂိုလ်များအား သိရှိတော်မူရန် သက်ဆိုင်ရာပုဂ္ဂိုလ်က ပြန်လည်စောဒကမဝင်နိုင်ရန် သို့တည်းမဟုတ်၊ သက်ဆိုင်ရာပုဂ္ဂိုလ်၏ ပြစ်မှု ထင်ရှားသည်ထက် ထင်ရှားစေရန်သာဖြစ်သည်။ (ကြည့် - မာဂျိဒီ)။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٤٢﴾

၄၂။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

هَٰذِهِ جَهَنَّمُ الَّتِي يُكَذِّبُ بِهَا الْمُجْرِمُونَ ﴿٤٣﴾

၄၃။ (ထိုမှတစ်ပါး ၎င်းတို့သည် မိန့်ကြားတော်မူခြင်းကို ခံကြရပေမည်)။ ဤသည်ပင်လျှင် အပြစ်ရှိသူများ၊ မဟုတ်မမှန်ဟူ၍ ငြင်းပယ်လျက် ရှိခဲ့ကြသော 'ဂျဟန္နမ်' ငရဲ ဖြစ်သည်။

يَطُوفُونَ بَيْنَهَا وَبَيْنَ حَمِيمٍ آنٍ ﴿٤٤﴾

၄၄။ ထိုအပြစ်ရှိသူတို့ကား ယင်း'ဂျဟန္နမ်'ငရဲနှင့် ပွက်ပွက်ဆူလျက်ရှိသော ရေနွေးပူ၏အကြား၌ လှည့်ပတ်လျက် နေကြရပေမည်။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٤٥﴾

၄၅။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

وَلِمَنْ خَافَ مَقَامَ رَبِّهِ جَنَّتَانِ ﴿٤٦﴾

၄၆။ ထိုမှတစ်ပါး မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ရှေ့တော်မှောက်၌ မတ်တပ်ရပ်ရန် စိုးရိမ်သောသူ၏အဖို့မှာကား *ဥယျာဉ်နှစ်ခုရှိပေမည်*။[၁]

---

(၁) 'တစ်ရက် ငါသည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် မတ်တက်ရပ်ရမည်။ မိမိပြောဆိုကျင့်မူခဲ့သည်များနှင့် စပ်လျဉ်း၍ တစ်ခုတစ်ခုစီ စာရင်းရှင်းရမည်။ ကျိုးပြစ်ခံစံရမည်' ဖြစ်သည်ဟု တွေးဆဆင်ခြင်ပြီး၊ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကာ၊ ထိုအရှင်မြတ်၏ တရားတော်များကို ဦးထိပ်ရွက်ပန်ဆင်ကာ၊ ကောင်းမှုများကို ဆည်းပူး၍ မကောင်းမှု များကို ဝေးစွာရှောင်ကြဉ်သောသူများ အဖို့မှာကား၊ သုခချမ်းသာ အဖြာဖြာနှင့် ပြည့်ဝစုံလင်လှသော ဥယျာဉ် ၂-ခုရှိပေမည်။ ထိုဥယျာဉ် ၂-ခု၏ ဝိသေသများကား အံ့ချီးမဆုံးတည်း။ ရှေ့တွင် ယင်းဥယျာဉ် ၂-ခု၏ အတိုင်းမသိ ကောင်းမွန်မြင့်မြတ်လှသည့် အချို့ဝိသေသများကို မိန့်ဆိုထားတော်မူသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

فَبِاَیِّ اٰلَآءِ رَبِّکُمَا تُکَذِّبٰنِ ﴿٤٧﴾

၄၇။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

ذَوَاتَاۤ اَفۡنَانٍ ﴿٤٨﴾

၄၈။ အကိုင်းအလက်များ ပေါများဝေဆာလျက် ရှိကြသော၊

فَبِاَیِّ اٰلَآءِ رَبِّکُمَا تُکَذِّبٰنِ ﴿٤٩﴾

၄၉။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

فِیۡهِمَا عَیۡنٰنِ تَجۡرِیٰنِ ﴿٥٠﴾

၅၀။ ယင်းဥယျာဉ်နှစ်ခုလုံး၌ စမ်းချောင်းနှစ်ခုသည် စီးတွေလျက် ရှိကြပေမည်။

فَبِاَیِّ اٰلَآءِ رَبِّکُمَا تُکَذِّبٰنِ ﴿٥١﴾

၅၁။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

فِیۡهِمَا مِنۡ کُلِّ فَاکِهَةٍ زَوۡجٰنِ ﴿٥٢﴾

၅၂။ ယင်းဥယျာဉ်နှစ်ခုလုံးတွင် သစ်သီးတိုင်းသည် နှစ်မျိုးနှစ်စား ရှိကြပေမည်။

فَبِاَیِّ اٰلَآءِ رَبِّکُمَا تُکَذِّبٰنِ ﴿٥٣﴾

၅၃။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

مُتَّکِـِٕیۡنَ عَلٰی فُرُشٍۢ بَطَآئِنُهَا مِنۡ اِسۡتَبۡرَقٍ ؕ وَ جَنَا الۡجَنَّتَیۡنِ دَانٍ ﴿٥٤﴾

၅၄။ (၎င်းတို့သည်) ရွှေချည်များဖြင့် ပန်းထိုးထားသောပိုးဖဲအတွင်းခံထားသည့် မွေ့ရာများပေါ် (ထိုင်၍ မှီအုံးများကို)မှီလျက် ရှိကြပေမည်။

ငင်းပြင် ဥယျာဉ်နှစ်ခုလုံး၏အသီးများမှာလည်း နီးကပ်စွာပင် ရှိကြပေမည်။ [၁]

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ۝٥٥

**၅၅။** သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

فِيهِنَّ قَاصِرَاتُ الطَّرْفِ لَمْ يَطْمِثْهُنَّ إِنْسٌ قَبْلَهُمْ وَلَا جَانٌّ ۝٥٦

**၅၆။** ယင်း(ဥယျာဉ်များနှင့် ဥယျာဉ်များရှိ အဆောက်အအုံ)တို့တွင် မျက်စိကို အောက်သို့နှိမ့်ချထားသော မိန်းမပျိုများသည်လည်း ရှိကြပေမည်။ ၎င်းတို့အလျင် မည်သည့် လူသား တစ်ဦးတစ်ယောက်မျှလည်း ထို မိန်းမပျိုတို့အား ထိတွေ့ခဲ့ဖူးသည်မရှိပေ။ မည်သည့် ဂျင်န် တစ်ဦးတစ်ယောက်မျှလည်း ထိတွေ့ခဲ့ဖူးသည် မရှိချေ။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ۝٥٧

**၅၇။** သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

كَأَنَّهُنَّ الْيَاقُوتُ وَالْمَرْجَانُ ۝٥٨

**၅၈။** ထိုမိန်းမပျိုတို့မှာ ပတ္တမြားကဲ့သို့လည်းကောင်း၊ သန္တာကျောက်ကဲ့သို့လည်းကောင်း၊ ရှိကြပေမည်။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ۝٥٩

**၅၉။** သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

---

(၁) ဂျန္နတ်၌ မွတ္တကီ သူတော်စင်များ စံစားကြရမည့် သုခများကို ထောက်ရှုခြင်း အားဖြင့် ယင်းသုခများတွင် နာမ်ပိုင်းဆိုင်ရာ သုခများသာမက ရုပ်ပိုင်းဆိုင်ရာ သုခအဖြာဖြာ ပါဝင်နေသည်ကိုလည်း အထင်အရှား သိရှိနိုင်ပေသည်။ ကြည့်-မာဂျိဒီ

هَلْ جَزَآءُ الْإِحْسَانِ إِلَّا الْإِحْسَانُ ﴿٦٠﴾

၆၀။ အမိန့်တော်ကို ကြည်ညိုလေးမြတ်စွာ နာခံခြင်း၏အကျိုးကား ကျေးဇူးပြုတော်မူခြင်းမှတစ်ပါး အခြားမရှိပြီ။ [၁]

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٦١﴾

၆၁။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြ အံ့နည်း။

وَمِنْ دُونِهِمَا جَنَّتَانِ ﴿٦٢﴾

၆၂။ ထိုမှတစ်ပါး ဥယျာဉ်နှစ်ခု-အပြင်လည်း ဥယျာဉ်နှစ်ခု ရှိ၏။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٦٣﴾

၆၃။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြ အံ့နည်း။

مُدْهَآمَّتَانِ ﴿٦٤﴾

၆၄။ ယင်း(ဥယျာဉ်)နှစ်ခုလုံးမှာ အစိမ်းရင့် ကျောက် မီးသွေးနရောင် ဖြစ်၏။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٦٥﴾

၆၅။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြ အံ့နည်း။

---

(၁) 'အစ်ဟ်စာန်' ၏ အဓိပ္ပာယ်မှာ ကောင်းမွန်စွာ ပြုလုပ်ခြင်းဟုဖြစ်သည်။ ဆိုလိုသည်ကား - ကျွန်များသည် ဤပစ္စက္ခ၌ အမိန့်တော်များကို နာခံရာတွင် ကောင်းမွန်စွာ ပြုလုပ်ပြသကြသည်ဖြစ် ရာ၊ နောင်တမလွန်ဘဝ၌ အရှင်သခင်ဘက်တော်မှ ဆုလာဘ်ချီးမြှင့်တော်မူရာတွင်လည်း ကောင်းမွန်စွာ ပြုလုပ်ပြသတော်မူမည်သာ။ အတိုင်းမသိ ကြီးမားသော ဆုလာဘ်များကိုပင်ထပ်မံဖြည့်စွက် ချီး မြှင့်တော်မူဦးမည်သာ။ ဤသည့်သဘောကို ကုရ်အာန် (၁၀း၂၆) တွင်လည်း မိန့်ဆိုထားတော်မူသည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

فِيهِمَا عَيْنَانِ نَضَّاخَتَانِ ﴿٦٦﴾

၆၆။ ယင်းဥယျာဉ်နှစ်ခု၌ ပန်းထွက်လျက်ရှိသော စမ်းနှစ်ခုသည် ရှိကြပေမည်။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٦٧﴾

၆၇။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

فِيهِمَا فَاكِهَةٌ وَنَخْلٌ وَرُمَّانٌ ﴿٦٨﴾

၆၈။ ယင်းဥယျာဉ်နှစ်ခု၌ သစ်သီးဝလံများသည် လည်းကောင်း၊ စွန်ပလွံပင်များသည် လည်းကောင်း၊ သလဲသီးများသည် လည်းကောင်း၊ ရှိကြပေမည်။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٦٩﴾

၆၉။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

فِيهِنَّ خَيْرَاتٌ حِسَانٌ ﴿٧٠﴾

၇၀။ ယင်း(ဥယျာဉ်များနှင့်ဥယျာဉ်များရှိ အဆောက်အအုံ)တို့တွင် စာရိတ္တအားဖြင့် မွန်မြတ်သော၊ ရုပ်ရည်အားဖြင့် လှပတင့်တယ်သော မိန်းမများသည် ရှိကြပေမည်။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٧١﴾

၇၁။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကိုမဟုတ်မမှန်ဟူ၍ငြင်းပယ်ကြအံ့နည်း။

حُورٌ مَّقْصُورَاتٌ فِي الْخِيَامِ ﴿٧٢﴾

၇၂။ လွန်စွာဖြူ၍လှပသော၊ မဏ္ဍပ်ကနားဖျင်းများတွင် ထိန်းသိမ်းစောင့်ရှောက်ထားခြင်းခံရသော၊ မိန်းမများသည် ရှိကြပေမည်။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٧٣﴾

၇၃။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကိုမဟုတ်မမှန်ဟူ၍ငြင်းပယ်ကြအံ့နည်း။

لَمْ يَطْمِثْهُنَّ إِنْسٌ قَبْلَهُمْ وَلَا جَانٌّ ﴿٧٤﴾

၇၄။ ၎င်းတို့အလျှင် ထိုမိန်းမတို့အား မည်သည့် လူသားတစ်ဦးတစ်ယောက်မျှလည်းကောင်း၊ မည်သည့် ဂျင်န်တစ်ဦးတစ်ယောက်မျှလည်းကောင်း၊ ထိတွေ့ခဲ့ဖူးသည် မရှိပြီ။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٧٥﴾

၇၅။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

مُتَّكِئِينَ عَلَىٰ رَفْرَفٍ خُضْرٍ وَعَبْقَرِيٍّ حِسَانٍ ﴿٧٦﴾

၇၆။ (၎င်းတို့သည်) အစိမ်းရောင် ကော်ဇောများပေါ်၌ လည်းကောင်း၊ လွန်စွာ အံ့ဖွယ်ကောင်းသော အခင်းအကျင်းပေါ်၌ လည်းကောင်း၊ (ထိုင်၍ မှီအုံးများကို) မှီလျက် ရှိကြပေမည်။

فَبِأَيِّ آلَاءِ رَبِّكُمَا تُكَذِّبَانِ ﴿٧٧﴾

၇၇။ သို့ပါလျက် အသင်တို့နှစ်ဦးသည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ မည်သည့် ကျေးဇူးတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြအံ့နည်း။

تَبَارَكَ اسْمُ رَبِّكَ ذِي الْجَلَالِ وَالْإِكْرَامِ ﴿٧٨﴾

၇၈။ (အို-နဗီတမန်တော်)၊ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောတန်ခိုးတော်ရှင်၊ ကျေးဇူးတော်ရှင်၏နာမံတော်သည် ကျက်သရေ မင်္ဂလာအပေါင်းနှင့် ပြည့်စုံပါပေသည်တကား။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ်၏တန်ခိုးတော်ကား အတိုင်းမသိ ထက်မြက်ပါဘိတကား။ ထိုအရှင်မြတ်၏ ကရုဏာတော်ကား အတိုင်းမသိ များပြားကြီးမားပါဘိတကား။ ထိုအရှင်မြတ်၏ နာမံတော်ကား အတိုင်းမသိ မင်္ဂလာရှိလှပါဘိတကား။ ထိုဉာဉ်များမြောင်လှသော ကျေးဇူးတော်များသည် ထိုနာမံတော်ကို အောက်မေ့တသ သတိရခြင်း၏ အကျိုးပင် ဖြစ်ပေရာ၊ ကျွန်ုပ်တို့သည် အခါ ခပ်သိမ်း ထိုအရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကာ၊ အောက်မေ့ တသ သတိရကာ၊ ထိုအရှင်မြတ်၏ အမိန့်တော်များကို နာယူကျင့်မူကြပါက၊ ထိုအရှင်မြတ်၏ အတိုင်းမသိ များပြားလှသော ကျေးဇူးတော်များကို ခံစားကြရမည်မှာ အမှန်မုချပါ။

# အဖြစ်အပျက်ကဏ္ဍ



ဤကဏ္ဍသည် 'ဝါကိအဟ်' အဖြစ်အပျက် ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် (အာယတ်တော်) (၉၆)ပါး (ရုကူအ်) အပိုဒ် (၃)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊ အထူး ကရုဏာပြုတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

إِذَا وَقَعَتِ الْوَاقِعَةُ ①

၁။ အကြင်အခါဝယ် အဖြစ်အပျက် (ကိယာမတ် ရှင်ပြန်ထမည့်နေ့)သည် ဖြစ်ခဲ့အံ့။

لَيْسَ لِوَقْعَتِهَا كَاذِبَةٌ ②

၂။ ယင်းအဖြစ်အပျက် (ကိယာမတ်) ဖြစ်မှုနှင့် စပ်လျဉ်း၍ မမှန်ဟူ၍မရှိပြီ။

خَافِضَةٌ رَّافِعَةٌ ③

၃။ (ယင်းအဖြစ်အပျက်သည် အချို့အား) နိမ့်စေ၍ (အချို့အား) မြင့်စေမည်။ ၁

إِذَا رُجَّتِ الْأَرْضُ رَجًّا ④

၄။ အကြင်အခါဝယ် ကမ္ဘာမြေသည် ပြင်းထန်စွာ တုန်လှုပ်စေခြင်းကို ခံရပေမည်။

وَّبُسَّتِ الْجِبَالُ بَسًّا ⑤

၅။ ၎င်းပြင် တောင်များသည် ညက်ညက်ကြေ အောင်ကြေမွစေခြင်းကို ခံကြရမည်။

فَكَانَتْ هَبَاءً مُّنْۢبَثًّا ⑥

၆။ ထိုအခါ ယင်းတောင်များမှာ ဖြန့်ကြဲထားသော မြူမှုန့် ဖြစ်သွားကြပေမည်။

---

(၁) ကိယာမတ်သည် အချို့ကိုနိမ့်ကျစေသည်။ အချို့ကိုမြင့်တင်ပေမည်။ ဆိုလိုသည်ကား ဤပစ္စက္ခတွင် မောက်မာပလွား ဝါကြွား၍ အမိန့်တော်ကို သွေဖည်ဆန့်ကျင်နေခဲ့ကြသော သူယုတ်မာများသည် ကိယာမတ်နေ့တွင် အရှက်တကွဲ အကျိုးနည်းဖြစ်ကြရပေမည်။ ဂျဟန္နမ်ငရဲ၏ အောက်ဆုံး အနိမ့်ဆုံးအဆင့်တွင် လားကြရပေမည်။

ဤပစ္စက္ခတွင် အမိန့်တော်ကို နာခံကာ ကျိုးနွံ စွာနေထိုင်ခဲ့ကြသော မုအ်မင်န်သူတော်စင်များမှာကား၊ မိမိတို့၏ မှန်ကန်သောအီမာန်ယုံကြည်မှုနှင့် ကောင်းမြတ်သောအကျင့်သီလများ၏ ကျေးဇူးကြောင့် ဘေးမသီ ရန်မခဘဲ အရှက်တကွဲ အကျိုးနည်းမဖြစ်ရဘဲ၊ ဂုဏ်သိက္ခာရှိစွာဖြင့် ဂျန္နတ်၏ အလွန်မြင့်စွင့်သော ဘုံများတွင် အမြဲထာဝစဉ် စံစားလျက်ရှိကြပေမည်။

وَّكُنْتُمْ اَزْوَاجًا ثَلٰثَةً ۝٧

၇။ ထိုမှတစ်ပါး အသင်တို့သည် သုံးမျိုးသုံးစား ဖြစ်သွားကြပေမည်။ [၁]

فَاَصْحٰبُ الْمَيْمَنَةِ ۙ مَآ اَصْحٰبُ الْمَيْمَنَةِ ۝٨

၈။ မည်သို့ပင်ဖြစ်စေ လက်ယာဘက်သားတို့မှာ၊ ထိုလက်ယာဘက်သားတို့ကား အဘယ်မျှလောက် ကောင်းမြတ်ပေသနည်း။ [၂]

وَاَصْحٰبُ الْمَشْـَٔمَةِ ۙ مَآ اَصْحٰبُ الْمَشْـَٔمَةِ ۝٩

၉။ သို့ရာတွင် လက်ဝဲဘက်သားတို့မှာ၊ လက်ဝဲဘက်သားတို့ကား အဘယ်မျှလောက် ဆိုးရွားလှဘိသနည်း။ [၃]

---

(၁) **သုံးမျိုးသုံးစား၊**

ကိယာမတ်နေ့တွင် လူသားအားလုံးတို့သည် အောက်ပါအတိုင်း သုံးမျိုးသုံးစား ဖြစ်သွားကြပေမည်။

(၁) (မုကရ်ရဗီန်) အလ္လာဟ်အရှင်မြတ်နှင့် အထူးတလည်နီးစပ်သော သူတော်စင်ကြီးများ

(၂) ရိုးရိုး မွတ်စ်လင်မ် သူတော်စင်များ၊

(၃) ဂျဟန္နမ်ငရဲသို့ လားကြရမည့် ကာဖိရ်သူယုတ်မာများ၊

ကုရ်အာန်ကျမ်းမြတ်တွင် ယင်းသုံးမျိုးသုံးစားအနက် ပထမအုပ်စုကို 'မုကရ်ရဗီန်' ဟူ၍ လည်းကောင်း၊ ဒုတိယအုပ်စုကို 'အတ်ဆ်ဟာဗုလ်မိုင်မနဟ်' လက်ယာဘက်သားများ ဟူ၍လည်းကောင်း၊ တတိယအုပ်စုကို 'အတ်ဆ်ဟာဗုလ်မရှ်အမဟ်' လက်ဝဲဘက်သားများဟူ၍လည်းကောင်း၊ အသီးသီးအမည် ပညတ် ထားတော်မူသည်။

ရှေ့တွင် အထက်ပါ သုံးမျိုးသုံးစား၏အကြောင်းနှင့် ၎င်းတို့ ခံ-စံကြရမည့်ကျိုးပြစ်များကို မိန့်ဆို ထားတော်မူသည်။ ယင်း သုံးမျိုးသုံးစား၏ အကြောင်း ယခင်ကဏ္ဍတွင်လည်း ပါရှိခဲ့ချေပြီ။

(၂) လက်ယာဘက်သားများ ဟူသည်ကား အကြင်သူတော်စင်များတည်း။ ၎င်းတို့သည် 'အရ်ရှ်' ပလ္လင်တော်၏ လက်ယာဘက်တွင်နေကြရပေမည်။ 'မီဆာက်' ပဋိညာဉ်ယူခဲ့စဉ်က ၎င်းတို့သည် ဖခင်ကြီးအာဒမ်၏ လက်ယာ နံဘေးမှ ထုတ်ယူခြင်း ခံခဲ့ကြရပေသည်။ ၎င်းတို့၏မှတ်တမ်းများသည်လည်း ၎င်းတို့၏ လက်ယာဘက် လက်များ၌ပင် ပေးအပ်ခြင်း ခံကြရပေမည်။ ကောင်းကင်တမန်များသည်လည်း ၎င်းတို့အား လက်ယာဘက်မှပင် လာရောက်ခေါ်ဆောင်ကြပေမည်။ ဤအုပ်စုကား မင်္ဂလာရှိလှပါဘိတကား။

တမန်တော်မြတ် မိအ်ရာဂျ်သို့ ကြွမြန်းသွားတော်မူခဲ့စဉ် ဖခင်ကြီးအာဒမ်နှင့်လည်း တွေ့တော်မူခဲ့သည်။ ဖခင်ကြီးအာဒမ်သည် မိမိ၏လက်ယာဘက်သို့ကြည့်၍ ပြုံးရွှင်တော်မူ၏။ လက်ဝဲဘက်သို့ကြည့်၍ ငိုတော်မူ၏။ ယင်းသည့်ဖြစ်ရပ်သည်လည်း အထက်တွင်ဖော်ပြပါ လက်ယာဘက်သားများနှင့် လက်ဝဲဘက်သားများကိုပင် ရည်ညွှန်းခြင်း ဖြစ်၏။

ဝိညာဉ်လောကတွင် အလ္လာဟ်အရှင်မြတ်သည် လူသားတို့ထံမှ 'မီဆာက်' ပဋိညာဉ် ယူထားတော်မူ ခဲ့သည့် အကြောင်းကုရ်အာန် (၇း၁၇၂) တွင်ပါရှိသည်။

وَالسّٰبِقُوْنَ السّٰبِقُوْنَ ۝١٠

၁၀။ ထိုမှတစ်ပါး အသာဆုံးသောသူတို့မှာ အသာဆုံးသောသူများပင် ဖြစ်ကြကုန်၏။

اُولٰٓئِكَ الْمُقَرَّبُوْنَ ۝١١

၁၁။ ထိုသူတို့ကား (အလ္လာဟ်အရှင်မြတ်နှင့်) အထူးနီးစပ်သောသူများပင်။ [၁]

فِىْ جَنّٰتِ النَّعِيْمِ ۝١٢

၁၂။ (၎င်းတို့မှာကား) ထာဝရစည်းစိမ်နှင့် ပြည့်စုံသောဥယျာဉ်များ၌ ရှိကြကုန်အံ့သတည်း။

ثُلَّةٌ مِّنَ الْاَوَّلِيْنَ ۝١٣

၁၃။ (ယင်းဥယျာဉ်များတွင်) ရှေးသူဟောင်းတို့အနက်မှ အလွန်ကြီးမားများပြားသော အုပ်စုကြီးတစ်ခု ရှိပေမည်။

وَقَلِيْلٌ مِّنَ الْاٰخِرِيْنَ ۝١٤

၁၄။ ၎င်းပြင် နောင်လာနောင်သားတို့ အနက်မှ အနည်းငယ် ရှိကြပေမည်။ [၂]

---

(၃) လက်ဝဲဘက်သားများ ဟူသည်ကား - အကြင်သူယုတ်မာများတည်း။ ၎င်းတို့သည် 'မီဆာက' ပဋိညာဉ်ယူခဲ့စဉ်က ဖခင်ကြီး အာဒမ်၏ လက်ဝဲနံဘေးမှ ထုတ်ယူခြင်းခံခဲ့ကြရပေသည်။ ၎င်းတို့သည် 'အရ်ရှ်' ပလ္လင်တော်၏ လက်ဝဲဘက်၌ မတ်တက်ရပ်စေခြင်းခံကြရပေမည်။ ၎င်းတို့၏ မှတ်တမ်းများသည်လည်း ၎င်းတို့၏ လက်ဝဲလက်များ၌ပင် ပေးအပ်ခြင်း ခံကြရပေမည်။ ကောင်းကင် တမန်များသည်လည်း ၎င်းတို့အား လက်ဝဲဘက်မှပင် လာရောက်ဖမ်းဆီးကြပေမည်။ ဤအုပ်စုကား မင်္ဂလာမဲ့လူပါဘိတကား။

(၁) ရှေ့ဆုံး အသာဆုံးသူများ ဟူသည်ကား အကြင်သူတော်စင်ကြီးများတည်း။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ ပညာအရာတွင်လည်းကောင်း၊ အကျင့်သီလအရာတွင်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားရာတွင်လည်းကောင်း၊ အားလုံးထက် ရှေ့ဆုံးက ဖြစ်ခဲ့ကြပေသည်။ အသာဆုံး ဖြစ်ခဲ့ကြပေသည်။ ထိုသူတော်စင်ကြီးများသည် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်များကိုလည်း အများဆုံး ခံယူကြရပေမည်။ အလ္လာဟ်အရှင်မြတ်၏ ထံတော်ပါး၌ 'အရ်ရှ်' ပလ္လင်တော်၏အနီးတွင် အနီးစပ်ဆုံး ခံစားခွင့်၊ ခစားခွင့်လည်းရရှိကြပေမည်။ ယင်းသူ တော်စင်ကြီးများတွင် (နဗီ၊ ရစူလ်)တမန်တော်များ၊ သစ္စာဝါဒီများ၊ အစ္စလာမ့်အာဇာနည် စသည့် သူတော်စင်ကြီးများ ပါဝင်ကြပေသည်။

(၂) 'ရှေး သူဟောင်းတို့ အနက်မှ အလွန်ကြီးကျယ်များပြားသော အုပ်စုကြီးတစ်ခု ရှိပေမည်။ ၎င်းပြင် နောင်လာနောင်သားတို့အနက်မှ အနည်းငယ်သာ ရှိကြပေမည်'။ ဤအာယတ်တော်၏ အနက်သဘောကား အသို့ပါနည်း။ ဤတွင် အဖွင့်အမျိုးမျိုး တွေ့ ရှိရပေသည်။

(၁) ရှေးသူဟောင်းများဟူသည် အတိတ်ခေတ်အုပ်စုများကို ဆိုလိုသည်။ နောင်လာနောင်သားတို့ဟူသည် တမန်တော်မြတ်အုပ်စုကို ဆိုလိုသည်။

(၂) ရှေးနှောင်းဟူသည် အခြားမဟုတ်၊ တမန်တော်မြတ်၏ အုပ်စုကိုပင်ဆိုလိုသည်။ ဆိုလိုသည်ကား အလွန်အဆင့်အတန်းမြင့်မားသော ပုဂ္ဂိုလ်မွန်များသည် ရှေးယခင်က အများအပြား ပေါ်ထွန်းခဲ့ကြပေပြီ၊ ➤➤

عَلٰى سُرُرٍ مَّوْضُوْنَةٍ ﴿١٥﴾

၁၅။ (၎င်းတို့မှာ) ကျောက်သံပတ္တမြားစီ၍ မြှုပ်ထားသော သလွန်များထက်ဝယ်၊

مُّتَّكِـِٕيْنَ عَلَيْهَا مُتَقٰبِلِيْنَ ﴿١٦﴾

၁၆။ (မှီအုံးများကို)မှီလျက် မျက်နှာချင်းဆိုင်ထိုင်လျက် ရှိနေကြပေမည်။

يَطُوْفُ عَلَيْهِمْ وِلْدَانٌ مُّخَلَّدُوْنَ ﴿١٧﴾

၁၇။ ၎င်းတို့ထံ အသက်သေဆုံးခြင်းမရှိဘဲ၊ အမြဲထာဝရ နုငယ်လျက် ရှိနေကြရအံ့သော သူငယ်တို့ လှည့်ပတ် သွားလာလျက် ရှိကြပေမည်။

بِاَكْوَابٍ وَّاَبَارِيْقَ ۙ وَكَاْسٍ مِّنْ مَّعِيْنٍ ﴿١٨﴾

၁၈။ သောက်ရေဖလားများ၊ ရေတကောင်းများနှင့် သွင်သွင်စီးသော အရက်ဖြင့် ပြည့်လျှံလျက်ရှိသော ခွက်များကို ယူဆောင်၍၊

لَّا يُصَدَّعُوْنَ عَنْهَا وَلَا يُنْزِفُوْنَ ﴿١٩﴾

၁၉။ ၎င်းတို့မှာ ထိုအရက်ကြောင့် ခေါင်းခဲခြင်းကိုလည်း ခံစားကြရမည် မဟုတ်ပေ။ သတိလစ်ကြမည်လည်း မဟုတ်ချေ။ ၁

---

➤➤ ထိုသို့သောပုဂ္ဂိုလ်များသည် နှောင်းခေတ်များတွင်အလွန် နည်းကြပေသည်ဟူ၏။

**မှတ်ချက်။** အထက်ပါ အာယတ်တော်တွင် ဖော်ပြပါ အဆို - ၂ရပ်လုံး အကျုံး ဝင်နိုင်ပေသည်။ အစ်ဗ်နကဆီရ်သည် ဒုတိယအဆိုကို ပိုမိုနှစ်ခြိုက်သည်။

(၃) သာသနာဝင်အုပ်စုတိုင်း၌ ပထမပိုင်းအုပ်စုတွင် သက်ဆိုင်ရာတမန်တော်နှင့် အတူတကွ လက်ပွန်းတတီးနေထိုင်၍ တရားတော်များကို ကြားနာရသည့် ကျေးဇူးကြောင့်သော်လည်းကောင်း၊ သက်ဆိုင်ရာ တမန်တော်နှင့် အချိန်ကာလ နီးစပ်မှု၏ ကျေးဇူးကြောင့်သော်လည်းကောင်း၊ အဆင့်အတန်း အလွန်မြင့်မားသော သူတော်စင်များ အများအပြား ပေါ်ထွန်းလေ့ရှိခဲ့ပေသည်။ နောက်ပိုင်းအုပ်စုများတွင်မူကား ထိုသို့ အဆင့်အတန်း မြင့်မားသော သူတော်စင်များ အများအပြား ပေါ်ထွန်းလေ့မရှိခဲ့ပေ။ အနည်းငယ်သာ ပေါ်ထွန်းလေ့ရှိခဲ့ပေသည်။ ဤသည့်သဘောကိုပင် ရည်ညွှန်း၍ တမန်တော်မြတ်ကလည်း:

( خير القرون قرنى ثم الذين يلونهم ثم الذين يلونهم )

'အကောင်းဆုံးခေတ်သည် ကျွန်ုပ်တို့ခေတ်ဖြစ်သည်။ ထို့နောက်သော် ၎င်းတို့နှင့် နီးကပ်လျက်ရှိသော ပုဂ္ဂိုလ်များ၊ ထို့နောက်သော် ထိုသူများနှင့် နီးကပ်လျက်ရှိသော ပုဂ္ဂိုလ်များ ဖြစ်သည်'ဟု မိန့်ကြားတော်မူခဲ့ပေသည်။ မောင်လာနာ အွတ်ဆ်မာနီသည် ဤတတိယအဆိုကို ပိုမိုနှစ်ခြိုက်သည်။ ကြည့်-အွတ်ဆ်မာနီ။ အစ်ဗ်နကဆီရ်။

① ဤပစ္စက္ခနှင့်ဂျန္နတ်သည် မည်သို့မျှမနှိုင်းယှဉ်အပ်သည့်အလား ဤပစ္စက္ခရှိအရက်နှင့် ဂျန္နတ်ရှိအရက်သည်လည်း အလျှင်း မနှိုင်းယှဉ်အပ်ပေ။ ဤပစ္စက္ခရှိ အရက်ကို သောက်သုံးပါက ဦးခေါင်းခဲသည်။ သတိလစ်သည်။ ဂျန္နတ်ရှိ အရက်ကို သောက်သုံးခြင်းဖြင့် ဦးခေါင်းခဲမည်မဟုတ်ပေ။ သတိလစ်မည်လည်း မဟုတ်ပေ။ ➤➤

وَفَاكِهَةٍ مِّمَّا يَتَخَيَّرُونَ ﴿٢٠﴾

၂၀။ ထို့ပြင် ၎င်းတို့နှစ်လိုကြသော သစ်သီးဝလံများ(ကို ယူဆောင်၍)၊

وَلَحْمِ طَيْرٍ مِّمَّا يَشْتَهُونَ ﴿٢١﴾

၂၁။ ထိုမှတစ်ပါး ၎င်းတို့နှစ်သက်ကြသော ငှက်သားများ(ကို ယူဆောင်၍)၊

وَحُورٌ عِينٌ ﴿٢٢﴾

၂၂။ ထိုမှတစ်ပါး (၎င်းတို့အဖို့) လွန်စွာဖြူ၍ တင့်တယ်သော၊ မျက်စိပြူး၍လှပသော မိန်းမများလည်း ရှိကြပေမည်။

كَأَمْثَالِ اللُّؤْلُؤِ الْمَكْنُونِ ﴿٢٣﴾

၂၃။ လျှို့ဝှက်၍ထားရှိသော ပုလဲများပမာ။

جَزَاءً بِمَا كَانُوا يَعْمَلُونَ ﴿٢٤﴾

၂၄။ (ဤသည်) ၎င်းတို့ ကျင့်မူဆောက်တည်လျက် ရှိခဲ့ကြလေသော ကောင်းမှုများ၏ အစားပေးတော်မူခြင်းပင်။

لَا يَسْمَعُونَ فِيهَا لَغْوًا وَلَا تَأْثِيمًا ﴿٢٥﴾

၂၅။ ထိုသူတို့သည် ယင်းဥယျာဉ်များ၌ မည်သည့် မရေမရာသော စကားလုံးမျှ လည်းကောင်း၊ မည်သည့် အပြစ်ဖြစ်စေသော စကားကိုမျှ လည်းကောင်း၊ ကြားရမည် မဟုတ်ပေ။

إِلَّا قِيلًا سَلَامًا سَلَامًا ﴿٢٦﴾

၂၆။ 'စလာမ်' 'စလာမ်' (ဘေးရန်ခပ်သိမ်း ကင်းငြိမ်းပါစေ၊ ဘေးရန်ခပ်သိမ်းကင်းငြိမ်းပါစေ)ဟူ၍ပြောဆိုခြင်းကိုသာလျှင် (ကြားကြရကုန်အံ့သတည်း။) [၁]

---

➤➤ ဂျန္နတ်ရှိအရက်သည် အတိုင်းမသိ ကောင်းမွန်လှသော ရသာအထူးထူးတို့ဖြင့် ပြည့်စုံလှပေမည်။ အန္တရာယ်ဟူ၍ စိုးစဉ်မျှပင် အလျှင်းရှိမည် မဟုတ်ပေ။ ဂျန္နတ်ရှိအရက်ကား ဂျန္နတ်၏အရက်ပင်။ လူသားတို့ မှန်းဆနိုင်ရန် အမည်တူ သုံးထားမှုခြင်းသာဖြစ်သည်။ ရသာချင်းကား မိုးမြေတမျှ ကွာခြားပေမည်။ အလျှင်းမနှိုင်းယှဉ်ရာ။

(၁) **စလာမ်၊ စလာမ်၊**

ဂျန္နတ်သုခဘုံတွင် ဤပစ္စက္ခလူ့လောကမှာကဲ့သို့ စကားသိမ်၊ စကားဖျင်း ကုန်းချောစကား၊ မှသားစကားစသည့် မလျော်ကန်သော စကားများကို အလျှင်းကြားရမည် မဟုတ်ပေ။ ဂျန္နတ်သုခဘုံတွင် သုခချည်းတည်ရှိသည်ဖြစ်ရာ၊ သုခကို ဆောင်သည့် သာယာနာပျော်ဖွယ် စကားများကိုသာ ကြားရပေမည်။ ➤➤

وَأَصْحَٰبُ ٱلْيَمِينِ مَآ أَصْحَٰبُ ٱلْيَمِينِ ﴿٢٧﴾

၂၇။ ထို့ပြင် လက်ယာဘက်သားတို့ကား၊ ထိုလက်ယာဘက်သားတို့မှာ အဘယ်မျှ ကောင်းမြတ်ကြပေသနည်း။

فِى سِدْرٍ مَّخْضُودٍ ﴿٢٨﴾

၂၈။ (၎င်းတို့မှာ) ဆူးများရှင်းထားပြီးဖြစ်သော ဆီးပင်ရှိရာ၌ ရှိကြပေမည်။

وَطَلْحٍ مَّنضُودٍ ﴿٢٩﴾

၂၉။ ၎င်းပြင် အခိုင်လိုက်သီးသော ငှက်ပျောပင်များ ရှိရာ၌ ရှိကြပေမည်။

وَظِلٍّ مَّمْدُودٍ ﴿٣٠﴾

၃၀။ ထို့ပြင် ကျယ်ဝန်းပြန့်ပြူး၍ မြဲသောအရိပ် အာဝါသ၌ ရှိကြပေမည်။

وَمَآءٍ مَّسْكُوبٍ ﴿٣١﴾

၃၁။ ထိုမှတစ်ပါး (မြေပေါ်)၌ အမြဲစီးတွေလျက် ရှိသော ရေရှိရာ၌ ရှိကြပေမည်။

وَفَٰكِهَةٍ كَثِيرَةٍ ﴿٣٢﴾

၃၂။ ထို့ပြင် မြောက်မြားစွာသော သစ်သီးဝလံများ ရှိရာ၌ ရှိနေကြပေမည်။

لَّا مَقْطُوعَةٍ وَلَا مَمْنُوعَةٍ ﴿٣٣﴾

၃၃။ (ထိုသစ်သီးဝလံများမှာ မည်သည့် ဥတုရာသီ၌မျှ) ကုန်ခန်းသော သစ်သီးဝလံများလည်း မဟုတ်ပေ၊ (မည်သို့မျှ) ပိတ်ပင်တားမြစ်ခြင်းခံရအံ့သော သစ်သီးဝလံများလည်း မဟုတ်ချေ။

---

➤➤ 'စလာမ်'၊ 'စလာမ်'၊ 'ဘေးရန်ခပ်သိမ်းကင်းငြိမ်းပါစေ'၊ 'ဘေးရန်ခပ်သိမ်း ကင်းငြိမ်းပါစေ' ဟူသော သံသာယာကို အခါခပ်သိမ်းကြားရပေမည်။ ဂျန္နတ်သားအချင်းချင်း တွေ့ဆုံကြသည့်အခါတွင်လည်း စလာမ်၊ စလာမ်ဟူ၍ပင် ပြောဆိုမေတ္တာပို့သကြပေမည်။ ကောင်းကင်တမန်များကလည်း ဂျန္နတ်သားတို့အား စလာမ်၊ စလမ်ဟူ၍ပင် ပြောဆိုမေတ္တာပို့ကြပေမည်။ အလ္လာဟ်အရှင်မြတ်ထံတော်မှလည်း ဂျန္နတ်သားတို့အား ယင်း စလာမ်၊ စလာမ်တည်းဟူသော သံသာထူးဖြင့်ပင် ဩဘာပေးတော်မူပေမည်။ ချီးမြှင့်မြှောက်စားတော်မူပေမည်။

ဤသို့ဖြင့် ဂျန္နတ်တစ်ခုလုံးသည် စလာမ် တည်းဟူသော သံသာယာဖြင့် အခါခပ်သိမ်းငြိမ်းချမ်းလျက် ရှိပေမည်။ (အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ယင်းသို့သောသုခဘုံတွင် ဝင်ရောက်စံစားခွင့် ပြုတော်မူသည် ဖြစ်ပါစေ)။

وَّفُرُشٍ مَّرْفُوْعَةٍ ﴿٣٤﴾

၃၄။ ထိုမှတစ်ပါး (၎င်းတို့သည်) မြင့်စွင့်လှစွာသော သလွန်များ၊ အခင်းအကျင်းများ၊ မွေ့ရာများပေါ်၌ ရှိနေကြပေမည်။

اِنَّآ اَنْشَاْنٰهُنَّ اِنْشَآءً ﴿٣٥﴾

၃၅။ ဧကန်မလွဲ ငါအရှင်မြတ်သည် (ဂျန္နတ်သုခဘုံ၌ ရှိကုန်သော) ထိုမိန်းမတို့အား အထူးဖန်ဆင်းတော်မူခဲ့၏။

فَجَعَلْنٰهُنَّ اَبْكَارًا ﴿٣٦﴾

၃၆။ တစ်ဖန် ငါအရှင်မြတ်သည် ၎င်းတို့အား ပျိုကညာများ ပြုလုပ်တော်မူခဲ့၏။

عُرُبًا اَتْرَابًا ﴿٣٧﴾

၃၇။ (လင်ယောကျ်ားတို့အား) ချစ်ခင် စုံမက်ကြသော၊ သက်တူရွယ်တူများဖြစ်ကြသော၊

لِّاَصْحٰبِ الْيَمِيْنِ ﴿٣٨﴾

၃၈။ လက်ယာဘက်သားတို့အဖို့၊ [1]

ثُلَّةٌ مِّنَ الْاَوَّلِيْنَ ﴿٣٩﴾

၃၉။ (ထိုလက်ယာဘက်သားတို့တွင်) ရှေးသူဟောင်းတို့အနက် ကြီးကျယ်လှစွာသော အုပ်စုကြီးတစ်ခုသည်လည်းကောင်း၊

وَثُلَّةٌ مِّنَ الْاٰخِرِيْنَ ﴿٤٠﴾

၄၀။ နောင်လာနောက်သားတို့အနက်မှ ကြီးကျယ်လှသော အုပ်စုကြီးတစ်ခုသည်လည်းကောင်း၊ ပါဝင်ကြကုန်အံ့သတည်း။ [2]

وَاَصْحٰبُ الشِّمَالِ ۙ مَآ اَصْحٰبُ الشِّمَالِ ﴿٤١﴾

၄၁။ သို့ရာတွင် လက်ဝဲဘက်သားတို့မှာ၊ လက်ဝဲဘက်သားတို့သည် အဘယ်မျှလောက် ဆိုးရွားလှဘိသနည်း။

---

① ဤအာယတ်တော်များ (၅၆:၂၇-၄၀) တွင် လက်ယာဘက်သား၊ ရိုးရိုးမွတ်စ်လင်မ်သူတော်စင်များ စံစားကြရမည့် အံ့မခန်းသုခများကို မိန့်ဆိုထားတော်မူသည်။ ၎င်းတို့စံစားကြရမည့် သုခများသည် 'မုကရ်ရဗီန်' သူတော်စင်ကြီးများ စံစားကြရမည့် သုခများနှင့် အနည်းငယ်ခြားနားသော်လည်း သူ့နေရာနှင့်သူ အံ့ချီးမဆုံးပင်။

② ရိုးရိုးသူတော်စင်များသည် အလွန့်အလွန် အဆင့်အတန်း မြင့်မားသော သူတော်စင်ကြီးများနှင့်မတူ၊ ၎င်းတို့သည် ရှေးသူဟောင်းတို့တွင်လည်း အမြောက်အမြား ရှိခဲ့ကြပေသည်။ နောင်လာ နောက်သားတို့တွင်လည်း မြောက်မြားစွာပင် ထွန်းကားကြပေမည်။

၄၂။ (ထိုလက်ဝဲဘက်သားတို့မှာ) ခြစ်ခြစ်ပူလောင်သောလေပူ၌လည်းကောင်း၊ ပွက်ပွက်ဆူလျက်ရှိသောရေနွေးပူ၌လည်းကောင်း၊

فِي سَمُومٍ وَحَمِيمٍ ﴿٤٢﴾

၄၃။ လွန်စွာနက်မှောင်သော အခိုးအငွေ့၏ အရိပ်၌လည်းကောင်း၊ ရှိကြပေမည်။

وَظِلٍّ مِّن يَحْمُومٍ ﴿٤٣﴾

၄၄။ (ယင်းအရိပ်မှာ) အေးမြသည်လည်း မဟုတ်ပေ၊ ပြန်၍ လန်းဆန်းစေသည်လည်း မရှိပေ။

لَّا بَارِدٍ وَلَا كَرِيمٍ ﴿٤٤﴾

၄၅။ စင်စစ်ကေန် ၎င်းတို့သည် ထိုသည့်အလျင် စည်းစိမ်ကြီးသူများပင် ဖြစ်ခဲ့ကြကုန်၏။

إِنَّهُمْ كَانُوا قَبْلَ ذَٰلِكَ مُتْرَفِينَ ﴿٤٥﴾

၄၆။ ထို့ပြင် အလွန်အမင်း ကြီးလေးသော ပြစ်မှုဒုစရိုက်ကို ဖွတ်တိုး၍ ကျူးလွန်လျက် ရှိခဲ့ကြကုန်၏။

وَكَانُوا يُصِرُّونَ عَلَى الْحِنثِ الْعَظِيمِ ﴿٤٦﴾

၄၇။ ထိုမှတစ်ပါး ၎င်းတို့သည် (ဤသို့) ပြောဆိုလျက်ရှိခဲ့ကြကုန်၏။ 'ကျွန်ုပ်တို့သည် သေပြီးနောက် အရိုးများ ဖြစ်ခဲ့ကြသောအခါ ရှင်ပြန်ထစေခြင်းကို ခံကြရဦးမည်လော'။

وَكَانُوا يَقُولُونَ أَئِذَا مِتْنَا وَكُنَّا تُرَابًا وَعِظَامًا أَإِنَّا لَمَبْعُوثُونَ ﴿٤٧﴾

၄၈။ '၎င်းပြင် ရှေးသူဟောင်းများ ဖြစ်ကြသော ကျွန်ုပ်တို့၏ အဘ ဘိုးဘေးတို့သည်လည်း (ရှင်ပြန်ထကြဦးမည်လော)'။

أَوَآبَاؤُنَا الْأَوَّلُونَ ﴿٤٨﴾

၄၉။ (အို-နဗီတမန်တော်၊) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) ကေန်မလွဲ လူဟောင်းတို့သည်လည်းကောင်း၊ နောင်လာနောက်သားတို့သည်လည်းကောင်း။

قُلْ إِنَّ الْأَوَّلِينَ وَالْآخِرِينَ ﴿٤٩﴾

၅၀။ အမှန်ပင် သတ်မှတ်ပြီးဖြစ်သောနေ့ ဆိုက်ရောက်လာသောအချိန်တွင် စုရုံးခြင်း ခံကြရပေမည်။

لَمَجْمُوعُونَ إِلَىٰ مِيقَاتِ يَوْمٍ مَّعْلُومٍ ﴿٥٠﴾

| | |
|---|---|
| ثُمَّ إِنَّكُمْ أَيُّهَا الضَّآلُّونَ الْمُكَذِّبُونَ ﴿٥١﴾ | ၅၁။ ထို့နောက် အို-လမ်းလွဲသူတို့၊ မဟုတ်မမှန် ဟူ၍ စွပ်စွဲငြင်းပယ်သူတို့၊ အသင်တို့သည် ဧကန်မလွဲ |
| لَآكِلُونَ مِن شَجَرٍ مِّن زَقُّومٍ ﴿٥٢﴾ | ၅၂။ 'ဇက္ကူမ်' ရှားစောင်းခါးပင် စားကြရမည်ဖြစ်၏။ |
| فَمَالِـُٔونَ مِنْهَا الْبُطُونَ ﴿٥٣﴾ | ၅၃။ တစ်ဖန် (အသင်တို့သည်) ယင်း ရှားစောင်းခါးပင်(မှ စားသုံးခြင်း)ဖြင့် ဝမ်းဗိုက်များကို ဖြည့်ကြရမည်ဖြစ်၏။ |
| فَشَارِبُونَ عَلَيْهِ مِنَ الْحَمِيمِ ﴿٥٤﴾ | ၅၄။ တစ်ဖန် (အသင်တို့သည်) ယင်းရှားစောင်းခါးပင် စားပြီးနောက် ပွက်ပွက်ဆူလျက်ရှိသော ရေနွေးပူကို သောက်ကြရမည်ဖြစ်၏။ |
| فَشَارِبُونَ شُرْبَ الْهِيمِ ﴿٥٥﴾ | ၅၅။ ထိုအခါ (အသင်တို့သည် ထိုပွက်ပွက်ဆူလျက်ရှိသောရေနွေးပူကို) လွန်စွာ ရေမွတ်သိပ်လျက် ရှိကုန်သော ကုလားအုတ်များ သောက်သကဲ့သို့ပင် သောက်ကြရပေမည်။ |
| هَٰذَا نُزُلُهُمْ يَوْمَ الدِّينِ ﴿٥٦﴾ | ၅၆။ ဤသည်ကား ၎င်းတို့အား အစားပေးသောနေ့တွင် ဧည့်ခံကျွေးမွေးခြင်းပင် ဖြစ်အံ့သတည်း။ ၁ |
| نَحْنُ خَلَقْنَاكُمْ فَلَوْلَا تُصَدِّقُونَ ﴿٥٧﴾ | ၅၇။ ငါအရှင်မြတ်သည်ပင်လျှင် အသင်တို့အား ဖန်ဆင်းတော်မူခဲ့၏။ သို့ပါလျက် အသင်တို့သည် မည်သည့်အတွက်ကြောင့် ဟုတ်မှန်ကြောင်း ဝန်မခံကြလေသနည်း။ |
| أَفَرَءَيْتُم مَّا تُمْنُونَ ﴿٥٨﴾ | ၅၈။ အသင်တို့ ပြောပြကြကုန်။ အသင်တို့သည် မိမိတို့သုတ်ရည် အစက်ချကြသည်။ |

(၁) အထက်တွင် အလွန့်အလွန် မြင့်မြတ်သော သူတော်စင်ကြီးများနှင့် ရိုးရိုးသူတော်စင်များ၏ အကြောင်းပါရှိ၏။ ဤအာယတ်တော်များ (၅၆:၄၁-၅၆) တွင် လက်ဝဲဘက်သား ကာဖိရ်သူယုတ်မာများ၏ အကြောင်းပါရှိ၏။ နောင်တမလွန်ဘဝတွင် ကာဖိရ်သူယုတ်မာများ ခံကြရမည့် ပြစ်ဒဏ်များကား အတိုင်းမသိ ကြောက်မက်ဖွယ်ကောင်းလှဘိတော့၏။ (အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ဂျဟန္နမ်ငရဲမှ ဖယ်ရှားတော်မူသည် ဖြစ်ပါစေသတည်း။)

ءَاَنْتُمْ تَخْلُقُوْنَهٗٓ اَمْ نَحْنُ الْخٰلِقُوْنَ ﴿٥٩﴾

၅၉။ ယင်းသုတ်ရည်ကို အသင်တို့ကိုယ်တိုင် (လူဖြစ်အောင်) ဖန်ဆင်းကြလေသလော။ သို့တည်းမဟုတ် ငါအရှင်မြတ်ပင် ဖန်ဆင်းတော်မူပါသလော။ [၁]

نَحْنُ قَدَّرْنَا بَيْنَكُمُ الْمَوْتَ وَمَا نَحْنُ بِمَسْبُوْقِيْنَ ﴿٦٠﴾

၆၀။ ငါအရှင်မြတ်သည်ပင်လျှင် အသင်တို့ကြား၌ 'မရဏ' *သေဆုံးခြင်းကို တင်ရင်စီမံတော်မူခဲ့၏။* [၂] ထိုမှတစ်ပါး ငါအရှင်မြတ်သည် မစွမ်းနိုင်တော်မူသော အရှင် မဟုတ်ပြီ၊

عَلٰٓى اَنْ نُّبَدِّلَ اَمْثَالَكُمْ وَنُنْشِئَكُمْ فِيْ مَا لَا تَعْلَمُوْنَ ﴿٦١﴾

၆၁။ ငါအရှင်မြတ်သည် အသင်တို့ကဲ့သို့သော (အခြား)သူတို့အား ပြောင်းလဲ(ဖန်ဆင်းတော်မူ)ရန် လည်းကောင်း၊ အသင်တို့အား အသင်တို့ပင် မသိကြသော အခြေအနေမျိုး၌ ဖန်ဆင်းတော်မူရန်လည်းကောင်း။ [၃]

وَلَقَدْ عَلِمْتُمُ النَّشْاَةَ الْاُوْلٰى فَلَوْلَا تَذَكَّرُوْنَ ﴿٦٢﴾

၆၂။ ထို့ပြင် ဧကန်စင်စစ် အသင်တို့သည် ပထမအကြိမ် ဖန်ဆင်းတော်မူခြင်းကို ကောင်းမွန်စွာ သိရှိပြီးဖြစ်ကြလျက် မည်သည့်အတွက်ကြောင့် နားမလည်ကြသနည်း။

---

(၁) **အသူဖန်ဆင်းသနည်း၊**

ဆိုလိုသည်ကား သာမန်အမြင်အားဖြင့် ယောကျ်ားများသည် သားအိမ်များတွင် သုတ်ရည်သွင်းကြသည်။ သို့ရာတွင် သုတ်ရည်တစ်စက်မှ လူဖြစ်လာအောင် အသူပြုလုပ်သနည်း။ သုတ်ရည်တစ်စက်မှ လူဖြစ်အောင် အကြောင်းတရားများကို အသူစီမံဖန်တီးသနည်း။ ဒ္ဓလ္လာဟ်အရှင်မြတ်ပင်။

(၂) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည်ပင် မရှိရာမှ ရှိရာသို့ စတင်ဖန်ဆင်းတော်မူသည်။ သို့ဖန်ဆင်းတော်မူပြီးနောက် အခွန့်ရှည်စွာ ရပ်တည်နေနိုင်ရန်အတွက် လိုအပ်သည့် အကြောင်းတရားများကိုလည်း ထိုအရှင်မြတ်သည်ပင် စီစဉ်ဖန်တီးထားတော်မူသည်။ ရပ်တည်နေရာမှ သေဆုံး ဆိတ်သုဉ်းသွားအောင် ပြုလုပ်တော်မူခြင်းမှာလည်း ထိုအရှင်မြတ်၏ အစီအစဉ်ပင်။ တစ်နည်းဆိုသော် စတင်ဖန်ဆင်းမှု၊ ရပ်တည်နေစေမှု၊ သေဆုံးစေမှု အစုစုသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌ပင် ရှိပေသတည်း။

(၃) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် အလိုရှိတော်မူပါက အသင်တို့၏နေရာတွင် အသင်တို့ကဲ့သို့သော အခြားသူများကို ပြောင်းလဲ၍လည်း ဖန်ဆင်းတော်မူနိုင်ပေသည်။ ထို့ပြင်တစ်ဝ အသင်တို့၏ လက်ရှိ ရုပ်ဆင်းသဏ္ဌာန်များကိုလည်း အလိုတော်ရှိတော်မူပါက ပုံပျက်ပန်းပျက်၊ ဥပမာ တိရစ္ဆာန်ရုပ်များ ပြုလုပ်တော်မူနိုင်ပေသည်။ သို့ပြုလုပ်တော်မူနိုင်ပါလျက်၊ ပြုလုပ်တော်မမူခြင်းမှာ ထိုအရှင်မြတ်၏ ကျေးဇူးတော်ပင်။

ကြည့်-ကုရ်အာန်(၃၆:၆၆-၆၇)

أَفَرَءَيْتُم مَّا تَحْرُثُونَ ﴿٦٣﴾

၆၃။ အသင်တို့သည် မိမိတို့စိုက်ပျိုးကြသည်များကို မြင်ခဲ့ကြလေသလော။

ءَأَنتُمْ تَزْرَعُونَهُۥٓ أَمْ نَحْنُ ٱلزَّٰرِعُونَ ﴿٦٤﴾

၆၄။ ထိုစိုက်ပျိုးထားကြသည့် မျိုးစေ့ကို အသင်တို့ ကိုယ်တိုင် ပေါက်ရောက်စေကြလေသလော။ သို့တည်း မဟုတ်၊ ငါအရှင်မြတ်သည်ပင် ပေါက်ရောက်စေတော်မူသောအရှင်မြတ် ဖြစ်တော်မူပါသလော။

لَوْ نَشَآءُ لَجَعَلْنَٰهُ حُطَٰمًا فَظَلْتُمْ تَفَكَّهُونَ ﴿٦٥﴾

၆၅။ အကယ်၍သာ ငါအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် ယင်းစိုက်ပျိုးခင်းကို စဉ်းထားသော ကောက်ရိုးများ၊ မြက်ခြောက်များ ဖြစ်စေတော်မူခဲ့ပေမည်။ ထိုအခါ အသင်တို့သည် တွေဝေ ငေးမှိုင်လျက် ရှိကြပေမည်။ [၁]

إِنَّا لَمُغْرَمُونَ ﴿٦٦﴾

၆၆။ ဧကန်စင်စစ် ကျွန်ုပ်တို့သည် ကြွေးမြီတင်ခြင်း ဒဏ်ဆောင်စေခြင်း ခံကြရလေပြီ။

بَلْ نَحْنُ مَحْرُومُونَ ﴿٦٧﴾

၆၇။ ထိုသို့ အလျှင်းမဟုတ်၊ စင်စစ်မှာကား ကျွန်ုပ်တို့သည် လက်မဲ့ဖြစ်စေခြင်းကိုပင် ခံကြရလေပြီ(ဟု ပြောဆို ညည်းညူကြပေမည်)။

أَفَرَءَيْتُمُ ٱلْمَآءَ ٱلَّذِى تَشْرَبُونَ ﴿٦٨﴾

၆၈။ အသင်တို့သည် မိမိတို့ သောက်သုံးကြသော ရေကို မြင်ခဲ့ကြလေသလော။

ءَأَنتُمْ أَنزَلْتُمُوهُ مِنَ ٱلْمُزْنِ أَمْ نَحْنُ ٱلْمُنزِلُونَ ﴿٦٩﴾

၆၉။ ထိုရေကို အသင်တို့ကိုယ်တိုင် မိုးတိမ်မှရွာသွန်းစေကြလေသလော၊ သို့တည်းမဟုတ် ငါအရှင်မြတ်ပင် ရွာသွန်းစေတော်မူသောအရှင်ဖြစ်တော်မူပါသလော။ [၂]

---

(၁) ဆိုလိုသည်ကား -အလ္လာဟ်အရှင်မြတ်သည် ပင်မျိုးစေ့များကို အံ့ဖွယ်သရဲ ပေါက်ရောက်စေတော်မူ၏။ ရှင်သန်စေတော်မူ၏။ ထွားကျိုင်းကြီးပြင်းစေတော်မူ၏။ သီးပွင့်စေတော်မူ၏။ အကယ်၍ ထိုအရှင်မြတ်သည် အလိုရှိတော်မူပါက၊ ဝေဆာလျက်ရှိသော ယင်းသည့်စိုက်ပျိုးခင်းများကို အစိတ်စိတ် အမြွှာမြွှာအချည်းနှီး ဖြစ်စေတော်မူနိုင်ပေသည်။ သို့ဖြစ်စေတော်မူပါက သက်ဆိုင်ရာပုဂ္ဂိုလ်များသည် တွေဝေငေးမှိုင်ကြရပေမည်၊ အရှုံးကြီးရှုံးကြရပေမည်၊ လက်မဲ့ဖြစ်ကြရပေမည်။

لَوْ نَشَاءُ جَعَلْنَٰهُ أُجَاجًا فَلَوْلَا تَشْكُرُونَ ﴿٧٠﴾

၇၀။ အကယ်၍သာ ငါအရှင်မြတ်သည် အလိုရှိတော်မူပါလျှင် ထိုရေကို ရေငန်ရေခါး ပြုလုပ်တော်မူခဲ့မည်သာ။ သို့ပါလျက် အသင်တို့သည် မည်သည့်အတွက်ကြောင့် ကျေးဇူးမတင်ကြပေသနည်း။ [၁]

أَفَرَءَيْتُمُ ٱلنَّارَ ٱلَّتِى تُورُونَ ﴿٧١﴾

၇၁။ အသင်တို့သည် မိမိတို့မွေးကြသော မီးကို မြင်ခဲ့ကြလေသလော။

ءَأَنتُمْ أَنشَأْتُمْ شَجَرَتَهَآ أَمْ نَحْنُ ٱلْمُنشِـُٔونَ ﴿٧٢﴾

၇၂။ ထိုမီးထွက်သော သစ်ပင်ကို အသင်တို့ကိုယ်တိုင် ပေါက်ရောက်စေခဲ့ကြလေသလော။ သို့တည်းမဟုတ် ငါအရှင်မြတ်သည်ပင် ပေါက်ရောက်စေတော်မူသောအရှင် ဖြစ်တော်မူပါသလော။

---

(၂) **အသူမိုးရေရွာသွန်းစေသနည်း။**

လူဖြစ်ရာတွင် သာမန်အမြင်အားဖြင့် မိဘနှစ်ပါးသည် တစ်စိတ်တစ်ဒေသ ဆက်စပ်ပါဝင်နေသည်ဟု ထင်မှတ်ရသေး၏။ လယ်ယာစိုက်ပျိုးရာတွင် သက်ဆိုင်ရာ တောင်သူလယ်သမားများ တစ်စိတ်တစ်ဒေသ ပါဝင်နေသည်ဟု ထင်မှတ်ရသေး၏။ မိုးရွာသွန်းရာတွင်မူ အသူမျှ မည်သည့်အဆင့်အတန်းတွင်မျှ မည်သည့်အစိတ်အပိုင်းတွင်မျှ မည်သို့မျှမပါဝင်ချေ။

ဥတုရာသီအလိုက် သူ့အချိန်နှင့်သူ မိုးရွာသွန်းနိုင်ရန်အတွက် လိုအပ်သည့် အပူဓာတ်ကို သမုဒ္ဒရာပင်လယ်တွင် အသူထည့်သွင်းပေးသနည်း။ သမုဒ္ဒရာပင်လယ်များမှ လိုအပ်သည့် ရေခိုးရေငွေ့များကို မိုးကောင်းကင်သို့ အသူတင်ဆောင်သနည်း။ ယင်းသည့် ရေခိုးရေငွေ့များမှလိုအပ်သည့် မိုးတိမ်များကို အသူဖန်တီးသနည်း။ ယင်းသည့်မိုးတိမ်များကို လိုအပ်သောဒေသများသို့ သယ်ဆောင်သွားရန် လေထုအား အသူစေခိုင်းသနည်း။ ယင်းသည့်မိုးတိမ်များမှ လိုအပ်သည့် ရေစိုင်ရေခဲများကို အသူဖန်တီးသနည်း။ ယင်းသည့် ရေစိုင်ရေခဲများမှ လိုအပ်သည့် မိုးသီးမိုးပေါက်ကလေးများအဖြစ် အံ့ဖွယ်သရဲ အသူရွာသွန်းစေသနည်း။ လူမဟုတ်၊ အသူမျှမဟုတ်၊ အလ္လာဟ်အရှင်မြတ်ပင်။ ထိုအရှင်မြတ်၏ ကျေးဇူးတော်ကြောင့်ပင် သက်ရှိသက်မဲ့ အပေါင်းတို့သည် ရေကို သောက်သုံးလျက်ရှိကြသည်။ အမျိုးမျိုး အသုံးပြုကြသည်။ ဤသည်လည်း အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိကြီးမားလှဘိသော ကျေးဇူးတော်တစ်ပါးပင်။

(၁) ရေသည်ကြည်လင်သည်၊ ချိုသည်၊ အေးသည်၊ ရသာရှိလှသည်။ အကျိုးများဘိသည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်။ အကယ်တန္တိ အလ္လာဟ်အရှင်မြတ်သည် အလိုတော်ရှိတော်မူပါက ဤသည့် ချိုအေးလှသည့် ရေကြည်ရေစင်ကို ရေငန်၊ ရေခါးပြုလုပ်ထားတော်မူသည် ရှိပါသော်၊ ရေချိုကို မှီဝဲနေကြရသော သက်ရှိသက်မဲ့ အပေါင်းသည် ပျက်ပြုန်း ဆိတ်သုဉ်းသွားကြရပေမည်။ ယခုမူ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့် ရေချိုသည် ချိုလျက်ပင်ရှိပေသည်။ ထိုအရှင်မြတ်၏ ကျေးဇူးတော်ကား အတိုင်းမသိကြီးမားလှဘိတကား။

نَحْنُ جَعَلْنَاهَا تَذْكِرَةً وَمَتَاعًا لِّلْمُقْوِينَ ﴿٧٣﴾

၇၃။ ငါအရှင်မြတ်သည်ပင် ထိုသစ်ပင်ကို သတိရစေသော၊ တရားရစေသောအရာအဖြစ်လည်းကောင်း၊ ခရီးသည်တို့အဖို့ အကျိုးကျေးဇူးရှိစေသောအရာအဖြစ်လည်းကောင်း၊ ပြုလုပ်တော်မူခဲ့၏။ [၁]

فَسَبِّحْ بِاسْمِ رَبِّكَ الْعَظِيمِ ﴿٧٤﴾

၇၄။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော၊ ကြီးကျယ်မြင့်မြတ်လှတော်မူသော အရှင်မြတ်(၏ နာမံတော်၊ စင်ကြယ် သန့်ရှင်းတော်မူကြောင်း) ချီးမွမ်းမြွက်ဆိုပါလေ။ [၂]

فَلَا أُقْسِمُ بِمَوَاقِعِ النُّجُومِ ﴿٧٥﴾

၇၅။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ကြယ်နက္ခတ်တို့၏ဝင်ရာ၊ စခန်းချရာများကို သက်သေထူ(ကျိန်ဆို)တော်မူ၏။ [၃]

---

(၁) ဆိုလိုသည်ကား - မီးသည် အထူးသဖြင့် အိမ်နေ၊ မြို့ခံ၊ ဧည့်သည်၊ ခရီးသွား လူတန်းစားအလွှာလွှာအတွက် အကျိုးများလှ၏။ သတိတရား၊ ရဖွယ်ရာလည်း ကောင်းလှ၏။ ဆိုလိုသည်ကား ဤသည့် ပစ္စက္ခမီးကိုကြည့်၍ နောင်တမလွန်ဘဝ၏ ငရဲမီးကို မြင်ရာ၏။ စိမ်းစိုလတ်ဆတ်သော အပင်မှ မီးကို ဖြစ်စေနိုင်တော်မူသော အရှင်သည် သူသေများအား ပြန်လည်ရှင်ထစေတော်မူနိုင်သည်ကိုလည်း ဆင်ခြင်ရာ၏။

(၂) အထက်ပါ အာယတ်တော်များကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်များနှင့် ကျေးဇူးတော်များအား အတိုင်းမသိ ကြီးမားများပြားလှသည်များကို ကောင်းစွာ သိရှိရပေသည်။ ယင်းသည့် တန်ခိုးတော်များနှင့် ကျေးဇူးတော်များကို ထောက်ရှုခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်သည် တစ်ပါးတည်း ရှိတော်မူကြောင်း ပြန်လည်ရှင်ထစေတော်မူမည့် အကြောင်းကိုလည်း ကောင်းစွာ သိရှိရပေသည်။

ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိ ကြီးမာလှဘိသော တန်ခိုးတော်များနှင့် ကျေးဇူးတော်များကို သိကြရပြီ၊ ယင်းသည့် ကျေးဇူးတော်များကိုလည်း အပြည့်အဝ ခံစားလျက်ရှိကြပြီ၊ သို့ဖြစ်ရာ ကျွနုပ်တို့သည် ထိုအရှင်မြတ်အား လှိုက်လှိုက်လှဲလှဲ ကြည်ညို မြတ်နိုးကြရာသည်။ လှိုက်လှိုက်လှဲလှဲ ကျေးဇူးတင်ကြရာသည်။ ထိုအရှင်မြတ်၏ တရားတော်များကို ကိုယ်၊ နှုတ်၊ နှလုံးသုံးပါးလုံးဖြင့် နာယူကျင့်မူကြရာသည်။ ထိုအရှင်မြတ်နှင့်ပတ်သက်၍ အချို့ သူယုတ်မာများ အမှားမှား အယွင်းယွင်း ထင်မြင်ယူဆထားခဲ့ကြသည်များမှာ လုံးဝမှားယွင်းကြောင်း၊ ထိုအရှင်မြတ်သည် ချို့တဲ့မှုအပေါင်းမှ လုံးဝစင်ကြယ် သန့်ရှင်း အပြစ်ကင်းတော်မူကြောင်း၊ အတိုင်းမသိ ကြီးကျယ်မြင့်မြတ်တော်မူကြောင်း လှိုက်လှိုက်လှဲလှဲ ဂုဏ်တော်မွမ်းကြရာသည်။

(၃) ဤအာယတ်တော်၏အစတွင်ပါရှိသော 'လာ' အက္ခရာသည် မဟုတ်၊ မဖြစ်၊ မရှိ ဟူသောအနက်၌ မဟုတ်၊ မုချဧကန်၊ မလွဲမသွေဟူသော အနက်၌ဖြစ်သည်။ ➤➤

وَإِنَّهُ لَقَسَمٌ لَّوْ تَعْلَمُونَ عَظِيمٌ ﴿٧٦﴾

၇၆။ စင်စစ်ဆိုသော် ယင်းသို့သက်သေထူခြင်း (ကျိန်ဆိုခြင်း)မှာ အကယ်၍ အသင်တို့သိရှိကြလျှင် ကြီးကျယ်စွာသော သက်သေထူမှု ကျိန်ဆိုမှု)ပင်။

إِنَّهُ لَقُرْآنٌ كَرِيمٌ ﴿٧٧﴾

၇၇။ ဧကန်မလွဲ ယင်းသည် ဂုဏ်ကျက်သရေနှင့် ပြည့်စုံသော ကုရ်အာန်ကျမ်းတော်မြတ်ပင်။

فِي كِتَابٍ مَّكْنُونٍ ﴿٧٨﴾

၇၈။ မှတ်တမ်းစာအုပ်တစ်ခု၌ ထိန်းသိမ်း စောင့်ရှောက်၍ ထားရှိပြီးဖြစ်သော၊

لَّا يَمَسُّهُ إِلَّا الْمُطَهَّرُونَ ﴿٧٩﴾

၇၉။ ယင်း မှတ်တမ်းစာအုပ်ကို စင်ကြယ်သန့်ရှင်းကြသောသူတို့မှတစ်ပါး မည်သူမျှ ထိတွေ့ကြသည် မရှိပြီ။ [၁]

---

➢➢ ဤအာယတ်တော်၏ အဓိပ္ပါယ်ကို အောက်ပါအတိုင်းပြန်ဆိုကြသည်။

(၁) သို့ဖြစ်ရာ ငါအရှင်မြတ်သည် ကြယ်တာရာများ ဝင်သွားခြင်းကို/ ပျောက်ကွယ်သွားခြင်းကို/ ကြယ်တာရာများ သက်ရောက်ရာ နေရာဌာနများကို သက်သေထူတော်မူ၏။

(၂) သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် တမန်တော်များ၏ စိတ်နှလုံးများတွင် အာယတ်တော်များ သက်ရောက်ခြင်းကို သက်သေထူတော်မူ၏။

(၃) သို့ဖြစ်ရာ ငါအရှင်မြတ်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို မိုးကောင်းကင်မှ ကမ္ဘာမြေသို့ တဖြည်းဖြည်း အနည်းငယ်စီ ကျရောက်ခြင်းကို သက်သေထူတော်မူ၏။

ဖော်ပြပါ အဓိပ္ပါယ် အရပ်ရပ်သည် သင့်မြတ်သည်သာဖြစ်သည်။ ဖော်ပြပါ အဓိပ္ပါယ်သုံးရပ်အနက် ပထမနှင့် ဒုတိယအဓိပ္ပါယ်ကို ကောက်ယူပါက ယင်းသည့် အနက်သဘောကို ကုရ်အာန် (၅၃း၁-၂)၏အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။ တတိယအဓိပ္ပါယ်ကို ကောက်ယူပါက ယင်းသည့် အနက်သဘောကို ကုရ်အာန်(၁၇း၁၀၆)၏အဖွင့်တွင် အကျယ်ရေးသားခဲ့ပေပြီ၊ ပြန်လည်ရှုပါကုန်။ 'အာယတ်တော်များ သက်ရောက်ရာ ဌာနများ' ဟူသောအဓိပ္ပါယ်ကို ကောက်ယူပါက ဤသည့်သဘောနှင့် စပ်လျဉ်း၍ ကုရ်အာန်(၂း၉၇။၆း၁၂၅။ ၂၆း၁၉၂-၁၉၄)၏ အဖွင့်များကို ပြန်လည်ရှုပါကုန်။

မည်သည့်အနက် အဓိပ္ပါယ်၌ရှိစေ၊ တွေးတောဆင်ခြင် မြော်မြင်တတ်သူများအဖို့ သိရှိနားလည်သဘောပေါက်သူများအဖို့မှာကား၊ ဤသက်သေထူမှုသည် အလွန်ကြီးကျယ်လှပါဘိတကား။

(၁) ကုရ်အာန်ကျမ်းမြတ်သည် ကျက်သရေ မင်္ဂလာပေါင်းနှင့်ပြည့်စုံလှဘိသည်။ 'လောင်ဟ်မဟ်ဖွ်' မှတ်တမ်းတော်တွင် လုံခြုံစွာထိန်းသိမ်းထားတော်မူသည်။ ယင်းမှတ်တမ်းတော်ကို အလွန်စင်ကြယ်သန့်ရှင်းသော ကောင်းကင်တမန်များမှတစ်ပါး အခြားမည်သူ တစ်ဦးတစ်ယောက်မျှ ထိတွေ့ရသည်မရှိပေ။

အချို့က 'လယမတ်စ္စဟူ' ၌ ပါရှိသော 'ဟူ' ဟူသော နာမ်စားသည် ကုရ်အာန်ကျမ်းမြတ်ကိုပင် ရည်ညွှန်းသည်ဟု ဆိုကြသည်။ ဆိုလိုသည်ကား ဤကုရ်အာန်ကျမ်းမြတ်ကို စိတ်နှလုံးသားဖြူစင်သော➢➢

تَنۡزِيۡلٌ مِّنۡ رَّبِّ الۡعٰلَمِيۡنَ ﴿٨٠﴾

၈၀။ စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ ချမှတ်ပေးတော်မူခြင်း ခံရလေသော၊

اَفَبِهٰذَا الۡحَدِيۡثِ اَنۡتُمۡ مُّدۡهِنُوۡنَ ﴿٨١﴾

၈၁။ သို့ပါလျက် အသင်တို့သည် ဤအာယတ်တော်ကို မထီမဲ့မြင်ပြုကြလေသလော/ ပျင်းရိနေကြသလော။

وَتَجۡعَلُوۡنَ رِزۡقَكُمۡ اَنَّكُمۡ تُكَذِّبُوۡنَ ﴿٨٢﴾

၈၂။ ထိုမှတစ်ပါး အသင်တို့သည် မဟုတ်မမှန်ဟူ၍ ငြင်းပယ်မှုကိုပင် မိမိတို့၏အစားအစာ ပြုလုပ်ကြလေသလော။ (တစ်နည်း) ထိုမှတစ်ပါး အသင်တို့သည် မိမိတို့ စားနပ်ရိက္ခာနှင့်စပ်လျဉ်း၍ ကျေးဇူးတင်ကြမည့်အစား၊ မဟုတ်မမှန်ဟူ၍ငြင်းပယ်ကြလေသလော၊[၁]

فَلَوۡلَاۤ اِذَا بَلَغَتِ الۡحُلۡقُوۡمَ ﴿٨٣﴾

၈၃။ သို့ဖြစ်လျှင် အသက်ဇီဝိန်သည် လည်မျိုသို့ ရောက်ရှိလာသောအခါ အသင်တို့သည် မည်သည့်အတွက်ကြောင့် (မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခြင်း) မပြုကြသနည်း။

---

➤➤ ကိုယ်ကျင့်တရား ကောင်းမြတ်သော ပုဂ္ဂိုလ်များသာလျှင် ထိတွေ့ကြသည်။ ထိုသို့သော ပုဂ္ဂိုလ်များသာလျှင် ကုရ်အာန်ကျမ်းမြတ်၏ အလွန်နက်နဲသိမ်မွေ့သော အနက်သဘောများကို မြော်မြင်နိုင်ကြပေသည်။ ပေါက်ရောက်နိုင်ကြပေသည်။

အချို့က 'လာယမတ်စ္စုဟူ' ဟူသော ဝါကျကို 'ထိုကုရ်အာန်ကျမ်းမြတ်ကို မကိုင်မတွယ်ရ' ဟု ဘာသာပြန်ကြ၏။ ဆိုလိုသည်ကား ကုရ်အာန်ကျမ်းမြတ်ကို သန့်ရှင်းစင်ကြယ်သူများမှတစ်ပါး အခြားမည်သူမျှ မကိုင်မတွယ်ရ။ (ဝါ) 'ဝုဇူ' မရှိသော၊ ကိုယ်ခန္ဓာ မသန့်စင်သောသူများ မကိုင်မတွယ်ရ။ တမန်တော်မြတ်၏ (ဟဒီးဆ်)ဩဝါဒတော်များတွင်လည်း ဤသို့သောပညတ်ချက်များ ပါရှိပေသည်။ ဤဖွင့်ဆိုချက်အရ (လာယမတ်စ္စုဟူ)၌ပါရှိသော 'လာ' ဟူသော အက္ခရာသည် တားမြစ်ခြင်းအနက်၌ ဖြစ်သွားပေမည်။

(၁) အထက်ဖော်ပြပါ ကုရ်အာန်ကျမ်းမြတ်သည် စကြဝဠာအဝှန်းကို ဖန်ဆင်းတော်မူသော၊ ပြုစုပျိုးထောင်တော်မူသော၊ ရပ်တည်စေတော်မူသော၊ ပိုင်ဆိုင်တော်မူသော၊ စိုးမိုးတော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်ပါးမှ ထုတ်ပြန်ပို့ချထားတော်မူသော ကျမ်းမြတ်တည်း။ ယင်းသို့သော အတိုင်းမသိ ကြီးကျယ်လှဘိသော၊ မြင့်မြတ်လှဘိသော၊ ကုရ်အာန်ကျမ်းမြတ်လာ တရားတော်များကို နာယူကျင့်မှု၍ အကျိုး အမြတ်ခံစားရာတွင်ပင် အသင်တို့သည် ပျင်းရိနေကြသေးသလော၊ ဖင့်နွှဲနေကြသေးသလော၊ အထီမဲ့မြင် ပြုနေကြသေးသလော။ ပေါ့ပေါ့ဆဆ ပြုလုပ်နေကြသေးသလော။ အမှန်တရားဟူသမျှကို ဇွတ်မှိတ်ကာ အမှားဟူ၍ ပြောဆိုရန် အသင်တို့သည် တစ်ဦးတည်းမူပိုင်ပြုထားကြလေသလော။ ဤသည် အမိုက်အပေါင်းတို့တွင် အကြီးဆုံးအမိုက်ပင်၊ အမိုက်အပေါင်းတို့၏ ဘုရင်ပင်၊ ကျေးဇူးကန်းမှု အပေါင်းတို့၏ အဓိပတိပင်။

وَاَنۡتُمۡ حِيۡنَئِذٍ تَنۡظُرُوۡنَ ۝٨٤

၈၄။ စင်စစ် အသင်တို့သည် ထိုရောအခါဝယ် ကြည့်၍ နေကြကုန်၏။

وَنَحۡنُ اَقۡرَبُ اِلَيۡهِ مِنۡكُمۡ وَلٰـكِنۡ لَّا تُبۡصِرُوۡنَ ۝٨٥

၈၅။ စင်စစ်သော်ကား ငါအရှင်မြတ်သည် အသင်တို့ထက် ပိုမို၍ပင် ထိုသူနှင့် နီးကပ်လျက် ရှိနေတော်မူ၏။ သို့ရာတွင် အသင်တို့သည် မြင်ကြသည် မဟုတ်ပေ။

فَلَوۡلَاۤ اِنۡ كُنۡتُمۡ غَيۡرَ مَدِيۡنِيۡنَ ۝٨٦

၈၆။ သို့ဖြစ်ပေရာ အသင်တို့သည် အစားပေးခြင်း ခံရအံ့သောသူများ မဟုတ်(ဟု ဆိုရာ၌) အမှန်ကို ပြောဆိုသူများဖြစ်ကြလျှင် မည်သည့်အတွက်ကြောင့်

تَرۡجِعُوۡنَهَاۤ اِنۡ كُنۡتُمۡ صٰدِقِيۡنَ ۝٨٧

၈၇။ ယင်းအသက်ဇီဝိန်ကို ပြန်လည်၍ ယူမထားကြပေသနည်း။ [၁]

---

(၁) ဆိုလိုသည်ကား ကာဖိရ်များသည် ကုရ်အာန်ကျမ်းလာ တရားတော်များကိုလည်း မယုံကြည်ကြ၊ သေပြီးနောက် ပြန်လည်ရှင်ပြန်ထကြရမည်ကိုလည်း မယုံကြည်ကြ၊ နောင်တမလွန်ဘဝတွင် ကျိုးပြစ်ခံ၊ စံကြရမည်ကိုလည်း မယုံကြည်ကြ၊ တစ်ရက်ငါတို့သည် သေကြရမည်။ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်သို့ ရောက်ကြရမည်ကိုလည်း မယုံကြည်ကြ။

တစ်နည်းအားဖြင့် မိမိတို့သည် မည်သူတစ်ဦးတစ်ယောက်၏ အုပ်ချုပ်မှုအာဏာစက်အောက်တွင်မျှ ရှိနေကြသည်မဟုတ်သူဟူ၍ ထင်မှတ်နေကြ၏။ သို့ထင်မှတ်နေကြလျှင်၊ ယင်းသို့သော ကာဖိရ်များတွင် ၎င်းတို့၏ ခင်မင်ရင်းနှီးသော မိတ်ဆွေတစ်ဦးသည် သေအံ့ဆဲဆဲ ဖြစ်နေ၏။ အသက်ဇီဝိန်သည် လည်မျိုသို့ ရောက်ရှိနေ၏။ သေခြင်းတရား၏ဒုက္ခကို အကြီးအကျယ် ခံစားနေရ၏။ အသင်တို့ကိုယ်တိုင် မိမိတို့၏ မိတ်ဆွေ၏ သေခြင်း၏ဒုက္ခကို ရင်တမမ ဝိုင်းအုံကြည့်နေကြ၏။ ထိုအချိန်မှာပင် အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ ကောင်းကင်တမန်များသည် အသင်တို့၏ မိတ်ဆွေထံ၌ အသင်တို့ထက်ပင် ပိုမိုနီးကပ်စွာရှိနေကြ၏။ အသင်တို့ကား မမြင်ကြပေ။

အကယ်၍ အသင်တို့ထင်မြင်ယူဆထားကြသကဲ့သို့၊ အသင်တို့သည် မည်သူ၏ အာဏာစက်အောက်တွင်မျှ ရှိနေကြသည်မဟုတ်ပါသော်၊ အသင်တို့သည် မိမိတို့၏ မိတ်ဆွေ၏ အသက်ဇီဝိန်ကို အဘယ်ကြောင့် အထွက်ခံကြသနည်း။ အဘယ်ကြောင့် တားဆီးမထားကြသနည်း။ ယင်းသည့် အသက်ဇီဝိန်ကို ထိုမိတ်ဆွေထံ ပြန်လည်ယူဆောင်လာပြီးလျှင် ထိုမိတ်ဆွေအား ကျိုးပြစ်ခံ၊စံခြင်းမှ အဘယ့်ကြောင့် မကာကွယ်ကြသနည်း။ အသင်တို့သည် မှန်ကန်စွာ ပြောဆိုသူများဖြစ်ကြပါက ဤသို့ ပြုလုပ်ပြကြရာသည်။

(ကြည့်-အုတ်ဆ်မာနီ၊ထာနဝီ)။

فَأَمَّآ إِن كَانَ مِنَ ٱلْمُقَرَّبِينَ ۝٨٨

၈၈။ တစ်ဖန် မည်သို့ပင်ဖြစ်စေ၊ အကယ်၍ ထို (သေဆုံးသော) သူသည် နီးကပ်သောသူတို့တွင် ပါဝင်ခဲ့သည်ရှိသော်၊

فَرَوْحٌ وَرَيْحَانٌ وَجَنَّتُ نَعِيمٍ ۝٨٩

၈၉။ သို့ဖြစ်လျှင် (ထိုသူ၏အဖို့) ချမ်းသာမှုသည်လည်းကောင်း၊ အစားအစာသည်လည်းကောင်း၊ မွေ့လျော် စံပျော်ရာ 'ဂျန္နတ်' သုခဘုံသည်လည်းကောင်း၊ ရှိချေမည်။

وَأَمَّآ إِن كَانَ مِنْ أَصْحَٰبِ ٱلْيَمِينِ ۝٩٠

၉၀။ ၎င်းပြင် အကယ်၍ ထိုသူသည် လက်ယာဘက်သားတို့တွင် ပါဝင်ခဲ့သူ၊

فَسَلَٰمٌ لَّكَ مِنْ أَصْحَٰبِ ٱلْيَمِينِ ۝٩١

၉၁။ သို့ဖြစ်လျှင် (အသင်သည်) လက်ယာဘက်သားတို့တွင် ပါဝင်သောကြောင့် အသင့်အဖို့ ငြိမ်းချမ်းမှုသည် ရှိပေမည်(ဟု သတင်းပြောကြားခြင်းကို ခံရပေမည်။)

وَأَمَّآ إِن كَانَ مِنَ ٱلْمُكَذِّبِينَ ٱلضَّآلِّينَ ۝٩٢

၉၂။ သို့ရာတွင် အကယ်၍ ထိုသူသည် လမ်းမှားကြကုန်သော၊ မဟုတ်မမှန်ဟူ၍ ငြင်းပယ်ကြကုန်သော၊ သူတို့အနက်တွင် အပါအဝင် ဖြစ်ခဲ့သည်ရှိသော်၊

فَنُزُلٌ مِّنْ حَمِيمٍ ۝٩٣

၉၃။ (ထိုသူအား) ပွက်ပွက်ဆူ၍နေသော ရေနွေးပူဖြင့် ဧည့်ခံခြင်းသည်လည်းကောင်း၊

وَتَصْلِيَةُ جَحِيمٍ ۝٩٤

၉၄။ အလျှံပြောင်ပြောင် တောက်လောင်လျက် ရှိသော မီးထဲသို့ ဝင်ရောက်စေခြင်းသည်လည်းကောင်း၊ ရှိပေမည်။

إِنَّ هَٰذَا لَهُوَ حَقُّ ٱلْيَقِينِ ۝٩٥

၉၅။ ဧကန်မလွဲ ဤသည် ထင်ရှားသော အမှန်ပင်ဖြစ်၏။ [၁]

---

(၁) ဆိုလိုသည်ကား- ကာဖိရ်များ၏ ထင်မြင်ချက်များသည် အားလုံးအမှားချည်းသာ။ လူတိုင်းသည် အချိန်ကျရောက်လာသည့်အခါ သေရမည်သာဖြစ်၏။ ကိယာမတ်နေ့တွင် ပြန်လည်ရှင် ထရမည်သာ ဖြစ်၏။ ကျိုးပြစ်၊ ခံ၊ စံရမည်သာဖြစ်၏။ အုပ်စုသုံးခုအနက်၊ တစ်ခုခုတွင် အပါအဝင်ဖြစ်မည်သာဖြစ်၏။ ➢➢

فَسَبِّحْ بِاسْمِ رَبِّكَ الْعَظِيمِ ﴿٩٦﴾

၉၆။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်)၊ အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် (၏နာမံတော်-စင်ကြယ် သန့်ရှင်းတော်မူကြောင်း) ချီးမွမ်းမြွက်ဆိုပါလေ။ [၁]

---

➤➤ (အုပ်စုသုံးခုအကြောင်း၊ ကုရ်အာန်(၅၆း၇-၅၆) တွင် အကျယ်တဝင့်ပါရှိ၏။)

အကယ်၍ ထိုသူသေသည် (မုကရ်ရဗီန်) သူတော်စင်ကြီးများ အုပ်စုတွင်အပါအဝင် ဖြစ်သော်၊ အတိုင်းမသိ၊ ကြီးမားလှဘိသော ရုပ်-နာမ်ဆိုင်ရာ အံ့မခန်းသော သုခအဖြာဖြာကို အမြဲထာဝရ ခံစားရမည်ဖြစ်၏။ အကယ်၍ ထိုသူသေသည် ရိုးရိုးသူတော်စင်များတွင်အပါအဝင် ဖြစ်သော်၊ သို့တစေလည်း ပူပန် သောကစိုးရိမ်ဖွယ်ရာမရှိ၊ ဘေးရန်ခပ်သိမ်း ကင်းငြိမ်းမည်သာ ဖြစ်၏။

အကယ်၍ ထိုသူသေသည် မဟုတ်မမှန်ဟူ၍ ငြင်းပယ်ပြောဆိုသူများ၊လမ်းလွဲမှားသူများတွင် အပါအဝင်ဖြစ်သော်၊ ထိုသူမှာကား ပွက်ပွက်ဆူလျက်ရှိသော ရေပူဖြင့် ဧည့်ခံခြင်း ခံရပေမည်။ အလျှံပြောင်ပြောင် တောက်လောင်လျက်ရှိသော ငရဲသို့ အမြဲထာဝစဉ် လားရပေမည်။ ဤကား မလွဲဧကန် အမှန်တည်း။

(၁) သို့ဖြစ်ရာ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်ထံတော်၌ ချဉ်းကပ်ကြရမည်သာ ၊ ထိုအရှင်မြတ်အား ဂုဏ်တော်ပွမ်းကြရမည်သာ၊ ဤသည်ပင် နောင်တမလွန်ဘဝ၏ ကောင်းစားရေး အတွက် ကြိုတင်ပြင်ဆင်မှုပင်။

ဤတွင် ဂုဏ်တော်ပွမ်းနိုင်ရန်အလို့ငှာ အကြောင်းအားလျော်စွာ အေမာမ် ဗုခါရီသခင်က မိမိ၏ကျမ်း၏ နိဂုံးချုပ်တွင်ဖော်ပြထားသည့် တမန်တော်မြတ်၏ ဩဝါဒတော် တစ်ပါးကို ထည့်သွင်းဖော်ပြလိုက်ပါသည်။

သာဝကကြီး အဗူဟုရိုင်ရဟ်သခင်ထံမှ တစ်ဆင့် ကြားသိရ၏။ တမန်တော်မြတ်က (အလ္လာဟ် အရှင်မြတ်သည် တမန်တော်မြတ်အပေါ်သို့ ကောင်းချီး ချမ်းသာမင်္ဂလာအဖြာဖြာ ချီးမြှင့်တော်မူပါစေ) မိန့်ကြားတော်မူခဲ့သည်မှာ - စကားကြီးနှစ်ခွန်းရှိ၏။ ထိုစကားကြီး နှစ်ခွန်းသည် နှုတ်လျှာအပေါ်တွင်ပေါ့ပါး၏။ 'မီဇာန်' ချိန်ခွင်တွင် လေး၏။ 'ရဟ်မာန်' အထူးကရုဏာတော်ရှင် ထံတော်ပါးတွင် နှစ်မြို့ဖွယ်ရာဖြစ်၏။ ထိုစကားကြီး နှစ်ခွန်းကား ဤသို့တည်း ဆုဗ်ဟာနလ္လာဟိ ဝဗိဟမ်ဒိဟီ၊ ဆုဗ်ဟာနလ္လာဟိလ်အဇီမ်။(ဗုခါရီကျမ်း)။

# သံကဏ္ဍ




ဤကဏ္ဍသည် "အလ်ဟဒီဒ်" သံကဏ္ဍမည်၏။ မဒီနာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၂၉)ပါး၊ ရကူအ်အပိုဒ် (၄)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊
အထူး ကရုဏာပြုတော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ဖြင့် အစပြုပါ၏။

سَبَّحَ لِلّٰهِ مَا فِى السَّمٰوٰتِ وَالْاَرْضِ ۚ وَهُوَ الْعَزِيْزُ الْحَكِيْمُ ①

၁။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ပထဝီမြေ၌ရှိသမျှတို့သည် လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် စင်ကြယ် သန့်ရှင်းတော်မူကြောင်း မြွက်ဆို ချီးမွမ်းကြကုန်၏။ ၎င်းပြင် ထိုအရှင်မြတ်သည်ပင် အလွန်တရာ နိုင်နင်း လွှမ်းမိုးတော်မူသော အရှင်၊ လွန်စွာ နူးညံ့သိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင် ဖြစ်တော်မူ၏။

لَهٗ مُلْكُ السَّمٰوٰتِ وَالْاَرْضِ ۚ يُحْىٖ وَيُمِيْتُ ۚ وَهُوَ عَلٰى كُلِّ شَىْءٍ قَدِيْرٌ ②

၂။ မိုးကောင်းကင်များကို လည်းကောင်း၊ ကမ္ဘာမြေကိုလည်းကောင်း၊ စိုးမိုးအုပ်ချုပ်မှုအာဏာသည် ထိုအရှင်မြတ်၌သာရှိ၏။ ထိုအရှင်မြတ်သည်ပင် အသက်ရှင်စေတော်မူ၏။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည်ပင် အသက်သေဆုံးစေတော်မူ၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည်ပင် အရာခပ်သိမ်းတို့ကို စွမ်းနိုင်တော်မူသော အရှင်၊ ဖြစ်တော်မူ၏။

هُوَ الْاَوَّلُ وَالْاٰخِرُ وَالظَّاهِرُ وَالْبَاطِنُ ۚ وَهُوَ بِكُلِّ شَىْءٍ عَلِيْمٌ ③

၃။ ထိုအရှင်မြတ်သည်ပင် အဦးဆုံး ဖြစ်တော်မူသောအရှင်မြတ်သည် လည်းကောင်း၊ နောက်ဆုံး၌ရှိနေတော်မူအံ့သော အရှင်မြတ်သည် လည်းကောင်း၊ ထင်ရှားစွာ ရှိနေတော်မူသောအရှင်မြတ်သည် လည်းကောင်း၊ ကွယ်၍နေတော်မူသော အရှင်မြတ်သည်

လည်းကောင်း၊ ဖြစ်တော်မူ၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည်ပင် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသောအရှင် ဖြစ်တော်မူပေသတည်း။ [၁]

هُوَ الَّذِيْ خَلَقَ السَّمٰوٰتِ وَالْاَرْضَ فِيْ سِتَّةِ اَيَّامٍ ثُمَّ اسْتَوٰى عَلَى الْعَرْشِ ۚ يَعْلَمُ

၄။ ထိုအရှင်မြတ်သည်ပင် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ခြောက်ရက်အတွင်း ဖန်ဆင်းတော်မူခဲ့သော အရှင်မြတ်ဖြစ်တော်မူ၏။ ထို့နောက် ထိုအရှင်မြတ်သည် 'အရ်ရှ်' ပလ္လင်တော်ထက်ဝယ် စံမြန်းတော်မူခဲ့၏။

---

(၁) ဂုဏ်တော်များ(က)

အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကား အတိုင်းမသိ ကြီးမားဘိ၏။ မရေတွက်နိုင်အောင် များပြားဘိ၏။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို နိုင်နင်းလွှမ်းမိုးတော်မူ၏။ ထိုအရှင်မြတ်၌ ချုပ်ချယ်မှု၊ ဖိနှိပ်မှု၊ အဟန့်အတားဟူ၍ တစ်စုံတစ်ရာမျှ အလျှင်းမရှိ၊

ထိုအရှင်မြတ်သည် အတိုင်းမသိ နူးညံ့တော်မူ၏။ သိမ်မွေ့တော်မူ၏။ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူ၏။ ထိုအရှင်မြတ်သည် ပြုစီရင်တော်မူသမျှသည် ကျိုးကြောင်း ဆင်ခြင်တုံတရားနှင့် ပြည့်စုံလှသည်သာဖြစ်၏။

မိုးမြေနှင့်တကွ စကြဝဠာအပေါင်းကို ထိုအရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူ၏။ ထိုအရှင်မြတ်သည်ပင် ရှင်စေတော်မူ၏။ ထိုအရှင်မြတ်သည်ပင် သေစေတော်မူ၏။ ထိုအရှင်မြက်သည်ပင် အရာရာကိုပြုစွမ်းတော်မူနိုင်၏။ ထိုအရှင်မြတ်သည်ပင် အစပထမဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည်ပင် အဆုံးအဖြတ်ဖြစ်တော်မူ၏။

ထိုအရှင်မြတ်သည်ပင် တစ်စုံတစ်ရာမရှိမီအလျင်ကလည်း တည်ရှိနေတော်မူ၏။ ထိုအရှင်မြတ်သည်ပင် အရာခပ်သိမ်းပျက်ပြုန်း ဆိတ်သုဉ်းသွားပြီးနောက်တွင်လည်း တည်ရှိနေတော်မူမည်ဖြစ်၏။ ထာဝရ ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် ထင်ရှားစွာရှိတော်မူ၏။ ထိုအရှင်မြတ်သည် ဖုံးကွယ်လျက်ရှိတော်မူ၏။ အကြောင်းသော်ကား အရာခပ်သိမ်းတို့၏ ဖြစ်ရှိမှုသည် ထိုအရှင်မြတ်၏ တည်ရှိမှု၏အကျိုးပင်ဖြစ်၏။

ထိုအရှင်မြတ်သည် ဖြစ်ရှိမှုအကြောင်းအစုစု၏ (Ultimate Cause) အဆုံးစွန်အကြောင်းပင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်၏ သက်သေအထောက်အထား နိမိတ်လက္ခဏာများသည် အထင်သားအမြင်သားဖြစ်၏။

သို့ရာတွင် ထိုအရှင်မြတ်၏ မူလဇာတိတော်နှင့် ဂုဏ်တော်များကိုမူကား အတိအကျ အသူမျှ မသိနိုင်ပေ။ ဤသို့ဖြင့် ထိုအရှင်မြတ်သည် ထင်ရှားလျက်လည်းရှိတော်မူ၏။ ဖုံးကွယ် လျက်လည်းရှိတော်မူ၏။

ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့ သိတော်မူ၏။ ထိုအရှင်မြတ်၏ အသိဉာဏ်တော်မှ ဖုံးကွယ် လွတ်ကင်းနေသောအရာဟူ၍အလျှင်းမရှိ၊ တန်ခိုးတော် ဂုဏ်တော်များကြောင့်ပင် မိုး၊ မြေ၊ စကြဝဠာအဝှန်းရှိ အရာခပ်သိမ်းကုန်တို့သည် ထိုအရှင်မြတ်အား ကိုယ်နည်းကိုယ့်ဟန်နှင့် ဂုဏ်တော်မွမ်းလျက် ရှိကြကုန်၏။ အလ္လာဟ်အရှင်မြတ်ကား အတိုင်းမသိ ဂုဏ်တော်မွမ်းအပ်ပါတကား။

مَا يَلِجُ فِي الْأَرْضِ وَمَا يَخْرُجُ مِنْهَا وَمَا يَنْزِلُ مِنَ السَّمَاءِ وَمَا يَعْرُجُ فِيهَا ۖ وَهُوَ مَعَكُمْ أَيْنَ مَا كُنْتُمْ ۚ وَاللَّهُ بِمَا تَعْمَلُونَ بَصِيرٌ ﴿٤﴾

ထိုအရှင်မြတ်သည် ပထဝီမြေ၌ဝင်သောအရာကိုလည်းကောင်း၊ ယင်းပထဝီမြေမှထွက်သောအရာကိုလည်းကောင်း၊ မိုးကောင်းကင်မှ ဆင်းသက်လာသောအရာကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်သို့ တက်သောအရာကိုလည်းကောင်း၊ သိရှိတော်မူ၏။

၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့ရှိကြသော မည်သည့်နေရာ၌မဆို အသင်တို့နှင့်အတူ ရှိနေတော်မူ၏။ ထို့မှတစ်ပါး အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို အကြွင်းမဲ့ သိမြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

لَهُ مُلْكُ السَّمَاوَاتِ وَالْأَرْضِ ۚ وَإِلَى اللَّهِ تُرْجَعُ الْأُمُورُ ﴿٥﴾

၅။ မိုးကောင်းကင်များကို လည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ စိုးမိုးအုပ်ချုပ်မှု အာဏာသည် ထိုအရှင်မြတ်၌သာရှိ၏။ ထို့မှတစ်ပါး အရေးကိစ္စအလုံးစုံတို့မှာ ထိုအရှင်မြတ် အထံတော်သို့သာလျှင် ပြန်လည် ရောက်ရှိကြရပေမည်။

يُولِجُ اللَّيْلَ فِي النَّهَارِ وَيُولِجُ النَّهَارَ فِي اللَّيْلِ ۚ وَهُوَ عَلِيمٌ بِذَاتِ الصُّدُورِ ﴿٦﴾

၆။ ထိုအရှင်မြတ်သည်ပင် (အချို့သောရာသီဥတု၌) ညဉ့်(၏ အစိတ်အပိုင်းအချို့)ကို နေ့၏အတွင်းဝယ် ထည့်သွင်းတော်မူ၏။ ထိုနည်းတူစွာ ထိုအရှင်မြတ်သည်ပင် (အချို့သောရာသီဥတု၌) နေ့(၏အစိတ်အပိုင်းအချို့)ကို ညဉ့်၏အတွင်းဝယ် ထည့်သွင်းတော်မူ၏။ ထို့မှတစ်ပါး ထိုအရှင်မြတ်သည် စိတ်နှလုံးများအတွင်း၌ရှိသည်တို့ကိုပင် အကြွင်းမဲ့သိရှိတော်မူသော အရှင် ဖြစ်တော်မူပေသတည်း။ [၁]

---

(၁) <u>ဂုဏ်တော်များ(ခ)</u>

အလ္လာဟ်အရှင်မြတ်သည်ပင် မိုးများနှင့်မြေကို ၆ရက်အဘွင်း ဖန်ဆင်းတော်မူ၏။

ကြည့်-ကုရ်အာန် (၇:၅၄။၁၀:၃။၁၁:၇။၂၅:၅၉။၃၂:၄။၅၀:၃၈)။

ထိုအရှင်မြတ်သည် 'အရ်ရှ်' ပလ္လင်တော်ပေါ်၌စံမြန်းတော်မူလျက်ရှိတော်မူ၏။ (ထိုအရှင်မြတ်၏ ➤➤

اٰمِنُوْا بِاللّٰهِ وَرَسُوْلِهٖ وَاَنْفِقُوْا مِمَّا جَعَلَكُمْ مُّسْتَخْلَفِيْنَ فِيْهِ ۭ فَالَّذِيْنَ اٰمَنُوْا مِنْكُمْ وَاَنْفَقُوْا لَهُمْ اَجْرٌ كَبِيْرٌ ⑦

၇။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ် အားလည်းကောင်း၊ သက်ဝင်ယုံကြည် ကြလေကုန်။ ထို့ပြင် အသင်တို့သည် အကြင်ဥစ္စာပစ္စည်းအနက်မှ သုံးစွဲ လှူဒါန်းကြလေကုန်။ ထိုအရှင်မြတ်သည် အသင်တို့အား ယင်းပစ္စည်းဥစ္စာများနှင့် စပ်လျဉ်း၍ ကိုယ်စားလှယ်များအဖြစ် ခန့်အပ်တော်မူခဲ့၏။ စင်စစ် အသင်တို့အနက်မှ အကြင်သူတို့သည် သက်ဝင်ယုံ ကြည်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် သုံးစွဲ လှူဒါန်းခဲ့ကြကုန်၏။ ထိုသူတို့အဖို့ ကြီးကျယ်လှစွာ သောအကျိုးသည် ရှိပေမည်။ [၁]

---

➤➤ အာဏာစက်သည် အရာခပ်သိမ်းကုန်တို့တွင် တည်လျက်ရှိ၏။) ကြည့် ကုရ်အာန်(၇:၅၄။၁၀:၃။ ၁၃:၂။၂၀:၅။၂၅:၅၉။၃၂:၄။၅၇:၄)

ထိုအရှင်မြတ်သည် မြေတွင်းသို့ဝင်သည်တို့ကိုလည်းကောင်း၊ မြေမှထွက်သည်တို့ကိုလည်းကောင်း၊ မိုးမှ သက်ဆင်းသည်တို့ကိုလည်းကောင်း၊ မိုးသို့ တက်ရောက်သည်တို့ကိုလည်းကောင်း၊ အကြွင်းမဲ့သိတော်မူ၏။ ကြည့်-ကုရ်အာန်(၃၄:၂)။

ထိုအရှင်မြတ်သည် အဘယ်မှာမဆို အသင်တို့ရှိကြသည့်နေရာတွင် အသင်တို့နှင့်အတူပင်ရှိတော်မူ၏။ အသင်တို့ပြုမူကြသည်များကိုလည်း သိမြင်တော်မူ၏။ မိုးမြေနှင့်တကွ စကြဝဠာအဝှန်းကို ပိုင်ဆိုင်တော်မူ၏။ အရေးကိစ္စအဝဝသည် နောက်ဆုံးတွင် ထိုအရှင်မြတ်ထံတော်သို့ပင် ပြန်လည်ရောက်ရှိမည်ဖြစ်၏။ (ထိုအရှင်မြတ် သည်ပင် အဆုံးအဖြတ်ပေးတော်မူမည်ဖြစ်၏)။ ထိုအရှင်မြတ်သည် ဥတုရာသီအလိုက် နေ့နှင့်ညဥ့်ကို ပြောင်းလဲ၍ တိုစေတော်မူ၏။ ရှည်စေတော်မူ၏။ ကြည့်-ကုရ်အာန်(၂၂:၆၁။၃၁:၂၉။၃၅:၁၃)။ ထိုအရှင်မြတ်သည် စိတ်နှလုံးသားများတွင် ဖြစ်ပေါ်နေသည့် အတွေးအခေါ် အကြံအစည်များကိုပင် အကြွင်းမဲ့ အလုံးစုံ သိရှိတော်မူ၏။ အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကား ကြီးကျယ်မြင့်မြတ်တော်မူ၏။ အလ္လာဟ်အရှင်မြတ်ကား အတိုင်းမသိ ဂုဏ်တော်မွမ်းအပ်ပါဘိတကား။

(၁) အထက်တွင် 'တောင်ဟီးဒ်' နှင့် စပ်လျဉ်းသည့် သက်သေခံ အထောက်အထားများ ထင်ရှားလျက်ရှိချေပြီ၊ ထို့ပြင်တစ်ဝ ထိုအရှင်မြတ်၏ အာယတ်တော်များကို ထိုအရှင်မြတ်စေလွှတ်တော်မူသော တမန်တော်များမှတစ်ဆင့် ကြားနာကြရသည်မှာလည်း အထင်အရှားပင်။ ထို့အတွက်ကြောင့် 'အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား လည်းကောင်း၊ ထိုအရှင်မြတ်၏တမန်တော်အားလည်းကောင်း၊ (အီမာန်)သက်ဝင်ယုံကြည်ကြကုန်လော့' ဟု အတိအလင်း အမိန့်ပေးထားတော်မူခြင်း ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ် စေလွှတ်တော်မူသော တမန်တော်အား သက်ဝင်ယုံကြည်ပါက ယင်းယုံကြည်မှုကို လက်တွေ့ အထောက်အထားပြနိုင်ရန် အလို့ငှာ ထိုအရှင်မြတ်က မိမိတို့ထံ ခေတ္တခဏ ➤➤

وَمَا لَكُمْ لَا تُؤْمِنُونَ بِاللَّهِ ۚ وَالرَّسُولُ يَدْعُوكُمْ لِتُؤْمِنُوا بِرَبِّكُمْ وَقَدْ أَخَذَ مِيثَاقَكُمْ إِن كُنتُم مُّؤْمِنِينَ ⑧

၈။ စင်စစ်သော်ကား အသင်တို့ သက်ဝင်ယုံကြည်ခြင်းမရှိကြသည်မှာ အသင်တို့၌ မည်သည့်အကြောင်းရှိပေသနည်း။ အမှန်စင်စစ်သော်ကား အသင်တို့သည် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား သက်ဝင်ယုံကြည်ကြရန် ရဆူလ်တမန်တော်မြတ်သည် အသင်တို့အား ဖိတ်ခေါ်လျက်ရှိပေသည်။ ထိုမှတစ်ပါး မလွဲဧကန် ထိုအရှင်မြတ် ကိုယ်တော်တိုင်ပင် အသင်တို့ထံမှ ကတိဝန်ခံချက်ကို ယူထားတော်မူပြီး ဖြစ်ပေသည်။ အကယ်၍ အသင်တို့သည် သက်ဝင်ယုံကြည်အံ့သောသူများ ဖြစ်ကြပါလျှင်၊ [၁]

---

➤➤ ထိန်းသိမ်းရန် အပ်နှင်းထားတော်မူသည့် ဥစ္စာပစ္စည်းများအနက် အချို့အဝက်ကို ထိုအရှင်မြတ်၏ လမ်းတော်တွင် ရက်ရောစွာ လှူဒါန်းကြရပေမည်။ သို့မဟုတ်ပါမူ ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်မြတ်အား ယုံကြည် မြတ်နိုးပါသည်' ဟု နှုတ်မှ ဖွင့်ဟပြောဆိုသော ယုံကြည်ချက်မှာ အသို့လျှင် အဓိပ္ပာယ်ရှိနိုင်အံ့နည်း။

ဤတွင် အထူးတလည် သတိပြုအပ်သည့် အချက်တစ်ရပ်မှာ၊ ယခုမိမိတို့၏ လက်ဝယ်၌ ရှိနေသော ဥစ္စာပစ္စည်းသည် တစ်ချိန်က သူတစ်ပါးတို့၏လက်ဝယ်၌ ရှိနေခဲ့၏။ သူတစ်ပါးတို့လက်ဝယ်မှ အဆင့်ဆင့် ပြောင်းကာ မိမိတို့လက်ဝယ်သို့ ရောက်ရှိခြင်းသာဖြစ်၏။

ယင်းသို့ သူတစ်ပါးတို့လက်ဝယ်မှ မိမိတို့လက်ဝယ်သို့ အဆင့်ဆင့် ရောက်ရှိလာသော ဥစ္စာပစ္စည်းသည် တစ်ချိန် မိမိတို့လက်ဝယ်မှ သူတစ်ပါးတို့လက်ဝယ်သို့ ပြန်လည်ရောက်ရှိသွားဦးမည်ပင် ဖြစ်၏။ 'ဥစ္စာပစ္စည်းကား မျက်နှာများလှပါဘိတကား' ကျွန်ုပ်တို့သည် သူတစ်ပါးတို့၏ အမွေဆက်ခံသူများ ဖြစ်ကြပေရာ၊ မကြာမီ ကျွန်ုပ်တို့၏ အမွေကို ဆက်ခံမည့်သူများလည်း ပေါ်လာကြမည်ဖြစ်၏။ အမှန်မှာ မိမိတို့လက်ဝယ်ရှိ ဥစ္စာပစ္စည်း(နှင့်တကွ အရာခပ်သိမ်းကုန်တို့ကိုပါ) ပိုင်ဆိုင်တော်မူသော အရှင်မှာ အလ္လာဟ်အရှင်မြတ်ပင် ဖြစ်တော်မူ၏။ ကျွန်ုပ်တို့မူ ခေတ္တခဏ ဆက်ခံထိန်းသိမ်းထားကြရသော ဥစ္စာထိန်း ဘဏ္ဍာထိန်းများသာလျှင် ဖြစ်ကြ၏။ ပိုင်ရှင်ကား မဟုတ်ကြပေ။ ထို့ပြင်တစ်ဝ မိမိတို့လက်ဝယ်ရောက်ရှိနေသော ဥစ္စာပစ္စည်းသည်လည်း မကြာမီအတွင်း သူတစ်ပါးလက်ဝယ်သို့ ရွှေ့ပြောင်းရောက်ရှိသွားမည့် အာဂန္တုမျှသာ ဖြစ်၏။ သို့ဖြစ်ရာ ကျွန်ုပ်တို့သည် မိမိတို့လက်ဝယ်ရှိနေသေးသော ဥစ္စာပစ္စည်းများကို ထိုအရှင်မြတ် ညွှန်ကြားတော်မူရာတွင် ရိုးသားစွာ ရက်ရောစွာ သုံးစွဲလှူဒါန်းကြရပေမည်။ ထိုမှတစ်ပါးတုံ ယင်းသို့ သုံးစွဲလှူဒါန်းခြင်းအားဖြင့် ကျွန်ုပ်တို့သည် မြင့်မြတ်လှသော ကုသိုလ်အကျိုးများကိုလည်း ချီးမြှင့်တော်မူခြင်းခံကြရ ဦးမည်ဖြစ်ရာ ကျွန်ုပ်တို့၌ ယင်းသို့ မလှူဒါန်းရန်အကြောင်းပင် မရှိတော့ပေ။ အဆောတလျင် လှူဒါန်းကြရမည်သာတည်း။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်အား အီမာန် သက်ဝင်ယုံကြည်၍ ထိုအရှင်မြတ်၏ လမ်းတော်၌ သုံးစွဲလှူဒါန်းကြသော မုအမ်မိန်များ အကြောင်းပါရှိ၏။ ဤ အာယတ်တော်တွင် အီမာန် သက်ဝင်ယုံကြည်ခြင်း မရှိသေးသောသူများအား ရည်ညွှန်း မိန့်ကြားထားတော်မူသည်မှာ အလ္လာဟ်အရှင်မြတ်အား အသင်တို့ ➤➤

هُوَ الَّذِي يُنَزِّلُ عَلَىٰ عَبْدِهِ آيَاتٍ بَيِّنَاتٍ لِيُخْرِجَكُمْ مِنَ الظُّلُمَاتِ إِلَى النُّورِ ۚ وَإِنَّ اللَّهَ بِكُمْ لَرَءُوفٌ رَحِيمٌ ﴿٩﴾

၉။ ထိုအရှင်မြတ်သည် အကြင်အရှင်မြတ်ပင်။ ထိုအရှင်မြတ်သည် အသင်တို့အား အမှောင်ထုမှအလင်းသို့ ထွက်စေအံ့သောငှာ မိမိကျွန်တော်(တမန်တော်မြတ်မုဟမ္မဒ်)၏အပေါ်၌ ထင်ရှားစွာသော အာယတ်တော်များကို ချပေးတော်မူ၏။ စင်စစ်မှာကား ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အပေါ်ဝယ် အလွန်တရာ နူးညံ့သိမ်မွေ့တော်မူသော၊ အလွန်တရာ ကြင်နာသနားတော်မူသောအရှင်မြတ် ဖြစ်တော်မူ၏။

وَمَا لَكُمْ أَلَّا تُنْفِقُوا فِي سَبِيلِ اللَّهِ وَلِلَّهِ مِيرَاثُ السَّمَاوَاتِ وَالْأَرْضِ ۚ لَا يَسْتَوِي مِنْكُمْ مَنْ أَنْفَقَ مِنْ قَبْلِ الْفَتْحِ وَقَاتَلَ ۚ أُولَٰئِكَ أَعْظَمُ دَرَجَةً مِنَ الَّذِينَ أَنْفَقُوا مِنْ بَعْدُ

၁၀။ ထိုမှတစ်ပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သုံးစွဲလှူဒါန်းခြင်း မပြုကြရန် အသင်တို့၌ မည်သည့်အကြောင်း ရှိချေသနည်း။ စင်စစ်သော်ကား မိုးကောင်းကင်များ၌ ရှိကုန်သော ပစ္စည်းဥစ္စာတို့သည် လည်းကောင်း၊ ပထဝီမြေဝယ် ရှိကုန်သော ပစ္စည်းဥစ္စာတို့သည် လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်နှင့်သာ သက်ဆိုင်ပေသည်။ အသင်တို့အနက် (မက္ကာမြို့တော်ကို) မအောင်မြင်မီ သုံးစွဲ လှူဒါန်းခဲ့ကြသော၊ ပြိုင်ဆိုင်တိုက်ခိုက်ခဲ့ကြသောသူတို့သည် (မက္ကာမြို့တော်ကို အောင်မြင်ပြီးနောက်တွင် သုံးစွဲလှူဒါန်းခြင်း၊ ပြိုင်ဆိုင်တိုက်ခိုက်ခြင်း ပြုခဲ့ကြသောသူတို့နှင့်) တူကြသည်မဟုတ်ပေ။

➤➤ အဘယ်ကြောင့် မယုံကြည်ကြသနည်း။ ယင်းသို့ မယုံကြည်ရန် အသင်တို့၌ အဟန့်အတား တစ်စုံတစ်ရာ ရှိသလော။ အလ္လာဟ်အရှင်မြတ်အား မယုံကြည်ရန် အဟန့်အတား တစ်စုံတစ်ရာ မရှိသည်သာမက၊ ထိုအရှင်မြတ်အား ယုံကြည်ရန်သာလျှင် အကြောင်းများအလုံအလောက် ရှိနေပေသည်။ ဥပမာ (၁) တမန်တော်မြတ်မုဟမ္မဒ် (ဆွာလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)ကိုယ်တော်တိုင် အသင်တို့အား ဖိတ်ခေါ်တော်မူလျက် ရှိသည်။ (၂) ထို့ပြင်တစ်ဝ အလ္လာဟ်အရှင်မြတ် ကိုယ်တိုင်ပင်လျှင်၊ ဝိညာဉ်လောကတွင် အသင်တို့ထံမှ ပဋိညာဉ်ဝန်ခံချက်ကို ယူထားတော် မူခဲ့ပေသည်။ ယင်းသည့် ပဋိညာဉ် ဝန်ခံချက်ကို ပွင့်လေသမျှသော တမန်တော်များနှင့်တကွ တမန်တော်မြတ် ကိုယ်တော်တိုင်ကပါ အသီးသီးပြန်လည် သတိပေးခဲ့ကြပြီးလည်း ဖြစ်သည်။ သို့ဖြစ်ရာ အကယ်၍ အသင်တို့သည် အီမာန် သက်ဝင်ယုံကြည်လိုပါက သက်ဝင်ယုံကြည်နိုင်ရန် အကြောင်းများ အလုံအလောက် ရှိနေချေပြီ။ ကြည့် - ထာနဝီ။

وَقَاتَلُوا وَكُلًّا وَعَدَ اللَّهُ الْحُسْنَىٰ وَاللَّهُ بِمَا تَعْمَلُونَ خَبِيرٌ ⑩

ထို(မအောင်မြင်မီ လှူဒါန်း တိုက်ခိုက်ခဲ့ကြသောသူတို့မှာကား နောက်ပိုင်းတွင် သုံးစွဲလှူဒါန်းခြင်း၊ ပြိုင်ဆိုင် တိုက်ခိုက်ခြင်း ပြုခဲ့ကြသောသူတို့ထက် *ဂုဏ်ရည်အဆင့်အတန်းအားဖြင့် ထူးကဲမြင့်မြတ်လှကြကုန်၏၊* [၁] စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အားလုံးကိုပင် ကောင်းကျိုးပေးတော်မူရန် ကတိပေးတော်မူခဲ့၏။ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို စုံလင်စွာသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူသည်။

---

(၁) အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ လှူဒါန်းခြင်းသည် ကောင်း၏။ ထိုအရှင်မြတ်၏လမ်းတော်၌ ရန်သူများနှင့် ပြိုင်ဆိုင်တိုက်ခိုက်ခြင်းသည် ကောင်း၏။ နှစ်ဘဝလုံးတွင် အလ္လာဟ်အရှင်မြတ်ထံတော်မှ ကုသိုလ်အကျိုးများကို ချီးမြှင့်တော်မူခြင်း ခံရမည်သာဖြစ်၏။

သို့ရာတွင် ဤနေရာ၌ သတိပြုအပ်သည့် အချက်တစ်ရပ်မှာ အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ လှူဒါန်းခြင်း၊ စွန့်စားခြင်းများသည် တစ်ခါတစ်ရံ အမည်ပညတ်အားဖြင့် အချင်းချင်းတူငြားသော်လည်း အချိန်ကာလ အခြေအနေ ပတ်ဝန်းကျင် ကွဲပြားသည့်အပေါ်တွင် ကုသိုလ်အကျိုးများမှာ ကွဲပြားခြားနားသွားတတ်ပေသည်။ ဥပမာ-မက္ကာမြို့တော် မအောင်နိုင်မီ အလျင်က အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ လှူဒါန်းသူများနှင့် မက္ကာမြို့တော် အောင်နိုင်ပြီးနောက်ပိုင်းတွင် လှူဒါန်းသူများသည် အဘယ်မှာလျှင် အကျိုးချင်းတူနိုင်ကြအံ့နည်း။ ထိုနည်းအတူ မက္ကာမြို့တော် မအောင်နိုင်မီအလျင်က အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ ဂျိဟာဒ် ပြုလုပ်သူများနှင့် မက္ကာမြို့တော်အောင်နိုင်ပြီး နောက်ပိုင်းကာလတွင် ဂျိဟာဒ် ပြုလုပ်သူများသည် အဘယ်မှာလျှင် အကျိုးချင်းတူနိုင်ကြအံ့နည်း။

မက္ကာမြို့တော် မအောင်နိုင်မီအလျင်က လှူဒါန်းခဲ့ကြသော ဂျိဟာဒ်ပြုခဲ့ကြသော ပုဂ္ဂိုလ်များသည် မက္ကာမြို့တော်အောင်နိုင်ပြီး နောက်ပိုင်းကာလမှ လှူဒါန်းခဲ့ကြသော ဂျိဟာဒ် ပြုလုပ် ကြသောပုဂ္ဂိုလ်များထက် ဂုဏ်ရည်အဆင့်အတန်း အလွန်မြင့်မားခဲ့ကြပေသည်။ အကြောင်းသော် မက္ကာမြို့တော် မအောင်နိုင်မီ အလျင်က အစ္စလာမ်ကို လက်ခံသူများမှာ အလွန်တရာမျှ နည်းခဲ့၏။ အစ္စလာမ်အတွက် အသက်ပေး၍ ဂျိဟာဒ်ပြုလုပ်သူများမှာလည်း အလွန်နည်းခဲ့၏။ ရန်သူများကား များပြားခဲ့ကြ၏။ ၎င်းတို့၏ အင်အားမှာလည်း ကြီးမားခဲ့၏။ ဂျိဟာဒ်ပြုလုပ်ခြင်းဖြင့် စစ်မြေပြင်မှ လက်ရပစ္စည်း သုံ့ပန်းစသည့် လောကီအကျိုးအမြတ်ရရန်လည်း မျှော်လင့်ချက် မရှိခဲ့ပေ။ ထိုသို့သောအချိန်အခါမျိုးတွင် ထိုသို့သောပတ်ဝန်းကျင်၌ ဥစ္စာပစ္စည်းလှူဒါန်းခြင်း သက်စွန့်ကြိုးပမ်းခုခံတိုက်ခိုက်ခြင်းသည် အထူးလို၏။ အထူးအရေးကြီး၏။ ထိုသို့သောအချိန်ကာလ အခြေအနေမျိုးတွင် အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုး၍ ထိုအရှင်မြတ်၏လမ်းတော်တွင် ဥစ္စာပစ္စည်းနှင့်တကွ အသက်စည်းစိမ်ကိုပါ စွန့်လှူခြင်းမှာ လူသာမန်တို့၏ အလုပ်မဟုတ်၊ သာသနာ့သူရဲကောင်းတို့၏ အလုပ်သာလျှင် ဖြစ်ချေသည်။ ကြည့်-ထာနဝီ၊ အွတ်ဆ်မာနီ။

مَنْ ذَا الَّذِي يُقْرِضُ اللَّهَ قَرْضًا حَسَنًا فَيُضٰعِفَهُ لَهُ وَلَهُ أَجْرٌ كَرِيمٌ ﴿١١﴾

၁၁။ အလ္လာဟ်အရှင်မြတ်အား ကောင်းမြတ်သော (စေတနာနှင့်) ကြွေးမြီချေးငှားအံ့သောသူသည် မည်သူရှိသနည်း။ သို့ချေးငှားခဲ့သည်ရှိသော် ထိုအရှင်မြတ်သည် ယင်းကြွေးမြီကို ထိုသူ၏အဖို့ ဆတက်တိုးပွားစေတော်မူသည့်ပြင် ထိုသူ၏အဖို့ မြင့်မြတ်လှစွာသော အကျိုးသည်လည်း ရှိချေအံ့သတည်း။ [၁]

يَوْمَ تَرَى الْمُؤْمِنِينَ وَالْمُؤْمِنٰتِ يَسْعٰى نُورُهُمْ بَيْنَ أَيْدِيهِمْ وَبِأَيْمٰنِهِمْ بُشْرٰىكُمُ الْيَوْمَ جَنّٰتٌ تَجْرِي مِنْ تَحْتِهَا الْأَنْهٰرُ خٰلِدِينَ فِيهَا ذٰلِكَ هُوَ الْفَوْزُ الْعَظِيمُ ﴿١٢﴾

၁၂။ (အို-နဗီတမန်တော်၊) အကြင်နေ့တွင် အသင်သည် မုအ်မင်န်သက်ဝင်ယုံကြည်သူ ယောကျာ်းမိန်းမတို့အား တွေ့မြင်ရပေမည်။ ထိုသူတို့၏ ရောင်ခြည်သည် *ထိုသူတို့၏ရှေ့၌လည်းကောင်း၊ ထိုသူတို့၏ လက်ယာဘက်များ၌ လည်းကောင်း၊ ပြေးလျက်ရှိပေမည်။* [၂] (၎င်းတို့သည် ဤသို့ပြောကြားခြင်း ခံကြရပေမည်။) ယနေ့ အသင်တို့အဖို့ သတင်းကောင်းပင်၊ (အသင်တို့အဖို့) အကြင်ဥယျာဉ်များ ရှိပေသည်။ ယင်းဥယျာဉ်များ၏အောက်မှချောင်းများသည် စီးတွေလျက်ရှိကြပေသည်။ ယင်းဥယျာဉ်များဝယ် (အသင်တို့သည်) အမြဲထာဝစဉ် နေထိုင်ကြရပေမည်။ ထိုသည်ပင်လျှင် ကြီးကျယ်လှသော အောင်မြင်မှုပင်။

---

(၁) ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်အား ကြွေးမြီး ချေးငှားခြင်းဟူသည် ထိုအရှင်မြတ်၏ လမ်းတော်၌ သုံးစွဲလှူဒါန်းခြင်းကို တင်စားသုံးနှုန်းထားတော်မူခြင်းဖြစ်သည်။ ဤသည့်အသုံးအနှုန်းကို ထောက်ရှုခြင်းအားဖြင့် အကြွေးသည် မြီစားက မြီရှင်အား ပြန်လည်ပေးဆပ်ရသည့် အလား အလ္လာဟ်အရှင်မြတ်သည် မိမိ၏လမ်းတော်၌ သုံးစွဲလှူဒါန်းသူများအား မုချ ကုသိုလ်အကျိုးချီးမြှင့်တော်မူမည့် အကြောင်းကိုလည်း ကောင်းစွာသိရှိနိုင်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် မိမိ၏လမ်းတော်၌ ကောင်းမြတ်သောစေတနာဖြင့် သုံးစွဲလှူဒါန်းသူများအား ကုသိုလ်အကျိုးကို အဆပေါင်း မြောက်မြားစွာ များပြားစေတော်မူမည်။ ထို့ပြင်တစ်ဝ မြင့်မြတ်သော ကုသိုလ်အကျိုးကိုလည်း ချီးမြှင့်တော်မူဦးပေမည်။ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ပြန်လည်ချီးမြှင့်တော်မူမည့် ကုသိုလ်အကျိုးသည် ထိုအရှင်မြတ်၏လမ်းတော်၌ ကျွန်ုပ်တို့ သုံးစွဲလှူဒါန်းကြသော အလှူဒါနထက် အရေအတွက်အားဖြင့်လည်းကောင်း၊ အရည်အသွေးအားဖြင့်လည်းကောင်း၊ အဘက်ဘက်မှ အတိုင်းမသိ ကောင်းမြတ်လှပေမည်။ အတိုင်း မသိ များပြားလှပေမည်။ သို့ဖြစ်ရာ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ကိုယ်စွမ်းရှိသမျှ ညဏ်စွမ်းရှိသမျှ သုံးစွဲလှူဒါန်းကြရန်သာ ရှိပေတော့သတည်း။ ➤➤

يَوْمَ يَقُولُ الْمُنٰفِقُوْنَ وَالْمُنٰفِقٰتُ لِلَّذِيْنَ اٰمَنُوا انْظُرُوْنَا نَقْتَبِسْ مِنْ نُّوْرِكُمْ ۚ قِيْلَ ارْجِعُوْا وَرَآءَكُمْ فَالْتَمِسُوْا نُوْرًا ۗ فَضُرِبَ بَيْنَهُمْ بِسُوْرٍ لَّهٗ بَابٌ ۗ بَاطِنُهٗ فِيْهِ الرَّحْمَةُ

၁၃။ အကြင်နေ့တွင် 'မုနာဖစ်က်' အယောင်ဆောင် မုစ်လင်မ်ယောကျ်ား မိန်းမတို့သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အား (ဤသို့) ပြောဆိုကြပေမည်။ (အချင်းတို့)၊ အသင်တို့၏အလင်းရောင်မှ (အနည်းငယ်မျှ) ရယူနိုင်ကြရန် အသင်တို့သည် ကျွန်ုပ်တို့အား လှည့်၍ ကြည့်ကြလေကုန်၊ စောင့်ဆိုင်းကြလေကုန်။ (ထိုအခါ ၎င်းတို့သည် ဤသို့)ပြောဆို ပြန်ကြားခြင်းကို ခံကြရပေမည်။ *အသင်တို့သည် နောက်သို့ပြန်သွားပြီးလျှင် အလင်းရောင်ကို ရှာဖွေကြလေကုန်။* [၁]

➤➤ ဤသည့်သဘောကို ကုရ်အာန်(၂:၂၄၅။၅:၁၂။၅၇:၁၁။၅၇:၁၈။၆၄:၁၇။၇၃:၂၀)တွင် မိန့်ဆိုထားတော်မူသည်။

(၂) ဤအာယတ်တော်တွင် ကိယာမတ်နေ့၌ 'မဟ်ရှရ်' ကွင်းပြင်ကြီး၏ ရှုမျှော်ခင်းတစ်ရပ်ကို မိန့်ဆိုထားတော်မူသည်။ အီမာန် သက်ဝင်ယုံကြည်သော မုအ်မင်န် အမျိုးသားအမျိုးသမီးများသည် 'ဆွိရာတ်' တံတားကို ဖြတ်ကျော်ကြသည့် အချိန်တွင် ၎င်းတို့နှင့်အတူ ၎င်းတို့၏ (အီမာန်) ယုံကြည်မှု၊ (အမလ်) အကျင့်သီလနှင့်အမျှ လင်းရောင်ခြည် ပါရှိပေမည်။

(၁) ကိယာမတ်နေ့တွင် မုအ်အင်န်များသည် မိမိတို့၏ (အီမာန်) ယုံကြည်မှု၊ (အမလ်) အကျင့်သီလများ၏ ကျေးဇူးဖြင့် 'ဆွိရာတ်'တံတားကို လွယ်ကူစွာ ဖြတ်ကျော်သွားကြသောအခါ မုနာဖစ်က်များသည် (ဝါ) အခြေအနေအရ မလွဲမရှောင်သာ ဟန်ဆောင်ကာ မိမိတို့ကိုယ်ကို မိမိတို့ မွတ်စ်လင်မ်ပါဟု ထုတ်ဖော်ပြောဆိုနေခဲ့ကြသော ကာဖိရ်များသည် အမှောင်ထုအတွင်း၌ ကျန်ရစ်နေခဲ့ကြပေမည်။

ကိယာမတ်နေ့တွင် မုနာဖစ်က်များ၌ အစကတည်းကပင် လင်းရောင်ခြည် လုံးဝမရှိဘဲလည်း ဖြစ်နိုင်ပေသည်။ သို့တည်းမဟုတ် မုနာဖစ်က်များသည် လူ့လောက၌ရှိခဲ့ကြစဉ်က ပြင်ပကိစ္စများတွင် မွတ်စ်လင်မ်များနှင့်အတူ ဟန်ဆောင်ကာ ပါဝင်နေခဲ့ကြသည့်အားလျော်စွာ၊ ကိယာမတ်နေ့တွင်လည်း ယင်းမုနာဖစ်က်များ၌ အစပထမတွင် သာမန်ဟန်ဆောင် လင်းရောက်ခြည် ရှိကောင်းရှိပေမည်။ သို့ရာတွင် ၎င်းတို့၌ မှန်ကန်သော (အီမာန်)ယုံကြည်မှု မရှိခဲ့သည့်အတွက်၊ ၎င်းတို့ရရှိကြမည့် ဟန်ဆောင် လင်းရောင်ခြည်သည်လည်း အမှန်တကယ် လိုအပ်သည့်အချိန်တွင်မှ ပျောက်ခြင်းမလှ ပျောက်ကွယ်သွားပေမည်။ အယောင်ဆောင် မွတ်စ်လင်မ်များအား အယောင်ဆောင်မှု၏ ပြစ်ဒဏ်ပေးသည့်အနေဖြင့် အစပထမတွင် ၎င်းတို့၌ သာမန်လင်းရောက်ခြည်ရှိစေပြီး၊ ထို့နောက်တွင် သော် ရုတ်တရက် လင်းရောင်ခြည် လုံးဝကွယ်ပျောက်စေခြင်းသည် ပို၍ သဘာဝကျလှပေသည်။

ကြည့် - အာရီဒီ။

ယင်းသို့ မုနာဖစ်က်များ လင်းရောင်ခြည် ပျောက်ခြင်းမလှ ပျောက်၍ အမှောင်ထုတွင် ကျန်ရစ်ခဲ့ကြရသောအခါ၊ မုနာဖစ်က်များက မုအ်မင်န်တို့အား အချင်းတို့၊ ကျွန်ုပ်တို့အား ကြည့်ကြပါကုန်။ စောင့်ဆိုင်းကြပါကုန်။ ကျွန်ုပ်တို့ အသင်တို့၏လင်းရောင်ခြည်မှ အနည်းငယ်သော လင်းရောင်ခြည် ယူကြပါရစေဟု ➤➤

وَظَاهِرُهُ مِنْ قِبَلِهِ الْعَذَابُ ﴿١٣﴾

ထိုအချိန်၌ပင် ၎င်းတို့၏အကြား၌ *တံတိုင်းတစ်ခု စိုက်ထူလိုက်ပေမည်။* ① ယင်းတံတိုင်းတွင် တံခါးတစ်ခု ရှိပေမည်။ ယင်းတံခါး၏ အတွင်းဘက်၌ ကရုဏာသည်ရှိ၍၊ ၎င်း၏အပြင်ဘက်၌မူကား ပြစ်ဒဏ်သည်ရှိပေမည်။

يُنَادُونَهُمْ أَلَمْ نَكُن مَّعَكُمْ ۖ قَالُوا بَلَىٰ وَلَٰكِنَّكُمْ فَتَنتُمْ أَنفُسَكُمْ وَتَرَبَّصْتُمْ وَارْتَبْتُمْ وَغَرَّتْكُمُ الْأَمَانِيُّ حَتَّىٰ جَاءَ أَمْرُ اللَّهِ وَغَرَّكُم بِاللَّهِ الْغَرُورُ ﴿١٤﴾

**၁၄။** ထို 'မုနာဖစ်က်' အယောင်ဆောင် မုစ်လင်မ်တို့သည် ထိုမုအ်မင်န် သက်ဝင်ယုံကြည်သူတို့အား ကျွန်ုပ်တို့သည် (လောကီဘဝတွင်) အသင်တို့နှင့်အတူ ရှိခဲ့ကြသည် မဟုတ်လောဟု ဟစ်အော် ပြောဆိုကြပေမည်။ (ထိုအခါ) ထိုမုအ်မင်န် သက်ဝင် ယုံကြည်သူတို့က (ဤသို့) ဖြေကြားကြပေမည်။ အဘယ်ကြောင့် မဟုတ်ပါသနည်း။ (အမှန်ပင်) အတူရှိခဲ့ကြပေသည်။ သို့ရာတွင် အသင်တို့သည် မိမိတို့ကိုယ်ကို ဖြားယောင်းခဲ့ကြပေသည်။ ၎င်းပြင် အသင်တို့သည် (အစ္စလာမ် သာသနာတော် ပျက်စီးရန်) စောင့်ဆိုင်း၍ နေခဲ့ကြပေသည်။ ထို့ပြင် အသင်တို့သည် အစ္စလာမ်သာသနာတော်နှင့်စပ်လျဉ်း၍ ဒွိဟသံသယ ဖြစ်နေခဲ့ကြပေသည်။ အချည်းနှီးသော အာသာဆန္ဒများသည်လည်း အသင်တို့အား သွေးဆောင် ဖြားယောင်းခဲ့ပေသည်။

---

➤➤ ပြောကြားပေမည်။ ထိုအခါ သက်ဆိုင်ရာ ကောင်းကင်တမန်များက သို့မဟုတ် အဆိုပါ မုအ်မင်န်များက အသင်တို့ နောက်သို့ပြန်သွားပြီးလျှင် လင်းရောင်ခြည်ကို ရှာဖွေကြကုန်ဟု ပြန်လည်ဖြေကြားကြပေမည်။ ဆိုလိုသည်ကား - ဤသည့် လင်းရောင်ခြည်သည် လူ့လောကတွင် ကျင့်မူ ဆည်းပူးခဲ့ကြသော အကျင့်သီလ၏ အကျိုးသာဖြစ်သည်။ အကျင့်သီလ ဆည်းပူးရာဌာနကား ဤဌာနမဟုတ်။ အသင်တို့ထားခဲ့သော လူ့လောက ဖြစ်သည်။ ဤဌာနကား ကျိုးပြစ်ခံစံရာ ဌာနသာဖြစ်သည်ဟူ၏။ ကြည့်-မာဂျိဒီ။

① မုနာဖစ်က်များသည် မုအ်မင်န်များထံ ဝင်ရောက်ရန် ဝေးစွ မုအ်မင်န်များထံမှ လင်းရောင်ခြည်ရရန်ဝေးစွ၊ ၎င်းတို့နှင့် မုအ်မင်န်တို့၏ စပ်ကြားတွင် တံတိုင်းကြီးတစ်ခု စိုက်ထူကာ မုအ်မင်န်များနှင့် မုနာဖစ်က်များကို အခွဲကြီးခွဲပစ်လိုက်ပေမည်။ မုနာဖစ်က်များသည် ဤမှာဘက်တွင် လင်းရောင်ခြည်ပျောက်ကာ အမှောင်ထု အတွင်း၌ပင် ကျန်ရှိနေခဲ့ကြပေမည်။ ဤကား အယောင်ဆောင်မှု၏ အကျိုးပင်။

နောက်ဆုံးတွင် ('မရဏ'သေခြင်းတရားတည်းဟူသော) အလ္လာဟ်အရှင်မြတ်၏အမိန့်တော်သည် ရောက်ရှိ၍ လာခဲ့ပေသည်။ ထိုမှတစ်ပါး လွန်စွာဖြားယောင်းသူ(ဖြစ်သော 'ရှိုင်တွာန်'မိစ္ဆာကောင်)သည် အသင်တို့အား အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ သွေးဆောင် ဖြားယောင်းခဲ့ပေသည်။ [၁]

فَالْيَوْمَ لَا يُؤْخَذُ مِنْكُمْ فِدْيَةٌ وَّلَا مِنَ الَّذِيْنَ كَفَرُوْا ۭ مَاْوٰىكُمُ النَّارُ ۭ هِيَ مَوْلٰىكُمْ ۭ وَبِئْسَ الْمَصِيْرُ ⑮

၁၅။ သို့ဖြစ်ပေရာ ယနေ့သော်ကား အသင်တို့ထံမှလည်း မည်သည့်လျော်ကြေးမျှ လက်ခံယူမည်မဟုတ်ပေ၊ 'ကာဖိရ်' သွေဖည်ငြင်းပယ် သူတို့ထံမှလည်း လက်ခံမည် မဟုတ်ပေ၊ အသင်တို့ (အားလုံးတို့)၏ နေရာထိုင်ခင်းများမှာ (ငရဲ)မီးပင်ဖြစ်၏။ ယင်း(ငရဲ)မီးသည်ပင်လျှင် အသင်တို့၏အဖော်ဖြစ်၏။ စင်စစ်မှာမူကား ယင်းပြန်လည်ရာစခန်းမှာ ဆိုးယုတ်လှပေစွတကား။

---

(၁) မုနာဖစ်က်များသည် မုအ်မင်န်များထံမှ လင်းရောင်ခြည် တစ်စုံတစ်ရာ မရရှိကြသည့်အခါ၊ မုနာဖစ်က်များက မုအ်မင်န်တို့အား 'ကျွန်ုပ်တို့သည် လူ့လောကတွင် အသင်တို့နှင့် အတူပင် ရှိနေခဲ့ကြသည် မဟုတ်ပါလော' ဟု ဟစ်အော် ပြောဆိုကြပေမည်။ ထိုအခါ မုအ်မင်များက အသင်တို့သည် လူ့လောကတွင် ကျွန်ုပ်တို့နှင့်အတူ ရှိနေခဲ့ကြသည်မှန်၏။

သို့ရာတွင် အသင်တို့သည် မိမိတို့ကိုယ်ကို ဖြားယောင်းခဲ့ကြသည်။ အစ္စလာမ်နှင့် အစ္စလာမ်၏ တမန်တော်၏ ရန်သူများဖြစ်ခဲ့ကြသည်။ အစ္စလာမ်၏ ပျက်စီးမှုကို စောင့်မျှော်နေခဲ့ကြသည်။ အစ္စလာမ်နှင့် စပ်လျဉ်း၍ ဒွိဟ သံသယ အမျိုးမျိုးဖြစ် ခဲ့ကြသည်။ စိတ်အလိုဆန္ဒများတွင် နစ်မွန်းနေခဲ့ကြသည်။

နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏အမိန့်တော် (ဝါ) သေခြင်းတရားသည် အသင်တို့၌ ဆိုက်ရောက်လာခဲ့သည်။ အသက်သေဆုံးသည်အထိ ဝန်ချတောင်းပန်ခြင်းပင် မပြုခဲ့ကြပေ။ အမှန်မှာ ရှိုင်တွာန်သည် အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍ အသင်တို့အား ကောင်းစွာ ဖြားယောင်းခဲ့ပေသည်ဟု ပြန်လည်ဖြေကြားကြပေမည်။

အယောင်ဆောင်မှုသည် အဘယ်မှာလျှင် အကျိုးပေးနိုင်အံ့နည်း။ လွတ်မြောက်ရန်အတွက် အဘယ်မှာလျှင် ခိုင်လုံသောအကြောင်း ဖြစ်နိုင်အံ့နည်း။

أَلَمْ يَأْنِ لِلَّذِينَ آمَنُوا أَن تَخْشَعَ قُلُوبُهُمْ لِذِكْرِ اللَّهِ وَمَا نَزَلَ مِنَ الْحَقِّ وَلَا يَكُونُوا كَالَّذِينَ أُوتُوا الْكِتَابَ مِن قَبْلُ فَطَالَ عَلَيْهِمُ الْأَمَدُ فَقَسَتْ قُلُوبُهُمْ ۖ وَكَثِيرٌ مِّنْهُمْ فَاسِقُونَ ﴿١٦﴾

၁၆။ မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အဖို့ အလ္လာဟ် အရှင်မြတ်၏ဆုံးမသြဝါဒ သတိပေး နှိုးဆော်ချက်၏ ရှေ့ဝယ်လည်းကောင်း၊ ကျရောက်လာပြီး ဖြစ်သော အမှန်တရား၏ရှေ့ဝယ်လည်းကောင်း၊ စိတ်နှလုံးများ ကိုင်းညွတ်ရန် အချိန်တန်ပြီ မဟုတ်လော။ ထိုမှတစ်ပါး ၎င်းတို့သည် အကြင်သူတို့ကဲ့သို့ မဖြစ်ကြရန်။ ထို သူတို့သည်ကျမ်းဂန်ကို ချီးမြှင့် ပေးသနားတော်မူခြင်း ခံခဲ့ရလေ၏။ သို့ရာတွင် ၎င်းတို့အပေါ်ဝယ် ကာလ ပရိစ္ဆေဒသည် အဓွန့်ရှည်ခဲ့သောအခါ၊ ၎င်းတို့၏ စိတ် နှလုံးမှာ ခက်ထန်မာမြင်း၍ လာခဲ့လေ၏။ ထိုမှတစ်ပါး ၎င်းတို့တွင် မြောက်မြားစွာတို့မှာ သွေဖည်သူများပင် ဖြစ်ကြကုန်၏။ [၁]

اعْلَمُوا أَنَّ اللَّهَ يُحْيِي الْأَرْضَ بَعْدَ مَوْتِهَا ۚ قَدْ بَيَّنَّا لَكُمُ الْآيَاتِ لَعَلَّكُمْ تَعْقِلُونَ ﴿١٧﴾

၁၇။ ကေန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ပထဝီ မြေကို သေလွန် သေ့ခြောက်ပြီးနောက် ပြန်လည်၍ ရှင်စေတော်မူကြောင်း အသင်တို့သည် ကောင်းစွာ သိရှိထားကြလေကုန်။ ကေန်စင်စစ် ငါအရှင်မြတ်သည် အသင်တို့ သိနားလည်ကြအံ့သောငှာ သက်သေ လက္ခဏာတော်များကို ရှင်းလင်းဖော်ပြတော်မူခဲ့ပြီး ဖြစ်ပေသတည်း။

---

(၁) **အချိန်တန်ပြီ၊**

အထက်တွင် မုအ်နာဖစ်က်များ ဂျဟန္နမ် ငရဲသို့ လားကြရသည့် အကြောင်း မိန့်ဆိုထားတော်မူ၏။ ရှေ့တွင် အကျင့်သီလ၌ လျော့ရဲဖြစ်နေကြသော မုအ်မင်န်တို့အား သတိပေးထားတော်မူသည်မှာ မုအ်မင်န်များအဖို့ အလ္လာဟ်အရှင်မြတ်၏ အဆုံးအမသြဝါဒနှင့် ကျရောက်လာသော အမှန်တရားရှေ့ဝယ်တွင် ၎င်းတို့၏ စိတ်နှလုံးများ နူးညွတ်ရန် အချိန်တန်ပြီ မဟုတ်ပါလော။

မုအ်မင်များသည် အတိတ်ခေတ်ကျမ်းဂန်များ ရရှိခဲ့ကြသော ယဟူဒီ၊ နဆွ်ရာနီများကဲ့သို့ မဖြစ်ကြရာ၊ သို့ ကျမ်းဂန်များ ရရှိခဲ့ကြပါလျက်၊ နှစ်ပရိစ္ဆေဒ အတန်ကြာလာခဲ့သောအခါ၊ ၎င်းတို့၏ စိတ်နှလုံးများသည် ခက်ထန်မာမြင်းခဲယဉ်းလာခဲ့ပေသည်။ ၎င်းတို့အနက် မြောက်မြားစွာသောသူများ သွေဖည်လာခဲ့ကြပေသည်။ ယင်းသို့ကား မဖြစ်ကြရာ၊ ဆိုလိုသည်ကား – မုအ်မင်န်များ အဖို့ စိတ်နှလုံး နူးညွတ်ရန် အချိန်တန်ပြီ၊ မိမိတို့၏အမှားများကို ပြုပြင်ဖို့ အချိန်တန်ပြီ။

إِنَّ الْمُصَّدِّقِينَ وَالْمُصَّدِّقَاتِ وَأَقْرَضُوا اللَّهَ قَرْضًا حَسَنًا يُضَاعَفُ لَهُمْ وَلَهُمْ أَجْرٌ كَرِيمٌ ﴿١٨﴾

၁၈။ ဧကန်စင်စစ် လှူဒါန်းကြကုန်သော ယောကျ်ားမိန်းမတို့သည် အလ္လာဟ်အရှင်မြတ်အား ကောင်းမြတ်သော (စေတနာနှင့်) ကြွေးမြီ ချေးငှားခဲ့ကြကုန်၏။ ယင်းအလှူဒါနသည် ၎င်းတို့အဖို့ ဆထက်တိုးစေခြင်းခံရသည့်ပြင် ၎င်းတို့အဖို့ မြင့်မြတ်လှစွာသော အကျိုးသည်လည်း ရှိချိမ့်မည်။

وَالَّذِينَ آمَنُوا بِاللَّهِ وَرُسُلِهِ أُولَٰئِكَ هُمُ الصِّدِّيقُونَ ۖ وَالشُّهَدَاءُ عِنْدَ رَبِّهِمْ لَهُمْ أَجْرُهُمْ وَنُورُهُمْ ۖ وَالَّذِينَ كَفَرُوا وَكَذَّبُوا بِآيَاتِنَا أُولَٰئِكَ أَصْحَابُ الْجَحِيمِ ﴿١٩﴾

၁၉။ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်အား လည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်များအားလည်းကောင်း၊ ယုံကြည်ကြကုန်သောသူတို့မှာကား ထိုသူတို့သည်ပင်လျှင် ထိုသူတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်၌ သစ္စာဝါဒီများသည်လည်းကောင်း၊ *'ရှဟီးဒ်' အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ အသက်စွန့်ခဲ့ကြသောသူများသည်လည်းကောင်း၊ ဖြစ်ကြကုန်၏။* [၁]

ထိုသူတို့အဖို့ ထိုသူတို့၏(ထူးကဲသော)အကျိုးသည်လည်းကောင်း၊ ထိုသူတို့၏(ထူးကဲသော) ရောင်ခြည်သည်လည်းကောင်း၊ ရှိပေမည်။ သို့ရာတွင် အကြင်သူတို့သည် သွေဖည် ငြင်းပယ်ကြကုန်၏။ ၎င်းပြင်ငါအရှင်မြတ်၏ သက်သေလက္ခဏာတော်များကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့ကြကုန်၏။ ထိုသူတို့မှာမူကား 'ဂျဟန္နမ်'ငရဲသားများပင် ဖြစ်ကြကုန်သတည်း။

---

(၁) အကြင်သူများသည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ တမန်တော်များအားလည်းကောင်း၊ စိတ်စေတနာ ဖြူစင်စွာဖြင့် နှစ်နှစ်ကာကာ သက်ဝင်ယုံကြည်ကြ၏။ တရားတော်များကိုလည်း တာဝန်သိသိ သစ္စာရှိရှိ စွမ်းစွမ်းတမံ နာယူကျင့်မူခဲ့ကြ၏။ တစ်နည်းဆိုသော် ကိုယ်၊ နှုတ်၊ နှလုံးအားဖြင့် မှအ်မင်န်ပီသကြ၏။ ထိုသို့သောမုအ်မင်န်များသည် အလ္လာဟ်အရှင်မြတ်၏အထံတော်၌ 'ဆွစ်ဒ်ဒီက်' သစ္စာဝါဒီ၊ 'ရှဟီးဒ်' အစ္စလာမ့်အာဇာနည်များအဆင့်သို့ ရောက်ရှိသွားကြကုန်၏။ ထိုသို့သော မုအ်မင်နန်များသည် အထူးထူးသော ကုသိုလ်အကျိုးကိုလည်း ရရှိကြပေမည်ဖြစ်၏။ ထူးထွေဆန်းပြားလှသော လင်းရောင်ခြည်ကိုလည်း ရရှိကြမည်ဖြစ်၏။

➤➤

اِعْلَمُوْٓا اَنَّمَا الْحَيٰوةُ الدُّنْيَا لَعِبٌ وَّلَهْوٌ وَّزِيْنَةٌ وَّتَفَاخُرٌۢ بَيْنَكُمْ وَتَكَاثُرٌ فِى الْاَمْوَالِ وَالْاَوْلَادِ ۗ كَمَثَلِ غَيْثٍ اَعْجَبَ الْكُفَّارَ نَبَاتُهٗ ثُمَّ يَهِيْجُ فَتَرٰىهُ مُصْفَرًّا ثُمَّ يَكُوْنُ حُطَامًا ۗ وَفِى الْاٰخِرَةِ عَذَابٌ شَدِيْدٌ ۙ وَّمَغْفِرَةٌ مِّنَ اللّٰهِ وَرِضْوَانٌ ۗ وَمَا الْحَيٰوةُ الدُّنْيَآ اِلَّا مَتَاعُ الْغُرُوْرِ ۝٢٠

၂၀။ အသင်တို့သည် ကောင်းစွာ သိထားကြလေကုန်။ လောကီဘဝသည် ကစားခုန်စားမှု သက်သက်သည်လည်းကောင်း၊ အလဟဿ (ပျော်ရွှင်ခြင်းအားဖြင့်) အချိန်ဖြုန်းတီးမှုသည်လည်းကောင်း၊ မျက်စိပသာဒဖြစ်ခြင်းသည်လည်းကောင်း၊ အသင်တို့ အချင်းချင်း တစ်ဦးနှင့်တစ်ဦး ဂုဏ်ပြိုင်ခြင်းသည် လည်းကောင်း၊ ပစ္စည်းဉစ္စာနှင့် သားသမီးပေါများမှုနှင့်စပ်လျဉ်း၍ အချင်းချင်း ဂုဏ်တုဂုဏ်ပြိုင်ခြင်းသည်လည်းကောင်း၊ ဖြစ်ပေသည်။

အကြင် မိုးရေကဲ့သို့ပင် ထိုမိုးရေကြောင့်ပေါက်ရောက်သောမျိုးပင်များသည် တောင်သူလယ်သမားတို့အား နှစ်သက်ရွှင်ပျော်စေ၏။ ထို့နောက်ယင်းမျိုးပင်များသည် သွေ့ခြောက်၍ သွားလေသောအခါ အသင်သည် ယင်းမျိုးပင်များ ဝါ၍နေသည်ကိုတွေ့မြင်ရ၏။ ထို့နောက်သော်ကား ယင်းမျိုးပင်မှာအစိတ်စိတ် အမွှာမွှာ ဖြစ်သွားလေ၏။

➤➤ 'ဆွစ်ဒ်ဒီက်' ဟူသည် ဤအာယတ်တော်တွင် 'ဝလီ' သူတော်စင်အနက်၌ဖြစ်၏။ အဘိဓာန်အရဆိုသော် 'ဆွစ်ဒီက်'သည် မှန်ကန်မှုကို အလွန့်အလွန် ကျင့်သူကို ဆိုလိုသည်။ အမြဲတစေ အမှန်ကိုသာ တွေးသည်။ အမှန်ကိုသာပြောသည်။ အမှန်ကိုသာကျင့်သည်။ ကြည့်-ရာဃိဗ်၊ မအာလင်မ်၊ ဂျလာလိုင်န်။

ဤအာယတ်တော်တွင် 'ရှဟီးဒ်' ဟူသည် သက်သေအနက်၌ဖြစ်သည်။ ၎င်းတို့သည် ကိယာမတ်နေ့တွင် သူတစ်ပါးနှင့်ပတ်သက်၍ သက်သေထွက်ဆိုကြပေမည်။ ကုရ်အာန် (၂း၁၄၃)၊ကြည့်-မာဂျိဒီ၊ မဒါရိက်။

စိတ်စေတနာ ဖြူစင်သော မုအ်မင်န်၏ အနက်၌လည်း ကောက်ယူနိုင်၏။ ကြည့်-မအာလင်မ်။

အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ အသက်စွန့်သွားသော အစ္စလာမ့်အာဇာနည် သူရဲကောင်းအနက်၌လည်း ကောက်ယူနိုင်၏။ အကယ်၍ ဤအာယတ်တော်တွင် 'ရှဟီးဒ်' ကို အစ္စလာမ့် အာဇာနည်သူရဲကောင်းအနက်၌ ကောက်ယူပါက အလိုသဘောမှာ ပြည့်ဝစုံလင်သော မုအ်မင်န်များသည် အခါခပ်သိမ်းမိမိတို့၏ ဉစ္စာပစ္စည်းနှင့်တကွ အသက်ကိုပါ အလ္လာဟ်အရှင်မြတ်၏ ယမ်းတော်၌ စွန့်လှူထားပြီးသား ဖြစ်ကြပေသည်။ သို့စွန့်လှူထားကြပြီး နောက်ပိုင်းတွင် အသက်စွန့်လှူခွင့်ရကြသည် မရကြသည်မှာကား ၎င်းတို့အရေးပိုင်သောကိစ္စ မဟုတ်ချေ။ ဆိုလိုသည်ကား ၎င်းတို့သည် ကိုယ်ထိလက်ရောက် အသက်စွန့်လှူ မရရှိခဲ့ကြသည်ပင် ဖြစ်စေကာမူ၊ မိမိတို့၏ ဉစ္စာပစ္စည်းနှင့် အသက်ကို စွန့်လှူထားကြပြီးဖြစ်သည့်အတွက် အလ္လာဟ်အရှင်မြတ်၏အထံတော်၌ အဆင့်အတန်းအားဖြင့် 'ရှဟီးဒ်' အဆင့်အတန်းတွင်ရှိကြပေမည်ဟူ၏။ မာဂျိဒီ၊ ထာနဝီ။

သို့ရာတွင် 'အာခိရတ်' တမလွန်ဘဝ၌မူကား ပြင်းထန်လှစွာသောပြစ်ဒဏ်သည်လည်းရှိ၏။ အလ္လာဟ်အရှင်မြတ်အထံတော်မှ လွတ်ငြိမ်းချမ်းသာခွင့်နှင့် နှစ်မြို့မှုလည်း ရှိပေသည်။ စင်စစ်သော်ကား လောကီဘဝသည် အမြင်မှောက်မှားစေသော ဝတ္ထုပစ္စည်းမျှသာ ဖြစ်ပေသတည်း။

سَابِقُوٓا اِلٰى مَغْفِرَةٍ مِّنْ رَّبِّكُمْ وَجَنَّةٍ عَرْضُهَا كَعَرْضِ السَّمَآءِ وَالْاَرْضِ ۙ اُعِدَّتْ لِلَّذِيْنَ اٰمَنُوْا بِاللّٰهِ وَرُسُلِهٖ ۗ ذٰلِكَ فَضْلُ اللّٰهِ يُؤْتِيْهِ مَنْ يَّشَآءُ ۗ وَاللّٰهُ ذُو الْفَضْلِ الْعَظِيْمِ ﴿٢١﴾

၂၁။ အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ လွတ်ငြိမ်းချမ်းသာခွင့်ကိုလည်းကောင်း၊ မိုးနှင့်မြေ၏ အကျယ်အဝန်းပမာကျယ်ဝန်းသော 'ဂျန္နတ်'သုခဘုံသို့ လည်းကောင်း၊ ပြိုင်ဆိုင် ပြေးကြလေကုန်။ ယင်း'ဂျန္နတ်' သုခဘုံမှာ အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်တို့အားလည်းကောင်း၊ သက်ဝင်ယုံကြည်ကြကုန်သောသူတို့အဖို့ *အဆင်သင့် ပြုလုပ်ထားရှိပြီးဖြစ်၏။* [၁] ထိုသည်ကား အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ပင်၊ ထိုအရှင်မြတ်သည် ယင်းကျေးဇူးတော်ကို မိမိအလိုရှိတော်မူသောသူအား ချီးမြှင့်ပေးသနားတော်မူ၏။ စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သည် ကြီးကျယ်လှစွာသော ကျေးဇူးတော်ရှင် ဖြစ်တော်မူပေသတည်း။

---

(၁) **ဤပစ္စက္ခသည် သခ်ါရနောင်တမလွန်ဘဝသည်အဓိက။**

လူသည် ပထမအရွယ်တွင် ကစားခုန်စားမှု၊ ဘာသာဘာဝ မြူးပျော်မှုများတွင် နစ်မွန်းနေ၏။ ဒုတိယအရွယ်တွင် လှပမှု၊ ဆင်ယင်မှု၊ ချစ်ကြိုက်မှု၊ စားဝတ်နေရေး၊ ဖန်တီးမှုများတွင် နစ်မွန်းနေ၏။ တတိယအရွယ်တွင် ဥစ္စာပစ္စည်း၊ သားသမီး၊ ရာထူးဌာနန္တရများနှင့်စပ်လျဉ်း၍ ကြွားဝါးမှု၊ ဂုဏ်ပြိုင်မှုများတွင် နစ်မွန်းနေ၏။ သေခါနီးသည့်အခါ ဥစ္စာပစ္စည်း၊ သားသမီးသံယောဇဉ်နှောင်ကြိုးများတွင် ရစ်ပတ်ကာ ပူပန်သောကဖြစ်နေရပြန်သည်။ သေခြင်းပင်မဖြောင့်ပေ။ ဤသို့ဖြင့် လူသည် မိမိ၏ဘဝသက်တမ်း၊ တစ်လျှောက်လုံးတွင် လောကီရေးရာများတွင်ပင် နစ်မွန်းနေ၏။ အမှန်မှာ ဤပစ္စက္ခဘဝကား၊ အရိပ်ပမာ သခ်ါရမျှသာဖြစ်၏။ မကြာမီ အတွင်း ချုပ်ငြိမ်းသွားမည်သာဖြစ်၏။ ➢➢

مَآ اَصَابَ مِنْ مُّصِيْبَةٍ فِى الْاَرْضِ وَلَا فِىْٓ اَنْفُسِكُمْ اِلَّا فِىْ كِتٰبٍ مِّنْ قَبْلِ اَنْ نَّبْرَاَهَا ۭ اِنَّ ذٰلِكَ عَلَى اللّٰهِ يَسِيْرٌ ۝٢٢

၂၂။ မည်သည့် ဘေးဒုက္ခမျှပင် ကမ္ဘာမြေ၌ လည်းကောင်း၊ အသင်တို့ကိုယ်၌ လည်းကောင်း၊ ဆိုက်ရောက်သည် မဟုတ်ပေ။ သို့ရာတွင် ငါအရှင်မြတ်သည် ယင်းဘေးဒုက္ခ၊ ကမ္ဘာမြေနှင့်အသင်တို့၏ ဇီဝိန်များကို ဖန်ဆင်းတော်မမူမီကပင်လျှင် မှတ်တမ်းစာအုပ်တွင် (ရေးသား၍ထားတော်မူပြီး ဖြစ်၏)။ ဧကန်အမှန် ဤသည် အလ္လာဟ်အရှင်မြတ်၌ လွယ်ကူလှပေသည်။

---

➤➤ ဤပစ္စက္ခဘဝသည် ခေတ္တခဏ စိမ်းစိုသာယာနေသော လယ်ယာနှင့် တူ၏။ လယ်ရှင် ယာရှင်သည် စိမ်းစိုသာယာလျက်ရှိသော မိမိ၏ လယ်ယာကို ကြည့်ပြီး ဝမ်းသာ၏၊ ကြည်နူး၏ သို့ရာတွင် ယင်းလယ်ယာသည် မကြာမီအတွင်းမှာပင် ခြောက်သွေ့သွား၏ ဝါတာတာဖြစ်လာ၏။ နောက်ဆုံးတွင် အစိတ် စိတ်အမွှာမွှာ ဖြစ်ကာ၊ ပျက်စီးယိုယွင်းသွား၏။ ဤကား မျက်မြင်ပင်။

အမှန်မှာ ဤပစ္စက္ခဘဝမှာ အမြင်မှောက်မှားစေသည့် လှည့်စား ဖြားယောင်းရာ ပစ္စည်းမျှသာဖြစ်သည်။ လူသည် ဤပစ္စက္ခ ဘဝ၏ ယာယီသာယာမှုကို ကြည့်ပြီး မှောက်မှားကာ မိမိ၏ နောင်ရေးကို ဖျက်ဆီးပစ်သည်။ အမှန်မှာ လောကီရေးရာများသည် သေပြီးသည့် နောက်ပိုင်းတွင် အသို့မျှ အသုံးဝင်သည်မရှိ။

နောင်တမလွန်ဘဝတွင် အသုံးဝင်မည့် အရာကား (အီမာန်) ယုံကြည်မှုနှင့် (အမလ်ဆွာလိဟ်) ကောင်းမြတ်သော အကျင့်သီလပင် ဖြစ်သည်။ အကြင်သူသည် ဤယုံကြည်ချက်နှင့် ကောင်းမြတ်သော အကျင့်သီလကို ယူဆောင်သွားနိုင်ပါက ထိုသူသည် အောင်မြင်မည်။ နောင်တမလွန်ဘဝတွင် အလ္လာဟ် အရှင်မြတ်၏ လွတ်ငြိမ်းခွင့်နှင့် ကျေနပ်မှုကို ခံစားရမည်။

အကြင်သူသည် (အီမာန်) ယုံကြည်မှုလည်းမပါ။ (အမလ်ဆွာလိဟ်) ကောင်းမြတ်သော အကျင့်သီလကိုလည်း မဆောင်၊ သွေဖည်ငြင်းဆန်မှုနှင့် ယုတ်မာ ဆိုးသွမ်းသော ဒုစရိုက်များကိုသာ ယူဆောင်သွားသော်၊ ထိုသူသည် နောင်တမလွန်ဘဝတွင် အရှုံးကြီး ရှုံးရပေမည်။ ကြီးလေးသောပြစ်ဒဏ် ခံရပေမည်။

သို့ဖြစ်ရာ ယာယီမျှသာဖြစ်သော ဤပစ္စက္ခဘဝကို မိမိ၏နောက်ဆုံးပန်းတိုင်ဟု မထင်မှတ်ရာ၊ လောကီရေးရာများတွင် နစ်မွန်းကာ၊ မိမိ၏နောင်ရေးကို မဖျက်ဆီးရာ၊ အမြဲထာဝစဉ် တည်နေမည့် နောင်တမလွန်ဘဝ၏ ကောင်းစားရေးကိုသာ ရှေးရှုရာသည်။ အလ္လာဟ်အရှင်မြတ်၏ လွတ်ငြိမ်းချမ်းသာခွင့် ရရှိကာ၊ မိုးမြေတမျှ အတိုင်းမသိ ကြီးမားလှဘိသည့် အံ့မခန်းသော ဂျန္နတ်သုခဘုံတွင် စံမြန်းနိုင်ရန်သာ သူထက်ငါ ကြိုးစားရာသည်။ ဤသည့်သဘောကို ကုရ်အာန် (၃:၁၉၅-၁၉၇၊ ၆:၃၂၊ ၂၉:၆၄၊ ၄၇:၃၆-၃၈)တွင်လည်း တွေ့ရှိရပေသည်။

لِّكَيْلَا تَأْسَوْا عَلَىٰ مَا فَاتَكُمْ وَلَا تَفْرَحُوا بِمَا آتَاكُمْ ۗ وَاللَّهُ لَا يُحِبُّ كُلَّ مُخْتَالٍ فَخُورٍ ﴿٢٣﴾

၂၃။ အသင်တို့သည် မိမိတို့ထံမှ လွတ်သွားသော အရာနှင့် စပ်လျဉ်း၍ ပူဆွေးခြင်းမရှိကြရန် လည်းကောင်း၊ မိမိတို့အား ထိုအရှင်မြတ်က ချီးမြှင့်ပေးသနားတော်မူသောအရာနှင့်စပ်လျဉ်း၍ ဝမ်းမြောက် မော်ကြွားခြင်းမပြုကြရန်လည်းကောင်း၊ (ထိုအရှင်မြတ်သည် အသင်တို့အား ဤသည်ကို သိစေတော်မူခြင်းဖြစ်၏)။ အမှန်သော်ကား *အလ္လာဟ်အရှင်မြတ်သည် မည်သည့် မာန်မာနထောင်လွှားသူ၊ ဂုဏ်မောက်သူကိုမျှ နှစ်သက်တော်မူသည် မဟုတ်ပေ။* [၁]

الَّذِينَ يَبْخَلُونَ وَيَأْمُرُونَ النَّاسَ بِالْبُخْلِ ۗ وَمَن يَتَوَلَّ فَإِنَّ اللَّهَ هُوَ الْغَنِيُّ الْحَمِيدُ ﴿٢٤﴾

၂၄။ (၎င်းတို့ကား) အကြင်သူများပင်။ ထိုသူတို့သည် မိမိတို့ကိုယ်တိုင် စေးနှဲကြသည်သာမက၊ သူတပါးတို့အားလည်း စေးနှဲကြရန် အမိန့်ပေးကြကုန်၏။

စင်စစ်သော်ကား မည်သူမဆို (သုံးစွဲလှူဒါန်းခြင်းမပြုဘဲ) မျက်နှာလွှဲ၍ ထွက်သွားလျှင် ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် လိုလားတောင့်တခြင်းကင်းမဲ့တော်မူသောအရှင်၊ ချီးမွမ်းအပ်သော ဝိသေသဂုဏ်ထူးအပေါင်းတို့နှင့် ပြည့်စုံတော်မူသော အရှင်မြတ်ဖြစ်တော်မူပေသတည်း။

---

(၁) အထက်တွင် မိန့်ဆိုထားတော်မူသည့်အတိုင်း အလ္လာဟ်အရှင်မြတ်သည် ဤလောကဓာတ်ကြီးကို ဖန်ဆင်းတော်မမူမီ အလျင်ကတည်းကပင်၊ ဤလောကဓာတ်ကြီးတွင် ဖြစ်ပျက်သက်ရောက်အံ့သော ကိစ္စအဝဝကို ကြိုတင်သိရှိတော်မူသည်။ သို့ သိရှိတော်မူသည့်အတိုင်း 'လောင်ဟ်မဟ်ဖူဇ်' မှတ်တမ်းတော်တွင် မှတ်သားထားတော်မူခဲ့သည်။ သို့မှတ်သားထားတော်မူခဲ့သည့်အတိုင်း အပိုအလိုမရှိ ဖြစ်ပျက်လျက်ရှိသည်။ ဤသည့်အကြောင်းကို လူသားတို့အား အသိပေးတော်မူခြင်းမှာ လူသားတို့သည် မိမိတို့ထံမှ ဖိတ်စဉ် ဆုံးပါးသွားသော အရာများနှင့် စပ်လျဉ်း၍ မပူဆွေးရန် မိမိတို့ထံသို့ ရောက်ရှိလာ သော သုခချမ်းသာများကို အကြောင်းပြု၍ မဝါကြွားရန်ပင် ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် မှတ်တမ်းတော်တွင် မိမိ၌ တစ်စုံတစ်ရာ ဒုက္ခဖြစ်ရန် ပါရှိနေပါက မုချဒုက္ခဖြစ်ရမည်သာ၊ မရှောင်ကွင်းသာ၊ မှတ်တမ်းတော်တွင် မိမိ၌ တစ်စုံတစ်ရာ သုခဖြစ်ရန် ပါရှိနေပါက မုချ သုခဖြစ်ရမည်သာ။ သို့ဖြစ်ရာ ဒုက္ခဖြစ်က မပူပန်ရာ သည်းခံရမည်သာ။ သုခဖြစ်က မဝါကြွားရာ အလ္လာဟ်အရှင်မြတ်အား ကျေးဇူး တင်ရမည်သာ။ ➢➢

لَقَدْ أَرْسَلْنَا رُسُلَنَا بِالْبَيِّنٰتِ وَأَنْزَلْنَا مَعَهُمُ الْكِتٰبَ وَالْمِيْزَانَ لِيَقُوْمَ النَّاسُ بِالْقِسْطِ ۚ وَأَنْزَلْنَا الْحَدِيْدَ فِيْهِ بَأْسٌ شَدِيْدٌ وَّمَنَافِعُ لِلنَّاسِ وَلِيَعْلَمَ اللّٰهُ مَنْ يَّنْصُرُهٗ وَرُسُلَهٗ بِالْغَيْبِ ۚ إِنَّ اللّٰهَ قَوِيٌّ عَزِيْزٌ ﴿٢٥﴾

၂၅။ ဧကန်မလွဲ ငါအရှင်မြတ်သည် မိမိ ရစူလ်တမန်တော်များအား ထင်ရှားစွာသော သက်သေလက္ခဏာများနှင့်တကွ စေလွှတ်တော်မူခဲ့၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထိုရစူလ်တမန်တော်များနှင့်အတူလူတို့သည် တရားမျှတမှုပေါ်၌ရပ်တည်ကြအံ့သောငှာ ကျမ်းဂန်ကိုလည်းကောင်း၊ တရားမျှတမှုကိုလည်းကောင်း ချပေးသနားတော်မူခဲ့၏။

ထိုမှတစ်ပါး ငါအရှင်မြတ်သည် သံသတ္တုကို ချပေးတော်မူခဲ့၏။ယင်းသံသတ္တု၌ ကြီးကျယ် ပြင်းထန်လှသော စွမ်းအင်ရှိပေသည်။ လူသားတို့အဖို့ အကျိုးကျေးဇူးများလည်း ရှိသည်။ [၁]

---

➤➤ အကြင်သူတစ်ဦးသည် ဒုက္ခဖြစ်သည်တွင်သည်းခံ၏။ ကြံ့ခိုင်၏။ မတုန်လှုပ်၊ မချောက်ချား၊ သုခဖြစ်သည်တွင်လည်း မဝါကြွား။ သို့ဖြစ်လျှင် ထိုသူသည်အမြဲ တစေ စိတ်ချမ်းသာမှု ရရှိနေမည်သာဖြစ်သည်။ အကြင်သူတစ်ဦးသည် ဒုက္ခဖြစ်သည်တွင် သည်းခံနိုင်သည်မရှိ။ တုန်လှုပ်၏။ ချောက်ချား၏။ စိတ်ဓာတ်ကျဆင်း၏။ သုခဖြစ်ရာတွင် မိမိကိုယ်ကို အထင်ကြီး၏။ မော်ကြွား၏။ ထိုသူသည် အမြဲတစေ စိတ်ဆင်းရဲနေရမည်သာဖြစ်သည်။

**(၁) တမန်တော်များ၊ ကျမ်းဂန်၊ ချိန်ခွင်၊ သံ၊**

အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် တမန်တော်များအား ထင်ရှားသော သက်သေလက္ခဏာတော်များကို ချီးမြှင့်၍ စေလွှတ်တော်မူခဲ့၏။ ထို့ပြင်တစ်ဝ ထိုအရှင်မြတ်သည် လူသားတို့ တရားမျှတမှုအပေါ်၌ ရပ်တည်နေနိုင်ကြရန် အလို့ငှာ၊ တမန်တော်များနှင့်အတူတကွ (ကိတာဗ်)ကျမ်းဂန်ကိုလည်း ချပေးတော်မူခဲ့၏။ (မီဇာန်)ချိန်ခွင်ကိုလည်း ချပေးတော်မူခဲ့၏။ ထိုမှတစ်ပါး သံသတ္တုကိုလည်း ချပေးတော်မူခဲ့၏။

တမန်တော်များအား စေလွှတ်တော်မူခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ တရားတော်များကို ဟောကြား၍ စံနမူနာအဖြစ် လက်တွေ့ကျင့်သုံးကြရန် ဖြစ်သည်။ ကျမ်းဂန်ကို ချပေးတော်မူခြင်းမှာ၊ လူသားတို့သည် ယုံကြည်ချက်များ ကိုယ်ကျင့်တရားများတွင် အလွန်အကျွံမဖြစ်ဘဲ၊ တစ်ဖက်စွန်းသို့ ရောက်ရှိမသွားဘဲ၊ ဖြောင့်မတ်၊ မှန်ကန်စွာ လိုက်နာကျင့်သုံးကြရန် ဖြစ်သည်။

ချိန်ခွင်ကို ချပေးတော်မူခြင်းမှာ ရောင်းဝယ်ဖောက်ကားမှုများတွင် ယိမ်းယိုင်တိမ်းစောင်းခြင်းမရှိဘဲ၊ ချိန်ခွင်လျှာပမာ တည့်မတ်စွာ လိုက်နာကျင့်သုံးကြရန်ပင်ဖြစ်သည်။ ဆိုလိုသည်ကား (ဟုကူကုလ္လာဟ်) အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်သော တာဝန်များကို ဆောက်ရွက် ရာတွင်လည်းကောင်း၊ (ဟုကူကုလ်အိဗာဒ်) လူသားတို့အချင်းချင်းနှင့် ပတ်သက်သော တာဝန်များကို ဆောင်ရွက်ရာ တွင်လည်းကောင်း၊ လူသားတို့သည် အမြဲတစေ ဖြောင့်မတ်မှန်ကန်ကြရပေမည်။ တရားမျှတစွာ ဆောင်ရွက်ကြရပေမည်။ ➤➤

ထိုမှတစ်ပါး မည်သူသည် မမြင်ဘဲလျက် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်များအားလည်းကောင်း၊ ကူညီသည်ကို အလ္လာဟ်အရှင်မြတ်သည် သိတော်မူအံ့သော ငှာ (ချပေးတော်မူခြင်းလည်းဖြစ်၏)။ မလွဲဧကန် အလ္လာဟ်အရှင်မြတ်မှာမူကား အလွန်တရာ အားအင်ပြည့်စုံသောအရှင်၊ အလွန်တရာ နိုင်နင်းလွှမ်းမိုးတော်မူသောအရှင်မြတ် ဖြစ်တော်မူပေသတည်း။

وَلَقَدْ أَرْسَلْنَا نُوحًا وَإِبْرَٰهِيمَ وَجَعَلْنَا فِى ذُرِّيَّتِهِمَا ٱلنُّبُوَّةَ وَٱلْكِتَٰبَ ۖ فَمِنْهُم مُّهْتَدٍ ۖ وَكَثِيرٌ مِّنْهُمْ فَٰسِقُونَ ﴿٢٦﴾

၂၆။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် (နဗီ တမန်တော်) 'နူဟ်'အားလည်းကောင်း၊ (နဗီတမန်တော်) 'အီဗ်ရာဟီမ်'အား လည်းကောင်း၊ စေလွှတ်တော်မူ၏။ ၎င်းပြင် ငါအရှင်မြတ်သည် ထို(နဗီတမန်တော်)'နူဟ်' နှင့် (နဗီတမန်တော်)'အီဗ်ရာဟီမ်' နှစ်ပါးတို့၏ သား၊ မြေးတို့၌ နဗီတမန်တော် ဖြစ်မှုကိုလည်းကောင်း၊ ကျမ်းဂန်ကိုလည်းကောင်း၊ သတ်မှတ်၍ ပေးသနားတော်မူခဲ့ရာ ၎င်းတို့တွင် တရားလမ်းမှန်ကို ရရှိသူများလည်း ရှိခဲ့ကြကုန်၏။ *သို့ရာတွင် ၎င်းတို့အနက် မြောက်မြားစွာသောသူတို့မှာ သွေဖည်သူများပင် ဖြစ်ခဲ့ကြ၏။* [၁]

▶▶ သံသည် အလွန်ပြင်းထန်သည်။ လူသားတို့အဖို့ အကျိုးများလှသည်။ လူသားတို့၏ အသုံးအဆောင်များတွင် သံသည်များစွာ အသုံးဝင်သည်။ များသောအားဖြင့် လက်နက်ကိရိယာများသည် သံဖြင့်ပြုလုပ်ရပေသည်။ ယင်းသို့သံကို ချပေးတော်မူခြင်းမှာ အကယ်၍ ကျမ်းဂန်လာ တရားတော် များကို ဖောက်ဖျက်လာကြသည့်အခါ တရားမျှတခြင်းတည်းဟူသော ချိန်ခွင်ကို ရိုက်ချိုးလာကြသည့်အခါ လိုအပ်ပါက မဖြစ်သာသည့်အဆုံးတွင် သံကို (ဝါ)အာဏာကို (ဝါ) လက်နက်ကို အသုံးပြုနိုင်ရန်ပင်ဖြစ်သည်။ လက်နက်ဆွဲကိုင်၍ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ဂျိဟာဒ်ပြုလုပ်ခြင်းမှာလည်း ဤသည့်သဘောပင်။

(၁) အလ္လာဟ်အရှင်မြတ်သည် တမန်တော် နူဟ်နှင့် တမန်တော် အစ်ဗ်ရာဟီမ်တို့အား စေလွှတ်တော်မူခဲ့သည်။ ထိုတမန်တော်ကြီး ၂-ပါး၏ သားမြေးတို့တွင်လည်း မြောက်မြားစွာသော တမန်တော်များအား ပေါ်ထွန်းစေတော်မူခဲ့သည်။ ယင်းတို့အနက် အချို့တို့အား ကျမ်းဂန်းများကိုလည်း ချီးမြှင့်တော်မူခဲ့သည်။ ဥပမာ တမန်တော်မူစာသည် အဆိုပါ တမန်တော်ကြီး ၂-ပါး၏သားမြေးများတွင် ပါဝင်ခဲ့သည်။ ▶▶

ثُمَّ قَفَّيْنَا عَلٰٓى اٰثَارِهِمْ بِرُسُلِنَا وَقَفَّيْنَا بِعِيْسَى ابْنِ مَرْيَمَ وَاٰتَيْنٰهُ الْاِنْجِيْلَ ۙ وَجَعَلْنَا فِيْ قُلُوْبِ الَّذِيْنَ اتَّبَعُوْهُ رَاْفَةً وَّرَحْمَةً ۗ وَرَهْبَانِيَّةَ ِۨابْتَدَعُوْهَا مَا كَتَبْنٰهَا عَلَيْهِمْ اِلَّا ابْتِغَآءَ رِضْوَانِ اللّٰهِ فَمَا رَعَوْهَا حَقَّ رِعَايَتِهَا ۚ فَاٰتَيْنَا الَّذِيْنَ اٰمَنُوْا مِنْهُمْ اَجْرَهُمْ ۚ وَكَثِيْرٌ مِّنْهُمْ فٰسِقُوْنَ ۝٢٧

၂၇။ ထို့နောက် ငါအရှင်မြတ်သည် ၎င်းတို့၏ နောက်တွင် မိမိရစူလ်တမန်တော်များအား အဆက်မပြတ် စေလွှတ်တော်မူခဲ့၏။ ထို့နောက် ငါအရှင်မြတ်သည် 'မရ်ယမ်'၏သားတော် (နဗီတမန်တော်)'အီစာ' အား စေလွှတ်တော်မူခဲ့၏။ ၎င်းပြင် ငါအရှင်မြတ်သည် ထို 'အီစာ'အား 'အင်န်ဂျီလ်'ကျမ်းတော်ကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ထို'အီစာ' ၏နောက်သို့လိုက်ခဲ့ကြသောသူတို့၏စိတ်နှလုံးများတွင် နူးညံ့သိမ်မွေ့မှုကိုလည်းကောင်း၊ ကရုဏာတရားကိုလည်းကောင်း ထည့်သွင်းပေးတော်မူခဲ့၏။

သို့ရာတွင် (၎င်းတို့ကိုယ်တိုင်) အလ္လာဟ်အရှင်မြတ်၏ နှစ်မြို့မှုရှာဖွေအံ့သောငှာ (တောထွက် လမ်းစဉ်ကို လိုက်နာကျင့်သုံးခဲ့ကြကုန်၏)။ သို့ပါသော်လည်း ၎င်းတို့သည် ယင်းတောထွက်လမ်းစဉ်ကို *စောင့်စည်းအပ်သောဝတ္တရားနှင့်အညီ စောင့်စည်းနိုင်ကြသည်မရှိချေ။*[၁]

---

▶▶ ကျမ်းဂန်ချီးမြှင့်တော်မူခြင်း ခံခဲ့ကြရသည်။

တမန်တော် ဟူဒ်နှင့် တမန်တော်ဆွာလိဟ် ၂-ပါးသည် ကျမ်းဂန်ချီးမြှင့်တော်မူခြင်းခံခဲ့ကြရသည်။ မခံခဲ့ကြရသည်ကိုမူ အတိအကျ မသိရှိရပေ။ အဆိုပါ တမန်တော်များ၏ နောက်တွင်လည်း အလ္လာဟ်အရှင်မြတ်သည် အခြားတမန်တော်များအား အဆက်မပြတ် စေလွှတ်တော်မူခဲ့ပေသည်။ ထိုထိုသော တမန်တော်များ၏ နောက်လိုက် တပည့် သားတို့တွင် အချို့တရားရရှိခဲ့ကြသော်လည်း၊ အများစုမှာကား သွေဖည်ခဲ့ကြပေသည်။ ဤကား အတိတ်ခေတ် တမန်တော်လောက၏ ပထမပိုင်း ဖြစ်စဉ်ဖြစ်ရပ်ပင်။

**(၁) ရဟ်ဗာနီယတ်=တောထွက်လမ်းစဉ်။**

တမန်တော်အီစာ(အလိုင်ဟစ္စလာမ်)၏ နောက်လိုက်တပည့်သားတို့သည် နောက်ပိုင်းတွင် ဘာသာမဲ့၊ သာသနာမဲ့ မင်းဆိုးများ၏ ဖိနှိပ်ချုပ်ချယ်မှုများကိုလည်း အလူးအလိမ့် ခံစားလာခဲ့ကြရ၏။ ရှုပ်ထွေးပွေလီလှသော လောကီရေးရာများကိုလည်း စက်ဆုပ်ရွံမုန်းလာခဲ့ကြ၏။ ထိုအခါ ၎င်းတို့သည် (ရဟ်ဗာနီယာတ်) တောထွက် လမ်းစဉ်ကို အသစ်တီထွင်လာခဲ့ကြ၏။ ၎င်းတို့၏ စေတနာမှာလည်း အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုကို ဆည်းပူးရပ်ပင်ဖြစ်ခဲ့၏။ ▶▶

မည်သို့ပင်ဖြစ်စေ ငါအရှင်မြတ်သည် ၎င်းတို့ အနက် သက်ဝင် ယုံကြည်ခဲ့ကြသောသူတို့အား ၎င်းတို့၏အကျိုးကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ သို့ရာတွင် ၎င်းတို့အနက် မြောက်မြားစွာသောသူတို့ မှာကား သွေဖည်သူများပင် ဖြစ်ကြကုန်သတည်း။

يَا أَيُّهَا الَّذِينَ آمَنُوا اتَّقُوا اللَّهَ وَآمِنُوا بِرَسُولِهِ يُؤْتِكُمْ كِفْلَيْنِ مِن رَّحْمَتِهِ وَيَجْعَل لَّكُمْ نُورًا تَمْشُونَ بِهِ وَيَغْفِرْ لَكُمْ ۚ وَاللَّهُ غَفُورٌ رَّحِيمٌ ﴿٢٨﴾

၂၈။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူ အပေါင်း တို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက် ရွံ့ကြလေကုန်၊ ၎င်းပြင် အသင်တို့သည် ထိုအရှင်မြတ် ၏ ရစူလ်တမန်တော်မြတ်အား ယုံကြည်ကြလေကုန်။ ထိုအရှင်မြတ်သည် အသင်တို့အား မိမိကရုဏာတော်မှ နှစ်ဆ ချီးမြှင့် ပေးသနားတော်မူမည့်ပြင်၊ အသင်တို့ အဖို့ အကြင်အလင်းရောင်ကို ဖန်ဆင်း၍ ပေးသနား တော်မူပေမည်။ အသင်တို့သည် ယင်းအလင်းရောင်ဖြင့် လျှောက်သွားကြပေမည်။ ထိုမှတစ်ပါး *အသင်တို့အား ခွင့်လွှတ်ချမ်းသာမှု ပေးသနားတော်မူပေမည်။* [၁]

---

➤➤ သို့ပါသော်လည်း ၎င်းတို့သည် မိမိတို့ စေတနာအလျောက် မိမိတို့ တီထွင်ခဲ့သော မိမိတို့၏ လမ်းစဉ်သစ်ကိုပင် မိမိတို့ကိုယ်တိုင် ထိန်းသိမ်းအပ်သည့် အားလျော်ညီစွာ ထိန်းသိမ်းနိုင်ခဲ့ကြသည်မရှိပေ။ အမှန်မှာ အလ္လာဟ်အရှင်မြတ်က ယင်းလမ်းစဉ်သစ်ကို ၎င်းတို့အပေါ်၌ သတ်မှတ်ပြဋ္ဌာန်းပေးတော် မူခဲ့သည်လည်း မဟုတ်ပေ။ ၎င်းတို့ကိုယ်တိုင် တီထွင်ခဲ့သောလမ်းစဉ်သာဖြစ်သည်။ သို့ရာတွင် ၎င်းတို့သည် မိမိတို့ ထွင်ခဲ့သော လမ်းစဉ်ကို မိမိတို့ကိုယ်တိုင်ပင် မလိုက်နာနိုင်ခဲ့ကြပေ။

ဥပမာ- ၎င်းတို့သည် ဥစ္စာပစ္စည်းရှာဖွေဆည်းပူးမှုကို စွန့်ခဲ့ကြ၏။ အိမ်ထောင်ပြုခြင်းကို စွန့်ခဲ့ကြ၏။ လောကီစည်းစိမ်များကို စွန့်ခဲ့ကြ၏။ တောထွက်ခဲ့ကြ၏။ သို့ရာတွင် လူ့သဘာဝနှင့် မဟပ်မိသော လမ်းစဉ် တစ်ရပ်ကို ၎င်းတို့သည် အဘယ်မျှအထိ ဒုက္ခခံကာ ဆုပ်ကိုင်ထားနိုင်ကြမည်နည်း။ မကြာမီပင် ၎င်းတို့သည် မိမိတို့ တီထွင်ခဲ့သောလမ်းစဉ်ကို မိမိတို့ ကိုယ်တိုင်ပင် ဖောက်ဖျက်လာခဲ့ကြ၏။ သွေဖည်လာခဲ့ကြ၏။ သာသနာရေးကို အကာအကွယ်ယူပြီး စည်းပွားရှာလာခဲ့ကြ၏။ ထို့အတွက်ကြောင့်ပင် အစ္စလာမ်သည် ယင်းလမ်းစဉ်ကို ခွင့်မပြုခဲ့ပေ။

(၁) ဤအာယတ်တော်သည် (ကိတာဗီ) ခေါ် အတိတ်ခေတ် ကျမ်းဂန်ရရှိခဲ့သောသူများအနက် တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်) အား အီမာန်သက်ဝင်ယုံကြည်လာခဲ့သော ပုဂ္ဂိုလ်များကို ရည်ညွှန်း မိန့်ကြားထားတော်မူသော အာယတ်တော်ဖြစ်သည်။ ဤယူဆချက်အရ ဤအာယတ်တော်တွင် လာရှိသော➤➤

စင်စစ်မှာကားအလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးတော်မူသောအရှင်၊ အလွန်တရာ ကြင်နာသနားတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

لِّئَلَّا يَعْلَمَ أَهْلُ الْكِتَابِ أَلَّا يَقْدِرُونَ عَلَىٰ شَيْءٍ مِّن فَضْلِ اللَّهِ ۙ وَأَنَّ الْفَضْلَ بِيَدِ اللَّهِ يُؤْتِيهِ مَن يَشَاءُ ۚ وَاللَّهُ ذُو الْفَضْلِ الْعَظِيمِ ﴿٢٩﴾

၂၉။ (ယင်းသို့ ချီးမြှင့် ပေးသနားတော်မူမည့် အကြောင်းမှာ) ရှေးကျမ်းကို ရရှိခဲ့သောသူတို့သည် ၎င်းတို့မှာ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်အနက် အနည်းငယ်မျှကိုပင် (ရယူ)နိုင်ကြသည် မဟုတ်ကြောင်းကိုလည်းကောင်း၊ ကျေးဇူးတော်မှာ အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာရှိ၍ ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား ယင်းကျေးဇူးတော်ကို ချီးမြှင့်ပေးသနားတော်မူကြောင်းကိုလည်းကောင်း၊ သိရှိအံ့သောငှာဖြစ်၏။ အမှန်စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည် ကြီးကျယ်လှသော ကျေးဇူးတော်ကို ပိုင်ဆိုင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ [၁]

---

➤➤ (وَآمِنُوا بِرَسُولِهِ) '၎င်းပြင် အသင်တို့သည် ထိုအရှင်မြတ်၏ တမန်တော်အား ယုံကြည်ကြကုန်' ဟူသော အမိန့်တော်၏အလိုသဘောမှာ အသင်တို့သည် ထိုအရှင်မြတ်၏ တမန်တော်မြတ်အား ယုံကြည်လျက်ရှိကြသည့် အတိုင်း၊ ယင်းယုံကြည်ချက်အပေါ်၌ အမြဲတစေ ရပ်တည်နေကြကုန်ဟူ၍ ဖြစ်သွားပေမည်။

ဆိုလိုသည်ကား - အတိတ်ခေတ်ကျမ်းဂန် ရရှိခဲ့ကြသော ပုဂ္ဂိုလ်များသည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကာ ထိုအရှင်မြတ်၏ တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ဆက်လက်ယုံကြည်ကြပါက တမန်တော်မြတ်၏လမ်းစဉ်ကို ဖဝါးခြေထပ် လိုက်နာကျင့်သုံးကြပါက၊ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ကုသိုလ်အကျိုး နှစ်ဆ ချီးမြှင့်တော်မူမည်။ အလင်းရောင်ကိုလည်း ချီးမြှင့်တော်မူမည်။ လွတ်ငြိမ်းချမ်းသာခွင့်ကိုလည်း ချီးမြှင့်တော်မူမည်ဖြစ်သည်။

(၁) ဆိုလိုသည်ကား ကိတာဗီများသည် အတိတ်ခေတ် တမန်တော်ကြီးများ၏ ထေရုပ္ပတ္တိများကို ကြားသိကြရသောအခါ ငါတို့သည် ထိုထိုသော တမန်တော်ကြီးများနှင့် ဝေးခဲ့ကြရလေခြင်း၊ ထိုထိုသော တမန်တော်ကြီးများအထံတွင် အမြဲတစေချဉ်းကပ်ခွင့် ရရှိသွားခဲ့ကြသော သူတော်စင်များ၏ အဆင့်အတန်းများကို ငါတို့သည် အသို့လျှင် ရရှိကြနိုင်အံ့နည်းဟု တွေးတောကာ ကြေကွဲဝမ်းနည်း နေခဲ့ကြလေသည်။ ယင်းသို့သောကိတာဗီများ သိထားအပ်သည်မှာ အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် မုဟမ္မဒ်(ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား ပွင့်ပေါ်စေတော်မူပြီ။ ၎င်းတို့သည် တမန်တော်မြတ်ထံ ချဉ်းကပ်ကြပါက ၎င်းတို့လိုလားနေကြသော အဆင့်အတန်းများကို ပိုမို၍ပင် ရရှိနိုင်ကြပေသည်။ အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်၏ တံခါးသည် မပိတ်ပင်သေးချေ။ ပွင့်လျက်ပင်၊ ကြည့် - အွတ်ဆ်မာနီ။

## စောဒကတက်သောမိန်းမ ကဏ္ဍ




ဤကဏ္ဍသည် "မုဂျာဒိလဟ်" စောဒကတက်သော မိန်းမအကြောင်း ပါဝင်သော ကဏ္ဍမည်၏။ မဒီနာမြို့တွင် ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၂၂)ပါးနှင့် ရုကူအ်အပိုဒ် (၃)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللهِ الرَّحْمٰنِ الرَّحِيْمِ ○

ကရုဏာတော်ရှင်ဖြစ်တော်မူသော၊ အလွန်တရာ ကြင်နာသနားတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

قَدْ سَمِعَ اللهُ قَوْلَ الَّتِيْ تُجَادِلُكَ فِيْ زَوْجِهَا وَتَشْتَكِيْٓ اِلَى اللهِ ۖ وَاللهُ يَسْمَعُ تَحَاوُرَكُمَا ۭ اِنَّ اللهَ سَمِيْعٌۢ بَصِيْرٌ ①

၁။ ဧကန်စင်စစ်အလ္လာဟ်အရှင်မြတ်သည် အကြင် မိန်းမ၏ပြောဆိုမှုကို ကြားတော်မူခဲ့လေပြီ။ ထိုမိန်းမ သည် မိမိလင်ယောကျ်ားနှင့် ပတ်သက်၍ အသင်နှင့် ငြင်းခုံ ပြောဆိုဆွေးနွေးလျက်ရှိသည့်ပြင် (မိမိ)မကျေ နပ်ကြောင်း အလ္လာဟ်အရှင်မြတ်အထံတော်တွင် ထုတ် ဖော်လျှောက်ထား *တိုင်တန်းလျက်ရှိခဲ့၏။* [၁] ၎င်းပြင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့နှစ်ဦး ပြောဆို မေးဖြေခြင်းကိုလည်း ကြားတော်မူ၏။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အကြွင်းမဲ့ကြားတော်မူသော အရှင်၊ အကြွင်းမဲ့သိမြင်တော်မူသောအရှင်၊ ဖြစ်တော် မူပေသတည်း။ [၂]

---

(၁) အစ္စလာမ် မထွန်းကားမီ အရဗ်လူမျိုးတို့၏ ထုံးတမ်းစဉ်လာ ယူဆချက်မှာ လင်ယောကျ်ားက မိမိ၏ဇနီးအား အသင်မသည် ကျွန်ုပ်၏မိခင်ဖြစ်သည်၊ အသင်မသည် ကျွန်ုပ်အဖို့ ကျွန်ုပ်၏မိခင်၏ ကျောက်ကုန်းကဲ့သို့ ဖြစ်သည်ဟု ပြောဆိုလိုက်လျှင် ထိုအမျိုးသမီးသည် ထိုယောကျ်ားနှင့်ရာသက်ပန် ပြတ်စဲသွားလေသည်။ ထိုဇနီးမောင်နှံ ပြန်လည်ပေါင်းစပ်ရန် နည်းလမ်းလုံးဝမရှိတော့ပေ။ ဤကား အစ္စလာမ်မထွန်းကားမီ အရဗ်တို့၏ ထုံးတမ်းစဉ်လာယူဆချက်တစ်ရပ်ပင်၊ အမျိုးသမီးတို့အဖို့ နင့်နာဖွယ်ရာပင်။

တမန်တော်မြတ်လက်ထက်တော်တွင် အောက်စ်အိဗ်နုဆွာမိတ်အမည်ရှိ မွတ်စ်လင်မ်အမျိုးသားတစ်ဦးက မိမိ၏ဇနီး ခေါင်လဟ်ဗင်န်တိဆအ်လဗဟ်အား အရဗ်တို့၏ထုံးတမ်းစဉ်လာအတိုင်း ယင်းသို့ပြောဆိုလိုက်၏။

ထိုအခါ ခေါင်လဟ်သည် တမန်တော်မြတ်ထံတွင်ရောက်ရှိလာပြီး "ကျွန်မ၏ခင်ပွန်းသည် ကျွန်မ၏ ဥစ္စာပစ္စည်းများကို သုံးဖြုန်းလိုက်ပါပြီ၊ ကျွန်မ၏ပျိုရွယ်မှုကိုလည်း ဖျက်ဆီးလိုက်ပါပြီ၊ ➤➤

ٱلَّذِينَ يُظَٰهِرُونَ مِنكُم مِّن نِّسَآئِهِم مَّا هُنَّ أُمَّهَٰتِهِمْ ۖ إِنْ أُمَّهَٰتُهُمْ إِلَّا ٱلَّٰٓـِٔى وَلَدْنَهُمْ ۚ وَإِنَّهُمْ لَيَقُولُونَ مُنكَرًا مِّنَ ٱلْقَوْلِ وَزُورًا ۚ وَإِنَّ ٱللَّهَ لَعَفُوٌّ غَفُورٌ ۝٢

၂။ အသင်တို့အနက် အကြင်သူတို့သည် မိမိတို့ ဇနီးမိန်းမများအား ကျွန်ုပ်၏မိခင်ကဲ့သို့ပင် ကျွန်ုပ် အပေါ်၌ "ဟရာမ်" ဖြစ်သည်ဟု ပြောဆို "ဇိဟာရ်" ပြုလုပ်ကြလေ၏။ ထိုဇနီးမိန်းမများမှာ ၎င်းတို့၏ မိခင်များ မဟုတ်ကြပေ။ ၎င်းတို့အား မွေးဖွားခဲ့ကြ သောမိန်းမများသာလျှင် ၎င်းတို့၏မိခင်များ ဖြစ်ကြ လေ၏။

သို့ရာတွင် ဧကန်မလွဲ ထို("ဇိဟာရ်" ပြုလုပ် ကြသော) ထိုသူတို့သည် စက်ဆုပ်ဖွယ်ရာ စကားကို လည်းကောင်း၊ မုသားစကားကိုလည်းကောင်း၊ ပြော ဆိုကြသည် အမှန်ပင်။ သို့တစေလည်း မလွဲဧကန် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာခွင့်လွှတ်တော် မူသောအရှင်၊ အလွန်တရာ ချမ်းသာပေးတော်မူသော အရှင် ဖြစ်တော်မူ၏။

---

➢➢ ကျွန်မ၏ဝမ်းဗိုက်မှကလေး အမြောက်အမြားလည်း မွေးခဲ့ပါပြီ၊ ယခုမူ ကျွန်မအသက်အရွယ် ကြီးရင့်လာပြီ၊ သားသမီးလည်း မမွေးနိုင်တော့ပြီ။

ဤသို့သော အချိန်အရွယ်ကျမှ ကျွန်မ၏ခင်ပွန်းသည် ကျွန်မအား စိမ်းကားစွာ ပြတ်စဲလိုက်သည်၊ ကျွန်မ၌ ကလေးငယ်လူမမယ်တွေ ရှိနေပါသည်။ ကလေးတွေကို သူ့ထံအပ်လျှင် ပျက်စီးကုန်မည်၊ ကျွန်မထံ၌ ထားလျှင် ငတ်ကုန်ပါမည်။

အို-အလ္လာဟ်အရှင်မြတ် ကျွန်တော်မျိုးမသည် အရှင်မြတ်ထံတော်၌ တိုင်ကြားအပ်ပါသည်" စသည်ဖြင့် ဝမ်းနည်းကြေကွဲစွာဖြင့် တိုင်ကြားလျှောက်ထားနေခဲ့ရာ၏။

ထိုအချိန်မှာပင် ကောင်းကင်တမန် ဂျိဗ်ရီလ်သည် ဤအာယတ်တော်ကို ဦးထိပ်ရွက် ပန်ဆင်ကာ တမန်တော်မြတ်ထံသို့ ကြွရောက်လာခဲ့လေသည်။

Ⓙ အလ္လာဟ်အရှင်မြတ်သည် အားလုံးကြားတော်မူသည်၊ မြင်တော်မူသည်၊ သို့ဖြစ်ရာ တမန်တော်မြတ်နှင့် အဆိုပါအမျိုးသမီး (ခေါင်လဟ်) အပြန်အလှန် မေးဖြေ ပြောဆိုနေကြသည်များကို အသို့လျှင် ကြားတော်မမူဘဲ ရှိအံ့နည်း။ ထိုအရှင်မြတ်သည် ဒုက္ခရောက်နေရှာသော အမျိုးသမီး၏ တိုင်ကြားချက်ကို ကြားတော်မူသည်။ သို့ကြားတော်မူသည့်အလျောက် မမှန်ကန် ထုံးတမ်းစဉ်လာများမှ ရာသက်ပန်လွတ်မြောက်ရန် နည်းလမ်းကိုလည်း ညွှန်ပြတော်မူလိုက်သည်။ အဆိုပါနည်းလမ်းသည် ရှေ့လာမည့် အာယတ်တော်များတွင် ပါရှိသည်။

وَالَّذِينَ يُظٰهِرُونَ مِن نِّسَآئِهِمْ ثُمَّ يَعُودُونَ لِمَا قَالُوا فَتَحْرِيرُ رَقَبَةٍ مِّن قَبْلِ أَن يَتَمَآسَّا ۚ ذٰلِكُمْ تُوعَظُونَ بِهِ ۚ وَاللّٰهُ بِمَا تَعْمَلُونَ خَبِيرٌ ③

၃။ စင်စစ်မှာကား အကြင်သူတို့သည် မိမိတို့၏ ဇနီးမိန်းမများနှင့် "ဇိဟာရ်" ပြုလုပ်ကြကုန်၏။ ထို့နောက် ၎င်းတို့သည် မိမိတို့ ပြောဆိုခဲ့သည်မှ ပြန်လည် ရုပ်သိမ်းလိုက်ကြ၏။

သို့ဖြစ်လျှင် ၎င်းတို့ဇနီး(မောင်နှံ)နှစ်ဦး ကိုယ်လက်နှီးနှော ထိတွေ့ခြင်းမပြုကြမီ ကျွန်တစ်ယောက်ကို လွှတ်မြောက်စေရမည်။ ထိုသည်ဖြင့် အသင်တို့သည် ဆုံးမခြင်းကို ခံကြရပေသည်။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူလျက်ရှိကြသည်တို့ကို အကြွင်းမဲ့ ကြားသိတော်မူသောအရှင် ဖြစ်တော်မူ၏။

فَمَن لَّمْ يَجِدْ فَصِيَامُ شَهْرَيْنِ مُتَتَابِعَيْنِ مِن قَبْلِ أَن يَتَمَآسَّا ۖ فَمَن لَّمْ يَسْتَطِعْ فَإِطْعَامُ سِتِّينَ مِسْكِينًا ۚ ذٰلِكَ لِتُؤْمِنُوا بِاللّٰهِ وَرَسُولِهِ ۚ وَتِلْكَ حُدُودُ اللّٰهِ

၄။ သို့ရာတွင် မည်သူမဆို (ကျွန်)မရခဲ့လျှင် ၎င်းတို့(ဇနီးမောင်နှံ)နှစ်ဦး ကိုယ်လက်နှီးနှောခြင်း မပြုကြမီ နှစ်လတိုင်တိုင် တစ်ဆက်တည်း "ဆွိယာမ်" ဥပုသ်သီလ ဆောက်တည်ရပေမည်။ သို့သော် မည်သူမဆို ("ဆွိယာမ်" ဥပုသ်သီလ ဆောက်တည်ခြင်းငှာ) မတတ်စွမ်းနိုင်လျှင် သူဆင်းရဲ ခြောက်ဆယ်အား (၎င်းတို့မောင်နှံနှစ်ဦး ကိုယ်လက်နှီးနှောခြင်းမပြုကြမီ ထမင်းနှစ်နပ်) *ကျွေးမွေးရပေမည်။* [၁]

---

(၁) **ဇိဟာရ်။**

ဟနဖီဂိုဏ်း၏ယူဆချက်အရ "ဇိဟာရ်"ဟူသည် ခင်ပွန်းယောကျ်ားက မိမိ၏ဇနီးအား မိခင်၊ နှမ စသည်တို့၏ ရာသက်ပန် ဟရာမ်ဖြစ်သော(အကြောင်းမဲ့) လုံး၀ မကြည့်အပ်သော ကိုယ်အင်္ဂါအစိတ်အပိုင်း တစ်ခုခုနှင့် နှိုင်းယှဉ် ပြောဆိုခြင်းကိုဆိုသည်။

ဥပမာ- ယောကျ်ားက မိမိ၏ဇနီးအား ( اَنتِ عَلَيَّ كظهرِ اُمِّي ) "အသင်မသည် ကျွန်ုပ်အဖို့ ကျွန်ုပ်မိခင်၏ ကျောက်ကုန်းကဲ့သို့ဖြစ်သည်" ဟုဆိုခြင်း။ ကြည့်-အွတ်ဆ်မာနီ။ ထာနဝီ။

ဆိုလိုသည်ကား ယောကျ်ားတစ်ဦးက မိမိ၏ဇနီးသည်အား 'ဇိဟာရ်' ပြုလုပ်ရုံမျှဖြင့် (ဝါ) "အသင်မသည် ကျွန်ုပ်အဖို့ ကျွန်ုပ်၏ မိခင်၏ ကျောက်ကုန်းကဲ့သို့ဖြစ်သည်"ဟု ပြောဆိုရုံကာမျှဖြင့် ဇနီးသည် ယောကျ်ား၏ မိခင်ဖြစ်သွားသည် မဟုတ်ပေ။ ➢➢

وَلِلْكَٰفِرِينَ عَذَابٌ أَلِيمٌ ④

ထို(အမိန့်ပညတ်ကို ပြဋ္ဌာန်းတော်မူခြင်း)ကား အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား လည်းကောင်း၊ ထိုအရှင်မြတ်၏ရစူလ်တမန်တော်မြတ်အား လည်းကောင်း၊ သက်ဝင်ယုံကြည်ကြအံ့သောငှာ ဖြစ်ပေသည်။ စင်စစ်မှာမူကား ထိုသည်တို့မှာ အလ္လာဟ်အရှင်မြတ်၏ စည်းကမ်းချက်များပင်။ ၎င်းပြင် "ကာဖိရ်" သွေဖည် ငြင်းပယ်ကြကုန်သောသူတို့၌ နာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်သည် ရှိပေအံ့သတည်း။

---

➤➤ မိမိအား ဝမ်းဗိုက်တွင် လွယ်ပိုက်မွေးဖွားခဲ့သော မိခင်သည်သာလျှင် မိခင်ဖြစ်သည်။ သို့ဖြစ်ရာ ယောကျ်ားတစ်ဦးက မိမိ၏ဇနီးအား ယင်းသို့ ပြောဆိုရုံကာမျှဖြင့် အဆိုပါ ဇနီးသည် မိမိ၏ လင်ခင်ပွန်းနှင့် ရာသက်ပန် လင်ခန်းမယားခန်း အသို့လျှင် ပြတ်စဲသွားအံ့နည်း။

အမှန်မှာ 'ဇိဟာရ်' ပြုလုပ်သောသူများသည် စက်ဆုပ်ဖွယ်စကား၊ မုသားစကား ပြောဆိုခြင်းသာလျှင် ဖြစ်သည်။ သို့မပြောအပ် မဆိုအပ်သော စကားကို ပြောဆိုမိသောသူများသည် မိမိတို့၏အပြစ်ကို ပြေစေရန်အတွက် (ကဖ်ဖာရဟ်)- (Sin Offering Expiation) ဒဏ်ဆောင်ပြေကြရမည်ဖြစ်သည်။

သို့အာပတ်ပြေပြီးသည့်နောက်တွင်မှ မိမိတို့၏ ဇနီးများနှင့်ယခင်အတိုင်း ဥမကွဲသိုက်မပျက် နေထိုင်ကြရမည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် 'ဇိဟာရ်' ပြုလုပ်ခြင်းခံရသော အမျိုးသမီးတစ်ဦးသည် သက်ဆိုင်ရာခင်ပွန်း၏ဇနီးပင်ဖြစ်ကြောင်း၊ ဇိဟာရ်ပြုလုပ်ခြင်းဖြင့် 'တွလာက်' အထမမြောက်ကြောင်း၊ လင်ခန်း မယားခန်း ပြတ်စဲမသွားကြောင်း အတိတ်ခေတ် အရဗ်တို့၏ ထုံးတမ်းစဉ်လာ ထင်မြင်ယူဆချက်များ မမှန်ကန်ကြောင်း ကောင်းစွာ သိရှိနိုင်ပေသည်။

**<u>'ဇိဟာရ်'၏ 'ကဖ်ဖာရဟ်'</u>**

ဇိဟာရ်ပြုလုပ်မိသောသူများသည် ကဖ်ဖာရဟ် အာပတ်ပြေသည့်အနေဖြင့် မိမိတို့၏ ဇနီးများနှင့် မထိတွေ့မီအလျှင်–

(၁) ကျေးကျွန်တစ်ယောက်ကို ကျေးကျွန်အဖြစ်မှ လွတ်မြောက်စေကြရမည်။

(၂) ကျေးကျွန်တစ်ယောက်ကို လွတ်မြောက်စေရန် မစွမ်းနိုင်လျှင် နှစ်လတိတိ 'ဆွိယာမ်' ဥပုသ်ဆောက်တည်ကြရမည်။

(၃) ဤသည်ကိုလည်း မပြုစွမ်းနိုင်ကြလျှင် ဆင်းရဲသား (၆၀) တို့အား ထမင်း (တစ်ရက်စာ နှစ်နပ်) ကျွေးကြရမည်။

ဤသည် အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသည့် စည်းကမ်းချက် နယ်နိမိတ်များဖြစ်သည်။ မကျူးကျော်ရာ။

ဤအကြောင်းနှင့်စပ်လျဉ်း၍ အသေးစိတ်အကြောင်းများကို 'ဖစ်က်ဟ်' ဓမ္မသတ်ကျမ်းကြီးများတွင် တွေ့ရှိနိုင်ပေသည်။

إِنَّ الَّذِينَ يُحَادُّونَ اللَّهَ وَرَسُولَهُ كُبِتُوا كَمَا كُبِتَ الَّذِينَ مِن قَبْلِهِمْ وَقَدْ أَنزَلْنَا آيَاتٍ بَيِّنَاتٍ وَلِلْكَافِرِينَ عَذَابٌ مُّهِينٌ ۝٥

၅။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ ကဏ္ဍက ပြုလုပ်ကြသောသူတို့ကား မိမိတို့အလျင်ရှိခဲ့ကြသော ရှေးသူဟောင်းတို့ ဂုဏ်ရည်သေးသိမ်စေခြင်း ခံခဲ့ကြရသည့်နည်းတူ ဂုဏ်ရည်သေးသိမ်စေခြင်းကို ခံကြရပေမည်။ အမှန်စင်စစ်သော်ကား ငါအရှင်မြတ်သည် ထင်ရှားလှစွာသော သက်သေလက္ခဏာတော်များကို ချပေးတော်မူခဲ့ပြီးဖြစ်၏။ ၎င်းပြင် "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့၌ ဂုဏ်ရည်ပျက်ပြားစေသော ပြစ်ဒဏ်သည် ရှိပေမည်။ [၁]

يَوْمَ يَبْعَثُهُمُ اللَّهُ جَمِيعًا فَيُنَبِّئُهُم بِمَا عَمِلُوا أَحْصَاهُ اللَّهُ وَنَسُوهُ وَاللَّهُ عَلَىٰ كُلِّ شَيْءٍ شَهِيدٌ ۝٦

၆။ အကြင်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အားလုံးကို ရှင်ပြန်ထစေတော်မူပြီးနောက် ၎င်းတို့ကျင့်မူခဲ့သမျှတို့ကို ၎င်းတို့အား သိစေတော်မူပေမည်။ အလ္လာဟ်အရှင်မြတ်သည် ထိုအကျင့်အမူကို ရေတွက်မှတ်သား၍ ထားရှိတော်မူ၏။ သို့ရာတွင် ၎င်းတို့မှာမူကား ယင်းအကျင့်အမူကို မေ့ပျောက်ကြကုန်၏။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့အပေါ် ဝယ်မျက်မြင်သက်သေဖြစ်တော်မူ၏။

---

(၁) ဆိုလိုသည်ကား- မွတ်စ်လင်မ်သည် မိမိ၏ဂုဏ်နာမ်နှင့်အညီ အမိန့်တော်ကိုနာခံသည်၊ အလ္လာဟ်အရှင်မြတ်သတ်မှတ်ထားတော်မူသည့် စည်းကမ်းချက် နယ်နိမိတ်များကို မကျူးကျော်ပေ။

ကာဖိရ်များမူကား - အလ္လာဟ်အရှင်မြတ် သတ်မှတ်ထားတော်မူသည့် စည်းကမ်းချက်နယ်နိမိတ်များကို ကျူးကျော်ကြပေသည်။ မိမိတို့၏စိတ်အလိုဆန္ဒအရ နယ်နိမိတ် သတ်မှတ်ကြပေသည်။ ထိုသို့သော ကာဖိရ်များအား လျစ်လျူပြုထားရမည်သာ၊ ၎င်းတို့အဖို့ ပြင်းထန်သော ကျိုးယုတ်ရှက်ရစေမည့် ပြစ်ဒဏ်သည် အသင့်ပင်ရှိပေသည်။ ယင်းသို့သော ကာဖိရ်များသည် အတိတ်ခေတ်များတွင်လည်း အရှက်တကွဲ အကျိုးနည်းဖြစ်ခဲ့ကြရပြီ၊ ယခုလည်း ဖြစ်လျက်ပင်။

အလ္လာဟ်အရှင်မြတ်၏ ထင်ရှားသော သက်သေလက္ခဏာတော်များကို တွေ့မြင်ရပြီးသည့်နောက်၊ ထင်ရှားသောဒေသနာတော်များကို ကြားနာရပြီးသည့်နောက်သော်မှပင် မိမိတို့၏သွေဖည်မှုအပေါ်၌ ရပ်တည်နေခြင်း၊ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို မလေးစားခြင်းသည် တစ်နည်းအားဖြင့် ကျိုးယုတ်ရှက်ရဖြစ်စေမည့် ပြစ်ဒဏ်ကို လက်ယပ်ခေါ်နေခြင်းပင်။

اَلَمْ تَرَ اَنَّ اللّٰهَ يَعْلَمُ مَا فِي السَّمٰوٰتِ وَمَا فِي الْاَرْضِ ۖ مَا يَكُوْنُ مِنْ نَّجْوٰى ثَلٰثَةٍ اِلَّا هُوَ رَابِعُهُمْ وَلَا خَمْسَةٍ اِلَّا هُوَ سَادِسُهُمْ وَلَآ اَدْنٰى مِنْ ذٰلِكَ وَلَآ اَكْثَرَ اِلَّا هُوَ مَعَهُمْ اَيْنَ مَا كَانُوْا ۚ ثُمَّ يُنَبِّئُهُمْ بِمَا عَمِلُوْا يَوْمَ الْقِيٰمَةِ ۗ اِنَّ اللّٰهَ بِكُلِّ شَيْءٍ عَلِيْمٌ ۝٧

၇။ (အို-နဗီတမန်တော်၊) ဧကန်မလွဲ အလ္လာဟ် အရှင်မြတ်သည် မိုးကောင်းကင်များ၌ရှိသည်တို့ကို လည်းကောင်း၊ ပထဝီမြေ၌ရှိသည်တို့ကိုလည်းကောင်း၊ သိရှိတော်မူကြောင်း အသင်သည် စဉ်းစားဆင်ခြင် သိမြင်ခဲ့ပြီး မဟုတ်ပါလော။ (လူ)သုံးဦး လျှို့ဝှက် တိုင်ပင်ကြသည် မဟုတ်ပေ။ သို့ရာတွင် ထိုအရှင်မြတ် သည် ၎င်းတို့အနက် စတုတ္ထ ဖြစ်တော်မူ၏။

ထိုနည်းတူစွာ (လူ)ငါးဦး (လျှို့ဝှက်တိုင်ပင် ကြသည်) မဟုတ်ပေ။ သို့ရာတွင် ထိုအရှင်မြတ်သည် ၎င်းတို့အနက် ဆဋ္ဌမ ဖြစ်တော်မူ၏။ ထို့ပြင် ထို (သုံးဦး)ထက်လျော့၍လည်းကောင်း၊ (ငါးဦး)ထက်ပို၍ လည်းကောင်း၊ (လျှို့ဝှက်တိုင်ပင်ကြသည်) မဟုတ် ပေ။ သို့ရာတွင် ထိုအရှင်မြတ်သည် ၎င်းတို့ မည်သည့် နေရာ၌ရှိနေကြသည်ဖြစ်စေ ၎င်းတို့နှင့်အတူ ရှိနေ တော်မူ၏။ [၁]

ထို့နောက် ထိုအရှင်မြတ်သည် “ကိယာမတ်” ရှင်ပြန်ထမည့်နေ့တွင် ၎င်းတို့အား ၎င်းတို့ ကျင့်မူ ခဲ့သည်တို့ကို သိစေတော်မူပေမည်။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်း တို့ကို အကြွင်းမဲ့သိတော်မူသော အရှင်မြတ်ပင် ဖြစ်တော် မူပေသတည်း။

---

(၁) ဆိုလိုသည်ကား- အလ္လာဟ်အရှင်မြတ်သည် လူသားတို့ ကျင့်မူ ဆည်းပူးကြသည်များကိုသာလျှင် သိရှိ တော်မူသည်မဟုတ်၊ မိုး၊မြေ နှင့်တကွ ဤလောကဓာတ်ကြီးတစ်ခုလုံးတွင် ဖြစ်ပျက်သမျှ ကိစ္စအဝဝကို အကြွင်းမဲ့ ဥဿုံအလုံးစုံကိုပင် သိရှိတော်မူသည်။ မည်သည့် အစည်းအဝေး၊ မည်သည့်တီးတိုး ပြောဆိုမှု၊ မည်သည့် လျှို့ဝှက် တိုင်ပင်ဆွေးနွေး ကြံစည်မှုကိုမဆို အလ္လာဟ်အရှင်မြတ်သည် သိတော်မူသည်သာဖြစ်သည်။

ဥပမာ- လူသုံးဦး လျှို့ဝှက်စွာဖြင့် တံခါးပိတ်ဆွေးနွေးတိုင်ပင်အံ့၊ စတုတ္ထမရှိ မထင်ရာ၊ အလ္လာဟ် အရှင်မြတ်သည် စတုတ္ထဖြစ်တော်မူသည်၊ ဆွေးနွေးတိုင်ပင်သမျှကို သိရှိတော်မူသည်။ လူငါးဦး လျှို့ဝှက်စွာ ဆွေးနွေးတိုင်ပင်အံ့၊ ဆဋ္ဌမမရှိ မထင်ရာ၊ အလ္လာဟ်အရှင်မြတ်သည် ဆဋ္ဌမဖြစ်တော်မူသည်၊ အားလုံး ➤➤

၈။ (အို-နဗီတမန်တော်၊) အသင်သည် အကြင်သူတို့(၏အခြေအနေ)ကို ဆင်ခြင်သုံးသပ် မြင်ခဲ့သည် မဟုတ်လော။ ထိုသူတို့သည် လျှို့ဝှက်တိုင်ပင်မှု မပြုရန် တားမြစ်ခြင်းကို ခံခဲ့ရလေ၏။ ထို့နောက် ၎င်းတို့သည် မိမိတို့ တားမြစ်ခြင်းခံခဲ့ကြရသော အမှု ကိစ္စကိုပင် ထပ်မံ၍ ပြုလုပ်ကြကုန်၏။

စင်စစ် ထိုသူတို့ကား ပြစ်မှုကျူးလွန်ရန်နှင့် စပ်လျဉ်း၍လည်းကောင်း၊ ကျူးကျော်ရန်နှင့် စပ်လျဉ်း၍လည်းကောင်း၊ ရစူလ်တမန်တော်မြတ်၏အမိန့်ကို သွေဖည်ဆန့်ကျင်မှု ပြုလုပ်ရန်နှင့်စပ်လျဉ်း၍လည်းကောင်း၊ *လျှို့ဝှက်တိုင်ပင်ကြကုန်၏*။ [၁] ၎င်းပြင် ထိုသူတို့သည် အသင့်ထံသို့ လာကြသောအခါ အလ္လာဟ်အရှင်မြတ်က အသင့်အား မေတ္တာပို့တော်မမူခဲ့သော နည်းမျိုးဖြင့် မေတ္တာပို့သ နှုတ်ခွန်းဆက်ကြပေသည်။

أَلَمْ تَرَ إِلَى الَّذِينَ نُهُوا عَنِ النَّجْوَىٰ ثُمَّ يَعُودُونَ لِمَا نُهُوا عَنْهُ وَيَتَنَاجَوْنَ بِالْإِثْمِ وَالْعُدْوَانِ وَمَعْصِيَتِ الرَّسُولِ وَإِذَا جَاءُوكَ حَيَّوْكَ بِمَا لَمْ يُحَيِّكَ بِهِ اللَّهُ وَيَقُولُونَ فِي أَنفُسِهِمْ لَوْلَا يُعَذِّبُنَا اللَّهُ بِمَا

---

➤➤ သိတော်မူသည်။ ဆိုလိုသည်ကား သုံးဦးတိုင်ပင်သည်ဖြစ်စေ၊ ငါးဦးတိုင်ပင်သည်ဖြစ်စေ၊ ထို့ထက်နည်းသည်ဖြစ်စေ၊ များသည်ဖြစ်စေ၊ မည်မျှပင်တိုင်ပင်သည်ဖြစ်စေ၊ မည်သည့်ဌာနတွင် တိုင်ပင်သည်ဖြစ်စေ၊ မည်သို့တိုင်ပင်သည် ဖြစ်စေ၊ အလ္လာဟ်အရှင်မြတ်သည် အားလုံး သိတော်မူသည်သာ ဖြစ်ပေသည်။

(၁) တမန်တော်မြတ် တရားဟောကြားတော်မူသည့် အခမ်းအနားများတွင် မုနာဖစ်က်များသည် ဝင်ရောက်ထိုင်ကာ တီးတိုးတိုင်ပင်လေ့ရှိခဲ့ကြ၏။ အခမ်းအနားသို့ လာရောက်သောသူများအား ပြက်ချော်သမှု ပြုလေ့ရှိခဲ့ကြ၏။ အပြစ်ရှာလေ့ရှိခဲ့ကြ၏။ အချင်းချင်း နှစ်ကိုယ်ကြား တီးတိုးပြောဆိုလေ့ရှိခဲ့ကြ၏။ မျက်ရိပ်မျက်ကဲ ပြုလေ့ရှိခဲ့ကြ၏။

ယင်းသို့သော အပြုအမူများကြောင့် အကယ်ရိုးသားဖြောင့်မတ်သော မွတ်စ်လင်မ်များသည် စိတ်ဒုက္ခဖြစ်ခဲ့ကြရ၏။ ထို့ပြင်တစ်ဝ ယင်းမုနာဖစ်က်များသည် တမန်တော်မြတ်၏အဆုံးအမသြဝါဒများကို ကြားကြရသောအခါ၊ "ဤခဲယဉ်းသော အမှုကို ကျွန်ုပ်တို့အသို့လျှင် ပြုစွမ်းနိုင်ကြပါမည်နည်း" ဟူ၍ပင် မရိုမသေ မလေးမစား မခန့်မညား ပြောဆိုလေ့ရှိခဲ့ကြ၏။

ဤသို့ဖြင့် မုနာဖစ်က်များသည် တီးတိုးတိုင်ပင်၍-

(၁) ပြစ်မှုကို ကျူးလွန်နေခဲ့ကြ၏။

(၂) မွတ်စ်လင်မ်တို့အား ကျူးကျော်စော်ကားနေခဲ့ကြ၏။

(၃) တမန်တော်မြတ်အား သွေဖည်ဆန့်ကျင်နေခဲ့ကြ၏။

ယင်းသို့မပြုမူကြရန် ၎င်းတို့အား ယခင်က တားမြစ်ထားတော်မူပြီးဖြစ်၏။ ကြည့်-ကုရ်အာန်ကျမ်းမြတ် (၄း၁၁၄)။ သို့ပါသော်လည်း ယင်းမုနာဖစ်က်များသည် "ခွေးမြီးကောက် ကျည်တောက်စွပ်" ဆိုသကဲ့သို့ပင် ➤➤

نَقُولُ حَسْبُهُمْ جَهَنَّمُ يَصْلَوْنَهَا فَبِئْسَ الْمَصِيرُ ⑧

ထိုမှတစ်ပါး ၎င်းတို့သည် မိမိတို့ စိတ်ထဲတွင် (တွေးတော) ပြောဆိုကြကုန်၏။ "အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်တို့၏ပြောဆိုမှုကြောင့် ကျွန်ုပ်တို့အား အဘယ်ကြောင့် ပြစ်ဒဏ်ပေးတော်မမူပါသနည်း။" ၎င်းတို့၌ အကြင် "ဂျဟန္နမ်" ငရဲသည် လုံလောက်ပေသည်။ ၎င်းတို့သည် ယင်း "ဂျဟန္နမ်" ငရဲသို့ ဝင်ရောက် ကြရပေမည်။ စင်စစ်သော်ကား ယင်း "ဂျဟန္နမ်"ငရဲမှာ လွန်စွာဆိုးရွားလှသော ပြန်လည်ရာ စခန်း ဖြစ်ပေသည်။ [၁]

---

➤➤ မိမိတို့၏အကျင့်အမူများကို မစွန့်လွှတ်ခဲ့ကြပေ၊ ပြုမူမြဲတိုင်း ပြုမူလျက်ပင် ရှိနေခဲ့ကြ၏။ ထိုအခါ ၎င်းတို့နှင့် ပတ်သက်၍ ဤအာယတ်တော်များ ထပ်မံကျရောက်လာခဲ့ပေသည်။

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အပေါ်သို့ အခြား တမန်တော်များနှင့်အတူ (وَسَلَامٌ عَلَى الْمُرْسَلِينَ) "တမန်တော်များအပေါ်သို့ ကောင်းချီးချမ်းသာ မင်္ဂလာအဖြာဖြာ သက်ရောက်ပါစေ"။

(وَسَلَامٌ عَلَىٰ عِبَادِهِ الَّذِينَ اصْطَفَىٰ) 'ထိုအရှင်မြတ်၏ ရွေးချယ်မြှောက်စားတော်မူခြင်း ခံကြရသော ကျွန်များအပေါ်၌ ကောင်းချီးချမ်းသာ မင်္ဂလာအဖြာဖြာ သက်ရောက်ပါစေ'ဟူ၍ မေတ္တာပို့သတော်မူ၏။

မုအ်မင်န်များအား (السلام عليك أيها النبى ورحمة الله وبركاته) "အို-တမန်တော်၊ အသင့်အပေါ်၌ ကောင်းချီးချမ်းသာ မင်္ဂလာအဖြာဖြာ သက်ရောက်ပါစေ၊ ထို့ပြင် အလ္လာဟ်အရှင်မြတ်၏ ကရုဏာတော်နှင့် မင်္ဂလာအဖြာဖြာလည်း သက်ရောက်ပါစေ" ဟူ၍ မေတ္တာပို့သစေတော်မူ၏။

သို့ပါသော်လည်း အချို့ရေဝတီများသည် တမန်တော်မြတ်ထံ လာကြသည့်အခါ (السلام عليك) "အသင့်အပေါ်၌ ကောင်းချီးချမ်းသာအဖြာဖြာ သက်ရောက်ပါစေ"ဟု မေတ္တာပို့သရမည့်အစား လျှာအနည်းငယ်လိပ်၍ (السام عليك) (အတ်စ္စာမု အလိုင်က) "အသင့်အပေါ်၌ သေခြင်းတရား သက်ရောက်ပါစေ"ဟူ၍ပင် ကျိန်ဆဲခဲ့ကြလေသည်။

ထို့နောက် ယင်းရေဝတီများက "အကယ်၍ ဤပုဂ္ဂိုလ်သည် အကယ်စင်စစ် အလ္လာဟ်အရှင်မြတ်၏ တမန်တော်ဖြစ်ပါမူ၊ ငါတို့သည်လည်း ထိုအရှင်မြတ်၏ တမန်တော်အား ယင်းသို့ ကျိန်ဆဲပြောဆို နေကြသည် ဖြစ်ရာ၊ ထိုအရှင်မြတ်သည် ငါတို့အား အဘယ်ကြောင့် ပြစ်ဒဏ်ခတ်တော်မမူပါသနည်း" ဟူ၍ပင် ကြက်တွန့်တက်ခဲ့ကြသေး၏။

၎င်းတို့အဖို့ ဂျဟန္နမ်ငရဲသည် လုံလောက်ပေသည်။ ယင်းဂျဟန္နမ်သို့ သင်တို့လားကြရမည်။ အဆိုပါ "ဂျဟန္နမ်မှာ လွန်စွာ ဆိုးရွားလှပါတကား"။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓاْ إِذَا تَنَٰجَيۡتُمۡ فَلَا تَتَنَٰجَوۡاْ بِٱلۡإِثۡمِ وَٱلۡعُدۡوَٰنِ وَمَعۡصِيَتِ ٱلرَّسُولِ وَتَنَٰجَوۡاْ بِٱلۡبِرِّ وَٱلتَّقۡوَىٰۖ وَٱتَّقُواْ ٱللَّهَ ٱلَّذِيٓ إِلَيۡهِ تُحۡشَرُونَ ٩

၉။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် လျှို့ဝှက်တိုင်ပင်ကြသောအခါ ပြစ်မှုကျူးလွန်ခြင်းနှင့် စပ်လျဉ်း၍လည်းကောင်း၊ ကျူးကျော်ခြင်းနှင့် စပ်လျဉ်း၍လည်းကောင်း၊ ရစူလ်တမန်တော်မြတ်၏အမိန့်ကို သွေဖည်ဆန့်ကျင်ဘက်ပြုခြင်းနှင့် စပ်လျဉ်း၍လည်းကောင်း၊ လျှို့ဝှက်တိုင်ပင်ခြင်း မပြုကြကုန်လင့်။ သို့ရာတွင် အသင်တို့သည် ကောင်းမှုပြုလုပ်ရန်လည်းကောင်း၊ ပြစ်မှုဒုစရိုက်များမှ ရှောင်ကြဉ်ရန်လည်းကောင်း၊ လျှို့ဝှက်တိုင်ပင်ကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် အကြင်အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်၊ ထိုအရှင်မြတ်အထံတော်သို့ပင် အသင်တို့သည် ပြန်လည်စုရုံးကြရပေမည်။

إِنَّمَا ٱلنَّجۡوَىٰ مِنَ ٱلشَّيۡطَٰنِ لِيَحۡزُنَ ٱلَّذِينَ ءَامَنُواْ وَلَيۡسَ بِضَآرِّهِمۡ شَيۡـًٔا إِلَّا بِإِذۡنِ ٱللَّهِۚ وَعَلَى ٱللَّهِ فَلۡيَتَوَكَّلِ ٱلۡمُؤۡمِنُونَ ١٠

၁၀။ (မကောင်းမှုကျူးလွန်ရန်) လျှို့ဝှက်တိုင်ပင်မှုကား "ရှိုင်တွာန်"မိစ္ဆာကောင်၏ထံမှ မုအ်မင်န်သက်ဝင်ယုံကြည်သူတို့အား စိတ်ဒုက္ခ ဖြစ်စေရန်သာဖြစ်၏။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်၏အလိုတော်မရှိဘဲ ယင်း"ရှိုင်တွာန်"မိစ္ဆာကောင်သည် မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အား အနည်းငယ်စိုးစဉ်းမျှပင် ကျိုးယုတ်စေနိုင်သူမဟုတ်ပြီ။ သို့ဖြစ်ပေရာ မုအ်မင်န် သက်ဝင်ယုံကြည်သူတို့ကား အလ္လာဟ်အရှင်မြတ်အပေါ်၌သာလျှင် ယုံပုံလွှဲအပ် အားထားကြရာသတည်း။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓاْ إِذَا قِيلَ لَكُمۡ تَفَسَّحُواْ فِي ٱلۡمَجَٰلِسِ فَٱفۡسَحُواْ يَفۡسَحِ ٱللَّهُ لَكُمۡۖ

၁၁။ အို-မုအ်မင်န် သက်ဝင်ယုံကြည်သူအပေါင်း တို့၊ အသင်တို့သည် "နေရာချဲ့ပေးကြလေကုန်" ဟု ပြောဆိုခြင်းကို ခံကြရလေသောအခါ နေရာချဲ၍ပေးကြလေကုန်။ အလ္လာဟ်အရှင်မြတ်သည် အသင်တို့အဖို့ နေရာချဲ့ပေးတော်မူမည်။

وَإِذَا قِيلَ انشُزُوا فَانشُزُوا يَرْفَعِ اللَّهُ الَّذِينَ آمَنُوا مِنكُمْ وَالَّذِينَ أُوتُوا الْعِلْمَ دَرَجَاتٍ ۚ وَاللَّهُ بِمَا تَعْمَلُونَ خَبِيرٌ ﴿١١﴾

ထိုနည်းတူစွာ အသင်တို့သည် "မတ်တတ်ထကြလေကုန်" ဟု ပြောဆိုခြင်းကိုခံကြရလေသောအခါ မတ်တတ်ထကြလေကုန်။ အရှင်မြတ်သည် အသင်တို့အနက် မုအ်မင်န် သက်ဝင်ယုံကြည်သူတို့အားလည်းကောင်း၊ အသိပညာ ချီးမြှင့်ပေးသနားတော်မူခြင်း ခံခဲ့ကြရသောသူတို့အားလည်းကောင်း၊ အဆင့်အတန်းများစွာ မြှင့်တင်ပေးတော်မူပေမည်၊ [၁]

စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို အကြွင်းမဲ့ ကြားသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

يَا أَيُّهَا الَّذِينَ آمَنُوا إِذَا نَاجَيْتُمُ الرَّسُولَ فَقَدِّمُوا بَيْنَ يَدَيْ نَجْوَاكُمْ صَدَقَةً ۚ ذَٰلِكَ خَيْرٌ لَّكُمْ وَأَطْهَرُ ۚ فَإِن لَّمْ تَجِدُوا فَإِنَّ اللَّهَ

၁၂။ အို-မုအ်မင်န် သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့သည် ရစူလ်တမန်တော်မြတ်နှင့် လျှို့ဝှက်ပြောဆိုတိုင်ပင်ကြသောအခါ မိမိတို့ လျှို့ဝှက်ပြောဆိုတိုင်ပင်မှု မပြုကြမီ အလှူဒါန တစ်စုံတစ်ရာကို ကြိုတင်ပေးနှင့်ကြလေကုန်။ ဤသည် အသင်တို့အဖို့ အကောင်းဆုံးလည်းဖြစ်၏။ အသန့်ရှင်းဆုံးလည်းဖြစ်၏။

---

(၁) **မှတ်ချက်။**

တမန်တော်မြတ် တရားဟောကြားတော်မူသည့် အခမ်းအနားတွင် လူတိုင်းလူတိုင်းသည် တမန်တော်မြတ်၏ အနီး၌ပင်ထိုင်၍ တရားနာလို၏။ ထို့အတွက် တစ်ခါတစ်ရံ နေရာအကျပ်အတည်း ဖြစ်ခဲ့ရ၏။ တစ်ခါတစ်ရံ အဂ္ဂသာဝက၊ မဟာသာဝကကြီးများသည်ပင် တမန်တော်မြတ်အနီး၌ နေရာမရ ဖြစ်ခဲ့ကြရ၏။ ထို့အတွက်ကြောင့် ဤစည်းကမ်းချက်များကို သတ်မှတ်ပြဋ္ဌာန်း ပေးတော်မူခြင်းဖြစ်သည်။ သို့မှသာလျှင် ပုဂ္ဂိုလ်အသီးသီးတို့သည် ကိုယ့်အဆင့်အတန်းနှင့်ကိုယ် အကျိုးခံစားနိုင်ကြပေမည်။ စီမံကွပ်ကဲ အုပ်ချုပ်မှုသည်လည်း စနစ်တကျ ရှိနေပေမည်။

ယခုသော်လည်း အစည်းအဝေးပွဲများတွင် သက်ဆိုင်ရာ သဘာပတိ၏ စီမံကွပ်ကဲ ထိန်းသိမ်းမှုနှင့် စပ်လျဉ်းသည့် အမိန့်များကို ကြည်ဖြူစွာ နာခံကြရမည်သာဖြစ်သည်။ အစ္စလာမ်သည် အရေးကိစ္စအဝဝတွင် စည်းစနစ်ရှိမှုကို အထူးလိုလားသည်။ စည်းစနစ်မဲ့မှု၊ စည်းမဲ့ကမ်းမဲ့ဖြစ်မှု၊ ဖရိုဖရဲဖြစ်မှုများကို အလျင်း မလိုလားပေ။ အစ္စလာမ်၏ အမိန့်ပညတ် အရပ်ရပ်တွင် ဤသည့်စည်းစနစ်ရှိမှုကို အထင်သား အမြင်သား၊ အထင်အရှား တွေ့ရပေသည်။

غَفُورٌ رَّحِيمٌ ⑫

သို့ရာတွင် အကယ်၍ အသင်တို့သည် (အလှူဒါနပြုရန် ဝတ္ထုပစ္စည်းတစ်စုံတစ်ရာကို) မရခဲ့ကြလျှင် ဧကန်အမှန် အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်တော်မူသောအရှင်၊ အလွန်တရာသနားကရုဏာပြုတော်မူသောအရှင်မြတ် ဖြစ်တော်မူ၏။ [၁]

---

(၁) ဆိုလိုသည်ကား မုနာဖစ်က်များသည် မိမိတို့ ကြီးကျယ်ကြောင်း၊ ပေါက်ရောက်ကြောင်းကို လူများအား ပြသလိုသည့်အတွက် တမန်တော်မြတ်ထံချဉ်းကပ်၍ တီးတိုးစွာ ပြောဆိုလေ့ရှိခဲ့ကြ၏။

အချို့မွတ်စ်လင်မ်များသည်လည်း တမန်တော်မြတ်ထံ ချဉ်းကပ်၍ အရေးမကြီးလှသောစကားများကို အချိန်ကြာမြင့်စွာ တီးတိုးပြောဆိုနေလေ့ရှိခဲ့ကြ၏။ ထို့အတွက် အခြားပုဂ္ဂိုလ်များမှာ တမန်တော်မြတ်ထံမှ အကျိုးခံစားခွင့် မရရှိဘဲနေခဲ့ကြရ၏။

တစ်ခါတစ်ရံ တမန်တော်မြတ်သည် တစ်ကိုယ်တည်း လွတ်လပ်စွာနေတော်မူလိုသော်လည်း ထိုထိုသောပုဂ္ဂိုလ်များကြောင့် ထိုသည့်အခွင့်အရေးကို တမန်တော်မြတ် ခံစားတော်မမူခဲ့ရပေ။

သို့တစေလည်း တမန်တော်မြတ်သည် ယဉ်ကျေးသိမ်မွေ့တော်မူလှသည့်အတွက်၊ တဖက်သားအား အလွန်ထောက်ထားညှာတာတော်မူ လှသည့်အတွက် ဖွင့်ဟ၍ မည်သူ့ကိုမျှ ပိတ်ပင်တော် မမူရက်ရှာခဲ့ပေ။

ထိုအခါ ဤအာယတ်တော် ကျရောက်လာခဲ့ပေသည်။

ဆိုလိုသည်ကား တတ်ကုံနိုင်သူတစ်ဦးသည် တမန်တော်မြတ်ထံချဉ်းကပ်၍ တီးတိုးစကားပြောကြားလိုပါက ယင်းသို့ စကားမပြောမီအလျင်၊ တစ်စုံတစ်ရာ အလှူဒါန ပေးကမ်းစွန့်ကြဲရမည်ဖြစ်သည်။ ထိုသို့စွန့်ကြဲလှူဒါန်းပြီးနောက်တွင်မှ တမန်တော်မြတ်ထံချဉ်းကပ်၍ တီးတိုးစကား ပြောကြားရမည်။

ဤသို့ပြုလုပ်ခြင်းတွင် အကျိုးအမျိုးမျိုးရှိသည်။

(၁) ယင်းသို့ စွန့်ကြဲလှူဒါန်းခြင်းဖြင့်၊ ဆင်းရဲသားတို့အား ကူညီထောက်ပံ့ရာလည်း ရောက်သည်။

(၂) ယင်းသို့ စွန့်ကြဲလှူဒါန်းခြင်းဖြင့်၊ သက်ဆိုင်ရာ အလှူရှင်၏ စိတ်စေတနာလည်း ဖြူစင်သွားသည်။

(၃) ယင်းသို့ စွန့်ကြဲလှူဒါန်းခြင်းဖြင့်၊ မွတ်စ်လင်မ်အစစ်နှင့် အယောင်ဆောင်များကိုလည်း ခွဲခြားသိရှိရပေမည်။

(၄) ယင်းသို့ စွန့်ကြဲလှူဒါန်းရသည့်အတွက်၊ တမန်တော်မြတ်ထံ ချဉ်းကပ်၍ တီးတိုးစကား ပြောဆိုသူများ၏ အရည်အတွက်လည်း လျော့နည်းသွားပေမည်။

(၅) သို့တီးတိုးစကား ပြောကြားသူများ၏ အရေအတွက် လျော့နည်းသွားသည်နှင့်အမျှ တမန်တော်မြတ်၌ စိတ်၏ချမ်းသာမှု၊ ကိုယ်၏ချမ်းသာမှုများလည်း ပို၍ရှိလာပေမည်။

(အကယ်၍ ပုဂ္ဂိုလ်တစ်ဦးသည် တမန်တော်မြတ်ထံချဉ်းကပ်၍ တီးတိုးစကား ပြောကြားလို၏၊ စွန့်ကြဲလှူဒါန်းရန်လည်း မိမိ၌တစ်စုံတစ်ရာမရှိ။ သို့ဖြစ်လျှင် ထိုသို့သောပုဂ္ဂိုလ်၌ စွန့်ကြဲလှူဒါန်းရန် တာဝန်မရှိပေ)

ဤအာယတ်တော် ကျရောက်လာသည့်အခါ မုနာဖစ်က်များသည် စေးနဲတွန့်တိုလှကြသည့်အတွက် တမန်တော်မြတ်ထံချဉ်းကပ်၍ တီးတိုးစကားပြောကြားသည့် အလေ့အထကို စွန့်လွှတ်ကြလေသည်။

ကျန်မွတ်စ်လင်မ်များသည်လည်း တမန်တော်မြတ်ထံချဉ်းကပ်၍ အကြောင်းမဲ့ တီးတိုးပြောဆိုမှုကို ➤➤

ءَاَشْفَقْتُمْ اَنْ تُقَدِّمُوْا بَيْنَ يَدَىْ نَجْوٰىكُمْ صَدَقٰتٍ ۚ فَاِذْ لَمْ تَفْعَلُوْا وَتَابَ اللّٰهُ عَلَيْكُمْ فَاَقِيْمُوا الصَّلٰوةَ وَاٰتُوا الزَّكٰوةَ وَاَطِيْعُوا اللّٰهَ وَرَسُوْلَهٗ ۚ وَاللّٰهُ خَبِيْرٌۢ بِمَا تَعْمَلُوْنَ ﴿١٣﴾

၁၃။ အသင်တို့သည် မိမိတို့လျှို့ဝှက် ပြောဆိုမှု မပြုမီ အလှူဒါနများပေးနှင့်ရန် ကြောက်ရွံ့ခဲ့ကြလေပြီလော။ သို့ဖြစ်လျှင် အသင်တို့သည် (ယင်းသို့ အလှူဒါနပေးခြင်းကို) မပြုလုပ်နိုင်ခဲ့ကြသည်ဖြစ်ရာ၊ အလ္လာဟ်အရှင်မြတ်သည်လည်း အသင်တို့ဘက်သို့ ကရုဏာတော်နှင့် ပြန်လှည့်တော်မူသည် ဖြစ်ပေရာ၊ အသင်တို့သည် "ဆွလာတ်"ဝတ်ပြုမှုကို ဆောက်တည်ကြလေကုန်။ ၎င်းပြင် အသင်တို့သည် "ဇကာတ်" ပေးဆောင်ကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၏အမိန့်ကိုလည်းကောင်း၊ လိုက်နာကြလေကုန်။ [၁] အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူလျက် ရှိကြသည်တို့ကို အကြွင်းမဲ့ကြားသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

---

➤➤ အလ္လာဟ်အရှင်မြတ် နှစ်သက်တော်မမူကြောင်း သိရှိသွားကြသောအခါ အထူးဆင်ခြင်သွားခဲ့ကြပေသည်။ ဤစည်းကမ်းချက်ကို သတ်မှတ်ထားတော်မူခြင်း၏ ရည်ရွယ်ချက်မှာလည်း တမန်တော်မြတ်ထံ ချဉ်းကပ်၍ အကြောင်းမဲ့ တီးတိုးစကားပြောဆိုသူများ၏ အရေအတွက် လျော့နည်းသွားစေရန်ပင် ဖြစ်သည်။

အဆိုပါရည်ရွယ်ချက် အောင်မြင်လာသည့်အခါ အလ္လာဟ်အရှင်မြတ်သည် အဆိုပါ စည်းကမ်းချက်ကို ပြန်လည်ရုပ်သိမ်း ထားတော်မူလိုက်သည်။

ဤသည့်သဘောကို ရှေ့အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။ ကြည့်-အွတ်ဆ်မာနီ။

(၁) ဆိုလိုသည်ကား တမန်တော်မြတ်ထံချဉ်းကပ်၍ တီးတိုးစကား ပြောကြားလိုသူတစ်ဦးသည် ယင်းသို့စကား မပြောမီအလျင် စွန့်ကြဲလှူဒါန်းရမည်ဟူ၍ ယခင်အာယတ်တော်တွင် စည်းကမ်းချက်တစ်ရပ် သတ်မှတ်ထားတော်မူသည်။ ယင်းစည်းကမ်းချက်သည် အခြေအနေအရ ယာယီမျှသာဖြစ်သည်။

ယင်းသို့စည်းကမ်းသတ်မှတ်ချက်၏ ရည်ရွယ်ချက်မှာလည်း အောင်မြင်လာပြီဖြစ်ရာ အလ္လာဟ်အရှင်မြတ်သည် အဆိုပါစည်းကမ်းချက်ကို ပြန်လည်ရုပ်သိမ်းထားတော်မူလိုက်လေပြီ။

သို့ဖြစ်ပေရာ မွတ်စ်လင်မ်များသည် ဘယ်သောအခါမျှ ပြန်လည်ရုပ်သိမ်းတော်မူမည်မဟုတ်သော အမိန့်တော်များကို ဥပမာ- ဆွလာတ်ဝတ်ပြုမှု၊ ဇကာတ်ပေးဆောင်မှု စသည်များကို စိတ်ရောကိုယ်ပါ အမြဲတစေ လိုက်နာကျင့်သုံးကာ နေကြရပေမည်။

ဤသို့လိုက်နာကျင့်သုံးခြင်းဖြင့် စိတ်နှလုံးများသည် အမြဲတစေ ဖြူစင်လျက် ရှိကြပေမည်။

أَلَمْ تَرَ إِلَى الَّذِينَ تَوَلَّوْا قَوْمًا غَضِبَ اللَّهُ عَلَيْهِم مَّا هُم مِّنكُمْ وَلَا مِنْهُمْ وَيَحْلِفُونَ عَلَى الْكَذِبِ وَهُمْ يَعْلَمُونَ ﴿١٤﴾

၁၄။ (အို-နဗီတမန်တော်၊) အသင်သည် အကြင်အမျိုးသားတို့အား အဆွေခင်ပွန်း ပြုလုပ်ခဲ့ကြသော သူတို့(၏ အခြေအနေကို) သုံးသပ်ဆင်ခြင် တွေ့မြင်ခဲ့လေပြီမဟုတ်လော။ ထိုအမျိုးသားတို့ အပေါ်ဝယ် အလ္လာဟ်အရှင်မြတ်သည် အမျက်ထွက်တော်မူခဲ့၏။ ထိုအမျိုးသားတို့ကား *အသင်တို့အနက်မှလည်းမဟုတ်ကြပေ။ ၎င်းတို့အနက်မှလည်း မဟုတ်ကြချေ၊*[၁] ထိုအမျိုးသားတို့မှာ သိလျက်နှင့်ပင် မုသားနှင့်စပ်လျဉ်း၍ ကျိန်တွယ်ကြကုန်၏။

أَعَدَّ اللَّهُ لَهُمْ عَذَابًا شَدِيدًا ۖ إِنَّهُمْ سَاءَ مَا كَانُوا يَعْمَلُونَ ﴿١٥﴾

၁၅။ အလ္လာဟ်အရှင်မြတ်သည် ပြင်းထန်စွာသော ပြစ်ဒဏ်ကို ထိုအမျိုးသားတို့အဖို့ အဆင့်သင့်ပြုလုပ်၍ ထားရှိတော်မူ၏။ ဧကန်မလွဲ ၎င်းတို့ကျင့်မူလျက်ရှိကြသည်မှာ လွန်စွာ ဆိုးယုတ်လှပေသည်။

اتَّخَذُوا أَيْمَانَهُمْ جُنَّةً فَصَدُّوا عَن سَبِيلِ اللَّهِ فَلَهُمْ عَذَابٌ مُّهِينٌ ﴿١٦﴾

၁၆။ ၎င်းတို့သည် မိမိတို့၏ ကျိန်ဆိုချက်များကို အကွယ်အကာ ပြုလုပ်ခဲ့ကြပြီးလျှင် (သူတစ်ပါးတို့အားလည်း) အလ္လာဟ်အရှင်မြတ်၏လမ်းတော်မှ ပိတ်ပင်တားဆီးခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ၎င်းတို့၌ ဂုဏ်သရေပျက်ပြားစေသောပြစ်ဒဏ်သည် ရှိချေမည်။

لَّن تُغْنِيَ عَنْهُمْ أَمْوَالُهُمْ وَلَا أَوْلَادُهُم مِّنَ اللَّهِ شَيْئًا ۚ أُولَٰئِكَ أَصْحَابُ النَّارِ ۖ هُمْ فِيهَا خَالِدُونَ ﴿١٧﴾

၁၇။ အလ္လာဟ်အရှင်မြတ်နှင့်ဆန့်ကျင်၍ ထိုသူတို့၏ပစ္စည်းဥစ္စာတို့သည် လည်းကောင်း၊ ထိုသူတို့၏ သားသမီးတို့သည်လည်းကောင်း၊ ထိုသူတို့အား လုံးဝ အကျိုးပေးမည်မဟုတ်ပေ။ ထိုသူတို့ကား ငရဲသားများပင်ဖြစ်ကြကုန်၏။ ၎င်းတို့မှာ ယင်းငရဲ၌ ထာဝစဉ် နေထိုင်ကြရမည့်သူများပင် ဖြစ်ကြကုန်၏။[၂]

(၁) ဆိုလိုသည်ကား မုနာဖစ်က်များသည် အသင်မွတ်စ်လင်မ်တို့တွင် လုံးဝအပြည့်အဝ ပါဝင်ကြသည်လည်း မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် ၎င်းတို့၏စိတ်နှလုံးများသည် ကာဖိရ်များပင် ဖြစ်ကြပေသည်။ မုနာဖစ်က်များသည် ရေဝတီများ၊ ကာဖိရ်များတွင် လုံးဝအပြည့်အဝ ပါဝင်ကြသည်လည်း မဟုတ်ပေ။ အဘယ်ကြောင့် ➤➤

يَوْمَ يَبْعَثُهُمُ اللّٰهُ جَمِيْعًا فَيَحْلِفُوْنَ لَهٗ كَمَا يَحْلِفُوْنَ لَكُمْ وَيَحْسَبُوْنَ اَنَّهُمْ عَلٰى شَيْءٍ ۗ اَلَآ اِنَّهُمْ هُمُ الْكٰذِبُوْنَ ﴿١٨﴾

၁၈။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အားလုံးတို့ကို ရှင်ပြန်ထစေတော်မူအံ့သောနေ့တွင် ၎င်းတို့သည် ထိုအရှင်မြတ်၏ရှေ့မှောက်၌လည်း အသင်တို့ရှေ့ဝယ် ကျိန်ဆိုဘိသကဲ့သို့ပင် ကျိန်ဆိုကြပေမည်။ ထို့မှတစ်ပါး ၎င်းတို့သည် ဧကန်အမှန် မိမိတို့မှာ (ကောင်းသော) အခြေအနေ၌ ရှိနေကြသည်ဟု ထင်မှတ်ကြပေမည်။ ကောင်းစွာ မှတ်ယူကြလေကုန်။ ဧကန်မလွဲ ၎င်းတို့မှာ မုသာဝါဒီများပင် ဖြစ်ကြကုန်၏။ [၁]

اِسْتَحْوَذَ عَلَيْهِمُ الشَّيْطٰنُ فَاَنْسٰهُمْ ذِكْرَ اللّٰهِ ۗ اُولٰٓئِكَ حِزْبُ الشَّيْطٰنِ ۗ اَلَآ اِنَّ حِزْبَ الشَّيْطٰنِ هُمُ الْخٰسِرُوْنَ ﴿١٩﴾

၁၉။ 'ရှိုင်တွာန်' မိစ္ဆာကောင်သည် ၎င်းတို့အား နိုင်နင်း ကြီးစိုးလျက် ရှိပေရာ ၎င်းတို့အား ယင်း 'ရှိုင်တွာန်' မိစ္ဆာကောင်သည် အလ္လာဟ်အရှင်မြတ်အား သတိရခြင်းကို မေ့ပျောက်စေခဲ့၏။ ထိုသူတို့ကား 'ရှိုင်တွာန်' မိစ္ဆာကောင်၏အုပ်စုပင် ဖြစ်ကြကုန်၏။ ကောင်းစွာ မှတ်ယူကြလေကုန်။ ဧကန်မလွဲ 'ရှိုင်တွာန်' မိစ္ဆာကောင်၏အုပ်စုကား ဆုံးရှုံးအံ့သောသူများပင် ဖြစ်ကြကုန်သတည်း။

---

➤➤ ဆိုသော် ၎င်းတို့သည် အခြေအနေအရ နှုတ်မှ မိမိတို့ကိုယ်ကို မွတ်စ်လင်မ်များ ဖြစ်ကြပါသည်ဟူ၍ ဖွင့်ဟ ပြောဆိုနေခဲ့ကြပေသည်။ ကြည့် − ကုရ်အာန် (၄း၁၄၃)။

(၂) မုနာဖစ်ကျ်များသည် မိမိတို့ကိုယ်ကို ကာကွယ်နိုင်ရန်အတွက် မိမိတို့၏ ကျိန်ဆိုမှုများကို ဒိုင်းကြီးများ ပြုလုပ်ထားခဲ့ကြ၏။ ယင်းသို့ ပြုလုပ်ထားခြင်းမှာ မွတ်စ်လင်မ်များသည် ၎င်းတို့အား မွတ်စ်လင်မ်များဟု ထင်မှတ်ကာ ၎င်းတို့၏ အသက်စည်းစိမ်နှင့်ဥစ္စာပစ္စည်းများကို အနှောင့်အယှက် မပြုရန်ပင်ဖြစ်သည်။

ထို့ပြင်တစ်ဝ ယင်းမုနာဖစ်ကျ်များသည် သူတစ်ပါးတို့အားလည်း အလ္လာဟ်အရှင်မြတ်၏ လမ်းတော်မှ အမျိုးမျိုး သွေးဆောင်ဖြားယောင်း ပိတ်ပင်တားဆီးခဲ့ကြ၏။ သို့ဖြစ်ရာ ၎င်းတို့သည် အကျိုးယုတ် ရှက်စေရမည့် ပြစ်ဒဏ်ကို လူလုကြီးခံကြရပေမည်။ သို့ပြစ်ဒဏ်ခံကြသည့်အခါ ၎င်းတို့အမျိုးမျိုး လိမ်လည်ကျိန်ဆို ကာကွယ်ထားခဲ့ကြသော ၎င်းတို့၏ဥစ္စာပစ္စည်းနှင့် သားသမီးများသည်ပင် ၎င်းတို့အား မည်သို့မျှ ကာကွယ်ပေးနိုင်ကြမည် မဟုတ်ပေ။ ခဲလေသမျှ သဲရေကျဖြစ်ကာ ငရဲမီးတွင် အမြဲထာဝစဉ် လားခြင်းကြီးမက လားနေကြရမည်သာတည်း။

(၁) ဆိုလိုသည်ကား မုနာဖစ်ကျ်များသည် မွတ်စ်လင်မ်တို့အား အမျိုးမျိုးလိမ်လည်ကျိန်ဆိုကာ မိမိတို့ကိုယ်ကို ကာကွယ်နေခဲ့ကြ၏။ မိမိတို့ကိုယ်ကို မိမိတို့ အလွန်လိမ္မာပါးနပ်ကြသည်ဟု ထင်မှတ်နေခဲ့ကြ၏။ ဤသည့် အကျင့်ဆိုးသည် ၎င်းတို့တွင် ကိယာမတ်နေ့၌ပင်ကျန်ရှိနေဦးမည်။ အလ္လာဟ်အရှင်မြတ်၏ရှေ့တော်မှောက်၌ပင် ➤➤

إِنَّ الَّذِينَ يُحَادُّونَ اللَّهَ وَرَسُولَهُ أُولَٰئِكَ فِي الْأَذَلِّينَ ﴿٢٠﴾

၂၀။ မချွတ်ဧကန် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ ပမာမခန့် ပြုလုပ်ကြကုန်သောသူတို့မှာ အယုတ်ညံ့ဆုံးသောသူတို့တွင် အပါအဝင်ဖြစ်ကြပေမည်။ [၁]

كَتَبَ اللَّهُ لَأَغْلِبَنَّ أَنَا وَرُسُلِي ۚ إِنَّ اللَّهَ قَوِيٌّ عَزِيزٌ ﴿٢١﴾

၂၁။ ငါအရှင်မြတ်သည်လည်းကောင်း၊ ငါအရှင်မြတ်၏ ရစူလ်တမန်တော်များသည် လည်းကောင်း၊ ဧကန်မလွဲ လွှမ်းမိုးတော်မူမည်ဟူ၍ အလ္လာဟ်အရှင်မြတ်သည် ရေးသားတော်မူပြီးဖြစ်၏။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် လွန်စွာ စွမ်းအားနှင့်ပြည့်စုံတော်မူသောအရှင်၊ လွန်စွာ နိုင်နင်းလွှမ်းမိုးတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

---

➤➤ လိမ်လည်ကျိန်ဆို၍ လွတ်မြောက်ရန် ကြိုးစားကြပေဦးမည်။ သို့ရာတွင် ကိယာမတ်နေ့၌ လိမ်လည်ပြောဆိုလေ့ ရှိသောနှုတ်များသည် တံဆိပ်နှိပ်ခံရပြီး၊ ကျန်ကိုယ်ခန္ဓာအစိတ်အပိုင်းအားလုံးက ဟုတ်တိုင်းမှန်ရာ သက်သေ ထွက်ဆိုကြမည်ဖြစ်ရာ ၎င်းတို့၏ကြိုးစားမှုသည် အဘယ်မှာလျှင် အောင်မြင်အံ့နည်း။

ကြည့်-ကုရ်အာန်(၃၆:၆၅)။

(၁) မုနာဖစ်က်များ နှစ်ဘဝစလုံးတွင် ယင်းသို့ပျက်စီးခြင်းကြီးမလှ ပျက်စီးရခြင်းမှာ၊ ဆုံးရှုံးခြင်းကြီးမလှ ဆုံးရှုံးရခြင်းမှာ၊ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်အား သွေဖည်ဆန့်ကျင်ခဲ့ကြခြင်း၊ ပမာမခန့် ပြုခဲ့ကြခြင်းတို့ကြောင့်ပင်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်အား သွေဖည်ဆန့်ကျင်သူများထက် ယုတ်ညံ့သူ အသူရှိနိုင်အံ့နည်း။ အယုတ်ညံ့ဆုံးသော သူများသည် အယုတ်ညံ့ဆုံးသော ပြစ်ဒဏ်ကို ခံကြရမည်မှာ သဘာဝပင်၊ ဤကား အလ္လာဟ်အရှင်မြတ်၏ နိယာမတရားပင်။

အလ္လာဟ်အရှင်မြတ်သည် အမိန့်တော် သွေဖည်ဆန့်ကျင်သူများအဖို့ ယုတ်ညံ့မှုပြစ်ဒဏ်ကို သတ်မှတ်ပြဋ္ဌာန်းတော်မူသည့်အလား၊ အမိန့်တော်နာခံသော ပုဂ္ဂိုလ်များအဖို့ မြင့်မြတ်သောဂုဏ်အင်ဒြပ်ကိုလည်း သတ်မှတ်ပြဋ္ဌာန်းတော်မူသည်။ သို့ပြဋ္ဌာန်းထားတော်မူသည့်အလျောက် အမိန့်တော်နာခံကြကုန်သော တမန်တော်များ၊ ထိုတမန်တော်များ၏လမ်းစဉ်ကို ဖဝါးခြေထပ် လိုက်နာကျင့်မူကြကုန်သော သူမှန်သူမြတ်တို့သည် အောင်နိုင်ကြသည်သာ ဖြစ်ပေသည်။ ဤသည့်သဘောသည် ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ် ပါရှိခဲ့ပေပြီ။

ကြည့်-ကုရ်အာန် (၅:၅၆။ ၄၀:၅၁)။

لَا تَجِدُ قَوْمًا يُّؤْمِنُوْنَ بِاللّٰهِ وَالْيَوْمِ الْاٰخِرِ يُوَآدُّوْنَ مَنْ حَآدَّ اللّٰهَ وَرَسُوْلَهٗ وَلَوْ كَانُوْٓا اٰبَآءَهُمْ اَوْ اَبْنَآءَهُمْ اَوْ اِخْوَانَهُمْ اَوْ عَشِيْرَتَهُمْ ۗ اُولٰٓئِكَ كَتَبَ فِيْ قُلُوْبِهِمُ الْاِيْمَانَ وَاَيَّدَهُمْ بِرُوْحٍ مِّنْهُ ۗ وَيُدْخِلُهُمْ جَنّٰتٍ تَجْرِيْ مِنْ تَحْتِهَا الْاَنْهٰرُ خٰلِدِيْنَ فِيْهَا ۗ رَضِيَ اللّٰهُ عَنْهُمْ وَرَضُوْا عَنْهُ ۗ اُولٰٓئِكَ حِزْبُ اللّٰهِ ۗ اَلَآ اِنَّ حِزْبَ اللّٰهِ هُمُ الْمُفْلِحُوْنَ ﴿٢٢﴾

၂၂။ (အို-နဗီတမန်တော်၊) အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း၊ သက်ဝင်ယုံကြည်ကြကုန်သောအမျိုးသားတို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ ပမာမခန့် ပြုလုပ်သူတို့ကို ထိုသို့ ပမာမခန့်ပြုကြသူတို့မှာ ၎င်းတို့၏ဖခင်များပင် ဖြစ်ကြသည်ဖြစ်စေ၊ ၎င်းတို့၏သားများပင်ဖြစ်ကြသည်ဖြစ်စေ၊ ၎င်းတို့၏ညီအစ်ကိုများပင် ဖြစ်ကြသည်ဖြစ်စေ၊ ၎င်းတို့၏ဆွေမျိုးသားချင်းများပင်ဖြစ်ကြသည်ဖြစ်စေ၊ ချစ်မြတ်နိုးကြသည်ဟူ၍ကား အသင် တွေ့ရှိရမည် မဟုတ်ပေ။

ထိုသူတို့ကား အကြင်သူများပင်၊ ထိုအရှင်မြတ်သည် ၎င်းတို့၏စိတ်နှလုံးများတွင် 'အီမာန်' သက်ဝင်ယုံကြည်မှုကို ရေးမှတ်တော်မူခဲ့၏။ ထို့ပြင် ၎င်းတို့အား မိမိအထံတော်မှ ရက်ရောမှုဖြင့် အားအင်ဖြည့်ပေးတော်မူခဲ့၏။ ထို့ပြင် ၎င်းတို့အား ထိုအရှင်မြတ်သည် အကြင်ဥယျာဉ်များသို့ ဝင်ရောက်စေတော်မူပေမည်။

ယင်းဥယျာဉ်များ၏အောက်မှ ချောင်းများသည် စီးတွေလျက် ရှိကြပေမည်။ ၎င်းတို့သည် ထိုဥယျာဉ်များ၌ အစဉ်နေထိုင်ကြပေမည်။ ထိုအရှင်မြတ်သည် ၎င်းတို့အပေါ်ဝယ် ကျေနပ်တော်မူပေမည်။ ၎င်းတို့သည်လည်း ထိုအရှင်မြတ်အပေါ်ဝယ် ကျေနပ်ကြပေမည်။ [၁]

---

(၁) **အလ္လာဟ့်အုပ်စု**

အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးကြကုန်သော၊ တစ်ရက်ပြန်လည်ရှင်ထ၍ ကျိုးပြစ်ခံစံကြရမည်ကို နှစ်နှစ်ကာကာ ယုံကြည်ကြကုန်သော မုအ်မင်န်များသည် မိမိတို့နှင့် ယုံကြည်ချက်ချင်းမတူသော၊ လမ်းစဉ်ချင်းမတူသော အလ္လာဟ်အရှင်မြတ်နှင့် ထိုအရှင်မြတ်၏ တမန်တော်မြတ်အား သွေဖည် ➤➤

ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်၏ အုပ်စုပင် ဖြစ်ကြကုန်၏။ ကောင်းစွာ မှတ်ယူကြလေကုန်။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်၏ အုပ်စုသည်သာလျှင် အောင်မြင်မည့်သူများဖြစ်ကြကုန်သတည်း။

---

➤➤ ဆန့်ကျင်နေကြသောသူများအား ယင်းတို့သည် မိမိတို့၏ အလွန်ရင်းချာသော သွေးရင်း၊ သားရင်း၊ ဆွေမျိုးရင်းများ ဖြစ်နေကြလင့်ကစား အသို့လျှင် နှစ်ကိုယ့်တစိတ် ချစ်ကြည်မြတ်နိုးနိုင်ကြအံ့နည်း။

ဝါဒလမ်းစဉ်တစ်ရပ်ကို နှစ်နှစ်ကာကာ ယုံကြည်လက်ခံ ကျင့်သုံးသူတစ်ဦးသည် မိမိယုံကြည်လက်ခံ ကျင့်သုံးနေသည့် ဝါဒလမ်းစဉ်ကို သွေဖည်ဆန့်ကျင်နေသူများအား အသို့လျှင် မဟာမိတ်ပြုနိုင်အံ့နည်း။ အလ္လာဟ်အရှင်မြတ်သည် ယင်းသို့ ယုံကြည်မြတ်နိုးကြကုန်သော မုအ်မင်န်တို့၏ နှလုံးသားတွင် (အီမာန်) တည်းဟူသော ယုံကြည်မှုကို သံမှိုနှက်ထားဘိအလား စွဲမြဲစေတော်မူသည်။

ထို့ပြင်တစ်ဝ ၎င်းတို့၏နှလုံးသားကို ရှင်သန်စေသည်ထက် ရှင်သန်စေတော်မူရန်အလို့ငှာ အလင်းရောင်ခြည်တစ်မျိုးကိုလည်း ချီးမြှင့်တော်မူသည်။ ကြည့်-ကုရ်အာန် (၃၉း၂၂)။ သို့တည်းမဟုတ် အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ဤပစ္စက္ခတွင် ကောင်းကင်တမန် ဂျိဗ်ရီလ်ဖြင့် ကူညီထိန်းသိမ်းစောင်မတော်မူသည်။ နောင်တမလွန်ဘဝတွင်လည်း ဂျန္နတ်ဥယျာဉ်မြေ၌ ထာဝစဉ်စံစားစေတော် မူပေဦးမည်။

အလ္လာဟ်အရှင်မြတ်သည် ယင်းသို့သော မုအ်မင်န်များအား ကျေနပ်တော်မူသည်။ ၎င်းတို့ကလည်း ထိုအရှင်မြတ်အား ကျေနပ်ကြပေသည်။ ယင်းတို့ကား 'အလ္လာဟ့်အုပ်စုပင်' ပင်။ အလ္လာဟ်အုပ်စုသည် အောင်မြင်ခြင်းသည်သာတည်း။

# ပြည်နှင်ဒဏ်ကဏ္ဍ



ဤကဏ္ဍသည် 'အလ်ဟရှ်ရ်' ပြည်နှင်ဒဏ် ကဏ္ဍမည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၂၄)ပါးနှင့် ရကူအ်အပိုဒ် (၃)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

ကရုဏာတော်ရှင် ဖြစ်တော်မူသော၊ အလွန်တရာ သနားကြင်နာ ညှာတာတော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

سَبَّحَ لِلّٰهِ مَا فِي السَّمٰوٰتِ وَمَا فِي الْاَرْضِ ۚ وَهُوَ الْعَزِيْزُ الْحَكِيْمُ ①

၁။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်း ကောင်း၊ ပထဝီမြေဝယ်ရှိသမျှတို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် စင်ကြယ် သန့်ရှင်းတော်မူကြောင်း မြွက်ဆိုကြကုန်၏။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် လွန်စွာ နိုင်နင်းလွှမ်းမိုးတော်မူသောအရှင်၊ နူးညံ့သိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်၊ ဖြစ်တော်မူ၏။

هُوَ الَّذِيْٓ اَخْرَجَ الَّذِيْنَ كَفَرُوْا مِنْ اَهْلِ الْكِتٰبِ مِنْ دِيَارِهِمْ لِاَوَّلِ الْحَشْرِ ۭ مَا ظَنَنْتُمْ اَنْ يَّخْرُجُوْا وَظَنُّوْٓا اَنَّهُمْ مَّانِعَتُهُمْ حُصُوْنُهُمْ مِّنَ اللّٰهِ فَاَتٰىهُمُ اللّٰهُ مِنْ حَيْثُ لَمْ يَحْتَسِبُوْا

၂။ ထိုအရှင်မြတ်သည်ပင် ရှေးကျမ်းဂန်ရရှိသူတို့အနက် သွေဖည်ငြင်းပယ်ခဲ့ကြသော သူတို့အား ပထမအကြိမ် စုရုံးကြစဉ်အခါ၌ပင် *၎င်းတို့၏နေအိမ်များမှ နှင်ထုတ်တော်မူခဲ့သောအရှင် ဖြစ်တော်မူ၏။* [၁] အသင်တို့သည် ၎င်းတို့ ထွက်သွားကြလိမ့်မည်ဟူ၍ပင် ထင်မြင်ခဲ့ကြသည်မဟုတ်ပေ။ ၎င်းတို့ကိုယ်တိုင်ကလည်း မိမိတို့အား မိမိတို့၏ခံတပ်များသည် အလ္လာဟ်အရှင်မြတ်(၏ပြစ်ဒဏ်)မှ ကွယ်ကာ စောင့်ရှောက်ကြလိမ့်မည်ဟူ၍ပင် ထင်မြင်နေခဲ့ကြကုန်၏။

---

(၁) အလ္လာဟ်အရှင်မြတ်သည် အတိုင်းအဆမရှိ ကြီးကဲသော တန်ခိုးတော်ရှင်၊ ဉာဏ်တော်ရှင် ဖြစ်တော်မူသည်။ ထို့အတွက်ကြောင့်ပင် မိုး၊ မြေနှင့်တကွ ဤလောကဓာတ်ကြီးအတွင်းရှိ သက်ရှိ သက်မဲ့ အားလုံးတို့သည် ထိုအရှင်မြတ်အား ကိုယ့်နည်းကိုယ့်ဟန်ဖြင့် ဂုဏ်တော်ချီးမွမ်းလျက် ရှိကြကုန်၏။ ➢➢

➤➤ ထိုအရှင်မြတ်သည်ပင် အတိတ်ခေတ် ကျမ်းဂန်ရရှိသူများအနက် မိမိတို့၏ခံတပ်များကို အထင်ကြီးကာ သွေဖည်ဆန့်ကျင်ခဲ့ကြသောသူများ (ဝါ) ဗနီနသွီရ် မျိုးနွယ်အား ပြည်နှင်ဒဏ်ပေးတော်မူခဲ့ ပေသည်။

ဤကား ထိုအရှင်မြတ်၏ တန်ခိုးတော်ကြီးကဲမှု၏ အကျိုးဆက်တစ်ရပ်ပင်။

**ဗနီနသွီရ်အား ပြည်နှင်ဒဏ်ပေးတော်မူသည့်အကြောင်း။**

တမန်တော်မြတ် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် မက္ကာမြို့တော်မှ မဒီနာမြို့တော်သို့ ရွှေ့ပြောင်း ကြွရောက်လာပြီးသည့်နောက် ရေဝတီများနှင့် မဟာမိတ်စာချုပ် ချုပ်ဆိုတော်မူခဲ့၏။ ရေဝတီများတွင် ဗနီနသွီရ်မျိုးနွယ်စုလည်း အပါအဝင်ဖြစ်ခဲ့၏။ ဤမျိုးနွယ်စုသည် မဟာမိတ်စာချုပ် ချုပ်ဆိုရာတွင်လည်း အပါအဝင် ဖြစ်ခဲ့၏။

ဗနီနသွီရ်မျိုးနွယ်သည် မဒီနာမြို့နှင့် နှစ်မိုင်ခန့်အကွာတွင် နေထိုင်လျက်ရှိခဲ့၏။ တစ်ကြိမ်သော် တမန်တော်မြတ်သည် အသက်ဖိုး လျော်ကြေးကိစ္စတစ်ခုနှင့် ၎င်းတို့ထံ ကြွသွားတော်မူခဲ့၏။

အဆိုပါ အသက်ဖိုးလျော်ကြေးကိစ္စ ဖြစ်ပေါ်ခဲ့ရသည့်အကြောင်းမှာ အုမရ်အိဗ်နုအုမိုင်ယတ်သွမ်ရီ၏ လက်ချက်ဖြင့် လူနှစ်ယောက် သေဆုံးသွားခဲ့ရ၏။ ယင်းကိစ္စနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ သားချင်းတို့အား အသက်ဖိုးလျော်ကြေး ပေးရမည်ဖြစ်၏။ အဆိုပါလျော်ကြေးကိစ္စနှင့်စပ်လျဉ်း၍ တမန်တော်မြတ်သည် ဗနီနသွီရ် မျိုးနွယ်ထံသို့ ကြွသွားတော်မူခဲ့၏။

ယင်းသို့ ကြွသွားတော်မူခြင်း၏ ရည်ရွယ်ချက်မှာ ဗနီနသွီရ်မျိုးနွယ်သည်လည်း အဆိုပါလျော်ကြေး ကိစ္စတွင် စေတနာအလျောက် ပါဝင်လှူဒါန်းလိုပါက ပါဝင်လှူဒါန်းနိုင်ရန်ပင် ဖြစ်၏။

ဗနီနသွီရ်မျိုးနွယ်ဝင်များသည် တမန်တော်မြတ် ကြွလာတော်မူသည့် ရည်ရွယ်ချက်ကို သိရှိသွားကြ သောအခါ တမန်တော်မြတ်အား သီးသန့်နေရာတစ်ခုတွင် ထိုင်စေပြီးလျှင် တမန်တော်မြတ် မိန့်ကြားတော်မူသည့် အတိုင်း အဆိုပါ အသက်ဖိုး လျော်ကြေးကိစ္စတွင် ပါဝင်လှူဒါန်းနိုင်ရန် ကျွန်တော်တို့ ယခုပင်စီစဉ်ကြပါမည်ဟု ပြောဆိုကာ အသီးသီး ထွက်ခွာသွားခဲ့ကြ၏။

ထို့နောက် တမန်တော်မြတ်အား လုပ်ကြံသတ်ဖြတ်ရန် အချင်းချင်း ဆွေးနွေးတိုင်ပင်ခဲ့ကြ၏။ သို့တိုင်ပင်ပြီးနောက် တမန်တော်မြတ်အား လုပ်ကြံသတ်ဖြတ်နိုင်ရန်အတွက် လူတစ်ဦးသည် အမြင့်သို့တက်၍ တမန်တော်မြတ်အပေါ်သို့ ကြီးလေးသော ကျောက်တုံးကြီးတစ်ခုကို ပစ်ချရန် ဆုံးဖြတ်ခဲ့ကြ၏။ သို့ဆုံးဖြတ်ခဲ့ကြ သည့်အတိုင်း လက်တွေ့အကောင်အထည်ဖော်ရန် စီစဉ်ခဲ့ကြ၏။

ထိုအချိန်မှာပင် အလ္လာဟ်အရှင်မြတ်ထံတော်မှ ဝဟီဖြင့် ၎င်းတို့၏ ယုတ်မာပက်စက်သော အကြံအစည် ကို တမန်တော်မြတ် သိရှိသွားတော်မူခဲ့ရာ၊ တမန်တော်မြတ်သည် အဆိုပါနေရာမှ ချက်ချင်းပင် ထပြန်ပြီး ပြန်ကြွလာတော်မူခဲ့လေသည်။ ထို့နောက် တမန်တော်မြတ်က အဆိုပါ မျိုးနွယ်ဝင်များထံ 'အသင်တို့သည် မဟာမိတ်စာချုပ်ကို စတင်ချိုးဖောက်လိုက်ပြီဖြစ်ရာ အသင်တို့၌ (၁၀)ရက် ခွင့်ရှိသည်။ ဤ (၁၀)ရက်အတွင်း မိမိတို့လိုရာသို့ ရွှေ့ပြောင်းသွားနိုင်ကြသည်။ ဤ (၁၀)ရက် ကုန်လွန်ပြီးနောက် ဤနေရာတွင် အသင်တို့အနက် တစ်ဦးတစ်ယောက် တွေ့ရှိရပါက ကွပ်မျက်သတ်ဖြတ်ခြင်း ခံရမည်သာဖြစ်သည်'ဟု လူလွှတ်ပြောကြားစေတော် မူခဲ့လေသည်။

ယင်းသို့ တမန်တော်မြတ်က ပြောကြားလိုက်တော်မူသည့်အခါ ဗနီနသွီရ်မျိုးနွယ်ဝင်များသည် မိမိတို့၏မြို့ရွာကိုစွန့်၍ အရပ်တပါးသို့ ရွှေ့ပြောင်းသွားကြရန် စိတ်ကူးခဲ့ကြ၏။ ထိုအချိန်တွင် မုနာဖစ်က် တို့၏ ခေါင်းဆောင်ဖြစ်သူ အဗ်ဒုလ္လာဟ်အိဗ်နုအုဗိုင်ယ်က ဗနီနသွီရ်ထံ လူလွှတ်၍ 'အသင်တို့သည် ➤➤

وَقَذَفَ فِي قُلُوبِهِمُ الرُّعْبَ يُخْرِبُونَ بُيُوتَهُم بِأَيْدِيهِمْ وَأَيْدِي الْمُؤْمِنِينَ فَاعْتَبِرُوا يَا أُولِي الْأَبْصَارِ ②

သို့တစေလည်း အလ္လာဟ်အရှင်မြတ်(၏ ပြစ်ဒဏ်)သည် ၎င်းတို့ထံ ၎င်းတို့ မထင်မြင်မယူဆခဲ့ကြသောနေရာမှ ရောက်ရှိ၍လာခဲ့၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် ၎င်းတို့၏ စိတ်နှလုံးများတွင် ကြောက်ရွံ့စိုးရိမ်မှုကို သက်ရောက်စေတော်မူခဲ့ရာ ထိုသူတို့မှာ မိမိတို့၏နေအိမ်များကို မိမိတို့၏လက်များဖြင့်လည်းကောင်း၊ မုအ်မင်န်သက်ဝင် ယုံကြည်သူတို့၏ လက်များဖြင့်လည်းကောင်း၊ ဖျက်ဆီးလျက် ရှိခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ အို-ဉာဏ်(ပညာ)မျက်စိရှင်အပေါင်းတို့၊ အသင်တို့သည် သင်ခန်းစာယူကြလေကုန်။

---

➤➤ မိမိတို့၏ မြို့ရွာကိုစွန့်ခွာ၍ မည်သည့်အရပ်သို့မျှ မသွားကြနှင့်။ ကျွန်ုပ်တို့ထံတွင် လူ (၂၀၀၀)ရှိသည်။ ကျွန်ုပ်တို့သည် အသင်တို့အား အသက်ပေး၍ ကာကွယ်ကြမည်။ အသင်တို့၌ မည်သို့မျှ မှဲ့စွန်းမရှိစေရ၊ မည်သို့မျှ ဒုက္ခ မဖြစ်စေရ'ဟု ပြောကြားစေခဲ့၏။

ဗနီနသွီရ်မျိုးနွယ်ဝင်များသည် အဗ်ဒုလ္လာဟ်အိဗ်နုအုဗိုင်ယ်၏စကားကို ယုံစားပြီးလျှင် တမန်တော်မြတ်ထံသို့ 'ကျွန်တော်တို့သည် မည်သည့်အရပ်သို့မျှ ရွှေ့ပြောင်းသွားကြမည်မဟုတ်ပါ။ တမန်တော်မြတ်သည် ပြုလုပ်တော်မူလိုသည်များကို ပြုလုပ်တော်မူနိုင်ပါသည်'ဟု လူလွှတ် ဖြေကြားခဲ့ကြ၏။ ထိုအခါ တမန်တော်မြတ်သည် တပည့်သား မွတ်စ်လင်မ် ရဲဘော်ရဲဘက်များနှင့်အတူ ကြွသွားတော်မူခဲ့၏။ ဗနီနသွီရ်မျိုးနွယ်ဝင်များသည် ခံတပ်များတွင် ခိုအောင်းနေခဲ့ကြ၏။ မုနာဖစ်က်များသည် မျက်နှာလွှဲ၍ ထိုင်နေခဲ့ကြ၏။

မွတ်စ်လင်မ်များသည် ခံတပ်များတွင် ခိုအောင်းလျက်ရှိသော ဗနီနသွီရ်မျိုးနွယ်ဝင်များအား ဝိုင်းဝန်းထားခဲ့ကြ၏။ ၎င်းတို့၏ ဥယျာဉ်များအတွင်းရှိ အချို့အပင်များကို ခုတ်လှဲဖြတ်တောက်ခဲ့ကြ၏။ အချို့ကို မီးတင်ရှို့ခဲ့ကြ၏။

နောက်ဆုံးတွင် ဗနီနသွီရ်မျိုးနွယ်ဝင်များသည် မိမိတို့ကိုယ်ကိုမိမိတို့ မကာကွယ်နိုင်ကြသည့်အဆုံး၌ ပထမအကြိမ် ရင်ဆိုင်တွေ့ဆုံရာ၌ပင် တစ်စုံတစ်ရာခုခံခြင်းမပြုဘဲ၊ အရှုံးပေးကာ မိမိတို့ မြို့ရွာများမှ ထွက်ခွာသွားကြပါမည့်အကြောင်း တမန်တော်မြတ်ထံ၌ မေတ္တာရပ်ခံကြရာ၊ တမန်တော်မြတ်က 'အသင်တို့သည် လက်နက်များမှတပါး အခြားသယ်ဆောင်သွားနိုင်သမျှ ပစ္စည်းများကို သယ်ဆောင်သွားနိုင်ကြသည်'ဟု မိန့်ကြားကာ ခွင့်ပြုတော်မူလိုက်လေသည်။

ထိုအခါ ဗနီနသွီရ်မျိုးနွယ်ဝင်များအနက် အချို့သည် ဆီးရီးယားနိုင်ငံသို့ ရွှေ့ပြောင်းသွားခဲ့ကြ၏။ သို့ရွှေ့ပြောင်းသွားကြရာတွင် လောဘရမ္မက် ကြီးကြသည်က တစ်ကြောင်း၊ မွတ်စ်လင်မ်တို့အပေါ်၌ မနာလိုစိတ်ရှိနေသည်က တစ်ကြောင်း ဤအကြောင်းများကြောင့် မိမိတို့ အိုးအိမ်များ၏ တံခါး၊ တံခါးပေါင်၊ မင်းတုံးစသည့် အသေးအဖွဲ့များကိုပင် ဖြုတ်ယူသယ်ဆောင်သွားခဲ့ကြလေသည်။

ဤဖြစ်ရပ်သည် ဗဒ်ရ်စစ်ပွဲ၏နောက်၊ ဟိဂျ်ရီ ၄-ခုနှစ်၊ ရဗီအုလ်အောင်ဝလ်လတွင် ဖြစ်ပေါ်ခဲ့၏။➤➤

وَلَوْلَآ أَن كَتَبَ ٱللَّهُ عَلَيْهِمُ ٱلْجَلَآءَ لَعَذَّبَهُمْ فِى ٱلدُّنْيَا ۖ وَلَهُمْ فِى ٱلْـَٔاخِرَةِ عَذَابُ ٱلنَّارِ ③

၃။ စင်စစ်သော်ကား အကယ်၍သာ အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့နှင့်ပတ်သက်၍ ပြည်နှင်ဒဏ် ပေးခြင်းကို ရေးမှတ်ပြဋ္ဌာန်းတော်မူခဲ့သည် မရှိပါလျှင် အမှန်ပင် ထိုအရှင်မြတ်သည် ပစ္စုပ္ပန်ဘဝ၌ ၎င်းတို့အား (ကွပ်မျက်သတ်ဖြတ်၍) ပြစ်ဒဏ်ခတ်တော်မူခဲ့ပေမည်။ စင်စစ်သော်ကား 'အာခိရတ်' တမလွန်ဘဝ၌မူ ငရဲ၏ပြစ်ဒဏ်သည် ၎င်းတို့၌ ရှိပေမည်။

ذَٰلِكَ بِأَنَّهُمْ شَآقُّوا۟ ٱللَّهَ وَرَسُولَهُۥ ۖ وَمَن يُشَآقِّ ٱللَّهَ فَإِنَّ ٱللَّهَ شَدِيدُ ٱلْعِقَابِ ④

၄။ ယင်းသို့ ဖြစ်ရခြင်းမှာ ထိုသူတို့သည် အလ္လာဟ် အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ် တမန်တော်မြတ်အားလည်းကောင်း၊ ဆန့်ကျင်ဖီလာ ပြုလုပ်ခဲ့ကြသောကြောင့်ပင်။ စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်အား ဆန့်ကျင်ဖီလာ ပြုလုပ်ခဲ့မူ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် ပြင်းထန်စွာ ပြစ်ဒဏ်ခတ်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

مَا قَطَعْتُم مِّن لِّينَةٍ أَوْ تَرَكْتُمُوهَا قَآئِمَةً عَلَىٰٓ أُصُولِهَا فَبِإِذْنِ ٱللَّهِ وَلِيُخْزِىَ ٱلْفَـٰسِقِينَ ⑤

၅။ စွန်ပလွံပင်များကို အသင်တို့ ခုတ်လှဲဖြတ်တောက်ခဲ့ကြခြင်း၊ သို့မဟုတ် ယင်းစွန်ပလွံပင်များကို ၎င်းတို့၏ အောက်ခြေအမြစ်များပေါ်၌ ရပ်တည်လျက် ချန်ထားခဲ့ကြခြင်းသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်နှင့်အညီပင် ဖြစ်သည်။ ထို့ပြင်တစ်ဝ ထိုအရှင်မြတ်သည် အမိန့်တော်ကို သွေဖည်သောသူတို့အား အရှက်တကွဲ ဖြစ်စေတော်မူအံ့သောငှာ ဖြစ်ပေသတည်း။

---

➤➤ ဤသို့ဖြင့် ဗနီနသွီရ်မျိုးနွယ်ဝင်များသည် ပထမအကြိမ် ပြည်နှင်ဒဏ် ခံခဲ့ကြရ၏။ ထို့နောက် (ခလီဖဟ်) သမ္မတကြီး အုမရ်လက်ထက်တွင် ၎င်းတို့သည် အခြားရေဝတီများနှင့်အတူ ဒုတိယအကြိမ် ပြည်နှင်ဒဏ်ပေးခြင်း ခံခဲ့ကြရသေး၏။ ကြည့်-ထာနဝီ၊ ရှုဟ်။ ဇာဒုလ်မအာဒ်။

ရှေ့အာယတ်တော်များတွင် ဤသည့်ဖြစ်ရပ်ကိုပင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

وَمَآ اَفَآءَ اللّٰهُ عَلٰى رَسُوْلِهٖ مِنْهُمْ فَمَآ اَوْجَفْتُمْ عَلَيْهِ مِنْ خَيْلٍ وَّلَا رِكَابٍ وَّلٰكِنَّ اللّٰهَ يُسَلِّطُ رُسُلَهٗ عَلٰى مَنْ يَّشَآءُ ۗ وَاللّٰهُ عَلٰى كُلِّ شَىْءٍ قَدِيْرٌ ﴿٦﴾

၆။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် မိမိ ရစူလ်တမန်တော်မြတ်အား ၎င်းတို့ထံမှ 'ဖိုင်အ်'[၁] လက်ရပစ္စည်းအဖြစ် သိမ်းပိုက်စေတော်မူခဲ့သော အရာများမှာမူကား အသင်တို့သာ ယင်းပစ္စည်းများအပေါ်သို့ မြင်းများကို (စီးနင်း) မောင်းနှင်ခဲ့ကြသည်လည်း မဟုတ်ပေ၊ ကုလားအုတ်များကို (စီးနင်း)မောင်းနှင်ခဲ့ကြသည်လည်း မဟုတ်ပေ။

စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သည် မိမိ ရစူလ်တမန်တော်များအား မိမိအလိုရှိတော်မူသောသူတို့အပေါ်ဝယ် လွှမ်းမိုးစေတော်မူ၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းနိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

مَآ اَفَآءَ اللّٰهُ عَلٰى رَسُوْلِهٖ مِنْ اَهْلِ الْقُرٰى فَلِلّٰهِ وَلِلرَّسُوْلِ وَلِذِى الْقُرْبٰى وَالْيَتٰمٰى

၇။ အလ္လာဟ်အရှင်မြတ်သည် မိမိရစူလ်တမန်တော်မြတ်အား မြို့ရွာများတွင်နေထိုင်သောသူတို့ထံမှ 'ဖိုင်အ်' လက်ရပစ္စည်းအဖြစ် သိမ်းပိုက်စေတော်မူခဲ့သောအရာများကား အလ္လာဟ်အရှင်မြတ်နှင့်သာ သက်ဆိုင်၏။

---

(၁) **'ဖိုင်အ်' လက်ရပစ္စည်း။**

'ဖိုင်အ် နှင့် ဃနီမတ်' သည် မတူ၊ ခြားနားသည်။ စစ်မြေပြင်တွင် ရန်သူများနှင့်တိုက်ခိုက်၍ ရန်သူများလက်မှ သိမ်းပိုက်ရရှိလိုက်သော လက်ရပစ္စည်းကို 'ဃနီမတ်'ဟု ခေါ်သည်။ 'နဖလ်'၊ 'အန်ဖာန်'ဟူ၍လည်း ခေါ်သည်။ 'ဃနီမတ်' လက်ရပစ္စည်းအနက် ၅-ပုံ ၁-ပုံသည် တမန်တော်မြတ်နှင့် သက်ဆိုင်သည်။ ကျန် ၄-ပုံသည် သက်ဆိုင်ရာ စစ်သည်များအား ခွဲဝေပေးရသည်။

ဤအကြောင်း ကုရ်အာန် (၈း၁)တွင် လည်းကောင်း၊ (၈း၄၁)တွင်လည်းကောင်း၊ ပါရှိခဲ့ချေပြီ။ သက်ဆိုင်ရာ အဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။

စစ်မြေပြင်တွင် ရန်သူများနှင့် ယှဉ်ပြိုင်တိုက်ခိုက်ခြင်းမရှိဘဲ ရန်သူများလက်မှ သိမ်းပိုက်ရရှိလိုက်သော လက်ရပစ္စည်းကို 'ဖိုင်အ်'ဟု ခေါ်သည်။ 'ဖိုင်အ်' ခေါ် လက်ရပစ္စည်းသည် အများမွတ်စ်လင်မ်တို့နှင့် ဆိုင်သည်။ အစ္စလာမ်အစိုးရ ဘဏ္ဍာတော်တွင် ထားရှိရသည်။ အများအကျိုးပြု ကိစ္စများတွင် လိုအပ်သောနေရာများ၌ အသုံးပြုရသည်။

وَالْمَسٰكِيْنِ وَابْنِ السَّبِيْلِ ۙ كَيْ لَا يَكُوْنَ دُوْلَةً ۢ بَيْنَ الْاَغْنِيَآءِ مِنْكُمْ ۗ وَمَآ اٰتٰىكُمُ الرَّسُوْلُ فَخُذُوْهُ ۚ وَمَا نَهٰىكُمْ عَنْهُ فَانْتَهُوْا ۚ وَاتَّقُوا اللّٰهَ ۗ اِنَّ اللّٰهَ شَدِيْدُ الْعِقَابِ ۘ

ထို့ပြင် ရစူလ်တမန်တော်မြတ်နှင့်လည်းကောင်း၊ (ထိုရစူလ်တမန်တော်မြတ်၏) ဆွေရင်းသားရင်းတို့နှင့်လည်းကောင်း၊ ဖမဲ့ကလေးသူငယ်တို့နှင့်လည်းကောင်း၊ သူဆင်းရဲတို့နှင့်လည်းကောင်း၊ ခရီးသည်တို့နှင့်လည်းကောင်း၊ သက်ဆိုင်၏။

(ယင်းကဲ့သို့ ပြဋ္ဌာန်းတော်မူခြင်းမှာ) ယင်းလက်ရပစ္စည်းများသည် အသင်တို့အနက် *ကုံလုံကြွယ်ဝသောသူတို့၏ အကြား၌သာ လည်နေသောပစ္စည်းများ မဖြစ်စေရန် (ပြဋ္ဌာန်းတော်မူခြင်း)ပင်။* [၁] ထို့ပြင် အသင်တို့သည် မိမိတို့အား ရစူလ်တမန်တော်မြတ်က ပေးခဲ့သည်ကို ယူကြလေကုန်။ ထိုနည်းတူစွာ ထိုရစူလ်တမန်တော်မြတ်က *တားမြစ်တော်မူသည်မှ ရှောင်ကြဉ်ကြလေကုန်။* [၂]

---

၁ တမန်တော်မြတ်သည် 'ဖိုင်အ်'လက်ရပစ္စည်းများကို မိမိ၏သားချင်းများ၊ ဖသက်ဆိုးကလေးများ၊ ဆင်းရဲသားများ၊ ဒုက္ခဖြစ်နေသော ခရီးသည်များအား ခွဲဝေပေးတော်မူလေ့ရှိခဲ့ပေသည်။

'ဖိုင်အ်'လက်ရပစ္စည်းများ ခွဲဝေသုံးစွဲရာ ဌာနများတွင် ဆင်းရဲသားများအား အထူးတလည် ထုတ်ဖော်မိန့်ဆိုထားတော်မူခြင်းမှာ ယင်းပစ္စည်းများသည် ကုံလုံကြွယ်ဝသူတစ်စု၏ လက်များတွင် လည်မနေရန်ပင်ဖြစ်သည်။

ကုံလုံကြွယ်ဝသူတစ်စုက ဆင်းရဲသားများအပေါ်၌ ခေါင်းပုံမဖြတ်နိုင်ရန်ပင်ဖြစ်သည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် အစ္စလာမ်သည် ဆင်းရဲသားတို့အား အဘယ်မျှ ထောက်ထားသည်ကို ကောင်းစွာ သိရှိနိုင်ပေသည်။

ထို့ပြင်တစ်ဝ အစ္စလာမ်သည် လူတစ်စု၏လက်တွင် အကြောင်းမဲ့ဥစ္စာပစ္စည်း စုပုံနေသည်ကို မလိုလားသည်မှာ ထင်ရှားနေပေသည်။

၂ ဆိုလိုသည်ကား 'ဖိုင်အ်' လက်ရပစ္စည်းများနှင့် စပ်လျဉ်း၍ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ တမန်တော်မြတ် ခွဲဝေပေးသည်များကို မွတ်စ်လင်မ်များသည် ကြည်ဖြူစွာ လက်ခံကြရပေမည်။ တားမြစ်တော်မူသောအရာများမှ ကြည်ဖြူစွာ ရပ်တန့်သွားကြရပေမည်။

ဤအာယတ်တော်သည် 'ဖိုင်အ်' လက်ရပစ္စည်းများနှင့် စပ်လျဉ်းသော်လည်း အမိန့်၊ ပညတ်အရပ်ရပ်သည် ဤအာယတ်တော်တွင် အကျုံးဝင်ပေသည်။ (ဝါ) တမန်တော်မြတ် မိန့်ကြားတော်မူသမျှကို နာခံကြရပေမည်။ တားမြစ်တော်မူသမျှကို ရှောင်ကြည်ကြရပေမည်ဟူ၏။ ကြည့် – (မအာလင်မ်)၊ အိဗ်နူကဆီရ်၊

جَآءَهُمْ بِالْبَيِّنٰتِ قَالُوْا هٰذَا سِحْرٌ مُّبِيْنٌ ⑥

ဟူသော အမည်နာမနှင့် ပွင့်အံ့သော ရစူလ်တမန်တော် တစ်ပါးနှင့်ပတ်သက်၍ သတင်းကောင်း ပြောကြားသူ အဖြစ်လည်းကောင်း၊ အသင်တို့ထံ (စေလွှတ်တော်မူ ခြင်းခံရသော) *အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော် ဖြစ်၏။* [၁]

သို့တစေလည်း ထို(နဗီတမန်တော်)သည် သက်သေ လက္ခဏာတော်များနှင့်တကွ ၎င်းတို့ထံ ရောက်ရှိ၍ လာခဲ့သောအခါ ၎င်းတို့က ဤသည် ထင်ရှားစွာသော ပဉ္စလက်အတတ်ပင် ဖြစ်သည်ဟု ပြောဆိုခဲ့ကြလေသတည်း။

وَمَنْ اَظْلَمُ مِمَّنِ افْتَرٰى عَلَى اللّٰهِ الْكَذِبَ وَهُوَ يُدْعٰٓى اِلَى الْاِسْلَامِ ۗ وَاللّٰهُ لَا يَهْدِى الْقَوْمَ الظّٰلِمِيْنَ ⑦

၇။ အမှန်စင်စစ်သော်ကား မိမိကိုယ်တိုင် အစ္စလာမ် သာသနာတော်သို့ ဖိတ်ခေါ်ခြင်း ခံရသည်ဖြစ်ပါလျက် အလ္လာဟ်အရှင်မြတ်အပေါ်ဝယ် မုသားကို လီဆယ် စွပ်စွဲသောသူထက် ပိုမို၍မတရားသောသူကား အဘယ်သူရှိ အံ့နည်း။ စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သည် မတရားသော လူမျိုးတို့အား တရားလမ်းမှန်သို့ ရောက်စေတော်မူသည် မဟုတ်ပြီ။ [၂]

---

(၁) ဆိုလိုသည်ကား ပွင့်လေသမျှသော တမန်တော်များသည် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိ ဝစလ္လမ်) ပွင့်တော်မူမည့်အကြောင်းကို အသီးသီးကြိုတင်ဟောကြားတော်မူခဲ့ကြသည်သာဖြစ်သည်။ ယင်းသည့် တမန်တော်များတွင် တမန်တော် အီစာ(အလိုင်ဟစ္စလာမ်)သည် တမန်တော်မြတ် ပွင့်တော်မူမည့်အကြောင်းကို အမည်နာမနှင့်တကွ အတိအကျ ပွင့်လင်းစွာ ကြိုတင် ဟောကြားတော်မူခဲ့ပေသည်။

ယင်းသို့ ဟောကြားတော်မူခဲ့ခြင်းမှာ တမန်တော်အီစာနှင့် တမန်တော်မြတ်၏ခေတ်မှာ နီးကပ်လျက် ရှိသည်ကတစ်ကြောင်း၊ တမန်တော်အီစာ၏ နောက်တွင် နောက်ဆုံးစွန် ပွင့်တော်မူမည့် တမန်တော်မြတ်မှတစ်ပါး အခြားတမန်တော်တစ်ပါးမျှ ပွင့်ရန်မရှိသည်ကတစ်ကြောင်း တို့ကြောင့်ပင် ဖြစ်တန်ရာသည်။

ယနေ့ ကျွန်ုပ်တို့လက်ဝယ်ရှိ 'တောင်ရာတ်၊ အင်ဂျီလ်' ကျမ်းများသည် မူရင်းအတိုင်း မဟုတ်ပြီ။ သက်ဆိုင်ရာပုဂ္ဂိုလ်များကလည်း ဝန်ခံထားကြပြီးဖြစ်သည်။ ထို့အတွက်ကြောင့် ကုရ်အာန်ကျမ်းမြတ်တွင် အတိအလင်း ထုတ်ဖော်မိန့်ကြားထားတော်မူသည့် အကြောင်းတစ်ရပ်ကို မူရင်းအတိုင်း မဟုတ်တော့သည့် တောင်ရာတ်၊ အင်ဂျီလ်ကျမ်းများတွင် မတွေ့ရသည့်အတွက် မည်သူ့ဉ္စမျှ ငြင်းပယ်ပိုင်ခွင့်မရှိပေ။ သို့ပင်တစေ ဤသည်လည်း တမန်တော်မြတ်၏ တန်ခိုးတစ်ပါးပင်။

يُرِيدُونَ لِيُطْفِـُٔوا نُورَ اللّٰهِ بِأَفْوَاهِهِمْ وَاللّٰهُ مُتِمُّ نُورِهِ وَلَوْ كَرِهَ الْكٰفِرُونَ ⑧

၈။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ရောင်ခြည်ကို မိမိတို့၏ပါးစပ်ဖြင့် ငြိမ်းသတ်လိုကြကုန်၏။ သို့ရာတွင် ကာဖိရ် သွေဖည်ငြင်းပယ်သောသူများ မနှစ်မြို့ကြငြားသော်လည်း အလ္လာဟ်အရှင်မြတ်မှာမူကား မိမိရောင်ခြည်ကို ပြည့်ဝစုံလင်အောင် ပြုတော်မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူ၏။ [၁]

هُوَ الَّذِيْٓ أَرْسَلَ رَسُولَهُ بِالْهُدٰى وَدِينِ الْحَقِّ لِيُظْهِرَهُ عَلَى الدِّينِ كُلِّهِ وَلَوْ كَرِهَ الْمُشْرِكُونَ ⑨

၉။ ထို အရှင်မြတ်သည် အကြင် အရှင်မြတ်ပင် ဖြစ်တော်မူ၏။ မုရှ်ရစ်ကတ်တို့သည် မနှစ်မြို့ကြငြားသော်လည်း ထိုအရှင်မြတ်သည် မိမိ ရစူလ်တမန်တော်အား တရားလမ်းညွှန်နှင့်တကွလည်းကောင်း၊ ဘာသာသာသနာ အလုံးစုံတို့ထက်ဝယ် လွှမ်းမိုးစေတော်မူအံ့သောငှာ မှန်ကန်သော 'ဒီန်'သာသနာတော်နှင့်တကွလည်းကောင်း၊ (ယင်း မှန်ကန်သော သာသနာကို) စေလွှတ်တော်မူခဲ့ပေသတည်း။

---

(၂) အကြင်သူတစ်ဦးသည် အစ္စလာမ်ဘက်သို့ ဖိတ်ခေါ်ခြင်း ခံနေရပါလျက် အလ္လာဟ်အရှင်မြတ်အားပင် မဟုတ်မမှန် လုပ်ကြံယိုးစွပ်ပြောဆို၏။ ကိုးကွယ်ရာအရှင်ကို လူသား၊ လူသားကို ကိုးကွယ်ရာအရှင် ပြုလုပ်၏။ အမှန်တရားကို ဖုံးကွယ်ထား၏။ မမှန်သော အကြောင်းများပြ၍ တမန်တော်မြတ်အား သွေဖည်၏။ ကောင်းကင်ကျမ်းဂန်များတွင် မိမိ၏ စိတ်အာသာဆန္ဒအတိုင်း နုတ်ပယ်၏။ ဖြည့်သွင်း၏။ ရှိသည်ကို မရှိ၊ မရှိသည်ကို အရှိလုပ်၏။ အမျိုးမျိုး ကပြောင်းကပြန် ပြုလုပ်၏။ ထိုသို့သောသူထက် သစ္စာမဲ့သူ၊ ဖောက်ပြန်သူ၊ မတရားသူ၊ ကျူးကျော်စော်ကားသူ အဘယ်သူရှိအံ့နည်း။ ထိုရွေ့ထိုမျှ ကျူးကျော်စော်ကားသူအား အလ္လာဟ်အရှင်မြတ်သည် အသို့လျှင် လမ်းမှန်သို့ အသို့လျှင် ဆောင်တော်မူအံ့နည်း။

(၁) ဆိုလိုသည်ကား ကာဖိရ်၊ မုရှ်ရစ်ကများသည် အလ္လာဟ်အရှင်မြတ်၏ လင်းရောင်ခြည်တည်းဟူသော အစ္စလာမ်ရောင်ခြည်ကို မိမိတို့၏ နှုတ်များဖြင့် မှုတ်၍ အလွယ်တကူ ငြိမ်းသတ်လိုကြ၏။

တစ်နည်း မိမိတို့၏နှုတ်များဖြင့် မဟုတ်မမှန် လုပ်ကြံပြောဆို၍ အစ္စလာမ်ကို တိုက်ဖျက်လိုကြ၏။ သို့ရာတွင် ၎င်းတို့သည် အဘယ်မျှပင် အစ္စလာမ်ကို တိုက်ဖျက်လိုကြလင့်ကစား အစ္စလာမ်၏သူရိယနေမင်းကြီးကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် တစ်နေ့တစ်ခြား ပို၍ပို၍သာ လင်းဝင်း တောက်ပလျက်နေမည်သာ။

အလ္လာဟ်အရှင်မြတ်သည် အစ္စလာမ် လင်းရောင်ခြည်ကို ထာဝစဉ် လင်းဝင်းတောက်ပနေစေတော်မူရန် အလို့ငှာ မည်သို့မည်ပုံ စီစဉ်ထားတော်မူသည့်အကြောင်းကို ရှေ့အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ هَلْ أَدُلُّكُمْ عَلَىٰ تِجَٰرَةٍ تُنجِيكُم مِّنْ عَذَابٍ أَلِيمٍ ﴿١٠﴾

၁၀။ အိုး–'မုအ်မင်န်' သက်ဝင်ယုံကြည်သူ အပေါင်းတို့၊ အသင်တို့အား အလွန်တရာ နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်မှ လွတ်မြောက်စေအံ့သော ကူးသန်းရောင်းဝယ် ဖောက်ကားမှုကို ငါအရှင်မြတ်သည် အသင်တို့အား ညွှန်ပြတော်မူရမည်လော။

تُؤْمِنُونَ بِٱللَّهِ وَرَسُولِهِۦ وَتُجَٰهِدُونَ فِى سَبِيلِ ٱللَّهِ بِأَمْوَٰلِكُمْ وَأَنفُسِكُمْ ۚ ذَٰلِكُمْ خَيْرٌ لَّكُمْ إِن كُنتُمْ تَعْلَمُونَ ﴿١١﴾

၁၁။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ သက်ဝင်ယုံကြည်ကြရပေမည်။ ၎င်းပြင် အသင်တို့သည် မိမိတို့ ပစ္စည်းဥစ္စာများဖြင့်လည်းကောင်း၊ မိမိတို့၏ အသက်ဇီဝိန်များဖြင့်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သက်စွန့်ကြိုးပမ်းကြရပေမည်။ ဤသည် အကယ်၍ အသင်တို့ သိရှိကြသည်ဖြစ်မူ အသင်တို့အဖို့ အကောင်းဆုံးပင်ဖြစ်၏။ [၁]

---

[၁] **နှစ်ဘဝစလုံးတွင် အရှုံးမရှိသည့် ရောင်းဝယ်မှု။**

အလ္လာဟ်အရှင်မြတ်သည် အစ္စလာမ့် လင်းရောင်ခြည်ကို အမြဲထာဝစဉ် လင်းဝင်း တောက်ပနေစေတော်မူမည်သာဖြစ်သည်။ အစ္စလာမ်ဝါဒကို ကမ္ဘာအနှံ့ ပျံ့နှံ့နေစေတော်မူမည်သာဖြစ်သည်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ အလုပ်ပင်။

မွတ်စ်လင်မ်တို့၏ တာဝန်မှာကား 'အီမာန်' သက်ဝင်ယုံကြည်မှုအပေါ်တွင် တည့်မတ်စွာရပ်တည်ကာ ထိုအရှင်မြတ်၏လမ်းတော်တွင် မိမိတို့၏ဥစ္စာပစ္စည်းကို စွန့်ကြဲ၍လည်းကောင်း၊ အသက်များကို စွန့်လှူ၍လည်းကောင်း၊ 'ဂျီဟာဒ်' ပြုလုပ်ကြရပေမည်၊ သက်စွန့်ကြိုးပမ်းကြရပေမည်။ ဤသည် နှစ်ဘဝစလုံးတွင် အရှုံးမရှိသော ရောင်းဝယ်မှုပင်။

လူ့လောကတွင် လူများသည် မိမိနှင့်တကွ မိမိ၏သားသမီးများ၏ စားဝတ်နေရေး အဆင်ပြေရန်၊ ကသီလင်တမဖြစ်စေရန်၊ ဥစ္စာပစ္စည်း အရင်းအနှီး မပျက်စီးစေရန်၊ အမြတ်အစွန်းရရှိရန်နှင့် ဥစ္စာပစ္စည်းတိုးပွားချမ်းသာကြွယ်ဝရန်အတွက် အမျိုးမျိုး အရောင်းအဝယ်ပြုလုပ်ကြသည်၊ အရောင်းအဝယ်ပြုလုပ်ရာတွင် အရင်းအနှီးများကို ထည့်သွင်းကြသည်။

သို့ရာတွင် မွတ်စ်လင်မ်များသည် မိမိတို့၏ ဥစ္စာပစ္စည်းနှင့် အသက်ဇီဝိန်တည်းဟူသော အရင်းအနှီးကို အလွန့်အလွန် မြင့်မြတ်သော ရောင်းဝယ်မှုတွင် ထည့်သွင်းကြပေသည်။ ထိုရောင်းဝယ်မှုသည် ဤမျက်မှောက်ဘဝတွင် ထာဝစဉ်ဆုံးရှုံးရမည့် မဟာအရှုံးကြီး ဖြစ်သည့်အတိုင်း မသိနာကျင်ဖွယ်ဖြစ်ဘိသော ငရဲဒဏ်မှလည်း လွတ်မြောက်စေမည်ဖြစ်သည်။ အမြော်အမြင်ရှိပါက၊ သိတတ်ပါက ဤသည့်အရောင်းအဝယ်သည် လောကီဆိုင်ရာ အရောင်းအဝယ်အားလုံးတို့ထက် သာလွန်ကြီးကဲ မြင့်မြတ်လှပေသည်။ ▷▷

يَغْفِرْ لَكُمْ ذُنُوبَكُمْ وَيُدْخِلْكُمْ جَنّٰتٍ تَجْرِىْ مِنْ تَحْتِهَا الْاَنْهٰرُ وَمَسٰكِنَ طَيِّبَةً فِىْ جَنّٰتِ عَدْنٍ ۗ ذٰلِكَ الْفَوْزُ الْعَظِيْمُ ﴿١٢﴾

၁၂။ ထိုအရှင်မြတ်သည် အသင်တို့၏ ပြစ်မှုဒုစရိုက်များကို ခွင့်လွှတ်တော်မူပေမည်။ ထို့ပြင် ထိုအရှင်မြတ်သည် အသင်တို့အား အကြင်ဥယျာဉ်များသို့ ဝင်ရောက်စေတော်မူပေမည်။ ယင်းဥယျာဉ်များ၏အောက်မှ ချောင်းများသည် စီးတွေလျက်ရှိကြပေမည်။ ထိုမှတစ်ပါး (ထိုအရှင်မြတ်သည် အသင်တို့အား) အကြင်နေအိမ်များသို့ ဝင်ရောက်စေတော်မူပေမည်။ ထိုနေအိမ်များမှာ အမြဲထာဝစဉ် နေထိုင်ရအံ့သောဥယျာဉ်များဝယ် ရှိကြပေမည်။ ထိုသည် ကြီးကျယ်လှစွာသော အောင်မြင်မှုပင်။

وَاُخْرٰى تُحِبُّوْنَهَا ۗ نَصْرٌ مِّنَ اللّٰهِ وَفَتْحٌ قَرِيْبٌ ۗ وَبَشِّرِ الْمُؤْمِنِيْنَ ﴿١٣﴾

၁၃။ ထိုမှတစ်ပါး အသင်တို့ နှစ်သက်ကြကုန်သော အခြား(အကျိုးကျေးဇူး)တစ်ပါးကိုလည်း (ထိုအရှင်မြတ်သည် အသင်တို့အား ချီးမြှင့်တော်မူပေမည်။ ယင်းသည်) အလ္လာဟ်အရှင်မြတ်အထံတော်မှ ကူညီစောင်မမှုပင်၊ နီးကပ်စွာသောအောင်နိုင်မှုပင်။ ၎င်းပြင် (အို-နဗီတမန်တော်) အသင်သည် 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့အား သတင်းကောင်းပြောကြားပါလေ။

يٰۤاَيُّهَا الَّذِيْنَ اٰمَنُوْا كُوْنُوْۤا اَنْصَارَ اللّٰهِ كَمَا قَالَ عِيْسَى ابْنُ مَرْيَمَ لِلْحَوَارِيّٖنَ مَنْ اَنْصَارِىْۤ اِلَى

၁၄။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် 'မရ်ယမ်' ၏သားတော် (နဗီတမန်တော်'အီစာ')က 'ဟဝါရီ'တို့အား ပြောကြားဘိသကဲ့သို့ပင် အလ္လာဟ်အရှင်မြတ်(၏ 'ဒီန်' သာသနာတော်)ကို ကူညီသူများပင် ဖြစ်ကြလေကုန်။

➤➤ အဘယ်ကြောင့်ဆိုသော် ယင်း၏အမြတ်အစွန်းမှာ လုံးဝလွတ်ငြိမ်းချမ်းသာခွင့်နှင့် ထာဝစဉ်စံစားရမည့် 'ဂျန္နတ်'အမတသုခဘုံပင်ဖြစ်သည်။ ဤသည်ထက် ကြီးကဲမြင့်မြတ်သော အမြတ်အစွန်းသည် အဘယ် အရောင်းအဝယ် ရှိနိုင်အံ့နည်း။ ဤသည်ထက် ကြီးကဲမြင့်မြတ်သော အောင်မြင်မှုသည် အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။

(မရ်ယမ်၏သားတော် 'အီစာ' က 'ဟဝါရီ' တို့အား) အလ္လာဟ်အရှင်မြတ်၏လမ်းတော်၌ ငါ့အား မည်သူများကူညီမည်နည်း(ဟု ပြောကြားခဲ့ရာ) 'ဟဝါရီ' တို့က အလ္လာဟ်အရှင်မြတ်(၏ 'ဒီန်'သာသနာတော်)ကို ကျွန်ုပ်တို့ကူညီကြပါမည်ဟု ပြောဆိုခဲ့ကြကုန်၏။ [၁]

ထို့နောက် အစ္စရာအီလီမျိုးနွယ်ဝင်တို့အနက် လူတစ်စုမှာ သက်ဝင်ယုံကြည်ခဲ့ကြ၍ လူတစ်စုမှာ သွေဖည်ငြင်းပယ်ခဲ့ကြလေ၏။ ထိုအခါ ငါအရှင်မြတ်သည် သက်ဝင်ယုံကြည်ခဲ့ကြသောသူတို့အား ၎င်းတို့၏ ရန်သူများအပေါ်၌ ကူညီစောင်မတော်မူခဲ့ပေရာ ၎င်းတို့မှာ အောင်နိုင်ခဲ့ကြကုန်သတည်း။ [၂]

اللّٰهِ قَالَ الْحَوَارِيُّوْنَ نَحْنُ اَنْصَارُ اللّٰهِ فَاٰمَنَتْ طَّآئِفَةٌ مِّنْۢ بَنِيْٓ اِسْرَآءِيْلَ وَكَفَرَتْ طَّآئِفَةٌ ۚ فَاَيَّدْنَا الَّذِيْنَ اٰمَنُوْا عَلٰى عَدُوِّهِمْ فَاَصْبَحُوْا ظٰهِرِيْنَ ﴿١٤﴾

---

(၁) တမန်တော်အီစာ (အလိုင်ဟစ္စလာမ်) သည် ဆန့်ကျင်သူများနှင့် ရန်သူများ၏ သွေဖည်ဆန့်ကျင်မှုများကို အလူးအလိမ့် ခံနေတော်မူခဲ့ရရာသည့်အချိန်တွင် မိမိ၏ 'ဟဝါရီ' တပည့်ရင်းများအား 'အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ ငါ့အားအသူများ ကူညီမည်နည်း'ဟု မေးမြန်းတော်မူခဲ့ရာ၊ တပည့်ရင်းများက 'ကျွန်တော်တို့သည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ (အသင့်အား) ကူညီပါမည်ဟု' အူလိုက်သည်းလိုက် အဖြေပေးခဲ့ကြလေသည်။

ဝဆိုလိုသည်ကား တမန်တော်အီစာ၏ တပည့်ရင်းများသည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ တမန်တော်အီစာအား ဤမျက်မှောက်ဘဝတွင်လည်း စွမ်းစွမ်းတမံကူညီခဲ့ကြ၏။ တမန်တော်အီစာ၏နောက်တွင်လည်း သက်စွန့်ကြိုးပမ်း ဆောင်ရွက်ခဲ့ကြ၏။ ထို့အတွက်ကြောင့်ပင် တမန်တော်အီစာ၏ သာသနာသည် အံ့ဖွယ်သရဲ တိုးပွားပျံ့နှံ့လာခဲ့ပေသည်။ မွတ်စ်လင်မ်များသည်လည်း တမန်တော်အီစာ၏ နောက်လိုက်များကဲ့သို့ပင် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ သက်စွန့်ကြိုးပမ်းဆောင်ရွက်ကြရပေမည်။

(၂) ဆိုလိုသည်ကား အစ္စရာအီလီမျိုးနွယ်တွင် အုပ်စုတစ်စုသည် အီမာန်ယုံကြည်မှုအပေါ်၌ ရပ်တည်နေခဲ့၏။ အုပ်စုတစ်စုသည် သွေဖည်ဖောက်ပြန်သွားခဲ့၏။ တမန်တော်အီစာ၏နောက်တွင် အဆိုပါအုပ်စုနှစ်ခုသည် အချင်းချင်း အငြင်းပွားနေခဲ့ကြ၏။ ခိုက်ရန် ဖြစ်ပွားနေခဲ့ကြ၏။

နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် အီမာန်ယုံကြည်မှုအပေါ်၌ ရပ်တည်နေခဲ့သောအုပ်စုကို ဖောက်ပြန်သွေဖည်သွားခဲ့သော အုပ်စုအပေါ်၌ လွှမ်းမိုးစေတော်မူခဲ့လေသည်။

# ဂျုမုအဟ် သောကြာနေ့ ကဏ္ဍ



ဤကဏ္ဍသည် 'ဂျုမုအဟ်' သောကြာနေ့ ကဏ္ဍ မည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၁၁)ပါးနှင့် ရုကူအ်အပိုဒ် (၂)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

يُسَبِّحُ لِلّٰهِ مَا فِي السَّمٰوٰتِ وَمَا فِي الْاَرْضِ الْمَلِكِ الْقُدُّوْسِ الْعَزِيْزِ الْحَكِيْمِ ①

၁။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ပထဝီမြေ၌ရှိသမျှတို့သည်လည်းကောင်း၊ စိုးမိုးအုပ်ချုပ်တော်မူသော၊ စင်ကြယ်သန့်ရှင်း အပြစ်ကင်းတော်မူသော၊ အလွန်တရာ ခန့်ညားတော်မူသော၊ လွန်စွာနူးညံ့သိမ်မွေ့သော၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်၊ စင်ကြယ်သန့်ရှင်းတော်မူကြောင်းကို မြွက်ဆိုလျက် ရှိကြကုန်၏။ [၁]

---

(၁) စကြာဝဠာအဝန်း၌ရှိကုန်သော သက်ရှိသက်မဲ့ ခပ်သိမ်းကုန်တို့သည် တန်ခိုးတော်ကြီးမြင့်ခြင်းနှင့်၊ ဉာဏ်တော်မြင့်မြတ်ခြင်းတို့နှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်အား ကိုယ့်နည်း ကိုယ့်ဟန်ဖြင့် ဂုဏ်တော်မွမ်းလျက် ရှိကြကုန်၏။

ထိုအရှင်မြတ်သည် ခပ်သိမ်းကုန်သော တန်ခိုးအာဏာအပေါင်းတို့နှင့် ပြည့်စုံတော်မူသော၊ ချုပ်ချယ်မှုအပေါင်းနှင့် လုံးဝကင်းစင်တော်မူသော ဘုရင်လည်း ဖြစ်တော်မူ၏။ ထိုအရှင်မြတ်သည် ချို့တဲ့မှုအပေါင်းနှင့်လည်း လုံးဝစင်ကြယ် သန့်ရှင်းတော်မူ၏။

ခပ်သိမ်းကုန်သော တန်ခိုးအာဏာအပေါင်းတို့သည် ထိုအရှင်မြတ်၏ လက်တော်တွင်း၌သာရှိ၏။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကို နိုင်နင်းလွှမ်းမိုးတော်မူလျက်ရှိ၏။ ထိုအရှင်မြတ်သည် အလွန်နက်နဲသော၊ အလွန်သိမ်မွေ့သော ကျိုးကြောင်းဆင်ခြင်တုံတရားများနှင့်လည်း ပြည့်စုံတော်မူလှဘိ၏။ အလ္လာဟ်အရှင်မြတ်၏ ဂုဏ်တော်များကား အလွန်တရာ ကြီးမြတ်ပေတည်း။

ထိုအရှင်မြတ်၏ ကျေးဇူးတော်များကား အသင်္ချေ အသင်္ချာတည်း။

ထိုအရှင်မြတ်ကပင် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား စေလွှတ်တော်မူခဲ့၏။ ဤသည်လည်း အတိုင်းမသိ ကြီးမားဘိသော ကျေးဇူးတော်တစ်ပါးပင်။ ဤအကြောင်းကို ရှေ့အာယတ်တော်တွင် မိန့်ဆိုထားတော်မူသည်။

هُوَ الَّذِي بَعَثَ فِي الْأُمِّيِّينَ رَسُولًا مِّنْهُمْ يَتْلُو عَلَيْهِمْ آيَاتِهِ وَيُزَكِّيهِمْ وَيُعَلِّمُهُمُ الْكِتَابَ وَالْحِكْمَةَ وَإِن كَانُوا مِن قَبْلُ لَفِي ضَلَالٍ مُّبِينٍ ﴿٢﴾

၂။ ထိုအရှင်မြတ်သည်ပင် စာပေ မတတ်သော သူတို့ထံ ၎င်းတို့အနက်မှပင် ရစူလ်တမန်တော်တစ်ပါးကို စေလွှတ်တော်မူခဲ့၏။ ထိုရစူလ်တမန်တော်သည် ၎င်းတို့ရှေ့ဝယ် ထိုအရှင်မြတ်၏အာယတ်တော်များကို ဖတ်ကြားလေ၏။ ထို့ပြင် ၎င်းတို့အား စင်ကြယ်သန့်ရှင်းအောင်ပြုလုပ်လေ၏။ ထိုမှတစ်ပါး ထိုသူတို့အား ကျမ်းဂန်ကိုလည်းကောင်း၊ ဉာဏ်ပညာကိုလည်းကောင်း၊ သင်ကြားပို့ချလေ၏။ စင်စစ်မှာမူကား ၎င်းတို့သည် ယခင်က ထင်ရှားစွာသော လမ်းမှားမှု၌ပင် ရှိနေခဲ့ကြကုန်၏။

وَآخَرِينَ مِنْهُمْ لَمَّا يَلْحَقُوا بِهِمْ ۚ وَهُوَ الْعَزِيزُ الْحَكِيمُ ﴿٣﴾

၃။ ထိုမှတစ်ပါး (ထိုအရှင်မြတ်သည်) ၎င်းတို့အနက်မှ ၎င်းတို့နှင့်လာရောက်ပူးပေါင်းခြင်း မရှိကြသေးသောသူတို့အဖို့လည်း (ထိုရစူလ်တမန်တော်အား စေလွှတ်တော်မူခဲ့၏)။ စင်စစ်သော်ကား ထိုအရှင်မြတ်သည် လွန်စွာ ခန့်ညားတော်မူသောအရှင်၊ လွန်စွာနူးညံ့သိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသော အရှင်မြတ်ပင်။

ذَٰلِكَ فَضْلُ اللَّهِ يُؤْتِيهِ مَن يَشَاءُ ۚ وَاللَّهُ ذُو الْفَضْلِ الْعَظِيمِ ﴿٤﴾

၄။ ထိုသည်ကား အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ပင်၊ ထိုအရှင်မြတ်သည် မိမိအလိုရှိတော်မူသောသူအား ယင်းကျေးဇူးတော်ကို ချီးမြှင့်ပေးသနားတော်မူ၏။ စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည် ကြီးကျယ်သော ကျေးဇူးတော်ကို ပိုင်ဆိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

مَثَلُ الَّذِينَ حُمِّلُوا التَّوْرَاةَ ثُمَّ لَمْ يَحْمِلُوهَا كَمَثَلِ الْحِمَارِ

၅။ 'တောင်ရာတ်' ကျမ်းတော်နှင့်စပ်လျဉ်း၍ တာဝန်ပေးခြင်းကို ခံခဲ့ကြရပြီးနောက် ယင်း 'တောင်ရာတ်' ကျမ်းတော်ကို (တာဝန်ကျေပွန်စွာ) ထမ်းဆောင်ခြင်း မရှိခဲ့ကြသောသူတို့၏ဥပမာကား ကျမ်းစာအုပ်များကို

يَحْمِلُ أَسْفَارًا ۚ بِئْسَ مَثَلُ الْقَوْمِ الَّذِينَ كَذَّبُوا بِآيَاتِ اللَّهِ ۚ وَاللَّهُ لَا يَهْدِي الْقَوْمَ الظَّالِمِينَ ⑤

တင်ဆောင်လျက်ရှိသော မြည်းတိရစ္ဆာန်၏ ဥပမာကဲ့သို့ပင်၊ အလ္လာဟ်အရှင်မြတ်၏အာယတ်တော်များကို မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြလေသောလူမျိုး၏ ဥပမာကား လွန်စွာ ယုတ်ညံ့လှပေ၏။ [၁] စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သည် မတရားသောသူတို့အား လမ်းမှန်သို့ ပို့ပေးတော်မူသည်မဟုတ်ပေ။

قُلْ يَا أَيُّهَا الَّذِينَ هَادُوا إِنْ زَعَمْتُمْ أَنَّكُمْ أَوْلِيَاءُ لِلَّهِ مِنْ دُونِ النَّاسِ فَتَمَنَّوُا الْمَوْتَ إِنْ كُنْتُمْ صَادِقِينَ ⑥

၆။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ အို-'ရေဝတီ' ဖြစ်ကြသောသူတို့၊ အကယ်၍ အသင်တို့သည် အခြားသူများမပါဘဲ မိမိတို့သည်သာလျှင် အလ္လာဟ်အရှင်မြတ်၏အချစ်တော်များ ဖြစ်ကြသည်ဟု ထင်မှတ်ကြလျှင်၊ အကယ်၍ အသင်တို့သည် (ယင်းသို့ ထင်မှတ်ပြောဆိုရာ၌) သစ္စာဝါဒီများ ဖြစ်ကြလျှင်၊ 'မရဏ' သေခြင်းတရားကို တောင့်တဆန္ဒပြုကြလေကုန်။

---

(၁) အလ္လာဟ်အရှင်မြတ်သည် ယင်းကျမ်းကို တမန်တော်မူစာအပေါ်သို့ ချပေးတော်မူခဲ့၏။ ရေဝတီများအား ထမ်းဆောင်စေတော်မူခဲ့၏။ သို့တစေလည်း ရေဝတီများသည် တောင်ရာတ်ကျမ်းလာ တရားတော်များကို လျစ်လျူပြုထားခဲ့ကြ၏။ မလိုက်နာမကျင့်သုံးခဲ့ကြပေ။ ကောင်းစွာလည်း ထိန်းသိမ်းမထားခဲ့ကြပေ။ ကောင်းစွာမထိန်းသိမ်းခဲ့ကြသည်သာမက ယင်းကျမ်းမြတ်တွင် အမျိုးမျိုး ကပြောင်းကပြန် ပြုလုပ်ခဲ့ကြ၏။

ရေဝတီများသည် တောင်ရာတ်ကျမ်းကို ထိန်းသိမ်းရန် တာဝန်ပေးတော်မူခြင်း ခံခဲ့ကြရသည်ကားမှန်၏။ သို့သော်လည်း ၎င်းတို့သည် ယင်းကျမ်းဖြင့် မည်သို့မျှ အကျိုးမခံစားခဲ့ကြပေ။ သို့ဖြစ်ရာ ၎င်းတို့သည် အလွန်အဖိုးတန်သော ကျမ်းများကို မိမိ၏ကျောကုန်းပေါ်၌ တင်ဆောင်သွားနေသော မြည်းတိရစ္ဆာန်ပမာ ဖြစ်နေခဲ့ကြ၏။

မြည်းတိရစ္ဆာန်တစ်ကောင်အပေါ်၌ အလွန်အဖိုးထိုက်တန်သော ကျမ်းများကို တင်ဆောင်ထားသော်လည်း၊ ယင်းမြည်းတိရစ္ဆာန်အဖို့မှာကား အဆိုပါကျမ်းများ၏ အလေးချိန်အောက်တွင် ပိနေရသည်မှတပါး အခြားမည်သို့မျှ အကျိုးခံစားနိုင်မည်မဟုတ်ပေ။ မြည်း၏ကျောကုန်းပေါ်၌ အလွန်အဖိုးထိုက်တန်သော ရွှေ၊ ငွေ၊ ကျောက်သံပတ္တမြား စသည့်ရတနာများကို တင်ထားသည်ဖြစ်စေ၊ ကျောက်တုံးကျောက်ခဲများကို တင်ထားသည်ဖြစ်စေ မြည်းအဖို့ကား အသို့မျှမထူးခြားပေ။မြည်းသည်စိမ်းစိုသောမြက်ကိုသာအလိုရှိပေသည်။

အကယ်၍ မိမိ၏ကျောကုန်းပေါ်၌ တင်ဆောင်ထားသည့် ကျမ်းများကို အကြောင်းပြု၍ ကျွန်ုပ်သည် ရောမပညာရှင်ကြီး၊ ရောမဂုဏ်အသရေရှိသူကြီးဖြစ်သည်ဟု ထင်မှတ်ပါက ဤသည် ပို၍ မြည်းတိရစ္ဆာန်ဖြစ်မှု၏ အကျိုးပင်ဖြစ်ချိမ့်မည်။

وَلَا يَتَمَنَّوْنَهٗٓ اَبَدًۢا بِمَا قَدَّمَتْ اَيْدِيْهِمْ ۗ وَاللّٰهُ عَلِيْمٌۢ بِالظّٰلِمِيْنَ ۝٧

၇။ သို့ရာတွင် ၎င်းတို့သည် မိမိတို့၏လက်များ က တင်ကြိုပို့နှင့်ခဲ့သောအကျင့်အမူတို့ကြောင့် ယင်း 'မရဏ' သေခြင်းတရားကို မည်သည့်အခါမျှပင် တောင့်တ ဆန္ဒပြုကြမည်မဟုတ်ပြီ။ စင်စစ်တမူကား အလ္လာဟ် အရှင်မြတ်သည် မတရားသောသူတို့အား ကောင်းစွာ သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

قُلْ اِنَّ الْمَوْتَ الَّذِيْ تَفِرُّوْنَ مِنْهُ فَاِنَّهٗ مُلٰقِيْكُمْ ثُمَّ تُرَدُّوْنَ اِلٰى عٰلِمِ الْغَيْبِ وَالشَّهَادَةِ فَيُنَبِّئُكُمْ بِمَا كُنْتُمْ تَعْمَلُوْنَ ۝٨

၈။ (အို-နဗီတမန်တော်) အသင်သည် ပြောကြား ပါလေ။ (အချင်းတို့) အသင်တို့ ထွက်ပြေးတိမ်းရှောင် လျက်ရှိသော 'မရဏ' သေခြင်းတရားမှာ ဧကန်မလွဲ အသင်တို့နှင့် တွေ့ဆုံမည်ပင်ဖြစ်၏။ ထို့နောက် အသင် တို့သည် လျှို့ဝှက်စွာ ရှိသည်တို့ကိုလည်းကောင်း၊ ထင်ရှားစွာ ရှိသည်တို့ကိုလည်းကောင်း၊ အကြွင်းမဲ့ သိတော်မူသော အရှင်မြတ်အထံတော်သို့ ပြန်လည် ရောက်စေခြင်းကို ခံကြရပေမည်။ ထိုအခါ ထိုအရှင်မြတ် သည် အသင်တို့အား အသင်တို့ ကျင့်မူခဲ့ကြသည် တို့ကို သိစေတော်မူအံ့သတည်း။

يٰٓاَيُّهَا الَّذِيْنَ اٰمَنُوْٓا اِذَا نُوْدِيَ لِلصَّلٰوةِ مِنْ يَّوْمِ الْجُمُعَةِ فَاسْعَوْا اِلٰى ذِكْرِ اللّٰهِ وَذَرُوا الْبَيْعَ ۗ ذٰلِكُمْ خَيْرٌ لَّكُمْ اِنْ كُنْتُمْ تَعْلَمُوْنَ ۝٩

၉။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်း တို့ (ဂျုမုအဟ်)သောကြာနေ့တွင် 'ဆွလာတ်' ဝတ်ပြု အံ့သောငှာ 'အဇာန်' ပေးသောအခါ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အားတ,သ သတိရရှိရာသို့ အဆော တလျင်သွားကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် ရောင်းဝယ်မှုကို စွန့်လွှတ်ကြလေကုန်။ အသင်တို့ သိရှိ ကြသည်ဖြစ်မူ အသင်တို့အဖို့ အကောင်းဆုံးပင်။ [၁]

---

(၁) **'ဂျုမုအဟ်' ဆွလာတ်ဝတ်ပြုမှု ဂရုပြု။**

မွတ်စ်လင်မ်များသည် 'ဂျုမုအဟ်' သောကြာနေ့ ဆွလာတ်ဝတ်ပြုမှုကို အထူးဂရုပြုကြရမည်။ ဂျုမုအဟ် ဆွလာတ်ဝတ်ပြုရန် သက်ဆိုင်ရာ 'မုအတ်ဇ္ဇင်န်' 'အဇာန်'ဆိုသူက 'အဇာန်' ဆိုလိုက်သည့်အခါ ရောင်းဝယ်ဖောက်ကားမှုစသည့် လောကီရေးရာအားလုံးကို စွန့်လွှတ်ကာ အလ္လာဟ်အရှင်မြတ်၏ တရားဓမ္မတော်ကို နာသောတဆင်ရန်၊ သောကြာ ဆွလာတ်ဝတ်ပြုရန်အတွက် သက်ဆိုင်ရာ 'ဂျာမိအ်' ဗလီကြီးများသို့ အချိန်မီ ➤➤

➤➤ သွားကြရပေမည်။ အချိန်မီသွားရောက်ပြီးလျှင် တရားဓမ္မတော်ကို ကောင်းမွန်စွာ နားထောင်ကြရမည်၊ ဆွလာတ် ဝတ်ပြုကြရမည်။

ဤအာယတ်တော်တွင် ပါရှိသည့် 'ဇစ်က်ရုလ္လာဟ်' 'အလ္လာဟ်အရှင်မြတ်အား အောက်မေ့ တသသတိရမှု' ဟူသောစကားသည် သောကြာဆွလာတ်အလျင် သက်ဆိုင်ရာ 'အေမာမ်'ရှေ့ကဖတ်ကြားသော တရားဓမ္မတော်ကိုဆိုလိုသည်။ ဤတွင် သောကြာဆွလာတ်ဝတ်ပြုမှုလည်း အကျုံးဝင်ပေသည်။ကြည့်-အွတ်ဆ်မာနီ။

ဤအာယတ်တော်အရ သောကြာနေ့တွင် သောကြာဆွလာတ်ဝတ်ပြုရန် အဇာန်ဆိုလိုက်သည့်အချိန်မှ သောကြာဆွလာတ်ပြီးဆုံးသည့် အချိန်အထိ ရောင်းဝယ်ဖောက်ကားမှုအစုစုသည် 'ဟရာမ်' ဖြစ်သည်။ လုံးဝမပြုရ။

**<u>မှတ်ချက်။</u>**

ဤအာယတ်တော်တွင် ပါရှိသော 'အဇာန်'ဟူသည် သောကြာနေ့တွင် သောကြာဆွလာတ် ဝတ်မပြုမီ အလျင်သက်ဆိုင်ရာ (အေမာမ်)ရှေ့ဆောင်၏ရှေ့၌ဆိုသော 'အဇာန်'ကို ဆိုလိုသည်။

တမန်တော်မြတ်လက်ထက် သမ္မတကြီး အဗူဗတ်က်ရ်နှင့်သမ္မတကြီးအုမရ်တို့လက်ထက်တွင် အဆိုပါ 'အဇာန်'ပင်ရှိခဲ့၏။ သမ္မတကြီး အုဆ်မာန်၏လက်ထက်တွင်မူ မွတ်စ်လင်မ်ဦးရေ အလွန် များပြားလာသည့်အခါ (ဆွဟာဗဟ်)သာဝကကြီးများအားလုံးတို့၏ 'အိဂျ်မာအ်' အများသဘောတူ ဆုံးဖြတ်ချက်အရ၊အထက်တွင် ဖော်ပြပါ 'အဇာန်' အလျင် နောက်ထပ် 'အဇာန်'တစ်ခု တိုးလာခဲ့ပေသည်။

ဤသို့အားဖြင့် သောကြာဆွလာတ် ဝတ်ပြုရာတွင် 'အဇာန်' နှစ်ကြိမ် ဆိုရသည်။ သောကြာနေ့ ရောင်းဝယ်ဖောက်ကားမှု 'ဟရာမ်' ဖြစ်ရာတွင် ပထမ 'အဇာန်'နှင့် ဒုတိယ'အဇာန်'သည် အတူတူ ပင်ဖြစ်ပေသည်။ (ဝါ) သောကြာနေ့တွင် နောက်တိုး အဇာန်၊ တစ်နည်း ပထမအဇာန် ဆုံးသည့်အချိန်မှစ၍ ရောင်းဝယ်မှုသည် ဟရာမ်ဖြစ်သွားပေသည်။

**<u>မှတ်ချက်။</u>**

သောကြာနေ့ သောကြာဆွလာတ် ဝတ်မပြုမီ သက်ဆိုင်ရာ အေမာမ်က ဖတ်ကြားသော (ခွတ္တဗဟ်) ခေါ် တရားဓမ္မတော်ကို ဆိတ်ငြိမ်စွာ နားထောင်ခြင်းသည် အရေးကြီးလှပေသည်။

တမန်တော်မြတ်က 'အကြင်သူသည် သောကြာနေ့ (ခွတ္တဗဟ်) တရားဓမ္မ ဟောကြားနေသည့် အချိန်တွင် စကားပြောကြားအံ့၊ ထိုသူသည် ကျောက်ကုန်းပေါ်၌ ကျမ်းဂန်များ တင်ဆောင်ထားသော မြည်းသတ္တဝါနှင့်တူအံ့' ဟူ၍ပင် မိန့်ကြားတော်မူခဲ့ပေသည်။

'ဂျုမုအဟ်' နေ့ကို 'ဂျုမုအဟ်'နေ့ဟု အဘယ်ကြောင့်ခေါ်သည်၊ 'ဂျုမုအဟ်'နေ့သည် မည်သို့မည်ပုံ ထူးခြားသည်၊ မည်ရွေ့မည်မျှ မြင့်မြတ်သည်၊ 'ဂျုမုအဟ် ဆွလာတ်သည် မည်သူတို့အပေါ်၌ တာဝန်ရှိသည်၊ ဂျုမုအဟ်ဆွလာတ်အတွက် မည်သို့မည်ပုံ ကြိုတင်စီစဉ်ရသည်၊ မည်သို့မည်ပုံ ဝတ်ကောင်းစားကောင်း ဝတ်ဆင်ရသည်၊ မည်သို့မည်ပုံ အမွှေးအကြိုင် လိမ်းရသည်၊ ဂျုမုအဟ်နေ့တွင် ဆုတောင်းပြည့် အချိန်တစ်ချိန်ရှိသည်၊

ဂျုမုအဟ်ဆွလာတ်ကို တစ်နေရာတွင် စုပေါင်း၍ ပြုခြင်းအားဖြင့် မည်သို့မည်ပုံ လောကီလောကုတ္တရာ ဆိုင်ရာ အကျိုးရှိသည်များကား စိတ်ဝင်စားဖွယ် ကောင်းလှပေသည်။ သုတေသီများ လေ့လာဆည်းပူးလိုပါက အိဗ်နုကဆီရ် ကျမ်းအစောင် (၄)၊ စာမျက်နှာ (၃၆၅-၃၆၇) တွင် ရှုပါကုန်။

فَإِذَا قُضِيَتِ الصَّلَوٰةُ فَانتَشِرُوا فِي الْأَرْضِ وَابْتَغُوا مِن فَضْلِ اللَّهِ وَاذْكُرُوا اللَّهَ كَثِيرًا لَّعَلَّكُمْ تُفْلِحُونَ ⑩

၁၀။ ထို့နောက် 'ဆွလာတ်' ဝတ်ပြုမှု ပြီးဆုံးခဲ့သောအခါ အသင်တို့သည် ပထဝီမြေဝယ် အနှံ့အပြား သွားလာကြလျက် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်တည်းဟူသော ရိဇ္ဇကို ဖွေရှာဆည်းပူးကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား များစွာ တ,သ သတိရလျက် ရှိကြလေကုန်။ *သို့မှသာလျှင် အသင်တို့သည် အောင်မြင်ကြကုန်အံ့သတည်း။* [1]

وَإِذَا رَأَوْا تِجَارَةً أَوْ لَهْوًا انفَضُّوا إِلَيْهَا وَتَرَكُوكَ قَائِمًا ۚ قُلْ مَا عِندَ اللَّهِ خَيْرٌ مِّنَ اللَّهْوِ وَمِنَ التِّجَارَةِ ۚ وَاللَّهُ خَيْرُ الرَّازِقِينَ ⑪

၁၁။ စင်စစ်သော်ကား ထိုသူတို့သည် အရောင်းအဝယ်၊ ရောင်းကုန်ဝယ်ကုန်ကိုသော်လည်းကောင်း၊ ပျော်ပွဲရွှင်ပွဲကိုသော်လည်းကောင်း၊ တွေ့မြင်ခဲ့ကြလေသောအခါ အသင့်အား မတ်တတ်ရပ်လျက် ထားခဲ့ပြီးလျှင် ယင်းရောင်းကုန်ဝယ်ကုန် သို့မဟုတ် ပျော်ပွဲရွှင်ပွဲရှိရာသို့ ကစဉ့်ကလျားပြေး၍ သွားခဲ့ကြကုန်၏။ (အိုး-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) အလ္လာဟ်အရှင်မြတ်အထံတော်၌ရှိသောအရာသည် ရောင်းကုန်ဝယ်ကုန်ထက်လည်းကောင်း၊ ပျော်ပွဲရွှင်ပွဲထက်လည်းကောင်း၊ မွန်မြတ်လှပေသည်။ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်သည် ရိဇ္ဇချီးမြှင့်တော်မူသော *အကောင်းဆုံးသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။* [2]

---

(၁) 'ဂျုမုအဟ်' သောကြာ ဆွလာတ် ဝတ်ပြုပြီးဆုံးသည့်အခါ မွတ်စ်လင်မ်များသည် ကမ္ဘာမြေအနှံ့အပြားသို့ သွားလာ၍ အလ္လာဟ်အရှင်မြတ်၏ ရိဇ္ဇတော်ကို ရှာဖွေဆည်းပူးနိုင်ကြပေသည်။ သို့ရှာဖွေဆည်းပူးရာတွင်လည်း အလ္လာဟ်အရှင်မြတ်အား မမေ့ကြရာ၊ ထိုအရှင်မြတ်အား များစွာ အောက်မေ့တသ သတိရကြရပေမည်။

မွတ်စ်လင်မ်များသည် ယင်းသို့ သာသနာ့တာဝန်များကိုလည်း ကျေပွန်ကြမည်၊ ရောင်းဝယ်ဖောက်ကားမှု စသည့် လောကီရေးရာများကို ဆောင်ရွက်ရာတွင်လည်း အလ္လာဟ်အရှင်မြတ်အား များစွာတသ သတိရကြမည်ဆိုပါက 'လက်ဝါးမြေခတ်မလွဲ' အောင်မြင်ကြမည်သာတည်း။

'သောကြာနေ့ ဂျုမုအဟ်ဆွလာတ်၏ နောက်တွင် ရောင်းဝယ်ဖောက်ကားမှုပြုသူ၏ ရောင်းဝယ် ➤➤

---

➤➤ ဖောက်ကားမှုတွင် အလ္လာဟ်အရှင်မြတ်သည် အဆပေါင်း(၇၀) တိုးပွားစေတော်မူကြောင်း အတိတ်ခေတ်အချို့ အာလင်မ်ပညာရှင် သူတော်စင်များထံမှ ကြားသိရပေသည်။ ကြည့်-အိဗ်နုကဆီရ်။ အ-၄။ စ-၃၆၇။

(၂) တစ်ကြိမ်သော် တမန်တော်မြတ်သည် သောကြာနေ့တွင် သောကြာ 'ခွတ္တဗဟ်' တရားဓမ္မ ဟောကြားနေတော်မူခဲ့၏။ ထိုအချိန်တွင်ပင် ကုန်သည်များသည် အပြင်မှစားကုန်၊ သောက်ကုန်များ ယူဆောင်၍ ရောက်ရှိလာခဲ့ကြ၏။ ကြေညာသည့်သဘောဖြင့် ဗုံပတ်များလည်း တီးလိုက်ကြ၏။ မြို့တွင်း၌ ယခင်ကတည်းကပင် စားနပ်ရိက္ခာ ခေါင်းပါးနေခဲ့၏။

ထိုအခါ အချို့ပုဂ္ဂိုလ်များသည် စားနပ်ရိက္ခာဝယ်ယူနိုင်ရန်အတွက် အဆိုပါ ကုန်သည်များထံသို့ အပြေးအလွှား ထွက်ခွာသွားခဲ့ကြ၏။ (ယင်းသို့ထွက်ခွာသွားခဲ့သော ပုဂ္ဂိုလ်များသည် သောကြာနေ့ 'ခွတ္တဗဟ်' မှာလည်း အခြားတရားဓမ္မမျိုးပင်ဖြစ်သည်။ ယင်းသို့သော တရားဓမ္မကမှုပင် အရေးအကြောင်းရှိက ထသွားနိုင်ပေသည်။ သို့ဖြစ်ရာ ငါတို့သည် သောကြာဆွလာတ်ဝတ်ပြုမှုကို အချိန်မီ ပြန်လာပြီး ပြုကြမည်ဟု တွေးထင်ခဲ့ကြဟန်တူ၏။ သို့မဟုတ် ထိုအချိန်တွင် သောကြာဆွလာတ်သည် ပြီးဆုံးနေပြီးဖြစ်ပေမည်။

အချို့အဆိုအရ ထိုအချိန်တွင် သောကြာဆွလာတ်ကို သောကြာခွတ္တဗဟ်အလျင် ပြုလေ့ရှိခဲ့ကြ၏။ အသို့ပင်ရှိစေ တမန်တော်မြတ် ခွတ္တဗဟ် ဖတ်ကြားနေတော်မူစဉ် ကုန်သည်များထံသို့ ထသွားခဲ့ကြသော ပုဂ္ဂိုလ်များသည် သောကြာခွတ္တဗဟ် အဘယ်မျှအရေးကြီးသည်ကိုကား ကောင်းစွာမသိခဲ့ကြပေ။ တမန်တော်မြတ်ထံတော်ပါး၌ ပုဂ္ဂိုလ် (၁၂) ဦးသာလျှင် ကျန်ရစ်ခဲ့ကြ၏။ ယင်း (၁၂) ဦးတွင် (ခလီဖဟ်) သမ္မတကြီး (၄) ပါးလည်း အပါအဝင်ဖြစ်၏။ ထိုအခါ ဤအာယတ်တော် ကျရောက်လာခဲ့ပေသည်။

ဆိုလိုသည်ကား လောကီရေးရာ ရောင်းဝယ်ဖောက်ကားမှုနှင့် ပျော်ပွဲရွှင်ပွဲများသည် အလ္လာဟ်အရှင်မြတ်ထံတော်၌ရှိသော ထာဝရအမတ သုခများနှင့်စာလျှင် အသို့မျှ အဖိုးမတန်ပေ၊ မွတ်စ်လင်မ်များသည် ယင်းသည့် အမတသုခချမ်းသာကိုသာ ဆည်းပေးကြရာသည်။

ယင်းသည့်အမတသုခများကို ခံစားလိုကြပါက တမန်တော်မြတ် ဖတ်ကြားတော်မူသည့် ခွတ္တဗဟ်တရားဓမ္မတော်များကို ကြားနာကြပေမည်၊ တမန်တော်မြတ်ထံ ချဉ်းကပ်ကြရပေမည်။ အလ္လာဟ်အရှင်မြတ်အား ဝတ်ပြုရန်၊ အောက်မေ့တသ သတိရရန် ပြုလုပ်သည့် အစုအဝေးများ၊ တရားသဘင်များတွင် စိတ်ရောကိုယ်ပါ ပါဝင်ကြရပေမည်။

ရိက္ခာသည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌ရှိသည်။ ထိုအရှင်မြတ်သည် ရိက္ခာအကောင်းဆုံး ပေးတော်မူသော အရှင်ဖြစ်တော်မူသည်။ သို့ဖြစ်ရာ ထိုအရှင်မြတ်၏ ကျွန်များသည် စားနပ်ရိက္ခာနှင့်စပ်လျဉ်း၍ မပူပန်ကြရာ၊ မစိုးရိမ်ကြရာ။

ယင်းသို့ သတိပေးတော်မူခြင်း ခံကြရပြီးနောက်ပိုင်းတွင် (ဆွဟာဗဟ်) သာဝကကြီးများသည် အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရမှုမှ တွေဝေတိမ်းပါးစေသည့် လောကီရေးကိစ္စ အဝဝကို အံ့ဖွယ်သရဲ ရှောင်ကြဉ်လာနိုင်ခဲ့ကြပေသည်။ သာသနာရေးရာ တာဝန်များကိုလည်း ကျေပွန်စွာ ဆောင်ရွက်နိုင်ခဲ့ကြပေသည်။ ဤသည့်အကြောင်းကို ကုရ်အာန် (၂၄း၃၇) တွင် ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။

# မွတ်စ်လင်မ်အယောင်ဆောင်များကဏ္ဍ




ဤကဏ္ဍသည် 'မုနာဖိကူန်' မုစ်လင်မ်အယောင်ဆောင်များ ကဏ္ဍမည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၁၁)ပါးနှင့် ရကူအ်အပိုဒ် (၂)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

إِذَا جَآءَكَ الْمُنٰفِقُوْنَ قَالُوْا نَشْهَدُ إِنَّكَ لَرَسُوْلُ اللّٰهِ ۘ وَاللّٰهُ يَعْلَمُ إِنَّكَ لَرَسُوْلُهٗ ۗ وَاللّٰهُ يَشْهَدُ إِنَّ الْمُنٰفِقِيْنَ لَكٰذِبُوْنَ ۚ ①

၁။ 'မုနာဖစ်က်' အယောင်ဆောင် မုစ်လင်မ်တို့သည် အသင့်ထံလာခဲ့ကြသောအခါ 'မုချကေန် အသင်သည် အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော် ဖြစ်ကြောင်း ကျွန်တော်များ သက်သေခံကြပါသည်' ဟု ပြောဆိုကြကုန်၏။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင် ထိုအရှင်မြတ်၏ ရစူလ်တမန်ဖြစ်ကြောင်း ကောင်းစွာ သိရှိတော်မူ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်သည် ကေန်မလွဲ 'မုနာဖစ်က်' အယောင်ဆောင်မုစ်လင်မ်တို့မှာ မုသာဝါဒီများ ဖြစ်ကြောင်း သက်သေခံတော်မူ၏။

اِتَّخَذُوْٓا أَيْمَانَهُمْ جُنَّةً فَصَدُّوْا عَنْ سَبِيْلِ اللّٰهِ ۗ إِنَّهُمْ سَآءَ مَا كَانُوْا يَعْمَلُوْنَ ②

၂။ ၎င်းတို့သည်ကား မိမိတို့၏ကျိန်ဆိုချက်များကို အကာအကွယ်ပြုလုပ်ပြီးလျှင် (သူတစ်ပါးတို့အား) အလ္လာဟ်အရှင်မြတ်၏လမ်းတော်မှ တားဆီးပိတ်ပင်ခဲ့ကြလေ၏။ ကေန်စင်စစ် ၎င်းတို့၏ပြုမူချက်များမှာ လွန်စွာ ဆိုးရွားလှ၏။ [၁]

---

(၁) **အစ္စလာမ့်အရေခြုံများ။**

မုနာဖစ်က်များသည် အကယ် မွတ်စ်လင်မ်မဟုတ်၊ အခြေအနေအရ မိမိတို့၌ တစ်စုံတစ်ရာ ဘေးမသက်ရန် အစ္စလာမ့်အရေခြုံထားသော မွတ်စ်လင်မ် အယောင်ဆောင် ကာဖိရ်များသာလျှင် ဖြစ်ခဲ့ကြ၏။ တမန်တော်မြတ်ထံ ရောက်ရှိလာကြသည့်အခါ 'ကေန်မုချ အသင်သည် အလ္လာဟ်အရှင်မြတ်၏ ➤➤

ذٰلِكَ بِأَنَّهُمْ اٰمَنُوْا ثُمَّ كَفَرُوْا فَطُبِعَ عَلٰى قُلُوْبِهِمْ فَهُمْ لَا يَفْقَهُوْنَ ﴿٣﴾

၃။ ထိုသို့ဖြစ်ရခြင်းမှာ ၎င်းတို့သည် သက်ဝင်ယုံကြည်ခဲ့ကြပြီးနောက် သွေဖည်ငြင်းပယ်ခဲ့ကြသောကြောင့်ပင်။ သို့ဖြစ်ပေရာ ၎င်းတို့သည် နားလည်ကြသည် မဟုတ်ပြီ။

وَاِذَا رَاَيْتَهُمْ تُعْجِبُكَ اَجْسَامُهُمْ ؕ وَاِنْ يَّقُوْلُوْا تَسْمَعْ لِقَوْلِهِمْ ؕ كَاَنَّهُمْ خُشُبٌ مُّسَنَّدَةٌ ؕ يَحْسَبُوْنَ كُلَّ صَيْحَةٍ عَلَيْهِمْ ؕ هُمُ الْعَدُوُّ فَاحْذَرْهُمْ ؕ قٰتَلَهُمُ اللّٰهُ ۚ اَنّٰى يُؤْفَكُوْنَ ﴿٤﴾

၄။ ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား တွေ့မြင်သောအခါ ၎င်းတို့၏ လုံးရပ်သဏ္ဌာန်များသည် အသင်၏အမြင်၌ လှပစွာ မြင်ရပေမည်။ ထိုနည်းတူစွာ အကယ်၍ ၎င်းတို့သည် စကားစမည် ပြောဆိုကြလျှင် အသင်သည် ၎င်းတို့၏စကားကို (စိတ်ဝင်စားစွာ) နားထောင်ပေမည်။

၎င်းတို့မှာ မှီ၍ထားသော သစ်တုံးများကဲ့သို့ပင် ဖြစ်ကြကုန်၏။ ဟစ်အော်သံ(ကြားရ)တိုင်း မိမိတို့နှင့်ဆန့်ကျင်၍ (ဟစ်အော်သည်ဟု) ထင်မှတ်ကြ၏။ ၎င်းတို့သည်ပင် ရန်သူများ ဖြစ်ကြ၏။ သို့ဖြစ်ရာ အသင်သည် ၎င်းတို့နှင့် ကင်းရှင်းစွာ နေပါလေ။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ဖျက်ဆီးတော်မူပါစေ။ ၎င်းတို့သည် အဘယ်သို့ ပြန်လှည့်၍ ထွက်သွားကြသနည်း။

---

➤➤ တမန်တော်ဖြစ်ပါသည်' ဟု စိတ်တွင်းမပါ၊ နှုတ်ဖြင့်သာ လိမ်လည်ပြောဆိုခဲ့ကြ၏။ ၎င်းတို့၏လိမ်လည်မှု တစ်ခုခု ပေါ်ပေါက်လာသည့်အခါ မျက်စိမှိတ်၍ ကျိန်ဆိုလေ့ရှိခဲ့ကြ၏။ မိမိတို့၏ လိမ်လည်မှုများကို ကာကွယ်ရန် ကျိန်ဆိုမှုကို ဒိုင်းကြီးတစ်ခု ပြုလုပ်ထားခဲ့ကြ၏။

၎င်းတို့သည် အစ္စလာမ့်အရေခြုံကာ အစ္စလာမ်ကို မိမိတို့ကိုယ်တိုင် မနာယူခဲ့ကြသည်သာမက သူတစ်ပါးတို့အားလည်း အစ္စလာမ်ကို နာယူခြင်းမှ အမျိုးမျိုးတားဆီးပိတ်ပင်နေခဲ့ကြ၏။ တမန်တော်မြတ်နှင့် ပတ်သက်၍လည်း 'နားချဉ် နားခါး၊ စကားချော်ပျက်၊ နှုတ်သွမ်းသက်နှင့်၊ ပြက်ရိပြက်ရယ်၊ ဆိုပျက်ပြယ်လျက်၊ ချုပ်ချယ်စော်ကား' နေခဲ့ကြ၏။ အမှန်မှာ မုနာဖစ်က်များသည် အစ္စလာမ့်အရေခြုံကာ 'အရိပ်ခိုခို အခက်ချိုးချိုး' ဆိုသကဲ့သို့ အစ္စလာမ်ကို နည်းပရိယာယ် အမျိုးမျိုးတို့ဖြင့် အနှောင့်အယှက်ပေးခဲ့ကြသော မွတ်စ်လင်မ်တို့အား ပူးသတ်ခဲ့ကြသော အစ္စလာမ့် အရေခြုံ သူပုန်များပင်ဖြစ်ခဲ့ကြ၏။

မုနာဖစ်က်များအကြောင်း အကြိမ်ကြိမ်ပါရှိခဲ့ချေပြီ။ ကြည့်-ကုရ်အာန်(၂း၈-၂၀)။(၂း၂၀၄)။

وَإِذَا قِيلَ لَهُمْ تَعَالَوْا يَسْتَغْفِرْ لَكُمْ رَسُولُ اللَّهِ لَوَّوْا رُءُوسَهُمْ وَرَأَيْتَهُمْ يَصُدُّونَ وَهُم مُّسْتَكْبِرُونَ ⑤

၅။ ၎င်းပြင် ထိုသူတို့အား 'အသင်တို့သည် လာကြလေကုန်၊ အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်မြတ်သည် အသင်တို့အဖို့ လွတ်ငြိမ်းခွင့်ကို ပန်ကြား၍ပေးမည်'ဟု ပြောဆိုသောအခါ ၎င်းတို့သည် မိမိတို့၏ဦးခေါင်းများကို လှုပ်ခါကြကုန်၏။ ထို့ပြင် (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား မာန်မာန ထောင်လွှားကြလျက် ပြန်လှည့်၍ သွားကြသည်ကို တွေ့မြင်ရပေမည်။ [၁]

سَوَاءٌ عَلَيْهِمْ أَسْتَغْفَرْتَ لَهُمْ أَمْ لَمْ تَسْتَغْفِرْ لَهُمْ لَن يَغْفِرَ اللَّهُ لَهُمْ ۚ إِنَّ اللَّهَ لَا يَهْدِي الْقَوْمَ الْفَاسِقِينَ ⑥

၆။ အသင်သည် ၎င်းတို့အဖို့ လွတ်ငြိမ်းခွင့်ကို ပန်ကြားသည်ဖြစ်စေ၊ ၎င်းတို့အဖို့ လွတ်ငြိမ်းခွင့်ကို ပန်ကြားခြင်းမပြုသည်ဖြစ်စေ၊ ၎င်းတို့အဖို့ အကြောင်းမထူးပြီ။ စင်စစ်အမှန် အလ္လာဟ်အရှင်မြတ်သည် *အမိန့်တော်ကို သွေဖည်သောသူတို့အား တရားလမ်းမှန်သို့ ပို့ပေးတော်မူသည် မဟုတ်ပေ။* [၂]

---

(၁) တစ်ခါတစ်ရံ မုနာဖစ်က်များ၏ ယုတ်မာမှု၊ သစ္စာဖောက်မှု တစ်ခုခုသည် ပေါ်လွင်သွားခဲ့၏။ လူသိရှင်ကြား ဖြစ်သွားခဲ့၏။ လူများက ၎င်းတို့အား (ယခုလည်းအချိန်ရှိသည်)၊ အသင်တို့သည် တမန်တော်မြတ်ထံသွားရောက်၍ မိမိတို့၏အမှားကို ဝန်ခံကြလျှင် တမန်တော်မြတ်သည် အသင်တို့အဖို့ လွတ်ငြိမ်းခွင့် ပန်ကြားပေးတော်မူလိမ့်မည်။ တမန်တော်မြတ်က လွတ်ငြိမ်းခွင့် ပန်ကြားပေးတော်မူလျှင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား ချမ်းသာခွင့် ပေးတော်မူလိမ့်မည်'ဟု စေတနာကောင်းဖြင့် ပြောခဲ့ကြ၏။ ထိုအခါ မုနာဖစ်က်များသည် မောက်မာပလွှားစွာဖြင့် ဦးခေါင်းခါ၍ ပြခဲ့ကြ၏။ အချို့မုနာဖစ်က်များကမူ 'ငါတို့သည် တမန်တော်မြတ်၏ လွတ်ငြိမ်းခွင့်ပန်ကြားပေးမှုကို အလိုမရှိ'ဟူ၍ပင် မိုက်မဲစွာ ပြောဆိုခဲ့ကြလေသည်။

(၂) တမန်တော်မြတ်သည် ကမ္ဘာ့အဝန်းအား ကရုဏာပွားရန်အလို့ငှာ ပွင့်လာတော်မူခဲ့သော တမန်တော်ဖြစ်တော်မူသည်။ ရန်သူမိတ်ဆွေမခြား အားလုံးတို့အား သနားကြင်နာတော်မူလေ့ရှိသည်။

ထို့အတွက်ကြောင့် တမန်တော်မြတ်သည် ယင်းသို့သော မုနာဖစ်က်များအတွက်လည်း လွတ်ငြိမ်းခွင့် ပန်ကြားပေးတော်မူနိုင်ပေသည်။ သို့တစေလည်း အလ္လာဟ်အရှင်မြတ်သည် ထိုရွေ့ထိုမျှကမ်းကုန်အောင် သွေဖည်ဆိုးမိုက်နေသော မုနာဖစ်က်များကိုမူ မုနာဖစ်က်ဖြစ်နေသမျှ ကာလပတ်လုံး ရိုးသားစွာ (အီမာန်) မယုံကြည်ကြသမျှ ကာလပတ်လုံး ဘယ်သောအခါ၌မျှ ချမ်းသာခွင့် ပေးတော်မူမည်မဟုတ်ပေ။

တမန်တော်မြတ်သည် ၎င်းတို့အဖို့ လွတ်ငြိမ်းခွင့် ပန်ကြားသည်ပင်ဖြစ်စေ၊ မပန်ကြားသည်ပင်ဖြစ်စေ ၎င်းတို့အဖို့မှာကား မထူးပြီ။ ဤကား ကမ်းကုန်အောင် သွေဖည်မှု၏ အကျိုးပင်၊ 'မည်သူ မပြုမိမိမှု'ဆိုသကဲ့သို့ ကိုယ့်ပြစ်ဒဏ် ကိုယ်ခံရမည်ပင်။ ဤသည့်သဘောကိုကုရ်အာန်(၉း၈၀)တွင်လည်း မိန့်ဆိုထားတော်မူသည်။

هُمُ الَّذِيْنَ يَقُوْلُوْنَ لَا تُنْفِقُوْا عَلٰى مَنْ عِنْدَ رَسُوْلِ اللّٰهِ حَتّٰى يَنْفَضُّوْا ۗ وَلِلّٰهِ خَزَآئِنُ السَّمٰوٰتِ وَالْاَرْضِ وَلٰكِنَّ الْمُنٰفِقِيْنَ لَا يَفْقَهُوْنَ ۝٧

၇။ ၎င်းတို့ကပင် 'အသင်တို့သည် ရစူလ်တမန်တော်မြတ်၏ထံတော်ပါး၌ရှိနေကြသော သူတို့အပေါ်၌ ၎င်းတို့ ကစဉ့်ကလျား ဖြစ်သွားကြသည်အထိ သုံးစွဲခြင်းကို မပြုကြကုန်လင့်' ဟူ၍ ပြောဆိုခဲ့ကြကုန်၏။ စင်စစ်သော်ကား မိုးကောင်းကင်များ၌ ရှိကုန်သော ဘဏ္ဍာတော်များသည်လည်းကောင်း၊ ပထဝီမြေ၌ ရှိကုန်သော ဘဏ္ဍာတော်များသည်လည်းကောင်း၊ အရှင်မြတ်ပိုင်ဆိုင်တော်မူသော ဘဏ္ဍာတော်များသာ ဖြစ်ကုန်၏။ သို့ရာတွင် 'မုနာဖစ်က်' အယောင်ဆောင်မုစ်လင်မ်တို့သည် နားလည်ကြသည် မဟုတ်ပေ။ [၁]

يَقُوْلُوْنَ لَئِنْ رَّجَعْنَآ اِلَى الْمَدِيْنَةِ لَيُخْرِجَنَّ الْاَعَزُّ مِنْهَا الْاَذَلَّ ۗ وَلِلّٰهِ الْعِزَّةُ وَلِرَسُوْلِهٖ وَلِلْمُؤْمِنِيْنَ وَلٰكِنَّ الْمُنٰفِقِيْنَ لَا يَعْلَمُوْنَ ۝٨

၈။ ၎င်းတို့ကပင် (ယခုသော်) ကျွန်ုပ်တို့သည် 'မဒီနာ'မြို့သို့ ပြန်၍သွားခဲ့ကြလျှင် ဂုဏ်အသရေ အားအင်ရှိသူတို့သည် ဂုဏ်အသရေ အားအင်မဲ့သော သူတို့အား ထိုမြို့မှ ဧကန်မလွဲ နှင်ထုတ်ကြပေမည်' ဟူ၍(လည်း) ပြောဆိုကြကုန်၏။ စင်စစ်မှာမူကား ဂုဏ်အသရေ အားအင်ဟူသည် အလ္လာဟ်အရှင်မြတ်၌သာလည်းကောင်း၊ ထိုအရှင်မြတ်၏ရစူလ်တမန်တော်မြတ်၌သာလည်းကောင်း၊ 'မုအ်မင်န်' သက်ဝင် ယုံကြည်သူတို့၌သာလည်းကောင်း၊ ရှိပေသည်။ သို့တစေလည်း 'မုအ်မင်န်' အယောင်ဆောင်တို့မှာမူကား သိရှိကြသည် မဟုတ်ပေ။

---

(၁) အမှန်မှာ ဤမိုးဤမြေနှင့်တကွ စကြာဝဠာအဝန်းရှိ ဘဏ္ဍာတော်အားလုံးကို အလ္လာဟ်အရှင်မြတ်သာလျှင် ပိုင်ဆိုင်တော်မူသည်။ 'မုဟာဂျိရ်'များသည် အလ္လာဟ်အရှင်မြတ်၏ လမ်းတော်တွင် မိမိတို့ ဇာတိချက်မြှုပ်မြို့ရွာများကိုစွန့်၍ ထိုအရှင်မြတ်၏ ကျေနပ်နှစ်သက်မှုကို ဆည်းပူးရန် ထွက်လာခဲ့ကြသော အလ္လာဟ်ချစ်၊ တမန်တော်ချစ်၊ သာသနာချစ်ပုဂ္ဂိုလ်များပင် ဖြစ်ကြသည်။ စားဝတ်နေရေးတွင် ဒုက္ခအမျိုးမျိုးကို အပြုံးနှင့် ရဲရဲရင်ဆိုင်ကာ တမန်တော်မြတ်ထံတွင် ချဉ်းကပ်၍ သာသနာရေးရာများကို လက်တွေ့ဆည်းပူးလျက်ရှိကြသည်။ ယင်းသို့သော ပုဂ္ဂိုလ်များအား သဂြိုဟ်ထောက်ပံ့ခွင့် ရရှိခြင်းသည်ပင် မင်္ဂလာတစ်ပါးပင်၊ မြင့်မြတ်လှသော ကုသိုလ်တစ်ရပ်ပင်။

➤➤

يَاأَيُّهَا الَّذِينَ آمَنُوا لَا تُلْهِكُمْ أَمْوَالُكُمْ وَلَا أَوْلَادُكُمْ عَنْ ذِكْرِ اللَّهِ ۚ وَمَنْ يَفْعَلْ ذَٰلِكَ فَأُولَٰئِكَ هُمُ الْخَاسِرُونَ ﴿٩﴾

**၉။** အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့ကို အလ္လာဟ်အရှင်မြတ်အား တ,သ သတိရခြင်းမှ အသင်တို့၏ ပစ္စည်းဥစ္စာများသည်လည်း လျစ်လျူရှု ပေ့ါတန်စေခြင်း မရှိစေရ။ အသင်တို့ သားသမီးများသည်လည်း လျစ်လျူရှု ပေ့ါတန်စေသည် မရှိစေရ။ စင်စစ်သော်ကား မည်သူမဆို ထိုသည်ကို ပြုမူသည်ရှိသော် ထိုကဲ့သို့ သူတို့သည်သာလျှင် ဆုံးရှုံးသူများ ဖြစ်ကုန်၏။ [၁]

وَأَنْفِقُوا مِنْ مَا رَزَقْنَاكُمْ مِنْ قَبْلِ أَنْ يَأْتِيَ أَحَدَكُمُ الْمَوْتُ فَيَقُولَ رَبِّ لَوْلَا أَخَّرْتَنِي

**၁၀။** ထိုမှတစ်ပါး အသင်တို့အနက် တစ်ဦးတစ်ယောက်၏ထံသို့ 'မရဏ' သေခြင်းတရား ဆိုက်ရောက်မလာမီပင် အသင်တို့သည် မိမိတို့အား ငါအရှင်မြတ်ချီးမြှင့် ပေးသနားတော်မူခဲ့သည်များအနက်မှ သုံးစွဲ(လှူဒါန်း)ကြလေကုန်။

---

➤➤ ယခုသော် မုနာဖစ်က်များက ယင်းသို့သော ပုဂ္ဂိုလ်မွန်များအား မကူညီမထောက်ပံ့ရန် သက်ဆိုင်ရာတို့ကို ညွှန်ကြားလျက်ရှိကြပေသည်။ ဤသည်ထက် ဆိုးရွားသော စေတနာ၊ ဤသည်ထက် ပုပ်သောနှလုံးသားကား အဘယ်မှာလျှင် ရှိနိုင်တော့အံ့နည်း။ အကယ်၍ မုနာဖစ်က်များနှင့် ၎င်းတို့၏ဘက်တော်များက မုဟာဂျိရ်များအား နေရာထိုင်ခင်းမပေးကြလျှင်၊ မကူညီကြလျှင်၊ ကမ္ဘာဘဏ္ဍာတော်အားလုံးကို စိုးပိုင်တော်မူသော အလ္လာဟ်အရှင်မြတ်က မိမိ၏အချစ်တော်များအား လျစ်လျူပြုထားတော်မူမည်လော၊ ပို၍ပင် ချီးမြှောက်တော်မူမည် မဟုတ်ပါလော။ သိထားအပ်သည်မှာ ယခု ထိုထိုသောမုဟာဂျိရ်များအား နည်းများမဆို ကူညီထောက်ပံ့ခွင့်ရှိနေခြင်းသည်ပင်လျှင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကြောင့်ပင်။ ထိုအရှင်မြတ်အလိုတော် မရှိပါက ထိုအရှင်မြတ်၏လမ်းတော်တွင် အသူမှု ပိုက်ဆံတစ်ပြားကိုပင် သုံးစွဲလှူဒါန်းနိုင်ကြမည် မဟုတ်ပေ။ မုနာဖစ်က်များသည် ဤသည်ကိုပင် နားမလည်ခဲ့ကြပေ။

[၁] ဤပစ္စက္ခသည် ခေတ္တခဏသခ်ါရ၊ နောင်တမလွန်သည် အမြဲထာဝစဉ်။ ဤဘဝသည် ယာယီ၊ ထိုဘဝသည် အဓိကဖြစ်သည်။ သို့ပါလျက် ဤပစ္စက္ခတွင် နစ်မွန်း၍ နောင်တမလွန်ကို လျစ်လျူပြုထားပါက အမြင့်မြတ်ဆုံးဘဝကို စွန့်လွှတ်၍ သာမန်ဘဝတွင် လုံးပန်းနေပါက အရှုံးကြီးရှုံးမည်ပင်။

အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရမှုတွင် ဥစ္စာပစ္စည်း၊ သားသမီးများသည် အဟန့်အတား မဖြစ်ရ။ အကယ်၍ ဥစ္စာပစ္စည်း၊ သားသမီးနှင့်လောကီရေးရာများတွင် နစ်မွန်းပြီး အလ္လာဟ်အရှင်မြတ်အား မေ့လျော့နေပါက နောင်တမလွန်တွင် အရှုံးကြီး ရှုံးမည်သာမက ဤပစ္စက္ခတွင် စိတ်၏ချမ်းသာမှု ရရှိနိုင်မည် မဟုတ်ပေ။ နစ်ဘဝစလုံး ဆုံးရှုံးရပေမည်။ ဤသည့်သဘောကို ကုရ်အာန်(၂၀း၁၂၄-၁၂၇)တွင်လည်း မိန့်ဆိုထားတော်မူသည်။

إِلَىٰٓ أَجَلٍ قَرِيبٍ فَأَصَّدَّقَ وَأَكُن مِّنَ ٱلصَّٰلِحِينَ ۝١٠

ထို('မရဏ' သေခြင်းတရားရောက်လာသော) အခါ ထိုသူသည် 'အို–ကျွန်တော်မျိုးအား ဖန်ဆင်း မွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် အဘယ် ကြောင့် ကျွန်တော်မျိုးအား အချိန်ကာလ အနည်းငယ် ရွှေ့ဆိုင်းခွင့် ပေးတော်မမူပါသနည်း။ သို့ပေးတော် မူခဲ့ပါလျှင် ကျွန်တော်မျိုးသည် အလှူဒါနပြုသည့် ပြင် သူတော်ကောင်းတစ်ဦးလည်း ဖြစ်ပါမည်' ဟု လျှောက်ထားပေမည်။ [၁]

---

(၁) မိမိတို့ကိုယ်ကိုလည်း အလ္လာဟ်အရှင်မြတ်ပင် မိမိ၏ကျေးဇူးတော်ဖြင့် ဖန်ဆင်းထားတော်မူသည်။ မိမိတို့ဥစ္စာပစ္စည်းများမှာလည်း အလ္လာဟ်အရှင်မြတ်ကပင် ချီးမြှင့်ထားတော်မူသော ဥစ္စာပစ္စည်းများသာလျှင် ဖြစ်ချေသည်။ သို့ဖြစ်ရာ မိမိတို့အား အလ္လာဟ်အရှင်မြတ်က ချီးမြှင့်ထားတော်မူသော ဥစ္စာပစ္စည်းများကို ထိုအရှင်မြတ်၏ လမ်းတော်၌ ကြည်ဖြူစွာ လှူဒါန်းစွန့်ကြဲရမည်သာ။ သို့လှူဒါန်းစွန့်ကြဲပါကလည်း မိမိတို့၏ အကျိုးသာ။

ယခုမူ အလ္လာဟ်အရှင်မြတ်က မိမိချီးမြှင့်ထားတော်မူသော ဥစ္စာပစ္စည်းအားလုံးကိုမဟုတ်၊ အချို့ အဝက်ကိုသာ၊ ဤသည်လည်း မိမိတို့အကျိုးငှာ မိမိ၏လမ်းတော်၌ အချိန်မီလှူဒါန်းစွန့်ကြဲရန် အမိန့်ပေးတော် မူခြင်းမျှဖြစ်သည်။ အလ္လာဟ်အရှင်မြတ်က ချီးမြှင့်ထားတော်မူသော ဥစ္စာပစ္စည်းကို အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌ မိမိတို့၏အကျိုးအတွက် အချို့အဝက် လှူဒါန်းကြရသည်ကိုပင် အကြောင်းမဲ့တွန့်တိုကြသည်။ စေးနဲကြသည်။ ဤကား မဟာအမှားပင်။

ကျွန်ုပ်တို့သည် အချိန်မီ မသေမီ လှူဒါန်းစွန့်ကြဲကြရပေမည်။ အချိန်ဆွဲနေပါက မရဏသေခြင်း တရားက ကျွန်ုပ်တို့အား စောင့်ဆိုင်းမည်မဟုတ်၊ အချိန်ဆွဲမည်လည်းမဟုတ်။ အလ္လာဟ်အရှင်မြတ် သတ်မှတ် ထားတော်မူသည့်အချိန်တွင် သေခြင်းတရားသည် အပိုအလိုမရှိ အတိအကျ အချိန်မှန် ဆိုက်ရောက်လာမည်ပင်။ ထိုအခါမှ နောင်တရနေသော်လည်း 'မိုးကုန်မှ ထွန်ချ'ဆိုသကဲ့သို့ အသို့မျှ အကျိုးရှိမည်မဟုတ်ပေ။

အလ္လာဟ်အရှင်မြတ်လမ်းတော်၌ စေးနဲတွန့်တိုသည့်အတွက် မလှူရက်၊ မတန်းရက် နေခဲ့သောသူများ သည် သေခါနီးအချိန်တွင် အလ္လာဟ်အရှင်မြတ်ထံတော်၌ "အရှင်မြတ်၊ ကျွန်တော်မျိုးအား အချိန်အနည်းငယ် ထပ်မံပေးသနားတော်မူပါ၊ ကျွန်တော်မျိုး လှူဒါန်းပါမည်။ သူတော်စင်များတွင် ပါဝင်ပါတော့မည်"ဟု လျှောက်ထား ကြပေမည်။ သို့ရာတွင် 'အလာကောင်းသော်လည်း အခါနှောင်းချေပြီ' ဆိုသကဲ့သို့ အကျိုးကားရှိမည် မဟုတ် တော့ပေ။

သာဝကကြီး အိဗ်နုအဗ္ဗားစ်ထံမှတစ်ဆင့် ကြားသိရသောကျမ်းအရ၊ စေးနဲတွန့်တို၍ အချိန်မီ အလှူဒါန မပြုမိခဲ့ကြသောသူများသည် အဆိုပါစကားကို ကိယာမတ်နေ့တွင် လျှောက်ထားကြပေမည်ဖြစ်သည်။ ဆိုလိုသည်ကား အရှင်မြတ်သည်ကျွန်တော်မျိုးအား လူ့လောကသို့ ခေတ္တခဏပြန်လွှတ်တော်မူပါသော်၊ ကျွန်တော် မျိုးသည် ယခုတခါသော် ကောင်းစွာ လှူဒါန်းကာ သူတော်ကောင်း ဖြစ်လာပါမည်ဟူ၏။

وَلَنْ يُّؤَخِّرَ اللّٰهُ نَفْسًا اِذَا جَآءَ اَجَلُهَا ؕ وَاللّٰهُ خَبِيْرٌ ۢ بِمَا تَعْمَلُوْنَ ⑪

၁၁။ စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သည် မည်သူတစ်ဦးတစ်ယောက်ကိုမျှပင် ၎င်းနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော အချိန်ကာလ ဆိုက်ရောက်လာခဲ့လျှင် ရွှေ့ဆိုင်းခွင့် အလျှင်း ပြုတော်မူသည် မဟုတ်ပြီ။ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို အကြွင်းမဲ့ ကြားသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။




## အရှုံးအမြတ်ပေါ်လွင်မည့်နေ့ကဏ္ဍ

ဤကဏ္ဍသည် 'တဃာဗွန်' အရှုံးအမြတ်ပေါ်လွင်မည့်နေ့ ကဏ္ဍမည်၏။ မဒီနာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၁၈)ပါးနှင့် ရကူအ်အပိုဒ် (၂)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

يُسَبِّحُ لِلّٰهِ مَا فِى السَّمٰوٰتِ وَمَا فِى الْاَرْضِ ۚ لَهُ الْمُلْكُ وَلَهُ الْحَمْدُ ۡ وَهُوَ عَلٰى كُلِّ شَىْءٍ قَدِيْرٌ ①

၁။ မိုးကောင်းကင်များ၌ ရှိသမျှတို့သည်လည်းကောင်း၊ ပထဝီမြေ၌ ရှိသမျှတို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ် စင်ကြယ် သန့်ရှင်းတော်မူကြောင်း မြွက်ဆိုလျက် ရှိကြကုန်၏။

စိုးမိုးအုပ်ချုပ်မှုသည်လည်း ထိုအရှင်မြတ်၌သာ ရှိ၏။ ချီးမွမ်းထောပနာ ဟူဟူသမျှ တို့သည်လည်း ထိုအရှင်မြတ်နှင့်သာ အပ်စပ်၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

هُوَ الَّذِي خَلَقَكُمْ فَمِنكُمْ كَافِرٌ وَمِنكُم مُّؤْمِنٌ ۚ وَاللَّهُ بِمَا تَعْمَلُونَ بَصِيرٌ ﴿٢﴾

၂။ ထိုအရှင်မြတ်သည်သာ အသင်တို့အား ဖန်ဆင်းတော်မူခဲ့သောအရှင် ဖြစ်တော်မူ၏။ သို့ပါသော်လည်း အသင်တို့အနက်အချို့မှာ သွေဖည်ငြင်းပယ်သူ ဖြစ်၍ အသင်တို့အနက်အချို့မှာ သက်ဝင်ယုံကြည်သူ ဖြစ်၏။ စင်စစ်တမူကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို အကြွင်းမဲ့ မြင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

خَلَقَ السَّمَاوَاتِ وَالْأَرْضَ بِالْحَقِّ وَصَوَّرَكُمْ فَأَحْسَنَ صُوَرَكُمْ ۖ وَإِلَيْهِ الْمَصِيرُ ﴿٣﴾

၃။ ထိုအရှင်မြတ်သည်ပင် မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ နက်နဲသိမ်မွေ့သောဆင်ခြင်တုံတရားနှင့်လျော်ညီစွာ ဖန်ဆင်းတော်မူခဲ့၏။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့၏ ပုံပန်းသဏ္ဍာန်ကို ပြုလုပ်တော်မူခဲ့ရာ အသင်တို့၏ ပုံပန်းသဏ္ဍာန်များကို ကောင်းမွန်လှပစွာ ပြုလုပ်တော်မူခဲ့၏။ ထိုမှတစ်ပါး (အသင်တို့၏ နောက်ဆုံး) ပြန်လည်ရာစခန်းမှာလည်း ထိုအရှင်မြတ်ထံတော်၌ပင် ဖြစ်၏။

يَعْلَمُ مَا فِي السَّمَاوَاتِ وَالْأَرْضِ وَيَعْلَمُ مَا تُسِرُّونَ وَمَا تُعْلِنُونَ ۚ وَاللَّهُ عَلِيمٌ بِذَاتِ الصُّدُورِ ﴿٤﴾

၄။ ထိုအရှင်မြတ်သည် မိုးကောင်းကင်များ၌လည်းကောင်း၊ ပထဝီမြေ၌လည်းကောင်း၊ ရှိရှိသမျှတို့ကို သိရှိတော်မူ၏။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် အသင်တို့ လျှို့ဝှက်စွာ ပြုလုပ်သမျှတို့ကိုလည်းကောင်း၊ အသင်တို့ ထင်ရှားစွာ ပြုလုပ်သမျှတို့ကိုလည်းကောင်း၊ သိရှိတော်မူ၏။ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်သည် စိတ်နှလုံးများအတွင်း၌ ရှိသမျှတို့ကိုလည်း အကြွင်းမဲ့ သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသည်၊[၁]

---

(၁) ဆိုလိုသည်ကား မိုးမြေနှင့်တကွ စကြာဝဠာအဝန်းရှိ အရာခပ်သိမ်းကုန်တို့သည် အလ္လာဟ်အရှင်မြတ်အား ကိုယ့်နည်းကိုယ့်ဟန်ဖြင့် ဂုဏ်တော်မွမ်းလျက်ရှိကြကုန်၏။

အကြောင်းသော် စကြာဝဠာအဝန်းကို စိုးမိုးအုပ်ချုပ်မှုအာဏာသည် ထိုအရှင်မြတ်၏ ➤➤

أَلَمْ يَأْتِكُمْ نَبَؤُا الَّذِينَ كَفَرُوا مِن قَبْلُ فَذَاقُوا وَبَالَ أَمْرِهِمْ وَلَهُمْ عَذَابٌ أَلِيمٌ ⑤

၅။ အသင်တို့ထံ (မိမိတို့)အလျှင် သွေဖည်ငြင်းပယ်ခဲ့ကြလေသော ရှေးသူဟောင်းတို့၏ သတင်းရောက်ရှိ၍ မလာခဲ့လေသလော။ သို့သွေဖည် ငြင်းပယ်ခဲ့ကြပေရာ ၎င်းတို့သည် မိမိတို့၏ အပြုအမူနှင့်စပ်လျဉ်း၍ ပြစ်ဒဏ်ကို မြည်းစမ်းခဲ့ကြရလေပြီ။ ထိုမှတစ်ပါး ('အာခိရတ်'တမလွန်ဘဝတွင်) ၎င်းတို့၌ လွန်စွာနာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ်သည်လည်း ရှိချေဦးမည်။

ذَٰلِكَ بِأَنَّهُ كَانَت تَّأْتِيهِمْ رُسُلُهُم بِالْبَيِّنَاتِ فَقَالُوا

၆။ ထိုသို့ဖြစ်ရခြင်းမှာ ၎င်းတို့ထံ ၎င်းတို့၏ ရစူလ်တမန်တော်များသည် ထင်ရှားစွာသော သက်သေသာဓကများနှင့်တကွ လာရောက်လေ့ ရှိခဲ့ကြသောအခါ

---

➤➤ လက်တော်တွင်း၌သာရှိ၏။ စကြာဝဠာအဝန်း၌ ချီးမွမ်းဖွယ်ရာအပေါင်းသည်လည်း ထိုအရှင်မြတ်နှင့်သာလျှင် အပ်စပ်၏။ ထိုအရှင်မြတ်သည် အရာခပ်သိမ်းကုန်တို့ကိုလည်း ပြုစွမ်းတော်မူနိုင်၏။ သို့ဖြစ်ရာ ထိုအရှင်မြတ်၏ အမိန့်တော်ကိုနာခံရာ၏၊မသွေဖည်ရာ။ ထို့ပြင်မကာ ထိုအရှင်မြတ်သည်ပင် အသင်လူသားတို့ကို သတ္တဝါအပေါင်းတွင် အချိုးအကျဆုံး၊ အဆင်ပြေဆုံး၊ အလှဆုံး၊ အမြင့်မြတ်ဆုံး ဖန်ဆင်းထားတော်မူ၏။

ဤသည်တို့ကို ထောက်ရှုကာ အသင်လူသားတို့သည် အရှင်မြတ်အားသာလျှင် ယုံကြည်မြတ်နိုး ရှိခိုးပူဇော်ကော်ရော်ကြရပေမည်။ ယခုမူ အသင်တို့အနက်အချို့သည် သွေဖည်လျက်ရှိကြ၏။ အချို့မူ ယုံကြည်မြတ်နိုးလျက်ရှိကြ၏။ အလ္လာဟ်အရှင်မြတ်သည် (ယုံကြည်မှု၊ သွေဖည်မှုဆိုင်ရာ) အသင်တို့၏ အကျင့်အမူ ဟူဟူသမျှကို ကြွင်းမဲ့ဥဿုံအလုံးစုံ သိမြင်တော်မူသည်။ သို့သိမြင်တော် မူသည့်အလျောက် အသီးသီးတို့အား ထိုက်သည့်အားလျော်ညီစွာ ကျိုးပြစ်ပေးတော်မူမည်သာဖြစ်သည်။ ကြည့်-ထာနဝီ။

အလ္လာဟ်အရှင်မြတ်သည် လူသားအားလုံးတို့ကို မှန်ကန်သော သဘာဝအပေါ်၌ပင် ဖန်ဆင်းထားတော်မူခဲ့၏။ လူသားတို့၌ အကောင်းဘက်သို့လည်းကောင်း၊ အဆိုးဘက်သို့လည်းကောင်း ကြိုက်နှစ်သက်ရာဘက်သို့ သွားနိုင်ရန် စွမ်းရည်သတ္တိကိုလည်း ထည့်သွင်းပေးတော်မူခဲ့၏။

အချို့လူသားတို့သည် မှန်ကန်သော မူလသဘာဝအပေါ်၌ပင် ရပ်တည်နေခဲ့၏။ အချို့လူသားတို့မူ ပတ်ဝန်းကျင်၏ ဆွဲဆောင်ရာသို့လိုက်ပါကာ မှန်ကန်သော မူလသဘာဝမှ တိမ်းစောင်းသွားခဲ့၏။ အသို့ပင်ရှိစေ မည်သူမည်ဝါတို့သည် မိမိတို့၏စေတနာအလျောက် မူလသဘာဝအပေါ်၌ ရပ်တည်နေကြမည်၊ မည်သူမည်ဝါတို့သည် မူလသဘာဝမှ တိမ်းစောင်းသွားကြမည်ကို အလ္လာဟ်အရှင်မြတ်သည် အစကတည်းကပင် အသိဖြစ်တော်မူသည်။

သို့အသိဖြစ်တော်မူသည့်အလျောက် ထိုအရှင်မြတ်သည် လူသားအသီးသီးနှင့်ပတ်သက်၍ မည်သူမည်သို့ဖြစ်မည်၊ မည်ဝါမည်ပုံဖြစ်မည် ဟူ၍ ရေးမှတ်ထားတော်မူခဲ့၏။ သို့ရေးမှတ်ထားတော်မူခဲ့သည့် အတိုင်းပင် ဖြစ်ပျက်လာသည်ချည်းသာ ဖြစ်၏။

أَبَشَرٌ يَهْدُونَنَا فَكَفَرُوا وَتَوَلَّوا وَّاسْتَغْنَى اللَّهُ ۚ وَاللَّهُ غَنِيٌّ حَمِيدٌ ﴿٦﴾

ငင်းတို့က မနုဿလူသားများသည် ကျွန်ုပ်တို့အား တရားလမ်းမှန်ကို ပြသကြမည်လောဟု ပြောဆိုခဲ့ကြကုန်၏။ ထို့နောက် ငင်းတို့သည် သွေဖည် ငြင်းပယ်ခဲ့ကြကုန်၏။ ကျောခိုင်းသွားခဲ့ကြ၏။ *အလ္လာဟ်အရှင်မြတ်သည်လည်း ငင်းတို့အား ဂရုစိုက်တော်မူသည် မရှိခဲ့ပေ။*[1] စင်စစ်မှာကား အလ္လာဟ်အရှင်မြတ်သည် လိုလားတောင့်တမှု ကင်းမဲ့တော်မူသောအရှင်၊ ချီးမွမ်းအပ်သော ဂုဏ်တော်၊ အတိုင်းအဆမရှိ ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

زَعَمَ الَّذِينَ كَفَرُوا أَن لَّن يُبْعَثُوا ۚ قُلْ بَلَىٰ وَرَبِّي لَتُبْعَثُنَّ ثُمَّ لَتُنَبَّؤُنَّ بِمَا عَمِلْتُمْ ۚ وَذَٰلِكَ عَلَى اللَّهِ يَسِيرٌ ﴿٧﴾

၇။ 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူတို့က ငင်းတို့သည် အလျှင်း ရှင်ပြန်ထကြရမည် မဟုတ်ဟူ၍ ထင်မြင် ပြောဆိုခဲ့ကြကုန်၏။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) အဘယ်ကြောင့် မဟုတ်သနည်း။ ငါ့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား တိုင်တည်၍(ပြောအံ့)၊ ဧကန်မလွဲ အသင်တို့သည် ရှင်ပြန်ထကြရပေမည်။ ထို့နောက် ဧကန်မုချ အသင်တို့သည် မိမိတို့ကျင့်မူခဲ့သမျှတို့ကို သိစေခြင်းခံကြရမည်။ စင်စစ်သော်ကား *ဤသည်အလ္လာဟ်အရှင်မြတ်၌လွန်စွာလွယ်ကူလှ၏။*[2]

---

① ယင်းသို့ကာဖိရ်များ ဤပစ္စက္ခတွင်လည်းကောင်း၊နောင်တမလွန်ဘဝတွင်လည်းကောင်း ပြစ်ဒဏ်ခံကြရခြင်းမှာ မသိနားမလည်၍ မေ့မှားသွေဖည်ခဲ့ကြခြင်းမဟုတ်၊ ငင်းတို့ထံ အလ္လာဟ်အရှင်မြတ်၏ တမန်တော်များ အသီးသီး ရောက်ရှိလာခဲ့ကြ၏။ ထင်ရှားသော သက်သေလက္ခဏာတော်များကိုလည်း ပြသခဲ့ကြ၏။ မှားမှန်၊ ဆိုးကောင်း၊ ကျိုးကြောင်းပြ၍လည်း သွန်သင်ဆုံးမခဲ့ကြ၏။ တရားဟောညွှန်ပြခဲ့ကြ၏။

သို့ပါသော်လည်း ကာဖိရ်များက ဤလူသား (တမန်တော်များ)သည် ငါတို့အား အသို့လျှင် တရားပြနိုင်ကြအံ့နည်း။ လူသားသည် တမန်တော်မဖြစ်နိုင်ဟုဆိုကာ သွေဖည်ခဲ့ကြ၏၊ကျောခိုင်းသွားခဲ့ကြ၏။ ယင်းသို့သိပါလျက်နှင့် သွေဖည်သွားခဲ့ကြသည့်အတွက်၊ ကျောခိုင်းသွားခဲ့ကြသည့်အတွက် အလ္လာဟ်အရှင်မြတ်ကလည်း အနည်းငယ်စိုးစဉ်းမျှပင် ဂရုစိုက်တော်မမူခဲ့ပေ။ ကရုဏာတော်ပွားတော်မူပါလျက် ကရုဏာတော်ကိုပင် ကျောခိုင်းသွားခဲ့ကြသည်ဖြစ်ရာ၊ ကရုဏာတော်နှင့် မထိုက်တန်သောသူများအား ငင်းတို့နှင့်ထိုက်တန်သော အကျိုးကိုပင် ပေးတော်မူခဲ့လေသည်။ ဤသည် မည်သူမပြုမိမိမှုပင်။

فَـَٔامِنُوا۟ بِٱللَّهِ وَرَسُولِهِۦ وَٱلنُّورِ ٱلَّذِىٓ أَنزَلْنَا ۚ وَٱللَّهُ بِمَا تَعْمَلُونَ خَبِيرٌ ⑧

၈။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အားလည်းကောင်း၊ ငါအရှင်မြတ်ချပေးသနားတော်မူခဲ့သော အလင်းရောင်အားလည်းကောင်း၊ သက်ဝင် ယုံကြည်ကြလေကုန်။ အမှန်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ကျင့်မူသမျှတို့ကို အကြွင်းမဲ့ ကြားသိတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။

يَوْمَ يَجْمَعُكُمْ لِيَوْمِ ٱلْجَمْعِ ۖ ذَٰلِكَ يَوْمُ ٱلتَّغَابُنِ ۗ وَمَن يُؤْمِنۢ بِٱللَّهِ وَيَعْمَلْ صَـٰلِحًا يُكَفِّرْ عَنْهُ سَيِّـَٔاتِهِۦ وَيُدْخِلْهُ جَنَّـٰتٍ تَجْرِى مِن تَحْتِهَا ٱلْأَنْهَـٰرُ خَـٰلِدِينَ فِيهَآ أَبَدًا ۚ ذَٰلِكَ ٱلْفَوْزُ ٱلْعَظِيمُ ⑨

၉။ အကြင်နေ့ကို (သတိရကြလေကုန်)။ ထိုအရှင်မြတ်သည် အသင်တို့အား စုရုံးရာနေ့တွင် စုရုံးတော်မူပေမည်။ ထိုနေ့ကား အရှုံးအနိုင်ကို အမှန်အတိုင်း သိရှိရမည့်နေ့ပင်။

စင်စစ်မှာမူကား မည်သူမဆို အလ္လာဟ်အရှင်မြတ်အား သက်ဝင်ယုံကြည်၍ ကောင်းမှုကို ကျင့်မူဆောက်တည်ပါလျှင် ထိုအရှင်မြတ်သည် ၎င်း၏ အကုသိုလ်ဒုစရိုက်များကို ၎င်းမှ ပပျောက်စေတော်မူမည့်ပြင် ၎င်းအား အကြင်ဥယျာဉ်များသို့လည်း အမြဲထာဝစဉ် နေထိုင်သူများအဖြစ် ဝင်ရောက်စေတော်မူမည်ဖြစ်၏။ ယင်းဥယျာဉ်များ၏အောက်မှ ချောင်းများသည် စီးတွေလျက် ရှိကြပေမည်။ ထိုသည် ကြီးကျယ်လှစွာသော အောင်မြင်မှုပင်။

---

(၂) ကာဖိရ်များသည် အလ္လာဟ်အရှင်မြတ်က စေလွှတ်တော်မူသော တမန်တော်များအား သွေဖည်ငြင်းဆန်လက်မခံခဲ့ကြသကဲ့သို့ သေပြီးနောက် ပြန်လည်ရှင်ထကြရမည်ကိုလည်း သွေဖည်ငြင်းဆန်လက်မခံခဲ့ကြပေ။ ယင်းကာဖိရ်များ လက်မခံကြသော်လည်း တစ်ရက် 'ကိယာမတ်' အမှန်ဖြစ်မည်၊ အားလုံး ရှင်ပြန်ထကြရမည်။ မိမိတို့ ကျင့်မူဆည်းပူးခဲ့ကြသည်များနှင့်စပ်လျဉ်း၍ စစ်ဆေးမေးမြန်းခြင်းခံကြရပေမည်။ ဤသည် အလ္လာဟ်အရှင်မြတ်အဖို့ အသို့မျှ အခက်အခဲမရှိ။

وَالَّذِينَ كَفَرُوا وَكَذَّبُوا بِآيَاتِنَا أُولَٰئِكَ أَصْحَابُ النَّارِ خَالِدِينَ فِيهَا ۖ وَبِئْسَ الْمَصِيرُ ﴿١٠﴾

၁၀။ သို့တစေလည်း အကြင်သူသည် သွေဖည်ဖြင်းပယ်ခဲ့ကြကုန်၏။ ၎င်းပြင် ငါအရှင်မြတ်၏ အာယတ်တော်များကို မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ ထိုသူတို့ကား ငရဲမီး၌ အမြဲထာဝစဉ် နေထိုင်ကြရအံ့သော သူများပင် ဖြစ်ကြကုန်၏။ စင်စစ်သော်ကား ယင်းငရဲမီးသည် လွန်စွာယုတ်ညံ့လှစွာသော စခန်းပင် ဖြစ်ပေသတည်း။ [၁]

مَا أَصَابَ مِن مُّصِيبَةٍ إِلَّا بِإِذْنِ اللَّهِ ۗ وَمَن يُؤْمِن بِاللَّهِ يَهْدِ قَلْبَهُ ۚ وَاللَّهُ بِكُلِّ شَيْءٍ عَلِيمٌ ﴿١١﴾

၁၁။ *ဘေးဒုက္ခဟူသမျှတို့သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်နှင့်သာ သက်ရောက်၏။* [၂] ထို့ပြင် မည်သူမဆို အလ္လာဟ်အရှင်မြတ်အား သက်ဝင်ယုံကြည်ပါလျှင် ထိုအလ္လာဟ်အရှင်မြတ်သည် ၎င်း၏စိတ်နှလုံးကို တရားလမ်းမှန် ပြသတော်မူ၏။ အမှန်စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ သိရှိတော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။ [၃]

---

**(၁) အရှုံးအမြတ်ပေါ်မည့်နေ့။**

ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် အားလုံးကိုပြန်လည်စုရုံးစေတော်မူမည်ဖြစ်သည်။ ထိုနေ့တွင် လက်တွေ့အရှုံးအမြတ်လည်း ပေါ်မည်။ (ဂျဟန္နမ်) ငရဲသို့လားကြရသူများသည် ရှုံးကြမည်၊ (ဂျန္နတ်) အမတ သုခဘုံသို့ လားကြရသူများသည် မြတ်ကြမည်။

ရှုံးသူများ၏ အရှုံးကား ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်က မိမိတို့အား ချီးမြှင့်အပ်နှင်း ထားတော်မူသော စွမ်းရည်သတ္တိများကို အလွဲသုံးစားပြုခဲ့ကြသည့်အတွက် မတည်အရင်းအနှီးကိုပင် ဆုံးရှုံးကြရခြင်းကြောင့်ပင်။

အမြတ်အစွန်းရရှိသူများ၏ အမြတ်ကား ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်က မိမိတို့အား ချီးမြှင့်အပ်နှင်းထားတော်မူသည့် စွမ်းရည်သတ္တိများကို ထိုအရှင်မြတ်လမ်းတော်တွင် တရားသဖြင့် အသုံးပြုခဲ့ကြသည့်အတွက် ချီးမြှင့်သင့် ချီးမြှင့်အပ်သည်ထက် အတိုင်းမသိ ကြီးမားများပြားလှသော ဆုတော်လာဘ်တော်များကို ချီးမြှင့်တော်မူခြင်း ခံကြရခြင်းကြောင့်ပင်။ ရှေ့အာယတ်တော်တွင် ဤသည့်အရှုံးနှင့်အမြတ်ကိုပင် ရှင်းလင်းမိန့်ဆိုထားတော်မူသည်။

(၂) ဆိုလိုသည်ကား ဤလောကဓာတ်ကြီးတွင် ဖြစ်ပျက်နေသော အဖြစ်အပျက် ဒုက္ခ၊ သုခကိစ္စအဝဝတို့သည် အကြောင်းမဲ့၊ အကျိုးမဲ့ ပရမ်းပတာဖြစ် နေသည်မဟုတ်။ အလ္လာဟ်အရှင်မြတ်၏ အသိ၊ အလိုတော်၊ စီမံဖန်တီးမှုဖြင့်သာလျှင် ဖြစ်ပျက်နေခြင်းပင်ဖြစ်သည်။ ထိုအရှင်မြတ်၏ အလိုတော်သာမရှိပါက မည်သည့်ဒုက္ခ၊ မည်သည့်သုခမျှ သက်ရောက်မည်မဟုတ်ပေ။ ➤➤

وَاَطِيْعُوا اللّٰهَ وَاَطِيْعُوا الرَّسُوْلَ ۚ فَاِنْ تَوَلَّيْتُمْ فَاِنَّمَا عَلٰى رَسُوْلِنَا الْبَلٰغُ الْمُبِيْنُ ⑫

၁၂။ ၎င်းပြင် အသင်တို့သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော်ကို လိုက်နာကြလေကုန်။ ၎င်းပြင် အသင်တို့သည် ရစူလ်တမန်တော်မြတ်၏ အမိန့်ကိုလည်း လိုက်နာကြလေကုန်။ သို့ရာတွင် အကယ်၍ အသင်တို့သည် (လိုက်နာခြင်းမပြုဘဲ) မျက်နှာလွှဲသွားလျှင် ငါအရှင်မြတ်၏ရစူလ်တမန်တော်မြတ်အပေါ်ဝယ် (အမိန့်တော်များကို) ရှင်းလင်းစွာ ပို့ဆောင်ရန်သာလျှင် တာဝန်ရှိ၏။

اَللّٰهُ لَآ اِلٰهَ اِلَّا هُوَ ۗ وَعَلَى اللّٰهِ فَلْيَتَوَكَّلِ الْمُؤْمِنُوْنَ ⑬

၁၃။ အလ္လာဟ်အရှင်မြတ်သာလျှင် (ဆည်းကပ်ကိုးကွယ်ရာအရှင် ဖြစ်တော်မူ၏။) ထိုအရှင်မြတ်မှတစ်ပါး ဆည်းကပ်ကိုးကွယ်ရာ အရှင်ဟူ၍ အလျှင်းမရှိပြီ။ သို့ဖြစ်ပေရာ 'မုအ်မင်န်' သက်ဝင်ယုံကြည်သူတို့မှာမူကား အလ္လာဟ်အရှင်မြတ်၏အပေါ်၌သာလျှင် ယုံပုံလွှဲအပ် အားထားရာကုန်သတည်း။

---

➤➤ သို့ဖြစ်ရာ ဤသည့်သဘောတရားကို ယုံကြည်လက်ခံထားသော မုအ်မင်န်များသည် မိမိတို့၌ ဒုက္ခတစ်စုံတစ်ရာ သက်ရောက်သည့်အတွက် စိတ်မပျက်ရာ၊ စိတ်ဓာတ်မကျရာ၊ အလ္လာဟ်အရှင်မြတ် စီရင်တော်မူသမျှကို အခါခပ်သိမ်း ကျေနပ်နှစ်သက်နေကြရမည်သာ။

⑫ ဆိုလိုသည်ကား အကြင်သူသည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးအံ့၊ မိမိ၌ ဒုက္ခတစ်စုံတစ်ရာ ရောက်ရှိလာပါက ဤသည် အလ္လာဟ်အရှင်မြတ်၏ စီမံဖန်တီးမှု၊ စီရင်ဆုံးဖြတ်မှု အရသာဖြစ်သည်ဟူ၍ နားလည်အံ့။ လောကီရေးရာများတွင် ဆုံးရှုံးပျက်စီးခဲ့ရသည်များအစား ယင်းထက် ပိုမိုကောင်းမြတ်သော အရာများကို ပေးသနားတော်မူအံ့။ ကြည့်-အိဗ်နုကဆီရ်။

တမန်တော်မြတ်က မိန့်ကြားတော်မူခဲ့သည်မှာ မုအ်မင်န်၏အဖြစ်ကား အံ့ဖွယ်ပင်။ အလ္လာဟ်အရှင်မြတ် စီရင်တော်မူသမျှ ထိုမုအ်မင်န်အဖို့ အကောင်းချည်းပင်။ အကြောင်းသော်ကား ထိုမုအ်မင်န်သည် မိမိ၌ဒုက္ခဖြစ်သော် သည်းခံ၏၊ ဤသည်လည်း သူ၏အဖို့အကောင်းပင်။ တဖန် ထိုမုအ်မင်န်သည် မိမိ၌သုခဖြစ်သော် ကျေးဇူးတင်၏၊ ဤသည်လည်း သူ၏အဖို့အကောင်းပင်။ ဤသည့် အခွင့်အလမ်းသာမူကား မုအ်မင်န်များ၌သာ ရှိပေသည်။ ဤဟဒီးဒ်တော်သည် ဗုခါရီနှင့် မွတ်စ်လင်မ်ကျမ်းကြီး နှစ်စောင်စလုံးတွင် လာရှိပေသည်။ အိဗ်နုကဆီရ်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓا۟ إِنَّ مِنْ أَزْوَٰجِكُمْ وَأَوْلَٰدِكُمْ عَدُوًّا لَّكُمْ فَٱحْذَرُوهُمْ ۚ وَإِن تَعْفُوا۟ وَتَصْفَحُوا۟ وَتَغْفِرُوا۟ فَإِنَّ ٱللَّهَ غَفُورٌ رَّحِيمٌ ﴿١٤﴾

၁၄။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့၏ ဇနီးမိန်းမတို့တွင်လည်းကောင်း၊ အသင်တို့၏ သားသမီးတို့တွင်လည်းကောင်း၊ *အသင်တို့၏ရန်သူများ ရှိနေကြပေသည်။* [၁] သို့ဖြစ်ပေရာ အသင်တို့သည် ၎င်းတို့ကို သတိပြုကြလေကုန်။ ထို့ပြင် အကယ်၍ အသင်တို့သည် (ထိုသူတို့အား) ခွင့်လွှတ်ကြပါလျှင်လည်းကောင်း၊ လျစ်လျူရှုကြပါလျှင်လည်းကောင်း၊ လွှတ်ငြိမ်းချမ်းသာခွင့် ပေးကြပါလျှင်လည်းကောင်း၊ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာပေးတော်မူသော၊ အလွန်တရာ ကြင်နာသနားတော်မူသောအရှင် ဖြစ်တော်မူ၏။ [၂]

---

(၁) <u>အချို့သားသမီးနှင့် ဇနီးသည် ရန်သူဖြစ်တတ်၏။</u>

များသောအားဖြင့် အချို့ပုဂ္ဂိုလ်များသည် သားသမီးဇနီးသည်တို့၏ ခင်တွယ်မှု၊ သံယောဇဉ်ဝဲသြဃတွင် တဝဲလည်လည်ဖြစ်ကာ အလ္လာဟ်အရှင်မြတ်အား မေ့နေတတ်ကြ၏၊ထိုအရှင်မြတ်၏ အမိန့်တော်များကို နာယူကျင့်မူရာတွင် ပေါ့လျော့နေတတ်ကြ၏။

သားသမီးဇနီးသည်များ၏ သံယောဇဉ်ကြောင့် များစွာသော ကောင်းမှုကိစ္စများကို လျစ်လျူရှုထားကြသည်သာမက၊ များစွာသောမကောင်းမှုများကိုပင် ကျူးလွန်တတ်ကြ၏။ သားသမီးဇနီးသည်တို့၏ လိုလားချက်များကို ဖြည့်စွမ်းနိုင်ရန်နှင့် ၎င်းတို့၌ ကျေနပ်နှစ်သက်မှုရှိစေရန်အတွက် နေ့မအား ညမအား ကြိုးပမ်းနေကြတတ်၏။ ဤသည့် ဝဲသြဃတွင် တဝဲလည်လည်ဖြစ်ကာ နောင်တမလွန်အရေးကို အမေ့ကြီး မေ့နေတတ်ကြ၏။

သားသမီးဇနီးများ၏ သံယောဇဉ်သည် အလ္လာဟ်အရှင်မြတ်အား မေ့ရန်၊ နောင်တမလွန်အရေးကိုမေ့ရန် ကောင်းမှုများကို မပြုလုပ်နိုင်သည်သာမက၊ မကောင်းမှုများကို ပြုလုပ်ရန်ပင် အကြောင်း ကြီးဖြစ်လာပါက၊ ယင်းသို့သော သားသမီးဇနီးသည်များသည် မိမိအဖို့ အဆွေခင်ပွန်း မဟုတ်သည်သာမက အလွန်ဆိုးရွားသော ရန်သူများပင်ဖြစ်နေကြပြီ မဟုတ်အံ့လော။ သားသမီးဇနီးသည်တို့သည် ယင်းသို့ မိမိအဖို့ ရန်သူများ ဖြစ်နေကြသည်ကို သက်ဆိုင်ရာပုဂ္ဂိုလ်တို့၌ တစ်ခါတစ်ရံ အတွေးပင်မပေါ်ပေါက်တတ်ပေ။ ထို့အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်က ယင်းသို့သော သားသမီးဇနီးတို့နှင့် ပတ်သက်၍ သတိပေးထားတော်မူခြင်းဖြစ်သည်။ ကုရ်အာန် (၆၃း၉)တွင်လည်း ဤအတိုင်း သတိပေးထားတော်မူသည်။

ဤတွင် သတိပြုအပ်သည်မှာ လူ့လောကရှိ သားသမီးဇနီးသည် အားလုံးတို့သည် တစ်မျိုးတစ်စားတည်း မဟုတ်ကြပေ။ သားဆိုး၊ သမီးဆိုး၊ ဇနီးဆိုးများရှိကြသကဲ့သို့ သားကောင်း၊ သမီးကောင်း၊ ဇနီးကောင်းများလည်း အမြောက်အမြားရှိကြပေသည်။ များစွာသောဇနီးများသည် ဇနီးကောင်းပီပီ မိမိတို့ကိုယ်တိုင် သာသနာရေးရာများကို ထိန်းသိမ်းနိုင်ကြသည်သာမက မိမိတို့၏ ခင်ပွန်းသည်များ၏ သာသနာရေးရာများကိုပင် ထိန်းသိမ်းပေးနိုင်ကြသည်။

➤➤

إِنَّمَآ أَمۡوَٰلُكُمۡ وَأَوۡلَٰدُكُمۡ فِتۡنَةٞۚ وَٱللَّهُ عِندَهُۥٓ أَجۡرٌ عَظِيمٞ ⑮

၁၅။ အသင်တို့၏ ဥစ္စာပစ္စည်းများသည်လည်းကောင်း၊ အသင်တို့၏ သားသမီးများသည်လည်းကောင်း၊ စမ်းသပ်မှုသာလျှင် ဖြစ်ကုန်၏။ ၎င်းပြင် အလ္လာဟ်အရှင်မြတ်အထံတော်၌ ကြီးကျယ်လှစွာသော အကျိုးကျေးဇူးသည် ရှိပေသည်။

فَٱتَّقُواْ ٱللَّهَ مَا ٱسۡتَطَعۡتُمۡ وَٱسۡمَعُواْ وَأَطِيعُواْ وَأَنفِقُواْ خَيۡرٗا لِّأَنفُسِكُمۡۗ وَمَن يُوقَ شُحَّ نَفۡسِهِۦ فَأُوْلَٰٓئِكَ هُمُ ٱلۡمُفۡلِحُونَ ⑯

၁၆။ သို့ဖြစ်ပေရာ အသင်တို့သည် မိမိတို့ တတ်စွမ်းနိုင်သမျှ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။ ထို့ပြင် အသင်တို့သည် နာခံကြလေကုန်။ ၎င်းပြင် အသင်တို့သည် လိုက်နာကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် မိမိတို့ကိုယ်တိုင် ကောင်းစားရန် သုံးစွဲ(လှူဒါန်း)ကြလေကုန်။ စင်စစ်သော်ကား မည်သူမဆို မိမိကိုယ်တိုင်၏ လောဘရမ္မက်ကြီးမှုမှ လွတ်ကင်းပါမူ ယင်းကဲ့သို့သောသူတို့သည်သာလျှင် အောင်မြင်သူများဖြစ်ကုန်၏။

---

➤➤ ထို့အတူများစွာသော သားသမီးများသည် မိဘများအား အနှောင့်အယှက် တစ်စုံတစ်ရာ မပေးကြသည်သာမက အကျိုးအမျိုးမျိုးကိုပင် ပြုလျက်ရှိကြပေသည်။ (အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား သားကောင်း၊ သမီးကောင်းနှင့် ဇနီးကောင်းများကို ပေးသနားတော်မူပါစေသတည်း။)

(၂) ဆိုလိုသည်ကား အကယ်၍သာ သားသမီးဇနီးသည်များသည် မိမိတို့အား ရန်မူကြသည်ရှိသော် လောကီရေး၊ လောကုတ္တရာရေးများတွင် အန္တရာယ်ပြုကြသည်ရှိသော်၊ ၎င်းတို့အား တုံ့ပြန်လက်စားမချေကြရာ။ ၎င်းတို့အား လျော်ကန်သင့်မြတ်သော အရေးယူမှုထက် ပိုမိုလွန်ကဲ၍ မပြင်းထန်ကြရာ၊ သို့မဟုတ်ပါမူ စီမံကွပ်ကဲအုပ်ချုပ်မှုသည် ပျက်စီးသွားပေမည်။

တရားတော်က ခွင့်ပြုသည်နှင့်အမျှ အခြေအနေအရ လိုက်လျောနိုင်သည်နှင့်အမျှ ၎င်းတို့၏ မှားယွင်းမှု၊ မိုက်မဲမှုများကို ခွင့်လွှတ်ကြရမည်၊လျစ်လျူပြုကြရမည်။

ယင်းသို့ စိတ်နေသဘောထားကြီးစွာဖြင့် သားသမီးဇနီးတို့အား ခွင့်လွှတ်ပါက၊လျစ်လျူပြုပါက အလ္လာဟ်အရှင်မြတ်သည် မိမိတို့အား သနားကြင်နာတော်မူပေမည်။ မိမိ၏အမှားများကိုလည်း ခွင့်လွှတ်တော်မူပေမည်။

အမှန်မှာသားသမီးဇနီးတို့သည် အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော အဖိုးမဖြတ်နိုင်သည့် ရတနာများပင်ဖြစ်ကြပေသည်။ ၎င်းတို့အား အစ္စလာမ်နှင့်အညီ သွန်သင်ဆုံးမ၍ ပြုစုပျိုးထောင် ပေးပါက နှစ်ဘဝစလုံးပင် သုခချမ်းသာအဖြာဖြာကို ဆောင်ကြဉ်းပေးနိုင်ကြပေသည်။ သို့မဟုတ်ပါမူ ဒုက္ခအမျိုးမျိုး ပေးနိုင်ပေသည်။ ကြည့်-မာဂျိဒီ။

إِن تُقْرِضُوا اللَّهَ قَرْضًا حَسَنًا يُضَاعِفْهُ لَكُمْ وَيَغْفِرْ لَكُمْ ۚ وَاللَّهُ شَكُورٌ حَلِيمٌ ﴿١٧﴾

၁၇။ အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကောင်းမြတ်စွာ ချေးငှားကြသည်ရှိသော် ထို အရှင်မြတ်သည် အသင်တို့အဖို့ ယင်းချေးငှားခြင်းကို ဆထက် တိုးပွားတော်မူပေမည်။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် အသင်တို့အား ခွင့်လွှတ်ချမ်းသာပေးတော်မူပေမည်။ စင်စစ်မှာမူကား အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ရက်ရောစွာ ကျေးဇူးတုံ့ပြန်တော်မူသောအရှင်၊ အလွန်တရာ သည်းခံခြင်းတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

عَالِمُ الْغَيْبِ وَالشَّهَادَةِ الْعَزِيزُ الْحَكِيمُ ﴿١٨﴾

၁၈။ လျှို့ဝှက်စွာ ရှိသည်တို့ကိုလည်းကောင်း၊ ထင်ရှားစွာ ရှိသည်တို့ကိုလည်းကောင်း၊ သိရှိတော်မူသောအရှင်၊ အလွန်တရာ ခန့်ညားတော်မူသောအရှင်၊ လွန်စွာ နက်နဲသိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူပေသတည်း။

# လင်ခန်းမယားခန်းဖြတ်ခန်းကဏ္ဍ




ဤကဏ္ဍသည် 'တွလာက်' လင်ခန်းမယားခန်းဖြတ်ခြင်း ကဏ္ဍမည်၏။ မဒီနာမြို့တော်တွင် ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်(၁၂)ပါးနှင့် ရုကူအ်အပိုဒ် (၂)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ဖြင့် အစပြုပါ၏။

يٰٓاَيُّهَا النَّبِيُّ اِذَا طَلَّقْتُمُ النِّسَآءَ فَطَلِّقُوْهُنَّ لِعِدَّتِهِنَّ وَاَحْصُوا الْعِدَّةَ ۚ وَاتَّقُوا اللّٰهَ رَبَّكُمْ ۚ لَا تُخْرِجُوْهُنَّ مِنْ بُيُوْتِهِنَّ وَلَا يَخْرُجْنَ اِلَّآ اَنْ يَّاْتِيْنَ بِفَاحِشَةٍ مُّبَيِّنَةٍ ۗ وَتِلْكَ حُدُوْدُ

၁။ အို–နဗီတမန်တော်၊ (အသင်သည် လူသားတို့အား ပြောကြားလိုက်ပါလေ)။ အသင်တို့သည် ဇနီးမိန်းမများအား တွလာက်ပေး ကွာရှင်း(ရန် ရည်ရွယ်)သောအခါ *၎င်းတို့၏ 'အစ်ဒ္ဒသ်' ရက်များ (စ၍ရေတွက်နိုင်သော) အချိန်ကာလ၌ 'တွလာက်' ပေး ကွာရှင်းကြလေကုန်။* [၁] ၎င်းပြင် အသင်တို့သည် *'အစ်ဒ္ဒသ်' ရက်များကို ရေတွက်ကြလေကုန်။* [၂] ထိုမှတပါး အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်။

---

(၁) အကြောင်းတစ်ခုခုကြောင့် မလွဲမရှောင်သာ၍ မိမိ၏ဇနီးအား ကွာရှင်းရန် ရည်ရွယ်သောအခါ· 'အစ်ဒ္ဒတ်' ရက်တွင် ကွာရှင်းသင့်ပေသည်။ 'အစ်ဒ္ဒတ်' ရက်သည် 'ဟိုက်ဇ္ဇ်' ရာသီသွေး သုံးကြိမ် ဆင်းခြင်းပင်ဖြစ်သည်။

ဤအကြောင်း ကုရ်အာန် (၂း၂၂၈)တွင် ပါရှိခဲ့ချေပြီ။

ဆိုလိုသည်ကား ရာသီသွေးဆင်းနေချိန်တွင် ကွာရှင်းခြင်းမပြုရာ၊ သန့်ရှင်းနေသောအချိန်တွင် ကွာရှင်းရာ၏။ ထို့ပြင်တစ်ဝ တမန်တော်မြတ်၏ ဩဝါဒတော်အရ အဆိုပါ သန့်ရှင်းနေသည့်အချိန်တွင် မေထုန်သံဝါသ မပြုမိရ။

(၂) မလွဲမရှောင်သာ၍ မိမိ၏ဇနီးအား ကွာရှင်းပါက သို့ကွာရှင်းပြီးနောက် ယောကျ်ား၊ မိန်းမနှစ်ဦးစလုံးတို့သည် 'အစ်ဒ္ဒတ်' ရက်ကို ကောင်းစွာ ရေတွက်ထားကြရမည်။ သို့ကောင်းစွာ ရေတွက် မထားကြပါက ပြဿနာပေါ်နိုင်သည်။ ထို့အတွက်ကြောင့်ပင် အထက်ပါ အာယတ်တော်တွင် 'အစ်ဒ္ဒတ်'ရက် ရေတွက်ရာတွင် အပိုအလို မဖြစ်စေသည့် အချိန်အခါမျိုး၌ ကွာရှင်းရန် ညွှန်ကြားထားတော်မူခြင်းဖြစ်သည်။

ٱللَّهِۚ وَمَن يَتَعَدَّ حُدُودَ ٱللَّهِ فَقَدْ ظَلَمَ نَفْسَهُۥۚ لَا تَدْرِى لَعَلَّ ٱللَّهَ يُحْدِثُ بَعْدَ ذَٰلِكَ أَمْرًا ①

ထင်ရှားစွာသော စက်ဆုပ်ရွံ့ရှာမှု တစ်စုံတစ်ရာကို ယင်းဇနီးမိန်းမများ ကျူးလွန်ကြသည်မှတစ်ပါး အသင်တို့သည် ၎င်းတို့အား ၎င်းတို့၏ နေအိမ်များမှ ထွက်စေခြင်းကို မပြုကြကုန်လင့်။ ၎င်းတို့ ကိုယ်တိုင်လည်း (နေအိမ်များမှ) မထွက်ကြရပေ။ [၁]

စင်စစ်သော်ကား ထိုသည် အလ္လာဟ်အရှင်မြတ် (သတ်မှတ်ပြဋ္ဌာန်းတော်မူသော) စည်းကမ်းချက်များပင်၊ မည်သူမဆို အလ္လာဟ်အရှင်မြတ်၏စည်းကမ်းချက်များကို ကျူးလွန်ဖောက်ဖျက်မူ ဧကန်မလွဲ ထိုသူသည် မိမိကိုယ်ကို နှိပ်စက်ခဲ့ချေပြီ။ ထို့နောက် အလ္လာဟ်အရှင်မြတ်သည် အကြောင်းကိစ္စ တစ်စုံတစ်ရာကို အသစ် ဖန်တီး၍ပေးတော်မူမည် ဖြစ်တန်ရာသည်ကို အသင် မသိပြီတကား။ [၂]

---

(၁) မလွဲမရှောင်သာ၍ ကွာရှင်းရာတွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရှိသေခန့်ညား၍ သက်ဆိုင်ရာအမိန့်ပညတ်များကို အတိအကျ လိုက်နာကြရပေမည်။

ဥပမာ-ရာသီသွေးဆင်းနေချိန်တွင် မကွာရှင်းရ၊ (တွလာက်) ကွာရှင်းမှုသုံးခုကိုလည်း တစ်ကြိမ်တည်း တစ်ခါတည်း မပြုရ၊ ကွာရှင်းထားသော အမျိုးသမီးအား ၎င်း၏သက်ဆိုင်ရာနေအိမ်မှလည်း (အကြောင်းမဲ့) နှင်မထုတ်ရ။ ထိုနည်းအတူ ကွာရှင်းခြင်းခံရသော အမျိုးသမီးများသည် မိမိတို့နေထိုင်ရာ သက်ဆိုင်ရာနေအိမ်များမှ မိမိတို့စိတ်စေတနာအလျောက်လည်း ထွက်ခွာမသွားကြရ။

(ဤစွတ်က်နာ) နေထိုင်ခွင့်သည် လူ့အခွင့်အရေးသာမဟုတ်၊ လူ့အခွင့်အရေးဖြစ်ပါမူ လူသည် မိမိ၏အခွင့်အရေးကို စွန့်လွှတ်နိုင်သည်။ ယခုမူ ဤနေထိုင်ခွင့် အခွင့်အရေးသည် ရှရီအတ် တရားတော်၏ အခွင့်အရေးဖြစ်သည်။ စွန့်လွှတ်ပိုင်ခွင့်မရှိ၊ စွန့်လွှတ်သော်လည်း ပျက်ပြယ်သွားမည်မဟုတ်။

သို့ရာတွင် အကယ်၍ ကွာရှင်းခြင်းခံရသော အမျိုးသမီးတစ်ဦးသည် စက်ဆုပ်ရွံ့ရှာဖွယ်အမှုကို အထင်အရှားပြုမူကျင့်ကြံသော် ဥပမာ-ကာမေသုမိစ္ဆာစာရက် ကျူးလွန်သော်၊ သို့မဟုတ် ခိုးဝှက်သော်၊ သို့တည်းမဟုတ် အချို့အာလင်မ်များ၏ အဆိုအရ အချိန်တိုင်းတွင် ပြူစူစောင်းမြောင်း ရေရွတ်ပြောဆိုသော်၊ စကားများရန်တွေ့နေသည်ရှိသော်၊ နှုတ်သံညည်းညူဒေါသမူဖြင့် အငြူအစူပြုမူနေသော် ယင်းသို့သော အမျိုးသမီးများကိုမူ နေအိမ်မှပင်လျှင် နှင်ထုတ်ပိုင်သည်။

အကယ်၍ ကွာရှင်းခြင်းခံရသော အမျိုးသမီးတစ်ဦးသည် မိမိနေအိမ်မှအကြောင်းမဲ့ ထွက်ခွာသွားပါမူ ဤသည် ၎င်း၏အရှက်ကင်းမဲ့သော အပြုအမူသာလျှင်ဖြစ်ပေမည်။

فَإِذَا بَلَغْنَ أَجَلَهُنَّ فَأَمْسِكُوهُنَّ بِمَعْرُوفٍ أَوْ فَارِقُوهُنَّ بِمَعْرُوفٍ وَأَشْهِدُوا ذَوَيْ عَدْلٍ مِّنكُمْ وَأَقِيمُوا الشَّهَادَةَ لِلَّهِ ۚ ذَٰلِكُمْ يُوعَظُ بِهِ مَن كَانَ يُؤْمِنُ بِاللَّهِ وَالْيَوْمِ الْآخِرِ ۚ وَمَن يَتَّقِ اللَّهَ يَجْعَل لَّهُ مَخْرَجًا ۝٢

၂။ တစ်ဖန် ထို(ကွာရှင်းခဲ့သော) ဇနီးမိန်းမများသည် ၎င်းတို့နှင့်ပတ်သက်၍ သတ်မှတ်ထားသော 'အစ်ဒ္ဒတ်'ရက်ပိုင်း၏ နောက်ဆုံးအချိန်ကာလသို့ ရောက်ခါနီးတွင် အသင်တို့သည် ၎င်းတို့အား(တရားတော်၏)စည်းကမ်းနှင့်အညီ ပြန်လည်သိမ်းပိုက်ကြလေကုန်။ သို့တည်းမဟုတ် အသင်တို့သည် (တရားတော်၏) စည်းကမ်းနှင့်အညီ ၎င်းတို့နှင့်ခွဲခွာကြလေကုန်။ [၁]

၎င်းအပြင် အသင်တို့သည် မိမိတို့အနက်မှ *သမာဓိရှိသောသူ နှစ်ယောက်ကို သက်သေထားကြလေကုန်။* [၂] ထိုမှတစ်ပါး အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ရည်သန်၍ ဖြောင့်မှန်စွာ သက်သေထွက်ဆိုကြလေကုန်။ ထိုသည်ကား အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း၊ သက်ဝင်ယုံကြည်သောသူအား ဆုံးမသြဝါဒပေးခြင်းပင်ဖြစ်၏။ [၃]

---

(၂) ဤအာယတ်တော်တွင် ( لا تدرى ) 'လာတဒ်ရီ'-'အသင်မသိ'ဟူသည် မိမိ၏ဇနီးအား ကွာရှင်းသူကို ရည်ညွှန်းသည်။ ဆိုလိုသည်ကား အို-ကွာရှင်းသူ၊ အသင်သည် မိမိ၏ဇနီးအား အလျင်စလို ကွာရှင်းလိုက်ပြီ။ သို့အသင် ကွာရှင်းပြီးနောက်တွင် အလ္လာဟ်အရှင်မြတ်သည် အကြောင်းတစ်စုံတစ်ရာကို အသစ်ဖန်တီး ပေးတော်မူကောင်းမူပေလိမ့်မည်။ သို့ဖန်တီးပေးမှုကြောင့် အသင်တို့ဇနီးမောင်နှံသည် ပြန်လည်သင့်မြတ်သွားနိုင်ကြပေသည်။

ထိုအခါ အသင်တို့သည် မိမိကွာရှင်းမှုပြုမိလေခြင်းဟု ဝမ်းနည်းကြေကွဲပေမည်။ ဤသည်ကို အသင်မသိ။ သို့ဖြစ်ရာ ကွာရှင်းရာတွင် အလျင်စလိုမပြုရ၊ စိတ်လိုက်မာန်ပါမပြုမှားမိကြရာ။

(၁) 'တွလာက်ရဂ်ျအီ' ပေးခြင်းခံရသော အမျိုးသမီးများသည် 'အစ်ဒ္ဒတ်'ရက် ကုန်ဆုံးခါနီးသို့ ရောက်ရှိသွားကြသောအခါ လင်ယောကျ်ားများအဖို့ ပြုလုပ်ရန် နှစ်ခုသာရှိပေသည်။ လင်ယောကျ်ားများသည် ဇနီးမိန်းမများအား ကောင်းမြတ်သောနည်းဖြင့် ပြန်လည်သိမ်းပိုက်လိုက သိမ်းပိုက်နိုင်ကြပေသည်။ သို့တည်းမဟုတ် ဆက်လက်၍ လုံးဝမပေါင်းသင်းလိုက ကောင်းမြတ်သောနည်းဖြင့် ဂုဏ်ရှိရှိသိက္ခာရှိရှိ လုံးလုံးလျားလျား စွန့်လွှတ်နိုင်ကြပေသည်။

ဆိုလိုသည်ကား လင်ယောကျ်ားများသည် ဇနီးမိန်းမများအား ပြန်လည်သိမ်းပိုက်ကြသည်ဖြစ်စေ၊ သားမယားအဖြစ်မှ လုံးဝစွန့်လွှတ်ကွာရှင်း ပြတ်စဲကြသည်ဖြစ်စေ၊ အသို့ပင်ဖြစ်စေကာမူ ဇနီးမိန်းမများအား မည်သည့်နည်းနှင့်မျှ အရှက်တကွဲ အကျိုးနည်းအောင် မပြုလုပ်ကြရာ။ ➤➤

➤➤ တစ်ခါတစ်ရံ အချို့ယောကျ်ားများသည် မိမိတို့၏ဇနီးများအား ပြန်လည်သိမ်းပိုက်၍ သင့်မြတ်စွာ ဆက်လက်ပေါင်းသင်းလိုကြ သည်မဟုတ်၊ သို့ပါသော်လည်း 'အစ်ဒ္ဒတ်'ရက်ကို ရှည်လျားစေရန်အတွက် ကွာရှင်းမှုကိုပြန်လည်ရုပ်သိမ်းကြ၏။ ဤသို့လည်း မပြုကြရာ။

အချို့ယောကျ်ားများသည် ဇနီးမိန်းမများအား တမင်သက်သက် ဒုက္ခပေးနိုင်ရန်အတွက် ကွာရှင်းမှုကို ပြန်လည်ရုပ်သိမ်းကြ၏။ ဤသည်ကိုလည်း မပြုကြရာ။ ဤအကြောင်း ကုရ်အာန် (၂:၂၃၁)တွင် ပါရှိခဲ့ချေပြီ။

(၂) ဆိုလိုသည်ကား 'တွလာက်ရဂျ်အီ' ပေး၍ ကွာရှင်းထားသော အမျိုးသမီးများအား 'အစ်ဒ္ဒတ်' ရက်အတွင်း ပြန်လည်သိမ်းပိုက်သည်ဖြစ်စေ၊ လုံးလုံးလျားလျား စွန့်လွှတ်လိုက်သည်ဖြစ်စေ၊ အသို့ပင်ဖြစ်စေ၊ တရားမျှတသော ဂုဏ်သမာဓိရှိသူနှစ်ဦးအား သက်သေထားကြရပေမည်။ သက်သေမထားမိကြပါက ပြန်လည်ရုပ်သိမ်းသည့် အဖြစ်မျိုးတွင် အမျိုးသမီးများဘက်မှ အငြင်းပွားနိုင်ကြပေသည်။ လုံးလုံးလျားလျား စွန့်လွှတ်သည့်အဖြစ်မျိုးတွင် ယောကျ်ားများဘက်မှ ကျွန်ုပ်သည် ကွာရှင်းမှုကို ပြန်လည်ရုပ်သိမ်းထားပြီးဖြစ်သည်ဟု လိမ်လည် ပြောဆိုနိုင်ကြပေသည်။ ကြည့်-ထာနဝီ။

ဇနီးမောင်နှံနှစ်ဦး ပြန်လည်ပေါင်းသင်းကြသည်ဖြစ်စေ၊ လုံးလုံးပြတ်စဲကြသည်ဖြစ်စေ၊ တရားဝင် သက်သေများ မထားရှိပါက အကြောင်းမသိသူများက ယိုးစွပ်ပြောဆိုကြပေမည်။

(၃) ယောကျ်ားများသည် ဇနီးမိန်းမများအား တစ်ကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ်မဟုတ်၊ ရာ(၁၀၀) နှင့်ချီ၍ ကွာရှင်းလေ့ရှိခဲ့ကြ၏။ သို့ကွာရှင်းပြီးနောက်တွင်လည်း အမျိုးသမီးတို့၏ ဒုက္ခမှာ ကုန်ဆုံး ရပ်တန့်သွားသည် မရှိခဲ့ပေ။

ကုရ်အာန်ကျမ်းမြတ်တွင် အထူးသဖြင့် ဤကဏ္ဍတွင် ယင်းသည့် နှိပ်စက်ညှဉ်းပန်းမှု၊ မတရား ကျူးကျော်စော်ကားမှုများကို လုံးဝပိတ်ပင်တားဆီးနိုင်ရန်အလို့ငှာ ထိမ်းမြားရေး၊ ကွာရှင်းရေးနှင့်စပ်လျဉ်း၍ စည်းကမ်းချက်များကို တိကျပြတ်သားစွာ သတ်မှတ်ပြဋ္ဌာန်း ၍ပေးထားတော်မူသည်။

ဆိုလိုသည်ကား ယောကျ်ားများသည် ဇနီးမိန်းမများနှင့် ဆက်ဆံပေါင်းသင်းနေထိုင်လိုကြပါက ဇနီးများအား သားမှတ်မှတ်၊ မယားမှတ်မှတ် ဂုဏ်ရှိရှိ၊ သိက္ခာရှိရှိ ထားကြရမည်။ မလွဲမရှောင်သာ၍ ကွာရှင်းလိုပါကလည်း နှမချင်းစာနာကာ ဂုဏ်ရှိရှိ၊ သိက္ခာရှိရှိ ကောင်းမြတ်သောနည်းနှင့်ပင် ကွာရှင်းကြရပေမည်။ မည်သည့်အချိန်တွင်မျှ မည်သို့မျှ ဒုက္ခမပေးကြရ၊ အရှက်တကွဲ အကျိုးနည်း မပြုကြရ။

ဤသည့်အဆုံးအမတော်ကို အသူလိုက်နာ ကျင့်သုံးအံ့နည်း။ အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း၊ အမှန်တကယ် ယုံကြည်သူများသာလျှင် လိုက်နာကျင့်သုံးကြပေသည်။ အဘယ်ကြောင့်ဆိုသော် ဤသည့်ယုံကြည်မှုသည်ပင် လူသားတို့၏စိတ်တွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားမှုကို ထည့်သွင်းပေးသည်။

ဤသည့်ကြောက်ရွံ့ ရိုသေခန့်ညားမှုသည်ပင် ယောကျ်ားများအား ဇနီးမိန်းမများအပေါ်၌ မတရားကျူးကျော်စော်ကားခြင်း၊ နှိပ်စက်ညှဉ်းပန်းခြင်းများမှ တားဆီးပေးပေသည်။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို နာခံရန် တိုက်တွန်းလှုံ့ဆော်ပေးပေသည်။

ထို့အတွက်ကြောင့်ပင် ဤကဏ္ဍတွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကြရမည့် အကြောင်း အကြိမ်ကြိမ် မိန့်ဆိုထားတော်မူပေသည်။

ကုရ်အာန် (၂:၂၃၂) တွင်လည်း ဤသည့်သဘောကို မိန့်ဆိုထားတော်မူသည်။

وَّيَرۡزُقۡهُ مِنۡ حَيۡثُ لَا يَحۡتَسِبُ ؕ وَمَنۡ يَّتَوَكَّلۡ عَلَى اللّٰهِ فَهُوَ حَسۡبُهٗ ؕ اِنَّ اللّٰهَ بَالِغُ اَمۡرِهٖ ؕ قَدۡ جَعَلَ اللّٰهُ لِكُلِّ شَىۡءٍ قَدۡرًا ③

စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့သည်ရှိသော် ထိုအရှင်မြတ်သည် ထိုသူတို့၏အဖို့ ထွက်မြောက်ရာနည်းလမ်းကို ပြုလုပ်၍ ပေးသနားတော်မူပေမည်။ [၁]

၃။ ထိုမှတစ်ပါး ထိုအရှင်မြတ်သည် ထိုသူအား ထိုသူ မထင်သောနေရာမှ စားနပ်ရိက္ခာကို ချီးမြှင့်ပေးသနားတော်မူပေမည်။ ထိုမှတစ်ပါး မည်သူမဆို အလ္လာဟ်အရှင်မြတ်အပေါ်၌ ယုံကြည်အားထားပါမူ ထိုအရှင်မြတ်သည် ထိုသူ၏အဖို့ လုံလောက်တော်မူ၏။ ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် မိမိအရေးကိစ္စကို ပြီးမြောက်အောင် ပြုလုပ်ပေးတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူ၏။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့နှင့်စပ်လျဉ်း၍ အတိုင်းအတာ အချိန်အဆတစ်ခုကို ပြုလုပ်၍ ထားရှိတော်မူပေသတည်း။

---

(၁) **'တတ်က်ဝါ' သည် အချုပ်ပင်။**

အကြင်သူတစ်ဦးသည် 'တတ်က်ဝါ' တရားလက်ကိုင်ထားသော်၊ အလ္လာဟ်အရှင်မြတ်အား အမှန်တကယ် ကြောက်ရွံ့ရိုသေခန့်ညား၍ ထိုအရှင်မြတ်၏ အမိန့်တော်များကို မြေဝယ်မကျ ဦးထိပ်ရွက်ပန်သည်ရှိသော် အဘယ်မျှပင် ကြီးလေးခက်ခဲသော အခက်အခဲများနှင့် ရင်ဆိုင်ရလင့်ကစား၊ အလ္လာဟ်အရှင်မြတ်သည် ထိုသူအဖို့ ယင်းသည့် အခက်အခဲ များမှ လွတ်မြောက်ရန် နည်းလမ်းကိုဖန်တီးပေးတော်မူမည်။

ထို့ပြင်တဝ ထိုအရှင်မြတ်သည် ထိုသူကိုယ်တိုင် မတွေးထင်မိသော နေရာမှပင် စားနပ်ရိက္ခာကိုလည်း ချီးမြှင့်တော်မူမည်။ အမှန်မှာ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားမှုသည် နှစ်ဘဝ၏ ဘဏ္ဍာတော်များဖြစ်သော၊ အောင်မြင်မှုအပေါင်းတို့၏ အဓိကအချက်ပင်ဖြစ်ပေသည်။

ယင်းသည့် ကြောက်ရွံ့ရိုသေခန့်ညားမှုကြောင့် အခက်အခဲများ ပြေလည်၏။ မတွေးမထင်မိသော နေရာမှ ရိက္ခာရရှိ၏။ အပြစ်များမှ လွတ်ငြိမ်းချမ်းသာခွင့်ရရှိ၏။ (ဂျန္နတ်)သုခဘုံရရှိ၏။ ကုသိုလ် အကျိုးတိုးပွား၏။ အံ့မဆုံးသည့် စိတ်၏ချမ်းသာမှုကို ခံစားရ၏။ ယင်းသည့်နောက်ပိုင်းတွင် မည်သည့်ဒုက္ခမျှ ဒုက္ခမဟုတ်တော့ပေ။ မည်သည့်အခက်အခဲမျှ ခက်ခဲသည်မရှိတော့ပေ။ ဒုက္ခအပေါင်း ချုပ်ငြိမ်းသွားသည်သာ ဖြစ်ပေသည်။

ကြည့်-ကုရ်အာန် (၆၅:၄-၅)။

တမန်တော်မြတ်က 'လူသားအားလုံးတို့သည် ဤအာယတ်တော်ကိုပင် ဆုပ်ကိုင်ထားကြပါက ၎င်းတို့အဖို့ လုံလောက်သည်'ဟူ၍ပင် မိန့်ကြားတော်မူခဲ့ပေသည်။ ကြည့်-အွတ်ဆ်မာနီ။ မဒါရစ်က်၊ နစဖီ။

၄။ ၎င်းပြင် အသင်တို့၏ (ကွာရှင်းပြီးဖြစ်သော) ဇနီးမိန်းမတို့အနက် ရာသီပန်းပွင့်ခြင်းမှ မျှော်လင့်ချက်ကင်းခဲ့ကြသော မိန်းမများသည် အကယ်၍(၎င်းတို့၏ 'အစ်ဒ္ဒတ်'နှင့်စပ်လျဉ်း၍) အသင်တို့သည် *ဒွိဟသံသယ ဖြစ်ခဲ့ကြလျှင် ၎င်းတို့၏ 'အစ်ဒ္ဒတ်'မှာ သုံးလ(တိတိ)ဖြစ်၏။* [၁] ထိုနည်းတူစွာ ရာသီပန်း ပွင့်ဖူးခဲ့သည်မရှိသေးသောမိန်းမများ(၏ 'အစ်ဒ္ဒတ်'မှာ)လည်း (သုံးလတိတိပင်)၊ ထိုမှတစ်ပါး ကိုယ်ဝန်ရှိသော မိန်းမများသည် ၎င်းတို့၏('အစ်ဒ္ဒတ်'ရက်) အပိုင်းအခြားမှာ ၎င်းတို့သည် *မိမိတို့၏ကိုယ်ဝန်ကို ဖွားမြင်ခြင်းပင်ဖြစ်၏။* [၂] စင်စစ် မည်သူမဆို အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့သည်ရှိသော် ထိုအရှင်မြတ်သည် ၎င်းတို့အဖို့ ၎င်း၏အရေးကိစ္စကို လွယ်ကူအောင် ပြုလုပ်ပေး၍ ပေးတော်မူမည်ဖြစ်၏။

وَالّٰٓـِٔيْ يَىِٕسْنَ مِنَ الْمَحِيْضِ مِنْ نِّسَآىِٕكُمْ اِنِ ارْتَبْتُمْ فَعِدَّتُهُنَّ ثَلٰثَةُ اَشْهُرٍ وَّالّٰٓـِٔيْ لَمْ يَحِضْنَ ؕ وَاُولَاتُ الْاَحْمَالِ اَجَلُهُنَّ اَنْ يَّضَعْنَ حَمْلَهُنَّ ؕ وَمَنْ يَّتَّقِ اللّٰهَ يَجْعَلْ لَّهٗ مِنْ اَمْرِهٖ يُسْرًا ④

၅။ ထိုသည်ကား အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ပင်၊ ထိုအရှင်မြတ်သည် ယင်းအမိန့်တော်ကို အသင်တို့ထံ ချပေးတော်မူခဲ့၏။ စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ပါမူ ထိုအရှင်မြတ်သည် ထိုသူ၏ ပြစ်မှုဒုစရိုက်များကို ထိုသူမှ ပပျောက်စေတော်မူမည်။ ထိုမှတစ်ပါး ထိုသူ၏ အကျိုးကျေးဇူးကို ကြီးကျယ်စေတော်မူအံ့သတည်း။

ذٰلِكَ اَمْرُ اللّٰهِ اَنْزَلَهٗۤ اِلَيْكُمْ ؕ وَمَنْ يَّتَّقِ اللّٰهَ يُكَفِّرْ عَنْهُ سَيِّاٰتِهٖ وَيُعْظِمْ لَهٗۤ اَجْرًا ⑤

---

(၁) ကွာရှင်းထားသော အမျိုးသမီးများ၏ 'အစ်ဒ္ဒတ်' ရက်မှာ ရာသီသွေး သုံးကြိမ်ဆင်းသက်ခြင်းပင်ဖြစ်သည်။ ကြည့်-ကုရ်အာန် (၂:၂၂၈) အကယ်၍ ကွာရှင်းထားသော အမျိုးသမီးတစ်ဦးသည် အသက်အရွယ်ကြီးရင့်မှုကြောင့်သော်လည်းကောင်း၊ ရောဂါဖိစီးမှုကြောင့်သော်လည်းကောင်း၊ အသက်အရွယ်ငယ်၍သော်လည်းကောင်း၊ ရာသီသွေး မဆင်းသော် ယင်းသို့သော အမျိုးသမီး၏ 'အစ်ဒ္ဒတ်' ရက်မှာ သုံးလဖြစ်သည်။
(၂) ကိုယ်ဝန်ဆောင် အမျိုးသမီးတစ်ဦးသည် ကွာရှင်းခြင်းခံခဲ့ရသော် ၎င်း၏ 'အစ်ဒ္ဒတ်' ရက်မှာ မိမိ၏ကိုယ်ဝန်ကို ဖွားမြင်သည် အထိဖြစ်သည်။ ကိုယ်ဝန်ကို ဖွားမြင်ရာတွင် အချိန်တိုတောင်းသည်ဖြစ်စေ၊ ကြာညောင်းသည်ဖြစ်စေ၊ သုံးလအတွင်း ဖွားမြင်သည်ဖြစ်စေ၊ သုံးလထက်ကျော်မှပင် ဖွားမြင်သည်ဖြစ်စေ အတူတူပင်။ ➢➢

أَسْكِنُوهُنَّ مِنْ حَيْثُ سَكَنتُم مِّن وُجْدِكُمْ وَلَا تُضَآرُّوهُنَّ لِتُضَيِّقُوا۟ عَلَيْهِنَّ ۚ وَإِن كُنَّ أُو۟لَٰتِ

၆။ အသင်တို့သည် ထို(ကွာရှင်းပြီး ဖြစ်ကြသော) မိန်းမများအား မိမိတို့ နေထိုင်ရာတွင် *မိမိတို့၏ ကြွယ်ဝမှုနှင့်လျော်ညီ(နေထိုင်ရန်) အိမ်ပေးကြလေကုန်။* [၁] ထို့အပြင် အသင်တို့သည် ၎င်းတို့အပေါ်၌ ကျပ်တည်းစေခြင်းငှာ ၎င်းတို့အား *ဒုက္ခမပေးကြကုန်လင့်။* [၂]

---

➤➤ ကိုယ်ဝန်ဆောင် အမျိုးသမီးတစ်ဦးသည် ကွာရှင်းပြီးနောက် နာရီပိုင်းအတွင်းမှာပင် ဖွားမြင်သော်၊ ၎င်း၏ 'အစ်ဒ္ဒတ်' ရက်မှာ ပြည့်စုံသွားပြီဟူ၍ မှတ်ယူရမည်။ဖွားမြင်ရာတွင် အချိန်အလွန်ကြန့်ကြာ နေပါကလည်း ကလေးမဖွားမြင်သမျှ ၎င်း၏ 'အစ်ဒ္ဒတ်' ရက်မှာ ကုန်ဆုံးမည်မဟုတ်ပေ။ ကြည့်-မာဂျိဒီ။

(၁) ကွာရှင်းထားသော အမျိုးသမီးများအား 'အစ်ဒ္ဒတ်'ရက် ကုန်ဆုံးသည်ထိ မိမိတို့ နေထိုင်ရာတွင် နေရာထိုင်ခင်း ပေးခြင်းသည် သက်ဆိုင်ရာ ကွာရှင်းသောလင်ယောကျာ်းများ၏ တာဝန်ပင် ဖြစ်သည်။ ဤသည်ကို 'စွတ်က်နာ' ဟု ခေါ်သည်။

လင်ယောကျာ်းများသည် မိမိတို့ကွာရှင်းထားသော အမျိုးသမီးများအား 'အစ်ဒ္ဒတ်'ရက် ကုန်ဆုံးသည် အထိ နေရာထိုင်ခင်း ပေးနေကြရသည်ဖြစ်ရာ စားသောက်ရေးကိုလည်း တာဝန်ယူကြရပေမည်။ တာဝန်ယူမှုမှာ မိမိ၏အခြေအနေအရ ထိုက်တန်သည့်အား လျော်ညီစွာ ဖြစ်ရပေမည်။

ဟနဖီဂိုဏ်း၏ ယူဆချက်အရ နေရာထိုင်ခင်းပေးရေး၊ စားရေးသောက်ရေးဆိုင်ရာ၊ ဤအမိန့်တော်သည် ကွာရှင်းခြင်းခံရသော အမျိုးသမီးအားလုံးနှင့် သက်ဆိုင်ပေသည်။ (တွလာက်ရဂျ်အီ) ပြန်လည်ရုပ်သိမ်းပိုင်ခွင့်ရှိသော ကွာရှင်းခြင်းမျိုးဖြင့် ကွာရှင်းခံရသော အမျိုးသမီးများသာလျှင် သက်ဆိုင်သည်မဟုတ်ပေ။

(ဟဒီးဆ်)ဩဝါဒတော်ဆိုင်ရာ ကျမ်းကြီးများတွင် ဖာတိမဟ်ဗင်န်တ ကိုတ်စ်က 'ကျွန်မ၏ခင်ပွန်းသည် ကျွန်မအား 'တွလာက်' သုံးကြိမ်ပေးလိုက်ပါသည်။ တမန်တော်မြတ်သည် ကျွန်မအား နေထိုင်ရေးနှင့် စားရေးသောက်ရေးကို စီစဉ်ပေးတော်မမူခဲ့ပါ'ဟု ဖွင့်ဟပြောဆိုခဲ့သည့်အကြောင်း ပါရှိ၏။

ဤအကြောင်းကို သမ္မတကြီး အုမရ်၊ ကြင်ရာတော် အာအိရှဟ်၊ ဆွဟာဗဟ်သာဝကကြီးများနှင့် 'တာဗိအီ' မည်သော အတိတ်ခေတ်ပညာရှင်များက လက်မခံခဲ့ကြပေ။ သမ္မတကြီးအုမရ်က 'ကျွန်ုပ်တို့သည် အမျိုးသမီးတစ်ဦး၏ ပြောဆိုမှုကြောင့် အလ္လာဟ်အရှင်မြတ်၏ ကျမ်းဂန်နှင့် တမန်တော်မြတ်၏ စွန္နတ်တော်ကို မစွန့်လွှတ်နိုင်ကြပေ'ဟူ၍ပင် ထုတ်ဖော်ပြောဆိုခဲ့လေသည်။

ဆိုလိုသည်ကား တွလာက်သုံးကြိမ်ပေးခြင်းခံရသော အမျိုးသမီးအားလည်း နေရာထိုင်ခင်းနှင့် စားသောက်ရေးကို စီစဉ်ပေးခြင်းမှာ သက်ဆိုင်ရာလင်ယောကျာ်း၏ တာဝန်ပင်ဖြစ်သည်ဟူ၍ သမ္မတကြီးအုမရ်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များအရ ပိုင်နိုင်စွာ နားလည်သဘောပေါက်၍ နေခဲ့ပေသည်။

ဤအကြောင်းနှင့်စပ်လျဉ်း၍ သမ္မတကြီးအုမရ်ထံတွင် တမန်တော်မြတ်၏ ဩဝါဒတော်များလည်း အခိုင်အမာရှိနေခဲ့ပေသည်။ ယင်းသည့်ဩဝါဒတော်များကို တွဟာဝီနှင့် အခြားအာလင်မ်ပညာရှင်ကြီးများကလည်း မိမိတို့၏ကျမ်းကြီးများတွင် အတိအလင်း ဖော်ပြထားကြပေသည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ မော်လာနာ အွတ်ဆ်မာနီသခင်က မိမိ၏ကျမ်းတွင် အကျယ်တဝင့်ဖွင့်ဆို ရေးသားထားသည်။ ကျမ်းလေးမည်စိုး၍ အကျယ်မရေးပြီ။

حَمْلٍ فَأَنفِقُوا۟ عَلَيْهِنَّ حَتَّىٰ يَضَعْنَ حَمْلَهُنَّ ۚ فَإِنْ أَرْضَعْنَ لَكُمْ فَـَٔاتُوهُنَّ أُجُورَهُنَّ ۖ وَأْتَمِرُوا۟ بَيْنَكُم بِمَعْرُوفٍ ۖ وَإِن تَعَاسَرْتُمْ فَسَتُرْضِعُ لَهُۥٓ أُخْرَىٰ ﴿٦﴾

ထိုမှတစ်ပါး အကယ်၍ ထိုမိန်းမများမှာ ကိုယ်ဝန်ရှိသူများ ဖြစ်ခဲ့ကြလျှင် အသင်တို့သည် ၎င်းတို့နှင့်ပတ်သက်၍ ၎င်းတို့သည် *မိမိတို့၏ကိုယ်ဝန်ကို ဖွားမြင်ကြသည်အထိ သုံးစွဲကြလေကုန်။* [၁]

တစ်ဖန် အကယ်၍ ၎င်းတို့သည် အသင်တို့ အကျိုးငှာ (အသင်တို့၏ကလေးကို) နို့တိုက်ကျွေးခဲ့ကြလျှင် အသင်တို့သည် ၎င်းတို့အား ၎င်းတို့အခများကို ပေးဆပ်ကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် မိမိတို့အချင်းချင်း သင့်လျော်စွာ ညှိနှိုင်းတိုင်ပင်ကြလေကုန်။ သို့ရာတွင် အကယ်၍ သင်တို့သည် အချင်းချင်း မညီမညွတ် မပြေမလည် ဖြစ်ခဲ့ကြလျှင် ထို(ဖခင်)၏ အကျိုးငှာ အခြားမိန်းမ တစ်ဦးတစ်ယောက်သည် နို့တိုက်ကျွေးရမည်ဖြစ်၏။ [၂]

---

(၂) ဆိုလိုသည်ကား ကွာရှင်းထားသော အမျိုးသမီးများအား နေအိမ်မှ ထွက်ခွာသွားစေရန်အတွက် ဒုက္ခမပေးကြရာ၊ အကျပ်အတည်းမဖြစ်စေကြရာ။ 'ပေးကားပေး၏၊ မရ' ဆိုရိုးစကားကဲ့သို့ အမည်ခံမပေးကြရာ။ အကျပ်ကိုင်၍ အိမ်မှနှင်မထုတ်ကြရာ။

ဇနီးမိန်းမများအား ကွာရှင်းလိုကလည်း ဂုဏ်ရှိရှိ၊ သိက္ခာရှိရှိ ကွာရှင်းကြရမည်။ ဇနီးမိန်းမများနှင့် ပြန်လည်ပေါင်းသင်းလိုပါကလည်း ဂုဏ်ရှိရှိ၊ သိက္ခာရှိရှိ ပေါင်းသင်းကြရမည်။ ကွာရှင်းထားသော အမျိုးသမီးများနှင့်လည်း 'အစ်ဒ္ဒတ်' ရက်အတွင်း ဂုဏ်ရှိရှိ၊ သိက္ခာရှိရှိနှင့်ပင် ဆက်ဆံကြရပေမည်ဟူ၏။

(၁) ကွာရှင်းခံရသော အမျိုးသမီးများသည် ကိုယ်ဝန်ဆောင်များဖြစ်နေပါက၊ ကလေးဖွားမြင်ကြသည်အထိ ၎င်းတို့အား စားစရိတ်ကို သက်ဆိုင်ရာ ကွာရှင်းထားသော ယောကျာ်းများက ပေးကြရမည်ဖြစ်သည်။ ဤသို့ အထူးတလည် မိန့်ဆိုထားတော်မူခြင်းမှာ တစ်ခါတစ်ရံ ကိုယ်ဝန်ဆောင်အမျိုးသမီးတစ်ဦးသည် သားဖွားရာတွင် အချိန်အတော်အတန် ကြာလေ့ရှိတတ်သည်။ သို့အချိန်ကြာသည့် အခါမျိုးတွင် သက်ဆိုင်ရာ ယောကျာ်းဖြစ်သူသည် သုံးလအထိသာ စားစရိတ်ပေး၍၊ ထို့နောက် စားစရိတ်ပေးခြင်းကို ရပ်စဲမပစ်ရန်ပင်ဖြစ်သည်။

(၂) ကလေးဖွားမြင်ပြီးနောက် အကယ်၍ ကလေး၏မိခင်သည် ကလေးအား နို့ရည်တိုက်ကျွေးပါက၊ ကလေး၏ ဖခင်သည် အခြားနို့ထိမ်းသည်ကို ငှားရမ်းပါက အခကြေးငွေပေးရသကဲ့သို့ ကလေးမိခင်အား ပေးရပေမည်။ အခကြေးငွေကိုလည်း အချင်းချင်း တိုင်ပင်၍ လျော်ကန်သင့်မြတ်စွာ သတ်မှတ်ကြရပေမည်။ အခကြေးငွေကို သတ်မှတ်ရာတွင် အချင်းချင်းထောက်ထားကြရပေမည်။ အကျပ်မကိုင်ကြရာ၊ မဖိနှိပ်ကြရာ၊ ကလေး၏မိခင် ကလည်း မိမိ၏ကလေးအား နို့တိုက်ခြင်းမှမငြင်းရာ။ ကလေး၏ဖခင်ကလည်း ကလေးမိခင်ရှိပါလျက် အခြား နို့ထိမ်းမငှားရာ။

▷▷

لِيُنفِقْ ذُو سَعَةٍ مِّن سَعَتِهِ ۖ وَمَن قُدِرَ عَلَيْهِ رِزْقُهُ فَلْيُنفِقْ مِمَّا آتَاهُ اللَّهُ ۚ لَا يُكَلِّفُ اللَّهُ نَفْسًا إِلَّا مَا آتَاهَا ۚ سَيَجْعَلُ اللَّهُ بَعْدَ عُسْرٍ يُسْرًا ﴿٧﴾

၇။ ကြွယ်ဝချမ်းသာသောသူသည် မိမိကြွယ်ဝမှုနှင့်လျော်ညီစွာ သုံးစွဲရပေမည်။ သို့ရာတွင် စီးပွားဥစ္စာကျပ်တည်းသောသူမှာမူကား မိမိအား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ပေးသနားတော်မူသမျှ (ဥစ္စာပစ္စည်း) အနက်မှ သုံးစွဲရပေမည်။

အလ္လာဟ်အရှင်မြတ်သည် မည်သူတစ်ဦး တစ်ယောက်ကိုမျှပင် မိမိချီးမြှင့်ပေးသနားတော်မူသည်ထက် ပို၍ တာဝန်ပေးသည်မဟုတ်ပေ။ အလ္လာဟ်အရှင်မြတ်သည် ကျပ်တည်းမှု၏နောက်တွင် မကြာမြင့်မီပင် ချောင်လည်မှုကိုဖန်တီး၍ *ပေးသနားတော်မူအံ့သတည်း။* [၁]

---

➤➤ ကလေးနို့တိုက်ကျွေးရေးစပ်လျဉ်း၍ ကလေး၏မိခင်သည် ကလေးအား နို့တိုက်ကျွေးရန် သဘောမတူပါက ကလေးအား အခြားနို့ထိမ်းသည် တစ်ဦးဦးက တိုက်ကျွေးပေးလိမ့်မည်။ ကလေးအား နို့တိုက်ကျွေးမှုသည် ကလေး၏မိခင်အပေါ်၌သာလျှင် တည်ရှိနေသည် မဟုတ်ပေရာ၊ ကလေး၏မိခင်သည် အကြောင်းမဲ့ ဦးခေါင်း မမာရာ။

တဖန် ကလေး၏ဖခင်သည် ကလေးအား ကလေး၏မိခင်က နို့တိုက်ကျွေးသည်ကိုပင် အကြောင်းမဲ့ မလိုလားသော် အဆိုပါ ကလေး၏ဖခင်သည် ကလေးအား နို့တိုက်ကျွေးနိုင်ရန်အတွက် အခြားနို့ထိမ်းသည် တစ်ဦးဦးအား မလွဲမရှောင်သာ ငှားရမ်းရမည်သာဖြစ်သည်။ သို့ငှားရမ်းသည့်အခါ နို့ထိမ်းသည်အားလည်း နည်းများမဆို အခကြေးငွေ ပေးရမည်သာဖြစ်သည်။ သို့ဖြစ်ရာ ယင်းသည့်အခကြေးငွေကို သူတစ်ပါးအား ပေးရမည့်အစား ကလေး၏မိခင်အား အဘယ်လိုသနည်း။

ဆိုလိုသည်ကား ဇနီးမောင်နှံနှစ်ဦးတို့သည် အကြောင်းတစ်ခုခုကြောင့် မလွဲမရှောင်သာ ပြတ်စဲကြသော်လည်း မိမိတို့၏ရင်သွေးအား နို့တိုက်ကျွေးရေးကိစ္စတွင်မူ အချင်းချင်း ထောက်ထားသင့်ကြပေသည်။ မိခင်ဖြစ်သူကလည်း မိမိ၏ရင်သွေးအား နို့တိုက်ကျွေးသင့်ပေသည်။ ဖခင်ဖြစ်သူကလည်း ကလေး၏မိခင်အား လျော်ကန်သင့်မြတ်သည့် အခကြေးငွေကိုပေးကြောင့် မပေးသင့်ပေသည်။

(၁) ဆိုလိုသည်ကား ကလေးအား မွေးမြူစရိတ်သည် ဖခင်၏တာဝန်ပင်ဖြစ်သည်။ ဖခင်ဖြစ်သူသည် ဥစ္စာခနကုံလုံကြွယ်ဝပါက ကြွယ်ဝသည့်အလျောက်၊ ဆင်းရဲနွမ်းပါးပါက နွမ်းပါးသည့်အလျောက် မွေးမြူစရိတ်ပေးရမည်။ အလ္လာဟ်အရှင်မြတ်သည် မည်သူ့ကိုမှ မိမိချီးမြှင့်ထားတော်မူသည်ထက်ပို၍ တာဝန်ပေးတော်မူသည်မရှိပေ။

အကယ်၍ ဖခင်ဖြစ်သူသည် ဆင်းရဲနွမ်းပါးသည့်အချိန်တွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်နှင့်အညီဆုံး သုံးစွဲပါက ထိုအရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ထိုသူ၏ကျပ်တည်းမှုကို ချောင်လည်မှုဖြင့်လည်းကောင်း၊ ဆင်းရဲနွမ်းပါးမှုကို ကြွယ်ဝချမ်းသာမှုဖြင့်လည်းကောင်း ပြောင်းလဲပေးတော်မူမည်ဖြစ်သည်။

وَكَأَيِّن مِّن قَرْيَةٍ عَتَتْ عَنْ أَمْرِ رَبِّهَا وَرُسُلِهِ فَحَاسَبْنَاهَا حِسَابًا شَدِيدًا وَعَذَّبْنَاهَا عَذَابًا نُّكْرًا ⑧

၈။ စင်စစ်သော်ကား မြောက်မြားစွာသော မြို့ရွာများ(၌ နေထိုင်သောသူတို့)သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အမိန့်တော်ကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ရစူလ်တမန်တော်များ၏ အမိန့်များကိုလည်းကောင်း၊ ဖီဆန်တော်လှန်ခဲ့ကြလေ၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ယင်း မြို့(သူ)ရွာ(သား)တို့အား ပြင်းထန်စွာ စစ်ဆေးတော်မူသည့်ပြင် ၎င်းတို့အား ဆိုးရွားလှသော ပြစ်ဒဏ်ကို တပ်ရိုက်စီရင်တော်မူခဲ့သည်။

فَذَاقَتْ وَبَالَ أَمْرِهَا وَكَانَ عَاقِبَةُ أَمْرِهَا خُسْرًا ⑨

၉။ မည်သို့ပင်ဖြစ်စေ ယင်းမြို့(သူ)ရွာ(သား)တို့မှာ မိမိတို့၏ အမှုကိစ္စများနှင့်စပ်လျဉ်း၍ ပြစ်ဒဏ်ကို မြည်းစမ်းခဲ့ကြရကုန်၏။ စင်စစ် ၎င်းတို့၏ နောက်ဆုံးအကျိုးမှာ ဆုံးရှုံးမှုပင် ဖြစ်ခဲ့လေ၏။ [၁]

---

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို အထူးသဖြင့် အမျိုးသမီးများနှင့်စပ်လျဉ်းသည့် အမိန့်တော်များကို တိကျမှန်ကန်စွာ လိုက်နာကျင့်သုံးကြရပေမည်။ တမန်တော်မြတ်ကလည်း "အသင်တို့အနက် အကောင်းဆုံးမှာ မိမိတို့၏ အိမ်သူအိမ်သား သားမယားတို့အပေါ်၌ ကောင်းသူသာဖြစ်သည်။ ကျွန်ုပ်သည် အသင်တို့တွင် မိမိ၏အိမ်သူအိမ်သား သားမယားတို့အပေါ်၌ အကောင်းဆုံးပင်ဖြစ်သည်"ဟု မိန့်ကြားတော်မူခဲ့လေသည်။ သို့ပါလျက် အကြင်သူတစ်ဦးသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို တော်လှန်ကာ၊ တမန်တော်မြတ်၏လမ်းစဉ်ကို သွေဖည်ကာ မိမိ၏အိမ်သူအိမ်သား သားမယားအပေါ်၌ မောက်မာဆိုးသွမ်းသောင်းကျန်းလာပါက၊ အလ္လာဟ်အရှင်မြတ်အား တော်လှန်၍ တမန်တော်များ၏လမ်းစဉ်ကို သွေဖည်သူများ၏ သွားရာလမ်းကား ဘယ်သောအခါမျှ သာယာဖြောင့်ဖြူးခြင်းမရှိသည်ကို သိထားရာသည်။

အတိတ်ခေတ်များတွင် မြောက်မြားစွာသော မြို့သူရွာသားတို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို တော်လှန်ခဲ့ကြ၏။ တမန်တော်များ၏လမ်းစဉ်ကို သွေဖည်ခဲ့ကြ၏။ ထိုအခါ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ပြင်းပြင်းထန်ထန် အရေးယူတော်မူခဲ့၏။ တစ်ဦးတစ်ယောက်မျှမမြင်ဘူး၊ မကြုံဘူးသော ကြီးလေးလှသည့် ပြစ်ဒဏ်ကို တပ်ရိုက်စီရင်တော်မူခဲ့၏။

နောက်ဆုံးတွင် ယင်းမြို့သူရွာသားများသည် ပြစ်ဒဏ်သင့်၍ မရှုမလှသေကြေဆုံးရှုံး ပျက်ပြုန်းသွားခဲ့ကြလေသည်။ ဤသည့်ပြစ်ဒဏ်သည် ဤမျက်မှောက် ပစ္စက္ခဘဝအတွက်သာလျှင် ဖြစ်ချေသည်။ နောင်တမလွန်ဘဝတွင်လည်း အတိုင်းမသိ ပြင်းထန်သောပြစ်ဒဏ်ကို ခံစားကြရပေဦးမည်။ ဤကား အမိန့်တော်ကို တော်လှန်မှု၊ သွေဖည်မှု၊ မောက်မာမှု၊ ဆိုးသွမ်းမှု၏အကျိုးပင်။ သို့ဖြစ်ရာ အသိဉာဏ်အမြော်အမြင် ရှိသူများသည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကာ ထိုအရှင်မြတ်၏ အမိန့်တော်များကို မတော်လှန်မိကြရာ၊ ➤➤

أَعَدَّ اللَّهُ لَهُمْ عَذَابًا شَدِيدًا ۖ فَاتَّقُوا اللَّهَ يَا أُولِي الْأَلْبَابِ ۚ الَّذِينَ آمَنُوا ۚ قَدْ أَنزَلَ اللَّهُ إِلَيْكُمْ ذِكْرًا ﴿١٠﴾

၁၀။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့နှင့်ပတ်သက်၍ ပြင်းထန်လှစွာသောပြစ်ဒဏ်ကို အဆင်သင့်ပြုလုပ်၍ထားရှိတော်မူ၏။ သို့ဖြစ်ပေရာ အို-သက်ဝင် ယုံကြည်ခဲ့ကြလေသောဉာဏ်ရှင်တို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်၊ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ထံ "ဆုံးမစာ" (ကုရ်အာန်ကျမ်းတော်မြတ်)ကို ချပေးသနားတော်မူခဲ့၏။

رَّسُولًا يَتْلُو عَلَيْكُمْ آيَاتِ اللَّهِ مُبَيِّنَاتٍ لِّيُخْرِجَ الَّذِينَ آمَنُوا وَعَمِلُوا الصَّالِحَاتِ مِنَ الظُّلُمَاتِ إِلَى النُّورِ ۚ وَمَن يُؤْمِن بِاللَّهِ وَيَعْمَلْ صَالِحًا يُدْخِلْهُ جَنَّاتٍ تَجْرِي مِن تَحْتِهَا الْأَنْهَارُ خَالِدِينَ فِيهَا أَبَدًا ۖ قَدْ أَحْسَنَ اللَّهُ لَهُ رِزْقًا ﴿١١﴾

၁၁။ (ထိုမှတစ်ပါး) ရစူလ်တမန်တော် တစ်ပါးကို (စေလွှတ်တော်မူခဲ့ရာ) ထိုရစူလ်တမန်တော်သည် အသင်တို့၏ရှေ့ဝယ် အလ္လာဟ်အရှင်မြတ်၏ ရှင်းလင်းသော အာယတ်တော်များကို ဖတ်ကြားလေ၏။ (ထိုသို့ပြုလုပ်တော်မူခြင်းမှာ) ထိုအရှင်မြတ်သည် သက်ဝင်ယုံကြည်ပြီးနောက် ကောင်းမှုများကို ကျင့်မူတည်ဆောက်ခဲ့ကြသောသူတို့အား အမှောင်ထုမှ အလင်းသို့ ထွက်စေတော်မူအံ့သောငှာဖြစ်၏။

စင်စစ်သော်ကား မည်သူမဆို အလ္လာဟ်အရှင်မြတ်အားယုံကြည်၍ ကောင်းမှုကို ကျင့်မူတည်ဆောက်ပါလျှင် ထိုအရှင်မြတ်သည် ၎င်းအား အကြင်ဥယျာဉ်များသို့ အမြဲထာဝစဉ် နေနိုင်သူများအဖြစ် ဝင်ရောက်စေတော်မူပေမည်။ ထိုဥယျာဉ်များ၏အောက်မှ ချောင်းများသည် စီးတွေလျက် ရှိပေမည်။ စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် ထိုသူတို့အား မွန်မြတ်လှစွာသော စားနပ်ရိက္ခာကို ချီးမြှင့်တော်မူခြင်းပင်။

➤➤ တမန်တော်မြတ်၏လမ်းစဉ်ကို မသွေဖည်မိကြရာ၊ အထူးသဖြင့် မိမိတို့၏အိမ်သူအိမ်သား သားမယားတို့အပေါ်၌ မဆိုးသွမ်းမိကြရာ။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ကို တော်လှန်၍ သက်ဆိုင်ရာ တမန်တော်များ၏လမ်းစဉ်ကို သွေဖည်မိခဲ့ကြသည့်အတွက် ပြစ်ဒဏ်သင့်၍ မရှုမလှ သေကြေပျက်စီးသွားခဲ့ကြရသော အတိတ်ခေတ်သူမိုက်တို့၏ အဖြစ်အပျက်မှ သင်ခန်းစာရယူကြရာသတည်း။ သို့မဟုတ်ပါမူ မိမိတို့၏ သွားရာလမ်းမှာလည်း နှစ်ဘဝစလုံးတွင် သာယာ ဖြောင့်ဖြူးခြင်းရှိမည် မဟုတ်ပါတကား။

၁၂။ အလ္လာဟ်အရှင်မြတ်သည် အကြင်အရှင်မြတ်ပင်၊ ထိုအရှင်မြတ်သည် *မိုးခုနစ်ထပ်ကို ဖန်ဆင်းတော်မူခဲ့၏။ ၎င်းပြင် မြေကိုလည်း ယင်းကဲ့သို့ပင် (ဖန်ဆင်းတော်မူခဲ့၏။)* ၁

اَللّٰهُ الَّذِىْ خَلَقَ سَبْعَ سَمٰوٰتٍ وَّمِنَ الْاَرْضِ مِثْلَهُنَّ ؕ

① အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ကား အလွန်တရာကြီးမြတ်သည်ပင်။ ထိုအရှင်မြတ်သည် မိုးခုနစ်ထပ်ကို ဖန်ဆင်းထားတော်မူ၏။ ထိုအရှင်မြတ်သည်ပင် ပထဝီမြေကိုလည်း ယင်းမိုးများကဲ့သို့ပင် ဖန်ဆင်းထားတော်မူ၏။ ဤအာယတ်တော်ကို ပညာရှင်သုခမိန်များသည် အမျိုးမျိုးအနက် ဖွင့်ကြပေသည်။

(၁) များသောအားဖြင့် ပညာရှင်များသည် ဤအာယတ်တော်ကို အကြောင်းပြု၍ မိုးခုနစ်ထပ်ရှိသကဲ့သို့ မြေကြီးလည်း ခုနစ်ထပ်ရှိသည်ဟူ၍ပင် ယူဆကြသည်။ 'တိရ်မိဇီ' အစရှိသည့် ဟဒီးဆ်ဩဝါဒတော်ဆိုင်ရာ ကျမ်းကြီးများတွင်လည်း မိုးခုနစ်ထပ်ရှိသကဲ့သို့ မြေကြီးလည်း ခုနစ်ထပ်ရှိကြောင်း၊ မြေခုနစ်ထပ်အနက် ကျန်ခြောက်ထပ်မှာ ဤကမ္ဘာမြေကြီးအောက်တွင်ပင် တည်ရှိကြောင်း ပါရှိသည်။ (ကျန်မြေကြီးခြောက်ထပ်သည် အချို့အခြေအနေများတွင် ဤကမ္ဘာမြေကြီးအောက်၌ တည်ရှိ၍ အချို့အခြေအနေများတွင် ဤကမ္ဘာမြေကြီး အပေါ်၌လည်း တည်ရှိနိုင်ပေသည်။) ကြည့်-မာဂျိဒီ၊ အွတ်ဆ်မာနီ၊ ထာနဝီ။

(၂) အချို့၏ယူဆချက်အရ မိုးခုနစ်ထပ်ရှိသကဲ့သို့ ပထဝီမြေကြီးသည်လည်း ခုနစ်ထပ်ရှိသည်။ သို့ရာတွင် လူသားတို့သည် ကျန်မြေခြောက်ထပ်ကို မမြင်နိုင်စွမ်းကြသေးပေ။ သို့တည်းမဟုတ် ယင်းကျန်မြေများကိုပင် လူသားတို့သည် (မိရ်ရီခ်) အင်္ဂါဂြိုဟ်စသည်ဖြင့် အမျိုးမျိုးအမည် မှည့်ခေါ်သမုတ်နေကြသည်လည်း ဖြစ်နိုင်ပေသည်။ ကြည့်-မာဂျိဒီ၊ အွတ်ဆ်မာနီ၊ ထာနဝီ။

(၃) အချို့ယူဆချက်အရ မြေခုနစ်ထပ်ဟူသည် အမေရိက၊ အာရှ၊ ဥရောပ၊ အာဖရိကစသည့် ကမ္ဘာ့မြေဆိုင် တိုက်ကြီးခုနစ်ခုကို ဆိုလိုသည်။ ရူဟုလ်မအာနီကျမ်းတွင် ဤအတိုင်းအဆိုတစ်ရပ် တွေ့ရှိရသည်။ ကြည့်-မာဂျိဒီ၊ မဒါရိက်နစဖီ။

(၄) အချို့ယူဆချက်အရ လူသားတို့သည် တစ်နေ့တစ်ခြားချဲ့ထွင်ကာ စကြာဝဠာကြီးကို အမျိုးမျိုး ရှာဖွေစုံစမ်းလျက်ရှိကြ၏။ ဂြိုဟ်တုအမျိုးမျိုးကိုလွှတ်၍ သုတေသနပြုလုပ်လျက်ရှိကြ၏။ လကမ္ဘာတွင် မြေကြီး မရှိဟု မဆိုနိုင်ချေ။ ကျန်ဂြိုဟ်များတွင်လည်း မြေကြီးမရှိဟု မဆိုနိုင်ချေ။ တချိန် ဂြိုဟ်များတွင် မြေရှိကြောင်း ထင်ရှားလာပါက ကမ္ဘာမြေကြီးခုနစ်ခုရှိသည်မှာ အထင်းသားအမြင်သား ပေါ်လွင်ထင်ရှားလာနိုင်ပေသည်။ ဤသည့်ထင်မြင်ချက်ကိုလည်း ရူဟုလ်မအာနီကျမ်းရှင်က မိမိ၏ကျမ်းတွင်ပင် ထည့်သွင်းဖော်ပြထားပေသည်။ ကြည့်-မာဂျိဒီ။

(၅) ဤအာယတ်တော်တွင် 'အလ္လာဟ်အရှင်မြတ်သည်ပင် မိုးခုနစ်ထပ်ကိုလည်းကောင်း၊ မြေကိုလည်း ယင်းမိုးများကဲ့သို့ပင်လည်းကောင်း၊ ဖန်ဆင်းထားတော်မူသည်' ဟု နှိုင်းယှဉ် မိန့်ဆိုထားတော်မူသည်။ ဤ နှိုင်းယှဉ်ချက်သည် မိုးခုနစ်ထပ်ရှိသကဲ့သို့ မြေခုနစ်ထပ်ရှိသည်ကို နှိုင်းယှဉ်သည်မဟုတ်၊ ဖန်ဆင်းမှုကိုသာ နှိုင်းယှဉ်ခြင်းဖြစ်သည်။ (ဝါ) အလ္လာဟ်အရှင်မြတ်သည် မိုးကိုဖန်ဆင်းတော်မူသကဲ့သို့ မြေကိုလည်း ဖန်ဆင်းတော်မူသည်။ (ဝါ) မိုးသည် အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံဖြစ်သကဲ့သို့၊ မြေသည်လည်း အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံပင်ဖြစ်သည်။ ဤသည့် ထင်မြင်ယူဆချက်ကိုလည်း ရူဟုလ်မအာနီကျမ်းတွင် ထည့်သွင်းဖော်ပြထား သည်။ မာဂျိဒီသည်လည်း ဤနည်းနှင်နှင်ပင် ယူဆသည်။ ကြည့်-မာဂျိဒီ။ ➢➢

يَتَنَزَّلُ الْأَمْرُ بَيْنَهُنَّ لِتَعْلَمُوٓا أَنَّ اللّٰهَ عَلٰى كُلِّ شَىْءٍ قَدِيْرٌ ۙ وَّأَنَّ اللّٰهَ قَدْ أَحَاطَ بِكُلِّ شَىْءٍ عِلْمًا ⑫

ယင်းမိုးနှင့်မြေတို့ အကြားဝယ် အမိန့်တော်များသည် ဆင်းသက်လေ၏။ (ယင်းသို့ဖြစ်ရခြင်းမှာ) ဧကန်မလွဲ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စွမ်းဆောင်နိုင်တော်မူကြောင်းကိုလည်းကောင်း၊ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အသိပညာဖြင့် အမှန်ပင် ဝန်းခြုံလျက် ရှိတော်မူကြောင်းကိုလည်းကောင်း၊ အသင်တို့ သိရှိကြအံ့သောငှာ ဖြစ်ပေသတည်း။ [၁]

---

➢➢ (၆) မြေခုနစ်ထပ်ဟူသည် ဤကမ္ဘာမြေကြီး၏ အလွှာခုနစ်လွှာဟု ယူဆပါကလည်း မမှားနိုင်ပေ။ ကြည့်-မာဂျိဒီ။

(၇) အိဗ်နုကဆီရ်ကျမ်းတွင် အောက်ပါအတိုင်း အံ့ဖွယ်သရဲသြဝါဒတော်တစ်ပါး တွေ့ရှိရပေသည်။

ဤအာယတ်တော်နှင့်စပ်လျဉ်း၍ သာဝကကြီး အိဗ်နုအဗ္ဗားစ်က ဖွင့်ဟပြောဆိုခဲ့သည်မှာ မြေကြီးခုနစ်ခုရှိသည့် မြေကြီးတိုင်းတွင် အသင်တို့၏တမန်တော်ကဲ့သို့ တမန်တော်၊ အသင်တို့၏အာဒမ်ကဲ့သို့ အာဒမ်၊ တမန်တော်နူဟ်ကဲ့သို့ နူဟ်၊ တမန်တော်အိဗ်ရာဟီမ်ကဲ့သို့ အိဗ်ရာဟီမ်၊ တမန်တော်အီစာကဲ့သို့ အီစာ၊ အသီးသီးရှိသည်။ အိဗ်နုကဆီရ်။

အထက်ပါ သြဝါဒတော်ကို အိဗ်နုကဆီရ်ကျမ်းတွင် တွေ့ရှိရသကဲ့သို့ ဒုရ်ရိမန်ဆူရ်ကျမ်းတွင်လည်း တွေ့ရှိရပေသည်။ အထက်ပါ သြဝါဒတော်အနက်သဘောမှာ နက်နဲလှ၏။ လူတိုင်းသဘောပေါက်ရန် ခဲယဉ်းလှ၏။ အချို့ပညာရှင်များကမူ အထက်ပါသြဝါဒသည် မမှန်၊ မခိုင်လုံ၊ လုပ်ကြံထားသောစကားများသာဖြစ်သည်ဟုလည်း ဆိုကြ၏။ ကြည့်-ထာနဝီ။

(၈) ကုရ်အာန်ကျမ်းမြတ်တွင် မြေခုနစ်ထပ်ဟူ၍ အတိအလင်း မပါရှိသော်လည်း တမန်တော်မြတ်၏ သြဝါဒတော်များတွင် မိုးခုနစ်ထပ်ရှိသကဲ့သို့ မြေလည်း ခုနစ်ထပ်ရှိကြောင်း အတိအလင်း ပါရှိပေသည်။ ဗုခါရီ၊ မွတ်စ်လင်မ် စသည့် ကျမ်းများတွင်ပင် မြေခုနစ်ထပ်ရှိကြောင်း အောက်ပါအတိုင်း တွေ့ရှိရပေသည်။

အချုပ်ဆိုရသော် မိုးခုနစ်ထပ်ရှိသကဲ့သို့ မြေကြီးခုနစ်ထပ်၊ သို့မဟုတ် ခုနစ်ခုရှိသည်မှာ အမှန်ပင်၊ သို့ရာတွင် မြေကြီးခုနစ်ထပ်၊ သို့မဟုတ် မြေခုနစ်ခုသည် မည်သို့မည်ပုံ တည်ရှိနေသည်ကိုမူ ယနေ့ ထက်တိုင် အတိအကျ မသိရှိရသေးပေ။

[၁] ဆိုလိုသည်ကား စကြာဝဠာအဝန်းကို စီမံကွပ်ကဲအုပ်ချုပ်တော်မူရန်အတွက် "အလ္လာဟ်အရှင်မြတ်၏ ဖန်ဆင်းမှု၊ တရားဥပဒေပြုမှုဆိုင်ရာဆိုင်ရာ အမိန့်တော်များသည်" မိုးများတွင်လည်းကောင်း၊ မြေများတွင်လည်းကောင်း၊ ဆင်းသက်လျက်ရှိပေသည်။ ယင်းသို့ အမိန့်တော်များကို ဆင်းသက်လျက်ရှိစေတော်မူခြင်းမှာ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကြီးမြတ်သော တန်ခိုးတော်ဖြင့် အရာခပ်သိမ်းကုန်တို့ကို ပြုစွမ်းတော်မူနိုင်ကြောင်း၊ ထိုအရှင်မြတ်သည် မိမိ၏မြင့်မြတ်သော ဉာဏ်တော်ဖြင့် အရာခပ်သိမ်းကုန်တို့ကို ဝန်းခြုံလျက်ရှိတော်မူကြောင်းကို လူသားတို့ တွေးဆဆင်ခြင် မြော်မြင်သိရှိကြရန်ပင်ဖြစ်သည်။ တစ်နည်းဆိုသော် အလ္လာဟ်အရှင်မြတ်၏ ကြီးကဲသောတန်ခိုးတော်နှင့်မြင့်မြတ်သော ဉာဏ်တော်ကို ထင်ရှားပြတော်မူရန်ပင်ဖြစ်သည်။

## တားမြစ်ခြင်းကဏ္ဍ



ဤကဏ္ဍသည် 'တဟရီမ်' တားမြစ်ခြင်း ကဏ္ဍမည်၏။
မဒီနာမြို့တော်တွင် ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၁၂)ပါး၊ ရကူအ်အပိုဒ် (၂)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားညှာတာတော်မူသော၊
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

يَاَيُّهَا النَّبِيُّ لِمَ تُحَرِّمُ مَآ اَحَلَّ اللّٰهُ لَكَ ۚ تَبْتَغِيْ مَرْضَاتَ اَزْوَاجِكَ ۗ وَاللّٰهُ غَفُوْرٌ رَّحِيْمٌ ①

၁။ အို-နဗီတမန်တော်၊ အသင်သည် မိမိအဖို့ အလ္လာဟ်အရှင်မြတ်က (ဟလာလ်) ခွင့်ပြုတော်မူခဲ့သောအရာကို မည်သည့်အတွက်ကြောင့် အသင်၏ ကြင်ရာတော်များ၏နှစ်သက်မှုကို ရှာဖွေသောအားဖြင့် (ဟရမ်)ဟူ၍ *တားမြစ်သောအရာပြုလုပ်ပါသနည်း။* [၁] သို့တစေလည်း အလ္လာဟ်အရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်တော်မူသောအရှင်၊ အလွန်တရာ ကရုဏာ ပြုတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

---

**(၁) အိမ်တော်တွင်း အိမ်တွင်းရေး။**

ကုရ်အာန်ကျမ်းမြတ် (၃၃း၂၈-၂၉)တွင် ရေးသားဖော်ပြခဲ့သည့်အတိုင်း အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် မွတ်စ်လင်မ်များသည် စစ်ပွဲများတွင် စစ်ရေးသာလာခဲ့ကြ၏။ စားဝတ်နေရေးလည်း ချောင်လည်လာခဲ့ကြ၏။ ထိုအချိန်တွင်လည်း တမန်တော်မြတ်သည် မိမိ၏အာသာဆန္ဒအလျောက် စားဝတ်နေရေးတွင် အသုံးအစွဲကို ခြိုးခြံနိုင်သမျှ ခြိုးခြံ၍ပင် နေတော်မူခဲ့၏။ သို့ရာတွင် တမန်တော်မြတ်၏ ကြင်ရာတော်များသည် မွတ်စ်လင်မ်များ၏ စားဝတ်နေရေး ချောင်လည်မှုကို တွေ့မြင်ကြသောအခါ လူ့သဘာဝအလျောက်မိမိတို့လည်း စားဝတ်နေရေးတွင် ယခင်ကထက် အဆင်ပြေပြေ နေထိုင်လိုခဲ့ကြ၏။

ထိုအခါ ကြင်ရာတော်များသည် အချင်းချင်းညှိနှိုင်း၍ တမန်တော်မြတ်ထံတွင် ယခင်ကထက် စားနပ်ရိက္ခာနှင့် အသုံးစရိတ်များကို ပိုမိုပေးတော်မူရန် တောင်းဆိုခဲ့ကြ၏။ ယင်းသို့ကြင်ရာတော်များ စရိတ်ပိုမို တောင်းဆိုလာကြသည်ကို တမန်တော်မြတ်သည် နှစ်သက်တော်မမူခဲ့ပေ။ နောက်ဆုံးတွင် ကြင်ရာတော်များက 'ကျွန်မတို့သည် နောက်နောင် တမန်တော်မြတ်ထံ၌မရှိသည်ကို တောင်းဆိုကြတော့မည် မဟုတ်ပါ'ဟု တောင်းပန် ကတိပြုခဲ့ကြ၏။ သို့တစေလည်း အိမ်တွင်းရေးကား လုံးဝပြေလည်မသွားခဲ့ပေ။ ထို့အတွက် တမန်တော်မြတ်သည် တစ်လတိုင်တိုင် 'အီလာ' ပြုတော်မူခဲ့၏။ ကြင်ရာတော်များထံ သွားလာတော့မည်မဟုတ်ဟု ကျိန်ဆိုတော်မူ၍ ➤➤

➤➤ ကြင်ရာတော်များနှင့် တစ်လတိုင်တိုင် ခွဲခွာနေတော်မူခဲ့၏။

နောက်ဆုံးတွင် ကုရ်အာန်ကျမ်းမြတ် (၃၃:၂၈-၂၉)တွင် လာရှိသည့်အတိုင်း ကြင်ရာတော်များသည် ကြိုက်နှစ်သက်ရာ လမ်းတစ်သွယ်ကို ရွေးချယ်ရန် အမိန့်တော်ကျရောက်လာခဲ့သည်။ ထိုအခါကျမှ ကြင်ရာတော်များ၏ အသုံးစရိတ်ပိုမိုတောင်းဆိုမှု ပြဿနာသည် အဆုံးသတ်သွားခဲ့သည်။ ဤသည့်အတောအတွင်းမှာပင် အိမ်တော်တွင် အချို့ပြဿနာရပ်များ ပေါ်ပေါက်ခဲ့သေး၏။ ထိုဖြစ်ရပ်များကြောင့် တမန်တော်မြတ်သည် အတော်ပင် စိတ်ဒုက္ခဖြစ်တော်မူခဲ့ပေသည်။

အမှန်မှာ ကြင်ရာတော်များသည် တမန်တော်မြတ်အား အထူးပင် ချစ်ကြည်မြတ်နိုးခဲ့ကြ၏၊ မေတ္တာသက်ခဲ့ကြ၏။ ယင်းသည့် ချစ်ကြည်မြတ်နိုးမှု၊ မေတ္တာသက်မှုကြောင့်ပင် ကြင်ရာတော်များသည် လူ့သဘာဝအလျောက် မကြာခဏ အချင်းချင်း မကျေမနပ်ဖြစ်နေခဲ့ကြသည်။ ကြင်ရာတော်တိုင်းသည် တမန်တော်မြတ်ထံ အများဆုံးချဉ်းကပ်၍ နှစ်ဘဝ၏သုခချမ်းသာများကို ခံစားလို၏။ ဤသည့် အခြေအနေမျိုးတွင် လင်ယောကျာ်းတစ်ဦးအဖို့ တစ်ဖက်စောင်းနင်းမဖြစ်ရန်၊ မျှတစွာဆက်ဆံရန်၊ သည်းခံရန်နှင့် ပြေပြစ်စွာဆက်ဆံရန်မှာ မလွယ်ကူလှပေ၊ သို့တစေလည်း တမန်တော်မြတ်သည် အမြော်အမြင်ကြီးစွာဖြင့် သည်းခံတရားလက်ကိုင်ထားကာ ကြင်ရာတော်အားလုံးနှင့် မျှတပြေပြစ်စွာ ဆက်ဆံတော်မူနိုင်ခဲ့ပေသည်။

တမန်တော်မြတ်သည် 'အဆွရ်' ညနေ ဆွလာတ်အပြီးတွင် ကြင်ရာတော်အသီးသီးထံသို့ ခေတ္တကြွသွားတော်မူလေ့ရှိခဲ့၏။ တစ်နေ့သော် တမန်တော်မြတ်သည် ကြင်ရာတော်ဇိုင်နဗ်သခင်မထံ ကြွသွားရာတွင် အနည်းငယ်အချိန် ကြာသွားခဲ့သည်။ အကြောင်းသော်ကား ထိုနေ့တွင် ကြင်ရာတော် ဇိုင်နဗ်သည် တမန်တော်မြတ်အား ပျားရည်ဆက်သခဲ့၏။ တမန်တော်မြတ် ပျားရည်သောက်သုံးတော်မူရာတွင် အချိန်အနည်းငယ် ကြန့်ကြာသွားခြင်းဖြစ်သည်။ ထို့နောက် ရက်အတန်ကြာသည်အထိ ကြင်ရာတော်ဇိုင်နဗ်ထံ ကြွသွားတော်မူ၍ ပျားရည်သောက်သုံးတော်မူသည့် အစဉ်အလာဖြစ်နေခဲ့၏။

ဤသည့်အကြောင်းကို သိရှိသောအခါ အာအိရှဟ်နှင့် ကြင်ရာတော်ဟဖ်ဆွဟ်တို့သည် အချင်းချင်းတိုင်ပင်၍ ကြင်ရာတော် ဇိုင်နဗ်ထံတွင် တမန်တော်မြတ် ပျားရည်သောက်သုံးတော်မမူရန် အကြံအစည်တစ်ခု ပြုလုပ်ခဲ့ကြ၏။ ထိုအခါ တမန်တော်မြတ်သည် ကြင်ရာတော် ဇိုင်နဗ်ထံတွင် ပျားရည်သောက်သုံးမှုကို စွန့်လွှတ်၍ ကြင်ရာတော် ဟဖ်ဆွဟ်အား 'ငါသည် ဇိုင်နဗ်ထံတွင် ပျားရည်သောက်သုံးလေ့ ရှိခဲ့သည်၊ ယခု ငါကျိန်ဆိုပြောမည်၊ ငါသည် ပျားရည်သောက်သုံးတော့မည်မဟုတ်' ဟု ပြောပြတော်မူခဲ့၏။ ထို့နောက် ဤအကြောင်းကို ကြင်ရာတော် ဇိုင်နဗ်သိရှိသွားပါက စိတ်မကောင်းဖြစ်မည် ဖြစ်သည့်အတွက် တမန်တော်မြတ်က ကြင်ရာတော် ဟဖ်ဆွဟ်အား ဤအကြောင်းမပေါက်ကြားရန် အမှတ်တရ မှာကြားတော်မူခဲ့၏။

သို့တစေလည်း ကြင်ရာတော် ဟဖ်ဆွဟ်သခင်မသည် အဆိုပါ အကြောင်းများနှင့် စပ်လျဉ်း၍ ကြင်ရာတော် အာအိရှဟ် သခင်မအား လျှို့ဝှက်စွာ အသိပေးလိုက်၏။ ထို့နောက် သူတစ်ပါးအား မပြောရန်လည်း မှာကြားလိုက်သေး၏။

အလ္လာဟ်အရှင်မြတ်သည် ဤသည့်အကြောင်းနှင့်စပ်လျဉ်း၍ တမန်တော်မြတ်အား အသိပေးတော်မူခဲ့၏။ တမန်တော်မြတ်သည် ကြင်ရာတော်ဟဖ်ဆွဟ်အားခေါ်၍ 'ဤအကြောင်း မပေါက်ကြားစေရန် အသင်မအား ငါအထပ်ထပ် မှာကြားပါလျက်၊ ယခုမူ အသင်မသည် ဤအကြောင်းကို အာအိရှဟ်အား အသိပေးသည်' ဟု ပြောပြတော်မူ၏။ ထိုအခါ ကြင်ရာတော်ဟဖ်ဆွဟ်သည် အံ့သြကြီးစွာဖြင့် 'တမန်တော်မြတ်၊ တမန်တော်မြတ်အား မည်သူပြောပြပါသနည်း'ဟု မေးလျှောက်ရာ တမန်တော်မြတ်က 'ငါ့အား အရာခပ်သိမ်းကုန်တို့ကို ➤➤

قَدْ فَرَضَ اللّٰهُ لَكُمْ تَحِلَّةَ اَيْمَانِكُمْ ۚ وَاللّٰهُ مَوْلٰىكُمْ ۚ وَهُوَ الْعَلِيْمُ الْحَكِيْمُ ②

၂။ ဧကန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အကျိုးငှာ အသင်တို့၏ ကျိန်ဆိုချက်များကို ဖြေနိုင်ရန် (နည်းလမ်း)သတ်မှတ်၍ ပေးတော်မူခဲ့၏။ စင်စစ်သော်ကား အလ္လာဟ်အရှင်မြတ်သည် အသင်တို့၏ ကိစ္စအဝဝကို ဆောင်ရွက်ပေးတော်မူသည့်ပြင် ထိုအရှင်မြတ်သည် ခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်မူသောအရှင်၊ အလွန်တရာနက်နဲသိမ်မွေ့သော ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

وَاِذْ اَسَرَّ النَّبِيُّ اِلٰى بَعْضِ اَزْوَاجِهٖ حَدِيْثًا ۚ فَلَمَّا نَبَّاَتْ بِهٖ وَاَظْهَرَهُ اللّٰهُ عَلَيْهِ عَرَّفَ بَعْضَهٗ وَاَعْرَضَ عَنْۢ بَعْضٍ ۚ

၃။ ၎င်းပြင် (ပြန်လည်သတိရကြလေကုန်။) တစ်ရံရောအခါဝယ် နဗီတမန်တော်မြတ်သည် မိမိ၏ ကြင်ယာတော်တစ်ပါးအား စကားတစ်ခွန်းကို လျှို့ဝှက်စွာ ပြောခဲ့လေ၏။ ထို့နောက် ထိုကြင်ရာတော်က (အခြားကြင်ရာတော်အား) ယင်းစကားကို ပြောပြခဲ့လေ၏။ အလ္လာဟ်အရှင်မြတ်သည် ယင်းအကြောင်းကို နဗီတမန်တော်မြတ်အား အသိပေးတော်မူခဲ့၏။ ထိုအခါ ထိုနဗီတမန်တော်မြတ်သည် ယင်းစကားအချို့ကို သိစေခဲ့ပြီး အချို့ကိုမူ လျစ်လျူရှုထားခဲ့၏။

---

➤➤ အကြွင်းမဲ့သိတော်မူသော ကြားသိတော်မူသောအရှင်မြတ်က ပြောပြတော်မူသည်'ဟု ပြောပြတော်မူခဲ့လေသည်။ ဤအာယတ်တော်များသည် ဤသည့်ဖြစ်ရပ်များနှင့်စပ်လျဉ်း၍ ကျရောက်လာခဲ့ပေသည်။

(ဟလာလ်)အသုံးပြုခွင့်ရှိသောအရာကို (ဟရာမ်)အသုံးပြုခွင့်မရှိသောအရာ ပြုလုပ်ခြင်းကား အသို့ပါနည်း။ ဥပမာ (ဟလာလ်)အသုံးပြုခွင့်ရှိသော အရာတစ်ခုနှင့်စပ်လျဉ်း၍ မွတ်စ်လင်မ်တစ်ဦးသည် စိတ်တွင်းမှ (ဟလာလ်) အသုံးပြုခွင့်ရှိသော အရာဟူ၍ပင် ယုံကြည်လျက် မှန်ကန်ခိုင်လုံသော အကြောင်းအကျိုးတစ်ခုခုကြောင့် အဆိုပါ အသုံးပြုပိုင်ခွင့်ရှိသောအရာကို နောက်နောင် မိမိ အသုံးပြုမည်မဟုတ်ဟုဆို၏။ အသုံးမပြုဘဲလည်းနေ၏။

ဤသို့ ပြောဆိုပြုမူခြင်းမှာ ခိုင်လုံသောအကြောင်းအကျိုး ရှိပါက ရှရီအတ်တရားဥပဒေအရ ပြုပိုင်၏။ သာမန် မွတ်စ်လင်မ်တို့အဖို့ ပြုပိုင်ခွင့် ရှိလင့်ကစား၊ ကမ္ဘာအဝန်းအား စံပြအဖြစ် ရှေ့ဆောင် လမ်းညွှန်ပြတော်မူမည့် တမန်တော်မြတ်အဖို့မှာကား အချို့ကြင်ရာတော်များ၏ ကျေနပ်မှုရရှိရန်အတွက် အသုံးပြုပိုင်ခွင့်ရှိသော အရာတစ်ခုကို အသုံးမပြုဘဲနေတော်မူခြင်းသည် မလျော်ကန်ပေ။ ဤသည် နောက်တစ်ချိန်တွင် နောက်လိုက်တပည့်သားတို့အဖို့ အခက်အခဲ အကျပ်အတည်း လာ၍ဖြစ်ပေမည်။ ထို့အတွက်ကြောင့် အလ္လာဟ်အရှင်မြတ်က ဤအာယတ်တော်တွင် တမန်တော်မြတ်အား သတိပေး တော်မူခြင်းဖြစ်သည်။

فَلَمَّا نَبَّأَهَا بِهِۦ قَالَتْ مَنْ أَنۢبَأَكَ هَٰذَا ۖ قَالَ نَبَّأَنِىَ ٱلْعَلِيمُ ٱلْخَبِيرُ ③

တစ်ဖန် ထိုနဗီတမန်တော်မြတ်သည် ထိုကြင်ရာတော်အား ယင်းစကားကို ပြောပြခဲ့သောအခါ ထိုကြင်ရာတော်က ဤသတင်းကို အသင့်အား မည်သူပြောပြသနည်းဟု ပြောဆို(မေးမြန်း)ခဲ့ရာ ထိုနဗီတမန်တော်မြတ်က ကျွန်ုပ်အား ခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိရှိတော်မူသော၊ ခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့ကြားသိတော်မူသော၊ အရှင်မြတ်က အသိပေးတော်မူခဲ့သည်ဟု ပြန်ကြားခဲ့လေသည်။ [၁]

إِن تَتُوبَآ إِلَى ٱللَّهِ فَقَدْ صَغَتْ قُلُوبُكُمَا ۖ

၄။ အကယ်၍ အသင်(ကြင်ရာတော်)နှစ်ပါးတို့သည် အလ္လာဟ်အရှင်မြတ်အထံတော်၌ ဝန်ချတောင်းပန်ခဲ့ကြပါလျှင် (အသင်တို့အဖို့ ကောင်း၏၊ အဘယ်ကြောင့်ဆိုသော်) စင်စစ်မှာကား *အသင်တို့နှစ်ဦး၏စိတ်နှလုံးမှာ (တမန်တော်မြတ် မနှစ်မြို့သော အရာဘက်သို့) ယိမ်းညွတ်လျက် ရှိနေခဲ့၏။* [၂]

---

(၁) အထက်တွင် ရေးသားဖော်ပြခဲ့သည့်အတိုင်း တမန်တော်မြတ်သည် မိမိ၏စကားမပေါက်ကြားရန် ကြင်ရာတော် ဟဖ်ဆွဟ်အား အမှတ်တရ မှာထားတော်မူခဲ့၏။ ကြင်ရာတော် ဟဖ်ဆွဟ်သည် အဆိုပါစကားကို ကြင်ရာတော် အာအိရှဟ်အား လျှို့ဝှက်စွာ ပြောကြားခဲ့၏။ အလ္လာဟ်အရှင်မြတ်သည် ဤသည့်ဖြစ်ကြောင်းကုန်စင်ကို တမန်တော်မြတ်အား အသိပေးတော်မူခဲ့၏။

ထိုအခါ တမန်တော်မြတ်သည် လူ့သဘာဝအလျောက် ဒေါသအမျက်ထွက်ကာ၊ ကြင်ရာတော် ဟဖ်ဆွဟ်အား ကြိမ်းမောင်းတော်မူရန်သာရှိခဲ့၏။ သို့တစေလည်း တမန်တော်မြတ်သည် ယင်းသည့် အခြေအနေမျိုးတွင်ပင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် မိမိသိရှိထားသည်များကို အားလုံးဖွင့်ဟ ပြောကြားတော်မမူဘဲ၊ အချို့အဝက်ကိုသာ ဖွင့်ဟပြောကြား၍ အချို့အဝက်ကိုမူ လျစ်လျူ ပြုတော်မူခဲ့ပေသည်။ တမန်တော်မြတ်၏ သဘောထားကြီးမှု၊ သည်းခံမှု၊ ယဉ်ကျေးသိမ်မွေ့မှု၊ လျစ်လျူပြုမှုကား အံ့ဖွယ်တပါးပင်တည်း။

(၂) ဤအာယတ်တော်တွင် "အသင်မတို့နှစ်ဦး" ဟူသည် ကြင်ရာတော် ဟဖ်ဆွဟ်နှင့် ကြင်ရာတော် အာအိရှဟ်ကို ဆိုလိုသည်။ အဆိုပါ ကြင်ရာတော်နှစ်ပါး၏ စိတ်နှလုံးများသည် အိမ်တွင်းရေးတွင် တည့်မတ်မျှတမှုမှ တိမ်းယိမ်းသွားခဲ့ကြပေသည်။ ထို့အတွက် အဆိုပါ ကြင်ရာတော်နှစ်ပါးအား မိမိတို့၏ မှားယွင်းမှုနှင့်စပ်လျဉ်း၍ အချိန်မီဝန်ချတောင်းပန်ရန် သတိပေးထားတော်မူခြင်းဖြစ်သည်။

ခင်ပွန်းသည်အား ချစ်ရပါသည်။ အချစ်သည် အပြစ်မဟုတ်၊ သို့ရာတွင် မိမိ၏အချစ်ကြောင့် သူတပါးအား မနှစ်ရာ၊သူတပါး၏ အခွင့်အရေးကို မဆုံးရှုံးစေရာ။

وَإِنْ تَظٰهَرَا عَلَيْهِ فَإِنَّ اللّٰهَ هُوَ مَوْلٰىهُ وَجِبْرِيلُ وَصٰلِحُ الْمُؤْمِنِينَ ۚ وَالْمَلٰٓئِكَةُ بَعْدَ ذٰلِكَ ظَهِيرٌ ④

သို့ရာတွင် အကယ်၍ အသင်တို့နှစ်ဦးသည် ထိုနဗီတမန်တော်မြတ်နှင့် ဆန့်ကျင်၍ အချင်းချင်း ရိုင်းပင်းကူညီလျက် ရှိကြပါလျှင် ဧကန်မလွဲ အလ္လာဟ် အရှင်မြတ်သည် တမန်တော်မြတ်အား ကာကွယ် စောင့်ရှောက်တော်မူမည့် အဆွေခင်ပွန်း ဖြစ်တော်မူသည်။ ထို့ပြင်တဝ ကောင်းကင်တမန် 'ဂျစ်ဗ်ရီလ်' သည်လည်း ကောင်း၊ ထိုနဗီတမန်တော်မြတ်အား ကာကွယ်စောင့်ရှောက်သော အဆွေခင်ပွန်းများ ဖြစ်ကြကုန်၏။ ထိုမှတပါး ၎င်းတို့အပြင် 'မလာအိကဟ်' ကောင်းကင်တမန်တို့သည်လည်း ရိုင်းပင်းကူညီသူများပင် ဖြစ်ကြကုန်၏။ [၁]

عَسٰى رَبُّهٗٓ إِنْ طَلَّقَكُنَّ أَنْ يُبْدِلَهٗٓ أَزْوٰجًا خَيْرًا مِّنْكُنَّ مُسْلِمٰتٍ مُّؤْمِنٰتٍ قٰنِتٰتٍ تٰٓئِبٰتٍ عٰبِدٰتٍ سٰٓئِحٰتٍ ثَيِّبٰتٍ وَّأَبْكَارًا ⑤

၅။ အကယ်၍ ထိုနဗီတမန်တော်မြတ်သည် အသင်တို့အား ကွာရှင်းခဲ့ပါလျှင် ထိုနဗီတမန်တော်မြတ်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် အသင်တို့အစား ထိုနဗီတမန်တော်မြတ်အား အသင်တို့ထက်ပိုမို၍ ထွတ်မြတ်သော 'မုစ်လင်မ်' မိန်းမများ၊ 'မုအ်မင်န်' သက်ဝင်ယုံကြည်သော မိန်းမများ၊ အမိန့်ကိုနာခံသော မိန်းမများ၊ ဝန်ချတောင်းပန်ကြသောမိန်းမများ၊ ဝတ်ပြုသောမိန်းမများ၊ ဥပုသ်သီလ ဆောက်တည်သောမိန်းမများ၊ အအိုများနှင့် အပျိုများကို ပေးတော်မူအံ့သတည်း။ [၂]

---

(၁) ဇနီးမောင်နှံ၏ အိမ်တွင်းရေးပြဿနာများသည် အစပထမတွင် သာမန်ဟူ၍ပင် ထင်မှတ်ရ၏။ အိမ်တွင်းရေး အသေးအဖွဲ ပြဿနာများကို အချိန်မီ ဖြေရှင်းမပစ်ဘဲ လျစ်လျူပြုထားမိပါက အလွန်ဆိုးရွားသော ပြဿနာများ ပေါ်ပေါက်နိုင်ပေသည်။ အထူးသဖြင့် ဇနီးသည်ဖြစ်သူများသည် ဆွေကြီးမျိုးကြီး၊ မျက်နှာကြီးများဖြစ်ပါမူ ဆွေဂုဏ်၊ မျိုးဂုဏ်မောက်ကာ မာန်မာန ထောင်လွှားတတ်ကြ၏။

အကြောင်းအားလျော်စွာ ကြင်ရာတော် ဟဖ်ဆွဟ်နှင့် ကြင်ရာတော် အာအိရှဟ်သည် ဆွေကြီး၊ မျိုးကြီး မျက်နှာကြီးများထဲမှ ဖြစ်ခဲ့ကြ၏။

ထို့အတွက်ကြောင့် အဆိုပါ ကြင်ရာတော်နှစ်ပါးအား "အကယ်၍ အသင်မတို့ နှစ်ဦးသည် ➤➤

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ قُوٓا۟ أَنفُسَكُمْ وَأَهْلِيكُمْ نَارًا وَقُودُهَا ٱلنَّاسُ وَٱلْحِجَارَةُ عَلَيْهَا مَلَٰٓئِكَةٌ غِلَاظٌ شِدَادٌ لَّا يَعْصُونَ ٱللَّهَ مَآ أَمَرَهُمْ وَيَفْعَلُونَ مَا يُؤْمَرُونَ ⑥

၆။ အို-'မုအ်မင်န်' သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် *မိမိတို့ကိုယ်များကိုလည်းကောင်း၊ မိမိတို့၏အိမ်သူအိမ်သားတို့ကိုလည်းကောင်း၊ (ငရဲ)မီး (ဘေး)မှ ကင်းလွတ်စေကြလေကုန်။* ² ယင်း(ငရဲ)မီး၏ လောင်စာများမှာ လူများနှင့် ကျောက်တုံးများ ဖြစ်ကြ၏။ ယင်း(ငရဲ)မီး၌ ညှာတာမှုကင်းမဲ့၊ စိတ်ဓာတ်ခက်ထန်ကြမ်းတမ်းသော၊ လွန်စွာပြင်းထန် ကြံ့ခိုင်သော "မလာအိကဟ်" ကောင်းကင်တမန်များသည် (စောင့်ကြပ်လျက်) ရှိကြကုန်၏။ ထို "မလာအိကဟ်" ကောင်းကင်တမန်တို့မှာ အလ္လာဟ်အရှင်မြတ်အား ထိုအရှင်မြတ်က ၎င်းတို့ကိုပေးတော်မူသော အမိန့်တော်နှင့်စပ်လျဉ်း၍ ဖီဆန်ကြသည် မရှိသည့်အပြင် မိမိတို့ အမိန့်ပေးတော်မူခြင်း ခံကြရသည်ကို (မဆိုင်းမတွ) ပြုလုပ် ဆောင်ရွက်လေ့ရှိကြကုန်၏။

➤➤ ဆွေဂုဏ်မျိုးဂုဏ်မောက်ကာ အချင်းချင်းရိုင်းပင်း၍ တမန်တော်မြတ်အား ဆက်လက် ဆန့်ကျင်နေကြမည်ဆိုပါက အလ္လာဟ်အရှင်မြတ်နှင့်တကွ ကောင်းကင်တမန် ဂျိဗ်ရီလ်၊ မုအ်မင်န် သူတော်စင်များ၊ ကောင်းကင်တမန်များသည် တမန်တော်မြတ်အား ကာကွယ်စောင့်ရှောက်ကြရန် အသင့်ရှိကြသည်ကို သတိပြုကြရာသည်"ဟု သတိပေးထားတော်မူခြင်း ဖြစ်ပေသည်။

① ဆိုလိုသည်ကား ကြင်ရာတော်များ၏ စိတ်နှလုံးများတွင် တမန်တော်မြတ်သည် မလွဲမရှောင်သာ ကြင်ရာတော်ချား ထားတော်မူရမည်သာ ဖြစ်သည်။"ငါတို့ထက်သာသော အမျိုးသမီးမရှိ။ သို့ဖြစ်ရာ တမန်တော်မြတ်သည် ငါတို့၏စကားကို မလွဲမရှောင်သာ လိုက်လျောတော်မူရမည်သာဖြစ်သည်"ဟူ၍ကား မေ့မှား၍မျှ အတွေးအထင် မပေါ်စေရာ၊ အမှန်စင်စစ် တမန်တော်မြတ်သည် လက်ရှိ ကြင်ရာတော်များကို စွန့်လွှတ်ကွာရှင်းတော်မူပါက အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား လက်ရှိကြင်ရာတော်များထက် သာသောကြင်ရာတော်များကို ဖန်ဆင်းပေးတော်မူနိုင်ပေသည်။ အလ္လာဟ်အရှင်မြတ်ထံတော်၌ အခက်အခဲဟူ၍ အလျင်းမရှိပေ။ သို့ဖြစ်ရာ ကြင်ရာတော်များသည် မိမိတို့ကိုယ်ကိုမိမိတို့ အထင်မကြီးကြရာဟု ထပ်မံ သတိပေးထားတော်မူခြင်း ဖြစ်သည်။

② ဆိုလိုသည်ကား မွတ်စ်လင်မ်တိုင်းသည် မိမိတို့ကိုယ်တိုင်လည်း တရားကိုဆောင်ကြရမည်။ မိမိတို့နှင့်အတူတကွ မိမိတို့၏ အိမ်သူအိမ်သား၊ သားမယားတို့ကိုလည်း နားချ၍တစ်မျိုး၊ ခြောက်လှန့်၍တစ်ဖုံ၊ ချော့၍တစ်မျိုး၊ ရိုက်၍တစ်သွယ်၊ အစွမ်းရှိသမျှ သွန်သင်ဆုံးမ တရားပြုကြရမည်။ ငရဲမီးဘေးမှ မိမိတို့ကိုယ်များကို ကာကွယ်ကြသကဲ့သို့ မိမိတို့၏ အိမ်သူအိမ်သား၊ သားမယားတို့အားလည်း ကာကွယ်ကြရပေမည်။ ဤသည် မွတ်စ်လင်မ်တိုင်း၏တာဝန်ပင်။ ဤအာယတ်တော်၌ "အဟ်လီကွမ်"ဟူသော စကားတွင် အိမ်သူအိမ်သား သားမယား တပည့်သား နောက်လိုက်ယ်သား၊ မိမိနှင့်ဆက်သွယ်လျက်ရှိသော အပေါင်းအသင်းအားလုံး အကျုံးဝင်ပေသည်။

يَاأَيُّهَا الَّذِينَ كَفَرُوا لَا تَعْتَذِرُوا الْيَوْمَ إِنَّمَا تُجْزَوْنَ مَا كُنتُمْ تَعْمَلُونَ ⑦

၇။ အို-"ကာဖိရ်" သွေဖည်ငြင်းပယ်သူအပေါင်းတို့၊ ယနေ့ အသင်တို့သည် (မည်သို့မျှ) အကြောင်းမပြကြကုန်လင့်။ အသင်တို့သည် မိမိတို့ ကျင့်မူနေခဲ့ကြသော (အမှုကိစ္စ)နှင့် စပ်လျဉ်း၍သာ အစားပေးခြင်းကို ခံနေကြရခြင်း ဖြစ်သည်။

يَاأَيُّهَا الَّذِينَ آمَنُوا تُوبُوا إِلَى اللَّهِ تَوْبَةً نَّصُوحًا عَسَىٰ رَبُّكُمْ أَن يُكَفِّرَ عَنكُمْ سَيِّئَاتِكُمْ وَيُدْخِلَكُمْ جَنَّاتٍ تَجْرِي مِن تَحْتِهَا الْأَنْهَارُ يَوْمَ لَا يُخْزِي اللَّهُ النَّبِيَّ وَالَّذِينَ آمَنُوا مَعَهُ نُورُهُمْ يَسْعَىٰ بَيْنَ أَيْدِيهِمْ وَبِأَيْمَانِهِمْ يَقُولُونَ رَبَّنَا أَتْمِمْ لَنَا نُورَنَا وَاغْفِرْ لَنَا إِنَّكَ عَلَىٰ كُلِّ شَيْءٍ قَدِيرٌ ⑧

၈။ အို-"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အထံတော်၌ စစ်မှန်သော ဝန်ချ တောင်းပန်ခြင်းမျိုးဖြင့် ဝန်ချတောင်းပန်ကြလေကုန်။ (သို့ပြုလုပ်ခြင်းအားဖြင့်) အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် အသင်တို့၏ပြစ်မှုဒုစရိုက်များကို အသင်တို့မှ ပပျောက်စေတော်မူမည့်ပြင် အသင်တို့အား အကြင်ဥယျာဉ်များသို့ ဝင်ရောက်စေတော်မူတန်ရာ၏။

ယင်းဥယျာဉ်များ၏အောက်မှ ချောင်းများသည် စီးတွေလျက် ရှိကြပေမည်။ အကြင်နေ့ကို (သတိရရှိကြလေကုန်၊) ထိုနေ့တွင် အလ္လာဟ်အရှင်မြတ်သည် နဗီတမန်တော်မြတ်အားလည်းကောင်း၊ ထိုနဗီတမန်တော်မြတ်နှင့်အတူ သက်ဝင် ယုံကြည်ခဲ့ကြသောသူတို့အားလည်းကောင်း၊ *ကျိုးယုတ်ရှက်ရ ဖြစ်စေတော်မူမည်မဟုတ်ပေ။* [၁] *၎င်းတို့၏ အလင်းရောင်မှာ ၎င်းတို့၏ရှေ့၌လည်းကောင်း၊ လယ်ယာဘက်များ၌လည်းကောင်း၊ ပြေးလျက် ရှိပေမည်။* [၂]

---

(၁) ဆိုလိုသည်ကား ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ် (ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)အား မဆိုထားနှင့်၊ တမန်တော်မြတ်၏ နောက်လိုက်တပည့်သားများကိုပင် ကျိုးယုတ်ရှက်ရ ဖြစ်စေတော်မူမည်မဟုတ်၊ သိက္ခာရှိစွာဖြင့် အလွန်မြင့်မြတ်သော ဂုဏ်အင်ဒြပ်များကိုပင် ချီးမြှင့်တော်မူပေမည်။

သစ္စာရှိသူနှင့် သစ္စာမရှိသူ၊ အမိန့်တော်နာခံသူနှင့် အမိန့်တော် မနာခံသူ၊ မွတ်စ်လင်မ်နှင့် ကာဖိရ်၏ အကျိုးဆက်ကား အသို့လျှင် တူနိုင်အံ့နည်း။

၎င်းတို့မှာ (ဤသို့) လျှောက်ထားပန်ကြား လျက်ရှိကြမည်။ အို-ကျွန်တော်မျိုးတို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အဖို့ ကျွန်တော်မျိုးတို့၏အလင်းရောင် ကို အဆုံးတိုင်အောင် ထားရှိတော်မူပါ။ ထိုမှတပါး အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ခွင့်လွှတ်တော် မူပါ၊ ဧကန်မလွဲ အရှင်မြတ်သည် အရာခပ်သိမ်းကို တတ်စွမ်းနိုင်တော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပါ သတည်း။

يَٰٓأَيُّهَا ٱلنَّبِيُّ جَٰهِدِ ٱلْكُفَّارَ وَٱلْمُنَٰفِقِينَ وَٱغْلُظْ عَلَيْهِمْ ۚ وَمَأْوَىٰهُمْ جَهَنَّمُ ۖ وَبِئْسَ ٱلْمَصِيرُ ⑨

၉။ အို-နဗီတမန်တော်၊ အသင်သည် “ကာဖိရ်” သွေဖည်ငြင်းပယ်ကြကုန်သောသူတို့အားလည်းကောင်း၊ “မုနာဖစ်က်” အယောင်ဆောင်မှစ်လင်မ်တို့အားလည်း ကောင်း၊ *သက်စွန့်ကြိုးပမ်း တိုက်ခိုက်ပါလေ၊ ထို့ပြင် အသင်သည် ၎င်းတို့အပေါ်၌ကျပ်တည်းစေပါလေ။* [၁] ထို့ပြင် ၎င်းတို့၏ခိုလှုံရာဌာနမှာ “ဂျဟန္နမ်” ငရဲသာလျှင် ဖြစ်၏။ စင်စစ်မှာကား (ယင်း “ဂျဟန္နမ်”ငရဲမှာ) လွန်စွာ ဆိုးရွားလှသောစခန်းပင် ဖြစ်ချေသည်။

---

(၂) ကိယာမတ်နေ့တွင် မွတ်စ်လင်မ်များ၏ အလင်းရောင်သည် ၎င်းတို့ရှေ့တွင် ပြေးလျက်ရှိပေမည်။ အဆိုပါ အလင်းရောင်သည် (အီမာန်) ယုံကြည်မှု (အီမလ်) အကျင့်သီလနှင့်အမျှ လင်းဝင်း တောက်ပလျက်ရှိပေမည်။

ဤအကြောင်း ကုရ်အာန် (၅၇:၁၂-၁၅)တွင် ပါရှိသည်။ သက်ဆိုင်ရာအဖွင့်များကိုလည်း အကျယ် ရေးသားခဲ့ပေပြီ။

(၁) အလ္လာဟ်အရှင်မြတ်သည် အခြားသူများအား သည်းခံရန် မိန့်ကြားတော်မူ၏။ သို့ရာတွင် တမန်တော်မြတ် သည် အဘယ်မျှ သည်းခံတော်မူသည်၊ နူးညံ့ သိမ်မွေ့တော်မူသည်ဆိုသော်၊ အလ္လာဟ်အရှင်မြတ်ကပင် တမန်တော်မြတ်အား ကာဖိရ်များ၊ မုနာဖစ်က်များနှင့် ဆက်ဆံရာတွင် ပြင်းထန်ပြတ်သားစွာ ဆက်ဆံပါဟူ၍ပင် အမိန့်ပေးတော်မူသည်။ တမန်တော်မြတ်၏ သည်းခံမှု၊ နူးညံ့ သိမ်မွေ့မှုကား အံ့ဖွယ်တစ်ပါးပင်။

ဤအာယတ်တော်နှင့်ဆက်စပ်၍ ကုရ်အာန်ကျမ်းလာ အာယတ်တော် (၃:၁၅၈) ကိုဆင်ခြင်ပါကုန်။

ضَرَبَ اللّٰهُ مَثَلًا لِّلَّذِيْنَ كَفَرُوا امْرَاَتَ نُوْحٍ وَّ امْرَاَتَ لُوْطٍ ۖ كَانَتَا تَحْتَ عَبْدَيْنِ مِنْ عِبَادِنَا صَالِحَيْنِ فَخَانَتٰهُمَا فَلَمْ يُغْنِيَا عَنْهُمَا مِنَ اللّٰهِ شَيْـًٔا وَّقِيْلَ ادْخُلَا النَّارَ مَعَ الدّٰخِلِيْنَ ۝١٠

၁၀။ အလ္လာဟ်အရှင်မြတ်သည် "ကာဖိရ်" သွေဖည်ငြင်းပယ်ကြကုန်သူတို့၏အကျိုးငှာ (နဗီတမန်တော်) နူဟ်၏ ဇနီးကြင်ရာကိုလည်းကောင်း၊ (နဗီတမန်တော်) "လူတ္တ်"၏ ဇနီးကြင်ရာကိုလည်းကောင်း၊ ဥပမာအဖြစ်ခိုင်းနှိုင်း မိန့်ကြားတော်မူ၏။ ထိုဇနီးကြင်ရာနှစ်ဦးကား ငါအရှင်မြတ်၏ကျွန်အနက် သူတော်စင်ကျွန်နှစ်ပါး၏ (ထိမ်းမြားမှု)အောက်တွင် ရှိခဲ့ကြလေ၏။

သို့တစေလည်း ထိုဇနီးကြင်ရာ နှစ်ဦးသည် ထိုကျွန်နှစ်ပါးနှင့်ပတ်သက်၍ (ဒီန်သာသနာရေးတွင်) သစ္စာ သွေလုန်ခဲ့ကြပေရာ ထိုကျွန်တော်နှစ်ပါးမှာ အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်ပြိုင်၍ ထိုကြင်ရာနှစ်ဦးအဖို့ အနည်းငယ်စိုးစဉ်းမျှပင် အကျိုးမပြုနိုင်ခဲ့ကြပေ။ ထို့ပြင် "အသင်တို့နှစ်ဦးသည်လည်း (အခြားသော) ဝင်ရောက်ကြသူတို့နှင့်အတူ (ငရဲ)မီးထဲသို့ ဝင်ရောက်ကြကုန်လော့"ဟု အမိန့်ပေးတော်မူခြင်းကို ခံခဲ့ကြရလေသတည်း။ [၁]

وَضَرَبَ اللّٰهُ مَثَلًا لِّلَّذِيْنَ اٰمَنُوا امْرَاَتَ فِرْعَوْنَ

၁၁။ ထိုနည်းတူစွာ အလ္လာဟ်အရှင်မြတ်သည် "မုအ်မင်န်" သက်ဝင်ယုံကြည်ကြကုန်သောသူတို့၏ အကျိုးငှာ 'ဖစ်ရ်အောင်န်' ၏ဇနီးကြင်ရာကို ဥပမာအဖြစ်ခိုင်းနှိုင်း မိန့်ကြားတော်မူခဲ့၏။ တစ်ရံရောအခါဝယ် ထို 'ဖစ်ရ်အောင်န်'၏ ဇနီးကြင်ရာသည် (ဤသို့) လျှောက်ထား ပန်ကြားခဲ့လေ၏။

---

(၁) **မယားဆိုးကို လင်ကောင်းမကယ်နိုင်။**

တမန်တော်နူဟ်နှင့် တမန်တော်လူတ္တ်သည် အလ္လာဟ်အရှင်မြတ်၏ တမန်တော်များဖြစ်ခဲ့ကြသည်၊ သူတော်စင်များ ဖြစ်ခဲ့ကြသည်။ သို့ရာတွင် အကြောင်းအားလျော်စွာ ထိုတမန်တော်ကြီးနှစ်ပါး၏ ကြင်ရာများမှာ မုနာဖစ်က်များ ဖြစ်နေခဲ့ကြပေသည်။ အမြင်အားဖြင့် အဆိုပါကြင်ရာနှစ်ပါးသည် တမန်တော်ကြီးနှစ်ပါး၏ ကြင်ရာများ ဖြစ်နေခဲ့ကြသော်လည်း အမှန်မှာ ယင်းကြင်ရာနှစ်ဦးတို့သည် မိမိတို့၏ ခင်ပွန်းများအား သာသနာရေးတွင် သစ္စာဖောက်ခဲ့ကြသည်။ ➤➤

إِذْ قَالَتْ رَبِّ ابْنِ لِي عِندَكَ بَيْتًا فِي الْجَنَّةِ وَنَجِّنِي مِن فِرْعَوْنَ وَعَمَلِهِ وَنَجِّنِي مِنَ الْقَوْمِ الظَّالِمِينَ ﴿١١﴾

အို-ကျွန်တော်မျိုးမအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် မိမိထံတော်ပါး၌ 'ဂျန္နတ်'သုခဘုံတွင် ကျွန်တော်မျိုးမအဖို့ နေအိမ်တစ်လုံးကို ပြုလုပ်၍ ပေးသနားတော်မူပါ။ ၎င်းပြင် အရှင်မြတ်သည် ကျွန်တော်မျိုးမအား 'ဖစ်ရ်အောင်န်' နှင့် ၎င်း၏ အကျင့်အမူတို့မှ လွတ်မြောက်စေတော်မူပါ။ ထိုမှတစ်ပါး အရှင်မြတ်သည် ကျွန်တော်မျိုးမအား မတရားသောအမျိုးသားတို့မှလည်း လွတ်မြောက်စေတော်မူပါ။ [၁]

وَمَرْيَمَ ابْنَتَ عِمْرَانَ الَّتِي أَحْصَنَتْ فَرْجَهَا فَنَفَخْنَا فِيهِ مِن رُّوحِنَا

၁၂။ ထိုနည်းတူစွာ (အလ္လာဟ်အရှင်မြတ်သည်) 'အီမ်ရာန်' ၏သမီး၊ အကြင် 'မရ်ယမ်' အား (ဥပမာအဖြစ် ခိုင်းနှိုင်းမိန့်ကြားတော်မူခဲ့၏၊) ထို 'မရ်ယမ်' သည် မိမိအသရေကို စောင့်စည်းထိန်းသိမ်းခဲ့လေရာ ငါအရှင်မြတ်သည် ၎င်း၏အင်္ကျီရင်ကွဲ (ရင်ဖုံး)ဝယ် မိမိအထံတော်မှ အသက်ဇီဝိန်ကို နှုတ်တော်မူခဲ့လေ၏။

---

➤➤ ကာဖိရ်များ၊ မုနာဖစ်က်များ ဖြစ်နေခဲ့ကြသည်။ အတွင်းမှ ကာဖိရ်များနှင့် ဆက်သွယ်နေခဲ့ကြသည်။ နောက်ဆုံးတွင် ယင်းကြင်ရာနှစ်ဦးတို့သည် တမန်တော်ကြီးနှစ်ပါး၏ ကြင်ရာများ ဖြစ်ခဲ့ကြလင့်ကစား မိမိတို့ကိုယ်တိုင်က မုနာဖစ်က်များဖြစ်နေခဲ့ ကြသည့်အတွက် ငရဲသို့လားခဲ့ကြရသည်။ တမန်တော်ကြီးနှစ်ပါးသည် မိမိတို့၏ ကြင်ရာများအား မည်သို့မျှ မကာကွယ်နိုင်ခဲ့ကြပေ။

(၁) **လင်ဆိုးကို မယားကောင်း မကယ်နိုင်။**

အထက်တွင် မယားဆိုးကို လင်ကောင်း မကယ်နိုင်သည့်အကြောင်းပါရှိ၏။ ဤတွင် ဆန့်ကျင်ဘက်ဖြစ်ရပ်တစ်ခုကို မိန့်ဆိုထားတော်မူသည်။ ဖစ်ရ် အောင်န်သည် ကာဖိရ်ဖြစ်ခဲ့သည်။ အလ္လာဟ်အရှင်မြတ်အား တော်လှန်ပုန်ကန်ခဲ့သည်။

သို့ရာတွင် ဖစ်ရ်အောင်န်၏ကြင်ရာ အာစီယဟ်သခင်မမှာမူ အလ္လာဟ်အရှင်မြတ်အား ရိုးသားဖြောင့်မတ်စွာ ယုံကြည်မြတ်နိုးခဲ့သည်။ အကျင့်သီလကောင်းမြတ်ခဲ့သည်။ သူတော်စင်မတစ်ဦး ဖြစ်ခဲ့သည်။ သို့တစေလည်း ကြင်ရာတော် အာစီယဟ်သခင်မသည် မိမိ၏ခင်ပွန်းသည်အား အသို့မျှ မကယ်နိုင်ခဲ့ပေ။ ခင်ပွန်း၏ သွေဖည်မှု၊ တော်လှန်ပုန်ကန်မှုကြောင့် အသို့မျှ အရေးယူတော်မူခြင်းကိုလည်း မခံခဲ့ရပေ။

ဆိုလိုသည်ကား လင်သည် မယားကိုမကယ်နိုင်၊ မယားသည် လင်ကိုမကယ်နိုင်။ မိမိ၏မှန်ကန်သော (အီမာန်) ယုံကြည်မှုနှင့် ကောင်းမြတ်သော (အမလ်) အကျင့်သီလသည်သာလျှင် မိမိအား ကယ်တင်မည်ဖြစ်သည်။

وَصَدَّقَتْ بِكَلِمَٰتِ رَبِّهَا وَكُتُبِهِۦ وَكَانَتْ مِنَ الْقَٰنِتِينَ ۝١٢

ထို့ပြင် ထို 'မရ်ယမ်' သည် မိမိအား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၏ မိန့်ကြားချက်များ ကိုလည်းကောင်း၊ ထိုအရှင်မြတ်၏ ကျမ်းဂန်တရား တော်တို့ကိုလည်းကောင်း၊ ယုံကြည်ထောက်ခံခဲ့သည့် ပြင် အမှန်စင်စစ် ထို'မရ်ယမ်'မှာ အမိန့်တော်ကို နာခံကြ ကုန်သောသူတို့တွင် အပါအဝင်ဖြစ်ခဲ့ပေသတည်း။ [၁]

---

(၁) **ပျိုကညာလည်း သူတော်ကောင်းဖြစ်နိုင်သည်။**

အိမ်ရာမ်၏သမီး မရ်ယမ်သခင်မသည် ပျိုကညာတစ်ပါးဖြစ်ခဲ့သည်၊ အိမ်ထောင်မပြုခဲ့ပေ၊ မရ်ယမ် သခင်မ၌ လင်ယောကျ်ားမရှိခဲ့ပေ။ သို့ပါသော်လည်း အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့် မိမိ၏ကာယိန္ဒြေကို ကောင်းစွာ စောင့်စည်းထိန်းသိမ်းခဲ့သည်။

အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များနှင့်ကျမ်းဂန်လာ တရားတော်များကို ထောက်ခံယုံကြည် မြတ်နိုးခဲ့သည်။ အလ္လာဟ်အရှင်မြတ်အား ကြည်ဖြူစွာ ဆည်းကပ်ကိုးကွယ်ခဲ့သည်။ သူတော်စင်များတွင် အထင်အရှား အပါအဝင်ဖြစ်ခဲ့သည်။

ဆိုလိုသည်ကား ပျိုကညာတစ်ဦးပင် ဖြစ်လင့်ကစား 'အီမာန်နှင့်အမလ်' ကောင်းက သူတော်ကောင်း ဖြစ်နိုင်ပေသည်။

မရ်ယမ်သခင်မ၌ လင်ယောကျ်ားမရှိဘဲလျက် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် သားတော် (တမန်တော်အီစာ) ဖွားမြင်တော်မူခဲ့သည့်အကြောင်း ကုရ်အာန် (၃း၅၈။ ၁၉း၁၆။ ၂၂း၂၁-၉၁) တွင် ပါရှိခဲ့ချေပြီ။

# စိုးမိုးခြင်းကဗ္ဗာ



ဤကဗ္ဗာသည် "မုလ်က်" စိုးမိုးခြင်း ကဗ္ဗာမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဗ္ဗာတွင် အာယတ်တော်(၃၀)ပါး၊ ရကူအ်(၂)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

ကရုဏာတော်ရှင်ဖြစ်တော်မူသော၊ အလွန်တရာ
ကြင်နာသနားတော်မူသော၊
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

تَبٰرَكَ الَّذِيْ بِيَدِهِ الْمُلْكُ ۚ وَهُوَ عَلٰى كُلِّ شَيْءٍ قَدِيْرُ ۙ ①

၁။ အကြင်အရှင်မြတ်သည် မင်္ဂလာအပေါင်းနှင့် ပြည့်စုံ မြင့်မြတ်လှတော်မူ၏။ ထိုအရှင်မြတ်၏ လက်တော်တွင်းဝယ် အုပ်ချုပ်မှုသည်ရှိသည်။ [၁] ထို့မှတစ်ပါး ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို တတ်စွမ်းနိုင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူ၏။

الَّذِيْ خَلَقَ الْمَوْتَ وَالْحَيٰوةَ لِيَبْلُوَكُمْ اَيُّكُمْ اَحْسَنُ عَمَلًا ۚ وَهُوَ الْعَزِيْزُ الْغَفُوْرُ ۙ ②

၂။ အကြင် အရှင်မြတ်သည် အသင်တို့အား အသင်တို့အနက် မည်သူသည် အကျင့်အမူအားဖြင့် အကောင်းဆုံးဖြစ်သည်ကို စမ်းသပ်တော်မူအံ့သောငှာ "မရဏ" သေခြင်းတရားကိုလည်းကောင်း၊ အသက်ရှင်ခြင်းကိုလည်းကောင်း၊ ဖန်ဆင်းတော်မူခဲ့၏။ [၂] ထို့မှတစ်ပါး ထိုအရှင်မြတ်သည် အလွန်တရာ ခန့်ညားတော်မူသောအရှင်၊ အလွန်တရာ ခွင့်လွှတ်တော်မူသောအရှင်၊ ဖြစ်တော်မူ၏။

---

(၁) စိုးမိုးအုပ်ချုပ်မှု အစုစုတို့သည် အလ္လာဟ်အရှင်မြတ်၏ လက်တော်တွင်း၌သာ ရှိ၏။ စကြာဝဠာအဝန်းသည် ထိုအရှင်မြတ်၏ စိုးမိုးအုပ်ချုပ်မှုအောက်တွင်ပင် ရပ်တည်လျက်ရှိ၏။

(၂) သေခြင်းရှင်ခြင်း တရားနှစ်ပါးကိုလည်း အလ္လာဟ်အရှင်မြတ်သည်ပင် စီရင်ဖန်တီးထားတော်မူ၏။ သို့စီရင်ဖန်တီးထားတော်မူခြင်းမှာ အကြောင်းမဲ့မဟုတ်၊ လူသားတို့၏အကျင့်သီလကို စမ်းသပ်တော်မူရန်ပင်ဖြစ်၏။ လူသားတို့သည် အသက်ရှင်စဉ် ဆည်းပူးခဲ့ကြသည့် ကောင်းမှု၊ မကောင်းမှု၏ကျိုးပြစ်ကို သေပြီးနောက် အတိအကျခံ၊ စံကြရမည်ဖြစ်၏။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ်ပါရှိခဲ့ပေပြီ။
ကြည့်-ကုရ်အာန်(၂း၂၈)။

၃။ အကြင်အရှင်မြတ်သည် မိုးကောင်းကင် ခုနစ်ထပ်ကို အထပ်ထပ် ဖန်ဆင်းတော်မူခဲ့၏။ အသင်သည် "ရဟ်မာန်" ကရုဏာတော်ရှင်၏ ဖန်ဆင်းမှု၌ ကွာခြားမှု၊ မဆီလျော်မှုဟူ၍ကား လုံးဝ တွေ့ရှိရမည် မဟုတ်ပေ။ သို့ဖြစ်ပေရာ အသင်သည် မျက်စိကို ပြန်မော့၍ ကြည့်လော့၊ အသင်သည် တစ်စုံတစ်ရာ အက်ကွဲမှု တွေ့မြင်ရလေသလော။

الَّذِي خَلَقَ سَبْعَ سَمَاوَاتٍ طِبَاقًا ۖ مَا تَرَىٰ فِي خَلْقِ الرَّحْمَٰنِ مِنْ تَفَاوُتٍ ۖ فَارْجِعِ الْبَصَرَ هَلْ تَرَىٰ مِنْ فُطُورٍ ﴿٣﴾

၄။ ထို့နောက် အသင်သည် မျက်စိကိုပြန်မော့၍ အကြိမ်ကြိမ် ပြန်လည်ကြည့်ရှုလော့၊ မျက်စိသာလျှင် အသင့်ထံသို့ အရှက်ရ၍ညောင်းလျက် ပြန်လာမည် ဖြစ်၏။ [၁]

ثُمَّ ارْجِعِ الْبَصَرَ كَرَّتَيْنِ يَنْقَلِبْ إِلَيْكَ الْبَصَرُ خَاسِئًا وَهُوَ حَسِيرٌ ﴿٤﴾

၅။ ထိုမှတစ်ပါး ဧကန်မလွဲ ငါအရှင်မြတ်သည် အနီးဆုံး(အောက်ဆုံး)ဖြစ်သောမိုးကောင်းကင်ကို မီးအိမ်များဖြင့် တင့်တယ်သိုက်မြိုက်စွာ ဆင်ယင်ထားတော်မူသည့်ပြင် ငါအရှင်မြတ်သည် ယင်းမီးအိမ်များကို "ရှိုင်တွာန်" မိစ္ဆာကောင်များအား ပစ်ခတ်ရန် လက်နက်ကိရိယာများပြုလုပ်တော်မူခဲ့၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ၎င်းတို့အဖို့ ဂျဟန္နမ်ငရဲ၏ပြစ်ဒဏ်ကိုလည်း အဆင်သင့်ပြုလုပ်၍ ထားရှိတော်မူပြီးဖြစ်ပေသတည်း။

وَلَقَدْ زَيَّنَّا السَّمَاءَ الدُّنْيَا بِمَصَابِيحَ وَجَعَلْنَاهَا رُجُومًا لِلشَّيَاطِينِ ۖ وَأَعْتَدْنَا لَهُمْ عَذَابَ السَّعِيرِ ﴿٥﴾

---

(၁) ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ် စီရင်ဖန်ဆင်းထားတော်မူသည့် အရာခပ်သိမ်းကုန်တို့သည် ဆန်းကြယ်ဘိ၏။ ပြေပြစ်ဘိ၏။ သပ်ရပ်ဘိ၏။ အလွန်သေးငယ်သော အဏုမြူမှအစ၊ အလွန်ကြီးမားသော ဂြိုလ်ကြီးများအထိ အရာရာကို လေ့လာသည်နှင့်အမျှ၊ ကြည့်ရှုသည်နှင့်အမျှ၊ ပို၍ပို၍ ဆန်းကြယ်သည်၊ ပြေပြစ်သည်၊ သပ်ရပ်သည်၊ နက်နဲသိမ်မွေ့သည်။ အံ့မဆုံး ရှုမငြီးဖြစ်သည်ကိုသာ တွေ့ရှိရ၏။ မဆီလျော်မှုဟူ၍ကား စိုးစဉ်းမျှမတွေ့ရှိရပေ။

လူသားတိုင်းသည် နေ့စဉ်နှင့်အမျှ မိုးကောင်းကင်ကို တွေ့မြင်နေရ၏။ မိုးကား မြင့်စွင့်လှ၏။ ကြယ်တာရာများနှင့် ခြယ်လှယ်ထားတော်မူသည်မှာ အံ့မဆုံး ရှုမငြီးပင်၊ မိုး၏သက်တမ်းကား ရှည်လျားလှချေပြီ၊ သို့တစေ ယခုထက်တိုင် မိုးတွင် တစ်စုံတစ်ရာ အပြစ်အနာအဆာ မတွေ့ရှိရသေးပေ။ မိုးကိုကြည့်၊ ထပ်ကြည့်ပါလေ၊ အကြိမ်ကြိမ် ကြည့်ပါလေ၊ စူးစိုက်၍ကြည့်ပါလေ၊ မျက်စိသာလျှင် ညောင်း၍သွားပေမည်။ မိုးတွင်မူကား အပြစ်တစ်စုံတစ်ရာ တွေ့ရှိရမည်မဟုတ်ပေ။ ဤအကြောင်းနှင့်ဆက်စပ်၍ ကုရ်အာန်(၅၀း၆)ကို ဆင်ခြင်ပါကုန်။

وَلِلَّذِينَ كَفَرُوا بِرَبِّهِمْ عَذَابُ جَهَنَّمَ ۖ وَبِئْسَ الْمَصِيرُ ٦

၆။ ထို့ပြင် မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား သွေဖည်ငြင်းပယ်ကြကုန်သောသူတို့၌ ဂျဟန္နမ်ငရဲ၏ပြစ်ဒဏ်သည် ရှိချေမည်။ စင်စစ်မှာကား ယင်း"ဂျဟန္နမ်"ငရဲသည် လွန်စွာဆိုးရွားလှသော စခန်းပင် ဖြစ်ချေ၏။

إِذَا أُلْقُوا فِيهَا سَمِعُوا لَهَا شَهِيقًا وَهِيَ تَفُورُ ٧

၇။ ၎င်းတို့သည် ယင်းငရဲ၌ပစ်ချခြင်းကို ခံခဲ့ကြရသောအခါ ယင်းငရဲ၏ဟိန်းသံကို ကြားကြရပေမည်။ ၎င်းပြင် ယင်းငရဲသည် ဆူပွက်လျက်ရှိမည်မှာ၊

تَكَادُ تَمَيَّزُ مِنَ الْغَيْظِ ۖ كُلَّمَا أُلْقِيَ فِيهَا فَوْجٌ سَأَلَهُمْ خَزَنَتُهَا أَلَمْ يَأْتِكُمْ نَذِيرٌ ٨

၈။ အမျက်ဒေါသကြောင့် ပေါက်ကွဲလုမတတ် ရှိပေမည်။ ယင်း"ဂျဟန္နမ်"ငရဲ၌ အုပ်စုတစ်စု ပစ်ချခြင်း ခံရတိုင်း ယင်းငရဲကို စောင့်ကြပ်သော ကောင်းကင်တမန်များက ၎င်းတို့အား "အသင်တို့ထံ သတိပေးနှိုးဆော်သူ တစ်ဦးတစ်ယောက်မျှ မလာခဲ့လေသလော" ဟု မေးမြန်းကြပေမည်။

قَالُوا بَلَىٰ قَدْ جَاءَنَا نَذِيرٌ فَكَذَّبْنَا وَقُلْنَا مَا نَزَّلَ اللَّهُ مِنْ شَيْءٍ إِنْ أَنْتُمْ إِلَّا فِي ضَلَالٍ كَبِيرٍ ٩

၉။ (ထိုအခါ) ၎င်းတို့က အဘယ်ကြောင့် မဟုတ်ပါသနည်း၊ ဧကန်မလွဲ သတိပေးနှိုးဆော်သူသည် ကျွန်ုပ်တို့ထံ လာခဲ့ပေသည်။ သို့တစေလည်း ကျွန်ုပ်တို့က မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြသည့်ပြင် အလ္လာဟ်အရှင်မြတ်သည် မည်သည့် တစ်စုံတစ်ရာကိုမျှပင် ချပေးတော်မူခြင်းမရှိ၊ အသင်တို့သည် ကြီးကျယ်လှစွာသော လမ်းမှားမှု၌ ရှိနေကြသည်ဟု ပြောဆိုခဲ့ကြောင်း ဖြေကြားကြပေမည်။

وَقَالُوا لَوْ كُنَّا نَسْمَعُ أَوْ نَعْقِلُ مَا كُنَّا فِي أَصْحَابِ السَّعِيرِ ١٠

၁၀။ ထိုမှတစ်ပါး ၎င်းတို့က အကယ်၍သာ ကျွန်ုပ်တို့သည် နားထောင်ခဲ့ကြပါလျှင် သို့တည်းမဟုတ် ကျွန်ုပ်တို့သည် နားလည်ခဲ့ကြပါလျှင် ကျွန်ုပ်တို့သည် ငရဲသားများ ဖြစ်ကြမည်မဟုတ်ဟု ပြောဆိုကြပေမည်။

فَاعْتَرَفُوا بِذَنبِهِمْ ۚ فَسُحْقًا لِّأَصْحَابِ السَّعِيرِ ﴿١١﴾

၁၁။ မည်သို့ပင်ဖြစ်စေ ၎င်းတို့သည် (ကိယာမတ်နေ့တွင်) မိမိတို့၏ ပြစ်မှုကျူးလွန်ခြင်းကို ဝန်ခံကြပေမည်၊ သို့ဖြစ်ပေရာ "ဂျဟန္နမ်" ငရဲသားတို့၌ ကရုဏာတော်မှ ကင်းဝေးမှုသည် ရှိစေသား။

إِنَّ الَّذِينَ يَخْشَوْنَ رَبَّهُم بِالْغَيْبِ لَهُم مَّغْفِرَةٌ وَأَجْرٌ كَبِيرٌ ﴿١٢﴾

၁၂။ ကေန်မလွဲ မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား မမြင်ဘဲလျက် ကြောက်ရွံ့သောသူတို့အဖို့ အပြစ်မှ ချမ်းသာပေးခြင်းသည်လည်းကောင်း၊ ကြီးကျယ်လှစွာသော အကျိုးကျေးဇူးသည်လည်းကောင်း၊ ရှိ၏။

وَأَسِرُّوا قَوْلَكُمْ أَوِ اجْهَرُوا بِهِ ۖ إِنَّهُ عَلِيمٌ بِذَاتِ الصُّدُورِ ﴿١٣﴾

၁၃။ ထို့ပြင် အသင်တို့သည် မိမိတို့၏ စကားများကို လျှို့ဝှက်စွာပြောဆိုကြသည်ဖြစ်စေ၊ ကျယ်လောင်စွာ ပြောဆိုကြသည်ဖြစ်စေ၊ ကေန်စင်စစ် ထိုအရှင်မြတ်မှာမူကား စိတ်နှလုံးများအတွင်းဝယ် ရှိသည်တို့ကိုပင် အကြွင်းမဲ့သိရှိတော်မူသောအရှင် ဖြစ်တော်မူ၏။ [၁]

أَلَا يَعْلَمُ مَنْ خَلَقَ وَهُوَ اللَّطِيفُ الْخَبِيرُ ﴿١٤﴾

၁၄။ ဖန်ဆင်းတော်မူသော အရှင်မြတ်သည် သိတော်မူမည် မဟုတ်ပါသလော၊ စင်စစ်မှာမူကား ထိုအရှင်မြတ်သည် သိမ်မွေ့သောအရာတို့ကို လွန်စွာသိမြင်တော်မူသော အရှင်၊ အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ ကြားသိတော်မူသောအရှင်၊ ဖြစ်တော်မူ၏။

---

(၁) ဆိုလိုသည်ကား အသင်လူသားတို့သည် အလ္လာဟ်အရှင်မြတ်အား ဤမံသစက္ခုဖြင့် မမြင်နိုင်ကြပေ။ သို့တစေ ထိုအရှင်မြတ်သည် အသင်တို့အား မြင်တော်မူသည်။ အသင်တို့ ပြောဆိုသမျှကိုလည်း လျှို့ဝှက်စွာ ပြောဆိုသည်ဖြစ်စေ၊ ကျယ်လောင်စွာ ပြောဆိုသည်ဖြစ်စေ၊ လူသိရှင်ကြား ပြောဆိုသည်ဖြစ်စေ၊ ဆိတ်ကွယ်ရာ၌ နှစ်ကိုယ်ကြားပြောဆိုသည်ဖြစ်စေ၊ အားလုံး ကြားသိတော်မူသည်။ ထို့မျှမက အသင်တို့၏ စိတ်နှလုံးသားတွင် ဖြစ်ပေါ်နေသည့် အတွေးအခေါ် အကြံအစည်များကိုပင် သိရှိတော်မူသည်။ အချုပ်ဆိုရသော် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အဖို့ မျက်ကွယ်၌ဖြစ်တော်မူသော်လည်း ထိုအရှင်မြတ်အဖို့မှာကား အသင်တို့သည် မျက်ကွယ်၌ မဟုတ်ကြပေ။

هُوَ الَّذِي جَعَلَ لَكُمُ الْأَرْضَ ذَلُولًا فَامْشُوا فِي مَنَاكِبِهَا وَكُلُوا مِن رِّزْقِهِ ۖ وَإِلَيْهِ النُّشُورُ ﴿١٥﴾

**၁၅။** ထိုအရှင်မြတ်သည်ပင် အသင်တို့အကျိုးငှာ ပထဝီမြေကို တစ်ဆင့်အသုံးခံ၊ လက်အောက်ခံ ပြုလုပ်ထားတော်မူ၏။ သို့ဖြစ်ပေရာ အသင်တို့သည် ယင်းပထဝီမြေ၏ သွားလာရာလမ်းများ၌ လှုပ်ရှားသွားလာကြလေကုန်။ ထိုမှတစ်ပါး အသင်တို့သည် ထိုအရှင်မြတ် ချီးမြှင့် ပေးသနားတော်မူသော ရိက္ခာမှ စားသုံးကြလေကုန်။ စင်စစ်သော်ကား ရှင်ပြန်ထ၍ ထိုအရှင်မြတ် အထံတော်သို့ပင် ပြန်လည်ရောက်ရှိကြရအံ့သတည်း။ [၁]

ءَأَمِنتُم مَّن فِي السَّمَاءِ أَن يَخْسِفَ بِكُمُ الْأَرْضَ فَإِذَا هِيَ تَمُورُ ﴿١٦﴾

**၁၆။** အသင်တို့သည် မိုးကောင်းကင်၌ ရှိတော်မူသော အရှင်မြတ်အား ထိုအရှင်မြတ်သည် အသင်တို့အား မြေမျိုစေတော်မူမည် မဟုတ်ဟူ၍ စိုးရိမ်ကြောင့်ကြမှု ကင်းကြလေပြီလော၊ သို့(မြေမျိုစေတော်မူသော) အခါ ယင်းပထဝီမြေမှာ ပြင်းထန်စွာ တုန်လှုပ်လျက်ရှိပေမည်။

أَمْ أَمِنتُم مَّن فِي السَّمَاءِ أَن يُرْسِلَ عَلَيْكُمْ حَاصِبًا ۖ فَسَتَعْلَمُونَ كَيْفَ نَذِيرِ ﴿١٧﴾

**၁၇။** သို့တည်းမဟုတ် အသင်တို့သည် မိုးကောင်းကင်၌ရှိတော်မူသော အရှင်မြတ်အား ထိုအရှင်မြတ်သည် အသင်တို့အပေါ်ဝယ် ကျောက်စရစ်မိုး ရွာသွန်းစေတော်မူမည်မဟုတ်ဟူ၍ စိုးရိမ်ခြင်း ကင်းကြလေပြီလော။ သို့ဖြစ်လျှင် မကြာမြင့်မီပင် ငါအရှင်မြတ်၏ သတိပေးနှိုးဆော်မှုသည် မည်သို့ရှိခဲ့သည်ကို သိရှိကြပေမည်။

---

(၁) ဆိုလိုသည်ကား အတိုင်းမသိ ထုထည်ကြီးမားလှသော ပထဝီမြေကြီးကိုပင် အလ္လာဟ်အရှင်မြတ်သည် အသင်လူသားတို့ အကျိုးငှာ လူသားတို့၏ လက်အောက်ခံ အသုံးခံအဖြစ် ပိရိစွာ ဖန်ဆင်းထားတော်မူသည်။ လူသားတို့သည် ပထဝီမြေကြီးကို အမျိုးမျိုး အသုံးပြုလျက် ရှိကြသည်။ ပထဝီမြေကြီးတွင် အမျိုးမျိုး ခြယ်လှယ်လျက် ရှိကြသည်။ ပထဝီမြေကြီးပေါ်တွင်သာမက ပထဝီမြေကြီး၏ ကျောက်ကုန်းပေါ်၌ တည်ရှိသော တောင်ကြီး တောင်ငယ်များကိုပင် ဖြတ်သန်းသွားလာလျက် ရှိကြသည်။ မြေစွန်မြေဖျားအထိပေါက်ရောက်လျက် ရှိကြသည့် လိုရာစားနပ်ရိက္ခာများကို ရှာဖွေစားသုံးလျက် ရှိကြပေသည်။ ဤသည်တို့သည် ➤➤

وَلَقَدْ كَذَّبَ الَّذِينَ مِن قَبْلِهِمْ فَكَيْفَ كَانَ نَكِيرِ ⑱

၁၈။ စင်စစ်သော်ကား ၎င်းတို့အလျင်ရှိခဲ့ကြသော သူတို့သည်လည်း မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ငါအရှင်မြတ်၏ပြစ်ဒဏ်မှာ မည်သို့ရှိပေသနည်း။ [၁]

أَوَلَمْ يَرَوْا إِلَى الطَّيْرِ فَوْقَهُمْ صَافَّاتٍ وَيَقْبِضْنَ مَا يُمْسِكُهُنَّ إِلَّا الرَّحْمَٰنُ إِنَّهُ بِكُلِّ شَيْءٍ بَصِيرٌ ⑲

၁၉။ ၎င်းတို့သည် မိမိတို့ထက်ဝယ် ငှက်တိရစ္ဆာန်တို့အား အတောင်ပံများကို ကားလျက်ရှိသည်ကိုလည်းကောင်း၊ (ယင်းအတောင်ပံများကို) ရုပ်သိမ်းလျက်ရှိကြသည်ကိုလည်းကောင်း၊ ရှုမြင်ခဲ့ကြသည် မဟုတ်လော။

ယင်း ငှက်တိရစ္ဆာန်တို့ကို "ရဟ်မာန်" ကရုဏာတော်ရှင်မှတစ်ပါး အခြားမည်သူ တစ်ဦးတစ်ယောက်မျှပင် ထိန်းသိမ်း၍ ထားရှိသည်မဟုတ်ပြီ။ ဧကန်မလွဲ ထိုအရှင်မြတ်သည် အရာခပ်သိမ်းတို့ကို အကြွင်းမဲ့ရှုမြင်တော်မူသောအရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။

➤➤ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကြောင့်ပင်။ ဤတွင် တစ်ရက် ထိုအရှင်မြတ်ထံ ပြန်ကြရဦးမည် ဖြစ်သည်ကိုလည်း သိထားအပ်ကြပေသည်။ ကျေးဇူးသိတတ်ခဲ့ကြပါက ထိုအရှင်မြတ်ထံတော်၌ မျက်နှာပန်းလှကြရပေမည်။ ကျေးဇူးကန်းမိခဲ့ကြပါသော် မျက်နှာညှိုးငယ်ကြရပေမည်။

ဤအာယတ်တော်တွင်ပါရှိသော 'မနာကိဗ်' ဟူသောပုဒ်သည် အစွန်အဖျားများ၊ တောင်များ၊ လမ်းများ၊ အနက်၌ဖြစ်သည်။ ကြည့်-မဒါရိက်။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို မိန့်ဆိုထားတော်မူသည်။ အထူးသဖြင့် လူသားတို့အကျိုးငှာ မိုးကောင်းကင်များနှင့် ပထဝီမြေကြီးကို ဖန်ဆင်းထားတော်မူသည်။ အလ္လာဟ်အရှင်မြတ်သည် မဟာကရုဏာရှင် ဖြစ်တော်မူသည်ကား မှန်သည်။ သို့တစေ ကရုဏာပြုတော်မူပါလျက် ကရုဏာတော်ကို သိတတ်ရန်လိုအပ်သည်။ ပတ်ဝန်းကျင်နှင့် လိုအပ်သည့်အကြောင်းတရားများကို ဖန်တီးပေးထားတော်မူပါလျက် ကရုဏာတော်ကို မသိပါက၊ ကရုဏာတော်ကို အလွဲသုံးစားပြုပါက၊ သွေဖည်သောင်းကျန်းပါက၊ ပတ်ဝန်းကျင်ကို အန္တရာယ်ပြုလာပါက၊ ထိုက်သည့်အားလျော်စွာ အရေးလည်းယူတော်မူသည်။ အတိတ်ခေတ်များတွင် ယင်းသို့သော ဆူးငြောင့်ခလုတ်များကို ဖယ်ရှားပစ်တော်မူခဲ့သည်မှာလည်း ကမ္ဘာ့သမိုင်းစဉ်တွင် အထင်အရှားပင်။ "အာဒ်" "ဆမူဒ်"၏ဖြစ်ရပ်များသည် သင်ခန်းစာပင်။

သို့ဖြစ်ရာ လက်ရှိလူသားတို့သည် အလ္လာဟ်အရှင်မြတ်အား ကျေးဇူးသိတတ်ကြရာသည်။ ➤➤

أَمَّنْ هَٰذَا الَّذِي هُوَ جُندٌ لَّكُمْ يَنصُرُكُم مِّن دُونِ الرَّحْمَٰنِ ۚ إِنِ الْكَافِرُونَ إِلَّا فِي غُرُورٍ ﴿٢٠﴾

၂၀။ စင်စစ် "ရဟ်မာန်" ကရုဏာတော်ရှင်မှ တစ်ပါး အသင်တို့၏ စစ်သည်ဗိုလ်ပါအဖြစ် အသင်တို့အား ကူညီအံ့သောသူသည် မည်သူနည်း။ စင်စစ်မှာကား (ကာဖိရ်) သွေဖည်ငြင်းပယ်သောသူတို့သည် ဖြားယောင်းမှု၌ပင် ရှိနေကြကုန်၏။

أَمَّنْ هَٰذَا الَّذِي يَرْزُقُكُمْ إِنْ أَمْسَكَ رِزْقَهُ ۚ بَل لَّجُّوا فِي عُتُوٍّ وَنُفُورٍ ﴿٢١﴾

၂၁။ စင်စစ် အကယ်၍ ထိုအရှင်မြတ်သည် မိမိ (ထံမှ) ရိက္ခာကို ပိတ်ပင်တော်မူခဲ့ပါလျှင် အသင်တို့အား ရိက္ခာပေးအံ့သောသူသည် မည်သူနည်း။ စင်စစ်မှာကား ထိုသူတို့သည် ဆိုးသွမ်းမှု၌လည်းကောင်း၊ စက်ဆုပ်ရွံရှာမှု၌လည်းကောင်း၊ စွဲမြဲစွာ ရှိနေကြကုန်၏။ [၁]

أَفَمَن يَمْشِي مُكِبًّا عَلَىٰ وَجْهِهِ أَهْدَىٰ أَمَّن يَمْشِي سَوِيًّا عَلَىٰ صِرَاطٍ مُّسْتَقِيمٍ ﴿٢٢﴾

၂၂။ မိမိ မျက်နှာပေါ်၌ မှောက်လျက်သွားသောသူသည် ဖြောင့်မှန်စွာသွားသူ ဖြစ်လေသလော၊ သို့တည်းမဟုတ် ဖြောင့်မတ်သောလမ်းပေါ်၌ မတ်မတ်သွားနေသောသူသည် ဖြောင့်မှန်စွာသွားသူ ဖြစ်လေသလော။ [၂]

---

➤➤ ကျေးဇူးမကန်းကြရာ၊ မသွေဖည်ကြရာ၊ မသောင်းကျန်းကြရာ၊ အမှုမဲ့အမှတ်မဲ့ စိတ်အေးလက်အေး မနေကြရာ။ ပထဝီမြေကြီးဖြင့် အမျိုးမျိုး အကျိုးပြုထားတော်မူသောအရှင်၊ မိုးကောင်းကင်များဖြင့် အမျိုးမျိုး အကျိုးပြုထားတော်မူသောအရှင်သည်၊ မြေလည်း မျိုစေတော်မူနိုင်သည်၊ မိုးကောင်းကင်မှ ခဲမိုးလည်း ရွာသွန်းစေတော်မူနိုင်သည်။ ပြင်းထန်သော လေမုန်တိုင်းကိုလည်း တိုက်ခတ်စေတော်မူနိုင်သည်။ သို့ဖြစ်ရာ လက်ရှိလူသားတို့သည် စိုးရိမ်ကြောင့်ကြမှုကင်းစွာ မနေကြရာ။ အလ္လာဟ်အရှင်မြတ်က မိမိ၏ ကရုဏာတော်ဖြင့် အရေးယူတော်မမူသေးဘဲ ခေတ္တခဏ လျစ်လျူပြုထားတော်မူသည်ကိုလည်း အထင်မှား၍ မနေကြရာ။

(၁) အကယ်တန္တိ အလ္လာဟ်အရှင်မြတ်သည် မိမိပေးသနားတော်မူသော ရိက္ခာကို ပိတ်ပင်တော်မူလိုက်ပါလျှင် အသင်တို့အား အသူရိက္ခာပေးအံ့နည်း။ လူသားတို့အား အလ္လာဟ်အရှင်မြတ်သာလျှင် စားနပ်ရိက္ခာ ပေးသနားတော်မူသည်။ စားနပ်ရိက္ခာကို ထိုအရှင်မြတ် ပိတ်ပင်တော်မူလိုက်ပါက (ထိုအရှင်မြတ်မှတစ်ပါး) အခြားမည်သူတစ်ဦးတစ်ယောက်၌မျှ စားနပ်ရိက္ခာ ပေးနိုင်စွမ်းမရှိ။ သို့ဖြစ်ပါသော်လည်း များစွာသော လူသားတို့သည် ဆိုးသွမ်းလျက်ပင် ရှိကြပေသည်။ အမှန်တရားကို စက်ဆုပ်ရွံ့ရှာလျက်ပင် ရှိကြပေသည်။

(၂) ဆိုလိုသည်ကား အကြင်သူတစ်ဦးသည် ဖြောင့်မတ်မှန်ကန်သောလမ်းကြောင်းပေါ်၌ လူလိုသူလို ဖြောင့်မတ်စွာ လျှောက်သွား၏။ အခြားတစ်ဦးသည် မဖြောင့်မတ်သော မမှန်ကန်သောလမ်းကြောင်းပေါ်၌ မှောက်လျက် ➤➤

٢٣။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) ထိုအရှင်မြတ်သည်ပင် အသင်တို့အား ဖန်ဆင်းတော်မူခဲ့သောအရှင်ဖြစ်တော်မူ၏။ ထို့ပြင် အသင်တို့အဖို့ ထိုအရှင်မြတ်သည် နားကိုလည်းကောင်း၊ မျက်စိကိုလည်းကောင်း၊ စိတ်နှလုံးများကိုလည်းကောင်း၊ ပြုလုပ်၍ ပေးသနားတော်မူခဲ့၏။ (သို့ရာတွင်) အသင်တို့မှာမူကား အနည်းငယ်မျှသာလျှင် ကျေးဇူးသိတတ်ကြကုန်၏။

قُلْ هُوَ الَّذِيٓ اَنْشَاَكُمْ وَجَعَلَ لَكُمُ السَّمْعَ وَالْاَبْصَارَ وَالْاَفْـِٕدَةَ ۗ قَلِيْلًا مَّا تَشْكُرُوْنَ ﴿٢٣﴾

၂၄။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့၊) ထိုအရှင်မြတ်သည်ပင် အသင်တို့အား ပထဝီမြေ၌ ပြန့်ပွားစေတော်မူခဲ့သောအရှင်ဖြစ်တော်မူ၏။ ၎င်းပြင် ထိုအရှင်မြတ်အထံတော်သို့ပင် အသင်တို့သည် စုရုံးကြရပေမည်။ ①

قُلْ هُوَ الَّذِيْ ذَرَاَكُمْ فِى الْاَرْضِ وَاِلَيْهِ تُحْشَرُوْنَ ﴿٢٤﴾

၂၅။ ထို့ပြင် ၎င်းတို့က "အကယ်၍ အသင်တို့သည် သစ္စာဝါဒီများ ဖြစ်ကြလျှင် ဤချိန်းဆိုချက်သည် မည်သည့်အခါ၌ ဖြစ်မြောက်အံ့နည်း" ဟု ပြောဆိုကြကုန်၏။

وَيَقُوْلُوْنَ مَتٰى هٰذَا الْوَعْدُ اِنْ كُنْتُمْ صٰدِقِيْنَ ﴿٢٥﴾

---

➤➤ လျှောက်၏။ ထိုသူနှစ်ဦးသည် အချင်းချင်း အသို့လျှင်တူနိုင်ကြအံ့နည်း။ ပထမပုဂ္ဂိုလ်သည် လိုရာပန်းတိုင်သို့ ရောက်မည်။ ဒုတိယပုဂ္ဂိုလ်သည် လိုရာပန်းတိုင်သို့ ရောက်မည်မဟုတ်ပေ။ တစ်ပါးတည်းသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ကိုးကွယ်သော မုအ်မင်န်နှင့် ကိုးကွယ်ရာအများကိုးကွယ်သော မွတ်ရှိရစ်က်၏ ပုံပမာမှာလည်း ဤနည်းအတိုင်းပင်။ မုအ်မင်န်သည် လိုရာပန်းတိုင်သို့ ရောက်မည်။ မွတ်ရှိရစ်က်မှုကား လိုရာပန်းတိုင်သို့ ရောက်မည်မဟုတ်ပေ။ မုအ်မင်န်နှင့် မွတ်ရှိရစ်က်၏ သွားလာပုံသည် ဤပစ္စက္ခတွင် ခြားနားသကဲ့သို့ နောင်တမလွန်ဘဝတွင်လည်း ခြားနားမည်သာဖြစ်သည်။

① လူသားတို့အား အလ္လာဟ်အရှင်မြတ်သည်ပင် စတင်ဖန်ဆင်းတော်မူ၏။ နောက်ဆုံးတွင် လူသားတို့အား မိမိထံတော်သို့ ပြန်လည်စုရုံးစေတော်မူမည် ဖြစ်သည်။ ဆိုလိုသည်ကား လူသားတို့၏ အစလည်း ထိုအရှင်မြတ်အထံတော်မှ ဖြစ်သည်။ အဆုံးလည်း ထိုအရှင်မြတ်အထံတော်၌ပင် ဖြစ်မည်။ အကြင်ဌာနမှ လာခဲ့ကြ၏။ ထိုဌာနသို့ ပြန်လည်သွားကြရမည် ဖြစ်သည်။ သို့ဖြစ်ရာ လူသားတို့သည် အခါခပ်သိမ်း အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသ သတိရကြရာသည်။ ထိုအရှင်မြတ်ထံ ပြန်သွားကြသည့်အခါတွင်လည်း လက်မဲ့မဖြစ်ကြရာ။

قُلْ إِنَّمَا الْعِلْمُ عِندَ اللَّهِ وَإِنَّمَا أَنَا نَذِيرٌ مُّبِينٌ ﴿٢٦﴾

၂၆။ (အိုး-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ "(ဤသည်နှင့်စပ်လျဉ်း၍ တိကျသော)အသိပညာမှာ အလ္လာဟ်အရှင်မြတ်၌သာရှိ၏။ စင်စစ်သော်ကား ငါသည် ထင်ရှားလှစွာသော သတိပေးနှိုးဆော်သူတစ်ဦးမျှသာဖြစ်၏။" [၁]

فَلَمَّا رَأَوْهُ زُلْفَةً سِيئَتْ وُجُوهُ الَّذِينَ كَفَرُوا وَقِيلَ هَٰذَا الَّذِي كُنتُم بِهِ تَدَّعُونَ ﴿٢٧﴾

၂၇။ စင်စစ်သော်ကား ၎င်းတို့သည် ယင်း (ကိယာမတ်)ကို တွေ့မြင်ကြသောအခါ "ကာဖိရ်" သွေဖည်ငြင်းပယ်ကြကုန်သောသူတို့၏ မျက်နှာများမှာ ပျက်သွားကြပေမည်။ ထိုမှတစ်ပါး ဤသည်ပင် အသင်တို့ တောင်းဆိုလျက်ရှိခဲ့ကြသောအရာဖြစ်သည်ဟု ပြောဆိုခြင်းကို ခံကြရကုန်အံ့သတည်း။ [၂]

قُلْ أَرَأَيْتُمْ إِنْ أَهْلَكَنِيَ اللَّهُ وَمَن مَّعِيَ أَوْ رَحِمَنَا فَمَن يُجِيرُ الْكَافِرِينَ مِنْ عَذَابٍ أَلِيمٍ ﴿٢٨﴾

၂၈။ (အိုး-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) အကယ်၍သာ အလ္လာဟ်အရှင်မြတ်သည် ငါ့အားလည်းကောင်း၊ ငါနှင့်အတူရှိသူတို့အားလည်းကောင်း၊ ဖျက်ဆီးတော်မူခဲ့ပါလျှင် သို့မဟုတ် ထိုအရှင်မြတ်သည် ငါတို့အား သနားကရုဏာပြုတော်မူခဲ့ပါလျှင် "ကာဖိရ်" သွေဖည်ငြင်းပယ်သောသူတို့အား နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်မှ မည်သူကာကွယ် စောင့်ရှောက်မည်နည်း။ အသင်တို့သည် (ငါ့အား) ပြောပြကြလေကုန်။ [၃]

---

(၁) အလ္လာဟ်အရှင်မြတ်ထံတော်သို့ တစ်ရက် လူသားတို့ ပြန်လည် ရောက်ရှိကြရမည့်အကြောင်း ပြောဆိုသောအခါ ကာဖိရ်များက "ကိယာမတ် ဘယ်တော့ဖြစ်မည်နည်း"ဟူ၍ ပြက်ရယ်သည့်သဘောဖြင့် ပြောဆိုမေးမြန်းခဲ့ကြ၏။ ဤအာယတ်တော်တွင် တမန်တော်မြတ်အား ယင်းသို့သော ကာဖိရ်များကို "ကိယာမတ်ဖြစ်မည့် နေ့ရက် အချိန်အတိအကျကို အလ္လာဟ်အရှင်မြတ်သာလျှင် သိတော်မူသည်။ သိထားအပ်သည်မှာ ကိယာမတ်နေ့ မုချဖြစ်မည်။ ပွင့်လင်းစွာ သတိပေးခြင်းမှာ ကျွန်ုပ်၏တာဝန်သာဖြစ်သည်"ဟူ၍ ဖြေကြားစေတော်မူသည်။

(၂) ယခုသော် ကာဖိရ်များသည် ကိယာမတ်ဖြစ်မည်ကိုပင် ပြက်ရယ်နေကြ၏။ သို့ရာတွင် ယင်းကိယာမတ်ဖြစ်ရန် အချိန်နီးကပ်လာပြီကို တွေ့မြင်ကြရသောအခါ ကာဖိရ်တို့သည် မျက်နှာပျက်သွားကြပေမည်။ အကြောက်ကြီး ကြောက်ကြပေမည်။ ဤသည် အသင်တို့ အလျင်စလို တောင်းဆိုနေခဲ့ကြသော ကိယာမတ်ပင်ဖြစ်သည်ဟု ပြောဆိုခြင်းကိုလည်း ခံကြရပေမည်။

قُلْ هُوَ الرَّحْمٰنُ اٰمَنَّا بِهٖ وَعَلَيْهِ تَوَكَّلْنَا ۚ فَسَتَعْلَمُوْنَ مَنْ هُوَ فِيْ ضَلٰلٍ مُّبِيْنٍ ﴿٢٩﴾

၂၉။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) ထိုအရှင်မြတ်သည်ပင် "ရဟ်မာန်" မဟာကရုဏာတော်ရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်အားသာလျှင် ငါတို့သည် သက်ဝင် ယုံကြည်ကြကုန်၏။ ၎င်းပြင် ထိုအရှင်မြတ်အပေါ်၌သာလျှင် ငါတို့သည် ယုံကြည်လွှဲအပ်ကြကုန်၏။ စင်စစ်သော်ကား မည်သူသည် ထင်ရှားစွာသော လမ်းမှန်၌ ရှိနေသည်ကို မကြာမြင့်မီပင် အသင်တို့ သိရှိကြရပေတော့မည်။ [၁]

قُلْ اَرَءَيْتُمْ اِنْ اَصْبَحَ مَاۤؤُكُمْ غَوْرًا فَمَنْ يَّاْتِيْكُمْ بِمَاۤءٍ مَّعِيْنٍ ﴿٣٠﴾

၃၀။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ (အချင်းတို့) အကယ်၍ အသင်တို့၏ ရေသည် (မြေဝယ်) တိမ်မြုပ်၍ သွားခဲ့ပါလျှင် အသင်တို့ထံ ကြည်လင်စီးတွေသော ရေကို မည်သူယူလာအံ့နည်း။ [၂]

---

(၃) မပြောကောင်းမဆိုအပ်၊ ကာဖိရ်များသည် တမန်တော်မြတ်နှင့် တမန်တော်မြတ်၏ နောက်လိုက်တပည့်သားများ မနေ့အမြန် သေကြေပျက်စီးသွားရေးကိုပင် အထူးလိုလားနေခဲ့ကြ၏။ ဤအာယတ်တော်တွင် တမန်တော်မြတ်အား ယင်းသို့သော ကာဖိရ်များကို ဖြေကြားထားစေတော်မူသည်မှာ အို-ကာဖိရ်အပေါင်းတို့၊ အကယ်တန္တိ အသင်တို့ ထင်မြင်ယူဆထားကြသည့်အတိုင်း ကျွန်ုပ်နှင့်တကွ ကျွန်ုပ်၏တပည့်သားများ အားလုံး ဤပစ္စက္ခတွင် ပျက်စီးကြရသည်ရှိသော်၊ သို့တည်းမဟုတ် ကျွန်ုပ်တို့၏မျှော်လင့်ချက်အရ အလ္လာဟ်အရှင်မြတ်သည် ကျွန်ုပ်နှင့်တကွ ကျွန်ုပ်၏တပည့်သားများကို သနားကြင်နာတော်မူ၍ အောင်မြင်စေတော်မူသည်ရှိသော်၊ အသို့ပင်ဖြစ်စေ အသင်တို့အဖို့မှာကား မည်သို့မျှ အကျိုးမရှိပေ။ ဤပစ္စက္ခတွင် ကျွန်ုပ်တို့၏ အခြေအနေသည် အသို့ပင်ဖြစ်သည်ဖြစ်စေ နောင်တမလွန်ဘဝတွင်မူ အမှန်မုချ ကောင်းမည်ဖြစ်သည်။ ကျွန်ုပ်တို့သည် ထိုအတွက်ပင်ကြိုးပမ်းလျက်ရှိကြသည်။ အမှန်မှာ အသင်တို့သည် ကျွန်ုပ်တို့၏အရေးထက် မိမိတို့၏အရေးကို စဉ်းစားကြရပေမည်။ အသင်တို့သည် မိမိတို့သွေဖည်ဆန့်ကျင်မှုကြောင့် ပြစ်ဒဏ် မုချခံကြရပေမည်။ အသင်တို့၌ ပြစ်ဒဏ် သက်ရောက်လာသည့်အခါ အသင်တို့အား အသူ ကာကွယ်မည်နည်း။ ကာဖိရ်များအား အလ္လာဟ်အရှင်မြတ်၏ပြစ်ဒဏ်မှ အသူမျှ ကာကွယ်နိုင်သည်မရှိပေ။

(၁) တမန်တော်မြတ်အား ကာဖိရ်များကို ဆက်လက်ဖြေကြားစေတော်မူသည်မှာ အလ္လာဟ်အရှင်မြတ်သည် အတိုင်းမသိ သနားကြင်နာတော်မူသော ရှင်ဖြစ်တော်မူသည်။ ကျွန်ုပ်တို့သည် ထိုအရှင်မြတ်အား ယုံကြည်မြတ်နိုးကြသည်။ အရေးကိစ္စအဝဝတွင် ထိုအရှင်မြတ်အပေါ်၌သာလျှင် ယုံပုံလွှဲအပ်ထားကြသည်။ သို့ဖြစ်ရာ ထိုအရှင်မြတ်သည် ကျွန်ုပ်တို့အား နောင်တမလွန်ဘဝ၏ပြစ်ဒဏ်မှ လွတ်မြောက်စေတော်မူမည်။ ➢➢

# မင်တံကဏ္ဍ



ဤကဏ္ဍသည် (ကလမ်) မင်တံကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင်အာယတ်တော် (၅၂)ပါး၊ ရုကူအ်အပိုဒ် (၂)ပိုဒ် အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

ကရုဏာတော်ရှင်ဖြစ်တော်မူသော၊ အလွန်တရာ ကြင်နာသနားတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

نٓ وَالْقَلَمِ وَمَا يَسْطُرُوْنَ ①

၁။ "နူန်" (ငါအရှင်မြတ်)သည် "ကလောင်"ကို လည်းကောင်း၊ ထို(ကောင်းကင်တမန်များ) ရေးမှတ်ကြသည်တို့ကိုလည်းကောင်း၊ သက်သေထူတော်မူ၏၊ [၁]

مَآ اَنْتَ بِنِعْمَةِ رَبِّكَ بِمَجْنُوْنٍ ②

၂။ အသင်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ရူးသွပ်သောသူ မဟုတ်ပေ။ [၂]

>> ဤပစ္စက္ခ၏ ဘေးအန္တရာယ်များမှလည်း တစ်နည်းတစ်ဖုံ ကာကွယ်ပေးတော်မူပေမည်။ အို-ကာဖိရ်အပေါင်းတို့၊ အသင်တို့၌ ယုံကြည်မှုလည်းမရှိ၊ ယုံပုံလွဲအပ်မှုလည်းမရှိ၊ မည်သူလမ်းမှန်သည် မည်သူလမ်းမှားသည်ကို အသင်တို့သည် မကြာမီပင် သိကြရတော့မည်။

(၂) တမန်တော်မြတ်အား ကာဖိရ်များကို ဆက်လက်ပြောကြားစေတော်မူသည်မှာ အို-ကာဖိရ်အပေါင်းတို့ အသင်တို့ အမြဲတစေသောက်သုံးနေကြသော ရေသည် အကယ်တန္တိမြေတွင် စိမ့်ဝင်ခန်းခြောက်သွားသည်ရှိသော်၊ လိုအပ်သည့်ရေကို အသူ ဆောင်ကြဉ်းနိုင်အံ့နည်း။

(၁) **မင်တံတော်။**

ဤကဏ္ဍ၏အစတွင်ပါရှိသော "နူန်"ဟူသော အက္ခရာသည် (ဟုရူဖ်မုကတ္တဲတွအာတ်)ခေါ် သင်္ကေတအက္ခရာစုများတွင် အပါအဝင်ဖြစ်သည်။ ယင်းသင်္ကေတအက္ခရာစုများ၏ တိကျမှန်ကန်သော အနက်အဓိပ္ပါယ်ကို အလ္လာဟ်အရှင်မြတ်သာလျှင် အသိတော်မူဆုံး ဖြစ်တော်မူပေသည်။

ဤအာယတ်တော်တွင်ပါရှိသော (ကလမ်)မင်တံဟူသည် အကြင်မင်တံတော်ကို ဆိုလိုသည်။ ယင်းမင်တံတော်ဖြင့် အလ္လာဟ်အရှင်မြတ်သည် အဖန်ဆင်းခံအပေါင်းတို့နှင့် စပ်လျဉ်းသည့်လျာထားချက်၊ စီမံချက်များကို 'လောင်ဟ်မဟ်ဖူဇ်'မှတ်တမ်းတော်တွင် ရေးမှတ်ထားတော်မူခဲ့သည်။

ဤအာယတ်တော်တွင် "ထိုသူများ ရေးမှတ်ထားကြသောအရာ"ဟူ၍ ပါရှိ၏။ ထိုသူများကား အသူများနည်း၊ ထိုအရာကား အဘယ်နည်း၊ ထိုသူများဟူသည်ကား လူသားတို့၏ အပြုအမူများကို ရေးမှတ်ကြသော ကောင်းကင်တမန်များကို ဆိုလိုသည်။ "ထိုအရာ"ဟူသည်ကား လူသားတို့၏ အပြုအမူများနှင့် >>

➤➤ စပ်လျဉ်း၍ ကောင်းကင်တမန်များ ရေးမှတ်ထားကြသည့် သက်ဆိုင်ရာမှတ်တမ်းများကို ဆိုလိုသည်။
ကြည့်-မဒါရိက် နစဖီ၊ မအာလင်မ်၊ ဒုရ်ရိမန်ဆူရ်၊ ထာနဝီ၊ မာဂျိဒီ။

(၂) တမန်တော်မြတ်သည် တမန်တော်ဂုဏ်ဖြင့် ချီးမြှင့်တော်မူခြင်းမခံရမီ အလျင် မက္ကာမြို့တော်တွင်ပင် နေထိုင်တော်မူခဲ့၏။ မြို့သူမြို့သားအားလုံးတို့နှင့် ခင်မင်ရင်းနှီးစွာ ဆက်ဆံပေါင်းသင်းတော်မူခဲ့၏။ သားချင်းတို့အား အထူးထောက်ထားတော်မူခဲ့၏။ မရှိဆင်းရဲသူများအား ကြည့်ရှုတော်မူခဲ့၏။ သူတစ်ပါးတို့၏တာဝန်များကို ဆောင်ရွက်ပေးတော်မူခဲ့၏။ ဧည့်ဝတ်ကျေပွန်တော်မူခဲ့၏။ ပြဿနာပေါ်က မှန်ကန်သည့်ဘက်မှ နေတော်မူခဲ့၏။ သစ္စာသမာဓိ လွန်စွာရှိတော်မူခဲ့၏။ "အမိန်"ဟူ၍ပင် မည်တွင်တော်မူခဲ့၏။ သို့အတွက် သားချင်းများနှင့်တကွ မြို့သူမြို့သားအားလုံးတို့၏ ယုံကြည်လေးစားမှုကို အထူးခံတော်မူခဲ့ရ၏။

သက်တော်(၄၀)ရှိ၍ တမန်တော်မြတ် ဂုဏ်ဖြင့် ချီးမြှင့်တော်မူခြင်းခံရပြီးနောက် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကို စတင် ဟောကြားတော် မူသည့်အခါ မက္ကာမြို့သား ကာဖိရ်များအဖို့ တမန်တော်မြတ်၏ စကားများသည် ယခင်နှင့်မတူ တမူထူးခြားနေခဲ့၏။ အသစ်အဆန်းဖြစ်နေခဲ့၏။ တမန်တော်မြတ်၏ဝါဒမှာ ၎င်းတို့၏ဝါဒနှင့် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်နေခဲ့၏။ ထိုအခါမက္ကာမြို့သား ကာဖိရ်မွတ်ရှိရစ်က်များက မပြောကောင်းမဆိုအပ် တမန်တော်မြတ်၌ ရူးသွပ်မှု ရောဂါဝေဒနာ စွဲကပ်နေပြီ၊ ရှိင်တွာန်ပြုစားထားပြီ၊ ထို့အတွက် ယခုကဲ့သို့ စကားထူး စကားဆန်းများ ပြောဆိုနေခြင်းဖြစ်သည်ဟု ပြောဆိုခဲ့ကြ၏။

ဤအာယတ်တော်တွင် ယင်းသို့ မဟုတ်မမှန် လုပ်ကြံယိုးစွပ် ပြောဆိုခဲ့ကြသော ကာဖိရ်များအား ရည်ညွှန်း မိန့်ဆိုထားတော်မူသည်မှာ- အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် တမန်တော်မြတ်၌ ရူးသွပ်မှုရောဂါဝေဒနာ အလျှင်းမရှိ။ တမန်တော်မြတ် အပေါ်၌ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကား အတိုင်းမသိ များပြားလှဘိ၏။

ဥပမာ- တမန်တော်မြတ် ဟောကြားတော်မူသည့် တရားတော်များသည် လျော်ကန်သင့်မြတ်လှ၏။ မှန်ကန်တိကျလှ၏။ စာပေအဆင့်အတန်း မြင့်မားလှ၏။ ပြိုင်ဘက် ယှဉ်ဘက်ကင်းလှ၏။ အနက်အဓိပ္ပာယ် ထိမိလှ၏။ တမန်တော်မြတ်၏ အကျင့်သီလ၊ သိက္ခာသမာဓိများမှာလည်း အတိုင်းမသိ မြင့်မြတ်လှ၏။ တမန်တော်မြတ်၏ ကိုယ်ကျင့်တရားများသည် ရိုးသားဖြူစင်လှ၏။ သက်တမ်း တစ်လျှောက်လုံးတွင် "မှဲ့စွန်း"ဟူ၍ အလျှင်းမရှိခဲ့ပေ။ ယင်းသို့သော ဂုဏ်အင်ဒြပ်များနှင့် ပြည့်စုံတော်မူသော တမန်တော်မြတ်အား ရူးသွပ်သူဟူ၍ ယိုးစွပ်ပြောဆိုသူများသည် အမှန်မှာ ၎င်းတို့ကိုယ်တိုင် ရူးသွပ်သူများဖြစ်ခြင်းကြောင့်ပင် ဖြစ်ပေသည်။ ဤကား အထူးအဆန်းမဟုတ်ပေ။ အတိတ်ခေတ်များတွင် အလွန်ကျော်ကြားခဲ့ကြသည့် တမန်တော်ကြီးများအားပင် အစပထမတွင် သက်ဆိုင်ရာအမျိုးသားတို့က ယင်းသို့ပင် ယိုးစွပ်ပြောဆိုခဲ့ကြလေသည်။

ဤသည် ကမ္ဘာ့သမိုင်းစဉ်တွင် အထင်အရှားပင်။ သို့ရာတွင် ဤ၌တွင် သိထားအပ်သည့် အချက်တစ်ရပ်မှာ မပြောသင့်မပြောအပ်၊ သူမွန်သူမြတ်တို့အား ကဲ့ရဲ့ပြစ်တင် ယိုးစွပ်ပြောဆိုခဲ့ကြသော လူရှုပ်လူပွေများသည် ကမ္ဘာ့သမိုင်းစဉ်တွင် အပျောက်ကြီး ပျောက်ကွယ်သွားခဲ့ကြချေပြီ။ ကဲ့ရဲ့ပြစ်တင်ခြင်းခံခဲ့ကြရသော သူမွန်သူမြတ်တို့မှာကား ကမ္ဘာ့သမိုင်းစဉ်တွင် အထင်အရှားပင်၊ ယခင်ကလည်းဤနည်း၊ ယခုလည်း ဤနှယ်၊ နောင်လည်း ကမ္ဘာတည်သရွေ့ ဤသို့ ထင်ရှားနေမည်သာ။ အထူးသဖြင့်အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင် "လောင်ဟ်မဟ်ဖူဇ်" မှတ်တမ်းတော်တွင် မိမိ၏(ကလမ်)မင်တံတော်ဖြင့် အထူးဆုံး အမြတ်ဆုံး တမန်တော်မြတ် အဖြစ် မှတ်တမ်းတင်တော်မူခြင်း ခံခဲ့ရသော တမန်တော်မြတ်၏ဂုဏ်သိက္ခာသည် လူရှုပ်လူပွေတစ်စု၏ ကဲ့ရဲ့ပြစ်တင်မှုကြောင့် အသို့လျှင် ညှိုးနွမ်းနိုင်အံ့နည်း။

وَإِنَّ لَكَ لَأَجْرًا غَيْرَ مَمْنُونٍ ۝٣

၃။ ၎င်းပြင် ဧကန်စင်စစ် အသင့်အဖို့ မကုန်ဆုံးနိုင်သော အကျိုးကျေးဇူးသည်ရှိ၏။

وَإِنَّكَ لَعَلَىٰ خُلُقٍ عَظِيمٍ ۝٤

၄။ ထိုမှတစ်ပါး မလွဲဧကန် အသင်သည် ထူးကဲမြင့်မြတ်လှစွာသော သဘောသကန် အကျင့်စာရိတ္တပေါ်၌ရှိနေ၏။ ၁

فَسَتُبْصِرُ وَيُبْصِرُونَ ۝٥

၅။ သို့ဖြစ်ပေရာ မကြာမြင့်မီပင် အသင်သည်လည်း မြင်ရပေမည်၊ ၎င်းတို့သည်လည်း မြင်ကြရပေမည်။

بِأَييِّكُمُ الْمَفْتُونُ ۝٦

၆။ အသင်တို့အနက် မည်သူ၌ ရူးသွပ်ခြင်း ဝေဒနာရှိနေသည်ကို၊

---

(၁) အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ဖြင့် တမန်တော်မြတ်သည် အလွန်ကောင်းမွန်မြင့်လှသော ကိုယ်ကျင့်တရားများနှင့် ပြည့်စုံတော်မူခဲ့ပေသည်။ ယင်းသို့ ကောင်းမွန်မြင့်မြတ်လှသော ကိုယ်ကျင့်တရားများသည် သူရူးများတွင် အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။ သူရူးတစ်ယောက်၏စကားသည် ရှေ့နောက်မညီပေ။ သူရူးတစ်ယောက်၏ အပြောအဆိုနှင့် အကျင့်အမူသည်လည်း အဆင်ပြေသည်မရှိပေ။ တမန်တော်မြတ် ဟောကြားတော်မူသည့် တရားတော်မှာ ကုရ်အာန်ကျမ်းမြတ်ပင်ဖြစ်သည်။ တမန်တော်မြတ်၏ အကျင့်အမူနှင့် ကိုယ်ကျင့်တရားများသည် တစ်နည်းအားဖြင့် ကုရ်အာန်ကျမ်းမြတ်၏အဖွင့်ပင် ဖြစ်သည်။ ကုရ်အာန်ကျမ်းမြတ်က လိုလားသော ကောင်းမှုများသည်လည်း တမန်တော်မြတ်၏ မူလဗီဇ၌ပင် ရှိနေခဲ့ပေသည်။ ကုရ်အာန်ကျမ်းမြတ်က မလိုလားသော မကောင်းမှုများကိုလည်း တမန်တော်မြတ်သည် မူလဗီဇသဘာဝအလျောက်ပင် စက်ဆုပ်ရွံ့မုန်းပြီး ဖြစ်တော်မူခဲ့ပေသည်။ တမန်တော်မြတ်သည် တည့်မတ်မှန်ကန် ဖြောင့်မတ်ဖြူစင်သော သဘာဝကို အမိဝမ်းတွင်းမှပင် ရရှိလာတော်မူခဲ့သည်ဖြစ်ရာ၊ တမန်တော်မြတ်၏ တွေးခေါ်မှု၊ ပြောမှု၊ ဆိုမှု၊ ပြုကျင့်မှု၊ လှုပ်ရှားမှု အစုစုတို့သည် လျော်ကန် သင့်မြတ်မှု၊ မျှတမှု၊ မှန်ကန်မှုတည်းဟူသော (မဇ္ဈိမပဋိပဒါ)လမ်းကြောင်းမှ ဘယ်သောအခါမှ အနည်းငယ်စိုးစဉ်းမျှပင် တိမ်းယိမ်းသည်ဟူ၍ အလျှင်းမရှိပေ။ ယင်းသို့သော ကိုယ်ကျင့်တရားများနှင့် ပြည့်စုံတော်မူသည့်အတွက်ကြောင့်ပင် တမန်တော်မြတ် မိမိအား အကြောင်းမဲ့ ကဲ့ရဲ့ပြစ်တင်ရှုတ်ချ ပြောဆိုသူများ၏ စကားများကို ဂရုစိုက်တော်မမူခဲ့ပေ။ ထို့မျှမက တမန်တော်မြတ်သည် မိမိအား ယင်းသို့ မကောင်းပြောဆိုသူများကိုပင် သနားကြင်နာတော်မူခဲ့ပေသည်။ ၎င်းတို့၏ ကောင်းစားရေးကို အခါခပ်သိမ်း လိုလားတော်မူခဲ့ပေသည်။ ကြည့်-ကုရ်အာန်(၁၈း၆။ ၂၆း၃)။ တမန်တော်မြတ်၏ စိတ်နေသဘောထား ကိုယ်ကျင့်တရားများကား ကောင်းမွန်မြင့်မြတ်လှပါဘိတကား။ ယင်းသို့သော တမန်တော်မြတ်၌ မပြောအပ် မဆိုအပ် ရူးသွပ်မှုရောဂါဝေဒနာ စွဲကပ်လျက်ရှိသည်ဟု ပြောရက်ဆိုရက်သောသူများမှာ ၎င်းတို့ ကိုယ်တိုင်၌ ရူးသွပ်မှုရောဂါဝေဒနာ စွဲကပ်လျက်ရှိကြောင်း ထုတ်ဖော်ကြေညာခြင်းသာ ဖြစ်သည်။

إِنَّ رَبَّكَ هُوَ أَعْلَمُ بِمَن ضَلَّ عَن سَبِيلِهِۦ وَهُوَ أَعْلَمُ بِٱلْمُهْتَدِينَ ⑦

၇။ စင်စစ်ကေန် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည်ပင် ထိုအရှင်မြတ်၏ လမ်းတော်မှ ချွတ်ချော်တိမ်းပါးခဲ့သောသူအား အသိတော်မူဆုံး ဖြစ်တော်မူ၏။ ထိုနည်းတူ ထိုအရှင်မြတ်သည်ပင်လျှင် တရားလမ်းမှန်ကို ရရှိကြသောသူတို့အား အသိတော်မူဆုံး ဖြစ်တော်မူပေသတည်း။ ¹

فَلَا تُطِعِ ٱلْمُكَذِّبِينَ ⑧

၈။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်သောသူတို့၏ စကားကို နားမထောင်ပါလေနှင့်။

وَدُّوا۟ لَوْ تُدْهِنُ فَيُدْهِنُونَ ⑨

၉ ။ ၎င်းတို့သည် အကယ်၍ အသင် အလျှော့ပေး လိုက်လျောပါလျှင် ၎င်းတို့သည် အလျှော့ပေး လိုက်လျောလိုကြကုန်၏။

وَلَا تُطِعْ كُلَّ حَلَّافٍ مَّهِينٍ ⑩

၁၀။ ထိုမှတစ်ပါး အသင်သည် မည်သည့် လွန်စွာ (မှသား)ကျိန်တွယ်သောသူ၏စကားကိုမျှ နားမထောင်လေနှင့်၊ အကြင်သူသည် ဂုဏ်ရည်သေးသိမ်သူ၊

هَمَّازٍ مَّشَّآءٍۭ بِنَمِيمٍ ⑪

၁၁။ လွန်စွာ စောင်းချိတ်ကဲ့ရဲ့သူ၊ လွန်စွာ ကုန်းချောသူ။

مَّنَّاعٍ لِّلْخَيْرِ مُعْتَدٍ أَثِيمٍ ⑫

၁၂။ ကောင်းမှုကို လွန်စွာတားမြစ်သူ၊ စည်းကမ်းကျူးလွန်သူ၊ လွန်စွာ အပြစ်ကျူးလွန်သူ။

عُتُلٍّۭ بَعْدَ ذَٰلِكَ زَنِيمٍ ⑬

၁၃။ လွန်စွာ ကြမ်းကြုတ် အန္တရာယ်ပြုသူ၊ ထိုမှတစ်ပါး မျိုးရိုး မစစ်သောသူဖြစ်၏။

---

(၁) ဆိုလိုသည်ကား-မည်သူ မည်ဝါတို့သည် အလ္လာဟ်အရှင်မြတ်၏ တရားလမ်းမှ တိမ်းယိမ်းသွေဖည်သွားကြမည်။ မည်သူမည်ဝါတို့သည် ထိုအရှင်မြတ်၏ တရားလမ်းပေါ်၌ ရပ်တည်နေကြမည်ကို အလ္လာဟ်အရှင်မြတ် အသိဆုံးဖြစ်တော်မူသည်။ သို့သိတော်မူသည့်အလျောက် အသီးသီးတို့အား ထိုက်သည့်အားလျော်စွာ ကျိုး-ပြစ် ပေးတော်မူမည်သာဖြစ်သည်။ သို့ဖြစ်ရာ အဆုံးအဖြတ်ကို အလ္လာဟ်အရှင်မြတ်အပေါ်၌သာ လွှဲအပ်ထားရာသည်။ ကြည့်-မာဂျိဒီ။

١٤။ ထိုသူသည် ပစ္စည်းရှင်၊ သားသမီးရှင် ဖြစ်သောကြောင့်။ [၁]

أَنۡ كَانَ ذَا مَالٖ وَبَنِينَ ۝١٤

---

(၁) ဆိုလိုသည်ကား တရားလမ်းမှန်ကို လက်ခံမည့်သူ၊ သွေဖည်မည့်သူ အားလုံးကို အလ္လာဟ်အရှင်မြတ် သိတော်မူသည်။ သို့ဖြစ်ရာ တမန်တော်မြတ်သည် တရားဟောကြားရာတွင် မည်သူ့အားမျှ ထောက်ထားငဲ့ကွက်တော်မူရန် မလိုပေ။

မက္ကာမြို့သား ကာဖိရ်များက တမန်တော်မြတ်အား အသင်သည် ရုပ်တုကိုးကွယ်မှုနှင့် စပ်လျဉ်း၍ ပြင်းထန်စွာ ဝေဖန်ပြောဆိုမှုကို စွန့်လွှတ်ပါလျှင်၊ ကျွန်ုပ်တို့၏ကိုးကွယ်ရာကို မတိုက်ခိုက်ပါလျှင် ကျွန်ုပ်တို့သည်လည်း အသင်၏ကိုးကွယ်ရာဖြစ်သော အလ္လာဟ်အရှင်မြတ်အားလည်း လေးစားကြပါမည်။ အသင်၏လမ်းစဉ်ကိုလည်း ဆန့်ကျင်ကြမည်မဟုတ်ပါဟု ပြောဆိုခဲ့ကြ၏။

တမန်တော်မြတ်သည် တမန်တော်များလောက တွင် နောက်ဆုံးနှင့်အကြီးဆုံး တမန်တော်ဖြစ်သည်။ ကိုယ်ကျင့်တရားနှင့် စိတ်နေသဘောထားလည်း အတိုင်းမသိ ကောင်းမွန်မြင့်မြတ်လှသည်။ သူတစ်ပါးအပေါ်၌ အလွန်မေတ္တာထားတော်မူသည်၊ သူတစ်ပါး၏ ကောင်းစားရေးကို အထူးလိုလားတော်မူသည်။ ယင်းသို့သော ဂုဏ်ရည်များနှင့် ပြည့်စုံတော်မူသော တမန်တော်မြတ်အဖို့ ကာဖိရ်များက မိမိအား အထက်ပါအတိုင်း ပြောဆိုလာကြသည့်အခါ၊ ကောင်းမြတ်သောစေတနာဖြင့် အနည်းငယ် လျှော့ပေး လိုက်ခြင်းဖြင့် မိမိ၏လုပ်ငန်း အောင်မြင်သည်ဖြစ်ရာ၊ စိုးရိမ်ဖွယ်မရှိဟူ၍ အတွေးပေါက်စရာ ဖြစ်နိုင်ပေသည်။

ထို့အတွက် ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား ကာဖိရ်များသည် ရိုးသားစွာ ပြောဆိုနေကြသည်မဟုတ်ကြောင်း၊ အမှန်တရားကိုလည်း လက်ခံကြမည်မဟုတ်ကြောင်း၊ ပရိယာယ်ဖြင့် ဘမန်တော်မြတ်၏ ဟောကြားမှုကို လျော့ရဲဖြစ်စေလိုကြသည်သာဖြစ်ကြောင်း၊ ၎င်းတို့၏စကားကို မေ့မှား၍မျှ မလိုက်နာအပ်ကြောင်း သတိပေးထားတော်မူခြင်း ဖြစ်ပေသည်။

အချို့ ကာဖိရ်များသည် မိမိတို့၏စကားကို တစ်ဖက်သားအား ယုံကြည်လက်ခံစေရန်အတွက် မှသားကျိန်ဆိုလေ့ရှိကြသည်၊ ကျိန်ဆိုပြီးနောက် အလိမ်ပေါ်သည့်အတွက် မကြာခဏအရှက်တကွဲ ဖြစ်လေ့ရှိကြသည်၊ တဖက်သားအားကဲ့ရဲ ပြစ်တင်ပြောဆိုလေ့ရှိသည်။ ကုန်းချောလေ့ရှိကြသည်၊ မိမိတို့ကိုယ်တိုင် ကောင်းမှုတစ်စုံတစ်ရာ မပြုကြသည်သာမက သူတစ်ပါးတို့အားလည်း ကောင်းမှုပြုခြင်းမှ ပိတ်ပင်တားဆီးလေ့ရှိကြသည်၊ စည်းကမ်းကျူးလွန်လေ့ရှိကြသည်၊ ပြစ်မှုကျူးလွန်လေ့ရှိသည်။ စိတ်ဓာတ်ခဲယဉ်းကြသည်၊ ထိုမျှမက ဖ-မစစ် ဖြစ်လေ့ရှိကြသည်။

ယင်းသို့သော ကာဖိရ်များသည် ဥစ္စာဓနဂုဏ် သားသမီးဂုဏ်မောက်၍ ဝင့်ဝါလေ့ ရှိကြသည်။ ယင်းသို့ ကိုယ်ကျင့်တရားပျက်ပြားနေသော ကာဖိရ်များ၏စကားကို မေ့မှား၍မျှ နားမထောင်ရန် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား သတိပေးထားတော်မူသည်။

ဤအာယတ်တော်သည် ကိုယ်ကျင့်တရားပျက်ပြားလျက်ရှိသော ယုတ်မာသိမ်ဖျင်းသော ကာဖိရ်တိုင်းနှင့် သက်ဆိုင်သည်။ အချို့(ရိဝါယတ်) ကျမ်းချက်များအရ ဤအာယတ်တော်သည် ဝလီဒ်ဗ်နုမုဃီရဟ် အမည်ရှိသော ကာဖိရ်နှင့်ပတ်သက်၍ ကျရောက်လာခဲ့ပေသည်။ ယင်းကာဖိရ်၌ အထက်ဖော်ပြပါအကျင့်များသည် အပြည့်အဝ ရှိနေခဲ့ပေသည်။ ကြည့်-မာဂျိဒီ။

إِذَا تُتْلَىٰ عَلَيْهِ آيَاتُنَا قَالَ أَسَاطِيرُ الْأَوَّلِينَ ﴿١٥﴾

၁၅။ ၎င်း၏ရှေ့ဝယ် ငါအရှင်မြတ်၏ အာယတ်တော်များ ဖတ်ကြားခြင်းခံရသောအခါ ၎င်းက (ဤသည်တို့မှာ) ရှေးသူဟောင်းတို့၏ ယုံတမ်းစကားများ ဖြစ်သည်ဟု ပြောဆို၏။

سَنَسِمُهُ عَلَى الْخُرْطُومِ ﴿١٦﴾

၁၆။ မကြာမြင့်မီပင် ငါအရှင်မြတ်သည် ၎င်း၏ နှာခေါင်းပေါ်ဝယ် တံဆိပ် ခတ်နှိပ်တော်မူအံ့သတည်း။

إِنَّا بَلَوْنَاهُمْ كَمَا بَلَوْنَا أَصْحَابَ الْجَنَّةِ إِذْ أَقْسَمُوا لَيَصْرِمُنَّهَا مُصْبِحِينَ ﴿١٧﴾

၁၇။ ဧကန်စင်စစ် ငါအရှင်မြတ်သည် ဥယျာဉ်ရှင်များအား စမ်းသပ်တော်မူဘိသကဲ့သို့ပင်၊ ၎င်းတို့အား စမ်းသပ်တော်မူခဲ့၏။ တစ်ရံရောအခါဝယ် ထိုဥယျာဉ်ရှင်တို့က မလွဲဧကန် ၎င်းတို့သည် နံနက်စောစော သွားကြလျက် ယင်းဥယျာဉ်၏အသီးများကို ဆွတ်ခူးကြမည်ဟု ကျိန်ဆိုခဲ့ကြကုန်၏။

وَلَا يَسْتَثْنُونَ ﴿١٨﴾

၁၈။ သို့ရာတွင် ၎င်းတို့သည် (ယင်းသို့ကျိန်ဆိုရာ၌) "အင်န်ရှာအလ္လာဟ်" "အလ္လာဟ်အရှင်မြတ်အလိုတော်ရှိတော်မူပါလျှင်" ဟူ၍ ခြွင်းချက်ထားရှိခြင်း မပြုခဲ့ကြပေ။

فَطَافَ عَلَيْهَا طَائِفٌ مِّن رَّبِّكَ وَهُمْ نَائِمُونَ ﴿١٩﴾

၁၉။ သို့ဖြစ်ပေရာ၊ ၎င်းတို့ အိပ်ပျော်နေကြစဉ် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အထံတော်မှ လှည့်ပတ်သောအရာ (ဝါ) မီးဘေးသည် ယင်းဥယျာဉ်ပေါ်ဝယ် လှည့်ပတ်ခဲ့လေ၏။

فَأَصْبَحَتْ كَالصَّرِيمِ ﴿٢٠﴾

၂၀။ သို့ဖြစ်ပေရာ နံနက်အချိန်တွင် ယင်းဥယျာဉ်မှာ ဆွတ်ခူး ရိတ်ဖြတ်ပြီးသကဲ့သို့ပင် ဖြစ်သွားခဲ့လေ၏။

فَتَنَادَوْا مُصْبِحِينَ ﴿٢١﴾

၂၁။ ထိုနောက် ၎င်းတို့သည် နံနက်စောစော ထကြလျက် တစ်ဦးက တစ်ဦးအား ဟစ်ခေါ်ခဲ့ကြ၏။

أَنِ اغْدُوا عَلَىٰ حَرْثِكُمْ إِن كُنتُمْ صَارِمِينَ ﴿٢٢﴾

၂၂။ "အသင်တို့သည် အကယ်၍ အသီးများကို ဆွတ်ခူးလိုကြပါက မိမိတို့၏ လယ်ယာဥယျာဉ်သို့ စောစောသွားကြလေကုန်"

فَانطَلَقُوا وَهُمْ يَتَخَافَتُونَ ﴿٢٣﴾

၂၃။ ထို့နောက် ၎င်းတို့သည် မိမိတို့အချင်းချင်း တီးတိုးစကားပြောဆိုလျက် ထွက်ခွာသွားခဲ့ကြ၏။

أَن لَّا يَدْخُلَنَّهَا الْيَوْمَ عَلَيْكُم مِّسْكِينٌ ﴿٢٤﴾

၂၄။ အသင်တို့ထံ ယင်းဥယျာဉ်တွင် ယနေ့ သူဆင်းရဲ တစ်ဦးတစ်ယောက်မျှပင် ဝင်ရောက်ခြင်း မရှိရဟူ၍၊

وَغَدَوْا عَلَىٰ حَرْدٍ قَادِرِينَ ﴿٢٥﴾

၂၅။ ထို့ပြင် ၎င်းတို့သည် (မိမိတို့ကိုယ်ကိုမိမိတို့) မပေးဘဲ နေနိုင်စွမ်းရှိကြမည်ဟု ထင်မှတ်လျက် စောစော သွားရောက်ခဲ့ကြလေ၏။

فَلَمَّا رَأَوْهَا قَالُوا إِنَّا لَضَالُّونَ ﴿٢٦﴾

၂၆။ သို့ရာတွင် ၎င်းတို့သည် ယင်းဥယျာဉ်ကို မြင်တွေ့ကြလေသောအခါ (ဤသို့)ပြောဆိုကြလေ၏။ ဧကန်စင်စစ် ကျွန်ုပ်တို့သည် လမ်းမှားခဲ့ကြလေပြီ။

بَلْ نَحْنُ مَحْرُومُونَ ﴿٢٧﴾

၂၇။ ထိုသို့ အလျင်းမဟုတ်၊ စင်စစ်မှာကား ကျွန်ုပ်တို့သည် အကြောင်းမလှသူများ၊ လက်မဲ့ဖြစ်စေခြင်း ခံကြရသူများ၊ ဖြစ်ကြရလေပြီ။

قَالَ أَوْسَطُهُمْ أَلَمْ أَقُل لَّكُمْ لَوْلَا تُسَبِّحُونَ ﴿٢٨﴾

၂၈။ ၎င်းတို့အနက် အလယ်အလတ်၊ အကောင်းဆုံး၊ ဖြစ်သူက "ကျွန်ုပ် အသင်တို့အား (စောစောကပင် သတိပေးစကား) ပြောကြားခဲ့သည်မဟုတ်လော။ (သို့ဖြစ်ပေရာ ယခု) အသင်တို့သည် မည်သည့်အတွက်ကြောင့် (အလ္လာဟ်အရှင်မြတ်) စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုခြင်းမပြုကြပါသနည်း" ဟု ပြောဆိုခဲ့လေ၏။

قَالُوا سُبْحَٰنَ رَبِّنَآ إِنَّا كُنَّا ظَٰلِمِينَ ﴿٢٩﴾

၂၉။ (ထိုအခါ) ၎င်းတို့က ကျွန်တော်မျိုးတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် စင်ကြယ်သန့်ရှင်းတော်မူပါ၏။ ဧကန်မလွဲ ကျွန်တော်မျိုးတို့သည်သာလျှင် မတရားသောသူများ ဖြစ်ကြပါသည်ဟု မြွက်ဆိုခဲ့ကြကုန်၏။

فَأَقْبَلَ بَعْضُهُمْ عَلَىٰ بَعْضٍ يَتَلَٰوَمُونَ ﴿٣٠﴾

၃၀။ ထို့နောက် ၎င်းတို့သည် မိမိတို့အချင်းချင်း တစ်ဦးကတစ်ဦးအား ပြစ်တင်ကဲ့ရဲ့ ရှုတ်ချလျက် တစ်ဦးဘက်သို့တစ်ဦး လှည့်ခဲ့လေ၏။

قَالُوا يَٰوَيْلَنَآ إِنَّا كُنَّا طَٰغِينَ ﴿٣١﴾

၃၁။ (ထို့နောက်) ၎င်းတို့(အားလုံးသည်) (ဤသို့) ပြောဆိုခဲ့ကြကုန်၏။ သြော်-ကျွန်ုပ်တို့ ဖြစ်ရလေခြင်း၊ ဧကန်အမှန် ကျွန်ုပ်တို့သည်ပင် ဆိုးသွမ်းသူများ ဖြစ်ခဲ့ကြကုန်၏။

عَسَىٰ رَبُّنَآ أَن يُبْدِلَنَا خَيْرًا مِّنْهَآ إِنَّآ إِلَىٰ رَبِّنَا رَٰغِبُونَ ﴿٣٢﴾

၃၂။ ကျွန်ုပ်တို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်သည် ကျွန်ုပ်တို့အား ယင်းဥယျာဉ်ထက် ကောင်းမြတ်သော ဥယျာဉ်ကို လဲလှယ်အစားပေးတော်မူတန်ရာ၏။ စင်စစ်ဧကန် ကျွန်ုပ်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ဘက်သို့ ပြန်လှည့်သူများ ဖြစ်ကြကုန်၏။ [၁]

---

(၁) **ဆင်းရဲသားများအား မပေးကမ်းလိုသော ဥယျာဉ်ရှင်များ၏ဖြစ်အင်။**

ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် မက္ကာမြို့သား မွတ်ရှိရစ်က်များအား အနည်းငယ် လောကီစည်းစိမ် ပေးသနားထားတော်မူခြင်းမှာ ယခင်က ဥယျာဉ်ရှင်များအား စမ်းသပ်တော်မူခဲ့သည့်အလား ကျေးဇူးသိတတ်ကြသည် မသိတတ်ကြသည်ကို စမ်းသပ်တော်မူရန်ပင်ဖြစ်သည်။

ဤအာယတ်တော်တွင်ပါရှိသော ဥယျာဉ်ရှင်များကား အသူများနည်း၊ အချို့က ယင်းဥယျာဉ်ရှင်များသည် (ဟဗရှဟ်)Abyssinia အီသီယိုပီးယားနိုင်ငံမှ ဖြစ်ကြသည်ဟု ဆိုကြသည်။ ကြည့်-ဣဗ်နုကဆီရ်။ အချို့က ယင်းဥယျာဉ်ရှင်များသည် ယမန် Yemenနိုင်ငံမှ ဖြစ်ကြသည်ဟုဆိုကြသည်။ ကြည့်-မအာလင်မ်။ အချို့ကမူ ယင်းဥယျာဉ်ရှင်များသည် "ဆွာန်အာ"မြို့နှင့် (၆)မိုင်အကွာတွင်တည်ရှိသည့် "ဒွရ်ဝါန်" မြို့မှ ဖြစ်ကြသည်ဟုဆိုကြသည်။ ကြည့်-ဣဗ်နုကဆီရ်။

အသို့ပင်ရှိစေ အတိတ်ခေတ်တွင် ဥယျာဉ်တစ်ခုကို ဖခင်ထံမှ အမွေဆက်ခံရရှိထားခဲ့ကြသော ▶▶

كَذٰلِكَ الْعَذَابُ ۖ وَلَعَذَابُ الْاٰخِرَةِ اَكْبَرُ ۘ لَوْ كَانُوْا يَعْلَمُوْنَ ﴿٣٣﴾

၃၃။ ပြစ်ဒဏ်မှာ ထိုနည်းအတိုင်း ဖြစ်လေ့ဖြစ်ထ ရှိ၏။ "အာခိရတ်"တမလွန်ဘဝ၏ပြစ်ဒဏ်မှာမူကား ပိုမို၍ပင် ကြီးလေးလှ၏။ (ဤသည်ကို) ၎င်းတို့ သိရှိကြလျှင် ကောင်းလေစွတကား။

---

➤➤ ညီနောင်များရှိခဲ့ကြ၏။ အဆိုပါဥယျာဉ်သည် စိုပြည်သာယာလှ၏။ ယင်းဥယျာဉ်မှ ထွက်သောသီးနှံများကို အကြောင်းပြု၍ အဆိုပါညီနောင်များ၏ စားဝတ်နေရေးသည် သာယာလျက်ရှိခဲ့၏။ ဖခင်ကြီးလက်ထက်၌ ဥယျာဉ်မှ သီးနှံများကို ဆွတ်ခူးသည့်နေ့တွင် လယ်ယာရိတ်သိမ်းသည့်နေ့တွင် မြို့တွင်းရှိ ဆင်းရဲသူဆင်းရဲသား များကို နည်းများမဆို ပေးကမ်းလှူဒါန်းလေ့ရှိခဲ့၏။ သို့ ပေးကမ်းလှူဒါန်းသည့် အကျိုးကြောင့် ဥယျာဉ်၌ မင်္ဂလာလည်းရှိနေခဲ့၏။ ဖခင်ကြီး သေဆုံးသွားသည့်အခါ ကျန်ရစ်သောသားသမီးများသည် ဖခင်ကြီးကဲ့သို့ ဥယျာဉ်ထွက်သီးနှံများကို ဆင်းရဲသားများအား မပေးကမ်းလိုခဲ့ကြပေ၊ ဥယျာဉ်ထွက်သီးနှံအားလုံးကို မိမိတို့သာလျှင် သိမ်းပိုက်လိုခဲ့ကြ၏။ ထို့အတွက် ဤအာယတ်တော်တွင် ပါရှိသည့်အတိုင်း ဆင်းရဲသားများအား အသိမပေးဘဲ နံနက်စောစောထ၍ တိတ်တဆိတ်သီးနှံ ဆွတ်ခူးရန် လျှို့ဝှက်တိုင်ပင်ဆုံးဖြတ်ခဲ့ကြ၏။

ယင်းသို့ တိုင်ပင်ဆုံးဖြတ်ရာတွင် မိမိတို့၏ အကြံအစည်ကို အဘယ်မျှအလေးပေးခဲ့ကြသည်ဆိုသော်၊ ၎င်းတို့သည် "အင်ရှာအလ္လာဟ်" "အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူပါသော်"ပင်မဆိုခဲ့ကြပေ၊ ခြွင်းချက်မထားခဲ့ကြပေ။ ယင်းသို့ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကို မေ့ကြသည့်အခါ၊ လောဘရမ္မက် ကြီးထွားလာကြသည့်အခါ လွန်စွာစေးနှဲကာ ဆင်းရဲသားများ၏ အခွင့်အလမ်းကို ပိတ်ပင်လိုကြသည့်အခါ၊ ၎င်းတို့အိပ်စက်နေချိန် အလ္လာဟ်အရှင်မြတ်ထံတော်မှ လောင်မီးကျ၍ ၎င်းတို့၏ဥယျာဉ်သည် မရှုမလှ ပျက်စီးသွားခဲ့လေသည်။

အဆိုပါညီနောင်များသည် မိမိတို့အကြံအစည်အတိုင်း သီးနှံဆွတ်ခူးရန် နံနက်စောစောထ၍ ဥယျာဉ်သို့ သွားကြသောအခါ ပျက်စီးနေသောဥယျာဉ်ကို တွေ့မြင်ခဲ့ကြ၏။ ပထမသော် ဤသည်ငါတို့၏ဥယျာဉ် မဟုတ်နိုင်၊ ငါတို့သည် လမ်းမှားနေကြသည်ဟူ၍ပင် ထင်မှတ်နေခဲ့ကြ၏။ ထို့နောက် သေချာဂနစွာကြည့်သောအခါ မိမိတို့၏ဥယျာဉ်ပင်ဖြစ်ကြောင်း၊ လောင်မီးကျ၍ ပျက်စီးနေကြောင်း သိရှိခဲ့ကြ၏၊ ထိုအခါ "ငါတို့သည် လက်မဲ့ဖြစ်ကြရလေပြီ" ဟုဆိုကာ ဝမ်းနည်းကြ၏။

အဆိုပါညီနောင်များတွင် အမြော်အမြင်ရှိသော၊ သမမျှတစိတ်ရှိသော ညီနောင်တစ်ဦးက အလ္လာဟ် အရှင်မြတ်အား မမေ့ကြရန်၊ ဆင်းရဲသားများအား လျစ်လျူပြုမထားကြရန် သတိပေးခဲ့သေး၏။ သို့သတိပေးခဲ့သော် လည်း မည်သူတစ်ဦးတစ်ယောက်ကမျှ ဂရုမမူခဲ့ပေ။ နောက်ဆုံးတွင် လောင်မီးသင့်၍ ဥယျာဉ်ပျက်စီးသွားသောအခါ အဆိုပါညီနောင်က မိမိ၏ သတိပေးချက်ကို ပြန်လည်ပြောပြခဲ့လေသည်။

ဆက်လက်၍ အဆိုပါညီနောင်က ကျန်ညီနောင်များအား အလ္လာဟ်အရှင်မြတ်ထံတော်၌ ဝန်ချ တောင်းပန် အသနားခံရန် ထပ်မံပြောကြားသောအခါ၊ ညီနောင်များသည် ဤအာယတ်တော်တွင်လာရှိသည့်အတိုင်း ဝန်ချတောင်းပန် အသနားခံခဲ့ကြလေသည်။

အဆိုပါတစ်ရပ်အရ ယင်းသို့ ဝန်ချတောင်းပန် အသနားခံကြသည့်အခါ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ယင်းညီနောင်များအား ယခင်ဥယျာဉ်ထက်ပင် ကောင်းမွန်သော ဥယျာဉ်တစ်ခုကို ချီးမြှင့်တော်မူခဲ့ပေသည်။ ကြည့်-မဒါရိက်။

إِنَّ لِلْمُتَّقِينَ عِندَ رَبِّهِمْ جَنَّٰتِ ٱلنَّعِيمِ ﴿٣٤﴾

၃၄။ ဧကန်အမှန် "မွတ္တကီ"သူတော်စင်တို့အဖို့ ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ် အထံတော်တွင် စည်းစိမ်ချမ်းသာနှင့် ပြည့်စုံသော ဥယျာဉ်များ ရှိကြလေ၏။ [၁]

أَفَنَجْعَلُ ٱلْمُسْلِمِينَ كَٱلْمُجْرِمِينَ ﴿٣٥﴾

၃၅။ သို့ဖြစ်ပေရာ အရှင်မြတ်သည် မုစ်လင်မ်၊ အမိန့်နာခံသောသူတို့အား အမိန့်ကိုဖီဆန်သောသူတို့ ကဲ့သို့ ပြုလုပ်တော်မူရပါမည်လော။

مَا لَكُمْ كَيْفَ تَحْكُمُونَ ﴿٣٦﴾

၃၆။ အသင်တို့၌ မည်သို့သောအကြောင်းရှိသနည်း၊ အသင်တို့သည် မည်သို့ စီရင်ဆုံးဖြတ်ကြသနည်း။

أَمْ لَكُمْ كِتَٰبٌ فِيهِ تَدْرُسُونَ ﴿٣٧﴾

၃၇။ အသင်တို့၌ ကျမ်းဂန်အစောင်စောင်ရှိနေ၍ အသင်တို့သည် ယင်းကျမ်းဂန်၌ ဖတ်ရှုသင်ကြားကြလေသလော၊

إِنَّ لَكُمْ فِيهِ لَمَا تَخَيَّرُونَ ﴿٣٨﴾

၃၈။ ယင်းကျမ်းဂန်၌ အသင်တို့ နှစ်သက်ကြသော အရာ လာရှိသလော၊

أَمْ لَكُمْ أَيْمَٰنٌ عَلَيْنَا بَٰلِغَةٌ إِلَىٰ يَوْمِ ٱلْقِيَٰمَةِ إِنَّ لَكُمْ لَمَا تَحْكُمُونَ ﴿٣٩﴾

၃၉။ သို့တည်းမဟုတ် အသင်တို့အဖို့ ငါအရှင်မြတ် အပေါ်၌ "ကိယာမတ်" ရှင်ပြန်ထမည့်နေ့ တိုင်အောင် တည်ရှိအံ့သော ဧကန်စင်စစ် အသင်တို့အဖို့ အသင်တို့ စီရင်ဆုံးဖြတ်သည့်အတိုင်း ဖြစ်ရမည်ဟူ၍ လေးနက်ခိုင်မာစွာ ကျိန်ဆို၍ ပြုလုပ်ထားသော ကတိသစ္စာခံဝန်ချက်များ ရှိလေသလော။

---

(၁) ဆိုလိုသည်ကား အချို့လူသားတို့သည် ဤပစ္စက္ခရှိ ဥယျာဉ်ပန်းမာလ်နှင့် စည်းစိမ်ချမ်းသာများကို ခံ့မင်နေကြသည်၊ အမှန်မှာ နောင်တမလွန်ဘဝရှိ ဥယျာဉ်၊ ပန်းမာလ်နှင့် သုခချမ်းသာများသည် ဤပစ္စက္ခရှိ ဥယျာဉ်ပန်းမာလ်များနှင့် စည်းစိမ်ချမ်းသာများထက် အတိုင်းမသိ ကောင်းမွန် မြင့်မြတ်လှပေသည်။ အလျှင်းမနှိုင်းယှဉ်အပ်ပေ။သို့ရာတွင် သိထားအပ်သည်မှာ နောင်တမလွန်ဘဝ၏ အမတသုခများသည် အလ္လာဟ်အရှင်မြတ် အမှန်တကယ် ကြောက်ရွံ့ရိုသေခန့်ညားသော (မွတ္တကီ) သူတော်သူမြတ်များအဖို့သာလျှင် ဖြစ်ကုန်သည်။

سَلْهُمْ أَيُّهُم بِذَٰلِكَ زَعِيمٌ ﴿٤٠﴾

၄၀။ (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့အား ၎င်းတို့အနက် ယင်းသည့်ဝန်ခံချက်နှင့်စပ်လျဉ်း၍ တာဝန်ယူ အာမခံသောသူသည် မည်သူနည်းဟု မေးမြန်းပါလေ။

أَمْ لَهُمْ شُرَكَاءُ فَلْيَأْتُوا بِشُرَكَائِهِمْ إِن كَانُوا صَادِقِينَ ﴿٤١﴾

၄၁။ သို့တည်းမဟုတ် ၎င်းတို့ထံတွင် (၎င်းတို့ ဖန်တီးထားသော) တွဲဖက် နှိုင်းယှဉ်ဖက်များ ရှိကြလေသလော၊ သို့ရှိလျှင် ၎င်းတို့သည် သစ္စာဝါဒီများ ဖြစ်ကြပါမူ ထိုတွဲဖက် နှိုင်းယှဉ်ဖက်တို့အား ခေါ်ဆောင်လာကြရာသတည်း။

يَوْمَ يُكْشَفُ عَن سَاقٍ وَيُدْعَوْنَ إِلَى السُّجُودِ فَلَا يَسْتَطِيعُونَ ﴿٤٢﴾

၄၂။ အကြင်နေ့ကို (ပြန်လည်သတိပြုကြလေကုန်၊) ထိုနေ့တွင် ခြေသလုံးဖွင့်လှစ်ခြင်းခံရပေမည်။ ထို့ပြင် ၎င်းတို့သည် 'စဂျ်ဒဟ်' ပျပ်ဝပ်ဦးချရန် ဆင့်ခေါ်ခြင်းကို ခံကြရပေမည်။ သို့တစေလည်း ၎င်းတို့မှာမူကား (စဂျ်ဒဟ်) ပြုစွမ်းနိုင်ကြမည် မဟုတ်ပြီ။ [၁]

---

(၁) "ဗုခါရီ" နှင့် "မွတ်စ်လင်မ်" ကျမ်းကြီးများ၌ ခိုင်လုံသော (ဟဒီဆ်) သြဝါဒတော်များတွင် လာရှိသည်မှာ ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် မိမိ၏ခြေသလုံးတော်ကို ဖွင့်လှစ်၍ပြတော်မူပေမည်။ ခြေသလုံးတော်ကို ဖူးမြင်ကြရသည့်အခါ မုအ်မင်န်အမျိုးသား အမျိုးသမီးအားလုံးတို့သည် (စဂျ်ဒဟ်) ပျပ်ဝပ်ဦးချပေမည်။ သို့ရာတွင် လူ့လောကတွင်ရှိခဲ့စဉ် ဟန်ဆောင်၍ ဦးချခဲ့ကြသော အယောင်ဆောင်များသည် ဦးချနိုင်ကြမည် မဟုတ်ပေ၊ ၎င်းတို့၏ခါးများသည် ပျဉ်ပြားသဖွယ် မာမြင်းတောင့်တင်းလျက်ရှိကြပေမည်။ ကိယာမတ်နေ့တွင် အယောင်ဆောင်မုနာဖစ်က်များပင် ဦးချနိုင်ကြမည်မဟုတ်ပေရာ ကာဖိရ်၊ မွတ်ရှ်ရစ်က် များသည် အသို့လျှင် ဦးချနိုင်ကြအံ့နည်း။ ဤသို့ဖြင့် ကိယာမတ်နေ့တွင် မုအ်မင်န်၊ မုနာဖစ်က်၊ကာဖိရ် မွတ်ရှ်ရစ်က်တို့သည် အထင်အရှား ကွဲပြားခြားနားသွားကြပေမည်။

**မှတ်ချက်။**

ကုရ်အာန်ကျမ်းမြတ်တွင် အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ လက်တော်၊ မျက်နှာတော် (ဤအာယတ်တော်တွင်) ခြေသလုံးတော်ဟူ၍ အကြောင်းအားလျော်စွာ သုံးနှုန်းထားတော်မူသည်။ ဤသည်တို့သည် "မုတာရှာဗီဟာတ်"တွင် အပါအဝင်ဖြစ်သည်၊ ခက်ခဲနက်နဲလှသည်၊ သိမ်မွေ့လှသည်။ အလ္လာဟ်အရှင်မြတ်၌ နှိုင်းယှဉ်ပုံဆောင်အပ်သော အရာဟူ၍ အလျှင်းမရှိပေရာ၊ ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ ကုရ်အာန်ကျမ်းမြတ်တွင် လာရှိသည်များကို လာရှိသည့်အတိုင်းပင် တစ်စုံတစ်ရာ ဝေဖန်ခြင်းမပြုဘဲ (အီမာန်) ယုံကြည်ကြရပေမည်။

خَاشِعَةً أَبْصَارُهُمْ تَرْهَقُهُمْ ذِلَّةٌ ۖ وَقَدْ كَانُوا يُدْعَوْنَ إِلَى السُّجُودِ وَهُمْ سَالِمُونَ ﴿٤٣﴾

၄၃။ ထိုသူတို့၏မျက်စိများသည် အောက်သို့ စိုက်လျက် ရှိပေသည်၊ ဂုဏ်ရည်သိမ်ဖျင်းမှုက ထိုသူတို့အား ဖုံးလွှမ်းလျက် ရှိပေမည်။ စင်စစ်သော်ကား ၎င်းတို့သည် ပကတိကျန်းမာစွာ ရှိနေကြစဉ်အခါ၌ "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချရန် ဖိတ်ခေါ်ခြင်းကို ခံခဲ့ကြရကုန်၏။

فَذَرْنِي وَمَنْ يُكَذِّبُ بِهَٰذَا الْحَدِيثِ ۖ سَنَسْتَدْرِجُهُمْ مِنْ حَيْثُ لَا يَعْلَمُونَ ﴿٤٤﴾

၄၄။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ဤသည့်အာယတ်တော်ကို မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်သူတို့အား ငါအရှင်မြတ်နှင့်ပင် လွှတ်ထားပါလေ။ အမှန်ပင် ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့မသိကြသော-နည်းဖြင့်၊ နေရာမှ၊ တဖြည်းဖြည်း ဆွဲချတော်မူမည်။

وَأُمْلِي لَهُمْ ۚ إِنَّ كَيْدِي مَتِينٌ ﴿٤٥﴾

၄၅။ သို့ရာတွင် ငါအရှင်မြတ်သည် ၎င်းတို့အား ရွှေ့ဆိုင်းခွင့်ပေးတော်မူ၏၊ ဧကန်မလွဲ ငါအရှင်မြတ်၏ အကြံအစည်သည် လွန်စွာခိုင်မြဲလှ၏။

أَمْ تَسْأَلُهُمْ أَجْرًا فَهُمْ مِنْ مَغْرَمٍ مُثْقَلُونَ ﴿٤٦﴾

၄၆။ (အို-နဗီတမန်တော်) အသင်သည် ၎င်းတို့ထံ အကျိုးကျေးဇူး တစ်စုံတစ်ရာကို တောင်းဆိုသဖြင့် ၎င်းတို့သည် ဒဏ်ငွေဆောင်မှုကြောင့် ဖိစီးခြင်းခံနေကြရလေသလော။

أَمْ عِنْدَهُمُ الْغَيْبُ فَهُمْ يَكْتُبُونَ ﴿٤٧﴾

၄၇။ သို့တည်းမဟုတ် ၎င်းတို့ထံတွင် အကွယ်၌ရှိသည်တို့ကို (သိစွမ်းနိုင်သောအသိပညာ)ရှိနေသဖြင့် ၎င်းတို့သည် ရေးမှတ်ယူကြလေသလော။

فَاصْبِرْ لِحُكْمِ رَبِّكَ وَلَا تَكُنْ كَصَاحِبِ الْحُوتِ إِذْ نَادَىٰ وَهُوَ مَكْظُومٌ ﴿٤٨﴾

၄၈။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် မိမိအရှင်မြတ်၏ စီရင်ပြဋ္ဌာန်းချက်ကို စောင့်စားသောအားဖြင့် သည်းခံ၍နေပါလေ။ ၎င်းပြင် အသင်သည် ငါးရှင်ကဲ့သို့ မဖြစ်ပါလေနှင့်။

တရံရောအခါဝယ် ထိုငါးရှင်သည် ဒုက္ခကို ကျိတ်မှိတ် ခံစားလျက်ရှိနေစဉ် မိမိအရှင်မြတ်အား ဟစ်ခေါ်(တမ်းတ)ခဲ့လေ၏။

لَوْلَآ أَن تَدَٰرَكَهُۥ نِعْمَةٌ مِّن رَّبِّهِۦ لَنُبِذَ بِٱلْعَرَآءِ وَهُوَ مَذْمُومٌ ﴿٤٩﴾

၄၉။ အကယ်၍သာလျှင် ထိုငါးရှင်အား ၎င်း၏ အရှင်မြတ်ထံတော်မှ ကျေးဇူးတော်သည် သက်ရောက် ခဲ့သည်မရှိမူ အမှန်ပင်ထိုငါးရှင်မှာ အခြေမလှဖြစ် လျက် သစ်ပင်၊ ဝါးပင်၊ အိုးအိမ်စသည် (လုံး၀)မရှိ သောလွင်ပြင်ဝယ် ပစ်ထားခြင်းကိုခံခဲ့ရမည်သာ။ [၁]

فَٱجْتَبَٰهُ رَبُّهُۥ فَجَعَلَهُۥ مِنَ ٱلصَّٰلِحِينَ ﴿٥٠﴾

၅၀။ သို့တစေလည်း ထိုငါးရှင်အား ၎င်း၏အရှင် မြတ်သည် ရွေးချယ်မြှောက်စားတော်မူပြီးလျှင် သူတော် ကောင်းတို့တွင် ပါဝင်စေတော်မူခဲ့၏။

---

(၁) ဤအာယတ်တော်တွင် (ဆွာဟိဗုလ်ဟူတ်) "ငါးရှင်" ဟူသည် တမန်တော် ယူနွတ်စ်(အလိုင်ဟစ္စလာမ်)ကို ဆိုလိုသည်။ တမန်တော် ယူနွတ်စ်သည် မိမိ၏အမျိုးသားများအား နှစ်ပရိစ္ဆေဒ မြောက်မြားစွာ တရားဟော ညွှန်ပြတော်မူခဲ့သော်လည်း အမျိုးသားများသည် တရားမရကြသည့်အပြင် တမန်တော် ယူနွတ်စ်ကိုပင် ပြောင်လှောင်ပြက်ရယ်ပြုလာခဲ့ကြ၏။ အန္တရာယ်ပြုလာခဲ့ကြ၏။

ထိုအခါ တမန်တော်ယူနွတ်စ်သည် မည်သို့မျှ သွန်သင်ဆုံးမ၍မရသည့်အဆုံး၌ လွန်စွာစိတ်ဆင်းရဲကာ အမျိုးသားများအား ကျိန်ဆဲ၍၊ မိမိအမျိုးသားများ၏ နေထိုင်ရာမြို့ရွာများမှ ထွက်ခွာလာခဲ့၏။ သို့ထွက်ခွာ လာပြီးနောက် တမန်တော်ယူနွတ်စ်သည် မိမိ၏ အမျိုးသားများ (အီမာန်)မယုံကြည်ကြသည်က တစ်ကြောင်း၊ မိမိ၏ကျိန်ဆဲခဲ့သည့်အတိုင်း ပြစ်ဒဏ်မသက်ရောက်သည်က တစ်ကြောင်း၊ အလ္လာဟ်အရှင်မြတ်ထံတော်မှ အတိအလင်း ခွင့်ပြုချက်မရရှိပါပဲလျက် မြို့မှအလျင်စလို ထွက်ခွာလာခဲ့မိသည်ကတစ်ကြောင်း၊ ငါးကြီး၏ ဝမ်းဗိုက်တွင် ရောက်ရှိနေရသည်ကတစ်ကြောင်း၊ အဆိုပါ အကြောင်းကြောင်းများကြောင့် ကြီးမားသောစိတ်ဒုက္ခကို ကျိတ်မှိတ်၍ အလူးအလိမ့်ခံစားနေခဲ့ရရှာ၏။

ထိုအချိန်တွင် တမန်တော်ယူနွတ်စ်သည် ကုရ်အာန်(၂၁း၈၇)တွင် လာရှိသည့်အတိုင်း အလ္လာဟ်အရှင် မြတ်ထံတော်၌ ဝန်ချတောင်းပန် အသနားခံခဲ့၏။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ကိုသာ မခိုလှုံခဲ့ရပါက တမန်တော်ယူနွတ်စ်သည် ကဲ့ရဲ့ပြစ်တင်ခြင်းခံရမည့်အပြင် လွင်ပြင်၌ ထာဝစဉ်စွန့်ပစ်ထားခြင်း ခံခဲ့ရမည်သာ ဖြစ်သည်။

ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်က၊ တမန်တော်မြတ်အား မိမိ၏အမိန့်တော်ကို သည်းခံ စောင့်စားရန်နှင့် တမန်တော်ယူနွတ်စ်ကဲ့သို့ အလျင်စလို မပြုမိရန် သတိပေးထားတော်မူသည်။

وَإِن يَكَادُ الَّذِينَ كَفَرُوا لَيُزْلِقُونَكَ بِأَبْصَارِهِمْ لَمَّا سَمِعُوا الذِّكْرَ وَيَقُولُونَ إِنَّهُ لَمَجْنُونٌ ﴿٥١﴾

၅၁။ စင်စစ်သော်ကား ဧကန်မလွဲ 'ကာဖိရ်'သွေးဖြည့်ငြင်းပယ်သူတို့သည် ကုရ်အာန်ကျမ်းတော်မြတ်ကို နားထောင်ကြသောအခါ ၎င်းတို့၏မျက်စိများဖြင့် အသင့်အား ချွတ်ချော်စေအံ့ဆဲဆဲ ဖြစ်ကြလေ၏။ ထိုမှတစ်ပါး ၎င်းတို့က ဧကန်အမှန် ဤသူသည် ရူးသွပ်နေသည်ဟု ပြောဆိုကုန်၏။ [၁]

وَمَا هُوَ إِلَّا ذِكْرٌ لِّلْعَالَمِينَ ﴿٥٢﴾

၅၂။ စင်စစ် ယင်း ကုရ်အာန်ကျမ်းတော်မြတ်မှာ စကြာဝဠာခပ်သိမ်းတို့အဖို့ ဆုံးမသြဝါဒမှတစ်ပါး အခြားမဟုတ်ပြီတကား။

---

(၁) ကာဖိရ်၊ မွတ်ရှိရစ်က်များသည် ကုရ်အာန်ကျမ်းမြတ်လာ တရားတော်များကို ကြားကြရသည့်အခါ ဒေါသအမျက် ချောင်းချောင်းထွက်ကာ တမန်တော်မြတ်အား မိမိတို့၏ မျက်စိများဖြင့် ချွတ်ချော်တိမ်းယိမ်းသွားစေရန် အစွမ်းကုန်ကြိုးစားခဲ့ကြ၏။ မိမိတို့၏နှုတ်များဖြင့်လည်း (မပြောအပ် မဆိုအပ်) သူရူးဟု ဆိုခဲ့ကြ၏။ ကာဖိရ်၊ မွတ်ရှိရစ်က်များသည် တမန်တော်မြတ်အား တစ်နည်းတစ်ဖုံ ချွတ်ချော်တိမ်းယိမ်းသွားစေရန် ကြိုးစားခဲ့လင့်ကစား တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် အစ္စလာမ့်လမ်းစဉ်အပေါ်၌ အံ့ဖွယ်သရဲ ရပ်တည်၍ နေတော်မူခဲ့ပေသည်။

# အမှန်မုချဖြစ်မည့်အရာကဏ္ဍ



ဤကဏ္ဍသည် "အလ်ဟားက္ကဟ်" အမှန်မုချဖြစ်မည့်အရာ ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၅၂)ပါး၊ ရကူအ် အပိုဒ်(၂)ပိုဒ်၊ အသီးသီး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ ကြင်နာသနားတော်မူသော၊ ကရုဏာတော်ရှင်ဖြစ်တော်မူသော၊ အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

اَلْحَآقَّةُ ۝١

၁။ အကယ်စင်စစ် ဖြစ်အံ့သောအရာ။

مَا الْحَآقَّةُ ۝٢

၂။ ယင်း အကယ်စင်စစ် ဖြစ်အံ့သောအရာကား မည်သည့်အရာနည်း။

وَمَآ اَدْرٰىكَ مَا الْحَآقَّةُ ۝٣

၃။ စင်စစ် ယင်း အကယ်စင်စစ် ဖြစ်အံ့သော အရာသည် မည်သည့်အရာဖြစ်ကြောင်း အသင်သိပါသလော။[၁]

كَذَّبَتْ ثَمُوْدُ وَعَادٌ ۢ بِالْقَارِعَةِ ۝٤

၄။ "ဆမူဒ်"လူမျိုးတို့သည်လည်းကောင်း၊ "အာဒ်" လူမျိုးတို့သည်လည်းကောင်း၊ ဆိုက်ရောက်အံ့သော ဘေးကြီး (ဝါ) "ကိယာမတ်"ကို မဟုတ်မမှန်ဟူ၍ စွပ်စွဲ ငြင်းပယ်ခဲ့ကြကုန်၏။

---

(၁) "ဟားက္ကဟ်" ဟူသောပုဒ်၏ မူရင်းအဓိပ္ပါယ်မှာ 'အမှန်မုချ ဖြစ်ပေါ်သက်ရောက်အံ့သောအရာ' ဟူ၍ဖြစ်သည်၊ ဤတွင် "ကိယာမတ်"ကို ဆိုလိုသည်။ အဘယ်ကြောင့်ဆိုသော် ကိယာမတ်သည် အမှန်မုချဖြစ်မည်၊ ကိယာမတ်တွင် ကျိုးပြစ်အမှန် သက်ရောက်မည်။ ကြည့်-ဖိုင်သွာဝီ၊ ရာဃိဗ်။

ဤအာယတ်တော်တွင် ကိယာမတ်နှင့်စပ်လျဉ်း၍ အကြိမ်ကြိမ်အဖန်ဖန် ပြန်လှန်မေးမြန်းထားတော်မူခြင်းမှာ အရဗ်စာပေအရ လေးနက်စေသည်ထက် ပိုမိုလေးနက်စေရန်ပင်ဖြစ်သည်။ ဤနည်းနှင်နှင် ကုရ်အာန် (၁၀၁:၁-၃)တွင်လည်း သုံးနှုန်းထားတော်မူသည်။

ကိယာမတ်နေ့တွင် အဘယ်မျှကြောက်မက်ဖွယ်ကောင်းလှသည်ကို အသူမျှပင်တွေးဆင်ခြင်၍ အတိအကျမသိရှိနိုင်ပေ၊ အတိုင်းမသိကြောက်မက်ဖွယ် ကောင်းလှ၏။ အနည်းငယ်စဉ်းစားဆင်ခြင်နိုင်ရန်အတွက် ရှေ့တွင်အတိတ်ခေတ်၌ ကြောက်ဖွယ်လိလိ အရေးယူ ကွပ်မျက်တော်မူခြင်းကို ခံခဲ့ကြရသော အချို့ ➤➤

فَأَمَّا ثَمُودُ فَأُهْلِكُوا بِالطَّاغِيَةِ ۝٥

၅။ သို့ဖြစ်ပေရာ "ဆမူဒ်"လူမျိုးတို့ကား အတိုင်းထက်အလွန် ပြင်းထန်လှစွာသောအသံဖြင့် သေကြေပျက်စီးစေခြင်းကို ခံခဲ့ကြကုန်၏။

وَأَمَّا عَادٌ فَأُهْلِكُوا بِرِيحٍ صَرْصَرٍ عَاتِيَةٍ ۝٦

၆။ ၎င်းပြင် "အာဒ်"လူမျိုးတို့မှာမူ ကြမ်းတမ်းလှစွာသော သောင်းကျန်းသော လေပြင်းမုန်တိုင်းဖြင့် ဖျက်ဆီးခြင်းကို ခံခဲ့ကြရကုန်၏။

سَخَّرَهَا عَلَيْهِمْ سَبْعَ لَيَالٍ وَثَمَانِيَةَ أَيَّامٍ حُسُومًا فَتَرَى الْقَوْمَ فِيهَا صَرْعَىٰ كَأَنَّهُمْ أَعْجَازُ نَخْلٍ خَاوِيَةٍ ۝٧

၇။ ထိုအရှင်မြတ်သည် ယင်းလေပြင်းမုန်တိုင်းကို ခုနစ်ညဉ့်နှင့်ရှစ်ရက်တိုင်တိုင် တစ်ဆက်တည်း ၎င်းတို့အပေါ်ဝယ် တာဝန်ပေးခန့်အပ်တော်မူခဲ့၏။ သို့ဖြစ်ပေရာ အသင်သည် ယင်းလူမျိုးတို့အား ပြိုလဲနေသော၊ သစ်ခေါင်းပွဖြစ်သော၊ စွန်ပလွံပင်များပမာ ယင်းလေပြင်း မုန်တိုင်းအောက်တွင် လဲ၍နေကြသည်ကို တွေ့မြင်ရပေမည်။

فَهَلْ تَرَىٰ لَهُم مِّن بَاقِيَةٍ ۝٨

၈။ သို့ဖြစ်ရာ အသင်သည် ၎င်းတို့အနက် (သေကြေပျက်စီးခြင်းမရှိဘဲ) ကြွင်းကျန်လျက်ရှိသူ တစ်ဦးတစ်ယောက်အား တွေ့မြင်ရလေသလော။

وَجَاءَ فِرْعَوْنُ وَمَن قَبْلَهُ وَالْمُؤْتَفِكَاتُ بِالْخَاطِئَةِ ۝٩

၉။ ထို့ပြင် "ဖစ်ရ်အောင်န်"သည်လည်းကောင်း၊ ထို "ဖစ်ရ်အောင်န်"၏အလျင်ရှိခဲ့ကြသောသူတို့သည်လည်းကောင်း၊ ထက်အောက် ပြောင်းပြန်လှန်ခြင်းကို ခံခဲ့ကြရသော ရွာ(သူရွာသား)တို့သည်လည်းကောင်း၊ ပြစ်မှုကို ကျူးလွန်ခဲ့ကြကုန်၏။

---

➤➤ အမျိုးသားများ၏ အဖြစ်များကို မိန့်ဆိုထားတော်မူသည်။ တစ်နည်းဆိုရသော် ယင်းဖြစ်ရပ်များသည် ကိယာမတ်ကြီး၏ ရှေ့တော်ပြေး ကိယာမတ်ကလေးများပင်။

فَعَصَوْا رَسُولَ رَبِّهِمْ فَأَخَذَهُمْ أَخْذَةً رَّابِيَةً ﴿١٠﴾

၁၀။ တစ်ဖန် ၎င်းတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်မှ စေလွှတ်တော်မူသော ရဆူလ်တမန်တော်၏အမိန့်ကို ဖီဆန်ခဲ့ကြကုန်၏။ သို့ဖြစ်ပေရာ ထိုအရှင်မြတ်သည် ၎င်းတို့အား (အခြားလူမျိုးများထက်) ပိုမို၍တင်းကြပ်စွာ ဖမ်းဆီးအရေးယူတော်မူခြင်းအားဖြင့် ဖမ်းဆီးအရေးယူတော်မူခဲ့၏။

إِنَّا لَمَّا طَغَا الْمَاءُ حَمَلْنَاكُمْ فِي الْجَارِيَةِ ﴿١١﴾

၁၁။ ဧကန်စင်စစ် ငါအရှင်မြတ်သည်ပင် အသင်တို့အား ရေ(လှိုင်းများ) တိုးမြင့်လွှမ်းမိုး၍လာခဲ့သောအခါ သင်္ဘောပေါ်၌ တင်ဆောင်(ကယ်တင်)တော်မူခဲ့၏။

لِنَجْعَلَهَا لَكُمْ تَذْكِرَةً وَتَعِيَهَا أُذُنٌ وَاعِيَةٌ ﴿١٢﴾

၁၂။ ငါအရှင်မြတ်သည် ယင်းဖြစ်အင်ကို အသင်တို့အဖို့ အမြဲမှတ်မိ သတိရစေရာ ပြုလုပ်တော်မူအံ့သောငှာလည်းကောင်း၊ မှတ်ထားသောနားသည် ယင်းဖြစ်အင်ကို မှတ်ထားကြအံ့သောငှာလည်းကောင်း။

فَإِذَا نُفِخَ فِي الصُّورِ نَفْخَةٌ وَاحِدَةٌ ﴿١٣﴾

၁၃။ မည်သို့ပင်ဖြစ်စေ တံပိုးခရာ၌တစ်ချက်တည်း မှုတ်လေသော်၊

وَحُمِلَتِ الْأَرْضُ وَالْجِبَالُ فَدُكَّتَا دَكَّةً وَاحِدَةً ﴿١٤﴾

၁၄။ ထို့ပြင် ပထဝီမြေသည်လည်းကောင်း၊ တောင်များသည်လည်းကောင်း၊ ပင့်မြှောက်(ဖယ်ရှား)ခြင်းကို ခံကြရပြီးလျှင် တစ်ချက်တည်း ညက်ညက်ကြေအောင် ထုထောင်းခြင်းကို ခံခဲ့ကြရသော်၊

فَيَوْمَئِذٍ وَقَعَتِ الْوَاقِعَةُ ﴿١٥﴾

၁၅။ ထိုအခါ ကိယာမတ်သည်ဖြစ်ပျက်လာပေမည်။

وَانشَقَّتِ السَّمَاءُ فَهِيَ يَوْمَئِذٍ وَاهِيَةٌ ﴿١٦﴾

၁၆။ ၎င်းပြင် မိုးကောင်းကင်သည် အက်ကွဲသွားမည်ဖြစ်ရာ ယင်းမိုးကောင်းကင်မှာ ထိုနေ့တွင် နုံနဲ့၊ ချူချာ၊ ပျက်ယွင်းလျက် ရှိချိမ့်မည်။

وَّالْمَلَكُ عَلٰٓى اَرْجَآئِهَاؕ وَيَحْمِلُ عَرْشَ رَبِّكَ فَوْقَهُمْ يَوْمَئِذٍ ثَمٰنِيَةٌؕ ﴿١٧﴾

၁၇။ ၎င်းပြင် "မလာအိကဟ်" ကောင်းကင်တမန်တို့မှာကား ယင်းမိုးကောင်းကင်၏ နံဘေးများဝယ် ရှိနေကြပေမည်။ ထိုမှတစ်ပါး ထိုနေ့တွင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ "အရ်ရှ်" ပလ္လင်တော်ကို ကောင်းကင်တမန်ရှစ်ပါးတို့က မိမိတို့ ထက်ဝယ် ထမ်းဆောင်လျက်ရှိကြပေမည်။ [၁]

يَوْمَئِذٍ تُعْرَضُوْنَ لَا تَخْفٰى مِنْكُمْ خَافِيَةٌ ﴿١٨﴾

၁၈။ ထိုနေ့တွင် အသင်တို့သည် ရှေ့တော်မှောက်သို့ သွင်းစေခြင်းကို ခံကြရပေမည်။ (ထိုနေ့တွင်) အသင်တို့အပေါ်ဝယ် မည်သည့်ဖုံးကွယ်၍နေသော အရာမျှပင် ဖုံးကွယ်၍နေချိမ့်မည် မဟုတ်ပေတကား။ (တစ်နည်း)(ထိုနေ့တွင်) အသင်တို့ဖုံးကွယ်သော မည်သည့် အရာမျှပင် (အလ္လာဟ်အရှင်မြတ်)အပေါ်ဝယ် ဖုံးကွယ်၍ နေချိမ့်မည် မဟုတ်ပေတကား။

فَاَمَّا مَنْ اُوْتِىَ كِتٰبَهٗ بِيَمِيْنِهٖ فَيَقُوْلُ هَآؤُمُ اقْرَءُوْا كِتٰبِيَهْ ﴿١٩﴾

၁၉။ သို့သော် မည်သို့ဖြစ်စေ မိမိမှတ်တမ်းစာအုပ်ကို မိမိလက်ယာလက်ဝယ်တွင် ပေးအပ်ခြင်းခံရသောသူသည် (သူတစ်ပါးတို့အား ပျော်ရွှင်စွာဖြင့်) (ဤသို့) ပြောဆိုပေမည်။ အသင်တို့သည် ကျွန်ုပ်၏မှတ်တမ်းစာအုပ်ကို ယူ၍ဖတ်ကြလေကုန်။

---

(၁) အလ္လာဟ်အရှင်မြတ်၏ အတိုင်းမသိ ကြီးကဲမြင့်မြတ်လှသော 'အရ်ရှ်' ပလ္လင်တော်အကြောင်း ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ်ပါရှိသည်။ ယင်း ပလ္လင်တော်အကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန်(၇း၅၄)တွင် ရေးသားခဲ့ပေပြီ။ ယင်းပလ္လင်တော်ကို ကောင်းကင်တမန်များ ထမ်းဆောင်လျက် ရှိကြကုန်သည်။

ကြည့်-ကုရ်အာန်(၄၀း၇)။

ကိယာမတ်နေ့၌ အဆိုပါအရ်ရှ်ပလ္လင်တော်ကို ကောင်းကင်တမန်(၈)ပါးက အထူးတလည် ထမ်းရွက်လျက်ရှိကြပေမည်။ အဆိုတစ်ရပ်အရ ဤအာယတ်တော်တွင်ပါရှိသော ပလ္လင်တော်ဟူသည် ကိယာမတ်နေ့တွင် တရားစီရင်ဆုံးဖြတ်တော်မူရန်အတွက် ကမ္ဘာမြေ၌ ထားရှိတော်မူမည့် ပလ္လင်တော်ကို ဆိုလိုသည်ဟူ၍လည်း ယူဆနိုင်ပေသည်။

ကြည့်-ဣဗ်နုကဆီရ်။

إِنِّي ظَنَنتُ أَنِّي مُلَٰقٍ حِسَابِيَهْ ٢٠

၂၀။ စင်စစ်သော်ကား ကျွန်ုပ်သည် (လူ့လောက၌ ရှိစဉ်ကပင်) ဧကန်မလွဲ ကျွန်ုပ်သည် မိမိအား စစ်ဆေးမေးမြန်းခြင်းနှင့် တွေ့ဆုံရမည်ကို ယုံကြည်လျက် ရှိခဲ့၏။

فَهُوَ فِي عِيشَةٍ رَّاضِيَةٍ ٢١

၂၁။ ထို့နောက် ထိုသူသည် စိတ်တိုင်းကျ သုခစည်းစိမ်၌ နေရပေမည်။

فِي جَنَّةٍ عَالِيَةٍ ٢٢

၂၂။ မြင့်မြတ်လှစွာသော ဂျန္နတ်သုခဘုံ၌၊

قُطُوفُهَا دَانِيَةٌ ٢٣

၂၃။ ယင်း"ဂျန္နတ်"သုခဘုံ၏ သစ်သီးဝလံများမှာ ညွတ်လျက် ရှိကြပေမည်။

كُلُوا وَاشْرَبُوا هَنِيٓـًٔا بِمَآ أَسْلَفْتُمْ فِي الْأَيَّامِ الْخَالِيَةِ ٢٤

၂၄။ (၎င်းတို့သည် ဤသို့ပြောဆိုခြင်းကို ခံကြရပေမည်။) အသင်တို့သည် လွန်လေပြီးဖြစ်သော နေ့ရက်များတွင် မိမိတို့ ကြိုတင်ပို့နှင့်ခဲ့ကြလေသော အကျင့်သီလများကြောင့် မြိန်ရှက်စွာ စားသောက်ကြလေကုန်။

وَأَمَّا مَنْ أُوتِيَ كِتَٰبَهُۥ بِشِمَالِهِۦ فَيَقُولُ يَٰلَيْتَنِي لَمْ أُوتَ كِتَٰبِيَهْ ٢٥

၂၅။ သို့ရာတွင် မိမိလက်ဝဲလက်၌ မိမိမှတ်တမ်းစာအုပ်ပေးခြင်းခံရသောသူမှာမူကား (ဤသို့) ပြောဆိုပေမည်။ ဩော်-ငါသည် မိမိ(လက်သို့) မှတ်တမ်းစာအုပ်ပေးခြင်း မခံခဲ့ရလျှင် ကောင်းလေစွ။

وَلَمْ أَدْرِ مَا حِسَابِيَهْ ٢٦

၂၆။ မိမိ စာရင်းအင်းကိုလည်း မသိခဲ့ရလျှင် ကောင်းလေစွ။

يَٰلَيْتَهَا كَانَتِ الْقَاضِيَةَ ٢٧

၂၇။ "မရဏ" သေခြင်းတရားသည် လုံးဝ အပြီးအပြတ်စီရင်ခဲ့လျှင် ကောင်းလေစွ။

مَآ أَغْنَىٰ عَنِّي مَالِيَهْ ٢٨

၂၈။ ငါ၏ပစ္စည်းဥစ္စာသည် ငါ၏အဖို့ အသုံးဝင်ခဲ့သည် မဟုတ်ပြီ။

هَلَكَ عَنِّي سُلْطَانِيَهْ ﴿٢٩﴾

၂၉။ ငါ၏အစွမ်းသတ္တိ ဂုဏ်ကျက်သရေသည်လည်း ငါ့ထံမှ ပျောက်ပျက်၍သွားချေပြီ။

خُذُوهُ فَغُلُّوهُ ﴿٣٠﴾

၃၀။ (ထိုအခါ ငရဲစောင့်တို့သည် ဤသို့အမိန့်ပေးခြင်းကို ခံကြရပေမည်။) အသင်တို့သည် ၎င်းအား ဖမ်းဆီး၍ ၎င်း၏လည်ပင်း၌ ကွင်းတပ်ကြလေကုန်။

ثُمَّ الْجَحِيمَ صَلُّوهُ ﴿٣١﴾

၃၁။ ထို့နောက် အသင်တို့သည် ၎င်းအား ဂျဟန္နမ်ငရဲသို့ ပစ်ချကြလေကုန်။

ثُمَّ فِي سِلْسِلَةٍ ذَرْعُهَا سَبْعُونَ ذِرَاعًا فَاسْلُكُوهُ ﴿٣٢﴾

၃၂။ ထို့နောက် အသင်တို့သည် ၎င်းအား အရှည်အလျား အတောင်-ကိုက်ခုနစ်ဆယ်ရှိသော သံကြိုးဖြင့် တုပ်နှောင်ကြလေကုန်။

إِنَّهُ كَانَ لَا يُؤْمِنُ بِاللَّهِ الْعَظِيمِ ﴿٣٣﴾

၃၃။ ဧကန်အမှန် ၎င်းသည် ထူးကဲမြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်အား ယုံကြည်ခဲ့သည် မဟုတ်ပေ။

وَلَا يَحُضُّ عَلَىٰ طَعَامِ الْمِسْكِينِ ﴿٣٤﴾

၃၄။ သူဆင်းရဲတို့အား ကျွေးမွေးရန် တိုက်တွန်းလေ့ရှိခဲ့သည်လည်း မရှိပေ။

فَلَيْسَ لَهُ الْيَوْمَ هَاهُنَا حَمِيمٌ ﴿٣٥﴾

၃၅။ သို့ဖြစ်ပေရာ ယနေ့ ဤနေရာတွင် ၎င်း၏ အဆွေခင်ပွန်းဟူ၍ တစ်ဦးတစ်ယောက်မျှမရှိပြီ။

وَلَا طَعَامٌ إِلَّا مِنْ غِسْلِينٍ ﴿٣٦﴾

၃၆။ (၎င်း၏အဖို့) အစားအစာဟူ၍လည်း အနာများမှထွက်သော သွေးပုပ်ပြည်ပုပ် ဆေးထားသော ရေညစ်ရေပုပ်မှတစ်ပါး အခြားမရှိပြီ။

لَا يَأْكُلُهُ إِلَّا الْخَاطِئُونَ ﴿٣٧﴾

၃၇။ ယင်းသည့် ရေညစ်ရေပုပ်ကို အပြစ်ရှိသူတို့မှတစ်ပါး မည်သူမျှ စားသုံး(သောက်မျိုး)ရမည် မဟုတ်ပေတကား။

فَلَا أُقْسِمُ بِمَا تُبْصِرُونَ ﴿٣٨﴾

၃၈။ ထို့နောက် ငါအရှင်မြတ်သည် အသင်တို့ မြင်ကြသောအရာများကို သက်သေထူတော်မူ၏။

وَمَا لَا تُبْصِرُونَ ﴿٣٩﴾

၃၉။ ထိုနည်းတူစွာ အသင်တို့ မမြင်ကြသောအရာများကို (သက်သေထူတော်မူ၏)။

إِنَّهُۥ لَقَوْلُ رَسُولٍ كَرِيمٍ ﴿٤٠﴾

၄၀။ စင်စစ်ကေန် ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် မြင့်မြတ်သောစေတမန်တစ်ပါး (ယူဆောင်လာသော အလ္လာဟ်အရှင်မြတ်)၏ အာယတ်တော်ပင်ဖြစ်၏။

وَمَا هُوَ بِقَوْلِ شَاعِرٍ ۚ قَلِيلًا مَّا تُؤْمِنُونَ ﴿٤١﴾

၄၁။ စင်စစ် ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် မည်သည့်ကဗျာဆရာ တစ်ဦးတစ်ယောက်၏ ပြောဆိုချက်မျှ မဟုတ်ပြီ။ အသင်တို့သည် အနည်းငယ်မျှသာလျှင် သက်ဝင်ယုံကြည်ကြကုန်၏။

وَلَا بِقَوْلِ كَاهِنٍ ۚ قَلِيلًا مَّا تَذَكَّرُونَ ﴿٤٢﴾

၄၂။ ထိုမှတစ်ပါး မည်သည့် ဟူးရား၊ အနာဂတ်ဟောဆရာ တစ်ဦးတစ်ယောက်၏ ပြောဆိုချက်မျှလည်း မဟုတ်ပြီ။ အသင်တို့သည် အနည်းငယ်စိုးစဉ်းမျှသာ နားလည်ကြကုန်၏။

تَنزِيلٌ مِّن رَّبِّ ٱلْعَٰلَمِينَ ﴿٤٣﴾

၄၃။ (ယင်းကုရ်အာန်ကျမ်းတော်မြတ်မှာ) စကြာဝဠာခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ထံတော်မှ ချပေးတော်မူသော (အာယတ်တော်ပင်) ဖြစ်ချေသတည်း။ [၁]

---

(၁) ကုရ်အာန်ကျမ်းမြတ်သည် စကြာဝဠာအဝှန်းကို ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်မှ ထုတ်ပြန်ချမှတ်တော်မူသော မြင့်မြတ်လှသော ကျမ်းဂန် ဓမ္မက္ခန်ဖြစ်သည်။ ယင်းကျမ်းမြတ်ကို အမြင့်မြတ်ဆုံး ကောင်းကင်တမန်တော်တစ်ပါးက အမြင့်မြတ်ဆုံးသော တမန်တော်တစ်ပါးထံသို့ ယူဆောင်ပို့သခဲ့ခြင်းဖြစ်သည်။ ကျမ်းမြတ်ကုရ်အာန်ကို ကောင်းကင်မှ ယူဆောင်လာခဲ့သော ကောင်းကင်တမန်သည် မြင့်မြတ်လှဘိသည်။ ယင်းကျမ်းမြတ်ကို ကမ္ဘာအဝှန်းသို့ ဟောကြားတော်မူခဲ့သော တမန်တော်သည်လည်း မြင့်မြတ်တော်မူလှဘိသည်။ တမန်တော် ၂–ပါးလုံးသည် မြင့်မြတ်လှဘိတကား။ တမန်တော်မြတ်၏ မြင့်မြတ်မှုကား မျက်မြင်ကိုယ်တွေ့ပင်ဖြစ်သည်။ ကောင်းကင်တမန်၏ မြင့်မြတ်မှုကိုကား တမန်တော်မြတ်က ပြောပြတော်မူသဖြင့် သိရှိရသည်။ ယင်းသို့ အတိုင်းမသိ ကြီးကဲမြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်မှ အမြင့်မြတ်ဆုံး ကောင်းကင်တမန်တစ်ပါးက အမြင့်မြတ်ဆုံးသော တမန်တော်တစ်ပါးထံသို့ ယူဆောင်ပို့သခဲ့သော ကုရ်အာန်ကျမ်းမြတ်သည် ➤➤

وَلَوْ تَقَوَّلَ عَلَيْنَا بَعْضَ الْأَقَاوِيلِ ﴿٤٤﴾

၄၄။ စင်စစ်သော်ကား အကယ်၍သာ ထို(နဗီ တမန်တော်မြတ်)သည် ငါအရှင်မြတ်အပေါ်၌ အချို့သောစကားများကို လုပ်ကြံပြောဆိုခဲ့ပါလျှင်၊

لَأَخَذْنَا مِنْهُ بِالْيَمِينِ ﴿٤٥﴾

၄၅။ အမှန်ပင် ငါအရှင်မြတ်သည် သူ၏လက်ယာလက်ကို ဖမ်းဆွဲတော်မူခဲ့ပေမည်။

ثُمَّ لَقَطَعْنَا مِنْهُ الْوَتِينَ ﴿٤٦﴾

၄၆။ ထို့နောက် ငါအရှင်မြတ်သည် သူ၏နှလုံးကြောကို ဖြတ်တောက်တော်မူခဲ့ပေမည်သာ။

فَمَا مِنْكُمْ مِنْ أَحَدٍ عَنْهُ حَاجِزِينَ ﴿٤٧﴾

၄၇။ ထိုအခါ အသင်တို့အနက် မည်သူတစ်ဦးတစ်ယောက်မျှပင် သူ့အား ယင်းပြစ်ဒဏ်မှ ကာကွယ်တားဆီးပေးနိုင်သောသူဟူ၍လည်းရှိမည်မဟုတ်ပေ၊ [၁]

---

➢➢ မက္ကာမြို့သား ကာဖိရ်များ ယိုးစွပ်ပြောဆိုခဲ့ကြသကဲ့သို့ အသို့လျှင် လက်ာဆရာတစ်ဦးတစ်ယောက်၏စကား၊ အနာဂတ်ဟော ဆရာတစ်ဦး တစ်ယောက်၏ စကား ဖြစ်နိုင်အံ့နည်း။

ဤစကြာဝဠာတွင် ပစ္စည်း ၂-မျိုး ၂-စားရှိသည်။ အချို့ပစ္စည်းများကို လူသားတို့တွေ့မြင်ကြရသည်။ အချို့ပစ္စည်းများကိုမူ မတွေ့မမြင်ကြရပေ။ တွေ့မြင်သော အရာများကို ယုံကြည်ရသကဲ့သို့၊ မတွေ့မမြင်ရသော အရာများကို ယုံကြည်ရသည်လည်း ရှိသည်။ ဥပမာ- ပထဝီမြေကြီးသည် အသူကြည့်ကြည့်၊ အသို့ပင်ကြည့်ကြည့် တည်ငြိမ်လျက်ရှိသည်ကို တွေ့မြင်ရသည်။ လှုပ်ရှားသွားလာ နေသည်ကိုမူ မတွေ့ရပေ၊ မမြင်ရပေ။ သို့တစေ ပညာရှင်များ၏ ပြောပြချက်အရ ပထဝီမြေကြီး လှုပ်ရှားသွားလာနေသည်ကို မတွေ့ရဘဲလျက်၊ မမြင်ရဘဲလျက် ယုံကြည်ကြရပေသည်။ ဤတွင် သိထားအပ်သည်မှာ ပညာရှင်များ၏ အသိပညာအမြော်အမြင်များသည် အဘယ်မျှပင် ထက်မြက်သည်၊ ပေါက်ရောက်သည်ဟု ဆိုလင့်ကစား အမှေ့အမှားကား မကင်းနိုင်ပေ။ အမှေ့အမှားလုံးဝကင်းသော အရာကား အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျရောက်လာခဲ့သော (ဝဟီ) အာယတ်တော်များသာလျှင် ဖြစ်ချေသည်။ သို့ဖြစ်ရာ ဉာဏ်မမီသောကိစ္စများတွင် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကိုသာလျှင် လုံးဝယုံကြည်အားထားကြရပေမည်။ ကျွန်ုပ်တို့သည် လူ့လောကတွင် မြောက်မြားစွာသောပစ္စည်းများကို မတွေ့မမြင်ရဘဲလျက် မျက်စိအမြင်နှင့် ဆန့်ကျင်နေပါလျက် ယုံကြည်နေကြရသည်ဖြစ်ရာ၊ မိမိတို့ဉာဏ်မမီသောကိစ္စများနှင့် စပ်လျဉ်း၍ ဂျန္နတ်၊ ဂျဟန္နမ် စသည်များနှင့်စပ်လျဉ်း၍ တမန်တော်မြတ် ဟောကြားတော်မူသည်များကို ယုံကြည်လက်ခံရာတွင် အသို့လျှင် အခက်အခဲရှိနိုင်အံ့နည်း။

(၁) အကယ်တန္တိ (မပြောကောင်း မဆိုအပ်) တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်အပေါ်တွင် အချို့သောစကားများကို လုပ်ကြံယိုးစွပ်ပြောဆိုတော်မူခဲ့သည်ရှိသော်၊ သို့တည်းမဟုတ် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များတွင် မိမိဘက်မှ လုပ်ကြံထည့်သွင်းဖြည့်စွက် ပြောကြားတော်မူခဲ့သည်ရှိသော်၊ သို့တည်းမဟုတ် အချို့အာယတ်တော်များကို ထိန်ဝှက်ထားခဲ့သည်ရှိသော် အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အားပင် ➢➢

وَإِنَّهُۥ لَتَذْكِرَةٌ لِّلْمُتَّقِينَ ﴿٤٨﴾

၄၈။ စင်စစ်သော်ကား ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် "မွတ္တကီ" သူတော်စင်တို့အဖို့ ဆုံးမဩဝါဒပင် ဖြစ်ပေသည်။

وَإِنَّا لَنَعْلَمُ أَنَّ مِنكُم مُّكَذِّبِينَ ﴿٤٩﴾

၄၉။ ၎င်းပြင် ဧကန်စင်စစ် ငါအရှင်မြတ်သည် အသင်တို့အနက် (ယင်းကုရ်အာန်ကျမ်းတော်မြတ်)ကို မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်သူများလည်း ရှိနေကြောင်း ကောင်းစွာ သိရှိတော်မူသည်။

وَإِنَّهُۥ لَحَسْرَةٌ عَلَى ٱلْكَٰفِرِينَ ﴿٥٠﴾

၅၀။ ထို့ပြင် ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် ကာဖိရ် သွေဖည်ငြင်းပယ်သူတို့နှင့် ပတ်သက်၍ ဝမ်းနည်း ကြေကွဲဖွယ်ရာပင် ဖြစ်သည်။ [၁]

---

➤➤ ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း မလွဲမသွေ အရေးယူကွပ်မျက်တော်မူမည်သာဖြစ်သည်။ ယင်းသို့ အရေးယူတော်မမူပါက အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျရောက်လာခဲ့သော အာယတ်တော်များတွင်ပင် ဒွိဟာသံသယများ ဝင်လာပေမည်၊ အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များသည်ပင်လျှင် ယုံကြည်စိတ်ချဖွယ်ရာ ဖြစ်တော့မည်မဟုတ်ပေ။ သို့ဖြစ်ရလျှင် တရားဟောကြားမှုသည် အသို့လျှင် ဖြစ်နိုင်တော့အံ့နည်း။ ဤသို့ကား အလျှင်းမဖြစ်နိုင်။

မန္တိုင်းစကောင်း ဘုရင်တစ်ပါးသည် ပုဂ္ဂိုလ်တစ်ဦးအား တိုင်းတစ်ပါးသို့ တရားဝင်ခန့်စာပေး၍ သံတမန်အဖြစ် စေလွှတ်အံ့၊ အကယ်တန္တိ ထိုသံတမန်သည် မိမိအား ခန့်အပ်လိုက်သော ဘုရင်နှင့်ပတ်သက်၍ မဟုတ်မမှန် ယိုးစွပ်ပြောဆိုအံ့၊ သို့မဟုတ် မိမိတိုင်းပြည်အပေါ်၌ သစ္စာဖောက်အံ့၊ သို့ဖြစ်လျှင် ထိုဘုရင်သည် ထိုပုဂ္ဂိုလ်အား ချက်ချင်းအရေးယူ၍ ကြီးလေးသော ပြစ်ဒဏ်စီရင်မည်သာဖြစ်အံ့။ သာမန်ဘုရင်တစ်ပါးသည်ပင် မိမိအား သစ္စာဖောက်သော သံတမန်ကို အရေးယူသည်ဖြစ်ရာ၊ အလ္လာဟ်အရှင်မြတ်သည် မိမိခန့်အပ်စေလွှတ်ထားတော်မူသော တမန်တော်တစ်ပါးပါးက အကယ်တန္တိ သစ္စာဖောက်ခဲ့သည်ရှိသော် အသို့လျှင် လျစ်လျူပြုထားတော်မူအံ့နည်း။

ဆိုလိုသည်ကား ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်ထုတ်ပြန်ချမှတ်တော်မူခဲ့သော ကျမ်းဂန်ဓမ္မက္ခန် အစစ်အမှန်ဖြစ်သည်။ တမန်တော်မြတ်သည် ကုရ်အာန်ကျမ်းမြတ်တွင် မိမိဘက်မှ တစ်လုံးတစ်ပါဒမျှပင် ထည့်သွင်းဖြည့်စွက်ထားတော်မူသည် အလျှင်းမရှိ။ (ပွင့်လေသမျှ တမန်တော်အပေါင်းတွင် မည်သည့်တမန်တော်တစ်ပါးမျှလည်း မိမိထံသို့ ကျရောက်လာခဲ့သော အာယတ်တော်များတွင် မိမိဘက်မှ တစ်လုံးတစ်ပါဒမျှ ထည့်သွင်း ဖြည့်စွက်ခဲ့ဖူးသည်ဟူ၍လည်း အလျှင်းမရှိ။)

[၁] ကုရ်အာန်ကျမ်းမြတ်သည် (မွတ္တကီ) အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားသော ပုဂ္ဂိုလ်များအဖို့ အမှန်မုချ အဆုံးအမဩဝါဒတော်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားမှုမရှိသော ကာဖိရ်များမှုကား ကုရ်အာန်ကျမ်းမြတ်ဖြင့် အသို့မျှ အကျိုးခံစားနိုင်ကြမည် မဟုတ်သည်သာမက၊ ➤➤

وَإِنَّهُۥ لَحَقُّ ٱلْيَقِينِ ﴿٥١﴾

၅၁။ ထိုမှတစ်ပါး ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် တပ်အပ်သေချာ ထင်ရှားသိမြင်နိုင်သော အမှန်တရားပင် ဖြစ်သည်။

فَسَبِّحْ بِٱسْمِ رَبِّكَ ٱلْعَظِيمِ ﴿٥٢﴾

၅၂။ သို့ဖြစ်ပေရာ (အိုး-နဗီတမန်တော်) အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော၊ ထူးကဲမြင့်မြတ်တော်မူသော၊ အရှင်မြတ်၏(နာမံတော်)ကို စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆို(ချီးမွမ်း)ပါလေ။ [၁]

➤➤ ကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍ပင် မဟုတ်မမှန် လုပ်ကြံပြောဆိုကြပေဦးမည်။ သို့ရာတွင် မကြာမီအတွင်းမှာပင် ယင်းသို့သောကာဖိရ်များသည် ကုရ်အာန်ကျမ်းမြတ်နှင့်စပ်လျဉ်း၍ ပြောမှားဆိုမှားဖြစ်ခဲ့ကြရသည့်အတွက် ကြေကွဲဝမ်းနည်းကြရပေမည်။ နောင်တ ရကြရပေမည်။ အလာကောင်းသော်လည်း အခါနှောင်းချေပြီဆိုသကဲ့သို့ အကျိုးကား ရှိမည်မဟုတ်ပေ။

(၁) အချုပ်ဆိုရသော် ကုရ်အာန်ကျမ်းမြတ်သည် မလွဲမသွေ၊ တပ်အပ်သေချာ အထင်သား၊ အမြင်သား၊ အထင်အရှား သိမြင်နိုင်သော အမှန်တရားပင်ဖြစ်သည်။ အသူ အသို့ဆိုဆို အမှန်တရားသည် အမှန်တရားပင်။ သို့ဖြစ်ရာ ယင်းသို့သော ကျမ်းမြတ်ကို နှစ်နှစ်ကာကာ သံသယကင်းစွာ ယုံကြည်ကာ၊ မိမိအား ဖန်ဆင်းမွေးမြူတော်မူသော ထူးကဲမြင့်မြတ်တော်မူသော အရှင်မြတ်အား အခါမလပ် ဂုဏ်တော်မွှန်း၍ နေရာသတည်း။

## အဆင့်အတန်းများကဏ္ဍ



ဤကဏ္ဍသည်"အလ်မအာရိဂ်ျ" "အဆင့်အတန်းများ"ကဏ္ဍမည်၏။
မက္ကာမြို့တော်၌ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၄၄)ပါး၊
ရုကူအ်အပိုဒ် (၂)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ○

အလွန်တရာ ကြင်နာသနားတော်မူသော၊
ကရုဏာတော်ရှင် ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

سَاَلَ سَآئِلٌۢ بِعَذَابٍ وَّاقِعٍۙ ①

၁။ တောင်းဆိုသူတစ်ဦးသည် ကျရောက်အံ့သော ပြစ်ဒဏ်ကို တောင်းဆို၏။

لِّلْكٰفِرِيْنَ لَيْسَ لَهٗ دَافِعٌۙ ②

၂။ ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့အပေါ် ဝယ် ယင်းပြစ်ဒဏ်ကို တွန်းလှန် ဖယ်ရှားအံ့သောသူ ဟူ၍ တစ်ဦးတစ်ယောက်မျှပင်မရှိပြီ။[၁]

مِّنَ اللّٰهِ ذِى الْمَعَارِجِۙ ③

၃။ လှေကား အဆင့်အထစ် အဆင့်အတန်းများ ကို ပိုင်ဆိုင်တော်မူသော အလ္လာဟ်အရှင်မြတ်ထံတော် မှ (ကျရောက်မည်)ဖြစ်သော။

---

(၁) တရားတော်များကို ဆက်လက်၍ သွေဖည်ငြင်းဆန်နေကြပါက အနေးနှင့်အမြန် ကာဖိရ်များထံ ပြစ်ဒဏ် သက်ရောက်လာမည့်အကြောင်း တမန်တော်မြတ်သည် ကာဖိရ်များအား သတိပေးတော်မူလေ့ရှိခဲ့၏။ ထိုအခါ ကာဖိရ်များက ပြက်ရယ်သည့်သဘောဖြင့် ပြစ်ဒဏ်အမြန်ဆိုက်ရောက်ရန် တောင်းဆိုခဲ့ကြ၏။ ကာဖိရ်များသည် ပြစ်ဒဏ်ကို တောင်းဆိုကြသည်ပင်ဖြစ်စေ၊ မတောင်းဆိုကြသည်ပင်ဖြစ်စေ၊ ပြစ်ဒဏ်သည် ၎င်းတို့၌ အမှန်မုချ ဆိုက်ရောက်မည်ပင်ဖြစ်၏။ ပြစ်ဒဏ်ဆိုက်ရောက်လာသည့်အခါ အသူမျှ ကာကွယ်ဖယ်ရှားပေးနိုင်မည်လည်း မဟုတ်ပေ၊ သို့ပါလျက် ယင်းသို့ ပြစ်ဒဏ်ကို တောင်းဆိုခြင်းမှာ ကမ်းကုန်အောင်မိုက်မဲခြင်းပင်။

تَعْرُجُ الْمَلٰٓئِكَةُ وَالرُّوْحُ اِلَيْهِ فِىْ يَوْمٍ كَانَ مِقْدَارُهٗ خَمْسِيْنَ اَلْفَ سَنَةٍ ۚ ④

၄။ မလာအိကဟ် ကောင်းကင်တမန်များသည်လည်းကောင်း၊ (ရုဟ်)အသက်ဇီဝိန်များသည်လည်းကောင်း၊ ထိုအရှင်မြတ်ထံတော်သို့ တက်ရောက်သွားကြပေသည်။ [1] အကြင်နေ့တွင် ယင်းနေ့၏ အတိုင်းအတာသည် ဤပစ္စက္ခ၏ နှစ်ပေါင်းငါးသောင်းနှင့်ညီမျှသည်။ [2]

فَاصْبِرْ صَبْرًا جَمِيْلًا ⑤

၅။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ကောင်းမွန်သောခန္တီတရားကိုထားရှိပါလေ။ [3]

اِنَّهُمْ يَرَوْنَهٗ بَعِيْدًا ۙ ⑥

၆။ ဧကန်မလွဲ ၎င်းတို့သည် ယင်းပြစ်ဒဏ်နေ့ကို ဝေးသည်ဟု မြင်ကြ၏။

وَّنَرٰىهُ قَرِيْبًا ۗ ⑦

၇။ ငါအရှင်မြတ်မှာမူ ယင်းပြစ်ဒဏ်နေ့ကို အနီးၶပင် မြင်နေတော်မူပေသတည်း။ [4]

---

(၁) ဆိုလိုသည်ကား ကောင်းကင်တမန်များနှင့် မုအ်မင်န်သူတော်စင်တို့၏ အသက်ဇီဝိန်များသည် ကောင်းကင်များကို အဆင့်ဆင့်ကျော်တက်ကာ အလ္လာဟ်အရှင်မြတ်၏ထံတော်ပါးသို့ ရောက်ရှိကြကုန်၏။ တစ်နည်း လူသားတို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို ဦးထိပ်ရွက်ပန်ဆင်ကာ ကောင်းမြတ်သော အကျင့်သီလများနှင့် ပြည့်စုံကာ ထံတော်ပါးသို့ ချဉ်းကပ်မှုဆိုင်ရာ နာမ်ပိုင်း အဆင့်အတန်းများကို ကျော်လွန်၍ ထိုအရှင်မြတ်၏ ရှေ့တော်မှောက်သို့ပင် ရောက်ရှိကြ၏။

(၂) ဤအာယတ်တော်တွင်ပါရှိသော နေ့ဟူသည် ကိယာမတ်နေ့ကိုဆိုလိုသည်။ ကိယာမတ်နေ့သည် ဤပစ္စက္ခ၏ အတိုင်းအတာအရဆိုလျှင် နှစ်ပေါင်းငါးသောင်းနှင့် ညီမျှသည်။

ကိယာမတ်နေ့သည် အတိုင်းမသိ ကြောက်မက်ဖွယ်ကောင်းလှပေသည်၊ ထိုနေ့သည် အဘယ်မျှရှည်လျားမည်ကို အလ္လာဟ်အရှင်မြတ်သာလျှင် အတိအကျ သိရှိတော်မူပေသည်။

ပြစ်မှုသောင်းခြောက်ထောင် ကျူးလွန်ထားကြသော ကာဖိရ်များအဖို့ ကိယာမတ်နေ့သည် အတိုင်းမသိရှည်လျားနေမည် ဖြစ်သော်လည်း၊ မုအ်မင်န် သူတော်စင်များအဖို့မှာကား ထိုမျှရှည်လျားသောအချိန်သည်ပင် ဖရည်သွန်ဆွလာတ် တစ်ကြိမ်ဝတ်ပြုရာတွင် အချိန်ကုန်သည်နှင့်အမျှသာ အချိန်ကြာပေမည်။ မုအ်မင်န်များသည် ကာဖိရ်များအလား စိုးရိမ်ကြောင့်ကြ ပူပန်သောက ဖြစ်ကြရမည်လည်း မဟုတ်ပေ။

ကြည့်-ကုရ်အာန်(၂း၆၂။ ၂း၂၆၂။ ၂း၂၇၄။ ၂း၂၇၇။ ၂၁း၁၀၃။ ၂၇း၈၉။)

(၃) ကာဖိရ်များသည် ပြက်ရယ်သည့်သဘောဖြင့် ပြစ်ဒဏ်ကို အလျင်စလို တောင်းဆိုနေကြသော်လည်း တမန်တော်မြတ်သည် အလျင်စလိုပြုတော်မမူရာ၊ စိတ်ပျက်တော်မမူရာ၊ ညည်းညူတော်မမူရာ၊ သည်းခံတော်မူရမည်သာ၊ တမန်တော်မြတ်၏ သည်းခံမှုနှင့် ကာဖိရ်များ၏ ပျက်ရယ်မှုသည် မကြာမီ အကောင်အထည်ပေါ်လာမည်သာ။

يَوْمَ تَكُونُ السَّمَآءُ كَالْمُهْلِ ۙ﴿٨﴾

၈။ (ယင်းပြစ်ဒဏ်သည်) အကြင်နေ့တွင် (ကျရောက်အံ့၊) ထိုနေ့တွင် မိုးကောင်းကင်မှာ ဆီအနည်အရည်ကျိုထားသော (ကြေးနီ၊ ကြေးဝါ၊ ငွေစသည့်) တွင်းထွက်သတ္တုကဲ့သို့ ဖြစ်သွားပေမည်။

وَتَكُونُ الْجِبَالُ كَالْعِهْنِ ۙ﴿٩﴾

၉။ ၎င်းပြင် တောင်များမှာ အရောင်ဆိုးထားသော သိုးမွေးများကဲ့သို့ ဖြစ်သွားပေမည်။

وَلَا يَسْـَٔلُ حَمِيمٌ حَمِيمًا ﴿١٠﴾

၁၀။ ၎င်းပြင် အဆွေခင်ပွန်း တစ်ဦးတစ်ယောက်ကမျှပင် မည်သည့်အဆွေခင်ပွန်းကိုမျှပင် မေးမြန်းမည် မဟုတ်ပေ။

يُّبَصَّرُونَهُمْ ۚ يَوَدُّ الْمُجْرِمُ لَوْ يَفْتَدِي مِنْ عَذَابِ يَوْمِئِذٍۭ بِبَنِيهِ ۙ﴿١١﴾

၁၁။ (စင်စစ်) ၎င်းတို့သည် အချင်းချင်း ပြသခြင်းကိုလည်းခံကြရပေမည်။ (ထိုနေ့တွင်) အပြစ်ရှိသောသူသည် ထိုနေ့၏ပြစ်ဒဏ်မှ (လွတ်မြောက်ရန်) မိမိသားများအားလည်းကောင်း၊

وَصَاحِبَتِهِ وَأَخِيهِ ۙ﴿١٢﴾

၁၂။ မိမိကြင်ဖော်အားလည်းကောင်း၊ မိမိညီအစ်ကိုများအားလည်းကောင်း၊

وَفَصِيلَتِهِ الَّتِي تُـْٔوِيهِ ۙ﴿١٣﴾

၁၃။ မိမိအား ခိုလှုံနေထိုင်ရာနေရာပေးသောဆွေမျိုးသားချင်းကိုလည်းကောင်း၊ [1]

وَمَن فِي الْأَرْضِ جَمِيعًا ثُمَّ يُنجِيهِ ۙ﴿١٤﴾

၁၄။ ပထဝီမြေဝယ် ရှိကုန်သောသူ အားလုံးတို့အားလည်းကောင်း၊ အစားထိုး လျော်ကြေးပေးပြီးနောက် ထိုလျော်ကြေးသည် မိမိအား လွတ်မြောက်စေလျှင်ကောင်းလေစွဟု အာသာဆန္ဒရှိပေမည်။

---

⑨ ကိယာမတ်နေ့နှင့်စပ်လျဉ်း၍ ကာဖိရ်များက ဤသည်မဖြစ်နိုင်၊ ဉာဏ်မမီ၊ အသိဉာဏ်နှင့် အလွန်ကွာဝေးသည်ဟု ထင်မှန်နေကြသည်။ အမှန်မှာ ကိယာမတ်သည် မဖြစ်နိုင်သော အရာလည်းမဟုတ်၊ ဉာဏ်မမီသောအရာလည်း မဟုတ်၊ အသိဉာဏ်နှင့် အလွန်ကွာဝေးသည်လည်း မဟုတ်၊ ကိယာမတ်သည် အမှန်ဖြစ်မည်၊ မုချဖြစ်မည်၊ မကြာမီဖြစ်တော့မည်။ မဝေးလှတော့ပြီ၊ နီးကပ်လျက်ရှိချေပြီ။

① ဤအာယတ်တော်တွင်ပါရှိသော "ဖဆီလဟ်" ဟူသောပုဒ်ကို ပညာရှင်များသည် မျိုးနွယ်ဟူ၍လည်းကောင်း၊ သားချင်းဟူ၍လည်းကောင်း၊ မိခင်ဟူ၍လည်းကောင်း အမျိုးမျိုးအနက်ဖွင့်ဆိုကြသည်။ ကြည့်-ဣဗ်နုကဆီရ်။

كَلَّا ۖ إِنَّهَا لَظَىٰ ﴿١٥﴾

၁၅။ (ထိုသို့) အလျှင်း မဖြစ်နိုင်ပေ။ ဧကန်စင်စစ် ယင်း(ငရဲမီး)မှာ ဟုန်းဟုန်းတောက်လျက်ရှိသော

نَزَّاعَةً لِّلشَّوَىٰ ﴿١٦﴾

၁၆။ အရေကို ခွာပစ်အံ့သော မီးတောက်မီးလျှံပင် ဖြစ်ပေသည်။

تَدْعُوا مَنْ أَدْبَرَ وَتَوَلَّىٰ ﴿١٧﴾

၁၇။ ယင်းမီးကား (လောကီဘဝ၌ အီမာန်သက်ဝင် ယုံကြည်ခြင်းမပြုဘဲ) မျက်နှာလွှဲ ကျောခိုင်း၍ ထွက်သွားခဲ့သော၊

وَجَمَعَ فَأَوْعَىٰ ﴿١٨﴾

၁၈။ (ပစ္စည်းဥစ္စာ) စုဆောင်း၍ လုံခြုံစွာ သိုမှီး ထိန်းသိမ်းခဲ့သောသူများအား ခေါ်ယူပေမည်။ [၁]

إِنَّ الْإِنسَانَ خُلِقَ هَلُوعًا ﴿١٩﴾

၁၉။ စင်စစ်ဧကန် "မနုဿ" လူသားမှာ လွန်စွာ စိတ်စောသူ၊ သည်းမခံနိုင်သောသူအဖြစ် ဖန်ဆင်းခြင်းကို ခံခဲ့ရလေ၏။

إِذَا مَسَّهُ الشَّرُّ جَزُوعًا ﴿٢٠﴾

၂၀။ ၎င်း၌ဘေးဒုက္ခသက်ရောက်သောအခါ လွန်စွာ ညည်းညူတတ်သူ ဖြစ်၏။

وَإِذَا مَسَّهُ الْخَيْرُ مَنُوعًا ﴿٢١﴾

၂၁။ သို့ရာတွင် ၎င်း၌ ချောင်လည်မှု ကောင်းစားမှု သက်ရောက်သောအခါ လွန်စွာ တွန့်တိုစေးနဲတတ်သူ ဖြစ်၏။ [၂]

---

(၁) လူ့လောကတွင်ရှိစဉ် အမှန်တရားကိုကျောခိုင်းခဲ့သော၊ အမိန့်တော်ကို သွေဖည်ခဲ့သော၊ လောဘရမ္မက်ကြီးစွာဖြင့် ဥစ္စာပစ္စည်း စုဆောင်း၍ သိုလှောင်ထိမ်းသိမ်းခဲ့သော ကာဖိရ်များကို ကိယာမတ်နေ့တွင် ဂျဟန္နမ်ငရဲကပင် တစ်ဦးချင်းခေါ်ယူပေမည်။ မြေမှ တိရစ္ဆာန်များ အစာကောက်ယူသကဲ့သို့ ငရဲသည် သက်ဆိုင်ရာတို့အား ကောက်ယူပေမည်။ ငရဲကား ကြောက်ဖွယ်ပါတကား၊ ကြည့်-အွတ်ဆ်မာနီ၊ ဣဗ်နုကဆီရ်။

(၂) ဤအာယတ်တော်တွင်ပါရှိသော "လူသား" ဟူသည် ကာဖိရ်ကို ဆိုလိုသည်။ အဘယ်ကြောင့်ဆိုသော် ကာဖိရ်လူသား၏အကြောင်း နောက်တွင် တစ်ဆက်တည်း မုအ်မင်န်များ၏ အကြောင်းကို မိန့်ဆိုထားတော်မူသည်။

ကာဖိရ်သည် အလွန်စိတ်စောသည်၊ သတ္တိကြောင်သည်၊ သည်းမခံနိုင်၊ ဤသည် စိတ်စောမှု၊ သတ္တိကြောင်မှု၊ သည်းမခံနိုင်မှုသည် မူလဗီဇ သဘာဝအလျောက်မဟုတ်၊ ယင်း၏စေတနာအလျောက် ရွေးချယ်ပြုလုပ်မှု၊ ဆည်းပူးမှု၏ အကျိုးဆက်ပင်ဖြစ်သည်။ ကာဖိရ်သည် ဘေးဒုက္ခဖြစ်လျှင် အတိုင်းထက်အလွန် ညည်းညူတတ်သည်။ သုခချမ်းသာဖြစ်လျှင် တစ်ပြားတစ်ချိမ်းမျှ မလှူဒါန်းလိုပေ၊ လွန်စွာစေးနဲသည်။ ▷▷

إِلَّا الْمُصَلِّينَ ۝٢٢

၂၂။ သို့ရာတွင် “ဆွလာတ်” ဝတ်ပြုသူတို့မှာမူ ကား (ထိုကဲ့သို့ မဟုတ်ကြချေ။)

الَّذِينَ هُمْ عَلَىٰ صَلَاتِهِمْ دَائِمُونَ ۝٢٣

၂၃။ အကြင်(“ဆွလာတ်” ဝတ်ပြုသူ)တို့သည် မိမိတို့၏“ဆွလာတ်”ဝတ်ပြုမှုပေါ်၌ စွဲမြဲလျက် ရှိကြကုန်၏။

وَالَّذِينَ فِي أَمْوَالِهِمْ حَقٌّ مَّعْلُومٌ ۝٢٤

၂၄။ ၎င်းပြင် အကြင်(“ဆွလာတ်”ဝတ်ပြု)သူတို့သည် ၎င်းတို့၏ပစ္စည်းဥစ္စာများ၌ သိရှိသတ်မှတ်ပြီးဖြစ်သော အခွင့်အရေးသည်ရှိပေ၏။

لِّلسَّائِلِ وَالْمَحْرُومِ ۝٢٥

၂၅။ တောင်းရမ်းသောသူ၏အဖို့လည်းကောင်း၊ (သိက္ခာကိုစောင့်စည်းသောအားဖြင့်) တောင်းရမ်းခြင်းမပြုသောသူ၏အဖို့လည်းကောင်း၊

وَالَّذِينَ يُصَدِّقُونَ بِيَوْمِ الدِّينِ ۝٢٦

၂၆။ ထို့ပြင် အကြင်(ဆွလာတ်ဝတ်ပြု)သူတို့သည် အစားပေးမည့်နေ့ကို ဟုတ်မှန်သည်ဟု ယုံကြည်ထောက်ခံကြကုန်၏။

وَالَّذِينَ هُم مِّنْ عَذَابِ رَبِّهِم مُّشْفِقُونَ ۝٢٧

၂၇။ ထို့ပြင် အကြင်(ဆွလာတ်ဝတ်ပြု)သူတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အပြစ်ဒဏ်ကို ကြောက်ရွံ့စိုးရိမ်လျက် ရှိကြကုန်၏။

إِنَّ عَذَابَ رَبِّهِمْ غَيْرُ مَأْمُونٍ ۝٢٨

၂၈။ စင်စစ်ဧကန် ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ ပြစ်ဒဏ်မှာ စိုးရိမ်ခြင်းကင်းစွာ နေထိုင်နိုင်သော အရာမဟုတ်ပြီ။

وَالَّذِينَ هُمْ لِفُرُوجِهِمْ حَافِظُونَ ۝٢٩

၂၉။ ၎င်းပြင် အကြင်(ဆွလာတ်ဝတ်ပြု)သူတို့သည် မိမိတို့၏အရှက်အင်္ဂါများကို ထိန်းသိမ်းကြကုန်၏။

---

▶▶ ဤသည် ကာဖိရ်၏အကျင့်အမူပင်၊ စရိုက်ပင်။ ရှေ့တွင် မုအ်မင်န်များ၏ ဂုဏ်ရည်များကို မိန့်ဆိုထားတော်မူသည်။ ကြည့်-မာဂျိဒီ။

إِلَّا عَلَىٰٓ أَزْوَٰجِهِمْ أَوْ مَا مَلَكَتْ أَيْمَٰنُهُمْ فَإِنَّهُمْ غَيْرُ مَلُومِينَ ٣٠

၃၀။ မိမိတို့၏ ဇနီးမိန်းမများမှတစ်ပါး၊ သို့တည်းမဟုတ် မိမိတို့၏လက်ယာလက်များက ပိုင်ဆိုင်သော (တရားဝင်) ကျွန်မိန်းမများမှတစ်ပါး၊ အကြောင်းသော်ကား (မိမိတို့၏ ဇနီးမိန်းမများနှင့်သော်လည်းကောင်း၊ တရားဝင်ကျွန်မိန်းမများနှင့်သော်လည်းကောင်း၊ ကာယသံသဂ္ဂ ပြုခြင်းအားဖြင့်) ၎င်းတို့မှာ ကဲ့ရဲ့ပြစ်တင်ခြင်း ခံထိုက်သောသူများ မဟုတ်သောကြောင့်ပင်။

فَمَنِ ٱبْتَغَىٰ وَرَآءَ ذَٰلِكَ فَأُو۟لَٰٓئِكَ هُمُ ٱلْعَادُونَ ٣١

၃၁။ သို့ရာတွင် ထို(ဇနီးမိန်းမများ သို့မဟုတ် တရားဝင် ကျွန်မိန်းမများ)မှတစ်ပါးကို တောင့်တရှာဖွေကြကုန်သောသူများမှာကား (တရားတော်၏) စည်းကမ်းကို ဖောက်ဖျက် ကျူးလွန်သောသူများပင် ဖြစ်ကြကုန်၏။

وَٱلَّذِينَ هُمْ لِأَمَٰنَٰتِهِمْ وَعَهْدِهِمْ رَٰعُونَ ٣٢

၃၂။ ထို့ပြင် အကြင်(ဆွလာတ်ဝတ်ပြု)သူတို့သည် မိမိတို့ ယုံကြည်လွှဲအပ်ခြင်းခံကြရသည်တို့ကိုလည်းကောင်း၊ မိမိတို့၏ ကတိဝန်ခံချက်များကိုလည်းကောင်း၊ စောင့်စည်း ထိန်းသိမ်းသူများပင် ဖြစ်ကြကုန်၏။

وَٱلَّذِينَ هُم بِشَهَٰدَٰتِهِمْ قَآئِمُونَ ٣٣

၃၃။ ထို့ပြင် အကြင်(ဆွလာတ်ဝတ်ပြု)သူတို့သည် မိမိတို့၏ သက်သေခံချက်များကို တိကျမှန်ကန်စွာ ထွက်ဆိုကြကုန်၏။

وَٱلَّذِينَ هُمْ عَلَىٰ صَلَاتِهِمْ يُحَافِظُونَ ٣٤

၃၄။ ထိုမှတစ်ပါး အကြင်(ဆွလာတ်ဝတ်ပြု)သူတို့သည် မိမိတို့၏"ဆွလာတ်"ဝတ်ပြုမှုကို အမြဲမပြတ် စောင့်ထိန်းကြကုန်၏။

أُولَٰٓئِكَ فِى جَنَّٰتٍ مُّكْرَمُونَ ﴿٣٥﴾

၃၅။ ထိုသူတို့ကား“ဂျန္နတ်”သုခဘုံများဝယ် ဂုဏ်အသရေရှိစွာ စံစားကြရကုန်အံ့သတည်း။ [၁]

فَمَالِ ٱلَّذِينَ كَفَرُوا۟ قِبَلَكَ مُهْطِعِينَ ﴿٣٦﴾

၃၆။ သို့ဖြစ်ပေရာ ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့သည် မည်သည့်အကြောင်းကြောင့် အသင့်ဘက်သို့ လျှင်မြန်စွာ ပြေးလာလျက်ရှိကြသနည်း။

عَنِ ٱلْيَمِينِ وَعَنِ ٱلشِّمَالِ عِزِينَ ﴿٣٧﴾

၃၇။ လက်ယာဘက်မှလည်းကောင်း၊ လက်ဝဲဘက်မှလည်းကောင်း၊ အဖွဲ့လိုက်၊ အဖွဲ့လိုက်၊

أَيَطْمَعُ كُلُّ ٱمْرِئٍ مِّنْهُمْ أَن يُدْخَلَ جَنَّةَ نَعِيمٍ ﴿٣٨﴾

၃၈။ ၎င်းတို့အနက် လူတိုင်းသည် စည်းစိမ်ချမ်းသာနှင့် ပြည့်စုံလျက်ရှိသော ဂျန္နတ်သုခဘုံသို့ ဝင်ရောက်ရန် အလိုရမ္မက် ရှိလေသလော။ [၂]

---

① ဤအာယတ်တော်တွင် မုအ်မင်န်များ၏ ဂုဏ်ရည်(၈)ခုကို အထူးတလည် ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။ ဆွလာတ်ဝတ်ပြုမှုမှ စတင်တော်မူသည်၊ ဆွလာတ်ဝတ်ပြုမှုနှင့်ပင် အဆုံးသတ်ထားတော်မူသည်။ ဤသည်ကို ထောက်ရှုခြင်းအားဖြင့် ဆွလာတ်ဝတ်ပြုမှုသည် အဘယ်မျှ အရေးကြီးလှသည်ကို ကောင်းစွာသိနိုင်ပေသည်။ သင်းသည့် ဂုဏ်ရည်များနှင့်ပြည့်စုံသော မုအ်မင်န်တစ်ဦးသည် ကာဖိရ်အလား အသို့လျှင် သတ္တိကြောင်အံ့နည်း၊ စိတ်စောနိုင်အံ့နည်း၊ အသို့လျှင် သည်းမခံဘဲရှိနိုင်အံ့နည်း၊ အသို့လျှင် စေးနဲနိုင်အံ့နည်း။ မုအ်မင်န်သည် အလ္လာဟ်အရှင်မြတ်အပေါ်၌ သစ္စာရှိသည်၊ ဆွလာတ်ဝတ်ပြုမှုကို မှန်ကန်တိကျစွာ စောင့်စည်းသည်၊ ဆင်းရဲသူဆင်းရဲသားတို့အား ပေးကမ်းလှူဒါန်းသည်၊ ကျိုး-ပြစ် စီရင်မည့် ကိယာမတ်နေ့ကို ယုံကြည်ထောက်ခံသည်။ အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ကို အခါခပ်သိမ်း ကြောက်ရွံ့ကာနေသည်၊ မိမိ၏ ကာယိန္ဒြေကို ထိန်းသိမ်းသည်၊ မိမိထံ အပ်နှံထားသောအရာကို သက်ဆိုင်ရာတို့အား ရိုးသားစွာ ပြန်အပ်သည်၊ ကတိတည်သည်၊ သက်သေထွက်ဆိုရန်ရှိက ရိုးသားဖြောင့်မတ် မှန်ကန်စွာ ထွက်ဆိုသည်။ ဤသည် မုအ်မင်န်၏ ဂုဏ်ရည်များပင်။ ယင်းသို့သောဂုဏ်ရည်များနှင့် ပြည့်စုံသော မုအ်မင်န်များသည် ဂျန္နတ်သုခဘုံများတွင် ဂုဏ်ရှိရှိ သိက္ခာရှိရှိ စံစားကြရမည်ပင်။

② ဆိုလိုသည်ကား တမန်တော်မြတ်က ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်၍ ဂျန္နတ်နှင့် ဂျဟန္နမ်အကြောင်း ဟောကြားတော်မူသည့်အခါ ကာဖိရ်များသည် တမန်တော်မြတ်ထံသို့ အုပ်စုဖွဲ့ကာ ပြေး၍လာကြသည်။ ၎င်းနောက် ပြက်ရယ်သမှုပြုကြသည်။ ကာဖိရ်များသည် တစ်ဘက်တွင် ကုရ်အာန်ကျမ်းလာ တရားတော်များကို ပြက်ရယ်ပြုကြသည်၊ အခြားတစ်ဘက်တွင် ဂျန္နတ်ကိုလည်း မျှော်မှန်းကြသည်။ ကြည့်-ကုရ်အာန်(၄၁း၅၀)

အလ္လာဟ်အရှင်မြတ်အား အသက်ထက်ဆုံး ပုန်ကန်နေသော ကာဖိရ်များက ထိုအရှင်၏ ဂျန္နတ်ဥယျာဉ်မြတ်ကို မျှော်မှန်းခြင်းမှာ လားလားမျှ မစပ်အပ်သောအရာကို မျှော်မှန်းခြင်းပင်၊ ကာဖိရ်နှင့် ဂျန္နတ်အဘယ်မှာလျှင် ဆက်စပ်ရအံ့နည်း။

كَلَّا ۖ إِنَّا خَلَقْنَاهُم مِّمَّا يَعْلَمُونَ ﴿٣٩﴾

၃၉။ အလျှင်းမဟုတ်၊ ဧကန်အမှန် ငါအရှင်မြတ်သည် ၎င်းတို့အား ၎င်းတို့ သိရှိကြသောအရာဖြင့် (ပင်) ဖန်ဆင်းထားတော်မူသည်။

فَلَا أُقْسِمُ بِرَبِّ الْمَشَارِقِ وَالْمَغَارِبِ إِنَّا لَقَادِرُونَ ﴿٤٠﴾

၄၀။ သို့ဖြစ်ပေရာ နေထွက်ရာအရပ်များကိုလည်းကောင်း၊ နေဝင်ရာ အရပ်များကိုလည်းကောင်း၊ ဖန်ဆင်းတော်မူသော ငါအရှင်မြတ်သည် ကျိန်ဆို၍ မိန့်ကြားတော်မူ၏။ ဧကန်မလွဲ ငါအရှင်မြတ်သည် တတ်စွမ်းနိုင်တော်မူသော အရှင်မြတ်ပင်။ [၁]

عَلَىٰ أَن نُّبَدِّلَ خَيْرًا مِّنْهُمْ وَمَا نَحْنُ بِمَسْبُوقِينَ ﴿٤١﴾

၄၁။ ၎င်းတို့၏အစား ၎င်းတို့ထက်သာလွန်မြင့်မြတ်သောသူအား လဲလှယ်တော်မူရန်။ စင်စစ်သော်ကား ငါအရှင်မြတ်သည် မစွမ်းဆောင်နိုင်တော်မူသောအရှင်မြတ် မဟုတ်ပေ။

فَذَرْهُمْ يَخُوضُوا وَيَلْعَبُوا حَتَّىٰ يُلَاقُوا يَوْمَهُمُ الَّذِي يُوعَدُونَ ﴿٤٢﴾

၄၂။ သို့ဖြစ်ပေရာ (အို-နဗီတမန်တော်) အသင်သည် ထိုသူတို့အား မိမိတို့ချိန်းဆိုခြင်း ခံကြရလေသောနေ့နှင့် ရင်ဆိုင်တွေ့ဆုံကြသည်အထိ အချည်းနှီးသောစကားများ ပြောဆိုကြလျက်ရှိကြရန်လည်းကောင်း၊ ကစားခုန်စားလျက် ရှိကြရန်လည်းကောင်း၊ စွန့်ထားပါလေ။

---

(၁) ဆိုလိုသည်ကား နေထွက်ရာအရပ်နှင့် နေဝင်ရာအရပ်သည် နေ့စဉ်နှင့်အမျှ ပြောင်းလဲလျက်ရှိ၏။ ဤသည် အထင်အရှားပင်။ ဤသည် အလ္လာဟ်အရှင်မြတ်၏ စီစဉ်ဖန်တီးမှုပင်။ နေထွက်ရာ အရပ်နှင့် နေဝင်ရာအရပ်ကို နေ့စဉ်နှင့်အမျှ ပြောင်းလဲပေးတော်မူသော အရှင်မြတ်သည် ဤပစ္စက္ခမှာပင် လက်ရှိ ကာဖိရ်များ၏နေရာတွင် ၎င်းတို့ထက် အဘက်ဘက်မှ ကောင်းမွန်မြင့်မြတ်သောသူများကိုလည်း ဖန်ဆင်းတော်မူနိုင်ပေသည်။ မက္ကာမြို့သား ကုရိုက်ရ်မျိုးနွယ်၏နေရာတွင် မဒီနာမြို့မှ "အန်ဆွာရ်" ထွန်းကားလာခဲ့ကြသည်မှာလည်း ဤအာယတ်တော်၏ လက်တွေ့အထောက်အထားတစ်ရပ်ပင်။

နေထွက်ရာအရပ်များ၊ နေဝင်ရာအရပ်များအကြောင်း ကုရ်အာန်(၃၇:၅)တွင် ပါရှိခဲ့ချေပြီ၊ သက်ဆိုင်ရာအဖွင့်များကိုလည်း ရေးသားခဲ့ပေပြီ။ ကုရ်အာန်(၅၅:၁၇)၏အဖွင့်တွင်လည်း ဤအကြောင်းကို ရေးသားခဲ့ပေပြီ။ ပြန်လည်ရှုပါကုန်။

يَوْمَ يَخْرُجُونَ مِنَ الْأَجْدَاثِ سِرَاعًا كَأَنَّهُمْ إِلَىٰ نُصُبٍ يُوفِضُونَ ﴿٤٣﴾ خَاشِعَةً أَبْصَارُهُمْ تَرْهَقُهُمْ ذِلَّةٌ ۚ ذَٰلِكَ الْيَوْمُ الَّذِي كَانُوا يُوعَدُونَ ﴿٤٤﴾

၄၃။ ၎င်းတို့သည် ပူဇော်ပသရာသို့ ပြေး၍နေကြဘိသကဲ့သို့ပင် သင်္ချိုင်းများမှထွက်၍ လျင်မြန်စွာ ပြေးကြအံ့သောနေ့နှင့်၊

၄၄။ ၎င်းတို့၏ မျက်စိများမှာ အောက်သို့စိုက်၍ နေကြပေမည်။ ဂုဏ်ရည်သိမ်ဖျင်းမှုသည် ၎င်းတို့အား ဖုံးလွှမ်းလျက် ရှိပေမည်။ ထိုသည် ၎င်းတို့ချိန်းဆိုခြင်း ခံခဲ့ရသောနေ့ပင် ဖြစ်ပေသတည်း။ [၁]

(၁) ဆိုလိုသည်ကား ပြန်လည်ရှင်ပြန်ထကြရမည့်အကြောင်း၊ ကိယာမတ်နေ့တွင် ကျိုးပြစ်ခံ၊ စံကြရမည့်အကြောင်း နှင့်စပ်လျဉ်း၍ အထောက်အထားများ အထင်အရှား ရှိနေပါလျက် ကာဖိရ်များ မလိုမုန်းတီး၍ သွေဖည်ငြင်းဆန် နေကြပါက၊ တမန်တော်မြတ်သည် ယင်းသို့သော ကာဖိရ်များအား မလွှဲမရှောင်သာ စွန့်ထားတော်မူရမည်သာ။ ၎င်းတို့သည် မကြာမီအတွင်း ချိန်းချက်ထားသော ကိယာမတ်နေ့နှင့် ရင်ဆိုင်တွေ့ကြရပေမည်။ ထိုအခါ မိမိတို့ ဖွတ်မိုက်ငြင်းဆိုခဲ့ကြသော ကိယာမတ်နေ့၏အကြောင်း ကောင်းကောင်းကြီး သိရှိသွားကြပေမည်။ ဤသည့်သဘော ကုရ်အာန်ကျမ်းမြတ်တွင် အကြိမ်ကြိမ်ပါရှိသည်။ ကြည့်-ကုရ်အာန်(၃၆:၅၁-၆၇)။

# တမန်တော် နူဟ် ကဏ္ဍ

سُوْرَةُ نُوْحٍ

ဤကဏ္ဍသည်တမန်တော်နူဟ်ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၂၈)ပါး၊ ရကူအ် (၂)ပိုဒ်အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အလွန်တရာ ကြင်နာသနားတော်မူသော၊
ကရုဏာတော်ရှင် ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

إِنَّآ أَرْسَلْنَا نُوْحًا إِلٰى قَوْمِهٖٓ أَنْ أَنْذِرْ قَوْمَكَ مِنْ قَبْلِ أَنْ يَّأْتِيَهُمْ عَذَابٌ أَلِيْمٌ ①

၁။ ဧကန်စင်စစ် ငါအရှင်မြတ်သည် (နဗီတမန်တော်)နူဟ်အား ၎င်း၏အမျိုးသားတို့ထံ စေလွှတ်တော်မူခဲ့၏။ အသင်သည် မိမိအမျိုးသားတို့အား၊ ၎င်းတို့ထံ နာကျင်ဖွယ်ဖြစ်သောပြစ်ဒဏ် ဆိုက်ရောက်၍မလာမီ သတိပေးပါလေ။

قَالَ يٰقَوْمِ إِنِّيْ لَكُمْ نَذِيْرٌ مُّبِيْنٌ ②

၂။ ထို(နဗီတမန်တော်)နူဟ်က ပြောကြားခဲ့သည်မှာ- မိမိအမျိုးသားတို့အား "အို-ငါ၏အမျိုးသားတို့၊ ဧကန်မလွဲ ငါသည် အသင်တို့အဖို့ ထင်ရှားစွာ သတိပေး နှိုးဆော်သူဖြစ်သည်။

أَنِ اعْبُدُوا اللّٰهَ وَاتَّقُوْهُ وَأَطِيْعُوْنِ ③

၃။ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်ကြလေကုန်၊ အသင်တို့သည် ထိုအရှင်မြတ်အား ကြောက်ရွံ့ကြလေကုန်၊ အသင်တို့သည် ငါ၏အမိန့်ကို နာခံကြလေကုန်။

يَغْفِرْ لَكُمْ مِّنْ ذُنُوْبِكُمْ وَيُؤَخِّرْكُمْ إِلٰٓى أَجَلٍ مُّسَمًّى ۚ إِنَّ أَجَلَ اللّٰهِ

၄။ ထိုအရှင်မြတ်သည် အသင်တို့၏ပြစ်မှုဒုစရိုက်များကို ခွင့်လွှတ်ချမ်းသာပေးတော်မူမည့်ပြင် ထိုအရှင်မြတ်သည် အသင်တို့အား သတ်မှတ်ပြဋ္ဌာန်းပြီးဖြစ်သော အချိန်ကာလတိုင်အောင် ရွှေ့ဆိုင်းခွင့် ပေးတော်မူပေမည်။

إِذَا جَآءَ لَا يُؤَخَّرُ لَوْ كُنتُمْ تَعْلَمُونَ ④

မလွဲဧကန် အလ္လာဟ်အရှင်မြတ် ပြဋ္ဌာန်းတော်မူသောအချိန်ကာလသည် ဆိုက်ရောက်လာသောအခါ ရွှေ့ဆိုင်း၍ရမည် မဟုတ်ပေ။ အကယ်၍ အသင်တို့သည် (ဤသည်ကို) သိရှိကြပါလျှင် ကောင်းလေစွတကား။"

قَالَ رَبِّ إِنِّي دَعَوْتُ قَوْمِي لَيْلًا وَنَهَارًا ⑤

၅။ (ထို့နောက်) ထို(နဗီတမန်တော်"နူဟ်")သည် (ဤသို့)လျှောက်ထားခဲ့၏။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ဧကန်အမှန် ကျွန်တော်မျိုးသည် မိမိအမျိုးသားတို့အား နေ့ညဉ့် (မပြတ်) ဖိတ်ခေါ်ခဲ့ပါ၏။

فَلَمْ يَزِدْهُمْ دُعَآءِيٓ إِلَّا فِرَارًا ⑥

၆။ သို့တစေလည်း ကျွန်တော်မျိုး၏ဖိတ်ခေါ်ချက်သည် ၎င်းတို့၌ ထွက်ပြေးတိမ်းရှောင်မှုကိုသာလျှင် တိုးတက်စေခဲ့ပါ၏။

وَإِنِّي كُلَّمَا دَعَوْتُهُمْ لِتَغْفِرَ لَهُمْ جَعَلُوٓا أَصَابِعَهُمْ فِيٓ ءَاذَانِهِمْ وَاسْتَغْشَوْا ثِيَابَهُمْ وَأَصَرُّوا وَاسْتَكْبَرُوا اسْتِكْبَارًا ⑦

၇။ ထိုမှတစ်ပါး အရှင်မြတ်သည် ၎င်းတို့အား ခွင့်လွှတ်တော်မူအံ့သောငှာ မည်သည့်အခါမျိုးမဆို ကျွန်တော်မျိုးသည် ၎င်းတို့အား ဖိတ်ခေါ်ခဲ့ပါလျှင် ၎င်းတို့သည် မိမိတို့၏လက်ချောင်းများကို မိမိတို့နားများ၌ ထည့်သွင်းထားခဲ့ကြပါ၏။ ထို့ပြင် ၎င်းတို့သည် မိမိတို့၏အဝတ်များကို (မိမိတို့ကိုယ်များပေါ်၌) လွှမ်းခြုံ ဖုံးအုပ်ထားခဲ့ကြပါ၏။ ထို့ပြင် ၎င်းတို့သည် (မိမိတို့၏ သွေဖည်ငြင်းပယ်မှုပေါ်၌) ဇွတ်မိုက်၍သာ နေခဲ့ကြသည့်ပြင် လွန်စွာ မာန်မာနထောင်လွှားခြင်းကိုလည်း ပြုခဲ့ကြပါ၏။

ثُمَّ إِنِّي دَعَوْتُهُمْ جِهَارًا ⑧

၈။ ထို့နောက် ကျွန်တော်မျိုးသည် စင်စစ်ဧကန် ၎င်းတို့အား အသံကျယ်စွာ ဖိတ်ခေါ်ခဲ့ပါ၏။

ثُمَّ إِنِّي أَعْلَنتُ لَهُمْ وَأَسْرَرْتُ لَهُمْ إِسْرَارًا ⑨

၉။ ထို့နောက် အမှန်စင်စစ် ကျွန်တော်မျိုးသည် ၎င်းတို့အား ပွင့်လင်းထင်ရှားစွာ ကြေညာ၍လည်း ဖိတ်ခေါ်ခဲ့ပါ၏။ ထိုမှတစ်ပါး ကျွန်တော်မျိုးသည် ၎င်းတို့အား လျှို့ဝှက်စွာဖိတ်ခေါ်မှုလည်း ပြုခဲ့ပါ၏။

فَقُلْتُ اسْتَغْفِرُوا رَبَّكُمْ إِنَّهُ كَانَ غَفَّارًا ⑩

၁၀။ ထိုကဲ့သို့ ဖိတ်ခေါ်ရာတွင် (၎င်းတို့အား ဤသို့) ပြောကြားခဲ့ပါ၏။ (အချင်းတို့) အသင်တို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အထံတော်၌ လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြား အသနားခံကြလေကုန်။

မလွဲဧကန် ထိုအရှင်မြတ်သည် အလွန်တရာ ခွင့်လွှတ်ချမ်းသာ ပေးသနားတော်မူသောအရှင် ဖြစ်တော်မူ၏။

يُرْسِلِ السَّمَاءَ عَلَيْكُم مِّدْرَارًا ⑪

၁၁။ ထိုအရှင်မြတ်သည် အသင်တို့အပေါ်ဝယ် မြောက်မြားစွာ ရွာသွန်းသောမိုးကို စေလွှတ်တော်မူပေမည်။

وَيُمْدِدْكُم بِأَمْوَالٍ وَبَنِينَ وَيَجْعَل لَّكُمْ جَنَّاتٍ وَيَجْعَل لَّكُمْ أَنْهَارًا ⑫

၁၂။ ၎င်းပြင် ထိုအရှင်မြတ်သည် အသင်တို့အား ပစ္စည်းဥစ္စာများ (ချီးမြှင့်တော်မူခြင်းအား)ဖြင့်လည်းကောင်း၊ သား(သမီး)များ (ချီးမြှင့်တော်မူခြင်းအား) ဖြင့်လည်းကောင်း၊ စောင်မ ကူညီတော်မူပေမည်။ ထို့ပြင် အသင်တို့အဖို့ ဥယျာဉ်များကို ဖန်ဆင်း၍ ပေးသနားတော်မူသည့်ပြင် အသင်တို့အဖို့ ချောင်းများကိုလည်း စီးတွေစေတော်မူပေမည်။

مَّا لَكُمْ لَا تَرْجُونَ لِلَّهِ وَقَارًا ⑬

၁၃။ အသင်တို့၌ မည်သည့် အကြောင်းရှိ၍ အလ္လာဟ်အရှင်မြတ်၏ ထူးကဲမြင့်မြတ်မှုကို မယုံကြည်ကြသနည်း။

وَقَدْ خَلَقَكُمْ أَطْوَارًا ﴿١٤﴾

၁၄။ စင်စစ်ကေန် ထိုအရှင်မြတ်သည် အသင်တို့အား (ရုပ်ဆင်းသဏ္ဌာန်) အမျိုးမျိုးနှင့်၊ နည်းအမျိုးမျိုး(ပြောင်း၍ အဆင့်ဆင့်)ဖန်ဆင်းတော်မူခဲ့၏။

أَلَمْ تَرَوْا كَيْفَ خَلَقَ اللَّهُ سَبْعَ سَمَاوَاتٍ طِبَاقًا ﴿١٥﴾

၁၅။ အလ္လာဟ်အရှင်မြတ်သည် မိုးခုနစ်ခုကို မည်သို့မည်ပုံ အထပ်ထပ် ဖန်ဆင်းတော်မူခဲ့သည်ကို အသင်တို့သည် လေ့လာဆင်ခြင် တွေ့မြင်ခဲ့ကြသည် မဟုတ်လော။

وَجَعَلَ الْقَمَرَ فِيهِنَّ نُورًا وَجَعَلَ الشَّمْسَ سِرَاجًا ﴿١٦﴾

၁၆။ ၎င်းပြင် ထိုအရှင်မြတ်သည် ယင်းမိုးများ၌ "လ"ကို လင်းရောင်ခြည် ဖြစ်စေတော်မူခဲ့၏။ ထို့ပြင် "နေ"ကို မီးရှူးမီးတိုင် ပြုလုပ်တော်မူခဲ့၏။

وَاللَّهُ أَنْبَتَكُمْ مِنَ الْأَرْضِ نَبَاتًا ﴿١٧﴾

၁၇။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့အား အထူးနည်းမျိုးနှင့် မြေဖြင့်ဖန်ဆင်းတော်မူခဲ့၏။

ثُمَّ يُعِيدُكُمْ فِيهَا وَيُخْرِجُكُمْ إِخْرَاجًا ﴿١٨﴾

၁၈။ ထို့နောက်တစ်ဖန် ထိုအရှင်မြတ်သည် အသင်တို့အား ယင်းပထဝီမြေထဲသို့ပင် ပြန်ရောက်စေတော်မူပေမည်။ ထို့နောက်တစ်ဖန် အသင်တို့အား (ယင်းမြေထဲမှ) အပြင်သို့ ထွက်စေတော်မူပေမည်။

وَاللَّهُ جَعَلَ لَكُمُ الْأَرْضَ بِسَاطًا ﴿١٩﴾

၁၉။ ထိုမှတစ်ပါး အလ္လာဟ်အရှင်မြတ်သည် အသင်တို့အကျိုးငှာ ပထဝီမြေကို အခင်းအကျင်း ပြုလုပ်တော်မူခဲ့၏။

لِتَسْلُكُوا مِنْهَا سُبُلًا فِجَاجًا ﴿٢٠﴾

၂၀။ သို့မှသာလျှင် အသင်တို့သည် ယင်းပထဝီမြေ၏ လမ်းကျယ်များဝယ် သွားလာနိုင်ကြကုန်အံ့သတည်း။ [၁]

---

(၁) တမန်တော်နူဟ်(အလိုင်ဟစ္စလာမ်)သည် မိမိ၏အမျိုးသားများအား နှစ်ပေါင်း(၉၅၀)တိုင်တိုင် နေ့ညဥ့်မပြတ် တရားဟောကြား၍ နေတော်မူခဲ့၏။ နောက်ဆုံးတွင် တမန်တော် နူဟ်သည် မိမိ၏အမျိုးသားများဘက်မှ မျှော်လင့်ချက် ကုန်ဆုံးသွားသည့်အခါ အလ္လာဟ်အရှင်မြတ်ထံတော်၌ ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း လျှောက်ထားတော်မူခဲ့လေသည်။

قَالَ نُوحٌ رَّبِّ إِنَّهُمْ عَصَوْنِي وَاتَّبَعُوا مَن لَّمْ يَزِدْهُ مَالُهُ وَوَلَدُهُ إِلَّا خَسَارًا ﴿٢١﴾

၂၁။ (နဗီတမန်တော်) "နူဟ်"သည် လျှောက်ထားခဲ့လေ၏။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ ဧကန်အမှန် ထို ကျွန်တော်မျိုး၏အမျိုးသားတို့သည် ကျွန်တော်မျိုးအား ဖီဆန်၍ အကြင်သူတို့၏နောက်သို့ လိုက်သွားခဲ့ကြပါသည်။ ထိုသူတို့၌ ထိုသူတို့၏ ပစ္စည်းဥစ္စာသည်လည်းကောင်း၊ ထိုသူတို့၏ သားသမီးများသည်လည်းကောင်း၊ ဆုံးရှုံးမှုကိုသာလျှင် တိုးပွားစေခဲ့ကြပါသည်။

وَمَكَرُوا مَكْرًا كُبَّارًا ﴿٢٢﴾

၂၂။ ထို့ပြင် ကျွန်တော်မျိုး၏ အမျိုးသားတို့သည် လွန်စွာ ကြီးကျယ်လှစွာသော အကြံအစည်များကို ကြံစည်ခဲ့ကြပါ၏။

وَقَالُوا لَا تَذَرُنَّ آلِهَتَكُمْ وَلَا تَذَرُنَّ وَدًّا وَلَا سُوَاعًا وَلَا يَغُوثَ وَيَعُوقَ وَنَسْرًا ﴿٢٣﴾

၂၃။ ၎င်းပြင် ထို ကျွန်တော်မျိုး၏အမျိုးသားတို့သည် (လက်အောက်ငယ်သား လူ့ဗာလတို့အား ဤသို့) ပြောဆိုခဲ့ကြပါသည်။ (အချင်းတို့၊) အသင်တို့ သည် မိမိတို့၏ ကိုးကွယ်ရာများကို စွန့်ပယ်၍ အလျှင်း မထားကြကုန်လင့်။ ၎င်းပြင် အသင်တို့သည် "ဝဒ္ဒ" ဆင်းတုကိုလည်း အလျှင်း မစွန့်ပယ်ကြကုန်လင့်၊ "ဆုဝါအ်" ဆင်းတုကိုလည်း စွန့်ပယ်ခြင်း မပြုကြကုန်လင့်၊ ထိုမှတစ်ပါး "ယဂူဆ်" ဆင်းတုကိုလည်းကောင်း၊ "ယအူက်" ဆင်းတုကိုလည်းကောင်း၊ "နတ်စ်ရ်" ဆင်းတုကိုလည်းကောင်း၊ စွန့်ပယ်ခြင်းကိုမပြုကြကုန်လင့်။ [၁]

---

(၁) ဤအာယတ်တော်တွင်ပါရှိသည့် "ဝဒ္ဒ" "စုဝါအ်" "ယဂူဆ်" "ယအူက်" "နတ်စ်ရ်" အစရှိသည့် အမည်များမှာ တမန်တော်နူဟ် (အလိုင်ဟစ္စလာမ်)၏ အမျိုးသားများ ဆည်းကပ်ကိုးကွယ်လေ့ရှိကြသော ဆင်းတုများ၏ အမည်များဖြစ်ပေသည်။ အရဗ်အမျိုးသားများသည်လည်း နောက်ပိုင်းတွင် ယင်း ဆင်းတုများကို ကိုးကွယ်လာခဲ့ကြပေသည်။ ကြည့်-ဣဗ်နကဆီရ်။

وَقَدْ أَضَلُّوا كَثِيرًا ۖ وَلَا تَزِدِ الظَّالِمِينَ إِلَّا ضَلَالًا ﴿٢٤﴾

၂၄။ အမှန်စင်စစ်သော်ကား ၎င်းတို့သည် မြောက်မြားစွာသောသူတို့အား လမ်းလွဲစေခဲ့ကြပါသည်။ (သို့ဖြစ်ပါ၍) အရှင်မြတ်သည် မတရားသောသူတို့၌ လမ်းလွဲမှုကိုသာလျှင် တိုးပွားစေတော်မူပါ။

مِّمَّا خَطِيئَاتِهِمْ أُغْرِقُوا فَأُدْخِلُوا نَارًا فَلَمْ يَجِدُوا لَهُم مِّن دُونِ اللَّهِ أَنصَارًا ﴿٢٥﴾

၂၅။ ၎င်းတို့သည် မိမိတို့၏ပြစ်မှုတို့ကြောင့်ပင် နစ်မြုပ်စေခြင်းကို ခံခဲ့ကြရလေ၏။ တစ်ဖန် ၎င်းတို့သည် ငရဲမီးထဲသို့ ဝင်ရောက်စေခြင်းကို ခံခဲ့ကြရကုန်၏။ သို့ဖြစ်ပေရာ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်နှင့် ယှဉ်ပြိုင်၍ ကူညီစောင်မအံ့သောသူများဟူ၍ တစ်ဦးတစ်ယောက်မျှပင် တွေ့ရှိခဲ့ကြသည်မဟုတ်ပေ။

وَقَالَ نُوحٌ رَّبِّ لَا تَذَرْ عَلَى الْأَرْضِ مِنَ الْكَافِرِينَ دَيَّارًا ﴿٢٦﴾

၂၆။ ၎င်းပြင် (နဗီတမန်တော်)နူဟ်က (ဤသို့) လျှောက်ထား ပန်ကြားခဲ့ပြန်၏။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ပထဝီမြေဝယ် ကာဖိရ် သွေဖည်ငြင်းပယ်သောသူတို့အနက် မည်သည့်နေထိုင်သူ တစ်ဦးတစ်ယောက်ကိုမျှ ချန်ထားတော်မမူပါနှင့်။

إِنَّكَ إِن تَذَرْهُمْ يُضِلُّوا عِبَادَكَ وَلَا يَلِدُوا إِلَّا فَاجِرًا كَفَّارًا ﴿٢٧﴾

၂၇။ မလွဲကေန် အကယ်၍ အရှင်မြတ်သည် ၎င်းတို့အား ချန်ထားတော်မူပါလျှင် ၎င်းတို့သည် အရှင်မြတ်၏ ကျွန်များအား လမ်းလွဲစေကြမည်သာမက ၎င်းတို့သည် လွန်စွာကျေးဇူးကန်း သွေဖည်ငြင်းပယ်အံ့သော၊ အကျင့်စာရိတ္တ ဖောက်ပြန်အံ့သော၊ သူတို့ကိုသာလျှင် မွေးဖွားကြမည်ဖြစ်ပါသည်။ [၁]

---

(၁) တမန်တော်နူဟ်(အလိုင်ဟစ္စလာမ်)သည် မိမိ၏အမျိုးသားများအား ကျိုးကြောင်းပြ၍ နှစ်ပရိစ္ဆေဒ မြောက်များစွာ တရားဟောကြားခဲ့သည်ဖြစ်ရာ၊ မိမိ၏အမျိုးသားများ၏ စိတ်နေသဘောထားကို ကောင်းစွာသိရှိနားလည်ထားခဲ့၏။ မိမိအမျိုးသားများ၏ အတွင်းဓာတ်ခံသည် အပျက်စီးကြီး ပျက်စီးနေကြပြီဖြစ်ရာ၊ တရားဟောကြားသည်နှင့်အမျှ မိမိ၏ အမျိုးသားများသည် ပို၍ပို၍ လွဲမှားလာကြသည်၊ ပို၍ပို၍ ဆိုးရွားလာကြသည်။ ပို၍ပို၍ သွေဖည်ဆန့်ကျင်လာကြသည်ကိုလည်း တွေ့မြင်နေခဲ့၏။ ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျရောက်လာသော ➤➤

رَبِّ اغْفِرْ لِي وَلِوَالِدَيَّ وَلِمَن دَخَلَ بَيْتِيَ مُؤْمِنًا وَلِلْمُؤْمِنِينَ وَالْمُؤْمِنَاتِ وَلَا تَزِدِ الظَّالِمِينَ إِلَّا تَبَارًا ﴿٢٨﴾

၂၈။ အို-ကျွန်တော်မျိုးအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုးအားလည်းကောင်း၊ ကျွန်တော်မျိုး၏မိဘနှစ်ပါးတို့အားလည်းကောင်း၊ ကျွန်တော်မျိုး၏အိမ်၌ မုအ်မင်န်သက်ဝင်ယုံကြည်သူအဖြစ်နှင့် ဝင်ရောက်သောသူတို့အားလည်းကောင်း၊ "မုအ်မင်န်" ယောကျာ်းအပေါင်းတို့အားလည်းကောင်း၊ "မုအ်မင်န်" မိန်းမအပေါင်းတို့အားလည်းကောင်း၊ (အပြစ်တို့မှ) ခွင့်လွှတ်ချမ်းသာပေးသနားတော်မူပါ။ [၁] ၎င်းပြင် အရှင်မြတ်သည် မတရားသောသူတို့၌မူကား ပျက်စီးမှုကိုသာလျှင် တိုးပွားစေတော်မူပါ။

---

➤➤ (ဝဟီ)အမိန့်တော်အရလည်း မိမိ၏အမျိုးသားများ (အီမာန်) သက်ဝင်ယုံကြည်ကြတော့မည် မဟုတ်ကြောင်းကိုလည်း သိနှင့်ထားခဲ့၏။ ကြည့်-ကုရ်အာန်(၁၁း၃၆)

ယင်းသို့သော အမျိုးသားများအား ကမ္ဘာတွင် ဆက်လက်ထားရှိပါက ၎င်းတို့၏ရောဂါသည် သူတစ်ပါးတို့သို့ပင် ကူးစက်လာမည်ဖြစ်သည်ကိုလည်း တမန်တော်နူဟ်သည် ရိပ်စားမိခဲ့၏။ သို့အတွက်ကြောင့်ပင် တမန်တော်နူဟ်(အလိုင်ဟစ္စလာမ်)သည် မိမိ၏အမျိုးသားများနှင့်ပတ်သက်၍ ဤအာယတ်တော်များတွင်လာရှိသည့်အတိုင်း ဆုပန်ကြားခဲ့ခြင်းဖြစ်လေသည်။ တမန်တော်မူစာ(အလိုင်ဟစ္စလာမ်) သည်လည်း ဖစ်ရ်အောင်န်နှင့်ပတ်သက်၍ ဤနည်းနှင်နှင်ပင် ဆုပန်ကြားခဲ့လေ၏။ ကြည့်-ကုရ်အာန်(၁၀း၈၈း၈၉)။ အွတ်ဆ်မာနီ။ မာဂျိဒီ။

(၁) တမန်တော်နူဟ်(အလိုင်ဟစ္စလာမ်)သည် မိမိ၏အမျိုးသားများအနက်၊ ကာဖိရ်များနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ဤကမ္ဘာမှ လုံးဝသုတ်သင်သန့်ရှင်းပစ်တော်မူပါမည့် အကြောင်း ဆုပန်ကြားပြီးနောက် မိမိအားလည်းကောင်း၊ မိမိ၏ မိဘနှစ်ပါးအားလည်းကောင်း၊ မိမိအိမ်တွင် မုအ်မင်န်အဖြစ်နှင့် ဝင်ထွက်သွားလာနေကြသော အိမ်သူအိမ်သား မိတ်ဆွေများအားလည်းကောင်း၊ ကမ္ဘာအဝှန်းရှိ မုအ်မင်န်အမျိုးသား၊ အမျိုးသမီးတို့အားလည်းကောင်း၊ ချမ်းသာခွင့် ပေးသနားတော်မူပါမည့်အကြောင်း ဆုပန်ကြားခဲ့လေသည်။

# ဂျင်န် ကဏ္ဍ



ဤကဏ္ဍသည်"ဂျင်န်"ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော်(၂၈)ပါး၊ ရကူအ်(၂)ပိုဒ်အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ ကြင်နာသနားတော်မူသော၊
ကရုဏာတော်ရှင်ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

قُلْ اُوْحِيَ اِلَيَّ اَنَّهُ اسْتَمَعَ نَفَرٌ مِّنَ الْجِنِّ فَقَالُوْٓا اِنَّا سَمِعْنَا قُرْاٰنًا عَجَبًا ۙ﴿١﴾

၁။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ ငါ့ထံ၀ယ် ဤသို့ "ဝဟ်ယ်" အမိန့်တော် ထုတ်ပြန်ခြင်း ခံခဲ့ရလေသည်။ ကေန်စင်စစ် ဂျင်န် တစ်စုသည် (ကုရ်အာန်ကျမ်းတော်မြတ်)ကို ကြားနာခဲ့ကြလေ၏။ ထို့နောက် ၎င်းတို့သည် (မိမိတို့ ဂျင်န် အမျိုးသားတို့ထံ ပြန်သွားခဲ့ရာ ဤသို့) ပြောကြားခဲ့ကြလေ၏။ (အချင်းတို့၊) ကေန်မလွဲ ကျွန်ုပ်တို့သည် အံ့သြဖွယ်ဖြစ်သော ကုရ်အာန်ကျမ်းမြတ်ကို ကြားနာခဲ့ကြရ၏။ [၁]

يَّهْدِيْٓ اِلَى الرُّشْدِ فَاٰمَنَّا بِهٖ ۭ وَلَنْ نُّشْرِكَ بِرَبِّنَآ اَحَدًا ۙ﴿٢﴾

၂။ ယင်းကုရ်အာန်ကျမ်းတော်မြတ်သည် ဖြောင့်မှန်သော တရားလမ်းကို ညွှန်ပြသည်ဖြစ်ရာ ကျွန်ုပ်တို့သည် ထိုကုရ်အာန်ကျမ်းတော်မြတ်ကို သက်ဝင်ယုံကြည်ခဲ့ကြလေပြီ။ ၎င်းပြင် ကျွန်ုပ်တို့သည် မည်သူတစ်ဦးတစ်ယောက်ကိုမျှပင် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ်ကြမည် မဟုတ်ပြီ။

---

(၁) တစ်ရက်၊ တမန်တော်မြတ်သည် မိမိ၏ တပည့်သားအချို့တို့နှင့်အတူ နံနက်ချိန်တွင် "ဆွလာတုလ်ဖဂျ်ရ် ဝတ်ပြုနေတော်မူခဲ့၏။ ထိုအချိန်တွင် "ဂျင်န်" တစ်စုသည် တမန်တော်မြတ်ရှိရာသို့ ရောက်ရှိလာခဲ့ကြ၏။ ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကြားနာခွင့် ရရှိသွားခဲ့၏။ ထိုအခါ အဆိုပါ ဂျင်န်များသည် အီမာန် သက်ဝင်ယုံကြည်၍ လာခဲ့ကြလေသည်။ ▶▶

وَّاَنَّهٗ تَعٰلٰى جَدُّ رَبِّنَا مَا اتَّخَذَ صَاحِبَةً وَّلَا وَلَدًا ۙ﴿۳﴾

၃။ ထို့ပြင် ကေန်မုချ ကျွန်ုပ်တို့အား ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်၏ ဂုဏ်ကျက်သရေသည် မြင့်မြတ်လှ၏။ ထိုအရှင်မြတ်သည် မည်သူတစ်ယောက်ကိုမျှ ကြင်ရာကြင်ဖက်အဖြစ် ရွေးကောက်တင်မြှောက်တော်မူခဲ့သည်လည်း မရှိပေ။ သားသမီးအဖြစ် ပြုလုပ်တော်မူခဲ့သည်လည်း မရှိချေ။

وَّاَنَّهٗ كَانَ يَقُوْلُ سَفِيْهُنَا عَلَى اللّٰهِ شَطَطًا ۙ﴿۴﴾

၄။ ၎င်းပြင် ဧကန်အမှန် ကျွန်ုပ်တို့အနက် အသိဉာဏ်ခေါင်းပါးသူတို့သည် အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ လုံးဝမတရားသော စကားများကို ပြောဆိုလေ့ရှိခဲ့ကြ၏။ [၁]

وَّاَنَّا ظَنَنَّاۤ اَنْ لَّنْ تَقُوْلَ الْاِنْسُ وَالْجِنُّ عَلَى اللّٰهِ كَذِبًا ۙ﴿۵﴾

၅။ ၎င်းပြင် ဧကန်စင်စစ် ကျွန်ုပ်တို့မှာမူကား လူသားတို့သည်လည်းကောင်း၊ ဂျင်န်တို့သည်လည်းကောင်း၊ အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ အလျှင်းမုသားစကားကို ပြောဆိုကြမည်မဟုတ်ဟု ထင်မှတ်နေခဲ့ကြကုန်၏။

وَّاَنَّهٗ كَانَ رِجَالٌ مِّنَ الْاِنْسِ يَعُوْذُوْنَ بِرِجَالٍ مِّنَ الْجِنِّ فَزَادُوْهُمْ رَهَقًا ۙ﴿۶﴾

၆။ ထို့ပြင် အမှန်စင်စစ် လူသားအချို့တို့သည် ဂျင်န်အချို့တို့၏ထံတွင် ခိုလှုံလေ့ရှိခဲ့ကြပေရာ ထိုလူသားတို့သည် ၎င်းဂျင်န်များ၏ပုန်ကန်မှုကို ပိုကဲစေခဲ့ကြကုန်၏။ [၂]

---

➤➤ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ်(၄၆း၂၉-၃၂)တွင် ပါရှိခဲ့ပြီ၊ သက်ဆိုင်ရာအဖွင့်များကိုလည်း အကျယ်ရေးသားခဲ့ပေပြီ။ ဂျင်န်သတ္တဝါများအကြောင်း ကုရ်အာန်တွင် အကြိမ်ကြိမ် ပါရှိသည်။

(၁) လူသားတို့တွင် အယူအဆ လွဲမှားမှုများ ရှိသကဲ့သို့၊ ဂျင်န်များတွင်လည်း ရှိခဲ့၏။ လူသားတို့တွင် အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ မဟုတ်မမှန် လုပ်ကြံယိုးစွပ်ပြောဆိုသူများရှိသကဲ့သို့ ဂျင်န်များတွင်လည်း ရှိခဲ့ကြ၏။ လူ့ဗာလများရှိသကဲ့သို့ ဂျင်န်ဗာလများလည်း ရှိခဲ့ကြ၏။ ဂျင်န်များတွင် အကြီးဆုံး ဂျင်န်ဗာလမှာ ဣဗ်လီစ်ပင်ဖြစ်ခဲ့၏။ ဤအာယတ်တော်တွင် "စဖီဟုနာ" ကျွန်ုပ်တို့၏ ဗာလဟူသည် ဣဗ်လီစ်ကိုပင် ရည်ညွှန်းဟန်တူသည်။

(၂) အရဗ်အမိုက်ခေတ်တွင် လူများသည် မျက်ကွယ်သတင်းများကို ဂျင်န်များထံမှ မေးမြန်းလေ့ရှိခဲ့ကြ၏။ ဂျင်န်များထံ ပူဇော်ပသလေ့ရှိခဲ့ကြ၏။ ကြောက်မက်ဖွယ်ကောင်းသော တောင်ကြားဒေသများသို့ ဖြတ်သန်း➤➤

وَّاَنَّهُمْ ظَنُّوْا كَمَا ظَنَنْتُمْ اَنْ لَّنْ يَّبْعَثَ اللّٰهُ اَحَدًا ۟ۙ

၇။ ထိုမှတစ်ပါး ဧကန်မလွဲ ထိုဂျင်န်များမှာ အသင်တို့ ထင်မြင်ယူဆကြသကဲ့သို့ပင် အလ္လာဟ် အရှင်မြတ်သည် မည်သူ တစ်ဦးတစ်ယောက်ကိုမျှ ရှင်ပြန်ထစေတော်မူမည်မဟုတ်၊ (စေလွှတ်တော်မူမည် မဟုတ်)ဟူ၍ပင် ထင်မြင်ယူဆခဲ့ကြကုန်သတည်း၊ [၁]

وَّاَنَّا لَمَسْنَا السَّمَآءَ فَوَجَدْنٰهَا مُلِئَتْ حَرَسًا شَدِيْدًا وَّشُهُبًا ۟ۙ

၈။ ထို့ပြင် ဧကန်စင်စစ် ကျွန်ုပ်တို့သည် မိုးကောင်းကင်ကို စူးစမ်းခဲ့ကြရာ ယင်းမိုးကောင်းကင်ကို ကျွန်ုပ်တို့သည် သန်စွမ်းသော အစောင့်အကြပ်တို့ဖြင့် လည်းကောင်း၊ မီးကျီမီးခဲတို့ဖြင့် ပြည့်နှက်စွာ တွေ့ရှိခဲ့ကြရကုန်၏။

وَّاَنَّا كُنَّا نَقْعُدُ مِنْهَا مَقَاعِدَ لِلسَّمْعِ ؕ فَمَنْ يَّسْتَمِعِ الْاٰنَ يَجِدْ لَهٗ شِهَابًا رَّصَدًا ۟ۙ

၉။ ၎င်းပြင် ဧကန်အမှန် ကျွန်ုပ်တို့သည် ယင်းမိုးကောင်းကင်မှ (သတင်းများ)နားထောင်ရန် ထိုင်ရာနေရာများတွင် (သွား)ထိုင်လေ့ရှိခဲ့ကြကုန်၏။ ယခုသော် မည်သူမဆို (သွားရောက်)နားထောင်သည်ရှိသော် မီးကျီမီးခဲတစ်ခုကို မိမိအား အသင့် စောင့်လျက် (ကြိုနေသည်ကို) တွေ့ရှိရပေမည်။ [၂]

---

➤➤ သွားကြသည့်အခါ "ကျွန်ုပ်တို့သည် ဤတောင်ကြားဒေသရှိ ဂျင်န်များ၏အကြီးအကဲထံ ခိုလှုံကြပါသည်"ဟု ဆိုလေ့ရှိခဲ့ကြ၏။ ယင်းသို့ လူများက ဂျင်န်များကို ဆရာတင်လာကြသည့်အခါ ပူဇော်ပသလာကြသည့်အခါ၊ ခိုလှုံလာခဲ့ကြသည့်အခါ ဂျင်န်များသည် မိမိတို့ကိုယ်ကို မိမိတို့ ပို၍ပင် အထင်ကြီးလာခဲ့ကြ၏။ အတင့်ရဲလာခဲ့ကြ၏။ ပို၍မောက်မာ ပလွှားလာခဲ့ကြ၏။ ကုရ်အာန်ကျမ်းမြတ် ကျရောက်လာသည့်အခါကျမှ အဆိုပါ အယူအဆ လွဲမှားမှုများသည် ကင်းစင်သွားခဲ့လေသည်။

(၁) မွတ်စ်လင်မ် ဂျင်န်များက မိမိတို့၏ အမျိုးသားများအား ပြောပြခဲ့ကြသည်မှာ အလ္လာဟ်အရှင်မြတ်သည် မည်သူကိုမျှ သေပြီးနောက် အလျှင်းရှင်ပြန်ထ စေတော်မူမည်မဟုတ်ဟု အသင်တို့ ထင်မှတ်၍နေကြသကဲ့သို့ များစွာသော လူသားတို့သည်လည်း ယင်းသို့ပင် ထင်မှတ်နေကြသည်။ (တစ်နည်း) အလ္လာဟ်အရှင်မြတ်သည် နောက်နောင် မည်သူ့ကိုမျှ တမန်တော်အဖြစ် အလျှင်းစေလွှတ်တော်မူမည် မဟုတ်ဟု အသင်တို့ ထင်မှတ်နေကြသကဲ့သို့ များစွာသော လူသားတို့သည်လည်း ယင်းသို့ပင် ထင်မှတ်နေကြသည်။ ယခုသော် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကြားနာရခြင်းအားဖြင့် အလ္လာဟ်အရှင်မြတ်သည် အမြင့်မြတ်ဆုံး တမန်တော်မြတ်အား ပွင့်ပေါ်တော်မူပြီးဖြစ်ကြောင်း၊ သေပြီးနောက် ပြန်လည်ရှင်ပြန်ထကြရမည်ဖြစ်ကြောင်း၊ ကျိုးပြစ် ခံစံကြရမည်ဖြစ်ကြောင်း၊ ငါတို့ ကောင်းကောင်း သိကြရပြီ။ ကြည့်- ဣဗ်နုကဆီရ်။

وَّاَنَّا لَا نَدۡرِيۡۤ اَشَرٌّ اُرِيۡدَ بِمَنۡ فِى الۡاَرۡضِ اَمۡ اَرَادَ بِهِمۡ رَبُّهُمۡ رَشَدًا ﴿۱۰﴾

၁၀။ သို့ရာတွင် ကမ္ဘာသူကမ္ဘာသားတို့နှင့် ပတ်သက်၍ အဆိုးကို ရည်စူးထားပြီး ဖြစ်လေသလော၊ သို့တည်းမဟုတ် ၎င်းတို့နှင့်ပတ်သက်၍ ၎င်းတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် တရားလမ်းမှန်ရရှိရေးကို ရည်စူးတော်မူပါသလော။ (ဤသည်ကို) ကျွနုပ်တို့သိရှိကြသည်မဟုတ်ပေတကား၊ [၁]

وَّاَنَّا مِنَّا الصّٰلِحُوۡنَ وَمِنَّا دُوۡنَ ذٰلِكَ‌ؕ كُنَّا طَرَآئِقَ قِدَدًا ﴿۱۱﴾

၁၁။ ၎င်းပြင် ဧကန်အမှန် ကျွနုပ်တို့တွင် အချို့မှာ သူတော်ကောင်းများဖြစ်ကြ၏။ ကျွနုပ်တို့တွင် အချို့မှာ ထိုမှတစ်ပါးသောသူများ ဖြစ်ကြကုန်၏။ (စင်စစ်သော်ကား)ကျွနုပ်တို့သည် ဂိုဏ်းဂဏအမျိုးမျိုး ဖြစ်ခဲ့ကြကုန်၏။

وَّاَنَّا ظَنَنَّاۤ اَنۡ لَّنۡ نُّعۡجِزَ اللّٰهَ فِى الۡاَرۡضِ وَلَنۡ نُّعۡجِزَهٗ هَرَبًا ﴿۱۲﴾

၁၂။ သို့ရာတွင် စင်စစ်ဧကန် ကျွနုပ်တို့သည် အလ္လာဟ်အရှင်မြတ်အား ပထဝီမြေပေါ်၌လည်း မစွမ်းဆောင်နိုင်အောင် အလျှင်းပြုလုပ်နိုင်ကြမည် မဟုတ်ကြောင်းကိုလည်းကောင်း၊ (ပထဝီမြေမှ) ထွက်ပြေးတိမ်းရှောင်ခြင်းအားဖြင့်လည်း ထိုအရှင်မြတ်အား မစွမ်းဆောင်နိုင်အောင် အလျှင်း ပြုလုပ်နိုင်ကြမည် မဟုတ်ကြောင်းကိုလည်းကောင်း၊ သိရှိပြီးဖြစ်ခဲ့ကြလေပြီ။

---

(၂) ဂျင်န်များနှင့် ရှိုင်တွာန်များသည် တစ်ချိန်က ကောင်းကင်ကိုတက်၍ အထက်ကမ္ဘာ၏ သတင်းများကို ခိုးဝှက်နားထောင်လေ့ရှိခဲ့ကြသည်။ ယခုသော် ခိုးဝှက်နားထောင်သူများကို သက်ဆိုင်ရာ အစောင့်အကြပ်များက မီးတောက်မီးလျှံများဖြင့် ပစ်ပေါက်သဖြင့် ရှိုင်တွာန်များနှင့် ဂျင်န်များသည် ကောင်းကင်သို့ မတက်နိုင်ကြတော့ပေ။ သတင်းလည်း မရယူနိုင်ကြတော့ပေ။

ဤအကြောင်း ကုရ်အာန်(၁၅း၁၇-၁၈)တွင်လည်းကောင်း၊ (၃၇း၆-၁၀)တွင်လည်းကောင်းပါရှိခဲ့ချေပြီ။ သက်ဆိုင်ရာအဖွင့်များကိုလည်းအကျယ်ရေးသားခဲ့ပေပြီ။

(၁) အထက်တွင်ပါရှိသည့်အတိုင်း ဂျင်န်များသည် ယခင်က ကောင်းကင်သို့တက်၍ အထက်ကမ္ဘာ၏ သတင်းများကို ခိုးဝှက် နားထောင်နိုင်ခဲ့ကြသော်လည်း၊ ယခုသော် ကောင်းကင်တွင် အစောင့်အကြပ်များ စနစ်တကျစောင့်ကြပ်လျက်ရှိကြပြီ၊ ထိုအခါ ဂျင်န်များက ဤအာယတ်တော်တွင်လာရှိသည့်အတိုင်း ➤➤

وَّاَنَّا لَمَّا سَمِعْنَا الْهُدٰٓى اٰمَنَّا بِهٖ ؕ فَمَنْ يُّؤْمِنْۢ بِرَبِّهٖ فَلَا يَخَافُ بَخْسًا وَّلَا رَهَقًا ﴿۱۳﴾

၁၃။ ထို့ပြင် ဧကန်ဆတ်ဆတ် ကျွန်ုပ်တို့သည် တရားလမ်းညွှန်(တည်းဟူသော ကုရ်အာန်ကျမ်းတော် မြတ်)ကို ကြားနာကြရသောအခါ ကျွန်ုပ်တို့သည် ယင်းတရားလမ်းညွှန်(တည်းဟူသော ကုရ်အာန်ကျမ်း တော်မြတ်)ကို သက်ဝင်ယုံကြည်လာခဲ့ကြသည်။ စင်စစ်သော်ကား မည်သူမဆို မိမိအား ဖန်ဆင်းမွေး မြူတော်မူသောအရှင်မြတ်အား သက်ဝင်ယုံကြည်ပါ လျှင် ထိုသူသည် မည်သည့် လျော့နည်းစေမှုကိုမျှ လည်း စိုးရိမ်ရမည် မဟုတ်ပေ၊ မည်သည့် အဓမ္မမှု ကိုမျှလည်း စိုးရိမ်ရမည် မဟုတ်ပေ။

وَّاَنَّا مِنَّا الْمُسْلِمُوْنَ وَمِنَّا الْقٰسِطُوْنَ ؕ فَمَنْ اَسْلَمَ فَاُولٰٓئِكَ تَحَرَّوْا رَشَدًا ﴿۱۴﴾

၁၄။ ထိုမှတစ်ပါး ဧကန်မလွဲ ကျွန်ုပ်တို့တွင် အချို့မှာ မုစ်လင်မ်(အမိန့်တော်ကို လိုက်နာသူ)များ ဖြစ်ကြကုန် ၏။ ထိုနည်းတူစွာ ကျွန်ုပ်တို့တွင် အချို့မှာ မတရား သောသူများ ဖြစ်ကြကုန်၏။ စင်စစ် "အစ္စလာမ်" သာသနာတော်ကို လက်ခံသောသူတို့ သည် လမ်းမှန်ကို ရှာဖွေ ရရှိခဲ့ကြသောသူများပင် ဖြစ်ကြကုန်၏။

وَاَمَّا الْقٰسِطُوْنَ فَكَانُوْا لِجَهَنَّمَ حَطَبًا ﴿۱۵﴾

၁၅။ သို့ရာတွင် မတရားသော သူတို့မှာကား 'ဂျဟန္နမ်'ငရဲ၏ လောင်စာများပင်ဖြစ်ကြကုန်၏။ [၁]

---

➤➤ "ကောင်းကင်တွင် ယခုအစောင့်အကြပ်များသည် အဘယ်ကြောင့် ကျပ်တည်းစွာ စောင့်ကြပ်နေကြပါသနည်း၊ တမန်တော်မြတ် ပွင့်တော်မူချေပြီ၊ ကုရ်အာန်ကျမ်းမြတ်လည်း ကျရောက်လာချေပြီ။ အဆိုပါ အစောင့်အကြပ်သည် ဤသည်တို့ ကြောင့်ပင် ဖြစ်သည်။ အကျိုးဆက်ကား အသို့ရှိအံ့နည်း။ ကမ္ဘာသူကမ္ဘာသားတို့သည် အမြင်မှန်ရကာ ကုရ်အာန်ကျမ်းလာ တရားတော်များကို နာယူကျင့်မူ၍ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို ခိုလှုံကြ ရမည်လော။ သို့တည်းမဟုတ်၊ ကုရ်အာန်ကျမ်းလာ တရားတော်များကို သွေဖည်ကြသည့်အတွက် ပြစ်ဒဏ် ခတ်တော်မူခြင်းပင် ခံကြရမည်လော၊ အလ္လာဟ်အရှင်မြတ်ပင်သိတော်မူသည်။ ကျွန်ုပ်တို့မူ မသိကြပေ။" ဟု ထုတ်ဖော်ပြောဆိုခဲ့ကြလေသည်။

(၁) ကုရ်အာန်ကျမ်းမြတ်(၇၂း၁-၁၅)တွင် မွတ်စ်လင်မ်ဂျင်န်များအချင်း ပြောဆိုခဲ့ကြသည့်စကားရပ်များကို ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။ ရှေ့တွင် ဆက်လက်၍ အလ္လာဟ်အရှင်မြတ်သည် အချို့တရားတော်များကို မိန့်ကြားထားတော်မူသည်။

وَّاَنۡ لَّوِ اسۡتَقَامُوۡا عَلَى الطَّرِيۡقَةِ لَاَسۡقَيۡنٰهُمۡ مَّآءً غَدَقًا ۙ﴿۱۶﴾

၁၆။ စင်စစ်သော်ကား အကယ်၍သာ ၎င်းတို့သည် (တရား)လမ်း(မှန်)ပေါ်၌ တည်ကြည်ဖြောင့်မတ်ကြွခိုင်စွာတည်တံ့ခဲ့ကြလျှင် အမှန်ပင် ငါအရှင်မြတ်သည် ၎င်းတို့အား လှိုင်လှိုင်ရှိသော (ဖောဖောသီသီရှိသော)ရေကို တိုက်ကျွေးတော်မူမည်ဖြစ်၏။

لِّنَفۡتِنَهُمۡ فِيۡهِ ؕ وَمَنۡ يُّعۡرِضۡ عَنۡ ذِكۡرِ رَبِّهٖ يَسۡلُكۡهُ عَذَابًا صَعَدًا ۙ﴿۱۷﴾

၁၇။ ငါအရှင်မြတ်သည် ၎င်းတို့အား ထိုရေနှင့် စပ်လျဉ်း၍ စမ်းသပ်တော်မူအံ့သောငှာ စင်စစ်သော်ကား မည်သူမဆို မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား အောက်မေ့တသ သတိရခြင်းမှ မျက်နှာလွှဲသည်ရှိသော် ထိုအရှင်မြတ်သည် ၎င်းအား ပြင်းထန်သော ပြစ်ဒဏ်သို့ ဝင်ရောက်စေတော်မူအံ့သတည်း။ [၁]

وَّاَنَّ الۡمَسٰجِدَ لِلّٰهِ فَلَا تَدۡعُوۡا مَعَ اللّٰهِ اَحَدًا ۙ﴿۱۸﴾

၁၈။ ထိုမှတစ်ပါး (ငါ့ထံသို့ အမိန့်တော်ထုတ်ပြန်ခြင်းခံခဲ့ရလေ၏)။ ဧကန်မလွဲ 'မတ်စ်ဂျစ်ဒ်'ပျပ်ဝပ်ဦးချရာနေရာများသည် အလ္လာဟ်အရှင်မြတ်နှင့်သာ သက်ဆိုင်ကြ၏။ သို့ဖြစ်ပေရာ အသင်တို့သည် အလ္လာဟ်အရှင်မြတ်နှင့်အတူ မည်သူတစ်ဦးတစ်ယောက်ကိုမျှပင် ဆည်းကပ်ကိုးကွယ်ခြင်း မပြုကြကုန်လင့်။ [၂]

---

(၁) ဆိုလိုသည်ကား၊ ဂျင်န်နှင့်လူသားတို့သည် ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်ကို လိုက်နာကျင့်သုံးကြပါက၊ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ရုပ်၊ နာမ်ဆိုင်ရာ မင်္ဂလာအဖြာဖြာနှင့် ကျေးဇူးတော်အဖုံဖုံကို ချီးမြှင့်တော်မူပေမည်။ ယင်းသို့ ချီးမြှင့်တော်မူခြင်းဖြင့် မည်သူမည်ဝါတို့သည် ကျေးဇူးသိတတ်ကြသည်၊ မည်သူမည်ဝါတို့သည် ကျေးဇူးကန်းကြသည်ဟူသော အချက်သည်လည်း ပေါ်လွင်ထင်ရှားလာပေမည်။ တစ်နည်းဆိုသော် ကျေးဇူးပြုတော်မူခြင်းသည်ပင် စမ်းသပ်တော်မူခြင်းတစ်ရပ်ပင်။ သို့ဖြစ်ရာ ကျေးဇူးသိတတ်ရာသည်၊ ကျေးဇူးမကန်းရာ၊ အလ္လာဟ်အရှင်မြတ်အား မမေ့ရာ၊ မေ့က ပြစ်ဒဏ်ခံရမည်သာ။

(၂) "မစာဂျိဒ်"သည် "မတ်စ်ဂျိဒ်"၏ ဗဟုဝုစ်ကိန်းဖြစ်သည်။"မတ်စ်ဂျိဒ်"၏ အဓိပ္ပါယ်မှာ ပျပ်ဝပ်ဦးချရာဌာနဟူ၍ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန် ရည်သန်တည်ဆောက်ထားသော "ပလီ" ဝတ်ကျောင်းများကို ဆိုလိုသည်။

➢➢

وَّاَنَّهٗ لَمَّا قَامَ عَبۡدُ اللّٰهِ يَدۡعُوۡهُ كَادُوۡا يَكُوۡنُوۡنَ عَلَيۡهِ لِبَدًا ؕ﴿۱۹﴾

၁၉။ ထို့ပြင် ဧကန်အမှန် အလ္လာဟ်အရှင်မြတ်၏ ကျွန်တော်(မုဟမ္မဒ်)သည် ထိုအရှင်မြတ်အား ဝတ်ပြုရန် (ထ၍)ရပ်သောအခါ ၎င်းတို့သည် ထိုကျွန်တော်(မုဟမ္မဒ်)အပေါ်ဝယ် ဝိုင်းအုံကြအုံ့ဆဲဆဲ ဖြစ်ခဲ့ကြကုန်၏။ [၁]

قُلۡ اِنَّمَاۤ اَدۡعُوۡا رَبِّىۡ وَلَاۤ اُشۡرِكُ بِهٖۤ اَحَدًا ﴿۲۰﴾

၂၀။ (အို-နဗီတမန်တော်) အသင်ပြောကြားပါလေ။ (အချင်းတို့) ငါသည် မိမိအရှင်မြတ်အားသာလျှင် ဆည်းကပ်ကိုးကွယ်၏။ စင်စစ် ငါသည် မည်သူတစ်ဦးတစ်ယောက်ကိုမျှပင် ထိုအရှင်မြတ်နှင့် တွဲဖက်နိုင်းယှဉ် (ကိုးကွယ်)ခြင်းမပြုပေ။ [၂]

---

➤➤ တမန်တော်မြတ်၏ နောက်လိုက်တပည့်သားများအဖို့ ပထဝီမြေကြီးအားလုံးသည်ပင် ပလီဝတ်ကျောင်းတော်ဖြစ်သည်၊ ဟဒီးဆ်သြဝါဒတော်များတွင် အတိအလင်းလာရှိသည်။ သို့ပါသော်လည်း အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန် ရည်သန်၍ သီးသန့် တည်ဆောက်ထားသော ပလီဝတ်ကျောင်းတော်များသည် အခြားပထဝီမြေကြီးများနှင့်မတူ၊ တစ်မူထူးခြားကြသည်။ ယင်းသို့သော ပလီဝတ်ကျောင်းတော်များတွင် အလ္လာဟ်အရှင်မြတ်အား သာလျှင် ခဝပ်ကိုးကွယ်ကြရပေမည်၊ ထိုအရှင်မြတ်မှတစ်ပါး အခြားအရာကို အလျှင်းမကိုးကွယ်ကြရ။ အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်ရန် ရည်သန်တည်ဆောက်ထားသော ပလီဝတ်ကျောင်းများတွင် ထိုအရှင်မြတ်အား မကိုးကွယ်ဘဲ အခြားအရာကို ဆည်းကပ်ကိုးကွယ်ပါက ထိုထက် ကြီးလေးသော ကျူးကျော်စော်ကားမှု ဆိုးရွားသောပြစ်မှုသည် အဘယ်မှာလျှင် ရှိနိုင်တော့အံ့နည်း။

အချို့မုဖတ်စ်စိရ် ပညာရှင်များက ဤအာယတ်တော်တွင် လာရှိသော "မစာဂျိဒ်" ဟူသောပုဒ်ကို "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချရာတွင် မြေနှင့်ထိသော ကိုယ်အင်္ဂါအစိတ်အပိုင်းများဟူ၍ အနက်ဖွင့်ကြသည်၊ ဆိုလိုသည်ကား ယင်းသည့် ကိုယ်အင်္ဂါအစိတ်အပိုင်းများသည် အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော အရာများသာဖြစ်ပေရာ၊ယင်းသည့် အစိတ်အပိုင်းများကို မိမိတို့၏ အရှင်သခင်မှတစ်ပါးအခြားသူအား ဆည်းကပ်ကိုးကွယ်ရာတွင် အသုံးမပြုရာ။

(၁) ဤအာယတ်တော်တွင်ပါရှိသော "အဗ်ဒုလ္လာဟ်" (အလ္လာဟ်အရှင်မြတ်၏ ကျွန်တော်)ဟူသည် တမန်တော်မြတ် မုဟမ္မဒ် (ဆွာလ္လလ္လာဟု အလိုင်ဟိဝစ္စလာမ်)ပင်တည်း။ ကုရ်အာန်ကျမ်းမြတ်တွင် တမန်တော်မြတ်နှင့်ပတ်သက်၍လည်းကောင်း၊ အခြားတမန်တော်များနှင့် ပတ်သက်၍လည်းကောင်း၊ ဤသည့် အသုံးအနှုန်းများကို များစွာသုံးနှုန်းထားတော်မူသည်။ ကြည့်-ကုရ်အာန်(၂း၂၃။ ၈း၄၁။ ၃၈း၁၇။ ၃၈း၄၁။ ၅၄း၉။ ၁၇း၁။ ၁၈း၁။ ၁၉း၂။ ၂၅း၁။ ၃၉း၃၆။ ၅၃း၁၀။ ၅၇း၉)။

ဆိုလိုသည်ကား တမန်တော်မြတ်သည် မတ်တတ်ရပ်၍ ကုရ်အာန်ကျမ်းလာ တရားတော်များကို ရွတ်ဖတ်တော်မူသည့်အခါ လူများသည် တမန်တော်မြတ်ထံသို့ ဝိုင်းအုံ၍လာခဲ့ကြ၏။ ➤➤

إِنَّ عَلَيْنَا جَمْعَهُ وَقُرْآنَهُ ⑰

၁၇။ ဧကန်စင်စစ် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်)ကို စုပေါင်းခြင်းသည်လည်းကောင်း၊ ထိုနည်းတူစွာ (ယင်းကုရ်အာန်ကျမ်းမြတ်ကို) ဖတ်စေခြင်းသည်လည်းကောင်း၊ ငါအရှင်မြတ်၏တာဝန်ဖြစ်၏။

فَإِذَا قَرَأْنَاهُ فَاتَّبِعْ قُرْآنَهُ ⑱

၁၈။ သို့ဖြစ်ပေရာ အကြင်အခါဝယ် ငါအရှင်မြတ်သည် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်) ဖတ်ကြားတော်မူခဲ့အံ့။ ထိုအခါ (ယင်းကုရ်အာန်၏ ဖတ်ကြားချက်ကို) အသင်သည် လိုက်(၍ဖတ်)ပါလေ။ နားထောင်ပါလေ။

ثُمَّ إِنَّ عَلَيْنَا بَيَانَهُ ⑲

၁၉။ ထို့နောက် ယင်းကုရ်အာန်ကျမ်းတော်မြတ်ကို ရှင်းပြခြင်းမှာလည်း ဧကန်အမှန် ငါအရှင်မြတ်၏ တာဝန်သာဖြစ်၏။ [၁]

---

(၁) ကောင်းကင်တမန် ဂျစ်ဗ်ရီလ်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို အလ္လာဟ်အရှင်မြတ်ထံတော်မှ ယူဆောင်၍ တမန်တော်မြတ်အား ဖတ်ကြားပြသသည့်အခါ တမန်တော်မြတ်သည် အစပထမတွင် သက်ဆိုင်ရာ အာယတ်တော်များကို ကောင်းကင်တမန် ပြန်မသွားမီ ချက်ချင်း ကျက်မှတ်ထားနိုင်ရန်အလို့ငှာ စိတ်တွင်းမှ လိုက်၍ရွတ်ဖတ်တော်မူလေ့ရှိခဲ့၏။ ဤနည်းသည် တမန်တော်မြတ်အဖို့ မလွယ်ကူလှပေ၊ ကျက်မှတ်ရာတွင်လည်း အခက်အခဲရှိ၏။ ထို့အတွက် အလ္လာဟ်အရှင်မြတ်က ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း အို-တမန်တော်၊ အသင်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို အလျင်စလိုလိုက်၍ နှုတ်လျှာတရွရွ ရွတ်ဖတ်နေရန်မလိုပေ။ စိတ်ရောကိုယ်ပါ အာရုံပြု၍ နားထောင်ရန်သာ လိုပေသည်။ အသင်၏စိတ်နလုံးသားတွင် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို စ-လယ်-ဆုံး တစ်လုံးမကျန် မှတ်ထင်စေခြင်း၊ အသင်၏ နှုတ်လျှာမှ ရွတ်ဖတ်ပြစေခြင်း၊ အနက်အဓိပ္ပါယ်များကို လင်းပြခြင်း၊ သူတစ်ပါးတို့အား ဟောကြားခြင်းများသည် ငါအရှင်မြတ်၏ တာဝန်ဖြစ်သည်၊ အသင် ပူပန်သောက မဖြစ်လေနှင့်ဟု မိန့်ကြားတော်မူလိုက်လေသည်။

ထိုအချိန်မှစ၍ တမန်တော်မြတ်သည် ကျရောက်လာသော ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကောင်းကင်တမန် ဂျစ်ဗ်ရီလ်နှင့်အတူ အလျင်စလို လိုက်၍ ရွတ်ဖတ်ခြင်းကို စွန့်လွှတ်လိုက်ပေသည်။ သို့တစေလည်း ကောင်းကင်တမန် ပြန်သွားသည့်အခါ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ကုရ်အာန်ကျမ်း အာယတ်တော်များကို စ-လယ်-အဆုံး တစ်လုံးမကျန် မှတ်မိတော်မူသည်၊ သွက်လက်စွာ ဖတ်ပြတော်မူနိုင်သည်၊ အနက်သဘောကို ကောင်းစွာသိတော်မူသည်၊ သူတစ်ပါးတို့အား စနစ်တကျ ဟောပြ လင်းပြတော်မူနိုင်ပေသည်။ ဤသည်လည်း တန်ခိုးတော်တစ်ပါးပင်။

အထက်တွင် အလ္လာဟ်အရှင်မြတ်သည် လူသား၏ အစိတ်စိတ်အမွှာမွှာဖြစ်နေသော၊ ပြန့်နှံ့လျက်ရှိသော အရိုးများကို ပြန်လည်စုပေါင်းပေးတော်မူမည့်အကြောင်း၊ လူသားကြိုတင်ပို့နှင့်ထားခဲ့သော အကျင့်အမူများနှင့် မိမိနောက်တွင် ချန်ရစ်ထားခဲ့သည့် အကျင့်အမူများကို လူသားအား စ-လယ်-အဆုံး အသိပေးတော်မူမည့် ➤➤

كَلَّا بَلْ تُحِبُّونَ الْعَاجِلَةَ ﴿٢٠﴾

၂၀။ မှတ်ယူကြလေကုန်။ စင်စစ်မှာကား အသင်တို့သည် လောကီဘဝကို နှစ်သက်ကြကုန်၏။

وَتَذَرُونَ الْآخِرَةَ ﴿٢١﴾

၂၁။ ၎င်းပြင် အသင်တို့သည် "အာခိရတ်"တမလွန်ဘဝကို စွန့်လွှတ်ကြကုန်၏။

وُجُوهٌ يَوْمَئِذٍ نَّاضِرَةٌ ﴿٢٢﴾

၂၂။ ထိုနေ့တွင် များစွာသော မျက်နှာတို့မှာ ရွှင်လန်းလျက် ရှိကြပေမည်။

إِلَىٰ رَبِّهَا نَاظِرَةٌ ﴿٢٣﴾

၂၃။ မိမိတို့ကို ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အား ဖူးမြော်လျက် ရှိကြပေမည်။ [၁]

وَوُجُوهٌ يَوْمَئِذٍ بَاسِرَةٌ ﴿٢٤﴾

၂၄။ သို့ရာတွင် များစွာသော မျက်နှာတို့မှာမူကား ညှိုးနွမ်းလျက်ပင် ရှိကြပေမည်။

تَظُنُّ أَن يُفْعَلَ بِهَا فَاقِرَةٌ ﴿٢٥﴾

၂၅။ ၎င်းတို့၌ ခါးရိုးကျိုးစေမည့် ပြစ်ဒဏ်ကို ခံရမည်ကို ကောင်းမွန်စွာ သိလျက်ရှိကြကုန်အံ့သတည်း။

كَلَّا إِذَا بَلَغَتِ التَّرَاقِيَ ﴿٢٦﴾

၂၆။ မှတ်ယူကြလေကုန်၊ အကြင်အခါဝယ် အသက်ဇီဝိန်သည် ညှပ်ရိုးများသို့ ရောက်ရှိ၍သွားလေ၏။ [၂]

---

➤➤ အကြောင်းပါရှိ၏။ ဤသည့်တန်ခိုးတော်သည် အထက်ပါအကြောင်း ၂-ရပ်အတွက် လက်တွေ့အထောက်အထား သာဓကတစ်ရပ်ပင်။ အလ္လာဟ်အရှင်မြတ်သည် မြောက်မြားစွာ အာယတ်တော်များကို တမန်တော်မြတ်နှလုံးသားတွင် အသံထွက်နှင့်တကွ အနက်သဘောကိုပါ ထင်းလင်းမှတ်သားစေတော်မူနိုင်သည် ဖြစ်ရာ၊ လူသားတို့အား ၎င်းတို့၏ ရှေးနှောင်း အကျင့်အမူများကို အသို့လျှင် စုပေါင်း၍ပြတော်မမူဘဲ ရှိနိုင်အံ့နည်း။ ထို့အတူ ပြန့်လွင့်လျက်ရှိသော အရိုးများကို ပြန်လည်စုပေါင်း၍ ယခင်အတိုင်း လူသားတို့အား ပြန်လည်ရှင်ထစေတော်မမူဘဲ အသို့လျှင် ရှိနိုင်အံ့နည်း။

(၁) ကိယာမတ်နေ့တွင် အချို့မျက်နှာများသည် ရွှင်လန်းလျက်ရှိကြပေမည်။ အလ္လာဟ်အရှင်မြတ်အား ဖူးမြော်လျက်ရှိကြပေမည်။ ဤသည် နောင်တမလွန်ဘဝကို ယုံကြည်သော သူတော်စင်များ၏ အကျိုးဆက်ပင်။

ကုရ်အာန်ကျမ်းလာ အာယတ်တော်များနှင့် ခိုင်လုံသော ဟဒီးဆ်ဩဝါဒတော်များကို ထောက်ရှုခြင်းအားဖြင့် သူတော်သူမြတ်တို့သည် နောင်တမလွန်ဘဝတွင် အလ္လာဟ်အရှင်မြတ်အား ဖူးမြင်ကြရမည်မှာ အမှန်မုချပင်။ (အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးအား မိမိ၏ကျေးဇူးတော်ဖြင့် ဤသည့် အတိုင်းမသိကြီးကဲမြင့်မြတ်ဘိသော အခွင့်ထူး အခွင့်မြတ်ကို ချီးမြှင့်တော်မူသည် ဖြစ်ပါစေသတည်း)။

وَقِيلَ مَنْ ۜ رَاقٍ ﴿٢٧﴾

၂၇။ ၎င်းပြင် (ထိုဝေဒနာရှင်၏ အနီးအနား၌ရှိသူတို့က) မန်းမှုတ်မည့်သူ ရှိပါသလောဟု ဟစ်အော်ကြပေမည်။ [၁]

وَظَنَّ أَنَّهُ الْفِرَاقُ ﴿٢٨﴾

၂၈။ ၎င်းပြင် ဧကန်စင်စစ် ဤအချိန်ကား (လောကီဘဝမှ) စွန့်ခွာရမည့်အချိန်ဖြစ်သည်ဟု ထိုသူ ယုံကြည်လျက်ရှိပေမည်။

وَالْتَفَّتِ السَّاقُ بِالسَّاقِ ﴿٢٩﴾

၂၉။ ထို့ပြင် ခြေသလုံးသည် ခြေသလုံးနှင့် ကပ်သွားပေမည်။ (တစ်နည်း) ထို့ပြင် ဒုက္ခသည် ဒုက္ခပေါ်၌ ထပ်ဆင့်၍ သွားပေမည်။ [၂]

---

(၂) နောင်တမလွန်ဘဝသည် မဝေးလှပြီ။ နောင်တမလွန်ဘဝ၏ ပထမဦးအဆင့်သည် သေခြင်းပင်ဖြစ်သည်၊ သေခြင်းတရားသည် ကပ်လျက်ရှိချေပြီ။ ဤအဆင့်မှ အဆင့်ဆင့်တက်လှမ်းကာ နောက်ဆုံးအဆင့်သို့ ရောက်ရမည်ဖြစ်သည်။ တစ်နည်းဆိုသော် လူတစ်ယောက်၏ သေဆုံးခြင်းသည် ထိုသူအဖို့ ကိယာမတ်ကြီး၏ နမူနာကလေးတစ်ခုပင်ဖြစ်သည်။ အသက် ညှပ်ရိုးသို့ ရောက်သည့်အခါ၊ အသက်ငင်သည့်အခါ၊ နောင်တမလွန်ဘဝ၏ခရီး စတင်ပြီဟူ၍ မှတ်ယူရပေမည်။

(၁) အသက်သေအံ့ဆဲဆဲဖြစ်၍ ဆေးဆရာများ၊ ဆရာဝန်များ လက်လျှော့လိုက်ကြရသည့်အခါ၊ အသက်ရှင်ရန် မျှော်လင့်ချက်အားလုံး ကုန်ဆုံးသည့်အခါ မန်းကြမှုတ်ကြသည်၊ မန်းမှုတ်သည့်ဆရာများကို စုံစမ်းမေးမြန်းကြသည်။ ဤသည် မျက်မြင်ကိုယ်တွေ့ပင်။

အချို့ပညာရှင်များက ဤအာယတ်တော်တွင်ပါရှိသည့် ( مَنْ ۜ رَاقٍ ) "မန်းရာကင်န်"ဟူသောစကားသည် သေမင်းတမန်နှင့်အတူ လိုက်ပါလာသော ကောင်းကင်တမန်များ၏ စကားဖြစ်သည်။ ထိုကောင်းကင်တမန်များသည် ဤသူသေ၏အသက်ကို မည်သူ ယူဆောင်သွားအံ့နည်း၊ (ဝါ) ကရုဏာတော်ဆိုင်ရာ ကောင်းကင်တမန်က ယူဆောင်သွားမည်လော၊ သို့တည်းမဟုတ် ပြစ်ဒဏ်ဆိုင်ရာကောင်းကင်တမန်က ယူဆောင်သွားမည်လောဟူ၍ အချင်းချင်းမေးမြန်းကြပေသည်။ ဤဒုတိယဖွင့်ဆိုချက်အရ ဤအာယတ်တော်တွင်လာရှိသည့် ( راقٍ ) (ရာကင်န်)ဟူသောပုဒ်သည် အထက်သို့တက်ခြင်း အနက်ပေးသည်။ ( رُقى ) (ရုကာ)ဟူသော မူရင်းပုဒ်မှ ဆင်းသက်ခြင်းဖြစ်သည်။ မန်းမှုတ်ခြင်း အနက်ပေးသည့် ( رقية ) (ရုကီယဟ်)ဟူသော မူရင်းပုဒ်မှ ဆင်းသက်ခြင်းမဟုတ်ပေ။

(၂) လူသည် သေအံ့ဆဲဆဲဖြစ်သောအခါ များသောအားဖြင့် ခြေသလုံးချင်းကပ်သွား၏။ ထပ်သွား၏။ ကိုယ်ခန္ဓာ၏ အောက်ပိုင်းသည် အသက်နှင့် အဆက်ပြတ်သွားသည့်အခါ ခြေလှုပ်ရှားမှု ထိန်းသိမ်းမှုသည် လူ၏လက်တွင်း၌ မရှိတော့ပေ။ ထို့အတွက် ခြေသလုံးများသည် ကစဉ့်ကလျားဖြစ်ကာ တစ်ခုအပေါ်တစ်ခု ကျသွားတတ်၏။

အချို့ပညာရှင်များ၏ ယူဆချက်အရ အရဗ်စာပေတွင် အလွန်ကြီးမားသောဒုက္ခကို ခြေသလုံးဖြင့် ➤➤

إِلَىٰ رَبِّكَ يَوْمَئِذٍ ٱلْمَسَاقُ ﴿٣٠﴾

၃၀။ ထိုနေ့တွင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်သို့ပင် ပြန်သွားရပေမည်။

فَلَا صَدَّقَ وَلَا صَلَّىٰ ﴿٣١﴾

၃၁။ စင်စစ်သော်ကား ထိုလူသားသည် ဟုတ်မှန်ကြောင်း ယုံကြည်ထောက်ခံခဲ့သည်လည်း မဟုတ်ပေ။ "ဆွလာတ်"ဝတ်ပြုခဲ့သည်လည်း မဟုတ်ပေ။

وَلَٰكِن كَذَّبَ وَتَوَلَّىٰ ﴿٣٢﴾

၃၂။ သို့ရာတွင် ၎င်းသည် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ခြင်းကိုသာလည်းကောင်း၊ မျက်နှာလွှဲခြင်းကိုသာလည်းကောင်း၊ ပြုခဲ့၏။

ثُمَّ ذَهَبَ إِلَىٰٓ أَهْلِهِۦ يَتَمَطَّىٰٓ ﴿٣٣﴾

၃၃။ ထို့နောက် ၎င်းသည် မော်ကြွားဟန်ချီလျက် မိမိ အိမ်သူအိမ်သားတို့ထံ သွားခဲ့၏။

أَوْلَىٰ لَكَ فَأَوْلَىٰ ﴿٣٤﴾

၃၄။ အသင်၌ ပျက်စီးခြင်းအပေါ်ဝယ် ပျက်စီးခြင်းသာရှိပေမည်။

ثُمَّ أَوْلَىٰ لَكَ فَأَوْلَىٰٓ ﴿٣٥﴾

၃၅။ ထို့နောက် တစ်ဖန် အသင်၌ ပျက်စီးခြင်းအပေါ်ဝယ် ပျက်စီးခြင်းသည်သာ ရှိပေမည်။ [၁]

أَيَحْسَبُ ٱلْإِنسَٰنُ أَن يُتْرَكَ سُدًى ﴿٣٦﴾

၃၆။ လူသားသည် မိမိမှာ ဤအတိုင်း စွန့်လွှတ်ထားခြင်းကို ခံနေရမည်ဟု ထင်မှတ်လေသလော။

---

➤➤ တင်စားသုံးနှုန်းလေ့ရှိကြသည်။ ဆိုလိုသည်ကား ဒုက္ခတစ်ခုသည် အခြားဒုက္ခတစ်ခုနှင့် ပေါင်းစပ်သွား၏။ အဘယ့်ကြောင့်ဆိုသော် သေသူတစ်ဦးသည် ထိုအချိန်တွင် ဒုက္ခကြီး ၂-ခုနှင့် ရင်ဆိုင်ရသည်။ (၁) ဤပစ္စက္ခဘဝမှစွန့်ခွာရခြင်း ဒုက္ခ၊ သားသမီး၊ ဇနီး ခြွေရံသင်းပင်းနှင့် ရွှေငွေဥစ္စာပစ္စည်းများကို စွန့်ထားခဲ့ရခြင်းဒုက္ခ။ (၂) သင်္ချိုင်းနှင့် နောင်တမလွန်တွင် တွေ့ကြုံရမည့် ဒုက္ခ။

[၁] ဆိုလိုသည်ကား လူသားသည် သက်ဆိုင်ရာတမန်တော်များအား ယုံကြည်ထောက်ခံရမည့်အစား သွေဖည်ငြင်းပယ်ခဲ့၏။ အလ္လာဟ်အရှင်မြတ်အား ဆွလာတ်ဝတ်ပြုရမည့်အစား ကျောခိုင်း၍ နေခဲ့၏။ ထိုမျှမက မိမိ၏ သွေဖည်ငြင်းပယ်မှု၊ ကျောခိုင်းမှုကိုပင် အကောင်းထင်ကာ သူရဲကောင်းကြီးပမာ မောက်မာပလွှားဝါကြွားစွာဖြင့် မိမိ၏ အိမ်သူအိမ်သားများထံသို့ သွားလာနေခဲ့၏။ ယင်းသို့သော သူမိုက်သည် တစ်ကြိမ်မက နှစ်ကြိမ်မက အကြိမ်ကြိမ်အခါခါ ထပ်ကာထပ်ကာ ပျက်စီးခြင်းကြီးမက ပျက်စီးရမည်သာတည်း။

أَلَمْ يَكُ نُطْفَةً مِّن مَّنِيٍّ يُمْنَىٰ ﴿٣٧﴾

၃၇။ ၎င်းမှာ သွန်းလောင်းခြင်းခံရသော သုတ်ရည်တစ်စက်သာလျှင် ဖြစ်ခဲ့သည်မဟုတ်လော။

ثُمَّ كَانَ عَلَقَةً فَخَلَقَ فَسَوَّىٰ ﴿٣٨﴾

၃၈။ ထို့နောက် ယင်းသုတ်ရည်သည် သွေးခဲဖြစ်ခဲ့၏။ တစ်ဖန် ထိုအရှင်မြတ်သည် (၎င်းအား) ဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် ထိုအရှင်မြတ်သည် (၎င်းအား) နေသားကျနအောင် ပြုပြင်တော်မူခဲ့၏။

فَجَعَلَ مِنْهُ الزَّوْجَيْنِ الذَّكَرَ وَالْأُنثَىٰ ﴿٣٩﴾

၃၉။ ထို့နောက် ထိုအရှင်မြတ်သည် ယင်း(သွေးခဲဖြစ်သွားခဲ့သောသုတ်ရည်)ကို ယောကျ်ားမိန်းမ(ဟူ၍) နှစ်မျိုးနှစ်စား ပြုလုပ်တော်မူခဲ့၏။

أَلَيْسَ ذَٰلِكَ بِقَادِرٍ عَلَىٰ أَن يُحْيِيَ الْمَوْتَىٰ ﴿٤٠﴾

၄၀။ ထို(ကဲ့သို့သော)အရှင်မြတ်သည် သူသေတို့အား (တစ်ဖန်ပြန်၍) ရှင်စေတော်မူရန် တတ်စွမ်းနိုင်တော်မူသောအရှင် မဟုတ်ပါသလော။ [၁]

(၁) လူသားသည် အချုပ်အချယ်ကင်းမဲ့စွာ စွန့်လွှတ်ထားခြင်း ခံနေရမည်ဟူ၍ ထင်မှတ်နေလေသလော၊ (ဝါ) အမိန့်တစ်စုံတစ်ရာ နာယူကျင့်မူရန် မရှိ၊ သေပြီးနောက် ပြန်လည်ရှင်ထရန် မရှိ၊ အစစ်အဆေးမရှိ ကျိုး-ပြစ် ခံ-စံရမည်မဟုတ်ဟူ၍ ထင်မှတ်နေလေသလော။ လူသား စဉ်းစားဆင်ခြင်အပ်သည်မှာ သူသည် သုက်ရည်တစ်စက်မျှသာဖြစ်ခဲ့၏။ ထိုမှတစ်ဆင့် သွေးစိုင်သွေးခဲတစ်ခု ဖြစ်လာခဲ့၏။ ယင်းသည့် သွေးစိုင်သွေးခဲမှပင် အလ္လာဟ်အရှင်မြတ်သည် သူ့အား စနစ်တကျ အချိုးကျကျ ဖန်ဆင်းတော်မူခဲ့၏။ ရုပ်၊ နာမ်ဆိုင်ရာ လိုအပ်သည့် စွမ်းရည်များကို ချီးမြှင့်တော်မူ၍ လူတစ်လုံးသူတစ်လုံး အဖြစ် မြောက်စားတော်မူခဲ့၏။ ထို့မျှမက ခင်မင်ရင်းနှီးစွာ နေနိုင်ရန်နှင့် လူဆက်ပြတ်မသွားစေရန်အလို့ငှာ ကျားနှင့်မကိုလည်း အံ့ဖွယ်သရဲ ဒွန်တွဲဖန်ဆင်းထားတော်မူခဲ့၏။ ဤသို့ပြုစွမ်းတော်မူနိုင်သော ဤသို့သော တန်ခိုးတော်၊ ဉာဏ်တော်များနှင့် ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်သည် သူသေများအား ပြန်လည်ရှင်ထစေတော်မူနိုင်မည် မဟုတ်ပါလော။ လူသားသည် ဤမျှပင် မစဉ်းစား မဆင်ခြင်မိလေသလော။

# ဒေဟ်ရ် ကဏ္ဍ



ဤကဏ္ဍသည်"ဒဟ်ရ်" "ဒေဟ်" ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ကျရောက်ခဲ့၏။
ဤကဏ္ဍတွင်အာယတ်တော်(၃၁)ပါး၊ ရုကူအ်အပိုဒ်(၂)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

အလွန်တရာ ကြင်နာသနားတော်မူသော၊
ကရုဏာတော်ရှင်ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

هَلْ أَتٰى عَلَى الْإِنْسَانِ حِيْنٌ مِّنَ الدَّهْرِ لَمْ يَكُنْ شَيْـًٔا مَّذْكُوْرًا ①

၁။ လူသား၏ အပေါ်ဝယ် ခေတ်ကာလအနက် အချိန်တစ်ချိန်သည် ကေန်အမှန်ရောက်ရှိခဲ့၏။ ထိုလူသားသည် (ယင်းအချိန်၌) ပြောပလောက်သော၊ ကိုးကားရည်ညွှန်းလောက်သော၊ အရာဝတ္ထု တစ်စုံတစ်ရာမျှပင် မဖြစ်ခဲ့ပေ။ [၁]

إِنَّا خَلَقْنَا الْإِنْسَانَ مِنْ نُّطْفَةٍ أَمْشَاجٍ ۖ نَّبْتَلِيْهِ فَجَعَلْنٰهُ سَمِيْعًا بَصِيْرًا ②

၂။ ကေန်စင်စစ် ငါအရှင်မြတ်သည် လူသားအား စမ်းသပ်လိုတော်မူသောအားဖြင့် ရောနှောပေါင်းစပ်သော ကလလရေကြည်ဖြင့်ဖန်ဆင်းတော်မူခဲ့၏။ [၂] သို့ဖြစ်ပေရာ ငါအရှင်မြတ်သည် ၎င်းအား ကြားသူ၊ မြင်သူ၊ ပြုလုပ်တော်မူခဲ့၏။ [၃]

---

(၁) ဆိုလိုသည်ကား လူသားအပေါ်တွင် အချိန်တစ်ချိန်ရောက်ရှိခဲ့ဖူး၏။ ထိုအချိန်တွင် လူသားသည် ရည်ညွှန်းထုတ်ဖော် ပြောပြလောက်သည့် ဝတ္ထုပစ္စည်း တစ်စုံတစ်ရာ မဟုတ်ခဲ့ပေ၊ အမည်နာမ အရိပ်အမြွက်မျှပင် မရှိခဲ့ပေ။ ထို့နောက် ခေတ်အခါကာလ အချိန်သမယ အမျိုးမျိုးပြောင်းလဲကာ ကလလရေကြည်တစ်စက် ဖြစ်လာခဲ့၏။ ယင်းသည့် ကလလရေကြည်ဘဝသည်လည်း လူသား၏ လက်ရှိရရှိထားသည့် မြင့်မြတ်လှသည့် ဘဝအခြေအနေနှင့် နှိုင်းစာထောက်ထားလျှင် ထုတ်ဖော်ပြောပြလောက်သည် မဟုတ်သေးပေ။

(၂) "အမ်ရှားဂ်"ဟူသောပုဒ်သည် ရောစပ်ထားသောအရာ၏ အနက်ပေးသည်။ ကလလရေကြည်သည် အမှန်မှာ အစာအာဟာရ အမျိုးမျိုး၊ ဓာတ်ပစ္စည်းအဖုံဖုံတို့၏ အဆီအနှစ် အချုပ်မျှသာဖြစ်သည်။ အချို့၏ယူဆချက်အရ ပေါင်းစပ်ထားသော ကလလရေကြည်ဟူသည် ကျား နှင့် မ၊ မိ နှင့် ဖ၏ နှစ်မျိုးနှစ်စားသော ကလလရေကြည် ပေါင်းစပ်ခြင်းကို ဆိုလိုသည်။ ကြည့်-အွတ်ဆ်မာနီ။ ကဗီရ်၊ ရာဃိဗ်။

(၃) ယင်းသို့အဆင့်ဆင့် ဖြစ်ရှိလာသော ကလလရေကြည်သည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် သွေးစိုင်သွေးခဲဖြစ်လာ၏။ ထိုမှတစ်ဆင့် အသားတုံးဖြစ်လာ၏။ ထိုမှတစ်ဆင့် အဆင့်ဆင့်ပြောင်းကာ ➤➤

إِنَّا هَدَيْنَٰهُ ٱلسَّبِيلَ إِمَّا شَاكِرًا وَإِمَّا كَفُورًا ۝٣

၃။ စင်စစ်ကေန် ငါအရှင်မြတ်သည် ၎င်းအား တရားလမ်းမှန်ကို ပြသတော်မူခဲ့၏။(ထို့နောက် ၎င်းမှာ) ကျေးဇူးသိတတ်သူသော်လည်းကောင်း၊ လွန်စွာ ကျေးဇူးကန်းသူသော်လည်းကောင်း၊ ဖြစ်ခဲ့၏။ (တစ်နည်း) စင်စစ်ကေန် ငါအရှင်မြတ်သည် ထိုလူသားအား ၎င်းသည် ကျေးဇူးတင်သည်ဖြစ်စေ၊ ကျေးဇူးကန်းသည် ဖြစ်စေ၊ တရားလမ်းမှန်ကို ပြသတော်မူခဲ့၏။ [၁]

إِنَّآ أَعْتَدْنَا لِلْكَٰفِرِينَ سَلَٰسِلَا۟ وَأَغْلَٰلًا وَسَعِيرًا ۝٤

၄။ ဧကန်မလွဲ ငါအရှင်မြတ်သည် 'ကာဖိရ်' သွေဖည်ငြင်းပယ်သောသူ၏အဖို့ သံကြိုးများကို လည်းကောင်း၊ လည်ကွင်းများကိုလည်းကောင်း၊ အလျှံပြောင်ပြောင် တောက်လောင်လျက်ရှိသောမီးကို လည်းကောင်း၊ အဆင်သင့်ပြုလုပ်ထားတော်မူ၏။ [၂]

---

▶▶ လူသားဖြစ်လာ၏။ ယခုမူ လူသားသည် အံ့ဖွယ်သရဲ မျက်စိများဖြင့် အရာရာကိုမြင်သည်၊ နားများဖြင့် အသံဟူသမျှကိုကြားသည်။ ဤကမ္ဘာတွင် လူတလုံးသူတလုံး ဖြစ်လျက်ရှိချေပြီ။ သတ္တဝါအပေါင်းတွင် အချိုးကျဆုံး၊ စွမ်းရည်သတ္တိအပြည့်ဝဆုံး၊ အမြင့်မြတ်ဆုံး ဖြစ်လျက်ရှိချေပြီ။

အများပညာရှင်များက ဤအာယတ်တော်တွင်ပါရှိသည့် (نبتليه) (နဗ်တလီဟိ) ဟူသောပုဒ်ကို "ငါအရှင်မြတ်သည် ထိုလူသားအား စမ်းသပ်တော်မူရန်" ဟူ၍ အနက်ဖွင့်ကြသည်။ ဆိုလိုသည်ကား ယင်းသို့ လူသားအား စွမ်းရည်သတ္တိများ ချီးမြှင့်တော်မူခြင်းမှာ လူသားသည် ယင်းသည့် စွမ်းရည်သတ္တိများကို အသုံးပြု၍ မိမိအရှင်သခင်အပေါ်၌ အဘယ်မျှသစ္စာရှိသည်၊ မရှိသည်၊ မိမိအရှင်သခင်၏ အမိန့်တော်နာခံသည်၊ မနာခံသည်ကို စမ်းသပ်တော်မူရန်ပင် ဖြစ်သည်ဟူ၏။

(၁) အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် လူသား၌ မူလဗီဇတွင်ပင် အသိတရားကို ထည့်သွင်းပေးထားတော်မူခဲ့၏။ ထို့ပြင်တဝ လူသားအား တရားလမ်းမှန် ညွှန်ပြရန်အလို့ငှာ တမန်တော်များအား စေလွှတ်ပေးတော်မူခဲ့၏၊ ကျမ်းဂန်များကိုလည်း ချပေးတော်မူခဲ့၏။ ယုတ္တိဒဋ္ဌိ၊ အာဂမဒဋ္ဌိ နှစ်လီသော အထောက်အထား သက်သေသာဓကများကိုလည်း ပြထားတော်မူခဲ့၏။ သို့ဖြစ်ရာ လူသားအားလုံးတို့သည် တရားလမ်းမှန်ကို ရရှိကြရန်သာရှိသည်။ သို့ပါသော်လည်း လူသားများသည် ပတ်ဝန်းကျင်၏ ဆွဲဆောင်မှု၊ သွေးဆောင်မှု၊ ဖြားယောင်းမှုများကြောင့် တရားလမ်းမှန်တစ်ခုတည်းအပေါ်၌ ရပ်တည်၍မနေနိုင်ခဲ့ကြပေ၊ အချို့လူသားတို့သည် အလ္လာဟ်အရှင်မြတ်အား ယုံကြည်မြတ်နိုးခဲ့ကြ၏။ ထိုအရှင်မြတ်၏ အမိန့်တော်များကို နာခံခဲ့ကြ၏။ ကျေးဇူးသစ္စာကို စောင့်သိရှိသေခဲ့ကြ၏။ အချို့သည် အလ္လာဟ်အရှင်မြတ်အား သွေဖည်သွားခဲ့ကြ၏။ ကျေးဇူးကန်းသွားကြ၏။ ဤသို့ဖြင့် လူသားများသည် ကျေးဇူးသိတတ်သူ၊ ကျေးဇူးကန်းသူဟူ၍ အုပ်စုနှစ်မျိုးနှစ်စား ကွဲပြားသွားခဲ့ကြ၏။ ရှေ့တွင် အုပ်စုအသီးသီး၏ အကျိုးဆက်ကို မိန့်ဆိုထားတော်မူသည်။

إِنَّ ٱلْأَبْرَارَ يَشْرَبُونَ مِن كَأْسٍ كَانَ مِزَاجُهَا كَافُورًا ⑤

၅။ ဧကန်စင်စစ် သူတော်သူမြတ်တို့သည် ပရုတ်ရောစပ်ထားသောအရက် အပြည့်အလျှံရှိသောခွက်မှ သောက်သုံးကြပေမည်။ [၁]

عَيْنًا يَشْرَبُ بِهَا عِبَادُ ٱللَّهِ يُفَجِّرُونَهَا تَفْجِيرًا ⑥

၆။ အလ္လာဟ်အရှင်မြတ်၏ (ထူးကဲမြင့်မြတ်သော) ကျွန်တို့သည် အကြင်စမ်းမှ၊ ထိုစမ်းမှ၊ သောက်သုံးကြပေမည်။ ၎င်းတို့သည် ယင်းစမ်းကို (အလိုရှိရာသို့) လွယ်လင့်တကူ စီးဆင်းစေကြပေမည်။ [၂]

---

(၂) ဆိုလိုသည်ကား ကာဖိရ်များသည် မိဘရိုးရာထုံးတမ်းစဉ်လာတည်းဟူသော သံကြိုးများတွင် တုပ်နှောင်လျက်ရှိခဲ့ကြ၏။ အလ္လာဟ်အရှင်မြတ် မှတစ်ပါးဖြစ်သော သူတစ်ပါးတို့၏ အုပ်ချုပ်မှု၊ အမိန့်၊ အာဏာစက်တည်းဟူသော ကြိုးကွင်းများကို မိမိတို့၏ လည်ပင်းများမှ ထုတ်မပစ်နိုင်ခဲ့ကြပေ၊ ထို့မျှမက ယင်းကာဖိရ်များသည် အမှန်တရားကို ညွှန်ပြကြသော သူမွန်သူမြတ်တို့အား ဆန့်ကျင်ကာ၊ ရန်မီးများ၎ို အသက်ထက်ဆုံး မွေးထားခဲ့ကြ၏၊ မေ့မှားရှိမှု အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးတော်များကို သတိမရခဲ့ကြပေ။ ယင်းသို့သော ကာဖိရ်များအဖို့ အလ္လာဟ်အရှင်မြတ်သည်လည်း ယင်းတို့နှင့် ထိုက်တန်သည့် ပြစ်ဒဏ်များကိုပင် နှောင်တမလွန်ဘဝတွင် အသင့်ပြုလုပ်ထားတော်မူခြင်း ဖြစ်သည်။ ဤသည် မည်သူမပြု မိမိမှုပင်။

(၁) အလ္လာဟ်အရှင်မြတ်သည် ကာဖိရ်များအဖို့ ၎င်းတို့နှင့် ထိုက်တန်သည့် ပြစ်ဒဏ်များကို နှောင်တမလွန်ဘဝတွင် အသင့်ပြုလုပ်ထားတော်မူသကဲ့သို့၊ သူတော်သူမြတ်များအဖို့လည်း မိမိ၏ကျေးဇူးတော်ဖြင့် အတိုင်းမသိ ကောင်းမြတ်လှဘိသော ဂျန္နတ် သုခများကို အသင့်စီစဉ်ထားတော်မူသည်။

ဤပစ္စက္ခရှိ "ကာဖူရ်" =ပရုတ်သည်ပင် အကျိုးများပြားလှ၏။ အနံ့အရသာ ထူးကဲလှ၏။ ဂျန္နတ်သားတို့ သောက်သုံးကြရမည့် ရသာရည်သည်လည်း ပရုတ်၏အနံ့အရသာနှင့် ရောစပ်လျက်ရှိပေမည်။ အနံ့အရသာကား အတိုင်းမသိ ထူးကဲကောင်းမြတ်လှပေမည်။ ဤတွင် သိထားအပ်သည်မှာ ဂျန္နတ်၏ပရုတ်သည် ဂျန္နတ်၏ပရုတ်ပင်၊ ဤပစ္စက္ခရှိ ပရုတ်နှင့် အသို့မျှ မနှိုင်းယှဉ်အပ်ပေ။ အမည်သာလျှင် တူသည်၊ အနံ့အရသာကား မိုးမြေတမျှ ကွာခြားပေမည်။

(၂) ဂျန္နတ်တွင် ဂျန္နတ်သားတို့ သောက်သုံးကြမည့် စမ်းရေချောင်းသည် ဂျန္နတ်သားတို့၏ အမိန့်သြဇာအာဏာကို ညောင်းလျက်ရှိပေမည်။ ဂျန္နတ်သားတို့သည် ယင်းစမ်းရေချောင်းကို မိမိတို့ အာသာဆန္ဒအလျောက် အလိုရှိရာသို့ စီးဆင်းစေကြပေမည်။ ဤသည်လည်း အတိုင်းမသိ ကြီးမားလှဘိသော သုခတစ်ပါးပင်။

အချို့ကျမ်းချက်များအရ အဆိုပါစမ်းရေချောင်း၏ မူလအစသည် တမန်တော်မြတ်၏ ဘုံဗိမာန်တွင် တည်ရှိမည်၊ ထိုမှတစ်ဆင့် အခြားတမန်တော်များနှင့် မုအ်မင်န် သူတော်စင်များ၏ ဘုံဗိမာန်များသို့ အဆင့်ဆင့် စီးဆင်းလျက် ရှိပေမည်။

ရှေ့တွင် ဂျန္နတ်သို့ လားကြမည့် သူတော်သူမြတ်တို့၏ ဂုဏ်ရည်များကို မိန့်ဆိုထားတော်မူသည်။

يُوفُونَ بِالنَّذْرِ وَيَخَافُونَ يَوْمًا كَانَ شَرُّهُ مُسْتَطِيرًا ⑦

၇။ ထို(ထူးကဲမြင့်မြတ်သော) ကျွန်တို့မှာ (မိမိတို့၏)တာဝန်များကို ကျေပွန်စွာ ဆောင်ရွက်လေ့ရှိကြသည့်ပြင်၊ အကြင်နေ့ကိုလည်း စိုးရိမ်ကြောက်ရွံ့လေ့ရှိကြကုန်၏။ [၁] ထိုနေ့၏ ဘေးအန္တရာယ်မှာ ကျယ်ပြန့်စွာ ပြန်နှံ့လျက်ရှိပေမည်။

وَيُطْعِمُونَ الطَّعَامَ عَلَىٰ حُبِّهِ مِسْكِينًا وَيَتِيمًا وَأَسِيرًا ⑧

၈။ ထိုမှတစ်ပါး ထိုသူတို့သည် အစားအစာကို ခုံမင်စုံမက်ကြလျက်နှင့်ပင် ထိုအရှင်မြတ်အား ချစ်ကြည် မြတ်နိုးသောကြောင့် သူဆင်းရဲတို့အားလည်းကောင်း၊ ဘမဲ့ကလေးသူငယ်တို့အားလည်းကောင်း၊ သုံ့ပန်းတို့အားလည်းကောင်း၊ ကျွေးမွေးကြကုန်၏။

إِنَّمَا نُطْعِمُكُمْ لِوَجْهِ اللَّهِ لَا نُرِيدُ مِنكُمْ جَزَاءً وَلَا شُكُورًا ⑨

၉။ (ထိုကျွန်များက) ကျွန်ုပ်တို့သည် အသင်တို့အား အလ္လာဟ်အရှင်မြတ်အား ရည်စူး၍သာလျှင် ကျွေးမွေးကြ၏။ ကျွန်ုပ်တို့သည် အသင်တို့ထံမှ မည်သည့် အကျိုးကျေးဇူးကိုမျှလည်းကောင်း၊ မည်သည့် ကျေးဇူးတင်ခြင်းကိုလည်းကောင်း၊ ရည်စူးကြသည် မဟုတ်ပေ။ [၂]

---

(၁) သူတော်သူမြတ်များသည် မိမိတို့၏စေတနာအလျောက် မိမိတို့အပေါ်၌ သတ်မှတ်ပြဋ္ဌာန်းထားကြသည့် တာဝန်များ၊ ကတိဝန်ခံချက်များကို ကျေပွန်စွာ ဆောင်ရွက်လေ့ရှိကြပေသည်။ မိမိတို့အပေါ်၌ မိမိတို့စေတနာအလျောက် သတ်မှတ်ပြဋ္ဌာန်းထားသော တာဝန်များနှင့် ကတိများကိုပင် ကျေပွန်စွာ ဆောင်ရွက်ကြသည်ဖြစ်ရာ၊ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ သတ်မှတ်ပြဋ္ဌာန်းထားတော်မူသော တာဝန်များကိုမူ ဆိုဖွယ်ရာပင်မရှိပေ။

ဤအာယတ်တော်တွင်ပါရှိသည့် "နဇ်ရ်"ဟူသောပုဒ်တွင် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ သတ်မှတ်အတည်ပြုထားတော်မူသော တာဝန်များ၊ လူသားတို့ မိမိတို့စေတနာအလျောက် မိမိတို့အပေါ်၌ သတ်မှတ်အတည်ပြုထားကြသည့် တာဝန်များအားလုံး အကျုံးဝင်ပေသည်၊ တစ်နည်းဆိုသော် ယင်းပုဒ်တွင် အီမာန်ယုံကြည်မှုနှင့်တကွ အမိန့်တော်နာခံမှုအစုစု အကျုံးဝင်ပေသည်။ ကြည့်-ကဗီရ်။

(၂) သူမွန်သူမြတ်တို့သည် အလ္လာဟ်အရှင်မြတ်အား ချစ်ကြည်မြတ်နိုးသောအားဖြင့် ထိုအရှင်မြတ်က မိမိတို့အား ချီးမြှင့်ထားတော်မူသည့် စားနပ်ရိက္ခာများအနက် အချို့အဝက်ကို သူဆင်းရဲ၊ မိတဆိုး၊ ဘတဆိုး၊ အကျဉ်းသားစသည်တို့အား စေတနာ သဒ္ဓါတရား ထက်သန်စွာဖြင့် ကျွေးမွေးပေးကမ်းလှူဒါန်းလေ့ရှိကြပေသည်။ ယင်းသို့ပေးကမ်းလှူဒါန်းကြသည့်အတွက် တစ်စုံတစ်ရာ အကျိုးတုံ့ပြန်မှု၊ ကျေးဇူးတင်မှုများကိုလည်း လားလားမျှ မလိုလား မတောင့်တကြပေ။ ➢➢

إِنَّا نَخَافُ مِن رَّبِّنَا يَوْمًا عَبُوسًا قَمْطَرِيرًا ⑩

၁၀။ ဧကန်မလွဲ ကျွန်ုပ်တို့သည် ကျွန်ုပ်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ ကြမ်းကြုတ်ခက်ထန်စွာသော နေ့ကို ကြောက်ရွံ့စိုးရိမ်ကြကုန်၏၊ (ဟုပြောပြကြကုန်၏။)

فَوَقَاهُمُ اللَّهُ شَرَّ ذَٰلِكَ الْيَوْمِ وَلَقَّاهُمْ نَضْرَةً وَسُرُورًا ⑪

၁၁။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အား ထိုနေ့၏ဘေးအန္တရာယ်မှ လွတ်ကင်းစေတော်မူပေမည်။ ၎င်းပြင် ထိုအရှင်မြတ်သည် ထိုသူတို့အား ရွှင်လန်းမှုနှင့်လည်းကောင်း၊ ဝမ်းမြောက် ပျော်ရွှင်မှုနှင့်လည်းကောင်း၊ တွေ့ကြုံစေတော်မူပေမည်။ [၁]

وَجَزَاهُم بِمَا صَبَرُوا جَنَّةً وَحَرِيرًا ⑫

၁၂။ ထိုမှတစ်ပါး ၎င်းတို့အား ထိုအရှင်မြတ်သည် သီးခံခြင်းတရား ထားရှိခဲ့ကြသောကြောင့် "ဂျန္နတ်" သုခဘုံကိုလည်းကောင်း၊ ပိုး(အဝတ်အစားများ)ကိုလည်းကောင်း၊ အစားပေးတော်မူအံ့သတည်း။

مُّتَّكِئِينَ فِيهَا عَلَى الْأَرَائِكِ لَا يَرَوْنَ فِيهَا شَمْسًا وَلَا زَمْهَرِيرًا ⑬

၁၃။ (၎င်းတို့သည်) ယင်း "ဂျန္နတ်" သုခဘုံ၌ သလွန်များထက်ဝယ် (မှီအုံးများကို) မှီ၍ ထိုင်နေကြပေမည်။ ၎င်းတို့သည် ယင်း "ဂျန္နတ်" သုခဘုံ၌ နေ၏ အပူအရှိန်ကိုလည်းကောင်း၊ ခံရခက်သော အအေးကိုလည်းကောင်း၊ တွေ့ရှိကြမည်မဟုတ်ပေ။

---

➤➤ "အစီရ်" ဟူသောပုဒ်ကို သဘောထားကြီးစွာဖြင့်၊ အမြင်ကျယ်စွာဖြင့် ထို့ထက်ပင် ပိုမိုကျယ်ဝန်းစွာ အနက်ကောက်ယူပါက၊ ယင်းပုဒ်တွင် ကျေးကျွန်များနှင့် ကြွေးမြီခံစီးပတ်တင်ရှိနေသော ဆင်းရဲသား များသည်ပင် အကျုံးဝင်လာနိုင်ပေသည်။ အဘယ့်ကြောင့်ဆိုသော် ယင်း ပုဂ္ဂိုလ်များသည်လည်း တစ်နည်းအားဖြင့် အကျဉ်းကျနေသူများပင် ဖြစ်ကြပေသည်။

(၁) အလ္လာဟ်အရှင်မြတ်သည် သူတော်သူမြတ်များအား ယင်းသို့ ကောင်းမွန်မြင့်မြတ်သော ဂုဏ်ရည်များကြောင့်ပင် ကိယာမတ်နေ့၏ ကြောက်မက်ဖွယ် ကောင်းလှဘိသော အန္တရာယ်ကြီးမှ ဖယ်ရှားတော်မူ၍ ပျော်ရွှင်မှု၊ ရွှင်လန်းမှု၊ သာယာမှု အစုစုတို့နှင့် ပြည့်နှက်လျက်ရှိသော ဂျန္နတ်သုခများနှင့် ဆုံဆည်း ပေးတော်မူခြင်းဖြစ်သည်။ ဤသည် ကောင်းမြတ်သောဂုဏ်ရည်၏ ကောင်းမြတ်သော အကျိုးဆက်ပင်။

وَدَانِيَةً عَلَيْهِمْ ظِلَالُهَا وَذُلِّلَتْ قُطُوفُهَا تَذْلِيلًا ﴿١٤﴾

**၁၄။** ၎င်းပြင် ယင်း(ဂျန္နတ်သုခဘုံမှ) သစ်ပင်များမှာ ၎င်းတို့အပေါ်၌ ကိုင်းညွတ်လျက်ရှိကြပေမည်။ ထို့ပြင် ယင်း 'ဂျန္နတ်'တွင် အပြွတ်လိုက်သီးသော သစ်သီးဝလံတို့မှာ ညွတ်ကျလျက် ရှိကြပေမည်။

وَيُطَافُ عَلَيْهِم بِآنِيَةٍ مِّن فِضَّةٍ وَأَكْوَابٍ كَانَتْ قَوَارِيرَا ﴿١٥﴾

**၁၅။** ထို့ပြင် ၎င်းတို့ထံ ငွေပန်းကန်များသည်လည်းကောင်း၊ ဖန်ခွက်များသည်လည်းကောင်း၊ လှည့်လည်ရောက်ရှိနေပေမည်။

قَوَارِيرَ مِن فِضَّةٍ قَدَّرُوهَا تَقْدِيرًا ﴿١٦﴾

**၁၆။** ငွေဖြင့်ပြီးသော ဖန်များ ဖြစ်ကြပေမည်။ (ဖြည့်ထားသူတို့သည်) ယင်းဖန်ခွက်များကို သင့်လျော်စွာ ချိန်ဆ၍ ဖြည့်ထားကြပေမည်။

وَيُسْقَوْنَ فِيهَا كَأْسًا كَانَ مِزَاجُهَا زَنجَبِيلًا ﴿١٧﴾

**၁၇။** ထို့ပြင် ၎င်းတို့သည် ယင်း "ဂျန္နတ်"သုခဘုံ၌ ချင်းရောစပ်ထားသော အရက် အပြည့်အလျှံပါသော ခွက်များဖြင့် တိုက်ကျွေးခြင်းကို ခံကြရပေမည်။

عَيْنًا فِيهَا تُسَمَّىٰ سَلْسَبِيلًا ﴿١٨﴾

**၁၈။** ယင်း'ဂျန္နတ်'သုခဘုံ၌ရှိသော 'စလ်စဗီလ်' ဟူ၍ အမည်သညာ မှည့်ခေါ်ခြင်းခံရသောစမ်းမှ။

وَيَطُوفُ عَلَيْهِمْ وِلْدَانٌ مُّخَلَّدُونَ إِذَا رَأَيْتَهُمْ حَسِبْتَهُمْ لُؤْلُؤًا مَّنثُورًا ﴿١٩﴾

**၁၉။** ထိုမှတစ်ပါး ၎င်းတို့ထံတွင် အသက်သေဆုံးခြင်းမရှိဘဲ အမြဲထာဝစဉ် နုငယ်လျက် ရှိကြရမည်ဖြစ်သော သူငယ်တို့သည် လှည့်ပတ်သွားလာ (ပြုစု)လျက်ရှိကြပေမည်။ အသင်သည် ၎င်းတို့အား တွေ့မြင်သောအခါ ၎င်းတို့မှာ ကြဲဖြန့်ထားသော ပုလဲများဖြစ်သည်ဟူ၍ပင် ထင်မှတ်ပေမည်။

وَإِذَا رَأَيْتَ ثَمَّ رَأَيْتَ نَعِيمًا وَمُلْكًا كَبِيرًا ﴿٢٠﴾

**၂၀။** ၎င်းပြင် အသင်သည် ထိုနေရာတွင် ကြည့်သောအခါ ထူးကဲ ကြီးကျယ်လှစွာသော စည်းစိမ်ကိုလည်းကောင်း၊ စိုးမိုးအုပ်ချုပ်မှု၊ ဂုဏ်ရည် အဆင့်အတန်းကိုလည်းကောင်း၊ တွေ့ရှိရပေမည်။

عٰلِيَهُمۡ ثِيَابُ سُنۡدُسٍ خُضۡرٌ وَّاِسۡتَبۡرَقٌ وَّحُلُّوۡۤا اَسَاوِرَ مِنۡ فِضَّةٍ ۚ وَسَقٰهُمۡ رَبُّهُمۡ شَرَابًا طَهُوۡرًا ﴿۲۱﴾

၂၁။ ၎င်းတို့(၏ ခန္ဓာကိုယ်များ)ပေါ်၌ အစိမ်းရောင် ပိုးထည်အပါးစား အဝတ်များသည်လည်းကောင်း၊ ပိုးထည်အထူစား၊ ရွှေခြည်ဖြင့် ပန်းထိုးထားသော ပိုးဗရိကိတ် အဝတ်များသည်လည်းကောင်း၊ ရှိကြပေမည်။ ထို့ပြင် ၎င်းတို့သည် ငွေလက်ကောက်၊ လက်ကြပ်များဖြင့် တန်ဆာဆင်ယင်ပေးခြင်းကိုလည်း ခံကြရပေမည်။ ထိုမှတစ်ပါး ၎င်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ၎င်းတို့အား လွန်စွာစင်ကြယ် သန့်ရှင်းသောအရက်ကို တိုက်ကျွေးတော်မူပေမည်။ [၁]

اِنَّ هٰذَا كَانَ لَكُمۡ جَزَآءً وَّكَانَ سَعۡيُكُمۡ مَّشۡكُوۡرًا ﴿۲۲﴾

၂၂။ ဧကန်မလွဲ ဤသည်ကား အသင်တို့အား (ချီးမြှင့်တော်မူသော) အကျိုးကျေးဇူးပင်ဖြစ်၏။ စင်စစ်သော်ကား အသင်တို့၏ ကြိုးပမ်းမှုသည် (အရှင်မြတ်အထံတော်၌) ကျေနပ် လက်ခံပြီး ဖြစ်ပေသတည်း။ [၂]

اِنَّا نَحۡنُ نَزَّلۡنَا عَلَيۡكَ الۡقُرۡاٰنَ تَنۡزِيۡلًا ﴿۲۳﴾

၂၃။ (အို-နဗီတမန်တော်) မလွဲဧကန် ငါအရှင်မြတ်သည်သာလျှင် အသင့်အပေါ်ဝယ် ကုရ်အာန်ကျမ်းတော်မြတ်ကို တဖြည်းဖြည်း ချပေးတော်မူခဲ့၏။

---

(၁) အလ္လာဟ်အရှင်မြတ်ကိုယ်တော်တိုင် ဂျန္နတ်သားတို့အား စင်ကြယ်သန့်ရှင်း အပြစ်ကင်းသော ရသာရေ၊ ရမကာရေကို တိုက်ကျွေးတော်မူမည်။ ဤသည် ဂျန္နတ်သားတို့အား အလ္လာဟ်အရှင်မြတ် မြှောက်စားတော်မူခြင်းပင်။ အရဗီဘာသာစာပေတွင် "ရှရားဗ်" ဟူသည် သောက်သုံးရာအားလုံးကို ဆိုသည်။ ကြည့်-ရာဃိဗ်။

အရ်ဒူစာပေတွင် ခေါ်ဝေါ်သုံးနှုန်းလျက်ရှိသော မူးယစ်တွေဝေစေသော အကျင့်စာရိတ္တ ပျက်ပြားစေသော "ရှရားဗ်" နှင့် ဤအာယတ်တော်တွင်လာရှိသော "ရှရားဗ်"နှင့် လားလားမျှ မသက်ဆိုင်ပေ။ ကြည့်-မာဂျိဒီ၊ အစောင်(၇)၊ စာမျက်နှာ-၁၁၆၄၊ အောက်ခြေအမှတ်(၁၂)။

(၂) အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ဂျန္နတ်သားတို့အား ဂျန္နတ်သုခအဝဝကို ချီးမြှင့်တော်မူပြီးနောက် ပိုမိုမြှောက်စားတော်မူရန်အလို့ငှာ အလ္လာဟ်အရှင်မြတ်ဘက်တော်မှ "ဤသည် အသင်တို့၏ အကျင့်သီလများ၏ အကျိုးဆက်ဖြစ်သည်၊ အသင်တို့၏ကြိုးပမ်းမှုသည် အောင်မြင်ပြီ၊ ငါအရှင်မြတ် လက်ခံတော်မူပြီ" ဟူ၍ ချီးကျူးသြဘာစကား မြွက်ကြားတော်မူပေမည်။ ထိုသည့် သြဘာစကားကို ➤➤

فَاصْبِرْ لِحُكْمِ رَبِّكَ وَلَا تُطِعْ مِنْهُمْ اٰثِمًا اَوْ كَفُوْرًا ﴿٢٤﴾

၂၄။ သို့ဖြစ်ပေရာ အသင်သည် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အမိန့်တော်၏အပေါ်၌ ကြံ့ခိုင်စွာရပ်တည်၍နေပါလေ။ [၁] ၎င်းပြင် အသင်သည် ထိုသူတို့အနက်မှ မည်သည့် အပြစ်ကျူးလွန်သူ၏ပြောဆိုချက်ကိုမျှသော်လည်းကောင်း၊ မည်သည့် သွေဖည်ငြင်းပယ်သူ၏ ပြောဆိုချက်ကိုမျှသော်လည်းကောင်း၊ မလိုက်နာပါလေနှင့်။

وَاذْكُرِ اسْمَ رَبِّكَ بُكْرَةً وَّاَصِيْلًا ﴿٢٥﴾

၂၅။ ထို့ပြင်အသင်သည် နံနက်ယံ၌လည်းကောင်း၊ ညနေချမ်း၌လည်းကောင်း၊ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ နာမံတော်ကို တသစီးဖြန်းပါလေ။

وَمِنَ الَّيْلِ فَاسْجُدْ لَهٗ وَسَبِّحْهُ لَيْلًا طَوِيْلًا ﴿٢٦﴾

၂၆။ တစ်ဖန် အသင်သည် ည၌၏ အစိတ်အပိုင်းတစ်ခုခု၌လည်း ထိုအရှင်မြတ်အား "စဂျ်ဒဟ်" ပျပ်ဝပ်ဦးချပါလေ။ ထို့မှတစ်ပါး အသင်သည် ည၌၏ရှည်လျားစွာသော အစိတ်အပိုင်း၌ ထိုအရှင်မြတ် စင်ကြယ်သန့်ရှင်းတော်မူကြောင်းကို မြွက်ဆိုပါလေ။ [၂]

---

➤➤ ကြားနာကြရသောအခါ ဂျန္နတ်သားတို့သည် အတိုင်းမသိ ပျော်ရွှင်ကြပေမည်။ ပီတိ ဖြစ်ကြပေမည်။ (ကျွန်တော်မျိုးတို့သည် ယင်း ဂျန္နတ်သားတို့တွင် အပါအဝင်ဖြစ်ကြရသည် ဖြစ်ပါစေ၊ အို-မဟာကရုဏာတော်ရှင်)။

① အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို တမန်တော်မြတ်ထံသို့ ကာလ၊ ဒေသ၊ အင်္ဂါ၊ အချိန်အခါကာလအားလျော်စွာ တဖြည်းဖြည်းချပေးတော်မူခဲ့၏။ ယင်းသို့ ချပေးတော်မူခြင်းအားဖြင့် တစ်ဘက်တွင် တမန်တော်မြတ်သည် ကြံ့ခိုင်တည်ကြည်စွာ ရပ်တည်တော်မူနိုင်ပေမည်၊ စိတ်နှလုံးတည်ငြိမ်ပေမည်။ အခြားတစ်ဘက်တွင် လူသားတို့သည် မိမိတို့၏ အဆိုးနှင့်အကောင်းကို ဝေဖန်ခွဲခြား၍ သိရှိလာကြပေမည်။ မည်သည့်အကျင့်သီလများကို စောင့်ထိန်းခြင်းဖြင့် ဂျန္နတ်သို့ ရောက်နိုင်သည်၊ မည်သည့်ပြစ်မှုများကို ကျူးလွန်ခြင်းကြောင့် ငရဲသို့လားနိုင်သည်များကိုလည်း သိရှိလာကြပေမည်။ သို့ ကုရ်အာန်ကျမ်းလာ တရားတော်များကို ကြားနာရပါလျက် အကယ်၍ မလိုက်နာကြလျှင် ၎င်းတို့၏ သဘောပင်၊ သို့ရာတွင် တမန်တော်မြတ်သည် မိမိအရှင်မြတ်၏ အမိန့်တော်အပေါ်၌ တည့်မတ်မှန်ကန်စွာ ရပ်တည်နေတော်မူရမည်သာ၊ နောက်ဆုံး အဆုံးအဖြတ်ကို စောင့်မျှော်နေတော်မူရမည်သာ။

② ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်အား စင်ကြယ်သန့်ရှင်းတော်မူကြောင်း တသမြွက်ဆိုရန် အမိန့်တော်သည် အဘယ်နည်း။ ပထမအာယတ်တော်တွင်ပါရှိသော ည၌အချိန် ပျပ်ဝပ်ဦးချမှုသည် ➤➤

إِنَّ هَٰٓؤُلَآءِ يُحِبُّونَ ٱلْعَاجِلَةَ وَيَذَرُونَ وَرَآءَهُمْ يَوْمًا ثَقِيلًا ﴿٢٧﴾

၂၇။ စင်စစ်ကေန် ဤသူတို့ကား လောကီဘဝကို နှစ်သက်ကြကုန်၏။ ထို့ပြင် ၎င်းတို့သည် ခက်ခဲကြီးလေးလှစွာသော နေ့တစ်နေ့ကိုမူ မိမိတို့၏ နောက်ဘွင် စွန့်ပစ်၍ထားကြကုန်၏။ (တစ်နည်း) သို့ရာတွင် မိမိတို့ရှေ့၌ (ကြုံကြိုက်အံ့သော) ခက်ခဲ လေးလံစွာသော နေ့တစ်နေ့ကိုမူ ၎င်းတို့သည် စွန့်ထားကြကုန်၏။ (လျစ်လျူပြုထားကြ၏။)

نَّحْنُ خَلَقْنَٰهُمْ وَشَدَدْنَآ أَسْرَهُمْ ۖ وَإِذَا شِئْنَا بَدَّلْنَآ أَمْثَٰلَهُمْ تَبْدِيلًا ﴿٢٨﴾

၂၈။ ငါအရှင်မြတ်သည်ပင် ၎င်းတို့အား ဖန်ဆင်းတော်မူခဲ့သည့်ပြင် ငါအရှင်မြတ်သည်ပင် ၎င်းတို့၏ (ခန္ဓာကိုယ်၏) အဆစ်အဆက် အဆစ်အပိုင်းတို့ကို (အကြောအခြင်များဖြင့် ချည်နှောင်၍) ခိုင်ခံ့တော်မူစေခဲ့၏။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် အလိုရှိတော်မူသောအခါဝယ် ၎င်းတို့၏အစား ၎င်းတို့ကဲ့သို့သောသူတို့အား လဲလှယ်တော်မူပေမည်။

إِنَّ هَٰذِهِۦ تَذْكِرَةٌ ۖ فَمَن شَآءَ ٱتَّخَذَ إِلَىٰ رَبِّهِۦ سَبِيلًا ﴿٢٩﴾

၂၉။ ဧကန်မလွဲ ဤ "စူရဟ်" ကဏ္ဍသည် ဆုံးမသြဝါဒပင်ဖြစ်၏။ သို့ဖြစ်ပေရာ မည်သူမဆို အလိုရှိပါလျှင် ၎င်းအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်အထံတော်သို့ (သွားရာ)လမ်းကို ရွေးချယ်ရမည်သာ။ ၁

---

▶▶ "တဟဂ်ျဂျုဒ်" ကို ဆိုလိုပါက၊ ဤ အာယတ်တော်တွင်ပါရှိသော စင်ကြယ်သန့်ရှင်းကြောင်း တသမှုသည် ညဥ့်အချိန်တွင် "တဟဂ်ျဂျုဒ်" အပြင်၊ အလ္လာဟ်အရှင်မြတ်အား စင်ကြယ်သန့်ရှင်းတော်မူကြောင်းများစွာ တသ မြွက်ဆိုရမည်ဟူ၍ ဖြစ်ပေမည်။ အကယ်၍ ပထမ အာယတ်တော်တွင် ပါရှိသော ညဥ့်အချိန် ပျပ်ဝပ်ဦးချမှုသည် မဃ်ရိဗ်နှင့် အိရှာဆွလာတ်ကို ရည်ညွှန်းသည်ဆိုပါက၊ ဤအာယတ်တော်တွင် ပါရှိသော စင်ကြယ်သန့်ရှင်းတော်မူကြောင်း တသမြွက်ဆိုမှုသည် "တဟဂ်ျဂျုဒ်" ဆွလာတ်ကို ရည်ညွှန်းမည်ဟူ၍ ဆိုရပေမည်။

(၁) တမန်တော်မြတ်၌ သူတစ်ပါးအား အတင်းအဓမ္မ တရားရယူစေရန် တာဝန်မရှိ။ ကုရ်အာန်ကျမ်းမြတ်သည် အလွန်ထင်ရှား ပြတ်သားသော အဆုံးအမသြဝါဒဖြစ်သည်။ ယင်းကုရ်အာန်ကျမ်းမြတ်ဖြင့် သွန်သင်ဆုံးမသြဝါဒပေးတော်မူရန်သာ တာဝန်ရှိသည်။ သို့သွန်သင်ဆုံးမ သြဝါဒပေးတော်မူပြီးသည့် နောက်ပိုင်းတွင် ▶▶

وَمَا تَشَاءُونَ إِلَّا أَن يَشَاءَ اللَّهُ ۚ إِنَّ اللَّهَ كَانَ عَلِيمًا حَكِيمًا ﴿٣٠﴾

၃၀။ စင်စစ် အလ္လာဟ်အရှင်မြတ် အလိုရှိတော်မမူဘဲ အသင်တို့သည် အလိုရှိနိုင်ကြမည်မဟုတ်ပေ။ [၁] စင်စစ်ဧကန် အလ္လာဟ်အရှင်မြတ်သည် (အရာခပ်သိမ်းတို့ကို) အကြွင်းမဲ့သိတော်မူသောအရှင်၊ နက်နဲသိမ်မွေ့သောဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသောအရှင်၊ ဖြစ်တော်မူ၏။ [၂]

يُدْخِلُ مَن يَشَاءُ فِي رَحْمَتِهِ ۚ وَالظَّالِمِينَ أَعَدَّ لَهُمْ عَذَابًا أَلِيمًا ﴿٣١﴾

၃၁။ ထိုအရှင်မြတ်သည် မိမိ အလိုရှိတော်မူသောသူအား မိမိကရုဏာတော်အတွင်းဝယ် ဝင်ရောက်စေတော်မူ၏။ သို့ရာတွင် မတရားသောသူတို့အဖို့မှာမူကား၊ ထိုအရှင်မြတ်သည် နာကျင်ဖွယ်ဖြစ်သော ပြစ်ဒဏ်တော်ကို အဆင်သင့်ပြုလုပ်၍ ထားရှိတော်မူပြီး ဖြစ်ပေသည်တကား။

---

➤➤ မည်သူမဆို အလိုရှိက ယင်းကျမ်းမြတ်ကို လက်ကိုင်ထား၍ အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုကို ရယူနိုင်ပေသည်။ ဤသည် သက်ဆိုင်ရာပုဂ္ဂိုလ်၏ အလိုဆန္ဒအတိုင်းပင်ဖြစ်သည်။

(၁) ဤသဘောပါရှိပြီးဖြစ်သည်။ ကြည့်-ကုရ်အာန်(၇၄း၅၆)

(၂) အလ္လာဟ်အရှင်မြတ်သည် အားလုံး သိတော်မူသည်၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူသည်။ ထိုအရှင်မြတ်သည် လူတိုင်း၏ အရည်အချင်း စွမ်းရည်သတ္တိကို အကြွင်းမဲ့သိတော်မူသည်၊ လူတိုင်းနှင့်ပတ်သက်၍ ထိုအရှင်မြတ်၏အဆုံးအဖြတ်သည် တော်တည့်၊ မှန်ကန်၊ လျော်ကန် သင့်မြတ်သည်သာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် တစ်ဦးတစ်ယောက်အား ကရုဏာပြုတော်မူအံ့၊ ဤသည်လည်း မှန်ကန်သည်သာ ဖြစ်သည်၊ ထိုအရှင်မြတ်သည် တစ်ဦးတစ်ယောက်အား ပြစ်ဒဏ်ပေးတော်မူအံ့၊ ဤသည်လည်း မှန်ကန်သည်သာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်သည် အားလုံး သိတော်မူရာ၊ ဆင်ခြင်တုံတရားနှင့် ပြည့်စုံတော်မူပြီး၊ ထိုအရှင်မြတ် ပြုစီရင်တော်မူသမျှသည် အဘယ်မှာလျှင် မှားယွင်းနိုင်အံ့နည်း။

# စေလွှတ်ခြင်းခံရသောလေများကဏ္ဍ




ဤကဏ္ဍသည် “မုရ်စလာတ်” “စေလွှတ်ခြင်းခံရသောလေများ” ကဏ္ဍမည်၏။
မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်အပေါင်း(၅၀)၊
ရကူအ်အပိုဒ်(၂)ပိုဒ်၊ အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

အလွန်တရာ ကြင်နာသနားတော်မူသော၊
ကရုဏာတော်ရှင်ဖြစ်တော်မူသော၊
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَالْمُرْسَلٰتِ عُرْفًا ۝١

၁။ (ငါအရှင်မြတ်သည်) အကျိုးဖြစ်စေအံ့သောငှာ စေလွှတ်ခြင်းခံရသောလေများကို၊ စေလွှတ်ခြင်းခံရသော၊ ဆက်တိုက်၊ တိုက်ခတ်သောလေများကို သက်သေထူတော်မူ၏။

فَالْعٰصِفٰتِ عَصْفًا ۝٢

၂။ တစ်ဖန် (ငါအရှင်မြတ်သည်) ပြင်းထန်စွာ တိုက်ခတ်သောလေများကိုသက်သေထူတော်မူ၏။ [၁]

وَّالنّٰشِرٰتِ نَشْرًا ۝٣

၃။ ထို့ပြင် (ငါအရှင်မြတ်သည်) တိမ်များကို ပြန့်နှံ့စေသောလေများကို သက်သေထူတော်မူ၏။

فَالْفٰرِقٰتِ فَرْقًا ۝٤

၄။ တစ်ဖန် (ငါအရှင်မြတ်သည် ယင်းတိမ်များကို) ကစဉ့်ကလျားဖြစ်စေသော လေများကို သက်သေထူတော်မူ၏။

---

(၁) လေသည် ပထမသော် သာယာဖြည်းညှင်းစွာ တိုက်ခတ်၏။ ထိုအခါ လူများသည် မျှော်လင့်ချက်ကြီးငယ်များ ထားရှိကြ၏။ ထို့နောက် အတန်ကြာသော် လေသည် ပြင်းထန်စွာ တိုက်ခတ်လာ၏၊ မုန်တိုင်းကျလာ၏။ ထိုအခါ လူများသည် စိုးရိမ်ကြောက်ရွံ့လာကြ၏။ နောင်တမလွန်နှင့် ဤပစ္စက္ခသည်လည်း ဤနည်းပမာပင်။ လူများသည် ဤပစ္စက္ခတွင် အချို့ကိစ္စများကို အကျိုးရှိသည်ဟု ထင်မှတ်ကြ၏။ ယင်းကိစ္စများနှင့်စပ်လျဉ်း၍ မျှော်လင့်ချက်ကြီးငယ်များ ထားရှိကြ၏။ သို့ရာတွင် ယင်းကိစ္စများသည် ကိယာမတ်နေ့တွင် ဖြစ်ရပ်မှန်အတိုင်း ကြောက်ရွံ့ဖွယ်ရာများအဖြစ်နှင့် ပေါ်လွင်ထင်ရှားလာသည့်အခါ၊ လူများသည် အကြောက်ကြီးကြောက်ကြပေမည်၊ အလန့်ကြီးလန့်ကြပေမည်။

فَالْمُلْقِيٰتِ ذِكْرًا ۝٥

၅။ တစ်ဖန် (ငါအရှင်မြတ်သည် စိတ်နှလုံးများတွင် အလ္လာဟ်အရှင်မြတ်အား) အောက်မေ့တသသတိရမှု ထည့်သွင်းပေးသောလေများကို သက်သေထူတော်မူ၏။

عُذْرًا اَوْ نُذْرًا ۝٦

၆။ ဝန်ချ တောင်းပန်ရန်သော်လည်းကောင်း၊ သတိပေးနှိုးဆော်ရန်သော်လည်းကောင်း၊ (တစ်နည်း) အကြောင်းပြချက် မပြုနိုင်ရန်သော်လည်းကောင်း၊ သတိပေး နှိုးဆော်ရန်သော်လည်းကောင်း။ [၁]

اِنَّمَا تُوْعَدُوْنَ لَوَاقِعٌ ۝٧

၇။ ဧကန်မလွဲ အသင်တို့ ချိန်းဆိုခြင်းခံကြရသော ချိန်းဆိုချက်မှာ အမှန်ပင် ဆိုက်လာမည်ဖြစ်၏။

فَاِذَا النُّجُوْمُ طُمِسَتْ ۝٨

၈။ စင်စစ်သော်ကား အကြင်ခါဝယ် ကြယ်နက္ခတ်တို့သည် ကွယ်ပျောက်၍သွားကြရပေမည်။ (တစ်နည်း) ကြယ်နက္ခတ်တို့၏အလင်းရောင်မှာ မှေးမှိန်၍ သွားရပေမည်။

---

(၁) ဤအာယတ်တော်နှင့်စပ်လျဉ်း၍ ရှားဟ်အဗ်ဒုလ်အဇီဇ် သခင်က အောက်ပါအတိုင်း ဖွင့်ဆိုထားသည်။

(၁) (ဝဟီ)ထုတ်ပြန်ပို့ချတော်မူခြင်းဖြင့် ကာဖိရ်များ ဆင်ခြေမလဲနိုင်ရန်နှင့် (အီမာန်) သက်ဝင် ယုံကြည်သော မုအ်မင်န်များ သတိတရား ရကြရန်ပင်ဖြစ်သည်။

(၂) အချို့အာယတ်တော်များတွင် ကျင့်ရန်၊ ကြဉ်ရန် တရားများ၊ ယုံကြည်ချက်များ၊ အမိန့်တော်များ ပါရှိ၏။ ယင်းသို့သော အာယတ်တော်များသည် အကြောင်းပြရန်ဖြစ်သည်၊ စောကြောမေးမြန်းကြသည့်အခါ သက်ဆိုင်ရာပုဂ္ဂိုလ်က ကျွန်တော်မျိုးသည် အဘယ်ကိစ္စကို အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ ပြုလုပ်ခြင်းဖြစ်ပါသည်။ အဘယ်ကိစ္စကို အလ္လာဟ်အရှင်မြတ်၏ တားမြစ်ချက်အရ ကြဉ်ရှောင်ခြင်း ဖြစ်ပါသည် ဟူ၍ ဖြေဆိုအကြောင်းပြနိုင်ရန်ဖြစ်သည်။

အချို့အာယတ်တော်များတွင် အတိတ်ခေတ် ဖြစ်စဉ်ဖြစ်ရပ်များ၊ အတ္ထုပ္ပတ္တိများ၊ အနာဂတ်နှင့် စပ်လျဉ်းသည့် ဟောကြားချက်များ၊ သတင်းများ ပါရှိ၏။ ယင်းသို့သော အာယတ်တော်များသည် အများအားဖြင့် မယုံကြည်သူများအား သတိပေးရန် ကြောက်ရွံ့စေရန်အတွက် ဖြစ်သည်။

ဤကဏ္ဍတွင် များသောအားဖြင့် မယုံကြည်သူများကိုပင် ရည်ညွှန်းမိန့်ဆိုထားတော်မူသည်။

အသို့ရှိစေ (ဝဟီ) အာယတ်တော်များကို ယူဆောင်လာသော ကောင်းကင်တမန်များနှင့် (ဝဟီ) အာယတ်တော်များ၏ အသံကို သက်ဆိုင်ရာတို့ထံ ပို့ပေးသော လေများ သက်သေဖြစ်ကြသည်မှာ၊ ➤➤

وَإِذَا السَّمَاءُ فُرِجَتْ ﴿٩﴾

၉။ ၎င်းပြင် အကြင်အခါဝယ် မိုးကောင်းကင်သည် အက်ကွဲ၍ သွားရပေမည်။

وَإِذَا الْجِبَالُ نُسِفَتْ ﴿١٠﴾

၁၀။ ထို့ပြင် အကြင်အခါဝယ် တောင်များသည် အမြစ်မှ လှန်ပစ်ခြင်းကို ခံခဲ့ကြရ(ပြီးလျှင် အစိတ်စိတ်အပိုင်းပိုင်းဖြစ်ကာ လေထဲ၌ လွင့်ပါးလျက်ရှိကြရ)ပေမည်။

وَإِذَا الرُّسُلُ أُقِّتَتْ ﴿١١﴾

၁၁။ ထိုမှတစ်ပါး အကြင်အခါဝယ် (ရစူလ်)တမန်တော်များသည် (သတ်မှတ်ထားသော) အချိန်၌ လာရောက်စုရုံးကြရပေမည်။

لِأَيِّ يَوْمٍ أُجِّلَتْ ﴿١٢﴾

၁၂။ ယင်း (အရေးကိစ္စတို့သည်) မည်သည့်နေ့ရက်သို့ ရွှေ့ဆိုင်းခြင်း ခံခဲ့ရသနည်း။

لِيَوْمِ الْفَصْلِ ﴿١٣﴾

၁၃။ စီရင်ဆုံးဖြတ်မည့် နေ့သို့ (ရွှေ့ဆိုင်းခြင်းခံခဲ့ရလေ၏။) [၁]

وَمَا أَدْرَاكَ مَا يَوْمُ الْفَصْلِ ﴿١٤﴾

၁၄။ စင်စစ်သော်ကား (အို-နဗီတမန်တော်)၊ စီရင်ဆုံးဖြတ်မည့်နေ့သည် အဘယ်နည်းဟူ၍ အသင်သိပါသလော။

وَيْلٌ يَوْمَئِذٍ لِلْمُكَذِّبِينَ ﴿١٥﴾

၁၅။ ထိုနေ့တွင်မူကား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (အကြီးအကျယ်) ပျက်စီးမှုသည် ရှိချေအံ့သတည်း။ [၂]

---

➤➤ မကြာမီအတွင်း အချိန်တစ်ချိန်မှချ ဆိုက်ရောက်လာမည်ပင်ဖြစ်သည်။ ထိုအခါ ပြစ်မှုကျူးလွန်သောသူများသည် ပြစ်ဒဏ်စီရင်ခြင်း ခံကြရပေမည်။ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားကာ ပြစ်မှုများကို ကြဉ်ရှောင်သော ပုဂ္ဂိုလ်များမှာမူ အန္တရာယ်ခပ်သိမ်း ကင်းငြိမ်းကြပေမည်။

⓵ အရေးကိစ္စအဝဝကို မည်သည့်နေ့ရက်အတွက် ယခုကဲ့သို့ ရွှေ့ဆိုင်းထားသနည်း။ ထိုနေ့တွင် အလ္လာဟ်အရှင်မြတ်သည် အရေးကိစ္စအဝဝနှင့် စပ်လျဉ်း၍ နောက်ဆုံးယတိပြတ် အဆုံးအဖြတ် ပေးတော်မူမည်ဖြစ်ပေသည်။ အလ္လာဟ်အရှင်မြတ် အလိုတော်ရှိပါက ယခု ချက်ချင်းလက်ငင်းပင် အဆုံးအဖြတ် ပေးတော်မူနိုင်ပေသည်။ သို့ရာတွင် ယင်းသို့ ရွှေ့ဆိုင်းထားတော်မူခြင်းမှာလည်း အလ္လာဟ်အရှင်မြတ်၏ အလိုတော်အရပင်ဖြစ်သည်။

أَلَمْ نُهْلِكِ الْأَوَّلِينَ ﴿١٦﴾

၁၆။ ငါအရှင်မြတ်သည် ရှေးသူဟောင်းတို့အား ပျက်စီးစေတော်မူခဲ့သည် မဟုတ်လော။

ثُمَّ نُتْبِعُهُمُ الْآخِرِينَ ﴿١٧﴾

၁၇။ ထို့နောက်တစ်ဖန် ငါအရှင်မြတ်သည် နောင်လာနောက်သားတို့အားလည်း ထိုရှေးသူဟောင်းတို့၏ နောက်သို့ပင် လိုက်စေတော်မူမည်ဖြစ်၏။ [၁]

كَذَٰلِكَ نَفْعَلُ بِالْمُجْرِمِينَ ﴿١٨﴾

၁၈။ ငါအရှင်မြတ်သည် ပြစ်မှုကျူးလွန်သူတို့အား ဤအတိုင်း ပြုလုပ်တော်မူလေ့ရှိ၏။

وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ﴿١٩﴾

၁၉။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (အကြီးအကျယ်)ပျက်စီးမှုသည် ရှိပေမည်။

---

(၂) အဆုံးအဖြတ်ပေးတော်မူမည့် နေ့ကား အဘယ်နည်း။ ထိုနေ့ကား အမှန်တရားကို မဟုတ်မမှန်ဟူ၍ ယိုးစွပ်ငြင်းပယ်ခဲ့ကြသော မုသာဝါဒီများ ပျက်စီးခြင်းကြီးမလှ ပျက်စီးကြရမည့် နေ့ပင်။ ထိုနေ့တွင် ၎င်းတို့ အသက်ထက်ဆုံး ဖွတ်မိုက် ငြင်းပယ်နေခဲ့ကြသော အရာများသည် အထင်းသား၊ အမြင်သား၊ အထင်အရှား ပေါ်လွင်လာပေမည်၊ ထို့အတွက် အရှက်တကွဲ အကျိုးနည်း ဖြစ်ကြရပေမည်။ ကျူးလွန်ပြစ်မှားခဲ့ကြသည့် ပြစ်မှုကြီးငယ်များ၏ ပြစ်ဒဏ်ကို မရှုမလှ ခံကြရပေမည်။

(၁) ကိယာမတ်ကို မယုံကြည်သူများက ဤမျှ အတိုင်းမသိ ကြီးမားသော စကြာဝဠာကြီးသည် အသို့လျှင် ချုပ်ငြိမ်းနိုင်အံ့နည်း၊ လူသားအားလုံးတို့သည် တစ်ချိန်တည်း အသို့လျှင် သေဆုံးကုန်နိုင်ကြအံ့နည်း။လူ့အဆက်သည် အသို့လျှင် ဆိတ်သုဉ်းသွားနိုင်အံ့နည်း၊ ကိယာမတ်၊ ဂျန္နတ်၊ ဂျဟန္နမ် စသည်များသည် လုပ်ဇာတ်များသာ ဖြစ်သည်ဟူ၍ ထင်မှတ်ပြောဆိုနေကြ၏။

၎င်းတို့သိထားအပ်ကြသည်မှာ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့အလျင် မြောက်မြားစွာသောသူများကို ၎င်းတို့၏ပြစ်မှုများကြောင့် ကွပ်မျက်တော်မူခဲ့လေပြီ၊ အတိတ်ခေတ်များတွင် မြောက်မြားစွာသော သူများကို သေစေတော်မူခဲ့လေပြီ။ ယခုလည်း အလ္လာဟ်အရှင်မြတ်သည် ကွပ်မျက်တော်မူလျက်၊ သေစေတော်မူလျက်ပင်။

ကွပ်မျက်မှု သေစေမှု အစဉ်အလာသည် ယခုလည်းရှိလျက်ပင်၊ ဤသည်ကို ၎င်းတို့အသိပင်။ အလ္လာဟ်အရှင်မြတ်သည် အတိတ်ခေတ်များတွင် ပြစ်မှုကျူးလွန်သူတို့အား ကွပ်မျက်တော်မူလေ့ရှိခဲ့ပေရာ၊ ယခုခေတ်တွင် ပြစ်မှုကျူးလွန်သူတို့အားလည်း ယခင်အစဉ်အလာအတိုင်း ကွပ်မျက်တော်မူမည်ပင်။

အလ္လာဟ်အရှင်မြတ်သည် ခေတ်အသီးသီးတွင် အလွန်တန်ခိုးအာဏာ ကြီးမားခဲ့သော၊ မောက်မာပလွှားခဲ့သော၊ ဆူပူသောင်းကျန်းခဲ့သော သူယုတ်မာကြီးငယ်တို့အား ကွပ်မျက်တော်မူနိုင်ခဲ့သည်ဖြစ်ရာ၊ သတ္တဝါအပေါင်းတို့ကို တစ်ချိန်တည်းတွင် အသို့လျှင် သေစေတော်မမူနိုင်ဘဲ ရှိအံ့နည်း၊ သူယုတ်မာအားလုံးကို တစ်ချိန်တည်း အသို့လျှင် ကွပ်မျက်တော်မမူနိုင်ဘဲရှိအံ့နည်း။

أَلَمْ نَخْلُقكُّم مِّن مَّآءٍ مَّهِينٍ ﴿٢٠﴾

၂၀။ ငါအရှင်မြတ်သည် အသင်တို့အား ယုတ်ညံ့သောရေဖြင့် ဖန်ဆင်းတော်မူခဲ့သည် မဟုတ်လော။

فَجَعَلْنَهُ فِى قَرَارٍ مَّكِينٍ ﴿٢١﴾

၂၁။ တစ်ဖန် ငါအရှင်မြတ်သည် ထိုရေကို လုံခြုံသောနေရာ၌ ထားရှိတော်မူခဲ့၏။ [၁]

إِلَىٰ قَدَرٍ مَّعْلُومٍ ﴿٢٢﴾

၂၂။ သတ်မှတ်ပြီးဖြစ်သော အချိန်ကာလတိုင်အောင်။

فَقَدَرْنَا فَنِعْمَ الْقَدِرُونَ ﴿٢٣﴾

၂၃။ တစ်ဖန် ငါအရှင်မြတ်သည် စနစ်တကျ စီမံပြုပြင် ချိန်ဆခန့်မှန်းတော်မူခဲ့ရာ စင်စစ် (ငါအရှင်မြတ်သည်) အဘယ်မျှ ကောင်းမြတ်သော စီမံပြုပြင် ချိန်ဆ ခန့်မှန်းတော်မူသောအရှင်၊ ဖြစ်တော်မူပါသနည်း။ [၂]

وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ﴿٢٤﴾

၂၄။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (အကြီးအကျယ်) ပျက်စီးမှု သည် ရှိပေမည်။

---

(၁) ဤအာယတ်တော်တွင် လုံခြုံသောနေရာဟူသည် မိခင်၏ဝမ်းဗိုက်တွင်းရှိ "သားအိမ်"ကို ဆိုလိုသည်။ လူသားတစ်ဦးသည် မိမိကိုယ်တိုင် အမိ၏ဝမ်းဗိုက်တွင်းရှိ ထူးထွေဆန်းပြားလှသည့် သားအိမ်တွင် (၉)လကျော် (၁၀)လနီးပါး မည်သို့မည်ပုံ နေခဲ့သည်ကိုပင် စဉ်းစားဆင်ခြင် တွေးမြင်ပါက၊ အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ကို သိရှိလာပေမည်။ ကိယာမတ်ကိုလည်း ယုံကြည်လာပေမည်။

(၂) အလ္လာဟ်အရှင်မြတ်သည် လူသားအား ကလလရေကြည်တစ်စက်မှ စတင်၍ တဖြည်းဖြည်း အဆင့်ဆင့် ပြုစုပျိုးထောင်လာပြီး လူတလုံးသူတလုံးဖြစ်အောင် ဖန်ဆင်းတော်မူ၏။ ဤပစ္စက္ခတွင် အမြင့်မြတ်ဆုံးဘဝသို့ မြှင့်တင်ပေးထားတော်မူ၏။ ယင်းသို့ ပြုစွမ်းတော်မူနိုင်သော အရှင်တစ်ပါးသည် လူသားအား သေပြီးနောက် ပြန်လည်ရှင်ထစေတော်မူနိုင်မည် မဟုတ်ပါလော။

အချို့က ဤအာယတ်တော်တွင် ( قَدَرْنَا ) "ကဒရ်နာ" ဟူသောပုဒ်ကို "ငါအရှင်မြတ်သည် စနစ်တကျ ချိန်ဆ စီမံထားတော်မူသည်" ဟူ၍ အနက်ပြန်ကြသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် လူသားအား ရုပ်ပိုင်းဘက်တွင်လည်းကောင်း၊ နာမ်ပိုင်းဘက်တွင်လည်းကောင်း၊ အပိုအလိုမရှိ၊ အချိုးကျကျ၊ အဆင်းလှလှ၊ အရည်အချင်း အပြည့်အဝ၊ အံ့ဖွယ်သရဲ ချင့်ချိန်၍ ဖန်ဆင်းထားတော်မူသည်။ အလ္လာဟ်အရှင်မြတ်၏ ချင့်ချိန်လျာထားမှုတွင် ပိုသည်လည်းမရှိ၊ လိုသည်လည်းမရှိ၊ နုတ်ပယ်ရန်လည်း မရှိ၊ ဖြည့်စွက်ရန်လည်းမရှိ။ အလ္လာဟ်အရှင်မြတ်၏ ချင့်ချိန်လျာထားမှုကား ကောင်းမြတ်လှပါဘိတကား။

اَلَمۡ نَجۡعَلِ الۡاَرۡضَ كِفَاتًا ﴿٢٥﴾

၂၅။ ငါအရှင်မြတ်သည် ပထဝီမြေကို စုရုံးပေါင်းစပ်ရာနေရာဌာန၊ စုရုံးပေါင်းစပ်သောအရာ၊ ပြုလုပ်တော်မူခဲ့သည်မဟုတ်လော။

اَحۡيَآءً وَّاَمۡوَاتًا ﴿٢٦﴾

၂၆။ အသက်ရှင်သူတို့အားလည်းကောင်း၊ သူသေတို့အားလည်းကောင်း၊

وَّجَعَلۡنَا فِيۡهَا رَوَاسِىَ شٰمِخٰتٍ وَّاَسۡقَيۡنٰكُمۡ مَّآءً فُرَاتًا ﴿٢٧﴾

၂၇။ ထိုမှတစ်ပါး ငါအရှင်မြတ်သည် ယင်းပထဝီမြေဝယ် မြင့်စွင့်လှစွာသော တောင်များကို (နေရာတကျ) စိုက်ထူတော်မူသည်။ ၎င်းပြင် ငါအရှင်မြတ်သည် အသင်တို့အား ချိုမြသောရေကို တိုက်ကျွေးတော်မူသည်။

وَيۡلٌ يَّوۡمَئِذٍ لِّلۡمُكَذِّبِيۡنَ ﴿٢٨﴾

၂၈။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (ကြီးကျယ်လှစွာ)သော ပျက်စီးမှုသည် ရှိချေမည်သာတည်း။

اِنۡطَلِقُوۡۤا اِلٰى مَا كُنۡتُمۡ بِهٖ تُكَذِّبُوۡنَ ﴿٢٩﴾

၂၉။ အသင်တို့သည် မဟုတ်မမှန်ဟူ၍ မိမိတို့ စွပ်စွဲငြင်းပယ်လျက် ရှိခဲ့ကြသော (ပြစ်ဒဏ်)ရှိရာသို့ လျှောက်၍ သွားကြလေကုန်။

اِنۡطَلِقُوۡۤا اِلٰى ظِلٍّ ذِىۡ ثَلٰثِ شُعَبٍ ﴿٣٠﴾

၃၀။ အသင်တို့သည် အကိုင်းသုံးကိုင်း ခွဲထွက် သောအရိပ်ဆာယာ(အောက်)သို့ လျှောက်သွားကြလေကုန်၏။

لَّا ظَلِيۡلٍ وَّلَا يُغۡنِىۡ مِنَ اللَّهَبِ ﴿٣١﴾

၃၁။ (ယင်းအရိပ်တွင်) သက်သာမှုလည်း ရှိမည်မဟုတ်ပေ။ မီးတောက်မီးလျှံ(၏ အရှိန်မှ) ကာကွယ်မည်လည်း မဟုတ်ပေ။ [၁]

---

(၁) ကိယာမတ်နေ့ကို မယုံကြည်သူများအား ကိယာမတ်နေ့တွင် သက်ဆိုင်ရာကောင်းကင်တမန်များက ဤအာယတ်တော်တွင် လာရှိသည့်အတိုင်း ပြောဆိုကြိမ်းမောင်းကြပေမည်။ ➤➤

إِنَّهَا تَرْمِي بِشَرَرٍ كَالْقَصْرِ ﴿٣٢﴾

၃၂။ ဧကန်အမှန် ယင်းမီးသည် အဆောက်အအုံကြီးများ ပမာရှိသော မီးပွင့်မီးပွားများကို ပေါက်ထွက်စေမည်။

كَأَنَّهُ جِمَالَتٌ صُفْرٌ ﴿٣٣﴾

၃၃။ ယင်းမီးပွင့်မီးပွားများမှာ အဝါရောင်ရှိသော ကုလားအုပ်များကဲ့သို့ ရှိကြပေမည်။ [၁]

وَيْلٌ يَوْمَئِذٍ لِلْمُكَذِّبِينَ ﴿٣٤﴾

၃၄။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (ကြီးကျယ်လှစွာသော) ပျက်စီးမှုသည် ရှိပေမည်။

هَٰذَا يَوْمُ لَا يَنْطِقُونَ ﴿٣٥﴾

၃၅။ ဤနေ့သည် ၎င်းတို့ စကားပြောဆိုခြင်း မပြုနိုင်သောနေ့ပင်။

وَلَا يُؤْذَنُ لَهُمْ فَيَعْتَذِرُونَ ﴿٣٦﴾

၃၆။ ၎င်းတို့သည် အကြောင်းပြ ဆင်ခြေလဲနိုင်ကြရန် ခွင့်ပြုခြင်းကိုလည်း ခံကြရမည်မဟုတ်ပေ။ [၂]

---

➤➤ ကျမ်းချက်များတွင် လာရှိသည်မှာ ကိယာမတ်နေ့တွင် ကာဖိရ်များ၏ အရိပ်ဆာယာအတွက် ငရဲမှ မီးခိုးများ ထွက်ပေါ်လာပေမည်၊ ထိုမီးခိုးများသည် အစိတ်စိတ်အမွှာမွှာ ဖြစ်သွားပေမည်။ ထိုမီးခိုးများသည် ကာဖိရ်တိုင်းကို ဝန်းရံထားပေမည်၊ မီးခိုးတစ်စိတ်တစ်ဒေသသည် ကာဖိရ်၏ဦးခေါင်းပေါ်၌ အရိပ်ပမာ မိုးလျက်ရှိပေမည်၊ မီးခိုးတစ်စိတ်တစ်ဒေသသည် ကာဖိရ်၏ လက်ယာဘက်တွင်လည်းကောင်း၊ တစ်စိတ်တစ်ဒေသသည် လက်ဝဲဘက်တွင်လည်းကောင်း ရံလျက်ရှိပေမည်။ ဤသို့ဖြင့် ကိယာမတ်နေ့တွင် ကာဖိရ်တိုင်းကို မီးခိုးအစုသုံးခုသည် သုံးဘက်သုံးတန်မှ ဝန်းရံလျက်ရှိပေမည်။ ကာဖိရ်များသည် စစ်ကြောမေးမြန်းခြင်း ပြီးဆုံးသည်အထိ အဆိုပါမီးခိုးရိပ်အောက်တွင်ပင် နေကြရပေမည်။ ကိယာမတ်နေ့ကို ယုံကြည်သော မုအ်မင်န်တို့မူကား "အရ်ရှ်" ပလ္လင်တော်၏ အရိပ်ဆာယာအောက်တွင် အေးချမ်းသာယာစွာ (မတ်တတ်ရပ်လျက်) ရှိကြပေမည်။ ကိယာမတ်နေ့တွင် ကာဖိရ်များကို ဝန်းရံထားမည့်အရိပ်သည် အပန်းပြေစေမည်လည်းမဟုတ်၊ အပူရှိန်ကို ကာကွယ်ပေးမည်လည်းမဟုတ်၊ မီးခိုး၏ အရိပ်သာဖြစ်သည်။

(၁) ငရဲမီးသည် မြင့်မားသော အဆောက်အအုံကြီးများပမာ၊ မြင့်မားသော မီးပွင့်များကို ပေါက်ထွက်စေမည်၊ တစ်နည်း-ယင်းငရဲမီးသည် ကြီးမားသော အဆောက်အအုံကြီးများတမျှ ကြီးမားသောမီးပွင့်များကို ပေါက်ထွက်စေမည်။ ယင်းမီးပွင့်များသည် အဆင်းအရောင်တွင် မည်းနက်သော ကုလားအုတ်ကြီးများနှင့် တူပေမည်။ ငရဲမီးကား ကြောက်မက်ဖွယ်ပါတကား။

(၂) ကိယာမတ်နေ့တွင် အချို့ဌာနများ၌ ကာဖိရ်များသည် စကားပင်ပြောဆိုနိုင်ကြမည်မဟုတ်၊ ပြောဆိုခွင့်ရရှိသော ဌာနများတွင် ပြောဆိုခွင့် ရရှိကြသော်လည်း၊ ၎င်းတို့၏ပြောဆိုမှုသည် မည်သို့မျှ အကျိုးသက်ရောက်စေမည် မဟုတ်ပေ။ ဤသို့ဖြင့် ၎င်းတို့၏ ပြောဆိုမှု၊ မပြောဆိုမှုသည် မထူးခြားပေ၊ အတူတူပင်။

وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ﴿٣٧﴾

၃၇။ ထိုနေ့သည် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (ကြီးကျယ်လှစွာသော) ပျက်စီးမှုသည်ရှိချေမည်။

هَٰذَا يَوْمُ الْفَصْلِ ۖ جَمَعْنَاكُمْ وَالْأَوَّلِينَ ﴿٣٨﴾

၃၈။ ဤသည် စီရင်ဆုံးဖြတ်မည့်နေ့ပင်။ ငါအရှင်မြတ်သည် အသင်တို့အားလည်းကောင်း၊ ရှေးသူဟောင်းတို့အားလည်းကောင်း၊ စုရုံးတော်မူလိုက်ပြီ။

فَإِن كَانَ لَكُمْ كَيْدٌ فَكِيدُونِ ﴿٣٩﴾

၃၉။ သို့ဖြစ်ပေရာ အကယ်၍ အသင်တို့၌ အကြံအစည် တစ်စုံတစ်ရာရှိခဲ့မူ ငါအရှင်မြတ်နှင့် ယှဉ်ပြိုင်၍ ကြံစည်ကြလေကုန်။ [၁]

وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ﴿٤٠﴾

၄၀။ ထိုနေ့တွင်မူကား မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (ကြီးကျယ်လှစွာသော) ပျက်စီးမှုသည် ရှိချေအံ့သတည်း။

إِنَّ الْمُتَّقِينَ فِي ظِلَالٍ وَعُيُونٍ ﴿٤١﴾

၄၁။ ဧကန်မလွဲ "မွတ္တကီ" သူတော်စင်တို့သည် အရိပ်အာဝါသများ၌လည်းကောင်း၊ စမ်းများ၌လည်းကောင်း။

وَفَوَاكِهَ مِمَّا يَشْتَهُونَ ﴿٤٢﴾

၄၂။ ထိုသူတို့ အာသာဆန္ဒရှိကြလေသော သစ်သီးဝလံများ၌လည်းကောင်း၊ ရှိနေကြပေမည်။

---

(၁) လူသားတို့သည် လူ့လောကတွင်၊ တရားရုံးများတွင် ဉာဏ်နီဉာဏ်နက်အသုံးပြုကာ နည်းပရိယာယ်အမျိုးမျိုးဖြင့် အနက်ကို အဖြူလုပ်ကြသည်။ လေးသောအပြစ်ကို ပေါ့စေသည်။ အမျိုးမျိုးကြံစည်ကြသည်။ အချို့လူသားတို့သည် လူ့လောကတရားရုံးများတွင် အမျိုးမျိုးအကြံအစည်ထုတ်နိုင်သကဲ့သို့ ကိယာမတ်နေ့ အလ္လာဟ်အရှင်မြတ်၏ တရားရုံးတော်တွင်လည်း အကြံအစည် ထုတ်နိုင်ကြမည်ဟု ထင်မှတ်ကောင်း ထင်မှတ်ကြပေမည်။ ထိုသို့ကား အလျှင်းမဟုတ်။ ကိယာမတ်နေ့တွင် အလ္လာဟ်အရှင်မြတ်က "ဤသည် အဆုံးအဖြတ်ပေးတော်မူမည့်နေ့ဖြစ်သည်၊ ငါအရှင်မြတ်သည် အသင်တို့အားလည်းကောင်း၊ ရှေးသူဟောင်းတို့အားလည်းကောင်း၊ အားလုံးတို့အား စုပေါင်းထားတော်မူလိုက်ပြီ၊ အသင်တို့၌ လွတ်မြောက်ရန် အကြံအစည်ရှိက စုပေါင်းကြံစည်ကြ" ဟု မြွက်ဆိုတော်မူပေမည်။

كُلُوا وَاشْرَبُوا هَنِيٓـًٔا بِمَا كُنتُمْ تَعْمَلُونَ ﴿٤٣﴾

၄၃။ (၎င်းတို့သည် ဤသို့ပြောဆိုခြင်းကို ခံကြရပေမည်။) အသင်တို့သည် မိမိတို့ ကျင့်မှုခဲ့ကြလေသော (ကောင်းမှု သုစရိုက်များကြောင့်) မြိန်ယှက်စွာ စားသုံးခြင်းကိုလည်းကောင်း၊ သောက်သုံးခြင်းကိုလည်းကောင်း၊ ပြုကြလေကုန်။

إِنَّا كَذَٰلِكَ نَجْزِى الْمُحْسِنِينَ ﴿٤٤﴾

၄၄။ ဧကန်မလွဲ ငါအရှင်မြတ်သည် ကောင်းမှုပြုသူတို့အား ဤအတိုင်းပင် အစားပေးလေ့ရှိတော်မူ၏။

وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ﴿٤٥﴾

၄၅။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (ကြီးကျယ်လှစွာသော) ပျက်စီးမှုသည် ရှိပေမည်။

كُلُوا وَتَمَتَّعُوا قَلِيلًا إِنَّكُم مُّجْرِمُونَ ﴿٤٦﴾

၄၆။ အသင်တို့သည် (ဤပစ္စက္ခဘဝ၌) အနည်းငယ်မျှ (ကာလတိုင်အောင်) စားသုံးခြင်းကိုလည်းကောင်း၊ အကျိုးခံစားခြင်းကိုလည်းကောင်း၊ ပြုကြလေကုန်။ ဧကန်မလွဲ အသင်တို့သည် အပြစ်ရှိသူများပင် ဖြစ်ကြကုန်၏။ [၁]

وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ﴿٤٧﴾

၄၇။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (ကြီးကျယ်လှစွာသော) ပျက်စီးမှုသည် ရှိပေမည်။

---

(၁) ဤအာယတ်တော်သည် ပြစ်မှုကျူးလွန်သော ကာဖိရ်များကို ရည်ညွှန်းမိန့်ဆိုထားတော်မူသော အာယတ်တော်ဖြစ်သည်။ ဆိုလိုသည်ကား (အို-ကာဖိရ်အပေါင်းတို့) "အသင်တို့သည် ရက်အနည်းငယ် စားသုံးလိုက်ကြဦး၊ အကျိုးခံစားလိုက်ကြဦး ဤစားသောက်ခြင်း၊ အကျိုးခံစားခြင်းသည် အသင်တို့အား မကောင်းကျိုးသာပေးလိမ့်မည်၊ အကြောင်းသော်ကား အသင်တို့သည် အထင်အရှား ပြစ်မှုကျူးလွန်သူများ ဖြစ်ကြပေသည်။ ယင်း ပြစ်မှုကျူးလွန်မှု၏ ပြစ်ဒဏ်မှာ ရာသက်ပန် ငရဲလားခြင်းနှင့် ကြီးလေးသော ပြစ်ဒဏ်ပင်ဖြစ်သည်။ ယင်းသို့ ပြစ်မှု ကျူးလွန်သူများအား အသင်တို့သည် ရက်အနည်းငယ် စားသုံးလိုက်ကြဦး၊ အကျိုးခံစားလိုက်ကြဦး"ဟု မိန့်ဆိုတော်မူခြင်းမှာ ကြိုးမိန့်ကျပြီးသော တရားခံတစ်ဦးအား ကြိုးမပေးမီ "အသင်တို့အလိုရှိသမျှ ဖွင့်ဟပြောလေ၊ အသင်၏အလိုဆန္ဒကို ဖြည့်စွမ်းနိုင်ရန် ကြိုးစားပါမည်" ဟု သက်ဆိုင်ရာ အာဏာပိုင်က ပြောဆိုခြင်းမျိုးပင်။

وَإِذَا قِيلَ لَهُمُ ارْكَعُوا لَا يَرْكَعُونَ ﴿٤٨﴾

၄၈။ စင်စစ်သော်ကား ၎င်းတို့အား "အသင်တို့သည် 'ရုကူအ်' ဦးညွှတ်ကြလေကုန်၊" ဟု အမိန့်ပေးတော်မူသောအခါ ၎င်းတို့သည် "ရုကူအ်" ဦးညွှတ်ခြင်းကို ပြုကြသည် မဟုတ်ပေ။ [၁]

وَيْلٌ يَوْمَئِذٍ لِّلْمُكَذِّبِينَ ﴿٤٩﴾

၄၉။ ထိုနေ့တွင် မဟုတ်မမှန်ဟူ၍ စွပ်စွဲငြင်းပယ်ကြကုန်သောသူတို့၌ (ကြီးကျယ်လှစွာသော) ပျက်စီးမှုသည် ရှိချေမည်။

فَبِأَيِّ حَدِيثٍ بَعْدَهُ يُؤْمِنُونَ ﴿٥٠﴾

၅၀။ စင်စစ် ၎င်းတို့သည် (ကုရ်အာန်ကျမ်းတော်မြတ်)အပြင် (တစ်နည်း) (ကုရ်အာန်ကျမ်းတော်မြတ် ကျရောက်ခဲ့ပြီး)နောက် မည်သည့်စကားကို သက်ဝင်ယုံကြည်ကြကုန်အံ့နည်း။ [၂]

---

(၁) ယင်းကာဖိရ်များအား အသင်တို့သည် ဆွလာတ်ဝတ်ပြုရာ၌ ဦးညွှတ်ကြဟု ပြောဆိုသောအခါ တစ်နည်း- ၎င်းတို့အား အသင်တို့သည် အလ္လာဟ်အရှင်မြတ် အမိန့်တော်များရှေ့မှောက်တွင် ဦးညွှတ်ကြဟု ပြောဆိုသောအခါ ၎င်းတို့သည် ဦးမညွှတ်ကြပေ။ အကယ်၍သာ ၎င်းတို့သည် ထိုအချိန်တွင် ဦးညွှတ်ခဲ့ကြပါက ယနေ့ ဤ(နောင်တမလွန်)ဘဝတွင် ဦးခေါင်းထောင်နိုင်ကြမည် ဖြစ်ပေသည်။ ထိုဘဝတွင် ဦးခေါင်းထောင်ခဲ့ကြသည့်အတွက် ဤဘဝတွင် ဦးခေါင်းငိုက်စိုက်ကြရပြီ မဟုတ်တုံလော။ ဤကား မည်သူ့မပြု မိမိမှုပင်၊ ခေါင်းမာခြင်း၏ အကျိုးပင်။

(၂) ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်ဖြစ်သည်၊ တရားအဆုံးအမ၊ ဩဝါဒတော်ဖြစ်သည်။ အနက်အဓိပ္ပါယ်ပြည့်ဝလှသည်၊ နက်နဲသိမ်မွေ့လှသည်၊ ထိမိလှသည်၊ အကျိုးသက်ရောက်လှသည်။ ဤမည်သော ကုရ်အာန်ကျမ်းမြတ်ထက် ပိုမိုကောင်းမွန်မြင့်မြတ်သော ကျမ်းသည် အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။ ဤကာဖိရ်များသည် ဤသို့သော ကုရ်အာန်ကျမ်းမြတ်ကိုပင် မယုံကြည်ကြပါပေ။ အခြား အဘယ်အရာကို ယုံကြည်ကြမည်နည်း။ ကုရ်အာန်ကျမ်းမြတ်၏နောက်တွင် မိုးပေါ်မှကျလာမည့် အခြားကျမ်းများ ရှိလေသေးသလော။ ယင်းကာဖိရ်များသည် ထိုကျမ်းကိုပင် စောင့်မျှော်နေကြလေသလော။ ကုရ်အာန်ကျမ်းမြတ်၏ နောက်တွင် မိုးပေါ်ကကျရန် အခြားကျမ်းမရှိပြီ။ ကုရ်အာန်ကျမ်းမြတ်ကိုမှ မယုံကြည်ပါက၊ ယုံကြည်ရန် အခြားကျမ်းလည်းမရှိပြီ။

# ကြီးကျယ်သောသတင်းကဏ္ဍ



ဤကဏ္ဍသည် "စူရဟ်နဗာ့" ကြီးကျယ်သော သတင်းပါဝင်သည့် ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၄၀)၊ ရကူအ် အပိုဒ်(၂) အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမ်တော်ဖြင့် အစပြုပါ၏။

عَمَّ يَتَسَآءَلُوْنَ ①

၁။ ထို (ကိယာမတ်ကို မယုံကြည်သောသူတို့သည်) မည်သည့်အရာနှင့်စပ်လျဉ်း၍ မိမိတို့ အချင်းချင်း မေးမြန်းလျက် ရှိကြသနည်း။

عَنِ النَّبَاِ الْعَظِيْمِ ②

၂။ ၎င်းတို့သည် အကြင် ကြီးကျယ်လှစွာသော (ကိယာမတ်၏)အကြောင်းသတင်းကို (မေးမြန်းလျက် ရှိကြကုန်၏)။

الَّذِيْ هُمْ فِيْهِ مُخْتَلِفُوْنَ ③

၃။ ၎င်းတို့သည် ယင်း အကြောင်းသတင်းနှင့် စပ်လျဉ်း၍ (အမြင်မှန်ရရှိသောသူတို့နှင့် အယူဝါဒ) ကွဲလွဲနေသူများ ဖြစ်ကြကုန်၏။

كَلَّا سَيَعْلَمُوْنَ ④

၄။ (၎င်းတို့သည် ကိယာမတ် ဖြစ်မည်မဟုတ်ဟု ထင်မှတ်နေကြ၏။) (ထိုသို့) အလျှင်းမဟုတ်၊ (ထို ကိယာမတ်သည် မုချ ဆိုက်ရောက်လာမည်ဖြစ်ရာ) ၎င်းတို့သည် မကြာမြင့်မီပင် (ယင်းကိယာမတ်ကို မျက်မြင်ဒိဋ္ဌ တွေ့မြင်) သိရှိကြရပေမည်။ [၁]

---

① **သေပြီးနောက်တစ်ဖန် ရှင်ပြန်ထရမည်မှာ အမှန်ပင်။**

ကြီးကျယ်သောအကြောင်းသတင်း ဟူသည်ကား အဘယ်နည်း။ အချို့က ကြီးကျယ်သော အကြောင်းသတင်း ဟူသည် သေပြီးနောက်တစ်ဖန် ရှင်ပြန်ထခြင်းကို ဆိုလိုသည်ဟူ၍လည်းကောင်း၊ အချို့က ကုရ်အာန်ကျမ်းမြတ်ကို ဆိုလိုသည်ဟူ၍လည်းကောင်း၊ အချို့က တမန်တော်မြတ်၏ (နုဗုဝါတ်)တမန်တော် ➤➤

➤➤ ဖြစ်မှုကို ဆိုလိုသည်ဟူ၍လည်းကောင်း၊ အမျိုးမျိုး အနက်ဖွင့်ကြသည်။ ယင်းအဆိုများအနက် ပထမအဆိုသည် ပိုမို သင့်မြတ်သည်။ ထာနဝီသခင်ကလည်း ဤအတိုင်းပင် အနက်ဖွင့်ထားသည်။

ကာဖိရ်၊ မုရှ်ရစ်က်များသည် တမန်တော်မြတ်၏ တမန်တော်ဖြစ်မှုနှင့် စပ်လျဉ်း၍လည်းကောင်း၊ ကုရ်အာန်ကျမ်းမြတ်နှင့် စပ်လျဉ်း၍လည်းကောင်း၊ အချင်းချင်း ကွဲပြားလျက်ရှိကြသည်။ ထို့အတူ သေပြီးနောက် တဖန် ရှင်ပြန်ထခြင်းနှင့်စပ်လျဉ်း၍လည်း ကွဲပြားလျက်ရှိကြသည်။

အချို့က သေပြီးနောက် ရှင်ပြန်ထခြင်းသည် အလျင်းဖြစ်မည်မဟုတ်ဟု ဆိုကြသည်။

ကြည့်-ကုရ်အာန်(၂၃:၃၇)။

အချို့က သေပြီးနောက် တဖန် ပြန်လည်ရှင်ပြန်ထခြင်းနှင့် စပ်လျဉ်း၍ ဒွိဟသံသယ ဖြစ်နေကြသည်။

ကြည့်-ကုရ်အာန်(၄၅:၃၂)။

အချို့က သေပြီးနောက် တဖန် ပြန်လည်ရှင်ပြန်ထရေးကို ဆိုရာတွင် ရုပ်နှင့်နာမ်၂-ခုလုံး၏ ရှင်ပြန်ထရေးကို ငြင်းဆိုကြသည်။

အချို့က ရုပ်၏ရှင်ပြန်ထရေးကိုသာ ငြင်းဆိုကြသည်။ ကြည့်-တဖ်စီရ်အဗုစုအူဒ်။

သေပြီးနောက် တဖန် ပြန်လည်ရှင်ပြန်ထရေးကို ငြင်းဆိုသော ကာဖိရ်၊ မုရှ်ရစ်က်များ ပြက်ရယ်ပြုသည့် သဘောဖြင့် ကိယာမတ် ဘယ်သောအခါ ဖြစ်မည်နည်း။ ကိယာမတ်ဖြစ်ရာတွင် အဘယ်ကြောင့် ကြန့်ကြာနေပါသနည်း။ ယခု အဘယ်ကြောင့် ကိယာမတ် မဖြစ်သနည်း။ စသည်ဖြင့် အချင်းချင်းအားလည်းကောင်း၊ တမန်တော်မြတ်နှင့်မွတ်စ်လင်မ်များအားလည်းကောင်း၊ မေးမြန်းကြသည်။

ပွင့်လေသမျှသော တမန်တော်များသည် ကိယာမတ်ဖြစ်မည့်အကြောင်း အသီးသီး သတိပေးနှိုးဆော်ခဲ့ကြပေသည်။ သို့တစေလည်း ကာဖိရ်၊ မုရှ်ရစ်က်များသည် ပြက်ရယ်ပြုသည့်သဘောဖြင့် မေးလျက်သာ ရှိကြပေသည်။

အလ္လာဟ်အရှင်မြတ် မိန့်ကြားထားတော်မူသည့်အတိုင်း အချိန်ကျသည့်အခါ ကိယာမတ် မုချဖြစ်မည်။ သတ္တဝါအားလုံးတို့သည် ရှင်ပြန်ထကြရမည်။ ဤပစ္စက္ခတွင် ဆည်းပူးခဲ့ကြသည့် ကောင်းမှု၊ မကောင်းမှုတို့၏ အကျိုးပြစ်များကို အသီးသီး ခံ စံကြရမည်။ အရာရာတွင် အကြောင်းနှင့်အကျိုး ဒွန်တွဲ ဆက်စပ်လျက်ရှိသည်။ ဤပစ္စက္ခသည် အကြောင်းဖြစ်သည်။ နောင်တမလွန်ဘဝသည် အကျိုးဖြစ်သည်။ ကိယာမတ်မဖြစ်က ဤပစ္စက္ခသည် အချည်းနှီးဖြစ်ချိမ့်မည်။

ဤသို့ကား အလျင်းမဟုတ်၊ ကိယာမတ် မုချဖြစ်မည်။ ထိုအခါ ကာဖိရ်၊ မုရှ်ရစ်က်များသည် ကိယာမတ်ကို ကိုယ်တွေ့မျက်မြင် သိရှိသွားကြပေမည်။ ကာဖိရ်၊ မုရှ်ရစ်က်များသည် သေဆုံးပြီးနောက် ပြစ်ဒဏ်ခံကြရသည့်အခါမှပင် ကိယာမတ်၏သဘောကို သိရှိနားလည်သွားကြပေမည်။ ထိုအချိန်ကား မဝေးလှပြီ။

အလ္လာဟ်အရှင်မြတ်သည် စကြာဝဠာအဝန်းကို နတ္ထိက လုံးဝမရှိသည့်ဘဝမှ စတင်ဖန်ဆင်းတော်မူခဲ့သည်ဖြစ်ရာ ယင်းစကြာဝဠာအဝန်းကို တဖန်ရှင်ပြန်ထစေအောင် ပြုလုပ်ရန်မှာ ထိုအရှင်မြတ်အဖို့ အသို့လျှင် အခက်အခဲ ရှိနိုင်အံ့နည်း။ ကြည့်-ကုရ်အာန် (၂၃:၇၇-၈၃။ ၇၅:၁-၁၅)။

သေပြီးနောက်တဖန် ရှင်ပြန်ထခြင်းကို ငြင်းဆန်ခြင်းသည် တစ်နည်းအားဖြင့် အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ကို ငြင်းဆန်ရာရောက်သည်။ ထို့အတွက် ရှေ့အာယတ်တော်များတွင် ထိုအရှင်မြတ် ပြုလုပ်စီရင်ထားတော်မူသော အချို့ကျေးဇူးတော်များကို ထုတ်ဖော်မိန့်ဆိုထားတော်မူသည်။

ثُمَّ كَلَّا سَيَعْلَمُونَ ۝٥

၅။ ထို့နောက်တဖန် (ငါအရှင်မြတ် ထပ်မံ မိန့်ကြားတော်မူအံ့၊ ၎င်းတို့သည် ကိယာမတ် ဖြစ်မည်မဟုတ်ဟု ထင်မှတ်နေကြ၏၊) အလျှင်းမဟုတ်၊ (ထိုကိယာမတ်သည် အမှန်ပင် ဆိုက်ရောက်လာမည်ဖြစ်ပေရာ) ၎င်းတို့သည် (မျက်ဝါးထင်ထင်တွေ့မြင်) သိရှိကြရမည်သာ။

أَلَمْ نَجْعَلِ الْأَرْضَ مِهَادًا ۝٦

၆။ (စင်စစ် ကိယာမတ်မဖြစ်နိုင်ဟု ငြင်းပယ်ခြင်းသည် ငါအရှင်မြတ်၏ တန်ခိုးတော်ကို ငြင်းပယ်စော်ကားခြင်းသာ ဖြစ်ပေသည်။ ငါအရှင်မြတ်၏ ထူးကဲဆန်းပြားလှစွာသော တန်ခိုးတော်ကို ၎င်းတို့သည် မတွေ့ကြလေသလော၊) ငါအရှင်မြတ်သည်သာလျှင် ပထဝီမြေကို (လူသတ္တဝါအပေါင်းတို့၏အကျိုးငှာ) အခင်း ပြုလုပ်တော်မူခဲ့သည် မဟုတ်လော။

وَّالْجِبَالَ أَوْتَادًا ۝٧

၇။ ၎င်းပြင် (ငါအရှင်မြတ်သည်ပင် ယင်းပထဝီမြေ တည်ငြိမ်အံ့သောငှာ) တောင်များကို သတ်များ၊ ငုတ်များ၊ (ပြုလုပ်တော်မူခဲ့သည် မဟုတ်လော)။

وَّخَلَقْنٰكُمْ أَزْوَاجًا ۝٨

၈။ ထိုမှတပါး ငါအရှင်မြတ်သည်သာလျှင် အသင်တို့အား (ယောကျ်ားနှင့် မိန်းမဟူ၍) အစုံ၊ အစုံ (စုံတွဲများ) ဖန်ဆင်းတော်မူခဲ့၏။

وَّجَعَلْنَا نَوْمَكُمْ سُبَاتًا ۝٩

၉။ ၎င်းပြင် ငါအရှင်မြတ်သည်သာလျှင် အသင်တို့၏အိပ်စက်ခြင်းကို (အသင်တို့အဖို့) အပန်းဖြေမှုပြုလုပ်တော်မူခဲ့၏။

وَّجَعَلْنَا الَّيْلَ لِبَاسًا ۝١٠

၁၀။ ထို့ပြင် ငါအရှင်မြတ်သည်သာလျှင် ညဉ့်ကို (အသင်တို့အကျိုးငှာ) ဝတ်ရုံ(အကာအကွယ်) ပြုလုပ်တော်မူခဲ့၏။

وَّجَعَلْنَا النَّهَارَ مَعَاشًا ﴿١١﴾

၁၁။ ထို့မှတပါး ငါအရှင်မြတ်သည်သာလျှင် နေ့ကို (အသင်တို့အဖို့) အသက်မွေးဝမ်းကျောင်းပြုရန် အချိန် ပြုလုပ်တော်မူခဲ့၏။

وَبَنَيْنَا فَوْقَكُمْ سَبْعًا شِدَادًا ﴿١٢﴾

၁၂။ ထို့ပြင် ငါအရှင်မြတ်သည်သာလျှင် အသင် တို့ထက်ဝယ် အလွန်ခိုင်ခန့်လှစွာသော မိုးခုနှစ်ထပ် ကို ဆောက်လုပ်တော်မူခဲ့၏။

وَّجَعَلْنَا سِرَاجًا وَّهَّاجًا ﴿١٣﴾

၁၃။ ထို့ပြင် ငါအရှင်မြတ်သည်သာလျှင် (ယင်းမိုး ကောင်းကင်၌) လင်းဝင်းတောက်ပလှစွာသော ဆီမီး တစ်ခုကို ဖန်ဆင်းတော်မူခဲ့၏။

وَّأَنزَلْنَا مِنَ الْمُعْصِرَاتِ مَاءً ثَجَّاجًا ﴿١٤﴾

၁၄။ ထို့မှတပါး ငါအရှင်မြတ်သည်သာလျှင် ညှစ် ထုတ်သောတိမ်များမှ (ရေအပြည့်ရှိသောမိုးတိမ်များမှ) (မိုး)ရေကို သည်းထန်စွာရွာသွန်းစေတော်မူခဲ့၏။ [၁]

لِّنُخْرِجَ بِهِ حَبًّا وَّنَبَاتًا ﴿١٥﴾

၁၅။ (ယင်းမိုးရေကို ရွာသွန်းစေတော်မူခြင်းမှာ) ငါအရှင်မြတ်သည် ထိုမိုးရေဖြင့် ကောက်ပဲသီးနှံများကို လည်းကောင်း၊ ဟင်းသီးဟင်းရွက်ပင်များကိုလည်း ကောင်း၊ ပေါက်ရောက်စေတော်မူရန်လည်း ဖြစ်ပေ သည်။

وَّجَنَّاتٍ أَلْفَافًا ﴿١٦﴾

၁၆။ ၎င်းပြင် ပူးကပ်ထူထပ်သော ဥယျာဉ်များ (ပေါက်ရောက်စေတော်မူရန်လည်း) ဖြစ်ပေသတည်း။

---

(၁) အလ္လာဟ်အရှင်မြတ်သည် ပထဝီမြေကြီး၊ တောင်၊ မိန်းမ၊ ယောကျာ်း၊ အိပ်စက်မှု၊ ည၌၊ နေ့၊ မိုး၊ နေ၊ ရေများကို အံ့မဆုံး ဖန်ဆင်းထားတော်မူသည်။ ဤသည် ထိုအရှင်မြတ်၏ တန်ခိုးတော်အနန္တ၏ အချို့သက်သေ လက္ခဏာများပင်။ ဤသည်တို့ကို စတင်ဖန်ဆင်းနိုင်တော်မူသော အရှင်မြတ်သည် ထိုသည့်အရာ များကို ဆိတ်သုဉ်းအောင်၊ ဆိတ်သုဉ်းပြီးနောက်တဖန် ပြန်လည်ရှင်ထအောင် အသို့လျှင် ပြုစွမ်းတော်မမူနိုင်အံ့နည်း။
အထက်တွင် ကိယာမတ်ဖြစ်နိုင်သည့်အကြောင်း ပါရှိသည်။ ရှေ့တွင် ကိယာမတ်ဖြစ်သည့်အခါ မည်သို့မည်ပုံ ဖြစ်ပျက်မည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

إِنَّ يَوْمَ الْفَصْلِ كَانَ مِيقَاتًا ﴿١٧﴾

၁၇။ ဧကန်မလွဲ စီရင်ဆုံးဖြတ်မည့်နေ့ကား *သတ်မှတ်ပြီးဖြစ်သောအချိန်ကာလတစ်ခုပင်* [၁] ဖြစ်ပေသည်၊

يَوْمَ يُنْفَخُ فِي الصُّورِ فَتَأْتُونَ أَفْوَاجًا ﴿١٨﴾

၁၈။ အကြင်နေ့တွင် တံပိုးခရာမှုတ်ခြင်း ခံရပေမည်။ ထိုအခါ အသင်တို့သည် အစုလိုက်၊ အစုလိုက် လာကြပေမည်။

وَفُتِحَتِ السَّمَاءُ فَكَانَتْ أَبْوَابًا ﴿١٩﴾

၁၉။ ၎င်းပြင် (ထိုနေ့တွင်) မိုးကောင်းကင်သည် ပွင့်သွားပေမည်။ ထိုအခါ ယင်းမိုးကောင်းကင်၌ တံခါးများသာ ဖြစ်သွားကြပေမည်။

وَسُيِّرَتِ الْجِبَالُ فَكَانَتْ سَرَابًا ﴿٢٠﴾

၂၀။ ထို့ပြင် (ထိုနေ့တွင်) တောင်များသည် ရွေ့လျားစေခြင်းကို ခံကြရပေမည်။ ထိုအခါ ယင်းတောင်များသည် သဲ(များပမာ) (လင်းလျှပ်ပမာ) ဖြစ်သွားကြပေမည်။

إِنَّ جَهَنَّمَ كَانَتْ مِرْصَادًا ﴿٢١﴾

၂၁။ ဧကန်အမှန် ဂျဟန္နမ်ငရဲသည် (ကျူးလွန်ဆိုးသွမ်းသူတို့အဖို့) ချောင်းမြောင်းရာဌာနပင် ဖြစ်ပေသည်။

لِلطَّاغِينَ مَآبًا ﴿٢٢﴾

၂၂။ လွန်စွာ ဆိုးသွမ်း ပြစ်မှုကျူးလွန်သူတို့၏ ပြန်လည်ရာစခန်း(လည်း) ဖြစ်ပေသည်။

لَابِثِينَ فِيهَا أَحْقَابًا ﴿٢٣﴾

၂၃။ (၎င်းတို့သည်) ယင်းဂျဟန္နမ်ငရဲ၌ အဆုံးမရှိသော အချိန်ကာလတိုင်အောင် နေထိုင်ကြရပေမည်။

---

(၁) **ကိယာမတ်နေ့သည် သတ်မှတ်ပြီးနေ့ဖြစ်၏။**

ကိယာမတ်နေ့သည် အလ္လာဟ်အရှင်မြတ် အဆုံးအဖြတ် ပေးတော်မူမည့်နေ့ ဖြစ်သည်။ ထိုနေ့တွင် အကောင်းနှင့်အဆိုး လုံးဝခွဲခြားတော်မူမည်။ ဤပစ္စက္ခတွင် ကာဖိရ်နှင့် မွတ်စ်လင်မ်၊ သူတော်နှင့်မသူတော် အားလုံး ရောပြွမ်းလျက်ရှိကြသည်။ ကမ္ဘာ့တန်ဆာပလာများ၏ အကျိုးကိုလည်း ရောပြွမ်းခံစားလျက် ရှိကြသည်။ ကိယာမတ်နေ့တွင်မူ ဤသည့်ရောပြွမ်းမှုသည် အလျင်းရှိမည် မဟုတ်ပေ။ ကာဖိရ်နှင့်မွတ်စ်လင်မ် သူတော်နှင့် မသူတော်အားလုံး ကွဲပြားခြားနားသွားကြပေမည်။ ကိယာမတ်နေ့သည် ဤပစ္စက္ခဘဝ ကုန်ဆုံးပြီးနောက်တွင် ဖြစ်မည်။ ထိုနေ့သည် အလ္လာဟ်အရှင်မြတ်ထံတော်တွင် သတ်မှတ်ပြီးဖြစ်သည်။ ထိုနေ့ ဖြစ်ပေါ်လာမည့်အချိန်ကို ထိုအရှင်မြတ်သာလျှင် သိတော်မူသည်။

لَا يَذُوْقُوْنَ فِيْهَا بَرْدًا وَّلَا شَرَابًا ﴿٢٤﴾

၂၄။ ၎င်းတို့သည် ယင်းဂျဟန္နမ်ငရဲ၌ မည်သည့် အေးချမ်း၊ အေးဆေး၊ အေးမြမှုကိုမျှ မြည်းစမ်းကြရမည်မဟုတ်ပေ။ ၎င်းပြင် မည်သည့်သောက်သုံးရာ ပစ္စည်းကိုမျှလည်း မြည်းစမ်းကြရမည် မဟုတ်ပေ။

اِلَّا حَمِيْمًا وَّغَسَّاقًا ﴿٢٥﴾

၂၅။ ပွက်ပွက်ဆူလျက်ရှိသော ရေပူနှင့် ပြည်ပုပ်ကိုသာ (မြည်းစမ်းကြရပေမည်)။ [၁]

جَزَآءً وِّفَاقًا ﴿٢٦﴾

၂၆။ (ဤသည် ၎င်းတို့အား ၎င်းတို့ ကျူးလွန်ခဲ့ကြကုန်သော ပြစ်မှုဒုစရိုက်များနှင့်)လျော်ညီစွာ အစားပေးခြင်းပင် ဖြစ်ပေသည်။

اِنَّهُمْ كَانُوْا لَا يَرْجُوْنَ حِسَابًا ﴿٢٧﴾

၂၇။ ဧကန်မလွဲ ၎င်းတို့သည် မည်သည့်စစ်ဆေးမှုကိုမျှ ကြောက်ရွံ့စိုးရိမ်ခဲ့ကြသည် မဟုတ်ပေ။ မျှော်လင့်ခဲ့ကြသည် မဟုတ်ပေ။

وَّكَذَّبُوْا بِاٰيٰتِنَا كِذَّابًا ﴿٢٨﴾

၂၈။ ထိုမှတပါး ၎င်းတို့သည် ငါအရှင်မြတ်၏ အာယတ်တော်များကို မဟုတ်မမှန်ဟူ၍ ဖွတ်ငြင်းခဲ့ကြပေသည်။ [၂]

---

(၁) <u>ကာဖိရ်များ၏ လားရာဌာန</u>

ပြစ်မှု လွန်စွာကျူးလွန်သော ကာဖိရ်၊ မုရှ်ရစ်က်များ၏ လားရာဘုံသည် ဂျဟန္နမ်ပင်ဖြစ်သည်။ ဂျဟန္နမ်သည် ၎င်းတို့အား အသင့် ချောင်းမြောင်းလျက်ရှိသည်။ ၎င်းတို့သည် ဂျဟန္နမ်တွင် အကန့်အသတ်မရှိ အမြဲထာဝစဉ် နေကြရမည်။ ၎င်းတို့သည် ဂျဟန္နမ်တွင် မည်သည့် အအေးကိုမျှလည်း ခံစားကြရမည်မဟုတ်။ မည်သည့် သောက်သုံးဖွယ်ရာကိုမျှလည်း သောက်သုံးကြရမည်မဟုတ်။ ကျိုက်ကျိုက်ဆူပွက်နေသော ရေပူနှင့် ငရဲသားတို့၏ ကိုယ်ခန္ဓာမှ ယိုစီးနေသော ပြည်ပုပ်များကိုသာ စားသောက်ကြရပေမည်။ ဤသည် ၎င်းတို့၏ မိုက်မဲ ဆိုးသွမ်းကျူးလွန်မှုများနှင့် လျော်ကန်သော အကျိုးပင်။ (အလ္လာဟ်အရှင်မြတ်သည် မိမိ၏ ကျေးဇူးတော်ဖြင့် ကျွန်တော်မျိုးတို့အား အဆိုပါ ဂျဟန္နမ်ငရဲဘုံမှ ဖယ်ရှားတော်မူပါစေသတည်း။)

(၂) ကာဖိရ်၊ မုရှ်ရစ်က်များသည် ဤသို့ စစ်ဆေးမေးမြန်းခြင်း ခံကြရမည်ဟူ၍ပင် မမျှော်လင့်ခဲ့ကြပေ။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်များကို မဟုတ်မမှန်ဟူ၍ အထူးတလည် ငြင်းဆိုခဲ့ကြပေသည်။ ယခုမူ ၎င်းတို့ မမျှော်လင့်ခဲ့ကြသောအရာသည် ၎င်းတို့ရှေ့မှောက် ထင်ထင်ရှားရှား ရောက်ရှိလာချေပြီ။ ၎င်းတို့ မဟုတ်မမှန်ဟုငြင်း ဆိုခဲ့ကြသောအရာသည် အမှန်တကယ် ဟုတ်မှန်နေချေပြီ။

وَكُلَّ شَيْءٍ أَحْصَيْنَٰهُ كِتَٰبًا ﴿٢٩﴾

၂၉။ စင်စစ် ငါအရှင်မြတ်သည် (၎င်းတို့၏ အပြုအမူတို့ကို) အသီးသီး ရေးသားလျက် စေ့ငုစွာ ရေတွက်မှတ်သားတော်မူခဲ့သည်။ [၁]

فَذُوقُوا فَلَن نَّزِيدَكُمْ إِلَّا عَذَابًا ﴿٣٠﴾

၃၀။ သို့ဖြစ်ပေရာ (ငါအရှင်မြတ်သည် ထိုနေ့တွင် ၎င်းတို့အား ယင်းအပြုအမူတို့ကို ပြသတော်မူ၍) အသင်တို့သည် (ပြစ်ဒဏ်၏အရသာကို) မြည်းစမ်းကြလေကုန်။ စင်စစ် ငါအရှင်မြတ်သည် ပြစ်ဒဏ်မှတပါး အခြားတစုံတရာကိုမျှ အသင်တို့၌ ပိုမိုစေတော်မူမည်မဟုတ်(ဟု မိန့်ကြားတော်မူအံ့သတည်း)။ [၂]

إِنَّ لِلْمُتَّقِينَ مَفَازًا ﴿٣١﴾

၃၁။ ဧကန်မလွဲ (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့ရိုသေ ခန့်ညားသောသူတို့အဖို့ အောင်မြင်မှုသည် ရှိပေသည်။

حَدَآئِقَ وَأَعْنَٰبًا ﴿٣٢﴾

၃၂။ (၎င်းတို့ အေးချမ်းသာယာစွာ စားသောက်နေထိုင် သွားလာကြအံ့သောငှာ) ဥယျာဉ်များသည်လည်းကောင်း၊ စပျစ်သီးများသည်လည်းကောင်း၊ (ရှိကြပေမည်)။

وَكَوَاعِبَ أَتْرَابًا ﴿٣٣﴾

၃၃။ သက်တူရွယ်တူ ပျိုကညာများသည်လည်းကောင်း၊

---

(၁) အလ္လာဟ်အရှင်မြတ်သည် အလုံးစုံကို သိမြင်နိုင်တော်မူသော ဉာဏ်တော်ရှင်ဖြစ်တော်မူသည်။ အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်မူသည်။ မှတ်တမ်းတော်တွင် ခရေစေ့တွင်းကျ စ, လယ်, ဆုံး အကုန်အစင် မှတ်သားထားတော်မူသည်။ ထိုမှတ်သားထားတော်မူသည့်အလျောက် ကောင်းကျိုးဆိုးပြစ် ပေးတော်မူမည်သာဖြစ်သည်။

(၂) ကာဖိရ်၊ မုရှ်ရစ်က်များသည် သေ့ဖည်ငြင်းဆန် မနာခံရာတွင် တစ်နေ့တစ်ခြား တိုး၍တိုး၍သာ ဆိုးသွမ်းလျက်ရှိခဲ့ကြပေသည်။ အကယ်၍သာ ၎င်းတို့သည် သေခြင်းတရားနှင့် ကင်း၍ နေခဲ့ကြရသည်ရှိသော် အမြဲတစေတိုး၍တိုး၍ ဆိုးသွမ်းလျက်သာ ရှိကြပေမည်။ ထို့အတွက် အလ္လာဟ်အရှင်မြတ်သည် ငရဲဘုံတွင် ၎င်းတို့အား ပြစ်ဒဏ်ကို တိုး၍တိုး၍ ပေးသွားတော်မူမည်သာ ဖြစ်သတည်း။

ငရဲသားများနှင့်ပတ်သက်၍ ကုရ်အာန်ကျမ်းမြတ်တွင် ဤအာယတ်တော်သည် အပြင်းထန်ဆုံးပင်ဖြစ်သည်။

وَّكَاْسًا دِهَاقًا ﴿٣٤﴾

၃၄။ (အရက်ဖြင့်) ပြည့်လျှံလျက်ရှိသော ခွက်များသည်လည်းကောင်း၊ (ရှိကြပေသည်)။

لَا يَسْمَعُوْنَ فِيْهَا لَغْوًا وَّلَا كِذّٰبًا ﴿٣٥﴾

၃၅။ ထိုသူတို့သည် ယင်းဥယျာဉ်များ၌ မည်သည့် သိမ်ဖျင်းသော စကားကိုမျှလည်းကောင်း၊ မည်သည့် မုသား စကားကိုမျှလည်းကောင်း၊ ကြားကြရမည် မဟုတ်ပေ။

جَزَآءً مِّنْ رَّبِّكَ عَطَآءً حِسَابًا ﴿٣٦﴾

၃၆။ (ဤသည်) အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အထံတော်မှ လုံလောက်စွာ ချီးမြှင့်တော်မူသော အကျိုးဆုလာဒ်ပင်တည်း။ [၁]

رَّبِّ السَّمٰوٰتِ وَالْاَرْضِ وَمَا بَيْنَهُمَا الرَّحْمٰنِ لَا يَمْلِكُوْنَ مِنْهُ خِطَابًا ﴿٣٧﴾

၃၇။ (အကြင်အရှင်မြတ်သည်) မိုးကောင်းကင်များကိုလည်းကောင်း၊ ပထဝီမြေကိုလည်းကောင်း၊ ယင်းမိုးကောင်းကင်များနှင့် ပထဝီမြေနှစ်ခု၏ အကြား၌ ရှိသမျှတို့ကိုလည်းကောင်း၊ ပိုင်ဆိုင်တော်မူသောအရှင် (ရဟ်မာန်) မဟာကရုဏာတော်ရှင် ဖြစ်တော်မူပေသည်။ မည်သူတဦးတယောက်မျှပင် ထိုအရှင်မြတ်နှင့် စကားပြောဆိုပိုင်ခွင့်ရှိမည် မဟုတ်ပေ။

---

(၁) **မုအ်မင်န်သူတော်စင်များ လားရာ ဂျန္နတ်သုခဘုံ။**

အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားသော မုအ်မင်န် သူတော်စင်များသည် နောင်တမလွန်ဘဝတွင် အောင်မြင်ခြင်း ကြီးမက အောင်မြင်ကြပေမည်။ လိုအင်ဆန္ဒအဝဝ ပြည့်ဝကြပေမည်။

မည်သူတစ်ဦးတစ်ယောက်မျှ မမြင်ဘူး၊ မကြားဘူး၊ မတွေ့ဘူးသော၊ အံ့မဆုံး ရှုမငြီး ဥယျာဉ်ကြီးများတွင် အမြဲထာဝရ အေးချမ်းသာယာစွာ မွေ့လျော်စံစားကြရပေမည်။ ထိုဥယျာဉ်များတွင် စားသုံးရန်အလို့ငှာ စပျစ်သီး စသည့် သစ်သီးဝလံ ပန်းမာလ်မျိုးစုံလည်း အသင့်ရှိပေမည်။

တူပျော်ရန် အလို့ငှာ သက်တူရွယ်တူမျှ လုပတင့်တယ် ရှုချင်ဖွယ်ကောင်းလှသော "ဟုရ်" ကညာများလည်း အသင့်ရှိကြပေမည်။

သောက်သုံးရန် အလို့ငှာ စင်ကြယ်သန့်ရှင်းသော၊ ပြည့်လျှံလျက်ရှိသော အဆက်မပြတ်သော အရက်ခွက်များလည်း အသင့်ရှိပေမည်။ ထိုဥယျာဉ်များတွင် အချည်းနှီး အကျိုးမဲ့ဖြစ်သော အသိမ်အဖျင်းစကားများ၊ မဟုတ်မလျား မုသားစကားများကို အလျင်းကြားကြရမည်မဟုတ်ပေ။

အချုပ်မှာ ထိုဥယျာဉ်များတွင် တစ်စုံတစ်ရာမျှ လိုလေသေးသည်ဟူ၍ အလျင်းရှိမည် မဟုတ်ပေ၊ ➢➢

يَوْمَ يَقُومُ الرُّوحُ وَالْمَلَٰٓئِكَةُ صَفًّا ۖ لَّا يَتَكَلَّمُونَ إِلَّا مَنْ أَذِنَ لَهُ الرَّحْمَٰنُ وَقَالَ صَوَابًا ﴿٣٨﴾

၃၈။ အကြင်နေ့တွင် သက်ရှိ အပေါင်းတို့သည်လည်းကောင်း၊ "မလာအီကဟ်" ကောင်းကင်တမန် အပေါင်းတို့သည်လည်းကောင်း၊ (အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်ဝယ်) စီတန်းမတ်တတ် ရပ်ကြပေမည်။ (ထိုနေ့တွင် ၎င်းတို့အနက်) "ရဟ်မာန်" မဟာကရုဏာတော်ရှင်က ခွင့်ပြုတော်မူသော၊ မှန်ကန်သောစကားကို ပြောဆို(အံ့)သောသူမှတပါး မည်သူတဦးတယောက်မျှပင် စကားပြောဆိုနိုင်မည် မဟုတ်ပေ။[၁]

---

▶▶ လိုတရမည်သာတည်း။ ဒုက္ခမရှိ၊ သုခချည်းသာတည်း။ အမတတည်း၊ထာဝရတည်း။ ဤသည်တို့ကား မုအ်မင်န် သူတော်စင်တို့အား အလ္လာဟ်အရှင်မြတ်ထံမှ ချီးမြှင့်တော်မူအံ့သော အံ့ချီးမဆုံးနိုင်သော အကျိုးဆုလာဘ်တည်း။ (အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား မိမိ၏ကျေးဇူးတော်ဖြင့် အဆိုပါ ဂျန္နတ်သုခဘုံတွင် ဝင်ရောက်စံမြန်းခွင့် ပြုတော်မူပါစေသတည်း)။

၁ **အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် အခွင့်မရရှိဘဲလျက် မည်သူမျှ လျှောက်ထားဝံ့မည် မဟုတ်ပေ။**

ကိယာမတ်နေ့တွင် သက်ရှိများနှင့် ကောင်းကင်တမန် အားလုံးတို့သည် အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်၌ ကြောက်ရွံ့ရိုသေခန့်ညားစွာဖြင့် တန်းစီကာ မတ်တပ်ရပ်လျက် ရှိကြပေမည်။ မည်သူတစ်ဦးတစ်ယောက်မျှ တစ်ခွန်းတစ်ပါဒမျှ ထိုအရှင်မြတ်၏ ရှေ့တော်မှောက်တွင် လျှောက်ထားဝံ့မည်မဟုတ်ပေ။ ထိုအရှင်မြတ်က လျှောက်ထားရန် ခွင့်ပြုတော်မူသော ပုဂ္ဂိုလ်သည်သာလျှင် လျှောက်ထားဝံ့ပေမည်။

ထိုသို့လျှောက်ထားခွင့်ရသော ပုဂ္ဂိုလ်သည်လည်း သတ္တိရှိသော၊ မှန်သောစကားကိုသာလျှင် လျှောက်ထားဝံ့ပေမည်။ လျှောက်ထားအသနားတော် ပန်ကြားအပ်သော ပုဂ္ဂိုလ်နှင့် ပတ်သက်၍သာ လျှောက်ထားပန်ကြားဝံ့ပေမည်။ သို့လျှောက်ထား အသနားတော် ပန်ကြားအပ်သော ပုဂ္ဂိုလ်မှာလည်း လူ့လောကတွင် အမှန်ကန်ဆုံးဖြစ်သော "လာအိလာဟ အိလ္လလ္လာဟု" ဟူသော "ကလိမဟ် တောင်ဟီဒ်"ကို ယုံကြည်စွာ မြွက်ဆိုခဲ့သူသာ ဖြစ်ပေမည်။

ဤအာယတ်တော်တွင်ပါရှိသော "အလ်ရူဟ်" ဟူသောပုဒ်ကိုအချို့က ကောင်းကင်တမန် ဂျိဗ်ရီလ်ဟူ၍လည်းကောင်း၊ အချို့က ဝိညာဉ်အပေါင်းဖြစ်ထွန်းရာ အကြီးဆုံးသော ဝိညာဉ်ချုပ်ဟူ၍လည်းကောင်း၊ အမျိုးမျိုး အနက်ဖွင့်ကြသည်။ (အွတ်ဆ်မာနီ)။

အချို့က သက်ရှိများဟူ၍လည်းကောင်း ဖွင့်ဆိုကြသည်။ (ထာနဝီ)။

အချို့က လူသားတို့၏ ဝိညာဉ်များဟူ၍လည်းကောင်း၊ ဖွင့်ဆိုကြသည်။(အိဗ်နုကဆီရ်)။

ذٰلِكَ الْيَوْمُ الْحَقُّ ۚ فَمَنْ شَآءَ اتَّخَذَ اِلٰى رَبِّهٖ مَاٰبًا ﴿٣٩﴾

၃၉။ ထို(ကိယာမတ်နေ့)သည်ကား မုချ ဆိုက်ရောက်မည့်နေ့ပင် ဖြစ်ပေသည်။ သို့ဖြစ်ပေရာ အလိုရှိသောသူသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏အထံတော်တွင် (မိမိအဖို့) ပြန်လည်ရာဌာနကို (အဆင်သင့်)ပြုလုပ်၍ ထားရပေမည်။

اِنَّآ اَنْذَرْنٰكُمْ عَذَابًا قَرِيْبًا ۚۖ يَّوْمَ يَنْظُرُ الْمَرْءُ مَا قَدَّمَتْ يَدٰهُ وَيَقُوْلُ الْكٰفِرُ يٰلَيْتَنِيْ كُنْتُ تُرٰبًا ﴿٤٠﴾

၄၀။ ဧကန်မလွဲ ငါအရှင်မြတ်သည် အသင်တို့အား မကြာမီ (ဆိုက်ရောက်မည်ဖြစ်သော) ပြစ်ဒဏ်နှင့် စပ်လျဉ်း၍ သတိပေး နှိုးဆော်တော်မူခဲ့ချေပြီ။ ထိုနေ့တွင် လူတိုင်းသည် မိမိလက်နှစ်ဘက်ဖြင့် ကြိုတင်ပို့နှင့်ခဲ့သော အပြုအမူတို့ကို တွေ့မြင်ကြပေမည်။ ထိုမှတပါး (ထိုနေ့တွင်) ကာဖိရ် မယုံမကြည်သွေဖည်ငြင်းပယ်သောသူက “သြော်-ငါသည် မြေကြီးဖြစ်ခဲ့ရလျှင်၊ ဖြစ်နိုင်လျှင်၊ ကောင်းလေစွတကား၊” ဟု ပြောဆို(ညည်းညူ)အံ့သတည်း။

# ဆွဲငင်ထုတ်နုတ်သူများကဏ္ဍ



ဤကဏ္ဍသည် "စူရဟ်နာဇိအာတ်" ဆွဲငင်ထုတ်နုတ်ယူသော ကောင်းကင်တမန်များ အကြောင်း ပါဝင်သော ကဏ္ဍမည်၏။ ဤကဏ္ဍသည် မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၄၆)၊ ရကူအ်အပိုဒ် (၂) အသီးသီးပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَالنّٰزِعٰتِ غَرْقًا ۙ ①

၁။ (ကာဖိရ် မယုံမကြည်သွေဖည်ငြင်းပယ်သော သူတို့၏အသက်ဇီဝိန်များကို) ပြင်းထန်စွာ ဆွဲငင် နုတ်ထုတ်ယူကြသော (ကောင်းကင်တမန်)တို့အား သက်သေထူတော်မူ၏။

وَّالنّٰشِطٰتِ نَشْطًا ۙ ②

၂။ ၎င်းပြင် အထုံးအဖွဲ့ကို ဖြေပေးကြသော(ဝါ) မုအ်မင်န် သက်ဝင်ယုံကြည်သူတို့၏ အသက်ဇီဝိန် များကို လွယ်ကူ (ညင်သာ)စွာ နုတ်ယူကြသော (ကောင်းကင်တမန်)တို့အား သက်သေထူ၏။

وَّالسّٰبِحٰتِ سَبْحًا ۙ ③

၃။ ၎င်းပြင် (ရေကူးသကဲ့သို့) လျင်မြန်စွာကူး၍ သွားကြသော (ကောင်းကင်တမန်)တို့အား သက်သေ ထူတော်မူ၏။

فَالسّٰبِقٰتِ سَبْقًا ۙ ④

၄။ တဖန် လျင်မြန်စွာပြေးကြသော(ကောင်းကင် တမန်)တို့အား သက်သေထူတော်မူ၏။

فَالْمُدَبِّرٰتِ اَمْرًا ۘ ⑤

၅။ တဖန် အရေးကိစ္စအဝဝတို့ကို နေရာတကျ ဖြစ်အောင် စီမံကြသော (ကောင်းကင်တမန်)တို့အား သက်သေထူတော်မူ၏။

يَوْمَ تَرْجُفُ الرَّاجِفَةُ ﴿٦﴾

၆။ အကြင်နေ့တွင် တုန်လှုပ်စေသောအရာ (ဝါ) ပထမအကြိမ် တံပိုးခရာမှုတ်ခြင်းသည် တုန်လှုပ်စေမည်ဖြစ်၏။

تَتْبَعُهَا الرَّادِفَةُ ﴿٧﴾

၇။ နောက်မှလာသောအရာ(ဝါ) ဒုတိယအကြိမ် တံပိုးခရာမှုတ်ခြင်းသည် ယင်းတုန်လှုပ်စေသောအရာ (ဝါ) ပထမအကြိမ် တံပိုးခရာမှုတ်ခြင်း၏နောက်မှ လိုက်၍လာမည်ဖြစ်၏။

قُلُوبٌ يَوْمَئِذٍ وَاجِفَةٌ ﴿٨﴾

၈။ ထိုနေ့တွင်ကား မြောက်မြားစွာသောစိတ်နှလုံးများသည် ချောက်ချားလျက်ရှိကြပေမည်။

أَبْصَارُهَا خَاشِعَةٌ ﴿٩﴾

၉။ ထို (စိတ်နှလုံးရှင်)တို့၏ မျက်စိများကား အောက်သို့စိုက်လျက် ရှိကြပေမည်။ [၁]

يَقُولُونَ أَإِنَّا لَمَرْدُودُونَ فِي الْحَافِرَةِ ﴿١٠﴾

၁၀။ ၎င်းတို့က "အသို့ပါနည်း၊ ကျွန်ုပ်တို့သည် မူလအခြေအနေသို့ တဖန်ပြန်၍ အမှန်ပင် ရောက်ရှိကြမည်လော၊" ဟု ပြောဆိုကြလေသည်။

---

(၁) **ကိယာမတ် မုချဖြစ်မည်။**

သက်ဆိုင်ရာ ကောင်းကင်တမန်များသည် ကာဖိရ်များ၏ အသက်ဝိညာဉ်များကို ပြင်းထန်စွာ ဆွဲငင်ထုတ်နုတ်ယူကြသည်။ မုအ်မင်န်တို့၏ အသက်ဝိညာဉ် များကိုမူ သာယာဖြည်းညင်းစွာ ထုတ်ယူကြသည်။ ပြီးနောက် အသက်ဝိညာဉ်များကို ကောင်းကင်သို့ လျင်မြန်စွာ ရေကူးသည့်ပမာ ယူဆောင်သွားကြသည်။

ထို့နောက် ယင်းအသက်ဝိညာဉ်များနှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်ထံတော်မှ ကျရောက်လာသော အမိန့်တော်များကို ဦးထိပ်ရွက်ပန်ဆင်ရန် ပြေးလွှားကြသည်။

ပြီးနောက် ထိုအသက်ဝိညာဉ်များနှင့်ပတ်သက်၍ ကောင်းကျိုးပေးရန်ဖြစ်စေ၊ ပြစ်ဒဏ်ခတ်ရန်ဖြစ်စေ ကျရောက်လာသော တာဝန်ကိစ္စအဝဝကို စီမံဆောင်ရွက်ကြပေသည်။ အလ္လာဟ်အရှင်မြတ်သည် ယင်းသို့သော ကောင်းကင်တမန်များအား "ကစမ်" ဆိုတော်မူပြီး "ကိယာမတ်သည် မုချဖြစ်မည်"ဟု မိန့်ကြားတော်မူသည်။

ကိယာမတ်နေ့တွင်ကား ပထမတစ်ကြိမ် တံပိုးမှုတ်မည်။ ထို့နောက် ဒုတိယအကြိမ် တံပိုးမှုတ်မည်။ ထိုနေ့တွင် မြောက်မြားစွာသော စိတ်နှလုံးများသည် တုန်လှုပ်ချောက်ချားလျက် ရှိပေမည်။ ၎င်းတို့၏ မျက်စိများသည် အောက်သို့စိုက်လျက် ရှိပေမည်။ သို့တစေလည်း ဤကာဖိရ်များသည် ကိယာမတ်ကို ငြင်းဆန်လျက်ပင် ရှိကြပေသည်။

ءَاِذَا كُنَّا عِظَامًا نَّخِرَةً ⑪

၁၁။ ကျွန်ုပ်တို့သည် ဆွေးမြည့်သော အရိုးများသာ ကျန်ရှိသောအခါ (မူလအတိုင်း ပြန်လည်ရှင်ကြရဦးမည်)လော။

قَالُوْا تِلْكَ اِذًا كَرَّةٌ خَاسِرَةٌ ⑫

၁၂။ သို့ဖြစ်လျှင် ယင်း(ရှင်ပြန်ထခြင်း)သည် (ကျွန်ုပ်တို့အဖို့) ဆုံးရှုံးသော ရှင်ပြန်ထခြင်းပင် ဖြစ်ချေမည်ဟု ပြောဆိုကြလေသည်။

فَاِنَّمَا هِيَ زَجْرَةٌ وَّاحِدَةٌ ⑬

၁၃။ စင်စစ် ထိုအရာကား ပြင်းထန်လှစွာသော အသံတခုသာလျှင် ဖြစ်ပေမည်။

فَاِذَا هُمْ بِالسَّاهِرَةِ ⑭

၁၄။ ထိုအခါ လူအားလုံးတို့သည် မြေမျက်နှာပြင်သို့ ရုတ်တရက်ပင် ရှိလာကြအံ့သတည်း။ [၁]

هَلْ اَتٰىكَ حَدِيْثُ مُوْسٰى ⑮

၁၅။ (အို-နဗီတမန်တော်) အသင့်ထံ (နဗီတမန်တော်)မူစာ၏အကြောင်း အတ္တုပ္ပတ္တိသည် ရောက်လာခဲ့လေပြီလော။

اِذْ نَادٰىهُ رَبُّهٗ بِالْوَادِ الْمُقَدَّسِ طُوًى ⑯

၁၆။ တရံရောအခါဝယ် ထို(နဗီတမန်တော်)မူစာ၏အရှင်မြတ်သည် ထို(နဗီတမန်တော်)မူစာအား "တွုဝါ" အမည်ရှိ ထူးမြတ်သောတောင်ကြားအရပ်၌ ဟစ်ခေါ်တော်မူခဲ့၏။

---

(၁) ယင်းသို့သော ကာဖိရ်များက "ကျွန်ုပ်တို့သည် ယခင်အခြေအနေသို့ (ဝါ) သေပြီးနောက်တဖန် ပြန်လည်ရှင်ထကြရဦးမည်လော၊ ကျွန်ုပ်တို့သည် ဆွေးမြည့်သော အရိုးများဖြစ်ကြပြီးနောက် ယခင်မူလအတိုင်း တဖန်ပြန်လည် ဖြစ်ကြရဦးမည်လော၊ အကယ်၍သာ ဤသို့ဖြစ်ရပါသော် ကျွန်ုပ်တို့အဖို့ ဆုံးရှုံးမှုကြီး ဖြစ်ရချိမ့်မည်" ဟု ပြက်ရယ်သည့်သဘောဖြင့် ပြောဆိုကြသည်။ ကာဖိရ်များ၏ ယူဆချက်အရ ကိယာမတ် မဖြစ်နိုင်၊ ဖြစ်မည်လည်းမဟုတ်။

အမှန်မှာ ယင်းသို့သော ကာဖိရ်များ သိထားအပ်သည်မှာ အံ့ချီးမဆုံးသော စကြာဝဠာအဝန်းကို စတင် ဖန်ဆင်းတော်မူသော တန်ခိုးတော်အနန္တ၊ ဉာဏ်တော်အနန္တနှင့်ပြည့်စုံတော်မူသော အလ္လာဟ်အရှင်မြတ်အဖို့ ကိယာမတ်ဖြစ်ပေါ်စေရန်မှာ မည်သို့မျှ အခက်အခဲမရှိပေ။ ကိယာမတ်သည် အလွန်ပြင်းထန်သော အသံကြီးတစ်ခုသာဖြစ်ပေမည်။ ထိုအခါ သတ္တဝါအပေါင်းတို့သည် ကမ္ဘာ့သတ္တဝါအားလုံး စုရုံးရာ "မဟ်ရှ်ရ်" ကွင်းပြင်ကြီးသို့ ရုတ်တရက် ရောက်ရှိလာကြပေမည်။ (ထာနဝီ)။ ➤➤

اِذْهَبْ اِلٰى فِرْعَوْنَ اِنَّهٗ طَغٰى ۟ۖ ﴿١٧﴾

**၁၇။** အသင်သည် ဖစ်ရ်အောင်န်၏ထံသို့ သွားပါလေ။ ဧကန်မလွဲ ထိုဖစ်ရ်အောင်န်သည် လွန်စွာရက်စက်ကြမ်းကြုတ်လျက် ရှိနေလေပြီ။

فَقُلْ هَلْ لَّكَ اِلٰۤى اَنْ تَزَكّٰى ۟ۙ ﴿١٨﴾

**၁၈။** သို့ဖြစ်ပေရာ အသင်သည် (၎င်း၏ထံသို့ သွားရောက်ပြီးလျှင် ဤသို့)ပြောကြားပါလေ။ (အို-ဖစ်ရ်အောင်န်) အသင်၌ မိမိ စင်ကြယ်သန့်ရှင်းအပြစ်ကင်းရန်လည်းကောင်း။

وَاَهْدِيَكَ اِلٰى رَبِّكَ فَتَخْشٰى ۟ۚ ﴿١٩﴾

**၁၉။** ကျွန်ုပ်သည် အသင့်အား အသင်၏အရှင်မြတ်အထံတော်သို့ လမ်းညွှန်၍ပေးရန်လည်းကောင်း၊ ဆန္ဒရှိလေသလော။ သို့ဖြစ်လျှင် အသင်သည် (ထိုအရှင်မြတ်အား) ကြောက်ရွံ့ရှိသေသောသူ ဖြစ်လာပေမည်။

فَاَرٰىهُ الْاٰيَةَ الْكُبْرٰى ۟ۖ ﴿٢٠﴾

**၂၀။** ထိုနောက် ထို(နဗီတမန်တော်)မူစာသည် ၎င်းဖစ်ရ်အောင်န်အား အကြီးကျယ်ဆုံးသော သက်သေလက္ခဏာ တန်ခိုးတော်ကို ပြသခဲ့လေသည်။

فَكَذَّبَ وَعَصٰى ۟ۖ ﴿٢١﴾

**၂၁။** သို့ပါလျက် ထိုဖစ်ရ်အောင်န်သည် (နဗီတမန်တော်မူစာအား) မဟုတ်မမှန်ဟူ၍ ငြင်းပယ်ခဲ့သည့်ပြင် (ထိုနဗီတမန်တော်မူစာ၏ ဟောကြားချက်များကိုလည်း) ဖီဆန်ခဲ့လေသည်။

ثُمَّ اَدْبَرَ يَسْعٰى ۟ۖ ﴿٢٢﴾

**၂၂။** ထို့နောက် ထိုဖစ်ရ်အောင်န်သည် (နဗီတမန်တော်မူစာအား) ကျောခိုင်း၍ (ကမ္ဘာမြေဝယ် ဆူပူသောင်းကျန်းရန်) ကြိုးပမ်းလေတော့သည်။

---

➤➤ ဤအာယတ်တော်များကို မုဖတ်စစ်ရ်များသည် အနက်အမျိုးမျိုး ဖွင့်ထားကြသည်။ ကျမ်းလေးမည်စိုး၍ မရေးပြီ။ အကျယ်သိလိုပါက အိဗ်နူဂျရီရ်၊ အိဗ်နူကဆီရ်၊ ကရ်ရှာဖ်၊ ဗိုင်ဇ်သွာဝီ၊ တဖ်စီရ် အဗူစုအူဒ်၊ ခါဇင်န်၊ ဒူရ်ရိမန်ဆူရ်စသည့် ကျမ်းကြီးများတွင် ရှုပါကုန်။

فَحَشَرَ فَنَادٰى ﴿٢٣﴾

၂၃။ ထို့နောက် ထိုဖစ်ရ်အောင်န်သည် (ပဥ္စလက် ဆရာများကိုလည်းကောင်း၊ စစ်သည် ရဲမက်တို့ကို လည်းကောင်း၊) စုရုံးပြီးလျှင် (အသံကျယ်စွာ) ဟစ်အော်ခဲ့လေသည်။

فَقَالَ اَنَا رَبُّكُمُ الْاَعْلٰى ﴿٢٤﴾

၂၄။ ထို့နောက် ၎င်း(ဖစ်ရ်အောင်န်)က "ကျွန်ုပ် သည်ပင် အသင်တို့၏ မြင့်မြတ်ဆုံးသော အရှင် ဖြစ်သည်" ဟု ပြောဆို(ကြေညာ)ခဲ့လေသည်။

فَاَخَذَهُ اللّٰهُ نَكَالَ الْاٰخِرَةِ وَالْاُوْلٰى ﴿٢٥﴾

၂၅။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်သည် ထို ဖစ်ရ်အောင်န်အား အာခိရတ်တမလွန်ဘဝ၏ ပြစ်ဒဏ် ၌လည်းကောင်း၊ လောကီဘဝ၏ပြစ်ဒဏ်၌လည်း ကောင်း၊ ဖမ်းဆီး ကွပ်မျက်တော်မူခဲ့လေသည်။ [၁]

اِنَّ فِيْ ذٰلِكَ لَعِبْرَةً لِّمَنْ يَّخْشٰى ﴿٢٦﴾

၂၆။ ဧကန်မလွဲ ထို(အကြောင်းအတ္တုပ္ပတ္တိ)၌ (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့ရိုသေသောသူ အဖို့ သတိပေး နှိုးဆော်ချက်သည် အမှန်ပင် ရှိပေ သတည်း။

---

**(၁) တမန်တော်မူစာအား သွေဖည်ငြင်းဆန်ခဲ့သော ဖစ်ရ်အောင်န်သည် ၂-ဘဝလုံးတွင် ပျက်စီးရပြီ။**

တမန်တော်မူစာသည် အစ္စရာအီလီ မျိုးနွယ်ဝင်များကို ကယ်တင်ရန်အလို့ငှာသာ ပွင့်လာခဲ့သည်မဟုတ်၊ ဖစ်ရ်အောင်န်အားလည်း တရားဟောကြားရန် အလို့ငှာ ပွင့်လာခဲ့ခြင်းဖြစ်ပေသည်။

တမန်တော်မူစာသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ ဖစ်ရ်အောင်န်ထံ သွားရောက်၍ အလ္လာဟ်အရှင်မြတ်၏တရားတော်များကို ဟောကြားခဲ့သည်။ မိမိဟောကြားသော တရားတော်များသည် အလ္လာဟ်အရှင်မြတ်၏တရားတော်ဖြစ်ကြောင်း သက်သေသာဓကအဖြစ် အကြီးဆုံး (မုအ်ဂျိဇဟ်) တန်ခိုးဖြစ်သော တောင်ဝှေးမြွေဖြစ်သည့် တန်ခိုးတော်ကို ပြခဲ့လေသည်။

သို့တစေလည်း မောက်မာပလွှားဝင့်ကြွားနေခဲ့သော ဖစ်ရ်အောင်န်သည် တမန်တော်မူစာ၏တရားတော် ကို မနာခံခဲ့ပေ။ မနာခံခဲ့သည်သာမက တမန်တော်မူစာနှင့် ယှဉ်ပြိုင်ရန်အတွက် စုန်းမှော် ဆရာများအား စုစည်းခဲ့လေသည်။ ထို့နောက် မောက်မာပလွှား ဝင့်ဝါသောအားဖြင့် "ကျွန်ုပ်သည် အသင်တို့၏ အကြီးဆုံးသော အရှင်သခင်ဖြစ်သည်" ဟူ၍ပင် ကြွေးကျော်ခဲ့လေသည်။

နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ဖစ်ရ်အောင်န်အား ၂-ဘဝလုံး၏ ပြစ်ဒဏ်ခတ်တော် မူလိုက်လေသည်။ ဤသည့် ဖြစ်ရပ်ကား အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့သူများအဖို့ သင်ခန်းစာပင်။

ءَاَنْتُمْ اَشَدُّ خَلْقًا اَمِ السَّمَآءُ ۚ بَنٰهَا ﴿٢٧﴾

၂၇။ အသို့ပါနည်း၊ အသင်တို့အား ဖန်ဆင်းတော်မူခြင်းသည် ပို၍ခဲယဉ်းလေသလော၊ သို့တည်းမဟုတ် မိုးကောင်းကင်ကို ဖန်ဆင်းတော်မူခြင်းသည် ပို၍ ခဲယဉ်းလေသလော။ ထိုအရှင်မြတ်သည် ယင်း မိုးကောင်းကင်ကို ပြုလုပ်(ဖန်ဆင်း)တော်မူခဲ့၏။

رَفَعَ سَمْكَهَا فَسَوّٰىهَا ﴿٢٨﴾

၂၈။ ထိုအရှင်မြတ်သည် ယင်းမိုးကောင်းကင်၏ မျက်နှာကျက်ကို မြင့်စွင့်စွာပြုလုပ်တော်မူခဲ့၏။ တဖန် ယင်းမိုးကောင်းကင်ကို အပြစ်အနာ ကင်းရှင်းစွာ ပြုလုပ်တော်မူခဲ့၏။

وَاَغْطَشَ لَيْلَهَا وَاَخْرَجَ ضُحٰهَا ﴿٢٩﴾

၂၉။ ၎င်းပြင် ထိုအရှင်မြတ်သည် ယင်း မိုးကောင်းကင်၏ ညဉ့်ကို မှောင်မိုက်စေတော်မူခဲ့၏။ ထို့ပြင် ယင်းမိုးကောင်းကင်၏ နေ့ကိုမူကား (လင်းဝင်း) ထင်ရှားစေတော်မူခဲ့၏။ [၁]

وَالْاَرْضَ بَعْدَ ذٰلِكَ دَحٰهَا ﴿٣٠﴾

၃၀။ ၎င်းပြင် ထိုအရှင်မြတ်သည် ယင်း(မိုးကောင်းကင်ကို စနစ်တကျ ပြုပြင်တော်မူပြီးသည့်) နောက်တွင် ပထဝီမြေကို ဖြန့်ခင်းတော်မူခဲ့၏။

---

(၁) အလ္လာဟ်အရှင်မြတ်သည် မဟာတန်ခိုးတော်ရှင်ဖြစ်တော်မူသည်။ စကြာဝဠာအဝန်းကို ဖန်ဆင်းထားတော်မူသည်။ ထိုအရှင်မြတ်အဖို့ မည်သည်ကို ဖန်ဆင်းခြင်းက ခက်သည်၊ မည်ဝါကို ဖန်ဆင်းခြင်းက လွယ်သည်ဟူ၍ အလျှင်းမရှိ။ ထိုအရှင်မြတ်အဖို့ အခက်မရှိ၊ အလွယ်ချည်းသာဖြစ်သည်။

အလ္လာဟ်အရှင်မြတ်အဖို့ ထိုအရှင်မြတ်အနေနှင့် မိုးကိုဖန်ဆင်းခြင်းနှင့် လူကို ဖန်ဆင်းခြင်းတွင် အလွယ်အခက်ဟူ၍ မရှိသော်လည်း၊ လူသားတို့၏ အမြင်တွင်မူ အတိုင်းမရှိ ထုထည်အလွန် ကြီးမားဆန်းပြားသော မိုးများကို ဖန်ဆင်းခြင်းသည် အရပ်အမောင်း သေးငယ်လှသော လူသားအား ဖန်ဆင်းခြင်းထက် ခဲယဉ်းခက်ခဲမည်သာ ဖြစ်သည်။ (ဤကား လူ့အမြင်တွင်) ယင်းသို့ ခဲယဉ်းသော မိုးများကို ဖန်ဆင်းတော်မူနိုင်သော အရှင်အဖို့ ဤသည့် လူသားတို့အား (ယခင်တစ်ကြိမ် ဖန်ဆင်းပြီးနောက်) ပြန်လည်ရှင်ပြန်ထစေရာတွင် အသို့လျှင် အခက်အခဲ ရှိအံ့နည်း။ ကြည့်-ကုရ်အာန် (၂၆း၇၇-၈၃။ ၄၀း၅၇)။

မိုးကောင်းကင်သည် အတိုင်းမသိ ကြီးမား၏၊ မြင့်စွင့်၏၊ ကျယ်ပြန့်၏၊ ခိုင်ခံ့၏၊ ကြည်လင်၏။ နေ၊ လ၊ ဂြိုဟ်၊ နက္ခတ်တာရာအပေါင်းတို့သည် ကိုယ့်လမ်းနှင့်ကိုယ် စနစ်တကျ ဝင်ထွက်သွားလာလျက် ရှိကြ၏။ ညဉ့်၏အမှောင်ကား တစ်မျိုး၊ နေ့၏အလင်းကား တစ်နည်း၊ ညဉ့်ရှုမျှော်ခင်းကား တစ်မျိုး၊ နေ့၏ ရှုမျှော်ခင်းကားတစ်နည်း၊ ရှုမညီးတည်း။

أَخْرَجَ مِنْهَا مَاءَهَا وَمَرْعَاهَا ﴿٣١﴾

၃၁။ ထိုအရှင်မြတ်သည် ထိုပထဝီမြေမှ ယင်းပထဝီမြေ၏ရေကိုလည်းကောင်း၊ ယင်းပထဝီမြေ၏မြက်၊ သစ်ပင်၊ ကောက်ပဲသီးနှံ၊ အစရှိသည်များကိုလည်းကောင်း၊ ထွက်စေတော်မူခဲ့၏။

وَالْجِبَالَ أَرْسَاهَا ﴿٣٢﴾

၃၂။ ၎င်းပြင် ထိုအရှင်မြတ်သည် တောင်များကို (ယင်းပထဝီမြေ၌) ကျောက်ဆူး(အဖြစ်) ချထားတော်မူခဲ့၏။

مَتَاعًا لَّكُمْ وَلِأَنْعَامِكُمْ ﴿٣٣﴾

၃၃။ အသင်တို့၏အကျိုးငှာလည်းကောင်း၊ အသင်တို့၏ကုလားအုတ်၊ ကျွဲ၊နွားတိရစ္ဆာန်တို့၏အကျိုးငှာလည်းကောင်း။ [၁]

فَإِذَا جَاءَتِ الطَّامَّةُ الْكُبْرَىٰ ﴿٣٤﴾

၃၄။ အကြင်အခါဝယ် ထိုကြီးကျယ်လှစွာသောဘေးဒုက္ခကြီးသည် ဆိုက်ရောက်လာခဲ့ပေမည်။

يَوْمَ يَتَذَكَّرُ الْإِنسَانُ مَا سَعَىٰ ﴿٣٥﴾

၃၅။ (ဝါ)အကြင်နေ့တွင် လူသားတို့သည် မိမိတို့ကြိုးပမ်း ဆောင်ရွက်ခဲ့သမျှတို့ကို သတိရကြပေမည်။

وَبُرِّزَتِ الْجَحِيمُ لِمَن يَرَىٰ ﴿٣٦﴾

၃၆။ ၎င်းပြင် "ဂျဟန္နမ်" ငရဲသည် ကြည့်ရှုသောသူတို့၏ရှေ့ဝယ် ထင်ရှားစွာ ပေါ်လာစေခြင်းကို ခံရပေမည်။

---

(၁) အလ္လာဟ်အရှင်မြတ်သည် ပထဝီမြေကြီးကို ဖြန့်ခင်းထားတော်မူသည်။ ထိုအရှင်မြတ်သည် ထိုပထဝီမြေကြီးတွင် သမုဒ္ဒရာ ပင်လယ်၊ မြစ်ကြီးမြစ်ငယ် အသွယ်သွယ်တို့ကို စီးတွေစေတော် မူသည်။ သီးနှံမျိုးစုံကို ပေါက်ပွားစေတော်မူသည်။ ထိုအရှင်မြတ်သည် ပထဝီမြေကြီး တည်ငြိမ်စွာရှိရန်အတွက် တောင်များကို ကျောက်ဆူး ချထားတော်မူသည်။ ဤသည် လူသားတို့နှင့် ၎င်းတို့၏ တိရစ္ဆာန်များ၏ အကျိုးငှာသာ ဖြစ်သည်။

ဤသည်တို့ကို စဉ်းစားဆင်ခြင်ပါက အလ္လာဟ်အရှင်မြတ်သည် တန်ခိုးတော်အရှင်၊ ဉာဏ်တော်အရှင်၊ ကျေးဇူးတော်အရှင် ဖြစ်တော်မူသည်ကို သိရှိပေမည်။ ထိုသို့သော တန်ခိုးတော်ရှင်အဖို့ ဆွေးမြည့်နေသော အရိုးများကို ပြန်လည်ရှင်ထအောင် ပြုလုပ်ရန် အသို့လျှင် အခက်အခဲရှိနိုင်အံ့နည်း။

သို့ဖြစ်ရာ လူသားတို့သည် ထိုသို့သော တန်ခိုးတော်ရှင်အား ကြောက်ရွံ့ရိုသေခန့်ညားရပေမည်။ ထိုသို့သော ကျေးဇူးတော်ရှင်အား ကျေးဇူးတုံ့ပြန်ရပေမည်။ သို့မဟုတ်ပါမူ ကိယာမတ်နေ့တွင် အရှက်တကွဲ အကျိုးနည်းဖြစ်ရချိမ့်မည်။

فَأَمَّا مَنْ طَغَىٰ ﴿٣٧﴾

၃၇။ ထိုအခါ အကြင်သူသည် လွန်စွာ သွေဖည် (သောင်းကျန်း)ခဲ့လေသည်။

وَآثَرَ الْحَيَاةَ الدُّنْيَا ﴿٣٨﴾

၃၈။ ၎င်းပြင် ထိုသူသည် လောကီဘဝကို ဦးစား ပေးခဲ့လေသည်။

فَإِنَّ الْجَحِيمَ هِيَ الْمَأْوَىٰ ﴿٣٩﴾

၃၉။ သို့ဖြစ်လျှင် ဧကန်မလွဲ "ဂျဟန္နမ်" ငရဲသာ လျှင် (ထိုသူ၏)ခိုကိုးရာဌာန ဖြစ်ချိမ့်မည်။

وَأَمَّا مَنْ خَافَ مَقَامَ رَبِّهِ وَنَهَى النَّفْسَ عَنِ الْهَوَىٰ ﴿٤٠﴾

၄၀။ သို့ရာတွင် အကြင်သူသည် မိမိအား ဖန်ဆင်း တော်မူသောအရှင်မြတ်၏ ရှေ့တော်မှောက်ဝယ် မတ် တပ်ရပ်ရမည်ကို ကြောက်ရွံ့စိုးရိမ်ခဲ့လေသည်။ ၎င်းပြင် ထိုသူသည် စိတ်ကိုလည်း (မကောင်းသော) အလိုဆန္ဒ များမှ တားမြစ်ခဲ့လေသည်။

فَإِنَّ الْجَنَّةَ هِيَ الْمَأْوَىٰ ﴿٤١﴾

၄၁။ သို့ဖြစ်လျှင် ဧကန်မလွဲ "ဂျန္နတ်" သုခဘုံ သည်သာလျှင် (ထိုသူ၏)ခိုကိုးရာဖြစ်အံ့သတည်း၊ [၁]

يَسْأَلُونَكَ عَنِ السَّاعَةِ أَيَّانَ مُرْسَاهَا ﴿٤٢﴾

၄၂။ (အို-နဗီတမန်တော်) ၎င်းတို့သည် အသင့် အား "ကိယာမတ်" ရှင်ပြန်ထမည့်နေ့နှင့်စပ်လျဉ်း၍ ယင်း "ကိယာမတ်" ရှင်ပြန်ထမည့်နေ့သည် မည် သည့် အချိန်အခါ၌ ဆိုက်ရောက်အံ့နည်းဟု မေးမြန်း ကြကုန်၏။

---

(၁) ကိယာမတ်ဖြစ်သောအခါ လူသားတို့သည် လူ့လောကတွင် မိမိတို့ပြုကျင့်ခဲ့ကြသော အရာအားလုံးကို သတိရလာပေမည်။ "ဂျဟန္နမ်" ငရဲသည်လည်း အထင်အရှား တွေ့မြင်ရပေမည်။ လူ့လောကတွင် အမှန်တရားကို သွေဖည်ငြင်းဆန်၍ နောင်တမလွန်ကို ကျောခိုင်းကာ လောကီဘဝကိုသာ အသားပေးခဲ့သော သူများသည် ငရဲဘုံသို့ လားကြရမည်သာဖြစ်သည်။

နောင်တမလွန်ဘဝ၌ အလ္လာဟ်အရှင်မြတ်၏ ရှေ့တော်မှောက်တွင် အစစ်ဆေးခံရန်အတွက် မတ်တပ်ရပ်ရမည်ကို စိုးရိမ်၍ မိမိစိတ်၏ အလိုဆန္ဒများကို မလိုက်နာခဲ့ဘဲ၊ မိမိ၏စိတ်ကို အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များနောက်သို့ လိုက်စေခဲ့သော သူများသည် ဂျန္နတ် သုခဘုံသို့ လားကြရပေမည်။

فِيمَ أَنتَ مِن ذِكْرَاهَا ﴿٤٣﴾

၄၃။ ယင်း "ကိယာမတ်" ရှင်ပြန်ထမည့်နေ့ (ဆိုက်ရောက်မည့်အကြောင်းကို) ထုတ်ဖော် ပြောပြခြင်းသည် အသင်နှင့် မည်သို့ ပတ်သက်ပါသနည်း။

إِلَىٰ رَبِّكَ مُنتَهَاهَا ﴿٤٤﴾

၄၄။ ယင်း "ကိယာမတ်" ရှင်ပြန်ထမည့်နေ့(နှင့် စပ်လျဉ်းသောအသိပညာ)၏ အဆုံးမှာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏ အထံတော်၌သာ ဖြစ်ပေသည်။ [၁]

إِنَّمَا أَنتَ مُنذِرُ مَن يَخْشَاهَا ﴿٤٥﴾

၄၅။ အသင်သည် ယင်း "ကိယာမတ်" ရှင်ပြန်ထမည့်နေ့ကို တွေ့မြင်ကြသောနေ့တွင် မိမိတို့မှာ (ကမ္ဘာလောက လောကီဘဝ၌) တစ်ညနေချမ်းမျှ သို့မဟုတ် ထိုညနေချမ်း၏ တစ်နံနက်ခင်းမျှသာ နေထိုင်ခဲ့ဘိသကဲ့သို့ ထင်မှတ်ကြအံ့သတည်း။ [၂]

كَأَنَّهُمْ يَوْمَ يَرَوْنَهَا لَمْ يَلْبَثُوا إِلَّا عَشِيَّةً أَوْ ضُحَاهَا ﴿٤٦﴾

၄၆။ ၎င်းတို့သည် ယင်းကိယာမတ် ရှင်ပြန်ထမည့်နေ့ကို တွေ့မြင်ကြသောနေ့တွင် မိမိတို့မှာ (ကမ္ဘာလောက လောကီဘဝ၌ တညနေချမ်းမျှ သို့မဟုတ် ထိုညနေချမ်း၏ တနံနက်ခင်းမျှသာ နေထိုင်ခဲ့ဘိသကဲ့သို့ ထင်မှတ်ကြအံ့သတည်း။

---

(၁) "ကိယာမတ်သည် မည်သည့်အချိန်အခါတွင် ကျရောက်မည်နည်း"ဟု လူအများက တမန်တော်မြတ်အား မေးမြန်းကြသည်။ ဤမေးခွန်းနှင့်စပ်လျဉ်း၍ ဖြေကြားရန် တမန်တော်မြတ်၌ တာဝန်မရှိ။ ဤမေးခွန်းသည် တမန်တော်မြတ်အား မေးရန်လည်းမဟုတ်ပေ။အဘယ်ကြောင့်ဆိုသော် ဤမေးခွန်းကို အတိအကျ ဖြေဆိုရန် ကိယာမတ်နှင့်စပ်လျဉ်း၍ အတိအကျသိလိုပေသည်။ ထိုသည့်အသိသည် အလ္လာဟ်အရှင်မြတ်၌သာ ရှိသည်၊ ထိုအရှင်မြတ်မှတပါး အခြားမည်သူ တစ်ဦးတစ်ယောက်မျှမရှိပေ။ တမန်တော်မြတ်၌ လည်းမရှိပေ။တမန်တော်မြတ်သည် ကိယာမတ်ကိုကြောက်ရွံ့သောသူများအား ကိယာမတ်သည် တစ်ရက်မဟုတ်တစ်ရက် ဆက်ဆက်ဖြစ်မည့်အကြောင်း၊ ကိယာမတ်၏သဘော၊ ကိယာမတ်၏ ရှေ့ပြေး နိမိတ်လက္ခဏာများကို ပြောပြ၍ သတိပေးတော်မူရမည် ဖြစ်ပေသည်။ မိမိတို့၏ နောင်ရေး စိုးရိမ်သောသူများသည် ဆင်ခြင်ကြပေမည်။ မိမိတို့၏နောင်ရေး မစိုးရိမ်သော သူမိုက်တို့မူကား "ကိယာမတ် မည်သည့်ခုနှစ်၊ သက္ကရာဇ်၊ မည်သည့်လ၊ မည်သည့်နေ့ရက်၊ မည်သည့်အချိန်တွင် ဖြစ်မည်နည်း" စသည်ဖြင့် မေးမြန်းကာ အချိန်ဖြုန်းလျက် သာ ရှိကြပေသည်။

(၂) ယခုသော် ကိယာမတ် ဘယ်သောအခါ ဖြစ်မည်နည်းဟု မေးမြန်းနေကြသည်။ ထိုသို့သောသူများသည် ကိယာမတ်ဖြစ်သောအခါ လူ့လောကတွင် မိမိတို့ နေခဲ့ကြရသည့်သက်တမ်းကို တစ်နေ့ မဟုတ်၊ တစ်နေ့၏ နံနက်ခင်း၊ သို့မဟုတ် ညနေချမ်းမျှသာဖြစ်သည်ဟူ၍ ထင်မြင်ယူဆကြပေမည်။ ကိယာမတ်သည် ဖြစ်မည်၊ မုချဖြစ်မည်၊ အမှန်ဖြစ်မည်၊ ဖြစ်အံ့သောအရာသည် မဝေးလှပြီ။ သို့ဖြစ်ရာ ကိယာမတ် အဘယ်အခါဖြစ်မည်ကို မေးမြန်းစုံစမ်းနေရန်မလို၊ ကိယာမတ်နေ့ မှတ်ကျောက်အတင်ခံနိုင်ရန်အတွက် အသင့်ပြင်ဆင်ထားရန်သာလိုပေသည်။

# သူ မျက်မှောင်ကြုတ်သည်ကဏ္ဍ



ဤကဏ္ဍသည် "အဗစသူ မျက်မှောင်ကြုတ်သည်"ဟူသော အကြောင်း ပါဝင်သော ကဏ္ဍဖြစ်သည်။ ဤကဏ္ဍသည် မက္ကာမြို့တော်၌ ကျရောက်ခဲ့သည်။ ဤကဏ္ဍတွင် အာယတ်တော် (၄၂)ပါး၊ ရကူအ် အပိုဒ် (၁)ပိုဒ် အသီးသီးပါရှိသည်။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမံတော်ဖြင့် အစပြုပါ၏။

عَبَسَ وَتَوَلّٰىٓ ①

၁။ ထို(နဗီတမန်တော်မြတ်)သည် မျက်မှောင်ကြုတ်ခဲ့သည့်ပြင် မျက်နှာလည်း လွှဲခဲ့လေသည်။ [မကြည်မသာ မျက်နှာသုန်မှုန်စွာဖြင့် မျက်နှာလွှဲ၍ နေခဲ့လေသည်။]

اَنْ جَآءَهُ الْاَعْمٰى ②

၂။ မိမိထံသို့ မျက်စိမမြင်သောသူ ဝင်ရောက်၍ လာခဲ့သောကြောင့်။

وَمَا يُدْرِيْكَ لَعَلَّهٗ يَزَّكّٰىٓ ③

၃။ အသင် သိပါသလော၊ စင်စစ် မျက်စိမမြင်သောသူသည် စင်ကြယ်သန့်ရှင်းသူဖြစ်တန်ရာသည်။

اَوْ يَذَّكَّرُ فَتَنْفَعَهُ الذِّكْرٰى ④

၄။ သို့တည်းမဟုတ် ထိုသူသည် တရားရသွားနိုင်ပေသည်။ (ဆင်ခြင်နိုင်ပေသည်)။ သို့ဖြစ်လျှင် ဆုံးမဩဝါဒပေးခြင်းသည် ထိုသူအား အကျိုးဖြစ်ထွန်းစေနိုင်မည်။

اَمَّا مَنِ اسْتَغْنٰى ⑤

၅။ မည်သို့ပင်ဖြစ်စေ အကြင်သူသည် အလေးမမှု ဂရုမစိုက်ခဲ့ချေ။

فَاَنْتَ لَهٗ تَصَدّٰى ⑥

၆။ သို့ပါလျက် အသင်သည် ထိုသူအား ဂရုစိုက် အရေးပေးသည်။

وَمَا عَلَيْكَ أَلَّا يَزَّكَّىٰ ۝٧

၇။ စင်စစ်သော်ကား ထိုသူ မစင်ကြယ်သည့်အတွက် အသင့်အပေါ်၌ မည်သို့မျှ အပြစ်မရှိချေ။

وَأَمَّا مَن جَاءَكَ يَسْعَىٰ ۝٨

၈။ သို့ရာတွင် မည်သို့ပင်ဖြစ်စေ၊ အကြင်သူသည် အသင့်ထံသို့ အပြေးအလွှားရောက်ရှိလာခဲ့လေသည်။

وَهُوَ يَخْشَىٰ ۝٩

၉။ ထိုမှတပါး ထိုသူသည် (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့ရိုသေသူလည်း ဖြစ်ခဲ့ပေသည်။

فَأَنتَ عَنْهُ تَلَهَّىٰ ۝١٠

၁၀။ သို့ပါလျက် အသင်သည် ထိုသူအား အရေးမပေး လျစ်လျူရှုခဲ့ပေသည်။ ၁

كَلَّا إِنَّهَا تَذْكِرَةٌ ۝١١

၁၁။ (အို-နဗီတမန်တော်၊ အသင်သည်) ဤသို့အလျင်းမပြုပါလေနှင့်။ ဤ(ကုရ်အာန်ကျမ်းတော်မြတ်)သည် ဆုံးမဩဝါဒပင်ဖြစ်ပေသည်။

---

**(၁) တမန်တော်မြတ်သည်ပင် သတိပေးတော်မူခြင်း ခံခဲ့ရရှာခြင်း။**

တစ်နေ့သောအခါ တမန်တော်မြတ်သည် ကုရိုက်ရှ် မျိုးနွယ်၏ အချို့ အကြီးအကဲများအား အစ္စလာမ်၏ သဘောတရားများကို ရှင်းလင်းပြနေတော်မူခဲ့၏။ ယင်းသို့သော အကြီးအကဲများ အစ္စလာမ်အတွင်းသို့ ဝင်လာကြပါက တစ်နွယ်ငင်တစ်စင်ပါ ဆိုသကဲ့သို့ ၎င်းတို့၏ နောက်လိုက်ငယ်သားများလည်း အစ္စလာမ်အတွင်းသို့ ဝင်လာကြမည်ကို တမန်တော်မြတ်သည် မျှော်လင့်လျက် ရှိနေတော်မူခဲ့၏။

ထိုအချိန်တွင် တမန်တော်မြတ်ထံသို့ မျက်မမြင်သာဝကတစ်ပါး (အိဗ်နုအွမ် မိမတ်က်တူမ်) ရောက်ရှိလာပြီး တမန်တော်မြတ်အား အချို့အာယတ်တော်များနှင့်စပ်လျဉ်း၍ မေးမြန်းလေတော့၏။ တမန်တော်မြတ် ကုရိုက်ရှ် အကြီးအကဲများအား တရားဟောကြားနေတော်မူချိန်တွင် အခါအခွင့်အခြေအနေကို မထောက်ထားဘဲ ယင်းသို့ ဝင်ရောက်မေးမြန်းသည့်အတွက် တမန်တော်မြတ်သည် အနည်းငယ် စိတ်အနှောင့်အယှက် ဖြစ်သွားတော်မူခဲ့လေသည်။

တမန်တော်မြတ်၏စိတ်တွင် ငါသည် အလွန်အရေးကြီးသော ကိစ္စတွင် လုံးပန်းနေသည်။ ကုရိုက်ရှ် မျိုးနွယ်၏ အကြီးအကဲများသည် အစ္စလာမ်ကို သဘောပေါက်နားလည်၍ အစ္စလာမ်ကို သက်ဝင်ယုံကြည်လာကြလျှင် များစွာသော ကုရိုက်ရှ်မျိုးနွယ်ဝင်များသည်လည်း အစ္စလာမ်အတွင်းသို့ ရောက်ရှိလာကြဖွယ်ရာ ရှိပေသည်။ အိဗ်နုအွမ်မိမတ်က်တူမ်သည် မဆွကပင် မွတ်စ်လင်မ် ဖြစ်နေခဲ့ချေပြီ။ သူ၏အဖို့ အစ္စလာမ်ကို သင်ကြားနာယူရန်အတွက် အခြားအချိန် အခွင့်အလမ်း အမြောက်အမြားရှိသည်။ ယခုအချိန် ငါ့ထံတွင် အရေးပါအရာရောက်သော ပုဂ္ဂိုလ်များ ထိုင်နေကြသည်ကို သူမမြင်။ အကယ်၍ ဤပုဂ္ဂိုလ်များ တရားရရှိလာကြပါက များစွာသော ကုရိုက်ရှ်မျိုးနွယ်ဝင်များသည် အစ္စလာမ်ကို လက်ခံလာကြပေမည်။ ငါသည် ယင်းသို့ အရေးပါသော ပုဂ္ဂိုလ်များအား အစ္စလာမ်အကြောင်း ဟောကြားနေသည်။ ➤➤

➤➤ ဤသူသည် (အခါအခွင့်ကို မထောက်ထားဘဲ) ကိုယ့်အလိုကိုသာ ဆက်တိုက် ပြောဆိုနေသည်။ အကယ်၍ ငါသည် ဤပုဂ္ဂိုလ်များဘက်မှ မျက်နှာလွှဲပြီး ဤသူ၏ဘက်သို့ အာရုံစူးစိုက်လိုက်ပါလျှင် ဤပုဂ္ဂိုလ်များသည် စိတ်အနှောင့်အယှက် ဖြစ်သွားကြပြီး ငါ၏စကားကိုပင် နားထောင်လိုမှ နားထောင်ကြတော့မည်။ ဤသည်ကို ဤသူမသိဟူ၍ တမန်တော်မြတ်၏စိတ်တွင်း အတွေးပေါ်လာခဲ့ဟန်ရှိပေသည်။ သို့ဖြင့် တမန်တော်မြတ်သည် စိတ်အနှောင့်အယှက် ဖြစ်သွားတော်မူခဲ့လေသည်။ စိတ်အနှောင့်အယှက်ဖြစ်မှု၏ နိမိတ်လက္ခဏာများသည်လည်း တမန်တော်မြတ်၏ မျက်နှာတွင် ပေါ်လာခဲ့ပေသည်။ ထိုအခါ ဤအာယတ်တော်များ ကျရောက်လာခဲ့ပေသည်။

ယင်းသို့ အာယတ်တော်များ ကျရောက်လာပြီးသည့်နောက်ပိုင်းတွင် တမန်တော်မြတ်သည် အဆိုပါ မျက်မမြင် သာဝကအား မိမိထံရောက်လာလျှင် အထူးလေးစားစွာဖြင့် 'အို-အကြင်သူ၊ ထိုသူနှင့်ပတ်သက်၍ ကျွန်ုပ်၏အရှင်က ကျွန်ုပ်အား အရေးယူတော်မူခဲ့သည်၊ ကြွပါ' ဟု ခရီးဦးကြိုစကားဆိုကာ ဧည့်ခံတော်မူလေတော့သည်။

အမှန်မှာ ထိုမျက်မမြင်သာဝကသည် ဒုက္ခိတဖြစ်သည်၊ အခြေအနေနွမ်းပါးသည်။ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့သည်၊ (စိုးရိမ်ကြီးစွာနှင့် လာခြင်းဖြစ်သည်)။ အမှန်တရားကို လိုလားသည်။ ထိုသို့ပုဂ္ဂိုလ်အား ပို၍သာ ထောက်ထားရပေမည်။ ထိုသို့သော ပုဂ္ဂိုလ်၏ အခြေအနေသည် တမန်တော်မြတ်၏ အလေးဂရုပြုခြင်းဖြင့် ပြောင်းသွားနိုင်ပေသည်။ ကောင်းသွားနိုင်ပေသည်။ စိတ်နှလုံး ဖြူစင်သွားနိုင်ပေသည်။ ယုတ်စွအဆုံး တရားစကား တစ်ခွန်းတပါဒပင် ကြားသွားရလျှင်ပင် စေတနာဖြင့် စဉ်းစားဆင်ခြင်ပေမည်။ တချိန်တွင် အကျိုးခံစားနိုင်ပေသည်။ အဆိုပါ ကာဖိရ် အကြီးအကဲများမူကား မောက်မာပလွှားမှု၊ ဘဝင်မြင့်မှု၊ အထင်ကြီးမှုများကြောင့် အမှန်တရားကို ဂရုမမူကြပေ၊ မကြားလိုကြပေ။ ၎င်းတို့အား ၎င်းတို့၏ မောက်မာမှုသည် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် ရှေ့မှောက်တွင်ညွှတ်ရန် ခွင့်မပြုပေ။

တမန်တော်မြတ်သည် ယင်းသို့သောပုဂ္ဂိုလ်များအား အစ္စလာမ်အတွင်းသို့ ၎င်းတို့၏နောက်လိုက်များ သည်လည်း အစ္စလာမ်အတွင်းသို့ ဝင်လာကြပေမည်ဟူသော မျှော်လင့်ချက်ဖြင့် အထူး အလေးဂရုပြုလျက် ရှိပေသည်။ အမှန်မှာ ယင်းသို့ မောက်မာသော၊ ဘဝင်မြင့်နေသောပုဂ္ဂိုလ်များသည် တမန်တော်မြတ်၏ တရားဟောပြောခြင်းဖြင့် အဘယ်ကြောင့် တရားမရကြသနည်းဟူ၍ကား အလ္လာဟ်အရှင်မြတ်ထံတော်မှ တမန်တော်မြတ်အပေါ်၌ တစ်စုံတစ်ရာ အပြစ်တင်ဖွယ်ရာ မရှိချေ။ တမန်တော်မြတ်၏ တာဝန်မှာ တရားဟောကြားရန်သာ ဖြစ်ပေသည်။ ထိုသည့်တာဝန်ကို တမန်တော်မြတ်သည် ဆောင်ရွက်ခဲ့ချေပြီ။ ဆက်လက်ဆောင်ရွက်လျက် ရှိချေပြီ။

ထိုသည့်နောက်ပိုင်းတွင် ယင်းသို့ မောက်မာသောပုဂ္ဂိုလ်များအား တရားရစေလိုသောစေတနာဖြင့် အလွန်အကျွံ အလေးဂရုပြုရန် မလိုတော့ပေ။ သို့မဟုတ်ပါမူ အမှန်တရားကို အမှန်တကယ် လိုလားသော စိတ်စေတနာဖြူစင်သော မွတ်စ်လင်မ်များသည် တမန်တော်မြတ်၏ အလေးဂရုပြုခြင်းမှ လွတ်ကင်းသွားကြရပေမည်။ ထို့ပြင်တဝ အတွေးခေါင်သူများက တမန်တော်မြတ်သည် ဆင်းရဲသားများထက် ချမ်းသာကြွယ်ဝသူများကို လည်းကောင်း၊ မျက်နှာငယ်များထက် မျက်နှာကြီးများကိုလည်းကောင်း ပိုမိုအလေးဂရုပြုသည်ဟု တွေးထင်လာကြပေမည်။ တမန်တော်မြတ်နှင့် ပတ်သက်၍ အထင်လွဲမှား လာကြပေမည်။ သို့အထင်လွဲမှားမှု ပျံ့နှံ့လာပါက အစ္စလာမ်ကို ဖြန့်ချီရာတွင် လက်တစ်ဆုပ်စာမျှ မျက်နှာကြီးတစ်စု၏ မွတ်စ်လင်မ်ဖြစ်လာခြင်းဖြင့် ရအံ့သော အမြတ်ထက် အရှုံးကား ပို၍များချိမ့်မည်။ ဤသို့ကား မဖြစ်သင့်ရာသတည်း။

فَمَن شَآءَ ذَكَرَهُۥ ⑫

၁၂။ သို့ဖြစ်ပေရာ အလိုရှိသောသူသည် ယင်းဆုံးမဩဝါဒကို လေ့ကျက်မှတ်သားပေလိမ့်မည်။ [၁]

فِى صُحُفٍ مُّكَرَّمَةٍ ⑬

၁၃။ (ယင်းဆုံးမဩဝါဒသည်) ဂုဏ်ကျက်သရေနှင့်ပြည့်စုံသော အရွက်များပေါ်၌ (ရေးသားပြီး)ဖြစ်၏။

مَّرْفُوعَةٍ مُّطَهَّرَةٍۭ ⑭

၁၄။ (ယင်းအရွက်များသည်) မြင့်မြတ်သော၊ စင်ကြယ်သန့်ရှင်းသော(အရွက်များ ဖြစ်သည်)။

بِأَيْدِى سَفَرَةٍ ⑮

၁၅။ (ယင်းအရွက်များသည်) ရေးသားကြသော ကောင်းကင်တမန်တို့၏ လက်တွင်း၌ရှိ၏။ [၂]

كِرَامٍۭ بَرَرَةٍ ⑯

၁၆။ (ထိုကောင်းကင်တမန်များသည်) ဂုဏ်အင်ဒြပ်ထူးကဲကြသော၊ သူတော်စင်များဖြစ်ကြကုန်သော (ကောင်းကင်တမန်များ ဖြစ်ကြပေသတည်း)။

---

(၁) **ကုရ်အာန်၏ ဂုဏ်အင်။**

မောက်မာပလွှား ဝါကြွားသော ချမ်းသာကြွယ်ဝသော မျက်နှာကြီး ကာဖိရ်များ ဤကုရ်အာန်ကို ရွတ်ဖတ်သရဇ္ဈာယ်ခြင်း မပြုပါက၊ ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို မလိုက်နာကြပါက ကိုယ့်ကိုယ်ကို ကိုယ်တိုင် ဆုံးရှုံးနစ်နာအောင် ပြုလုပ်ခြင်းသာ ဖြစ်ပေသည်။ ကုရ်အာန်ကျမ်းမြတ်သည် ၎င်းတို့အား မည်သို့မျှ ဂရုမူသည်မဟုတ်။ တမန်တော်မြတ်သည်လည်း ၎င်းတို့အား မည်သို့မျှ ဂရုမူသည်မဟုတ်။ တမန်တော်မြတ်သည်လည်း ၎င်းတို့အား ထိုရွေ့ထိုမျှ အလေးဂရုပြုနေရန် မလိုပေ။ ကုရ်အာန်သည် ကမ္ဘာ့သူကမ္ဘာ့သား အားလုံးတို့အဖို့ အဆုံးအမ ဩဝါဒဖြစ်သည်။ မိမိအကျိုးကို လိုလားသူသည် ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်ပေမည်။ ကုရ်အာန်ကျမ်းလာ တရားတော်များကို လိုက်နာကျင့်သုံးပေမည်။

(၂) မောက်မာပလွှား ဝါကြွားသော ချမ်းသာကြွယ်ဝသော မျက်နှာကြီး ကာဖိရ်များ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်ကြမှသာလျှင် ကုရ်အာန်၌ ဂုဏ်သိက္ခာရှိရမည်လော။ ဤသို့ အလျင်းမဟုတ်၊ အဘယ်ကြောင့်ဆိုသော် ကုရ်အာန်ကျမ်းလာ အာယတ်တော်များကို ကောင်းကင်ထက်ဝယ် အလွန်မြင့်သော၊ မြင့်မြတ်သော၊ ဂုဏ်သိက္ခာရှိသော၊ ဖြူစင်သန့်ရှင်းသော အရွက်များထက်တွင် ရေးတင်လျက်ရှိ၏။

ကမ္ဘာမြေပြင်ဝယ် စိတ်စေတနာ သဒ္ဓါတရား အလွန်ထက်သန်လှသော မုအ်မင်န်တို့သည်လည်း ကုရ်အာန်ကျမ်းမြတ်ကို အလွန်ရိုသေ ခန့်ညားစွာဖြင့်၊ အလွန်စင်ကြယ်သန့်ရှင်းစွာဖြင့် အမြင့်တွင် တရိုတသေ ထားရှိကြပေသည်။ အထက်ကောင်းကင်တွင် ကုရ်အာန်ကျမ်းမြတ်ကို ကောင်းကင်တမန်များက ရေးမှတ်ထားကြသည်။

သို့ရေးမှတ်ထားကြသည့်အတိုင်း ကမ္ဘာမြေပြင်သို့ ကျရောက်လာပေသည်။ ဤကမ္ဘာမြေတွင်လည်း ကောင်းကင်တမန်များတမျှ ဖြူစင်သန့်ရှင်းသော သူတော်စင် မုအ်မင်န်များကပင် ကုရ်အာန်ကျမ်းလာ➤➤

قُتِلَ الْإِنسَانُ مَا أَكْفَرَهُ ﴿١٧﴾

၁၇။ မနုဿလူသားသည် ပျက်စီးပါစေ၊ (ပျက်စီးချိမ့်သတည်း)။ ၎င်းသည် အဘယ်မျှလောက် ကျေးဇူးကန်းဘိသနည်း။

مِنْ أَيِّ شَيْءٍ خَلَقَهُ ﴿١٨﴾

၁၈။ ထိုအရှင်မြတ်သည် ၎င်းအား မည်သည့်အရာဖြင့် ဖန်ဆင်းတော်မူပါသနည်း။

مِن نُّطْفَةٍ خَلَقَهُ فَقَدَّرَهُ ﴿١٩﴾

၁၉။ ထိုအရှင်မြတ်သည် ၎င်းအား ကလလ ရေကြည်တစက်ဖြင့် ဖန်ဆင်းတော်မူ၏။ တဖန် ထိုအရှင်မြတ်သည် ၎င်းအား နှိုင်းချိန်တိုင်းဆ ခန့်မှန်း၍ ပြုလုပ်တော်မူ၏။ [၁]

---

➤➤ အာယတ်တော်များကို အပိုအလိုမရှိ၊ တိကျမှန်ကန်စွာ ရေးမှတ်ထားကြပေသည်။ ဤသို့သော ကုရ်အာန်ကျမ်းမြတ်သည် ဂုဏ်သိက္ခာရှိပြီး၊ မြင့်မြတ်ပြီး ဖြစ်ပေသည်။

ဤအာယတ်တော်တွင် "အင်နဟာ"ဟူသော ပုဒ်၌ပါရှိသော "ဟာ"ဟူသော နာမ်စားနှင့်စပ်လျဉ်း၍ အချို့က ယင်းနာမ်စားသည် ဤကဏ္ဍကို ရည်ညွှန်းသည်ဟူ၍လည်းကောင်း၊ အချို့က တရားဟောကြားရာတွင် နိမ့်မြင့်မခြား သာတူညီမျှ တစ်တန်းတစ်စားတည်း ဆက်ဆံရမည်ဟူသော အမိန့်တော်ကို ရည်ညွှန်းသည်ဟူ၍လည်းကောင်း၊ အချို့က ကုရ်အာန်ကျမ်းမြတ် တစ်စောင်လုံးကို ရည်ညွှန်းသည်ဟူ၍လည်းကောင်း၊ အမျိုးမျိုး ဖွင့်ဆိုကြသည်။ (နောက်ဆုံးအဆိုသည် သင့်မြတ်လှသည်)။

ဤအာယတ်တော်တွင်ပါရှိသော "စဖရဟ်"ဟူသောပုဒ်ကို အနက်ဖွင့်ရာတွင်လည်း အချို့က ယင်းပုဒ်သည် ကောင်းကင်တမန်များကို ရည်ညွှန်းသည်ဟူ၍လည်းကောင်း၊ အချို့က "ဆွဟာဗဟ်" သာဝကကြီးများအား ရည်ညွှန်းသည်ဟူ၍လည်းကောင်း၊ အချို့က "ကုရ်ရာအ်" ကုရ်အာန်ကျမ်းကို အာဂုံဆောင်ထားသော ပုဂ္ဂိုလ်များအား ရည်ညွှန်းသည်ဟူ၍လည်းကောင်း၊ အမျိုးမျိုး ဖွင့်ဆိုကြသည်။ အိဗ်နုဂျရီရ်က ယင်းအဆိုများအနက် ပထမအဆိုသည် မှန်ကန်သင့်မြတ်သည်ဟု ဆိုထားသည်။ ကြည့်-အိဗ်နုကဆီရ်။

ဤအာယတ်တော်များကို ထောက်ရှုခြင်းအားဖြင့် ကုရ်အာန်ကျမ်းမြတ်ကို စင်ကြယ်သန့်ရှင်းမြင့်မြတ်သောနေရာတွင် ထားရှိရမည့်အကြောင်း၊ ရိုသေလေးမြတ်စွာ ကိုင်တွယ်ရမည့်အကြောင်း၊ ထို့ပြင်တဝ ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်သောသူများသည် ကုရ်အာန်ကျမ်းလာ အာယတ်တော်များနှင့်အညီ အပြောအဆို၊ အနေအထိုင်တွင် ရိုးသားဖြောင့်မတ်၊ မှန်ကန်တည်ကြည်၍ ကုရ်အာန်၏ သရုပ်သကန်များ ဖြစ်ကြရမည့်အကြောင်း၊ ကောင်းစွာ သိရှိနိုင်ပေသည်။

(၁) **လူသား၏ ကျေးဇူးကန်းမှု။**

လူသားသည် ကုရ်အာန် ကျမ်းမြတ်ကဲ့သို့ ကြီးကဲမြင့်မြတ်လှသော ကျေးဇူးကိုပင် မလေးစားပေ။ အလ္လာဟ်အရှင်မြတ်နှင့် ပတ်သက်၍လည်း တစ်စုံတစ်ရာ တာဝန်ကိုမျှ မသိပေ။ ယင်းသို့ ကျေးဇူးမသိတတ်သော ကျေးဇူးကန်းလှသော လူသားသည် ပျက်စီးပါစေသတည်း။ ပျက်စီးချိမ့်သတည်း။ ➤➤

ثُمَّ السَّبِيلَ يَسَّرَهُ ﴿٢٠﴾

၂၀။ ထို့နောက် ထိုအရှင်မြတ်သည် ၎င်း၏အဖို့ လမ်းကို လွယ်ကူစေတော်မူ၏။

ثُمَّ أَمَاتَهُ فَأَقْبَرَهُ ﴿٢١﴾

၂၁။ ထို့နောက် ထိုအရှင်မြတ်သည် ၎င်းအား သေဆုံးစေတော်မူ၏။ တဖန် ထိုအရှင်မြတ်သည် ၎င်းအား သင်္ချိုင်းတွင်းသို့ မြှုပ်နှံစေတော်မူ၏။

ثُمَّ إِذَا شَاءَ أَنشَرَهُ ﴿٢٢﴾

၂၂။ ထို့နောက်တဖန် ထိုအရှင်မြတ်သည် အလိုရှိတော်မူသောအခါ ၎င်းအား ရှင်ပြန်ထစေတော်မူမည်။

كَلَّا لَمَّا يَقْضِ مَا أَمَرَهُ ﴿٢٣﴾

၂၃။ ထိုလူသားသည် ၎င်းအား ထိုအရှင်မြတ်က အမိန့်ပေးတော်မူသည်များကို ကျေပွန်အောင် ဆောင်ရွက်ခဲ့ခြင်း အလျင်း မရှိချေ။ ^၁^

فَلْيَنظُرِ الْإِنسَانُ إِلَىٰ طَعَامِهِ ﴿٢٤﴾

၂၄။ ပြီးနောက် လူသားသည် မိမိ အစားအစာကို (ပြန်လည်)ကြည့်ရှု ဆင်ခြင်အပ်ပေသည်။

---

➤➤ လူသားသည် မိမိ၏ မူလဘဝဖြစ်စဉ်ကို စဉ်းစားဆင်ခြင်ရာသည်။ လူသားသည် မည်သည့်အရာမှ ဖြစ်ပေါ်လာသနည်း။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် လူသားအား ကလလရေကြည် တစ်စက်ဖြင့် ဖန်ဆင်းထားတော်မူခြင်း ဖြစ်သည်။ ယင်းရေကြည်တစ်စက်တွင် အသိဉာဏ်၊ အမြော်အမြင်၊ အလှအပ၊ ဘစ်စုံတစ်ရာမျှ မရှိခဲ့ပေ။ ဤသည်တို့သည် အလ္လာဟ်အရှင်မြတ်၏ကျေးဇူးတော်ပင်။

အလ္လာဟ်အရှင်မြတ်သည် လူသားအား ကလလ ရေကြည်တစ်စက်မှ ဖန်ဆင်းထားတော်မူ၏။ လူသား၏ ကိုယ်ခန္ဓာ အစိတ်အပိုင်းများကိုလည်း စနစ်တကျ နေထားကျန၊ ထည်ဝါခံ့ညားလှပစွာ စီမံထားတော်မူ၏။ လူသား၌ အဆင်မပြေမှုဟူ၍ တစ်စုံတစ်ရာမျှမရှိ၊ အစစအရာရာ အဆင်ပြေလှ၏။ ထို့ပြင်တဝ လူသားအား အီမာန်နှင့်ကုဖ်ရ်၊ ယုံကြည်မှုနှင့်မယုံကြည်မှု၊ အကောင်းနှင့်အဆိုး၊ အမှန်နှင့်အမှား စသည်တို့ကို ဝေဖန်ပိုင်းခြား သိမြင်နိုင်ရန် အလို့ငှာ အသိဉာဏ်ကိုလည်း ပေးထားတော်မူ၏။

(၁) လူသားသည် မိမိအား မိမိ၏အရှင်က မိန့်ကြားထားတော်မူသည်များကို ယခုထက်တိုင် လိုက်နာမဆောင်ရွက်သေးပေ။

အိဗ်နုကဆီရ်က ဤအာယတ်တော် ( كَلَّا لَمَّا يَقْضِ مَا أَمَرَهُ ) ကို ( ثُمَّ إِذَا شَاءَ أَنشَرَهُ ) ဟူသော အာယတ်တော်နှင့် ဆက်စပ်ပြီး "ထိုအရှင်မြတ်သည် မိမိအလိုတော်ရှိတော်မူသောအခါ ထိုလူသားအား ရှင်ပြန်ထစေတော်မူမည်။ ယခုမူ ဤသို့ ပြုလုပ်တော်မမူသေးပေ။ အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည် ဤပစ္စက္ခဘဝ၏ စည်ပင်ဝပြောမှုနှင့် စပ်လျဉ်း၍ သတ်မှတ်ထားတော်မူသော 'တတ်က်ဒီရ်'ဆိုင်ရာ လျာထားချက်ကို ပြီးစီးအောင် ပြုလုပ်တော်မမူရသေးပေ"ဟု အနက်ဖွင့်ထားပေသည်။

أَنَّا صَبَبْنَا الْمَاءَ صَبًّا ﴿٢٥﴾

၂၅။ ဧကန်မလွဲ ငါအရှင်မြတ်သည် (မိုး)ရေကို (အံ့ဘွယ်သရဲ) ရွာသွန်းစေတော်မူ၏။

ثُمَّ شَقَقْنَا الْأَرْضَ شَقًّا ﴿٢٦﴾

၂၆။ ထိုနောက် ငါအရှင်မြတ်သည် ပထဝီမြေကို (အံ့ဘွယ်သရဲ) ခွဲတော်မူ၏။

فَأَنْبَتْنَا فِيهَا حَبًّا ﴿٢٧﴾

၂၇။ တဖန် ငါအရှင်မြတ်သည် ယင်းပထဝီမြေ၌ ကောက်ပဲသီးနှံကို ပေါက်ရောက်စေတော်မူ၏။

وَعِنَبًا وَقَضْبًا ﴿٢٨﴾

၂၈။ စပျစ်ပင်ကိုလည်းကောင်း၊ စိမ်းစိုသော ဟင်းသီးဟင်းရွက်ကိုလည်းကောင်း။

وَزَيْتُونًا وَنَخْلًا ﴿٢٩﴾

၂၉။ သံလွင်ပင်ကိုလည်းကောင်း၊ စွန်ပလွံပင်ကိုလည်းကောင်း။

وَحَدَائِقَ غُلْبًا ﴿٣٠﴾

၃၀။ (သစ်ပင်ပန်းပင်များ)ထူထပ်သော ဥယျာဉ်များကိုလည်းကောင်း။

وَفَاكِهَةً وَأَبًّا ﴿٣١﴾

၃၁။ သစ်သီးဝလံများကိုလည်းကောင်း၊ ကျွဲ၊နွား တိရစ္ဆာန်အစာကိုလည်းကောင်း၊ (ပေါက်ရောက်စေတော်မူ၏)။

مَتَاعًا لَكُمْ وَلِأَنْعَامِكُمْ ﴿٣٢﴾

၃၂။ အသင်တို့၏အကျိုးငှာလည်းကောင်း၊ အသင်တို့၏ကုလားအုတ်၊ ကျွဲ၊ နွား တိရစ္ဆာန်များ၏ အကျိုးငှာလည်းကောင်း၊ [၁]

---

(၁) အထက်တွင် လူသားအား အလ္လာဟ်အရှင်မြတ် စတင် ဖန်ဆင်းထားတော်မူသည့်အကြောင်း၊ သေစေတော်မူသည့်အကြောင်း၊ ထို့နောက် ရှင်ပြန်ထစေတော်မူမည့်အကြောင်းများ ပါရှိ၏။ ယခု ဤအာယတ်တော်များတွင် လူ့သက်တမ်း၌ လူသားများ ကောင်းစွာရပ်တည်နိုင်ရန်အလို့ငှာ ထိုအရှင်မြတ်သည် လူသားအဖို့ စားသောက်ဖွယ်ရာများကို လိုလေသေးမရှိ အသင့်စီမံထားတော် မူသည့်အကြောင်းများကို မိန့်ဆိုထားတော်မူပေသည်။

လူသားသည် နေ့စဉ်နှင့်အမျှ မိမိမှီဝဲစားသုံးနေသော အစာအာဟာရများ မည်သို့မည်ပုံ ဖြစ်ပေါ်လာသည်များကို စဉ်းစားဆင်ခြင် ရှုမြင်ရာသည်။ အလ္လာဟ်အရှင်မြတ်သည် မိုးရေများကို အံ့ဖွယ်သရဲ ရွာသွန်းချပေးတော်မူ၏။ မြေတွင်းရှိ မျိုးစေ့များကို ထွက်ပေါ်လာနိုင်ရန် မြေကို အက်စေတော်မူ၏။ ကောက်ပဲသီးနှံ ဟင်းသီးဟင်းရွက်များကိုလည်း ပေါက်ရောက်စေတော်မူ၏။ စပျစ်၊ သံလွင်၊ စွန်ပလွံ စသည့် ➢➢

فَإِذَا جَآءَتِ ٱلصَّآخَّةُ ﴿٣٣﴾

၃၃။ တဖန် နားပင်းစေသောအသံသည် (ထွက်ပေါ်၍) လာသောအခါ။ ①

يَوْمَ يَفِرُّ ٱلْمَرْءُ مِنْ أَخِيهِ ﴿٣٤﴾

၃၄။ အကြင်နေ့တွင် လူသည်ထွက်ပြေး (တိမ်းရှောင်)အံ့၊ မိမိညီအစ်ကို၏ထံမှလည်းကောင်း။

وَأُمِّهِۦ وَأَبِيهِ ﴿٣٥﴾

၃၅။ မိမိအမိထံမှလည်းကောင်း၊ မိမိအဘထံမှလည်းကောင်း။

وَصَٰحِبَتِهِۦ وَبَنِيهِ ﴿٣٦﴾

၃၆။ မိမိဇနီး ကြင်ယာ၏ထံမှလည်းကောင်း၊ မိမိသားသမီးထံမှလည်းကောင်း။

لِكُلِّ ٱمْرِئٍ مِّنْهُمْ يَوْمَئِذٍ شَأْنٌ يُغْنِيهِ ﴿٣٧﴾

၃၇။ ထိုနေ့တွင်ကား လူတိုင်းလူတိုင်း၌ (အခြားမည်သည့်တစုံတရာကိုမျှ) ဂရုမစိုက်ဘဲ လုံးပန်း၍နေစေသော အရေးကိစ္စတခုစီ ရှိနေမည်ဖြစ်၏။

وُجُوهٌ يَوْمَئِذٍ مُّسْفِرَةٌ ﴿٣٨﴾

၃၈။ ထိုနေ့တွင် မြောက်မြားစွာသောမျက်နှာတို့မှာ လင်းဝင်းတောက်ပလျက် ရှိကြပေမည်။

ضَاحِكَةٌ مُّسْتَبْشِرَةٌ ﴿٣٩﴾

၃၉။ ရယ်မောရွှင်ပြလျက် (ရှိကြပေမည်)။

وَوُجُوهٌ يَوْمَئِذٍ عَلَيْهَا غَبَرَةٌ ﴿٤٠﴾

၄၀။ ထိုမှတပါး မြောက်မြားစွာသော မျက်နှာတို့အပေါ်၌မူကား မြူမှုန်များသည် ရှိနေပေမည်။

تَرْهَقُهَا قَتَرَةٌ ﴿٤١﴾

၄၁။ ထိုမျက်နှာများအပေါ်၌ အမှောင်သည် ဖုံးလွှမ်းလျက် ရှိပေမည်။

---

➤➤ သစ်သီးဝလံများကိုလည်း ပေါက်ရောက်စေတော်မူ၏။ စိမ်းစိမ်းစို နပျိုစည်ပင်သာယာလျက်ရှိသော ဉယျာဉ်များကိုလည်း စိုက်ပျိုးထားတော်မူ၏။ အခြေလေးချောင်း တိရိစ္ဆာန်များအဖို့လည်း စားနပ်ရိက္ခာများကို အသင့်စီမံထားတော်မူ၏။ဤသည်တို့သည် လူသားတို့နှင့် လူသားတို့ စေခိုင်းနေသော တိရိစ္ဆာန်တို့၏ စားနပ်ရိက္ခာဖြစ်၏။ဤသည်တို့ကို စဉ်းစားဆင်ခြင် ရှုမြင်ပါက လူသားသည် မိမိ၏ ကျေးဇူးရှင်အား ကျေးဇူးကန်းမည် မဟုတ်သည်သာမက ကျေးဇူးတော်သိလာပေမည်။ အမိန့်တော်ကို နာခံလာပေမည်။
① နားများ ပင်းသွားစေမည့် အရာဟူသည် ကိယာမတ်နေ့တွင် မှုတ်မည့် တံပိုးသံကို ဆိုလိုသည်။ ထိုအခါ ယခုကျေးဇူးကန်းနေသူများသည် ကျေးဇူးကန်းမှု၏အကျိုးကို ကောင်းစွာ သိသွားကြပေမည်။



၄၂။ ထိုသူတို့သည်သာလျှင် ကာဖိရ် သွေဖည်ငြင်းပယ်သူများ၊ ဆိုးသွမ်းသူများဖြစ်ကြကုန်သတည်း။ [၁]



## ခေါက်လိပ်ခြင်းကဏ္ဍ

ဤကဏ္ဍသည် စူရဟ် "တတ်က်ဝီရ်" ခေါက်လိပ်ခြင်း အကြောင်းပါဝင်သော ကဏ္ဍမည်၏။ ဤကဏ္ဍသည် မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၂၉) ပါး ပါရှိ၏။

بِسْمِ اللهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

إِذَا الشَّمْسُ كُوِّرَتْ ۝١

၁။ နေသည် ခေါက်လိပ်ခြင်းကို ခံရသောအခါ၊ (အလင်းရောင်မဲ့သွားသောအခါ)၊

وَإِذَا النُّجُومُ انكَدَرَتْ ۝٢

၂။ ထို့ပြင် ကြယ်တာရာများသည် ကြွေကျကြသောအခါ၊

وَإِذَا الْجِبَالُ سُيِّرَتْ ۝٣

၃။ ၎င်းပြင် တောင်များသည် ရွေ့လျားခြင်းကို ခံကြရသောအခါ၊

---

(၁) **ကိယာမတ်နေ့တွင် မုအ်မင်န်နှင့် ကာဖိရ်တို့၏ဖြစ်အင်။**

ကိယာမတ်နေ့တွင် လူသားများသည် မိမိတို့၏ညီအစ်ကို မိဘ ဇနီးသားသမီးများကိုပင် စွန့်ခွာထွက်ပြေးလျက် ရှိကြပေမည်။ တစ်ဦးကိုတစ်ဦး သနားကြင်နာ ထောက်ထားနိုင်ကြမည်မဟုတ်ပေ။ အသီးသီးကိုယ့်အရေးနှင့်ကိုယ် လုံးပန်းလျက် ရှိကြပေမည်။ သူတပါးအား လှည့်ကြည့်နိုင်ကြမည်မဟုတ်ပေ။ ဤကားကာဖိရ်တို့၏ အဖြစ်တည်း။

ကိယာမတ်နေ့တွင် မြောက်မြားစွာသော မျက်နှာများသည် အီမာန်ကြောင့် တောက်ပလျက်ရှိကြပေမည်။ ဝမ်းသာမှုကြောင့် ရွှင်ပြလျက်ရှိကြပေသည်။ ဤသူများကား မုအ်မင်န် သူတော်စင်များတည်း။ ကိယာမတ်နေ့တွင် မြောက်မြားစွာသော မျက်နှာများသည် ကုဖ်ရ်ကြောင့် ပုပ်လျက်ရှိကြပေမည်။ ယုတ်မာမှုကြောင့် မည်းလျက်ရှိကြပေမည်။ ဤသူတို့ကား ကာဖိရ် သူယုတ်မာများတည်း။

وَإِذَا الْعِشَارُ عُطِّلَتْ ﴿٤﴾

၄။ ထိုမှတပါး ကိုယ်ဝန်ဆောင် ဆယ်လစေ့သော ကုလားအုတ်မများသည် (ထိန်းကျောင်းသူမရှိဘဲ) စွန့်လွှတ်ထားခြင်းကို ခံကြရသောအခါ၊

وَإِذَا الْوُحُوشُ حُشِرَتْ ﴿٥﴾

၅။ ထို့ပြင် တောတိရစ္ဆာန်များသည် စုရုံးခြင်းကို ခံကြရသောအခါ၊

وَإِذَا الْبِحَارُ سُجِّرَتْ ﴿٦﴾

၆။ ထို့ပြင် ပင်လယ် သမုဒ္ဒရာများသည် ခြောက်ခန်း ဆူပွက်စေခြင်းကို ခံကြရသောအခါ၊

وَإِذَا النُّفُوسُ زُوِّجَتْ ﴿٧﴾

၇။ ၎င်းပြင် အသက်ဇီဝိန်များ (လူများသည်) တွဲဖက်စုပေါင်းစေခြင်းကို ခံကြရသောအခါ၊

وَإِذَا الْمَوْءُودَةُ سُئِلَتْ ﴿٨﴾

၈။ ၎င်းပြင် အရှင်လတ်လတ် မြှုပ်နှံခြင်းကို ခံခဲ့ရသော သမီးမိန်းကလေးသည် မေးမြန်းခြင်းကို ခံရသောအခါ၊

بِأَيِّ ذَنْبٍ قُتِلَتْ ﴿٩﴾

၉။ ၎င်းပြင် မည်သည့်အပြစ်ကြောင့် သတ်ဖြတ်ခြင်းကို ခံခဲ့ရသနည်း(ဟု)၊

وَإِذَا الصُّحُفُ نُشِرَتْ ﴿١٠﴾

၁၀။ ၎င်းပြင် (မှတ်တမ်း)စာရွက်များသည် ဖြန့်ထားခြင်းကို ခံကြရသောအခါ၊

وَإِذَا السَّمَاءُ كُشِطَتْ ﴿١١﴾

၁၁။ ထို့ပြင် မိုးကောင်းကင်သည် အရေခွာခြင်းကို ခံရသောအခါ (ပွင့်စေခြင်းကိုခံရသောအခါ)၊

وَإِذَا الْجَحِيمُ سُعِّرَتْ ﴿١٢﴾

၁၂။ ထို့ပြင် "ဂျဟန္နမ်" ငရဲသည် မီးမွှေးခြင်းကို ခံရသောအခါ။

وَإِذَا الْجَنَّةُ أُزْلِفَتْ ﴿١٣﴾

၁၃။ ထိုမှတပါး "ဂျန္နတ်" သုခဘုံသည် အနီးသို့ ယူဆောင်လာခြင်းကို ခံရသောအခါ။

عَلِمَتْ نَفْسٌ مَّآ أَحْضَرَتْ ﴿١٤﴾

၁၄။ လူအသီးသီးတို့သည် မိမိတို့ ယူဆောင်ခဲ့ကြသည့် (ကောင်းမှု၊ မကောင်းမှု)တို့ကို သိသွားကြအံ့သတည်း။ [၁]

فَلَآ أُقْسِمُ بِٱلْخُنَّسِ ﴿١٥﴾

၁၅။ သို့ဖြစ်ပေရာ ငါ အရှင်မြတ်သည် အကြင်နောက်ဆုတ်တတ်သော နက္ခတ်တို့ကို သက်သေ ထူတော်မူ၏။

ٱلْجَوَارِ ٱلْكُنَّسِ ﴿١٦﴾

၁၆။ ထိုနက္ခတ်များသည် ဖြောင့်မတ်စွာ သွားတတ်သော၊ ကွယ်ပျောက်၍ သွားတတ်သော နက္ခတ်များဖြစ်ကြကုန်၏။ [၂]

---

(၁) **ကိယာမတ်ဖြစ်သောအခါဝယ်။**

ကိယာမတ်နေ့ ပထမအကြိမ် တံပိုးမှုတ်သောအခါ နေသည် အလင်းရောင်မဲ့ ဖြစ်သွားပေမည်။ ကြယ်တာရာများ ကြွေကျပေမည်။ တောင်များ လွင့်စဉ် ရွေ့လျားသွားပေမည်။ ကိုယ်ဝန်ဆောင် ကုလားအုတ်မများသည် အထိန်းအကျောင်းမဲ့ ဖြစ်နေကြပေမည်။ တောတိရစ္ဆာန်များသည် ကြောက်လန့်ပြီး စုရုံးနေကြမည်။ သမုဒ္ဒရာပင်လယ်များသည် လောင်ကျွမ်းဆူပွက်လျက် ရှိပေမည်။

ဒုတိယအကြိမ် တံပိုးမှုတ်သောအခါ လူသားတို့သည် မွတ်စ်လင်မ်တခြား၊ ကာဖိရ်တစ်ကန့်ဖြစ်ပြီး အသီးသီး ကိုယ့်အုပ်စုနှင့်ကိုယ် စုပေါင်းသွားကြပေမည်။ မိမိတို့၏ သမီးမိန်းကလေးများအား အရှင်လတ်လတ် သတ်ဖြတ်မြှုပ်နှံခဲ့ရသူများ၏ ပြစ်မှုထင်ရှားစေရန်အတွက်၊ ထိုသမီးမိန်းကလေးများသည် အဘယ်အပြစ်ကြောင့် သတ်ဖြတ်ခြင်း ခံခဲ့ကြရသနည်းဟု မေးမြန်းခြင်း ခံကြရပေမည်။

လူတိုင်းလူတိုင်း၏ မှတ်တမ်းများသည် ပွင့်သွားပေမည်။ ကောင်းကင်များလည်း ပွင့်သွားပေမည်။ ကောင်းကင်ထက် အရာများကို တွေ့မြင်လာပေမည်။ ငရဲကို မီးညှိပေးလိုက်ပေမည်။ ဂျန္နတ် သုခဘုံသည် မွတ္တကီသူတော်စင်များ အနီးသို့ရောက်ရှိလာပေမည်။ ထိုအခါ လူသားတို့သည် မိမိတို့ ဆည်းပူး ယူဆောင်လာခဲ့ကြသော ကောင်းမှု၊ မကောင်းမှု အကြောင်းနှစ်ခုကို မျက်ဝါးထင်ထင် တွေ့မြင်သိရှိကြပေမည်။ (ထာနဝီ)

(၂) အချို့ကြယ်ကြီးများသည် ရှေ့သို့ မတ်မတ်သွားရင်း နောက်သို့ ဆုတ်တတ်ကြပေသည်။ ထို့နောက် နောက်သို့သာ ဆုတ်လျက်ရှိကြပေသည်။ သို့ နောက်သို့ ဆုတ်ရင်း မိမိတို့၏ ထွက်ပေါ်ရာဌာနများတွင် ပျောက်ကွယ်သွားကြပေသည်။ ဤသည် "ဗျူဂ္ဂဇာ" ကျင့်ခြင်းပင်၊ (ဗျူဂ္ဂ=ကျား + ဇာ= အကျင့်) ကျားတို့သည် သားကောင်ကိုလိုက်ကာ ရှေ့ခုန်၊ နောက်ဆုတ်ပြုသကဲ့သို့ ဂြိုဟ်တို့ ရှေ့သွား၊ နောက်ဆုတ်ပြုခြင်းပင်။ ဤသည့်အဖြစ်သည် ကြယ်ကြီးငါးလုံးတွင် ဖြစ်တတ်ပေသည်။ ယင်းကြယ်ကြီးငါးလုံးကို "စမ်စဟ် မုတဟိုင်ယိရဟ်"ဟု ခေါ်သည်။ ၎င်းတို့မှာ ဇုဟလ်၊ မုရှ်တရီ၊ အတ္တာရိဒ်၊ မိရ်ရီခ်၊ ဇုဟ်ရဟ်တည်း။ အလ္လာဟ်အရှင်မြတ်သည် အဆိုပါကြယ်ကြီးများကို သက်သေထူ မိန့်ဆိုထားတော်မူသည်။

وَالَّيْلِ إِذَا عَسْعَسَ ﴿١٧﴾

၁၇။ ငှင်းပြင် (ငါအရှင်မြတ်သည်) ညဥ့်ကို (သက်သေထူတော်မူ၏)။ အကြင်အခါဝယ် ထိုညဥ့်သည် ရောက်ရှိလာ၏။ (ကုန်လွန်သွား၏)။

وَالصُّبْحِ إِذَا تَنَفَّسَ ﴿١٨﴾

၁၈။ ငှင်းပြင် (ငါအရှင်မြတ်သည်)နံနက်ကို (သက်သေထူတော်မူ၏)။ အကြင်အခါဝယ် ယင်း နံနက်သည် လင်း၍လာလေ၏။

إِنَّهُ لَقَوْلُ رَسُولٍ كَرِيمٍ ﴿١٩﴾

၁၉။ စကန်မလွဲ ဤ(ကုရ်အာန်ကျမ်းတော်မြတ်)သည် မြင့်မြတ်သော စေတမန်တပါး(ယူဆောင်လာသော) အာယတ်တော်ဖြစ်၏။

ذِي قُوَّةٍ عِنْدَ ذِي الْعَرْشِ مَكِينٍ ﴿٢٠﴾

၂၀။ (ထိုစေတမန်သည်) ခွန်အား ကြီးမားသူ၊ 'အရ်ရှ်' ပလ္လင်တော်ကို စိုးပိုင်တော်မူသောအရှင်မြတ်၏အပါးတော်၌ ဂုဏ်အသရေရှိသူဖြစ်ပေသည်။

مُطَاعٍ ثَمَّ أَمِينٍ ﴿٢١﴾

၂၁။ (ထို့ပြင်) ထို(မိုးကောင်းကင်များ)၌ သြဇာညောင်းသူ၊ ယုံကြည်စိတ်ချရသူ(လည်းဖြစ်ပေသည်၊)[၁]

وَمَا صَاحِبُكُمْ بِمَجْنُونٍ ﴿٢٢﴾

၂၂။ ငှင်းပြင် (ဤ)အသင်တို့၏ အဖော်သည်လည်း ရူးသွပ်သောသူ မဟုတ်ပေ။

وَلَقَدْ رَآهُ بِالْأُفُقِ الْمُبِينِ ﴿٢٣﴾

၂၃။ ငှင်းပြင် မလွဲစေကန် ထိုအသင်တို့၏ အဖော်သည် ရှင်းလင်းသော 'အူဖွတ်က်' မိုးကုပ်စက်ဝိုင်း၌ ငှင်းစေတမန်အား တွေ့မြင်ခဲ့ဖူးပေသည်။

---

(၁) **ကုရ်အာန်ကို ယူဆောင်လာသော ကောင်းကင်တမန်။**

ကုရ်အာန်ကျမ်းမြတ်ကို ယူဆောင်လာသော ကောင်းကင်တမန်သည် ကောင်းကင်တမန် ဂျိဗ်ရီလ်ပင်တည်း။ ကောင်းကင်တမန် ဂျိဗ်ရီလ်သည် အလ္လာဟ်အရှင်မြတ် ထံတော်၌ မြင့်မြတ်သည်။ ဂုဏ်အသရေရှိသည်။ အားအင်လည်း ကြီးမားသည်။ ကောင်းကင်ထက်ဝယ် သြဇာလည်း ကောင်းသည်။ သစ္စာသမာဓိလည်း ရှိပေသည်။

وَمَا هُوَ عَلَى الْغَيْبِ بِضَنِينٍ ﴿٢٤﴾

၂၄။ ၎င်းပြင် ထိုအသင်တို့၏အဖော်ကား အကွယ်၌ ရှိသောအရာများ(အနက်၊ အလ္လာဟ်အရှင်မြတ် အသိပေးတော်မူသောအရာများ)နှင့်စပ်လျဉ်း၍ စေးနဲသူလည်း မဟုတ်ပေ။ [၁]

وَمَا هُوَ بِقَوْلِ شَيْطَٰنٍ رَّجِيمٍ ﴿٢٥﴾

၂၅။ ထို့ပြင် ယင်း(ကုရ်အာန်ကျမ်းတော်မြတ်) သည် မည်သည့် နှင်ထုတ်ခြင်းခံရသော 'ရှိုင်တွာန်' မိစ္ဆာကောင်၏ ပြောဆိုချက်လည်း အလျှင်းမဟုတ်ပေ။

فَأَيْنَ تَذْهَبُونَ ﴿٢٦﴾

၂၆။ သို့ပါလျက် အသင်တို့သည် အဘယ်သို့ သွားနေကြသနည်း။

إِنْ هُوَ إِلَّا ذِكْرٌ لِّلْعَٰلَمِينَ ﴿٢٧﴾

၂၇။ ထို(ကုရ်အာန်ကျမ်းတော်မြတ်)သည် စကြာဝဠာ ခပ်သိမ်းတို့အဖို့ ဆုံးမဩဝါဒသာလျှင် ဖြစ်ချေသည်။

لِمَن شَآءَ مِنكُمْ أَن يَسْتَقِيمَ ﴿٢٨﴾

၂၈။ (အထူးသဖြင့်) အသင်တို့အနက် ဖြောင့်မတ်စွာ သွားလိုသူ၏အဖို့။ [၂]

---

**(၁) ကုရ်အာန်ပို့ချခြင်းခံရသော တမန်တော်။**

ကုရ်အာန်ကျမ်းမြတ် ပို့ချခြင်းခံရသော တမန်တော်ကား တမန်တော်မြတ် မုဟမ္မဒ် (ဆွာလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)တည်း။ တမန်တော်မြတ်သည် ကာဖိရ်များ မဟုတ်မလျား စွပ်စွဲပြောဆိုကြသကဲ့သို့ သူရူးမဟုတ်။

တမန်တော်မြတ်၌ ပြည့်ဝသော ဉာဏ်၊ မှန်ကန်သော အမြင်၊ ထက်မြက်သော အဆုံးအဖြတ်၊ ပြေပြစ်သော အပြောအဆို၊ ပိရိသော အနေအထိုင် ရှိပေသည်။ တမန်တော်မြတ်သည် ကောင်းကင်တမန် ဂျိဗ်ရီလ်အား ကောင်းစွာသိသည်။

တမန်တော်မြတ်သည် ကောင်းကင်တမန် ဂျိဗ်ရီလ်အား မူလရုပ်ဆင်းသဏ္ဌာန်၌ မိုးကုပ်စက်ဝိုင်းတွင် အသေအချာ တွေ့မြင်ခဲ့ဖူးသည်။ ဤအကြောင်း ကုရ်အာန် (၅၃း၆-၇) တွင် ပါရှိခဲ့ချေပြီ။ တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်ထံတော်မှ အသနားတော်မြတ်ခံရသော တရားတော်များကို ဟောကြားတော်မူရာတွင် အလျင်းစေးနဲတော်မူသည်မဟုတ်ပေ။

**(၂) ကုရ်အာန်ကျမ်းမြတ်။**

ကုရ်အာန်ကျမ်းမြတ်သည် အနှင်ခံ ရှိုင်တွာန်၏ စကားမဟုတ်။ အထက်တွင် ပါရှိခဲ့သည့်အတိုင်း ကောင်းကင်တမန် ယူဆောင်လာသော တမန်တော်မြတ် အသနားတော်ခံရသော အလ္လာဟ်အရှင်မြတ်၏ အာယတ်တော်ဖြစ်ချေသည်။ ကုရ်အာန်ကျမ်းမြတ်သည် ကမ္ဘာသူ ကမ္ဘာသားများအဖို့၊ အထူးသဖြင့် လူသားတို့အနက် ရိုးသား၊ တည်ကြည်၊ ဖြောင့်မတ်စွာ နေထိုင်လိုသူများအဖို့ အဆုံးအမဩဝါဒတော် တစ်ပါးဖြစ်ပေသည်။

وَمَا تَشَاءُونَ إِلَّا أَن يَشَاءَ اللَّهُ رَبُّ الْعَالَمِينَ ﴿٢٩﴾

၂၉။ စင်စစ်သော်ကား စကြာဝဠာ ခပ်သိမ်းတို့ကို ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူမှသာလျှင် အသင်တို့သည် အလိုရှိနိုင်ကြပေမည်တကား။ [၁]



## စုတ်ပြတ်ခြင်းကဏ္ဍ

ဤကဏ္ဍသည် "အင်န်ဖိတွာရ်" စုတ်ပြတ်ခြင်းအကြောင်း ပါဝင်သော ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၁၉)ပါး ပါရှိ၏။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

မပြတ်မစဲ သနားကြင်နာတော်မူသော၊ အနန္တကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

إِذَا السَّمَاءُ انفَطَرَتْ ﴿١﴾

၁။ မိုးကောင်းကင်သည် အက်ကွဲသောအခါ။

وَإِذَا الْكَوَاكِبُ انتَثَرَتْ ﴿٢﴾

၂။ ၎င်းပြင် ကြယ်တာရာများသည် ကြွေကျကြသောအခါ။

وَإِذَا الْبِحَارُ فُجِّرَتْ ﴿٣﴾

၃။ ထို့ပြင် ပင်လယ်သမုဒ္ဒရာများသည် ဆူပွက်စီးထွက်(စေခြင်းကို ခံကြရ)သောအခါ။

---

(၁) **အလိုတော်။**

အချို့သူများသည် ကုရ်အာန်ကျမ်းမြတ်ကို ရွတ်ဖတ်သရဇ္ဈာယ်ကြပေသည်။ သို့သော် တရားမရကြပေ။ ဤသည်ကိုကြည့်ပြီး ကုရ်အာန်ကျမ်းမြတ်နှင့်စပ်လျဉ်း၍ အထင်မလွဲမှားရာ။ အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ် အလိုတော်မရှိက လူသားတို့ အလိုမရှိနိုင်ကြပေ။ အလ္လာဟ်အရှင်မြတ် အလိုတော်ရှိမှသာလျှင် လူသားတို့သည် အလိုရှိနိုင်ကြပေသည်။

ဆိုလိုသည်ကား ကုရ်အာန်ကျမ်းမြတ်သည် ကမ္ဘာသူ ကမ္ဘာသားအားလုံးတို့အဖို့ အဆုံးအမဖြစ်သည်ကားမှန်၏။ သို့ရာတွင် ကုရ်အာန်၏ တရားထိရောက်မှု၊ အကျိုးသက်ရောက်မှုသည် အလ္လာဟ်အရှင်မြတ်၏ အလိုတော်အပေါ်၌သာ တည်ရှိနေပေသည်။ အလိုတော်ရှိတော်မူသော သူများသည် ကုရ်အာန်၏ အနှစ်သာရကို ခံစားခွင့်ရရှိကြပေသည်။ အကြောင်းတစ်ခုခုကြောင့် (ဝါ) လက်ခံယူရန် အရည်အချင်း မရှိသည့်အတွက် အလိုတော်မရှိသော အချို့သူများမှာမူကား ကုရ်အာန်ကျမ်းမြတ်၏ အနှစ်သာရကို ခံစားခွင့်မရရှိကြပေ။

# အမြင့်မြတ်ဆုံး ကဏ္ဍ

سُورَةُ الأَعْلَىٰ

ဤကဏ္ဍသည် "အအ်လာ" အမြင့်မြတ်ဆုံးအရှင်၏ အကြောင်းပါဝင်သော ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၁၉)ပါး ပါရှိ၏။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

سَبِّحِ اسْمَ رَبِّكَ الْأَعْلَى ①

၁။ (အို-နဗီတမန်တော်) အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော၊ အမြင့်မြတ်ဆုံးဖြစ်တော်မူသော၊ အရှင်မြတ်၏နာမံတော် (သန့်ရှင်းစင်ကြယ်ကြောင်း)ကို ချီးမွမ်းမြွက်ဆိုပါလေ။ [၁]

الَّذِي خَلَقَ فَسَوَّىٰ ②

၂။ အကြင်အရှင်မြတ်သည် (အရာခပ်သိမ်းတို့ကို) ဖန်ဆင်းတော်မူပြီးနောက် နေထားတကျဖြစ်အောင်လည်း ပြုလုပ်တော်မူခဲ့၏။ [၂]

---

(၁) တမန်တော်မြတ်၏ 'ဟဒီဆ်' ဩဝါဒတော်များတွင် လာရှိသည်မှာ ကုရ်အာန် ကျမ်းလာအာယတ်တော် ( فَسَبِّحْ بِاسْمِ رَبِّكَ الْعَظِيمِ ) ကျရောက်လာသောအခါ တမန်တော်မြတ်က "အသင်တို့သည် ဤအာယတ်တော်ကို (ဆွလာတ်ဝတ်ပြုရာတွင်) မိမိတို့၏ ရုကူအ် ဦးညွှတ်ရာ၌ မြွက်ဆိုကြကုန်"ဟု မိန့်ကြားတော်မူခဲ့လေသည်။ ထို့အတူ ကုရ်အာန်ကျမ်းလာ အာယတ်တော် ( سَبِّحِ اسْمَ رَبِّكَ الْأَعْلَى ) ကျရောက်သောအခါ၊ တမန်တော်မြတ်က "အသင်တို့သည် ဤအာယတ်တော်ကို မိမိတို့၏ 'စုဂျူဒ်' ဦးချရာတွင် မြွက်ဆိုကြကုန်"ဟု မိန့်ကြားတော်မူခဲ့လေသည်။ (ထိုသို့ သတ်မှတ်ချက်မရှိမီအလျှင်) ဆွဟာဗဟ် သာဝကကြီးများသည် ဦးညွှတ်ရာတွင် 'အလ္လာဟ်ဟုမ္မလက ရကအ်ဟု' ဟူ၍ လည်းကောင်း၊ ဦးချရာတွင် 'အလ္လာဟ်ဟုမ္မ လက ဆဂျဒ်ဟု' ဟူ၍ လည်းကောင်း၊ မြွက်ဆိုလေ့ ရှိခဲ့ကြပေသည်။

(၂) ဤအာယတ်တော်ကို 'မုဖတ်စ်စိရ်' များသည် အနက်အမျိုးမျိုး ဖွင့်ကြသည်။ အလ္လာဟ်အရှင်မြတ်သည် အရာခပ်သိမ်းတို့ကို စတင်ဖန်ဆင်းတော်မူသည်။ သို့ဖန်ဆင်းတော်မူပြီးသည့်နောက် အသီးသီးတို့ကို လျော်ကန်သင့်မြတ် နေထား စေ့စပ်ကျနစွာ ပြုလုပ်တော်မူသည်။ ထိုအရှင်မြတ်သည် သက်ရှိသတ္တဝါများအဖို့ ၎င်းတို့နှင့် လျော်ကန်သင့်မြတ်သော အရာများကို ချင့်ချိန် စီမံသတ်မှတ်ထားတော်မူသည်။ သို့ချင့်ချိန် စီမံသတ်မှတ်ထားတော်မူပြီးသည့်နောက် ယင်းသတ္တဝါများအား ထိုသည့်အရာများကို လမ်းညွှန်ပြတော်မူသည်။ (ဝါ) ၎င်းတို့၌ ထိုသည့်အရာများကို လိုလားသည့် အာသာဆန္ဒများကို ဖြစ်ပေါ်စေတော်မူသည်။ ထာနဝီ။

وَالَّذِي قَدَّرَ فَهَدَىٰ ﴿٣﴾

၃။ ၎င်းပြင် ထိုအရှင်မြတ်သည် တင်ရင်စီမံတော်မူပြီးနောက် လမ်းညွှန်တော်မူခဲ့၏။

وَالَّذِي أَخْرَجَ الْمَرْعَىٰ ﴿٤﴾

၄။ ထိုမှတပါး ထိုအရှင်မြတ်သည် မြက်သစ်ပင် (ကောက်ပဲသီးနှံ)ကို ပေါက်ရောက်စေတော်မူခဲ့၏။

فَجَعَلَهُ غُثَاءً أَحْوَىٰ ﴿٥﴾

၅။ ထို့နောက် ထိုအရှင်မြတ်သည် ယင်းမြက်သစ်ပင်များကို (ဆွေးမြေ့)မည်းနက်သော ရိုးဖြတ်၊ ကောက်ရိုး၊ ဖြစ်စေတော်မူခဲ့၏။

سَنُقْرِئُكَ فَلَا تَنسَىٰ ﴿٦﴾

၆။ (အို-နဗီတမန်တော်၊)မုချဧကန် ငါအရှင်မြတ်သည် အသင့်အား ရွတ်ဖတ်စေတော်မူမည်၊ သို့ဖြစ်လျှင် အသင်သည် မေ့လျော့မည်မဟုတ်တော့ပြီ။ [၁]

---

① <u>ကုရ်အာန်ကျမ်းမြတ်ကို ထိန်းသိမ်းထားတော်မူရန် ကတိတော်</u>

အထက်ပါ အာယတ်တော်များတွင် လာရှိသည့်အတိုင်း အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော် ကျေးဇူးတော်များကား အတိုင်းအဆမရှိ ကြီးမားများပြားလှပေရာ၊ ထိုအရှင်မြတ်အားသာလျှင် ဂုဏ်တော်မွမ်းကြရပေမည်။ ထိုအရှင်မြတ်၏ အမိန့်ပညတ်တော်များကိုသာ နာခံကြရပေမည်။

အလ္လာဟ်အရှင်မြတ်သည် မိမိအား မည်သို့မည်ပုံ နာခံကြရမည့် နည်းနာနိဿည်းများကို ညွှန်ပြတော်မူရန်အလို့ငှာ တမန်တော်မြတ်အပေါ်သို့ ကုရ်အာန်ကျမ်းမြတ်ကို ထုတ်ပြန်ပို့ချတော်မူသည်။ သို့ထုတ်ပြန်ပို့ချတော်မူပြီးသည့်နောက် တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ်က ကတိပြုထားတော်မူသည်မှာ ငါအရှင်မြတ်သည် အသင့်အား (ကုရ်အာန်ကျမ်းမြတ်ကို) ရွတ်ဖတ်စေတော်မူမည်၊ (ဝါ) ကျက်မှတ်စေတော်မူမည်၊ သို့ဖြစ်ရာ အသင်သည် (မည်သည့်အစိတ်အပိုင်းကိုမျှ) မေ့ပျောက်မည်မဟုတ်ပေ။

သို့ရာတွင် အလ္လာဟ်အရှင်မြတ်(မေ့ပျောက်စေတော်မူရန်) အလိုရှိတော်မူသောအရာကိုမူ (ထိုအရှင်မြတ်သည် တမန်တော်မြတ်၏ မှတ်သားဉာဏ်အတွင်းမှလည်းကောင်း၊ အခြားလူခပ်သိမ်းတို့၏ မှတ်သားဉာဏ်အတွင်းမှလည်းကောင်း၊ မေ့ပျောက်သွားစေတော်မူမည်ဖြစ်သည်။ သို့မှတ်သားဉာဏ်တွင် ကျက်မှတ်မိစေတော်မူခြင်း၊ မှတ်သားဉာဏ်အတွင်းမှ မေ့ပျောက်စေတော်မူခြင်းများသည်လည်း ဟိကမတ် အမြော်အမြင်၊ ဆင်ခြင်တုံတရားနှင့် စပ်မိ၊ ဟပ်မိသည်သာ ဖြစ်ပေသည်)။

အဘယ်ကြောင့်ဆိုသော် ထိုအရှင်မြတ်သည် ထင်ရှားပေါ်လွင်နေသော အရာခပ်သိမ်းကုန်တို့ကိုလည်းကောင်း၊ ဖုံးကွယ်လျက်ရှိသော အရာခပ်သိမ်းကုန်တို့ကိုလည်းကောင်း အကြွင်းမဲ့သိတော်မူသည်။

သို့ဖြစ်ရာ ထိုအရှင်မြတ်သည် အမြဲတစေ ထိန်းသိမ်းထားအပ်သည်များကို ထိန်းသိမ်းတော်မူ၍ မေ့ပျောက်စေသင့်သည်များကို မေ့ပျောက်စေတော်မူပေသည်။ ယင်းသို့ မေ့ပျောက် စေတော်မူခြင်းသည် "နစ်ခ်" တစ်မျိုးပင်။ "နတ်ဖ်ခ်" အကြောင်း ကုရ်အာန်ကျမ်းမြတ် (၂:၁၀၆)တွင်ပါရှိခဲ့ပေပြီ။ ထာနဝီ။

إِلَّا مَا شَاءَ اللَّهُ ۚ إِنَّهُ يَعْلَمُ الْجَهْرَ وَمَا يَخْفَىٰ ﴿٧﴾

၇။ အလ္လာဟ်အရှင်မြတ် အလိုရှိတော်မူသောအရာ မှတပါး အခြားကို၊ ဧကန်မလွဲ ထိုအရှင်မြတ်သည် ထင်ရှားသိသာသောအရာကိုလည်းကောင်း၊ ဖုံးကွယ်လျက်ရှိသောအရာကိုလည်းကောင်း၊ သိရှိတော်မူ၏။

وَنُيَسِّرُكَ لِلْيُسْرَىٰ ﴿٨﴾

၈။ ထိုမှတပါး ငါအရှင်မြတ်သည် အသင့်အား တဖြည်းဖြည်း လွယ်ကူမှုသို့ ပို့ပေးတော်မူပေမည်။ (ငါအရှင်မြတ်သည် အသင့်အား လွယ်ကူသော ရှရီအတ်ကို (လိုက်နာ ကျင့်သုံးရန်) လွယ်ကူစေတော်မူမည်)။ [၁]

فَذَكِّرْ إِن نَّفَعَتِ الذِّكْرَىٰ ﴿٩﴾

၉။ သို့ဖြစ်ပေရာ အကယ်၍ ဆုံးမခြင်းသည် အကျိုးဖြစ်စေလျှင် အသင်သည် ဆုံးမပါလေ။

سَيَذَّكَّرُ مَن يَخْشَىٰ ﴿١٠﴾

၁၀။ (အလ္လာဟ်အရှင်မြတ်အား) ကြောက်ရွံ့သော သူသည် အမှန်ပင် တရားရပေလိမ့်မည်။

وَيَتَجَنَّبُهَا الْأَشْقَى ﴿١١﴾

၁၁။ သို့ရာတွင် အလွန် အကြောင်းမလှသောသူ မှာမူကား ယင်းဆုံးမသြဝါဒမှ သွေဖည်၍ နေပေလိမ့်မည်။

---

(၁) **လွယ်ကူသော ရှရီအတ်။**

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အဖို့ ကုရ်အာန်ကျမ်းမြတ် ကျက်မှတ်မှုကို လွယ်ကူစေတော်မူသကဲ့သို့ တမန်တော်မြတ်အဖို့ လွယ်ကူသော ရှရီအတ်၏ အမိန့်ပညတ်အရပ်ရပ်ကို လိုက်နာကျင့်သုံးမှုကိုလည်း လွယ်ကူစေတော်မူမည်ဖြစ်သည်။ (ဝါ) နားလည်သဘောပေါက်ရန်လည်း လွယ်ကူပေမည်။ လိုက်နာကျင့်သုံးရန်လည်း လွယ်ကူပေမည်။ "တဗ်လီဃ်" တရားဟောကြားရန်လည်း လွယ်ကူပေမည်။ တွေ့ကြုံရမည့်အနှောင့်အယှက် အခက်အခဲများကိုလည်း လွယ်ကူစွာ ကျော်လွှန်သွားနိုင်ပေမည်။

"လွယ်ကူသော ရှရီအတ်"ဟူ၍ ဝိသေသပြုထားတော်မူခြင်းမှာ ရှရီအတ်ကို ချီးမွမ်းဂုဏ်သိဒ္ဓိတင်တော်မူခြင်းလည်း ဖြစ်နိုင်ပေသည်။ သို့မဟုတ် ရှရီအတ်သည် လိုက်နာကျင့်မှုသူတို့၌ လွယ်ကူမှု ချမ်းသာမှုများ ဖြစ်ပေါ်စေသည့် အကြောင်းတရားဖြစ်သည့်အတွက်ကြောင့် ယင်းသို့ ဝိသေသပြုထားတော်မူခြင်းလည်း ဖြစ်နိုင်ပေသည်။

ထာနဝီ။

ٱلَّذِى يَصْلَى ٱلنَّارَ ٱلْكُبْرَىٰ ﴿١٢﴾

၁၂။ အကြင် အကြောင်းမလှသောသူသည် အလွန်ကြီးကျယ်သော မီးထဲသို့ ဝင်ရောက်ရပေမည်။ [၁]

ثُمَّ لَا يَمُوتُ فِيهَا وَلَا يَحْيَىٰ ﴿١٣﴾

၁၃။ ထို့နောက် ထိုသူသည် ယင်းမီးထဲ၌ သေဆုံးသွားမည်လည်းမဟုတ်ပေ၊ အသက်ရှင်၍နေမည်လည်း မဟုတ်ပေတကား။

قَدْ أَفْلَحَ مَن تَزَكَّىٰ ﴿١٤﴾

၁၄။ ဧကန်မလွဲ အကြင်သူသည် အောင်မြင်ခဲ့လေပြီ၊ ထိုသူသည် "အီမာန်" သက်ဝင်ယုံကြည်ခြင်းအားဖြင့် စင်ကြယ်သန့်ရှင်းခဲ့၏။

وَذَكَرَ ٱسْمَ رَبِّهِۦ فَصَلَّىٰ ﴿١٥﴾

၁၅။ ၎င်းပြင် ထိုသူသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်၏နာမံတော်ကို အောက်မေ့တ,သ ပြီးနောက် "ဆွလာတ်" ဝတ်ပြုခဲ့၏။ [၂]

---

(၁) **အမြဲတစေ သွန်သင်ဆုံးမပါလေ။**

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အဖို့ ရှရီအတ်ကို လွယ်ကူစေတော်မူမည့်အကြောင်း ကတိပြုထားတော်မူပြီးဖြစ်ရာ၊ တမန်တော်မြတ်သည် မိမိကိုယ်တော်တိုင် အလ္လာဟ်အရှင်မြတ်အား ဂုဏ်တော်မွမ်းသကဲ့သို့၊ ဝတ်ပြုသကဲ့သို့၊ နာခံသကဲ့သို့ သွန်သင်ဆုံးမမှုသည် အကျိုးပြုပါသော် သူတပါးတို့အားလည်း အမြဲတစေ သွန်သင်ဆုံးမရမည့်အကြောင်း မိန့်ကြားထားတော်မူသည်။

သွန်သင်ဆုံးမမှုသည် လက်တွေ့အားဖြင့် အကျိုးပြုသည်သာဖြစ်ပေသည်။ ကုရ်အာန်ကျမ်းမြတ် (၅၁း၅၅) တွင်လည်း "မုချဧကန် သွန်သင်ဆုံးမမှုသည် မုအ်မင်န်တို့အား အကျိုးပြုသည်"ဟု လာရှိပေသည်။ အချုပ်မှာ သွန်သင်ဆုံးမမှုသည် အကျိုးရှိသော အရာသာဖြစ်ပေသည်။ ထို့အတွက် တမန်တော်မြတ်အား "အသင်သည် အမြဲတစေ သွန်သင်ဆုံးမပါလေ"ဟု မိန့်ကြားထားတော်မူခြင်း ဖြစ်သည်။

ဤတွင် စဉ်းစားအပ်သည့်အချက်တစ်ရပ်မှာ သွန်သင်ဆုံးမမှုသည် အကျိုးရှိသောအရာဖြစ်သည်ကား မှန်၏။ သို့ရာတွင် လူခပ်သိမ်းကုန်တို့အား အကျိုးပြုသည်၊ လူခပ်သိမ်းကုန်တို့သည် သွန်သင်ဆုံးမမှုကိုကြားနာပြီး အမိန့်ပညတ်အရပ်ရပ်တို့ကို လိုက်နာလာကြလိမ့်မည်ဟူ၍ကား မထင်မှတ်ရာ။ အမှန်မှာ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားအပ်သောသူများသာလျှင် သွန်သင်ဆုံးမမှုကို နာခံကြပေမည်။ အကြောင်းမလှသော သူများမူကား သွန်သင်ဆုံးမမှုများကို ဝေးစွာရှောင်ကြဉ်ကြပေမည်။ နောက်ဆုံးတွင် ငရဲသို့လား၍ မသေမရှင် မရှုမလှ ပြစ်ဒဏ် ခံစားကြရပေမည်။ ထာနဝီ။

ရှေ့တွင် အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားသူများ၏ဂုဏ်ရည်နှင့် ကာဖိရ်များ၏ လွဲမှားမှုကို မိန့်ဆိုထားတော်မူသည်။

(၂) အလ္လာဟ်အရှင်မြတ်အား အီမာန်သက်ဝင်ယုံကြည်သော ပုဂ္ဂိုလ်များသည် ကုရ်အာန်ကျမ်းလာ ➤➤

بَلْ تُؤْثِرُوْنَ الْحَيٰوةَ الدُّنْيَا ⑯

၁၆။ ထိုသို့ အလျှင်းမဟုတ် စင်စစ်မှာကား အသင်တို့သည် လောကီဘဝကိုပင် ဦးစားပေးနေကြကုန်၏။

وَالْاٰخِرَةُ خَيْرٌ وَّ اَبْقٰى ⑰

၁၇။ အမှန်သော်ကား တမလွန်ဘဝသည် ပိုမို၍ ကောင်းမြတ်သည့်ပြင် ပိုမို၍ပင် တည်မြဲပေသည်။

اِنَّ هٰذَا لَفِى الصُّحُفِ الْاُوْلٰى ⑱

၁၈။ ဧကန်စင်စစ် ဤသည် ရှေးဟောင်းကျမ်းများ၌လည်း လာရှိခဲ့ပေပြီ။

صُحُفِ اِبْرٰهِيْمَ وَمُوْسٰى ⑲

၁၉။ (နဗီတမန်တော်)အိဗ်ရာဟီမ်၏(ထံသို့ ကျရောက်ခဲ့သော)ကျမ်းများ၌လည်းကောင်း၊ (နဗီတမန်တော်)မူစာ၏(ထံသို့ ကျရောက်ခဲ့သော)ကျမ်းများ၌လည်းကောင်း။ [၁]

---

➤➤ တရားတော်များကို ကြားနာ၍ မှားယွင်းသော ယုံကြည်ချက်များမှလည်းကောင်း၊ ညစ်ညမ်းသော အကျင့်အမူများမှလည်းကောင်း၊ ရုပ်နာမ် အတွင်းအပြင် မှားယွင်းမှု၊ ညစ်ညမ်းမှုအစုစုတို့မှ စင်ကြယ်သန့်ရှင်းသွားကြလေသည်။ မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်၏ နာမ်တော်ကို တသကာဆွလာတ် ဝတ်ပြုကြလေသည်။ ထိုသို့သော ပုဂ္ဂိုလ်များသည် အောင်မြင်ကြလေပြီ။

(၁) ကုရ်အာန်ကျမ်းလာ ဤအာယတ်တော် (၈၇း၁၆) တွင် "ထိုသို့မဟုတ်၊ အသင်တို့သည် ဤလောကီဘဝကိုပင် ပိုမိုနှစ်သက်ကြသည်"ဟူ၍ လာရှိ၏။ ဤအာယတ်တော်တွင် "အသင်တို့" ဟူသော နာမ်စားသည် ကာဖိရ်များကို ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်သည်။ မွတ်စ်လင်မ်များကို ရည်ညွှန်းသည်ဟုလည်း ဆိုနိုင်သည်။ အဆိုနှစ်ရပ်စလုံး လာရှိသည်။

ဤအာယတ်တော်နှင့်စပ်လျဉ်း၍ မောင်လာနာအရှ်ရဖ်အလီ ထာနဝီသခင်က ပထမအဆိုကို လက်ခံပြီး အောက်ပါအတိုင်း ဖွင့်ဆိုထားသည်။

"ကာဖိရ်တို့မူကား ကုရ်အာန်ကျမ်းလာ တရားတော်များကို ကြားနာကြရသော်လည်း မနာခံကြပေ။ နောင်တမလွန်ဘဝအတွက် ပြင်ဆင်မှုတစ်စုံတစ်ရာမျှလည်း မပြုလုပ်ကြပေ။ ၎င်းတို့သည် ဤလောကီဘဝကိုပင် အဓိကထားသော လောကီရေးရာများတွင်သာ နစ်မွန်း၍ နေကြပေသည်။ အမှန်မှာ ဤလောကီဘဝသည် အရိပ်ပမာ သခ်ါရမျှသာဖြစ်သည်။ နောင်တမလွန်ဘဝမှာမူ ဤပစ္စက္ခထက် အတိုင်းမသိ ပိုမိုကောင်းမြတ်လှပေသည်။ အမြဲတစေ တည်ရှိပေမည်။

ဤသည် ကုရ်အာန်ကျမ်းလာ တရားတော်သာလျှင်မဟုတ်၊ တမန်တော် အိဗ်ရာဟီမ်၊ တမန်တော်မူစာတို့၏ အတိတ်ခေတ် ကျမ်းဂန်များတွင်လည်း လာရှိခဲ့ပြီးဖြစ်သော တရားတော်ဖြစ်ပေသည်။ ဤသို့ ကျမ်းအစောင်စောင်တွင် လာရှိသော တရားတော်ကိုပင် မလေးစား မခန့်ညားသော ကာဖိရ်များကား ပျက်စီးခြင်းကြီးမက ပျက်စီးကြရမည်သာတည်း။ ကြည့်-ထာနဝီ။

## ဖုံးလွှမ်းမည့်အရာများကဏ္ဍ

سُوْرَةُ الْغَاشِيَةِ

ဤကဏ္ဍသည် "ဃာရှိယတ်" ဖုံးလွှမ်းမည့်အရာ၏အကြောင်းသတင်း ပါဝင်သောကဏ္ဍမည်၏။ မက္ကာမြို့တော်၌ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၂၆)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

هَلْ اَتٰىكَ حَدِيْثُ الْغَاشِيَةِ ﴿١﴾

၁။ (အို-နဗီတမန်တော် ထိုကမ္ဘာအဝန်းကို) ထိုဖုံးလွှမ်းမည့် အဖြစ်အပျက်၏အကြောင်း သတင်းသည် အသင့်ထံရောက် ရှိခဲ့ပြီမဟုတ်လော။ [၁]

وُجُوْهٌ يَّوْمَىِٕذٍ خَاشِعَةٌ ﴿٢﴾

၂။ ထိုနေ့တွင် များစွာသော(သူတို့၏) မျက်နှာများမှာ ညှိုးငယ်လျက် ရှိကြပေမည်။

عَامِلَةٌ نَّاصِبَةٌ ﴿٣﴾

၃။ ပင်ပန်းကြီးစွာ လုပ်ကိုင်(မှုကြောင့်) မောပန်းလျက် ရှိကြပေမည်။

تَصْلٰى نَارًا حَامِيَةً ﴿٤﴾

၄။ ၎င်းတို့သည် အလျှံပြောင်ပြောင်တောက်လောင်လျက်ရှိသော မီးထဲသို့ ဝင်ရောက်ကြရပေမည်။

تُسْقٰى مِنْ عَيْنٍ اٰنِيَةٍ ﴿٥﴾

၅။ ၎င်းတို့သည် ကျိုက်ကျိုက်ဆူလျက်ရှိသော စမ်းချောင်းတစ်ခုမှ (ရေကို) တိုက်ကျွေးခြင်း ခံကြရပေမည်။

لَيْسَ لَهُمْ طَعَامٌ اِلَّا مِنْ ضَرِيْعٍ ﴿٦﴾

၆။ ၎င်းတို့အဖို့ "ဿရီအ်" မည်သော ဆူးပင်မှတစ်ပါး အခြားအဟာရဟူ၍ ရှိလိမ့်မည်မဟုတ်ပေ။

---

(၁) ဃာရှိယတ်

"ဃာရှိယတ်" သည် "ဖုံးလွှမ်းသောအရာ" ဟူ၍ အနက်ရသည်။ "ကိယာမတ်" ကို ဆိုလိုသည်။ အဘယ်ကြောင့်ဆိုသော် ကိယာမတ်သည် အရာခပ်သိမ်းကုန်တို့ကို ဖုံးလွှမ်းသွားပေမည်။ ကမ္ဘာ့အဝန်းသည် ကိယာမတ်၏ ဒဏ်ကို ခံကြရပေမည်။ ကိယာမတ်၏ စက်ကွင်းမှ တစ်ဦးတစ်ယောက်မျှ လွတ်မြောက်မည်မဟုတ်ပေ။

لَّا يُسْمِنُ وَلَا يُغْنِىْ مِنْ جُوْعٍ ﴿٧﴾

၇။ ထိုဆူးပင်မှာ (၎င်းတို့အား)ဝဖြိုးစေမည်လည်း မဟုတ်ပေ။ ဆာလောင် မွတ်သိပ်ခြင်းမှ အဆာပြေ ရောင့်ရဲစေမည်လည်း မဟုတ်ပေတကား။ [၁]

وُجُوْهٌ يَّوْمَئِذٍ نَّاعِمَةٌ ﴿٨﴾

၈။ များစွာသော(သူတို့၏) မျက်နှာများမှာမူကား ထိုနေ့တွင် စိုပြည်ရွှင်လန်းလျက်ပင် ရှိကြပေမည်။

لِّسَعْيِهَا رَاضِيَةٌ ﴿٩﴾

၉။ (၎င်းတို့သည်) မိမိတို့၏ ကြိုးပမ်းဆောင်ရွက်မှုနှင့်စပ်လျဉ်း၍ နှစ်သက်ကျေနပ်လျက်ရှိကြပေမည်။

فِىْ جَنَّةٍ عَالِيَةٍ ﴿١٠﴾

၁၀။ မြင့်မြတ်လှစွာသော ဂျန္နတ်သုခဘုံ၌ ရှိကြပေမည်။

لَّا تَسْمَعُ فِيْهَا لَاغِيَةً ﴿١١﴾

၁၁။ ၎င်းတို့သည် ယင်းဂျန္နတ်သုခဘုံ၌ အချည်းနှီးအကျိုးမဲ့ဖြစ်သော စကားကိုကြားကြမည် မဟုတ်ပေ။

فِيْهَا عَيْنٌ جَارِيَةٌ ﴿١٢﴾

၁၂။ ယင်းဂျန္နတ်သုခဘုံ၌ စီးတွေလျက်ရှိသော စမ်းချောင်းတစ်ခုရှိ၏။

فِيْهَا سُرُرٌ مَّرْفُوْعَةٌ ﴿١٣﴾

၁၃။ ယင်းဂျန္နတ်သုခဘုံ၌ မြင့်စွင့်သော သလွန်များရှိကြပေသည်။

وَّاَكْوَابٌ مَّوْضُوْعَةٌ ﴿١٤﴾

၁၄။ ၎င်းပြင် သောက်ရေဖလားများသည်လည်း စီထားလျက် ရှိကြပေသည်။

---

(၁) **ကိယာမတ်နေ့တွင် ကာဖိရ်များ၏ဖြစ်အင်။**

ကိယာမတ်နေ့တွင် ကာဖိရ်များသည် မျက်နှာညှိုးငယ်လျက် ရှိကြပေမည်။ မဟ်ရှရ် ကွင်းပြင်ကြီးတွင် ပူပန်သောကဖြစ်ကာ သွားလာရခြင်း၊ ငရဲတွင် ပင်ပန်းကြီးစွာ သံကြိုး၊ လက်ထိပ်၊ ခြေကျင်း၊ လယ်ကွင်း စသည်များကို သယ်ပိုးရခြင်း၊ ငရဲတောင်များသို့ တက်ရခြင်းများကြောင့် မောပန်းလျက်ရှိကြပေမည်။ ထို့ပြင်တဝ အလျှံပြောင်ပြောင် တောက်လောင်လျက်ရှိသော ငရဲမီးသို့ လားကြရပေမည်။ ရေသောက်လိုကြသည့်အခါ ကျိုက်ကျိုက်ဆူလျက်ရှိသော စမ်းရေအတိုက်ခံကြရပေမည်။ ထမင်းစားလိုကြသည့်အခါ "ဿရီအ်" အမည်ရှိ အတိုင်းမသိ ပုပ်စော်နံသော၊ အတိုင်းမသိ ပူလောင်သော၊ အတိုင်းမသိ ခါးသောဆူးပင် အကျွေးခံကြရပေမည်။ ထိုသည့် ဆူးပင်ကို စားသုံးခြင်းဖြင့် တစ်စုံတစ်ရာ အားအင်ဖြစ်လာမည်လည်း မဟုတ်၊ အဆာပြေမည်လည်း မဟုတ်။ ဒုက္ခသည် ပို၍ပို၍ပင် များပြားကြီးမားလာပေမည်။ ဤကား ကာဖိရ်တို့၏ ဖြစ်အင်တည်း။

وَّنَمَارِقُ مَصْفُوْفَةٌ ﴿١٥﴾

၁၅။ ထို့ပြင် ကော်ဇောများသည်လည်း စနစ်တကျ ခင်းကျင်းထားလျက် ရှိကြပေသည်။

وَّزَرَابِيُّ مَبْثُوْثَةٌ ﴿١٦﴾

၁၆။ ထိုမှတပါး မွေ့ရာများသည်လည်း အနှံ့အပြား ခင်းထားလျက် ရှိကြပေမည်။ [၁]

اَفَلَا يَنْظُرُوْنَ اِلَى الْاِبِلِ كَيْفَ خُلِقَتْ ﴿١٧﴾

၁၇။ အသို့ပါနည်း ကုလားအုတ်များသည် အဘယ်ကဲ့သို့ ဖန်ဆင်းခြင်း ခံခဲ့ကြရသည်ကို ၎င်းတို့သည် ကြည့်ရှုလေ့လာ ဆင်ခြင်သုံးသပ်ခြင်း မပြုကြလေသလော။

وَاِلَى السَّمَاۤءِ كَيْفَ رُفِعَتْ ﴿١٨﴾

၁၈။ ထိုနည်းတူစွာ မိုးကောင်းကင်သည် အဘယ်ကဲ့သို့ မြင့်စွင့်စေခြင်းကို ခံခဲ့ရသည်ကိုလည်းကောင်း။

وَاِلَى الْجِبَالِ كَيْفَ نُصِبَتْ ﴿١٩﴾

၁၉။ ထို့အတူ တောင်များသည် အဘယ်ကဲ့သို့ စိုက်ထူခြင်းကို ခံခဲ့ကြရသည်ကိုလည်းကောင်း။

وَاِلَى الْاَرْضِ كَيْفَ سُطِحَتْ ﴿٢٠﴾

၂၀။ ထိုမှတပါး ပထဝီမြေသည် အဘယ်ကဲ့သို့ ခင်းကျင်းထားခြင်း ခံခဲ့ရသည်ကိုလည်းကောင်း၊ (ကြည့်ရှုလေ့လာ ဆင်ခြင်သုံးသပ်ခြင်းမပြုကြလေသလော၊)[၂]

---

(၁) **ကိယာမတ်တွင် မုအ်မင်န်တို့၏ဖြစ်အင်။**

ကိယာမတ်တွင် မုအ်မင်န် သူတော်စင်များသည် မျက်နှာရွှင်လန်း စိုပြည်လျက် ရှိကြပေမည်။ မိမိတို့ ကုသိုလ်ကောင်းမှုများ ဆည်းပူး နိုင်ခဲ့ကြသည့်အတွက် ကျေနပ်နှစ်သက် ဝမ်းသာလျက် ရှိကြပေမည်။ ၎င်းတို့သည် အတိုင်းမသိ မြင့်မြတ်လှသော ဂျန္နတ်ဥယျာဉ်မြတ်တွင် စံစားလျက်ရှိကြပေမည်။ ယင်းဂျန္နတ်တွင် ဟဒယနလုံး ရွှင်ပြုံးစေမည့် သာယာချိုအေးသော သံသာထူးများမှတပါး မချေမင် မသာယာသော စကားကို အလျင်းကြားကြရမည်မဟုတ်ပေ။ ကြည့်-ကုရ်အာန် (၁၉း၆၂။ ၅၂း၂၃။ ၅၆း၂၅-၂၆။ ၇၈း၃၅)။

ယင်းဂျန္နတ်တွင် အလျဉ်တွေတွေ စီးဆင်းလျက်ရှိသော စမ်းချောင်း(များ)လည်း ရှိပေမည်။ လဲလျောင်းရန် မြင့်သောသလွန်များလည်း ရှိပေမည်။ သောက်သုံးရန် ရေဖလားများလည်း ရှိပေမည်။ စနစ်တကျ ခင်းထားသော ဖုံများလည်း ရှိပေမည်။ အနှံ့အပြား ခင်းကျင်းထားသော အခင်းကဇ္ဇလာများ လည်းရှိပေမည်။

ဆိုလိုသည်ကား ဂျန္နတ်တွင် မုအ်မင်န် သူတော်စင်များသည် အတိုင်းမသိသော သုခချမ်းသာ အဖြာဖြာတို့ကို လိုလေသေးမရှိရရှိကာ ချမ်းသာခြင်းကြီးမက ချမ်းသာ၍ အောင်မြင်ခြင်းကြီးမက အောင်မြင်လျက် ရှိကြပေမည်။ (အလ္လာဟ်အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား ထိုသည့် ဂျန္နတ်သုခကို ချီးမြှင့်တော်မူသည် ဖြစ်ပါစေသတည်း)။

فَذَكِّرْ إِنَّمَآ أَنتَ مُذَكِّرٌ ﴿٢١﴾

၂၁။ သို့ဖြစ်ပေရာ အသင်သည် ဆုံးမလျက် ရှိပါလေ။ အသင်သည် ဆုံးမသူတစ်ဦးမျှသာဖြစ်ပေသည်။

لَّسْتَ عَلَيْهِم بِمُصَيْطِرٍ ﴿٢٢﴾

၂၂။ အသင်သည် ၎င်းတို့အပေါ်၌ စောင့်ကြပ်အုပ်ထိန်းသူ မဟုတ်ပေ။ [၁]

---

(၂) အလ္လာဟ်အရှင်မြတ်သည် အထက်၌ ပါရှိခဲ့သည့်အတိုင်း ကိယာမတ်နေ့တွင် ကာဖိရ်များအဖို့ ကြောက်ဖွယ်ရာ ပြစ်ဒဏ်များနှင့် မုအ်မင်န်များအဖို့ ဂျန္နတ်သုခဘုံများကို အသင့် စီစဉ်ထားတော်မူပြီး ဖြစ်သည်။ သို့ပါလျက် ကာဖိရ်များသည် ကိယာမတ်ကို မယုံကြည်ကြပေ။ သို့မယုံကြည်ခြင်းမှာ မယုံကြည်သူတို့၏ အပြစ်သာ ဖြစ်ပေသည်။ မိမိတို့၏ ပတ်ဝန်းကျင်ကို မစဉ်းစား မဆင်ခြင်၍သာဖြစ်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် ပုံပန်းသဏ္ဍာန်၊ အနေအထား၊ တမူထူးခြား ဆန်းပြားလှသည့် ကုလားအုတ်များကို အံ့ဖွယ်သရဲ မည်သို့မည်ပုံ ဖန်ဆင်းထားတော်မူသည်၊ ထိုအရှင်မြတ်သည် အတိုင်းမသိ မြင့်စွင့်လှသည့် မိုးကောင်းကင်များကို မည်သို့မည်ပုံ ဖန်ဆင်းထားတော်မူသည်၊ အတိုင်းမသိ ကြီးမားလှသည့် တောင်ကြီးများကို မည်သို့မည်ပုံ စိုက်ထူထားတော်မူသည်၊ အတိုင်းမသိ ကျယ်ပြန့်လှသည့် ပထဝီမြေကြီးကို မည်သို့မည်ပုံ ခင်းကျင်းထားတော်မူသည်များကို ကိယာမတ်ကို မယုံကြည်သော ယင်းကာဖိရ်များသည် စဉ်းစားဆင်ခြင် မြော်မြင်၍ မကြည့်ကြလေသလော။

နေ့စဉ်နှင့်အမျှ တွေ့မြင်နေကြရသော ဤသည့်အရာများကိုပင် စဉ်းစားဆင်ခြင် မြော်မြင်ကြည့်ရှုပါက အလ္လာဟ်အရှင်မြတ်၏ တန်ခိုးတော်ကို သိမြင်လာကြပေမည်။ သေပြီးနောက်တဖန် ရှင်ပြန်ထရမည့်အရေးကို ယုံကြည်လာကြပေမည်။ ကိယာမတ်ကို လက်ခံလာကြပေမည်။

ဤအာယတ်တော်တွင် ဖော်ပြပါ လေးခုသောအရာကို အထူးတလည် ထုတ်ဖော်မိန့်ကြားတော်မူခြင်းမှာ ကုရ်အာန်ကျမ်းမြတ်ကို ဦးစွာပထမ ကြားနာကြရကုန်သော အရဗ်လူမျိုးတို့သည် များသောအားဖြင့် ကုလားအုတ်များကို စီးနင်း၍ "ဆဟာရ" သဲကန္တရများ၊ တောတောင်များတွင် သွားလာလေ့ရှိခဲ့ကြပေသည်။ သို့သွားလာရာတွင် ၎င်းတို့သည် မိမိတို့အနီးတွင် ကုလားအုတ်များ၊ အထက်တွင် မိုးကောင်းကင်များ၊ အောက်တွင်မြေကြီးများ၊ ပတ်ဝန်းကျင်တွင် တောင်ကြီးများကို အမြဲတစေတွေ့မြင်နေခဲ့ကြရပေသည်။ ထို့အတွက် ၎င်းတို့အား ၎င်းတို့ အမြဲတစေ တွေ့မြင်နေကြရသော အရာများကိုပင် စဉ်းစားဆင်ခြင် မြော်မြင်ရန် မိန့်ကြားထားတော်မူခြင်း ဖြစ်ပေသည်။

(၁) ထင်ရှားသော သက်သေသာဓကေ အထောက်အထားများ ရှိပါလျက်နှင့် မစဉ်းစားမဆင်ခြင်ကြပါလျှင်၊ အမှန်တရားကို သွေဖည်နေကြပါလျှင် တမန်တော်မြတ်သည် ထိုသို့သောသူများနှင့် ပတ်သက်၍ အထူးစဉ်းစားနေတော်မူရန်မလိုပေ၊ ပူပန်သောက ဖြစ်နေတော်မူရန် မလိုပေ၊ စိတ်ဒုက္ခဖြစ်နေတော်မူရန် မလိုပေ။ မိမိ၌ တာဝန်ရှိသည်နှင့်အမျှ သွန်သင်ဆုံးမ နားချတော်မူရန်သာ ရှိပေသည်။ တမန်တော်မြတ်သည် သွန်သင်ဆုံးမ ဩဝါဒပေးရန် စေလွှတ်တော်မူခြင်းခံရသော တမန်တော်တစ်ပါးသာ ဖြစ်တော်မူသည်။ စောင့်ကြပ်ထိန်းသိမ်းသော တာဝန်ခံ အအုပ်အထိန်း အစောင့်အကြပ် မဟုတ်ပေရာ၊ တရားမရ ရအောင်၊ မနာခံ နာခံအောင်၊ မလိုက်နာ လိုက်နာအောင် အတင်းအဓမ္မ ပြုပြင်ပြောင်းလဲရန် မလိုပေ။ ကြည့်-ကုရ်အာန် (၃း၁၉။ ၅း၉၂။ ၅း၉၉။ ၁၃း၄၀။ ၁၆း၃၅။ ၁၆း၈၂။ ၂၄း၅၄။ ၂၉း၁၈။ ၃၆း၁၇။ ၄၂း၄၈။ ၅၀း၄၅။ ၆၄း၁၂)။

إِلَّا مَن تَوَلَّىٰ وَكَفَرَ ﴿٢٣﴾

၂၃။ သို့ရာတွင် မည်သူမဆို မျက်နှာလွှဲခဲ့လျှင်လည်းကောင်း၊ သွေဖည်ငြင်းပယ်ခဲ့လျှင်လည်းကောင်း၊

فَيُعَذِّبُهُ اللَّهُ الْعَذَابَ الْأَكْبَرَ ﴿٢٤﴾

၂၄။ အလ္လာဟ်အရှင်မြတ်သည် ထိုသူအား ကြီးလေးလှစွာသောပြစ်ဒဏ်ကို ပေးတော်မူမည်သာ ဖြစ်ပေသည်။

إِنَّ إِلَيْنَا إِيَابَهُمْ ﴿٢٥﴾

၂၅။ စကန်မလွဲ ၎င်းတို့သည် ငါအရှင်မြတ် အထံတော်သို့ပင် ပြန်လည်ရောက်ရှိကြရမည် ဖြစ်ပေသည်။

ثُمَّ إِنَّ عَلَيْنَا حِسَابَهُم ﴿٢٦﴾

၂၆။ ထို့နောက် ၎င်းတို့အား စစ်ဆေးမေးမြန်းခြင်းသည် ငါအရှင်မြတ်၏တာဝန်ပင်ဖြစ်ပေသတည်း။ [၁]

---

(၁) သွန်သင်ဆုံးမ ဩဝါဒပေးပါလျက်၊ သွေဖည်ကျောခိုင်းသော သူများကိုမူ အလ္လာဟ်အရှင်မြတ်သည် ကြီးလေးသောပြစ်ဒဏ် ခတ်တော်မူမည်သာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ထိုသူများသည် တစ်ရက် ထိုအရှင်မြတ်၏ ရှေ့တော်မှောက်သို့ ရောက်ကြရမည်သာ ဖြစ်သည်။ ထိုအရှင်မြတ်သည် အသီးသီးတို့အား အတိအကျ စစ်ဆေးမေးမြန်း၍ ကျိုးပြစ်ပေးတော်မူမည်သာ ဖြစ်ပေသတည်း။

# မိုးသောက်ချိန်ကဏ္ဍ




ဤကဏ္ဍသည် "ဖဂျ်ရ်" မိုးသောက်ချိန် ကဏ္ဍမည်၏။ မက္ကာမြို့တော်တွင် ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၃၀)ပါး ပါရှိ၏။

بِسۡمِ اللّٰهِ الرَّحۡمٰنِ الرَّحِيۡمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَالۡفَجۡرِ ۝١

၁။ (ငါအရှင်မြတ်သည်) နံနက်မိုးသောက်ချိန်ကို သက်သေထူတော်မူ၏။

وَلَيَالٍ عَشۡرٍ ۝٢

၂။ ၎င်းပြင် (ငါအရှင်မြတ်သည်) ဆယ်ခုသော ညဉ့်ကို သက်သေထူတော်မူ၏။

وَّالشَّفۡعِ وَالۡوَتۡرِ ۝٣

၃။ ထို့ပြင် (ငါအရှင်မြတ်သည်) စုံ(ဖြစ်သော အရာ)ကိုလည်းကောင်း၊ မ(ဖြစ်သောအရာ)ကိုလည်းကောင်း၊ သက်သေထူတော်မူ၏။

وَالَّيۡلِ اِذَا يَسۡرِ ۝٤

၄။ ထိုမှတပါး (ငါအရှင်မြတ်သည်) ညဉ့်ကို သက်သေထူတော်မူ၏။ အကြင်အခါဝယ် ထိုညဉ့်သည် သွားလေ၏။ [၁]

---

(၁) ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် ထူးကဲသောအချိန် ငါးခုကို သက်သေထူ၍ စကားပလ္လင်အဖြစ် မိန့်ကြားထားတော်မူသည်။

**(၁) မိုးသောက်ချိန်**

မောင်လာနာရှာဟ်အဗ်ဒုလ်ကာဒရ်၏ ဖွင့်ဆိုချက်အရ "မိုးသောက်ချိန်"ဟူသည် ဇိလ်ဟိဂျ်ဂျဟ်လ (၁၀) ရက်နေ့၏ မိုးသောက်ချိန်ကို ဆိုလိုသည်။ ထိုနေ့ နံနက်တွင် အီဒုလ်အဿွှဟာခေါ် အစ္စလာမ်သာသနာ့ ပွဲတော်ကြီး ရှိပေသည်။

**(၂) ၁၀- ညဉ့်**

ဆယ်ညဉ့်ဟူသည် ဇိလ်ဟိဂျ်ဂျဟ်လ၏ ပထမဆယ်ရက်၏ ညဉ့် (၁၀) ညဉ့်ကို ဆိုလိုသည်။

**(၃-၄) စုံနှင့်မ**

စုံနှင့်မဟူသည် ရမဿွာန်လမြတ်၏နောက်ဆုံး(၁၀)ညဉ့်ရှိ စုံ၊မဖြစ်သော ညဉ့်များကို ဆိုလိုသည်၊➢➢

၅။ ဤသည်တို့၌ ဉာဏ်အမြော်အမြင် ပြည့်စုံသောသူ၏အဖို့ ခိုင်မာလုံလောက်သော ကျိန်ဆိုချက် ရှိသည်မဟုတ်လော။ [၁]

هَلْ فِي ذَٰلِكَ قَسَمٌ لِّذِي حِجْرٍ ﴿٥﴾

**➤➤ (၅) ညဥ့်သွားသောအခါ**

ညဥ့်သွားသောအခါဟူသည် မိအ်ရာဂ်ညဥ့်တွင် တမန်တော်မြတ် ကြွမြန်းသွားတော်မူသည့်အချိန်ကို ဆိုလိုသည်။

ဖော်ပြပါအချိန်များသည် မင်္ဂလာရှိသော၊ ထူးကဲမြင့်မြတ်သော အချိန်များသာဖြစ်သည်။ ထို့အတွက် အလ္လာဟ်အရှင်မြတ်သည် ထိုအချိန်များကို သက်သေထူ၍ မိန့်ဆိုထားတော်မူခြင်းဖြစ်ပေသည်။

**မှတ်ချက်။**

ယေဘုယျအားဖြင့် မုဖတ်စ်စိရ်များက **"ဝလ်လိုင်လေ အဇာယဆ်ရေ"** ဟူသော အာယတ်တော်ကို ညဥ့်ကုန်သွားခြင်း၊ သို့မဟုတ် ညဥ့်၏အမှောင် ပျံ့နှံ့သွားခြင်းဟူ၍ အနက်ဖွင့်ကြပေသည်။ ဆိုလိုသည်မှာ အလ္လာဟ်အရှင်မြတ်သည် စုံနှင့်မကို ဆန့်ကျင်ဘက် ယှဉ်တွဲသက်သေ ထူထားတော်မူသကဲ့သို့ မိုးသောက်ချိန်နှင့် ညဥ့်၏သွားခြင်း သို့မဟုတ် လာခြင်းကို ဆန့်ကျင်ဘက် ယှဉ်တွဲ သက်သေထူထားတော်မူခြင်း ဖြစ်ပေသည်။

ထို့အတူ ဆယ်ညဥ့်ဟူသည် သီးသန့် ဆယ်ညဥ့်ကို ဆိုလိုသည်မဟုတ်ဘဲ ဓမ္မဓိဋ္ဌာန်အားဖြင့် မည်သည့် ဆယ်ညဥ့်ကိုမဆို ဆိုလိုသည်လည်း ဖြစ်နိုင်ပေသည်။ ယင်းသို့ဖြစ်လျှင် ဆယ်ညဥ့်များတွင်လည်း ဆန့်ကျင်ဘက်ကို တွေ့ရှိရပေသည်။ ဥပမာ-လ၏ပထမ ဆယ်ညဥ့်သည် အစတွင် လင်းသည်၊ ထို့နောက် မှောင်သည်။ လ၏နောက်ဆုံး ဆယ်ညဥ့်သည် အစတွင် မှောင်သည်၊ ထို့နောက် လင်းသည်။ လ၏အလယ် ဆယ်ညဥ့်သည် လ၏ ပထမဆယ်ညဥ့်၊ နောက်ဆုံး ဆယ်ညဥ့်နှင့် မတူပေ။ ဤသို့အားဖြင့် လ၏ဆယ်ညဥ့် များတွင်လည်း ဆန့်ကျင်ဘက်ဖြစ်မှုကို တွေ့ရှိရပေသည်။

ဆိုလိုသည်ကား ဤသည့်ဆန့်ကျင်မှုများကို စကားပလ္လင်အဖြစ် ညွှန်ပြကာ လူသားတို့သည် မိမိတို့၌ ဒုက္ခသော်လည်းကောင်း၊ သုခသော်လည်းကောင်း၊ ချောင်လည်မှုသော်လည်းကောင်း၊ ကျပ်တည်းမှုသော် လည်းကောင်း အခြေအနေတစ်ခုခု ဆိုက်ရောက်လာလျှင် ထိုသည့် အခြေအနေသည် အမြဲထာဝစဉ်တည်၍နေမည်၊ ထိုသည့် အခြေအနေနှင့်ဆန့်ကျင်ဘက် အခြေအနေပေါ်လာတော့မည် မဟုတ်ဟူ၍ကား ထင်မှတ်မနေအပ်ကြောင်း သတိပေးထားတော်မူခြင်းပင် ဖြစ်ပေသည်။

လူသားတို့ သိထားအပ်သည်မှာ အလ္လာဟ်အရှင်မြတ်သည် ဆန့်ကျင်ဘက်များကို ဖန်ဆင်းထားတော် မူသော အရှင်ဖြစ်တော်မူသည်။ ထိုအရှင်မြတ်သည် စကြာဝဠာကြီးတွင် (နေ့နှင့်ညဥ့်၊ အလင်းနှင့်အမှောင်၊ အအေးနှင့်အပူစသည်ဖြင့်) ဆန့်ကျင်ဘက်များကို ဖန်ဆင်းထားတော်မူသကဲ့သို့ လူသားတို့၌လည်း ဘဝအခြေအနေ များကို မိမိ၏အလုံးစုံကို အကြွင်းမဲ့သိတော်မူသော ဉာဏ်တော်ဖြင့် အမျိုးမျိုး ပြောင်းလဲပေးတော်မူသည်။ ရှေ့၌ ဤကဏ္ဍတွင် ပါရှိသော အကြောင်းများမှာလည်း ဤသည့်သဘောအရပင်ဖြစ်ပေသည်။

ဤအာယတ်တော်လာ ပုဒ်များကို ဖွင့်ဆိုရာတွင် အဆိုအမျိုးမျိုး တွေ့ရှိရပေသည်။ အကျယ်သိလိုပါက အိဗ်နူဂျရီရ်၊ အိဗ်နူကဆီရ်၊ ခါဇင်ကျမ်းများတွင် ရှုပါကုန်။

(၁) အထက်တွင် အလ္လာဟ်အရှင်မြတ် သက်သေထူ မိန့်ကြားတော်မူသော ကျိန်ဆိုချက်များသည် သာမန်မဟုတ်၊ အလွန်အရေး ပါလှသည်။ လေးနက်လှသည်။ ယင်းသည့် ကျိန်ဆိုချက်များကို စကားပလ္လင်အဖြစ် ➤➤

أَلَمْ تَرَ كَيْفَ فَعَلَ رَبُّكَ بِعَادٍ ⑥

၆။ (အို-နဗီတမန်တော်) အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် "အာဒ်"အမျိုးသားတို့အား မည်သို့ ပြုလုပ်တော်မူခဲ့သည်ကို အသင်သိမြင်ခဲ့ပြီမဟုတ်လော။

إِرَمَ ذَاتِ الْعِمَادِ ⑦

၇။ အရပ်အမောင်းထွားကျိုင်းသော၊ တိုင်ရှည်ကြီးများ၏ပိုင်ရှင်ဖြစ်ကြသော "အိရမ်"(၏အဆက်အနွယ်) အား။

الَّتِي لَمْ يُخْلَقْ مِثْلُهَا فِي الْبِلَادِ ⑧

၈။ (ကမ္ဘာပေါ်ရှိ) မြို့ရွာများတို့တွင် (မည်သူမျှပင်) ၎င်းတို့ကဲ့သို့ ဖန်ဆင်းခြင်းခံခဲ့ရသည်မဟုတ်ပေ။

وَثَمُودَ الَّذِينَ جَابُوا الصَّخْرَ بِالْوَادِ ⑨

၉။ "ဝါဒစ်လ်ကုရာ" အရပ်၌ ကျောက်ဆောင်များကို ထွင်းခဲ့ကြသော "ဆမူဒ်" အမျိုးသားတို့အား (မည်ကဲ့သို့ပြုလုပ်တော်မူခဲ့သည်ကို)လည်းကောင်း။

وَفِرْعَوْنَ ذِي الْأَوْتَادِ ⑩

၁၀။ ငုတ်များ၏ပိုင်ရှင်ဖြစ်သော 'ဖစ်ရ်အောင်န်' အား(မည်ကဲ့သို့ပြုလုပ်တော်မူခဲ့သည်ကို)လည်းကောင်း။

الَّذِينَ طَغَوْا فِي الْبِلَادِ ⑪

၁၁။ အကြင်သူတို့သည် တိုင်းပြည်များတွင် ဆိုးသွမ်းခဲ့ကြကုန်၏။

فَأَكْثَرُوا فِيهَا الْفَسَادَ ⑫

၁၂။ ထို့နောက် ၎င်းတို့သည် ထိုတိုင်းပြည်များတွင် ပျက်စီးရာပျက်စီးကြောင်းကို များစွာ ပြုလုပ်ခဲ့ကြကုန်၏။

فَصَبَّ عَلَيْهِمْ رَبُّكَ سَوْطَ عَذَابٍ ⑬

၁၃။ သို့ဖြစ်ပေရာ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် ၎င်းတို့အပေါ်၌ ပြစ်ဒဏ်၏ကျာပွတ်၊ ပြစ်ဒဏ်တစ်မျိုးကို သွန်းချတော်မူခဲ့၏။

---

➤➤ ကျိန်ဆို မိန့်ကြားထားတော်မူသည့်အတွက် မိန့်ကြားတော်မူအပ်သော အာယတ်တော်များသည် အဘယ်မျှ လေးနက်လာသည်ကို ဉာဏ်ပညာ အမြော်အမြင်ရှိသူများသည် ကောင်းစွာ သိရှိနိုင်ကြပေသည်။

၁၄။ ဧကန်မလွဲ အသင့်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်သည် တပ်ပုန်းချထားရာအရပ်၌ ချောင်းမြောင်းလျက် စောင့်ကြည့်လျက် ရှိတော်မူပေသတည်း။ [၁]

إِنَّ رَبَّكَ لَبِالْمِرْصَادِ ⑭

---

① **အလ္လာဟ်အရှင်မြတ်သည် စောင့်ကြည့်လျက် ရှိတော်မူသည်။**

လူတစ်ယောက်သည် ချောင်းမြောင်းရာအရပ်၌ ပုန်းကွယ်၍ ကင်းပုန်းကဲ့သို့ သွားလာသူတို့အား မျက်ခြည်မပြတ် စောင့်ကြည့်နေ၏။ မည်သူသွားသည်၊ မည်သူလာသည်၊ အဘယ်ကြောင့်သွားသည်၊ အဘယ်ကြောင့်လာသည်၊ အဘယ်ပစ္စည်းယူလာသည်၊ အဘယ်ပစ္စည်းယူသွားသည်၊ အဘယ်အရာလုပ်လာသည်၊ အဘယ်အရာလုပ်သွားသည် စသည်တို့ကို စလယ်ဆုံး သိမြင်နေ၏။ မှတ်သားနေ၏။ ထိုသူသည် အရေးပေါ်လာသည့်အခါ မိမိသိမြင်မှတ်သားထားသည့်အတိုင်း အတိအကျ အရေးယူ ဆောင်ရွက်နိုင်၏။

ထို့အတူ အလ္လာဟ်အရှင်မြတ်သည် လူသားတို့၏အမြင်မှ ကွယ်ဝှက်ကာ လူသားတို့ ကျင့်ကြံပြုမူနေကြသည်များကို စောင့်ကြည့်နေတော်မူ၏၊ အရာခပ်သိမ်းကုန်တို့ကို အကြွင်းမဲ့သိတော်မူ၏၊ မြင်တော်မူ၏၊ ကြားတော်မူ၏၊ သို့တစေလည်း ထိုအရှင်မြတ်သည် မဟာကရုဏာတော်ရှင်၊ တရားမျှတတော် မူသောအရှင်ဖြစ်တော်မူပေရာ၊ အပြစ်ရှိသူတို့အား ချက်ခြင်းလက်ငင်း အရေးယူတော် မူလေ့မရှိပေ။ နောင်တတရားရစိမ့်သောငှာ အချိန်အတန်ကြာ လျစ်လျူရှုထားတော်မူလေ့ရှိပေသည်။

သို့ချက်ချင်းလက်ငင်း ပြစ်ဒဏ်ပေးတော်မမူဘဲ ခေတ္တလျစ်လျူရှု ထားတော်မူသည်ကို သဘောမပေါက်သော၊ နားမလည်သော၊ အမှုမဲ့အမှတ်မဲ့နေသော အချို့လူသားတို့က ငါတို့ ကျင့်ကြံ ပြုမူနေကြသည်များကို မည်သူမျှမမြင်၊ မသိ၊ ငါတို့အား အရေးယူမည့်သူ တစ်ဦးတစ်ယောက်မျှမရှိဟု ထင်မြင်ယူဆကာ ဆိုးမိုက်မြဲတိုင်း ဆိုးမိုက်နေကြလေသည်။ နောက်ဆုံးတွင် အလွန်အကျွံ စည်းမဲ့ကမ်းမဲ့ ဖြစ်လာကြပြီး လျစ်လျူရှုရန် အကြောင်းမရှိတော့သည့်အဆုံးတွင် အလ္လာဟ်အရှင်မြတ်သည် ထိရောက်စွာ အတိအကျ အရေးယူတော်မူလေသည်။ ထိုအခါ ထိုသို့သော လူသားတို့သည် အကြောင်းသိသွားကြလေသည်။ ပျက်စီးခြင်းကြီးမက ပျက်စီးကြရလေသည်။

ထိုအခါကျမှ "သြော်-ငါတို့အား အပြစ်ရှိသည့်အလျောက် ချက်ခြင်းအရေးယူတော်မမူခြင်းမှာ ငါတို့အား စမ်းသပ်တော်မူခြင်းပါတကား၊ ငါတို့အား လျစ်လျူရှုထားတော်မူခြင်းပါတကား" ဟု သိရှိကာ နောင်တရကြလေသည်။ သို့ရာတွင် ထိုအချိန်ကျမှ နောင်တရခြင်းကား အကျိုးမရှိတော့ပြီ။

ထို့အတွက် လူသားတို့သည် အမှုမဲ့အမှတ်မဲ့ မနေကြရာ၊ နောင်ရေးကို မေ့မနေကြရာ။ အလ္လာဟ်အရှင်မြတ်သည် အခါခပ်သိမ်း စောင့်ကြည့်တော်မူလျက်ရှိသည်ကို အမြဲနှလုံးသွင်းထားကြရာ သတည်း။

အတိတ်ခေတ် အာဒ်၊ ဆမူဒ်၊ ဖစ်ရ်အောင်န်တို့သည် ယင်းသို့ အမှုမဲ့ အမှတ်မဲ့နေကာ စည်းမဲ့ကမ်းမဲ့ သွေဖည်ဆိုးသွမ်းမိုက်မဲ၍ ကမ္ဘာမြေပြင်တွင် ဆူပူသောင်းကျန်းခဲ့ကြသည့်အတွက် နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ ကွပ်မျက်တော်မူခြင်းကို ခံသွားခဲ့ကြရပေသည်။ ယနေ့လည်း ၎င်းတို့၏လမ်းစဉ်ကို လိုက်သောသူများသည် ၎င်းတို့ကဲ့သို့ပင် နောက်ဆုံးတွင် အလ္လာဟ်အရှင်မြတ်၏ ကွပ်မျက်တော်မူခြင်းကို မလွဲဧကန်အမှန် ခံကြရမည်ကို ကြီးစွာသတိပြုကြရပေမည်။ "အလ္လာဟ်အရှင်မြတ်သည် စောင့်ကြည့်လျက်ရှိတော်မူသည်"။

فَأَمَّا الْإِنسَانُ إِذَا مَا ابْتَلَاهُ
رَبُّهُ فَأَكْرَمَهُ وَنَعَّمَهُ
فَيَقُولُ رَبِّي أَكْرَمَنِ ⑮

၁၅။ သို့ပါလျက် မည်သို့ပင်ဖြစ်စေ၊ (ကာဖိရ်) လူသားမှာမူကား ၎င်း၏အရှင်မြတ်က ၎င်းအား စမ်းသပ်တော်မူသောအခါ ထိုအရှင်မြတ်သည် ၎င်းအား ဂုဏ်အသရေချီးမြှင့်တော်မူ၏။ ထို့ပြင် ၎င်းအား ကျေးဇူးပြုတော်မူ၏။ ထိုအခါ ၎င်းက ကျွန်ုပ်၏ အရှင်မြတ်သည် ကျွန်ုပ်အား ဂုဏ်အသရေ ချီးမြှင့်တော်မူခဲ့သည်ဟု ပြောဆိုလေ့ရှိ၏။

وَأَمَّا إِذَا مَا ابْتَلَاهُ فَقَدَرَ
عَلَيْهِ رِزْقَهُ فَيَقُولُ رَبِّي
أَهَانَنِ ⑯

၁၆။ သို့ရာတွင် မည်သို့ပင်ဖြစ်စေ၊ ထိုအရှင်မြတ်သည် ၎င်းအား (တစ်နည်း) စမ်းသပ်တော်မူပြန်သောအခါ ၎င်း၏အပေါ်၌ ၎င်း၏စားနပ်ရိက္ခာကို ကျပ်တည်းစေတော်မူ၏။ ထိုအခါ ၎င်းက ကျွန်ုပ်၏ အရှင်မြတ်သည် ကျွန်ုပ်အား ဂုဏ်အသရေ ဖျက်တော်မူခဲ့သည်ဟု ပြောဆိုလေ့ရှိပေသည်။ [၁]

---

(၁) **ကျေးဇူးမသိတတ်သောလူသား။**

ကျေးဇူးမသိတတ်သော လူသား၏အဖြစ်သည် အံ့သြဖွယ်ပင်။ အလ္လာဟ်အရှင်မြတ်သည် လူသားအား ပေး၍တစ်နည်း၊ ပြန်လည်ရုပ်သိမ်း၍တစ်ဖုံ၊ နည်းမျိုးစုံဖြင့် စမ်းသပ်တော်မူသည်။ တစ်ခါတစ်ရံ ထိုအရှင်မြတ်သည် လူသားအား ရာထူး၊ ဌာနန္တရ၊ ဥစ္စာပစ္စည်း စသည်များကို ချီးမြှင့်တော်မူသည်။ ယင်းသို့ ချီးမြှင့်တော်မူခြင်းမှာ လူသားသည် ယင်းသည့်ကျေးဇူးတော်များကို ရရှိခံစားရသည့်အတွက် ကျေးဇူးတော်ရှင်အား ကျေးဇူးသိတတ်သည်၊ မသိတတ်သည်ကို စမ်းသပ်တော်မူရန်ပင်ဖြစ်စေသတည်း။

ကျေးဇူးမသိတတ်သော လူသားသည် မိမိအား အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားတော်မူသော ကျေးဇူးတော်များနှင့်စပ်လျဉ်း၍ ဤသည် မိမိ၏ကျွမ်းကျင်လိမ္မာပါးနပ်မှု၊ ကြိုးပမ်းမှု၏ အကျိုးသာ ဖြစ်သည်၊ မိမိနှင့်ထိုက်တန်၍ မိမိအား မိမိ၏အရှင်က ချီးမြှင့်တော်မူခြင်းသာ ဖြစ်သည်ဟူ၍ပင် ကျေးဇူးကန်းကာ မိုက်မဲစွာဆိုလေသည်။ "ကာရူန်"သည်လည်း ဤအတိုင်း ဆိုခဲ့ချေသည်။ ကြည့်-ကုရ်အာန် (၂၈း၇၈)။ ကျေးဇူးမသိတတ်သော လူသားသည် ဤသည့်သင်္ခါရ ပစ္စက္ခဘဝကိုပင် အဓိကပန်းတိုင် ဖြစ်သည်။ ဤသည့် ပစ္စက္ခဘဝ၏ ချမ်းသာကြွယ်ဝမှုသည် မိမိ၏ အဓိက အောင်မြင်မှု ဖြစ်သည်ဟု ယုံကြည်ယူဆနေပေသည်။ ဤကား မဟာအမှားပင်။

တစ်ခါတစ်ရံ အလ္လာဟ်အရှင်မြတ်သည် လူသား၌ စားဝတ်နေရေးကို ကျပ်တည်းစေတော်မူသည်။ ယင်းသို့ ကျပ်တည်းစေတော်မူခြင်းမှာ လူသားသည် အကျပ်အတည်းနှင့်ရင်ဆိုင် တွေ့ကြုံရသောအခါ သည်းခံနိုင်သည်၊ မိမိအရှင်အား ပုံအပ်နိုင်သည်၊ သို့တည်းမဟုတ် ညည်းညူမြည်တမ်းသည်၊ သည်းမခံနိုင်သည်များကို စမ်းသပ်တော်မူရန်ပင် ဖြစ်ပေသည်။ ကျေးဇူးမသိတတ်သော လူသားသည် ယင်းသို့ အကျပ်အတည်းနှင့် ➤➤

كَلَّا بَل لَّا تُكْرِمُونَ الْيَتِيمَ ⑰

၁၇။ အလျှင်းမဟုတ်၊ စင်စစ်မှာကား အသင်တို့သည် ဘမဲ့ကလေးသူငယ်များအား ဂုဏ်ပေးကြသည် မဟုတ်ပေ။

وَلَا تَحَاضُّونَ عَلَىٰ طَعَامِ الْمِسْكِينِ ⑱

၁၈။ ထို့ပြင် အသင်တို့သည် သူဆင်းရဲတို့အား ကျွေးမွေးရန် တိုက်တွန်းနှိုးဆော်ကြသည်လည်း မဟုတ်ပေ။

وَتَأْكُلُونَ التُّرَاثَ أَكْلًا لَّمًّا ⑲

၁၉။ ၎င်းပြင် အသင်တို့သည် အမွေပစ္စည်းများကိုလည်း သိမ်းကျုံးလျက် စားသုံးကြကုန်၏။

---

➢➢ ရင်ဆိုင်ရသည့်အခါ အမျိုးမျိုး ညည်းညူမြည်တမ်းလေသည်၊ အကြီးအကျယ် မကျေမချမ်း၊ မကျေမနပ် ဖြစ်လေသည်၊ မိမိအား မိမိ၏အရှင်သည် ဂုဏ်အသရေ ဖျက်ဆီးလေပြီဟူ၍ပင် ကျေးဇူးကန်းကာ မိုက်မဲစွာ ဆိုလေသည်။ ကျေးဇူးမသိတတ်သောသူသည် ဤသင်္ခါရဘဝ၏ ခေတ္တချမ်းသာကြွယ်ဝမှုကို မိမိ၏အဓိက ဆုံးရှုံးမှုကြီးပင် ဖြစ်သည်ဟု ယုံကြည် ယူဆနေပေသည်။ ဤသည်လည်း မဟာအမှားပင်။

ယင်းသို့ တွေးခေါ်ယုံကြည်ယူဆခြင်းမှာ ကျေးဇူးမသိတတ်သော၊ နောင်တမလွန်ဘဝကို မယုံကြည်သော ကာဖိရ်များ၏ အချည်းနှီးသော အတွေးအခေါ်နှင့် လုံးဝမှားယွင်းသော ယုံကြည်ယူဆချက်မျှသာ ဖြစ်ပေသည်။ အမှန်မှာ ဤသင်္ခါရပစ္စက္ခဘဝသည် အဓိကမဟုတ်၊ ပန်းတိုင်မဟုတ်။ နောင်တမလွန်ဘဝသည်သာ အဓိကဖြစ်သည်၊ ပန်းတိုင်ဖြစ်သည်။

ဤပစ္စက္ခဘဝတွင် ခေတ္တချမ်းသာကြွယ်ဝမှုသည် ကြွားဝါဖွယ်ရာလည်းမဟုတ်၊ ဤပစ္စက္ခဘဝတွင် ကျပ်တည်းဆင်းရဲမှုသည် ဝမ်းနည်းဖွယ်ရာလည်းမဟုတ်။ ထို့အတူ ဤပစ္စက္ခ၏ ချမ်းသာ ကြွယ်ဝမှုသည် အလ္လာဟ်အရှင်မြတ် နှစ်သက် မြတ်နိုးတော်မူခြင်း၏ လက္ခဏာလည်းမဟုတ်၊ ဆင်းရဲကျပ်တည်းမှုသည် ထိုအရှင်မြတ် စက်ဆုပ်မုန်းတီးတော်မူခြင်း၏ လက္ခဏာလည်းမဟုတ်ပေ။ ဆင်းရဲချမ်းသာမှုသည် စမ်းသပ်မှုသာ ဖြစ်သည်။

အချုပ်အားဖြင့် ကျေးဇူးမသိတတ်သော လူသားသည် ဤပစ္စက္ခဘဝကိုပင် အဓိကဟူ၍ ထင်မှတ်နေသည်။ ယင်းသို့ ထင်မှတ်ခြင်းဖြင့် ၎င်းသည် နောင်တမလွန်ကို မယုံကြည်ရာ ရောက်နေပေသည်။ ထို့အတူ ကျေးဇူးမသိတတ်သော လူသားသည် မိမိရရှိထားသော လောကီစည်းစိမ်မှာ မိမိနှင့်ထိုက်တန်၍သာ ဖြစ်သည်ဟူ၍ ထင်မှတ်နေသည်။

ယင်းသို့ ထင်မှတ်သည့်အတွက်ကြောင့် ၎င်းသည် လောကီစည်းစိမ်ကို အကြောင်းပြု၍ ကြွားဝါ မောက်မာလေသည်၊ အလ္လာဟ်အရှင်မြတ်အား ကျေးဇူးမတင်ပေ။ ဥစ္စာပစ္စည်း ပျက်စီးဆုံးပါးသည့် အခါတွင်လည်း သည်းမခံနိုင်ပေ။ ဤသည်တို့ကား ပြစ်ဒဏ်သက်ရောက်စေသော အကြောင်းတရားများတည်း။ ထာနဝီ။

| | |
|---|---|
| ၂၀။ ထိုမှတပါး အသင်တို့သည် ဥစ္စာပစ္စည်းကို လည်း အလွန်အမင်း ချစ်ခင်စုံမက် ခုံမင်ကြကုန် သတည်း။ [၁] | وَّتُحِبُّوْنَ الْمَالَ حُبًّا جَمًّا ﴿٢٠﴾ |

(၁) ကျေးဇူးမသိတတ်သော လူသားက မိမိ၏အရှင်အား ကျေးဇူးကန်းကာ "ကျွန်ုပ်၏အရှင်သည် ကျွန်ုပ်အား ဂုဏ်အသရေမဲ့ စေတော်မူပြီ"ဟူ၍ပင် မိုက်မဲစွာ ကဲ့ရဲ့ပြစ်တင် ပြောဆို၏။ ယင်းသို့ကဲ့ရဲ့ပြောဆိုခြင်းမှာ ကျေးဇူးမသိတတ်ခြင်း၊ မိမိ၏အပြစ်ကို မိမိမမြင်ခြင်းကြောင့်ပင်ဖြစ်၏။ အမှန်မှာ ကျေးဇူးမသိတတ်သော လူသားသည် လောကီရေးတွင် အလွန်အကျွံ နစ်မွန်းပြီး ဖန်ဆင်းတော်မူသောအရှင်နှင့် အဖန်ဆင်းခံတို့၏စပ်ကြား၌ စောင့်သိရိုသေအပ်သော တာဝန်များကိုလည်းကောင်း၊ အစ္စလာမ်က သတ်မှတ်ထားသော စည်းကမ်းချက်များကို လည်းကောင်း၊ အမေ့ကြီးမေ့လျက်ရှိ၏။

ဥပမာ–အစ္စလာမ်က ခိုကိုးရာမဲ့ဖြစ်နေသော မိတဆိုး ဖတဆိုး ကလေးများအား အထူးတလည် ကာကွယ်ထိန်းသိမ်း ကူညီစောင့်ရှောက်ရန် အကြိမ်ကြိမ် ညွှန်ကြားထားပါလျက်၊ ကျေးဇူးမသိတတ်သော လူသားသည် မိတဆိုး ဖတဆိုး တို့အား ကူညီစောင့်ရှောက်ရမည့်အစား အထင်အမြင်သေးသည်၊ အနိုင်ကျင့်သည်၊ စော်ကားသည်။ ၎င်းတို့၏ ဥစ္စာပစ္စည်းကိုပင် မတရား စားသုံးပစ်လေသည်။

ဆင်းရဲသားများနှင့်ပတ်သက်၍ အစ္စလာမ်က လူသားတို့အား မိမိတို့ကိုယ်တိုင်ကလည်း တတ်စွမ်းနိုင်သမျှ ဆင်းရဲသားများကို ကူညီထောက်ပံ့ကြရမည်။ သူတပါးတို့အားလည်း ကူညီထောက်ပံ့ရန် နှိုးဆော်ပေးကြရမည်ဟု အကြိမ်ကြိမ် ညွှန်ကြားထားပါသော်လည်း၊ ကျေးဇူးမသိသောလူသားသည် ဆင်းရဲသားတို့အား မိမိကိုယ်တိုင်က ကူညီထောက်ပံ့ရန်ဝေးစွ၊ သူတပါးတို့အားလည်း မေ့မှား၍မျှ မနှိုးဆော်ပေ။

ထို့မျှမကသေး၊ ကျေးဇူးမသိတတ်သောလူသားသည် မိမိကိုယ်တိုင် မစားရက်မသောက်ရက် ရှာဖွေစုဆောင်းထားသော ဥစ္စာပစ္စည်းများနှင့် မရောင့်ရဲနိုင်သည်သာမက သူသေများ၏ အမွေပစ္စည်းများကိုပင် တရားသောနည်းဖြင့်ဖြစ်စေ၊ မတရားသောနည်းဖြင့်ဖြစ်စေ အမွေကြီးငယ်အားလုံးကို သိမ်းကျုံး၍ လက်ဝါးကြီးအုပ်လေသည်။

အမှန်မှာ ကျေးဇူးမသိတတ်သော လူသားသည် ဥစ္စာပစ္စည်းကို အလွန်အကျွံ ခုံမင်စုံမက် နစ်သက်လျက် ရှိပေသည်။ ဥစ္စာကိုအမိ၊ ဥစ္စာကိုအဖ၊ ဥစ္စာကိုသာ အဓိကဟု ထင်မှတ် ယုံကြည်လျက် ရှိပေသည်။ ကျေးဇူးမသိတတ်သော လူသားသည် ဥစ္စာအတွက် အမြတ်ကြီးစားရန် အသင့်၊ ခေါင်းပုံဖြတ်ရန် အသင့်၊ ဘနဖူးသိုက်တူးရန် အသင့်။ ဥစ္စာရမည်ဆိုပါက အဘယ်မျှကြီးလေးသော အပြစ်ကိုပင်မဆို ကျူးလွန်ရန် လက်မနှေးပေ။ အလ္လာဟ်အရှင်မြတ်၏ လမ်းတော်၌မူ ကုသိုလ်ရေး၌မူ ပြားစေ့တစ်စေ့ကိုပင် မေ့မှား၍မျှ မသုံးရက်ပေ၊ မလှူရက်ပေ။

ထိုသို့သော လူသားသည် အလ္လာဟ်အရှင်မြတ်ထံတော်၌ အသို့လျှင် ဂုဏ်အသရေ ရှိနိုင်အံ့နည်း။ လူသားထုကြီးထံ၌ အသို့လျှင် မျက်နှာပန်းလှနိုင်အံ့နည်း။ ယနေ့ကမ္ဘာအရပ်ရပ်တွင် ဆင်းရဲသားများ အုံကြွလာခြင်းမှာ ထိုသို့သော ဥစ္စာရူးတို့၏ မတရား လောဘကြီးမှု၏ အကျိုးပင် မဟုတ်တုံလော။ ဤရွေ့ဤမျှ လောကီရေးတွင် နစ်မွန်းနေသောသူများမှာ ကျိုးပြစ်ခံစံရမည့် ကိယာမတ်နေ့ကို ငြင်းဆန်သော၊ ကျေးဇူးမသိတတ်သော၊ ဥစ္စာရူး ရူးနေသော ကာဖိရ်များသာလျှင် ဖြစ်ကြပေသည်။

كَلَّآ إِذَا دُكَّتِ ٱلْأَرْضُ دَكًّا دَكًّا ﴿٢١﴾

၂၁။ အလျှင်းမဟုတ် (စင်စစ်မှာကား) ပထဝီမြေသည် ထုထောင်းလျက် တပြေးတည်းညီအောင် ပြုလုပ်ခြင်းကိုခံရသောအခါ၊ (တစ်နည်း) ညက်ညက်ကြေအောင် ထုထောင်းခြင်းကို ခံရသောအခါ။

وَجَآءَ رَبُّكَ وَٱلْمَلَكُ صَفًّا صَفًّا ﴿٢٢﴾

၂၂။ ထို့ပြင် အသင့်အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်သည် ကြွလာတော်မူသောအခါ၊ ထို့ပြင် "မလာအိကဟ်" ကောင်းကင်တမန်တို့သည် စီတန်းလျက်(လာကြသောအခါ။)

وَجِاىٓءَ يَوْمَئِذٍۭ بِجَهَنَّمَ ۚ يَوْمَئِذٍ يَتَذَكَّرُ ٱلْإِنسَٰنُ وَأَنَّىٰ لَهُ ٱلذِّكْرَىٰ ﴿٢٣﴾

၂၃။ ၎င်းပြင် ထိုနေ့တွင် "ဂျဟန္နမ်" ငရဲသည် (လူတို့ရှေ့မှောက်ဝယ်) ယူဆောင်လာခြင်းကို ခံရသောအခါ၊ ထိုနေ့တွင် လူသားသည် အသိတရားရလာပေမည်။ သို့ရာတွင် (ထိုအခါ) သတိတရားရခြင်းသည် အဘယ်မှာလျှင် ၎င်း၌ အကျိုးရှိစေတော့မည်နည်း။

يَقُولُ يَٰلَيْتَنِى قَدَّمْتُ لِحَيَاتِى ﴿٢٤﴾

၂၄။ (ထိုအခါ) လူသားသည် (ဤသို့) ပြောဆို (ညည်းညူ)ပေလိမ့်မည်။ ဩော်-ငါသည် (အာခိရတ်တမလွန်ဘဝ၌) မိမိအသက်ရှင်ရေးအလို့ငှာ (တစ်နည်း) မိမိသက်တမ်း၌ (ကောင်းမှု တစ်စုံတစ်ရာကို) ကြိုတင်၍ ဆည်းပူးခဲ့ပါလျှင် ကောင်းလေစွတကား။

فَيَوْمَئِذٍ لَّا يُعَذِّبُ عَذَابَهُۥٓ أَحَدٌ ﴿٢٥﴾

၂၅။ စင်စစ် ထိုနေ့တွင် ထိုအရှင်မြတ်၏ပြစ်ဒဏ် စီရင်ခြင်းမျိုးကို မည်သူတစ်ဦးတစ်ယောက်မျှပင် ပြစ်ဒဏ် စီရင်လိမ့်မည်မဟုတ်ပေ။

وَلَا يُوثِقُ وَثَاقَهُۥٓ أَحَدٌ ﴿٢٦﴾

၂၆။ ထိုနည်းတူစွာ ထိုအရှင်မြတ်၏ ဖမ်းဆီး ချုပ်နှောင်ခြင်းမျိုးကိုလည်း မည်သူတစ်ဦးတစ်ယောက် မျှပင် ဖမ်းဆီးချုပ်နှောင်လိမ့်မည် မဟုတ်ပေ။

يَٰٓأَيَّتُهَا ٱلنَّفۡسُ ٱلۡمُطۡمَئِنَّةُ ٢٧

၂၇။ အို-(သောကကင်း၍) ငြိမ်ဆိမ်သော အသက်ဇီဝိန်။ ၁

① "နဖ်စ်" စိတ်သုံးမျိုး။

လူ၌ "နဖ်စ်" စိတ်သည် တစ်ခုသာရှိသည်။ သို့ရာတွင် စိတ်၏အခြေအနေသုံးရပ်ကို အကြောင်းပြုပြီး စိတ်၏ အမည်သုံးခု ဖြစ်သွားပေသည်။

(၁) မွတ္တမအင်န်နဟ်။

(၂) အမ္မာရဟ်။

(၃) လောင်ဝါမဟ်။

အကယ်၍ စိတ်သည် အထက်ကမ္ဘာသို့ ယိမ်းယိုင်၏။ အလ္လာဟ်အရှင်မြတ်အား ခဝပ်ကိုးကွယ်မှု၊ နာခံမှု၌ ဝမ်းသာပျော်ရွှင်၏။ သာသနာ၏စည်းကမ်းချက်များကို လိုက်နာကျင့်သုံးမှု၌ တည်ငြိမ်၏။ ငြိမ်းချမ်းသာယာ၏။ ကြည်နူး၏။ထိုသို့သောစိတ်ကို "မွတ္တမအင်န်နဟ်"ဟုခေါ်သည်။ကြည့်-ကုရ်အာန်(၈၉း၂၇-၃၀)

အကယ်၍ စိတ်သည် အောက်ကမ္ဘာသို့ ယိမ်းယိုင်၏။ လောကီစည်းစိမ်များတွင် နစ်မွန်း၍ ဒုစရိုက်မှုများကို ကျူးလွန်၏။ သာသနာ၏ စည်းကမ်းချက်များကို မနာခံသွေဖည်ဖောက်ပြန်၏။ ထိုသို့သော စိတ်ကို "အမ္မာရဟ်"ဟု ခေါ်သည်။ ကြည့်-ကုရ်အာန် (၁၂း၅၃)။

အကယ်၍ စိတ်သည် တစ်ခါတစ်ရံ အောက်ကမ္ဘာသို့ ယိမ်းယိုင်ကာ ကာမဂုဏ်အာရုံများ၌ မွေ့လျော်၏၊ ဒေါသထွက်၏။ တစ်ခါတစ်ရံ အထက်ကမ္ဘာသို့ ယိမ်းယိုင်ကာ အဆိုပါ ကာမဂုဏ်အာရုံ၊ ဒေါသ စသည်တို့ကို စက်ဆုပ်ရွံရှာ၏။ ဝေးစွာရှောင်ကြဉ်၏။ ဒုစရိုက်မှုတစ်ခုခု ကျူးလွန်မိလျှင် သို့မဟုတ် ကောင်းမှုတစ်ခုပြုရန် လစ်ဟင်းသွားလျှင် ရှက်ရွံ့ကာ မိမိကိုယ်ကိုမိမိ ကဲ့ရဲ့ပြစ်တင်၏။ ထိုသို့သောစိတ်ကို "လောင်ဝါမဟ်" ဟုခေါ်သည်။ ကြည့်-ကုရ်အာန် (၇၅း၂)။

ရှာဟ်အဗ်ဒုလ်ကာဒိရ်သခင်က စိတ်သုံးမျိုးအကြောင်းကို တစ်နည်း အောက်ပါအတိုင်း ဖွင့်ဆိုရေးသားထားသည်။

လူ၏စိတ်သည် ပထမသော် လောကီစည်းစိမ်များတွင် နစ်မွန်း၍နေ၏။ ကုသိုလ်ကောင်းမှု ဘစ်စုံတစ်ရာကိုမျှ ဆည်းပူးလိုသည့် ဆန္ဒအလျှင်းမရှိ။ ဤသို့သော မကောင်းရာကိုသာ ညွှန်သောစိတ်ကို 'အမ္မာရဟ်'ဟု ခေါ်သည်။ ထိုသို့ မကောင်းမှုများ၌ နစ်မွန်းနေပြီးသည့်နောက်တွင် လူသည် ဆင်ခြင်တုံတရား ရလာ၏။ အကောင်းနှင့်အဆိုးကို ခွဲခြားသိမြင်လာ၏။ ထိုအခါ လူသည် မကောင်းမှုမှ နောက်ဆုတ်လေသည်၊ ရှောင်ကြဉ် လေသည်။

ယင်းသည့်အခြေအနေတွင် ရောက်ရှိသည့်အချိန်မှာပင် တစ်ခါတစ်ရံ မေ့လျော့ကာ မိမိ၏ဝသီအတိုင်း မကောင်းမှုကို ကျူးလွန်မိတတ်၏။ ထို့နောက် တဖန် ဆင်ခြင်တုံတရားရရှိပြန်ကာ ယင်းသို့ မိမိမကောင်းမှု ကျူးလွန်မိသည့်အတွက် မိမိကိုယ်ကိုမိမိ ကဲ့ရဲ့ပြစ်တင်၏။ ထိုသို့သောစိတ်ကို "လောင်ဝါမဟ်" ဟုခေါ်သည်။

ထိုသည့်နောက်ပိုင်းတွင် စိတ်သည် လုံးဝကြည်လင်သန့်ရှင်းသွား၏။ ကောင်းမှုကုသိုလ်ရေးများကိုသာ ပြုလုပ်လိုသော ဆန္ဒရှိလေ၏။ မကောင်းမှုကို အလိုအလျောက် ဝေးစွာရှောင်ကြဉ်လာ၏။ မကောင်းမှုများကို ကာယကံမြောက် ကျူးလွန်ရန်ဝေးစွ၊ စိတ်ကူးတွင် ထည့်မိရုံမျှဖြင့် ဒုက္ခဖြစ်လာတော့၏။ ထိုသို့သောစိတ်ကို 'မွတ်မအင်န်နဟ်'ဟု ခေါ်သည်။

ارْجِعِيٓ إِلَىٰ رَبِّكِ رَاضِيَةً مَّرْضِيَّةً ﴿٢٨﴾

၂၈။ အသင်သည် မိမိ၏ အရှင်မြတ်အထံတော်သို့ ကျေနပ်လျက် (ထိုအရှင်မြတ်၏)ကျေနပ်မှုကို ခံယူလျက် ပြန်သွားလေလော့။

فَادْخُلِي فِي عِبَادِي ﴿٢٩﴾

၂၉။ ထို့နောက် အသင်သည် ငါအရှင်မြတ်၏ ကျွန်တို့တွင် ပါဝင်လေလော့။

وَادْخُلِي جَنَّتِي ﴿٣٠﴾

၃၀။ ၎င်းပြင် အသင်သည် ငါအရှင်မြတ်၏ဂျန္နတ်သုခဘုံ၌ ဝင်ရောက်(စံမြန်း)လေလော့။



## မြို့တော် ကဏ္ဍ

ဤကဏ္ဍသည် ‘အလ်ဗလဒ်’ မြို့တော်ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော်(၂၀)ပါး ပါရှိ၏။

بِسْمِ اللَّهِ الرَّحْمَٰنِ الرَّحِيمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

لَآ أُقْسِمُ بِهَٰذَا الْبَلَدِ ﴿١﴾

၁။ ငါအရှင်မြတ်သည် ဤ(မက္ကဟ်) မြို့တော်ကို သက်သေထူတော်မူ၏။

وَأَنتَ حِلٌّۢ بِهَٰذَا الْبَلَدِ ﴿٢﴾

၂။ စင်စစ် အသင်သည် ဤ(မက္ကဟ်)မြို့တော်၌ ဝင်ခွင့်ပြုခြင်း ခံရပေမည်။ [၁]

---

(၁) ဤအာယတ်တော်တွင် အလ္လာဟ်အရှင်မြတ်သည် မက္ကာမြို့တော်ကို သက်သေထူ၍ လူသားတို့ တွေ့ကြုံခံစားရသည့် ပင်ပန်းမှု၊ ဒုက္ခကြီးငယ်များကို ညွှန်ပြမြွက်ဟ ဆိုထားတော်မူသည်။ ထိုအချိန်တွင် တမန်တော်တို့၏ အချုပ်ဖြစ်တော်မူသော တမန်တော်မြတ်သည်ပင် ရန်သူတို့၏ ဘေးရန်အပေါင်းကို မရှုမလှ ခံစား၍ နေခဲ့ရရှာတော်မူသည်။ (မက္ကာမြို့တော်အတွင်း သစ်ပင်နုတ်ခွင့်၊ သားကောင် သတ်ဖြတ်ခွင့်ပင် မပြုခဲ့ကြသော အရဗ်ကာဖိရ်တို့သည်ပင် တမန်တော်မြတ်အား သတ်ဖြတ်ရန်၊ နှင်ထုတ်ရန် ကြိုးစားနေခဲ့ကြပေသည်။)

ထို့အတွက် စကားညှပ်အနေနှင့် (وَأَنتَ حِلٌّۢ بِهَٰذَا الْبَلَدِ)ဟူသော အာယတ်တော်ကို မိန့်ကြားတော်မူပြီး တမန်တော်မြတ်အား ယနေ့ ဤမြို့တော်ရှိ လူမိုက်များသည် အသင် (တမန်တော်)အား မလေးစားမခန့်ညား ရန်ပွားနေကြသော်လည်း မကြာမီအတွင်း တမန်တော်မြတ်သည် ဤမြို့တော်အတွင်းသို့ ➤➤

وَوَالِدٍ وَّمَا وَلَدَ ۝٣

၃။ ၎င်းပြင် (ငါအရှင်မြတ်သည်) ဖခင်ကိုလည်းကောင်း၊ ထိုဖခင်ကမွေးဖွားသည့် (သားသမီး)ကိုလည်းကောင်း၊ သက်သေထူတော်မူ၏။ [၁]

لَقَدْ خَلَقْنَا الْإِنسَانَ فِي كَبَدٍ ۝٤

၄။ မုချဧကန် ငါအရှင်မြတ်သည် လူကို (ကြီးကျယ်သော) ပင်ပန်းမှု၌ (ပင်ပန်းသောဘဝ၌) ဖန်ဆင်းတော်မူခဲ့၏။ [၂]

---

➤➤ အောင်နိုင်သူအဖြစ်နှင့် ဝင်ရောက်လာပြီး အစ္စလာမ်အောင်လံကို စိုက်ထူရတော့မည်။ ထိုနေ့တွင် ဤမြင့်မြတ်သော မြို့တော်၏ ထာဝစဉ် စင်ကြယ်သန့်ရှင်းရေးအတွက် တမန်တော်မြတ်သည် သာသနာ့ရန်စွယ် ဓမ္မန္တရာယ်များကို သုတ်သင် ရှင်းလင်းခွင့်လည်း ရရှိတော်မူပေမည်ဟု အမိန့်တော် ပေးတော်မူလေသည်။ ဤအမိန့်တော်သည် ဟိဂျ်ရီသက္ကရာဇ် (၈) ခုနှစ်တွင် အတည်ဖြစ်သွားခဲ့ချေပြီ။

⓵ ဤအာယတ်တော်တွင် ဖခင်ဟူသည် ဖခင်ကြီးအာဒမ် (အလိုင်ဟစ္စလာမ်)ကို ဆိုလိုသည်။ သားသမီးဟူသည် ထိုဖခင်ကြီးအာဒမ်၏ သားသမီးများကို ဆိုလိုသည်။ အချို့က ဖခင်ဟူသည် ဖခင်တိုင်းကိုလည်းကောင်း၊ သားသမီးဟူသည် သားသမီးတိုင်းကို လည်းကောင်း၊ ဆိုလိုသည်။

အချို့က မက္ကာမြို့တော်သည် တမန်တော် အိဗ်ရာဟီမ် ပြန်လည်တည်ထောင်ခဲ့သော မြို့တော်၊ တမန်တော်အိစ်မာအီလ် ကြီးပြင်းရာမြို့တော်၊ တမန်တော်မြတ် မီးရှူးသန့်စင် ဖွားမြင်တော်မူရာ မြို့တော်ဖြစ်သည်ကို အကြောင်းပြုပြီး၊ ဤအာယတ်တော်တွင် ဖခင်ဟူသည် တမန်တော်အိဗ်ရာဟီမ်ကို ဆိုလိုသည်။ သားဟူသည် တမန်တော်အိစ်မာအီလ်နှင့် တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)ကို ဆိုလိုသည်ဟု ယူဆကြသည်။ ပထမအဆိုသည် ပိုမိုသင့်မြတ်လှပေသည်။ ကြည့်-အဗူစုအူဒ်။

## ⓶ လူသားနှင့် ဆင်းရဲမှုဒုက္ခ။

လူသားသည် အစမှအဆုံးတိုင် ဆင်းရဲဒုက္ခ၊ ခက်ခဲမှု၊ ခဲယဉ်းမှု၊ ပင်ပန်းမှုတို့၏ ဝဲသြဂတွင် နစ်မွန်းလျက်သာရှိ၏။ ဒုက္ခအမျိုးမျိုးတို့ကို ရင်ဆိုင်တွေ့ကြုံ ခံစားနေရသည်သာဖြစ်၏။

လူ့ဘဝသက်တမ်းကိုကြည့်လျှင် လူသားသည် တစ်ခါတစ်ရံ ရောဂါ၏ ဖိစီးခြင်းကို ခံနေရ၏။ တစ်ခါတစ်ရံ စိတ်ဒုက္ခဖြစ်နေရ၏။ တစ်ခါတစ်ရံ အရောင်းအဝယ် ပျက်စီး၏။ တစ်ခါတစ်ရံ သားချင်းသေဆုံး၏။ တစ်ခါတစ်ရံ မိတ်ဆွေ သစ္စာဖောက်၏။ တစ်ခါတစ်ရံ အမှုဖြစ်ရ၏။ အငြင်းပွားရ၏။ ဒုက္ခဆင်းရဲမှုသည် တစ်ခုပြီးတစ်ခု အဆက်မပြတ် ဖြစ်ပေါ်နေသည်သာ ဖြစ်၏။ ကာယဒုက္ခ၊စိတ္တဒုက္ခနှင့် လွတ်ကင်း၍ ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာစွာ နေထိုင်ရသော အချိန်ပိုင်းကိုကား လူ့ဘဝသက်တမ်းတွင် တွေ့ရခဲလှ၏။ ဖခင်ကြီးအာဒမ်နှင့် ၎င်း၏သားသမီးတို့၏ ဘဝဖြစ်စဉ် သည် ဤသည်ကို ထောက်ခံလျက် ရှိပေသည်။

အာရေဗျတိုင်းပြည်ကဲ့သို့ စားနပ်ရိက္ခာ ခေါင်းပါးသော တိုင်းပြည်တွင် နေထိုင်ရခြင်းသည်လည်း ဒုက္ခတစ်ရပ်ပင်။ အထူးသဖြင့် ထိုသည့် တိုင်းပြည်မျိုးတွင် တမန်တော်မြတ်ကဲ့သို့သော ကမ္ဘာ့ အထွတ်အထိပ် တမန်တော်ကြီးတစ်ပါးသည်ပင် ရန်သူတို့၏ အလွန်ကြီးများသော ဘေးရန်အမျိုးမျိုးတို့ကို အလူးအလိမ့် ခံစားတော်မူခဲ့ရလေသည်။ ➤➤

أَيَحْسَبُ أَن لَّن يَقْدِرَ عَلَيْهِ أَحَدٌ ﴿٥﴾

၅။ ထိုလူသည် မိမိအပေါ်၌ မည်သူတစ်ဦးတစ်ယောက်မျှပင် အလျှင်းတတ်စွမ်းနိုင်မည် မဟုတ်ဟု ထင်မှတ်လေသလော။ [၁]

يَقُولُ أَهْلَكْتُ مَالًا لُّبَدًا ﴿٦﴾

၆။ ၎င်းက ကျွန်ုပ်သည် မြောက်မြားစွာသော ပစ္စည်းဥစ္စာကို သုံးဖြုန်းခဲ့သည်ဟု (ဝါကြွား)ပြောဆိုလေ၏။ [၂]

أَيَحْسَبُ أَن لَّمْ يَرَهُ أَحَدٌ ﴿٧﴾

၇။ ၎င်းသည် မိမိအား မည်သူတစ်ဦးတစ်ယောက်မျှပင်မြင်ခဲ့သည်မဟုတ်ဟူ၍ ထင်မှတ်လေသလော၊ [၃]

---

➤➤ ဤသည်လည်း "ငါအရှင်မြတ်သည် လူသားအား ဆင်းရဲမှု၌ ဖန်ဆင်းတော်မူသည်" ဟူသော အာယတ်တော်၏ ထင်ရှားသော လက်တွေ့သာဓက တစ်ရပ်ပင်။

**မှတ်ချက်။**

"ကဗဒ်"ဟူသော ပုဒ်နှင့်စပ်လျဉ်း၍ အဆိုအမျိုးမျိုး တွေ့ရှိရသည်။ ကျမ်းလေးမည်စိုး၍ မရေးတော့ပြီ။ အကျယ်သိလိုပါက အိဗ်နုဂျရီရ်၊ အိဗ်နုကဆီရ်၊ ခါဇင်န် စသည့် ကျမ်းကြီးများတွင် ကြည့်ရှုပါကုန်။

(၁) လူသားသည် မိမိ၏သက်တမ်းတလျှောက်လုံးတွင် ကိုယ်၏ဆင်းရဲခြင်း၊ စိတ်၏ဆင်းရဲခြင်း အမျိုးမျိုးကို မပြတ်ခါခါ ခံစားနေရသည်ဖြစ်ရာ၊ မိမိ၏စွမ်းဆောင်နိုင်မှု၊ ချည့်နဲ့မှု၊ အင်အားမရှိမှုများကို တွေ့မြင်ကာ ကျိုးနွံလာအပ်၏။ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ရှိသေခန့်ညားကာ ထိုအရှင်မြတ်၏ အမိန့်တော်များကို ကြည်ဖြူစွာ လိုက်နာကျင့်သုံးအပ်၏။ သို့တစေလည်း ကျေးဇူးမသိတတ်သောလူသားသည် အမေ့ကြီးမေ့လျက်ပင် ရှိ၏။ အမြင်မှားလျက်ပင်ရှိ၏။ အောက်ခြေလွတ်လျက်ပင်ရှိ၏။ မိမိအထက်၌ မိမိအား ချုပ်ကိုင်နိုင်သူ၊ အရေးယူနိုင်သူ၊ အပြစ်ပေးနိုင်သူ တစ်ဦးတစ်ယောက်မျှပင် မရှိဟူ၍ ထင်မှတ်နေ၏။ ဤကား မဟာအမှားပင်။

(၂) ကျေးဇူးမသိတတ်သောလူသားသည် တမန်တော်အား ရန်ပွားရာတွင်လည်းကောင်း၊ အစ္စလာမ်ကို ဆန့်ကျင်ရာတွင် လည်းကောင်း၊ ဒုစရိုက်မှုများကို ကျူးလွန်ရာတွင်လည်းကောင်း မိမိ၏ ဥစ္စာပစ္စည်းများကို ရေလိုဖြုန်းတီးလေသည်။ ယင်းသို့ ဖြုန်းတီးသည်ကိုပင် ဂုဏ်ယူဖွယ်ရာ လုပ်ငန်းကြီးတစ်ရပ်ဟု ယူဆပေသည်။ ထို့ပြင်တဝ၊ ယင်းသို့ဖြုန်းတီးသည်ကိုလည်း ပုံကြီးချဲ့ကာ "ငါသည် ဤရွေ့ဤမျှ ဥစ္စာပစ္စည်း အမြောက်အမြား ဖြုန်းတီးပစ်လိုက်သည်"ဟု ဝါကြွားပြောဆိုလိုက်သေးသည်။ သို့ရာတွင် ယင်းကျေးဇူးကန်းသည့်စကားသည် မကြာမီအတွင်း ယင်းသို့ မိုက်မဲစွာ ဖြုန်းတီး ပြောဆိုမိခဲ့သည်များနှင့် စပ်လျဉ်း၍ "သြော်–ငါသည် မိမိဥစ္စာပစ္စည်းများကို အလွဲသုံးစား ပြုမိခဲ့ချေပြီ၊ အချည်းနှီး ဖြုန်းတီးပစ်မိခဲ့ချေပြီ။ ဤသည် ကောင်းကျိုးမပေး၊ ဆိုးကျိုးသာ ပေးချေပြီ၊ အမှား ကြီးမှားမိခဲ့ချေပြီတကား"ဟု နောင်တရရှိမည်မည်။

(၃) ကျေးဇူးမသိတတ်သော လူသားသည် မည်သို့ပင်ကြွားဝါနေလင့်ကစား အလ္လာဟ်အရှင်မြတ်သည် အားလုံး သိတော်မူသည်၊ မြင်တော်မူသည်။ မည်သူမည်ဝါသည် မည်ရွေ့မည်မျှကို မည်သည့်နေရာတွင် မည်သည့်စေတနာနှင့် သုံးသည်ကိုလည်း အကြွင်းမဲ့သိတော်မူသည်။ ကြွားဝါခြင်းအားဖြင့် အကျိုး တစ်စုံတစ်ရာမရှိပေ။

أَلَمْ نَجْعَل لَّهُۥ عَيْنَيْنِ ﴿٨﴾

**၈။** ငါအရှင်မြတ်သည် ၎င်းအား မျက်စိနှစ်လုံးကို ပြုလုပ်၍ ပေးသနားတော်မူခဲ့သည် မဟုတ်ပါလော။

وَلِسَانًا وَشَفَتَيْنِ ﴿٩﴾

**၉။** ထို့ပြင် လျှာတစ်ခုကိုလည်းကောင်း၊ နှုတ်ခမ်းတစ်ခုကိုလည်းကောင်း၊ (ပြုလုပ်ပေးသနားတော်မမူခဲ့ပါသလော)။

وَهَدَيْنَٰهُ ٱلنَّجْدَيْنِ ﴿١٠﴾

**၁၀။** ထိုမှတပါး ငါအရှင်မြတ်သည် ၎င်းအား (အကောင်းအဆိုး) လမ်းနှစ်သွယ်ကို ညွှန်ပြတော်မူခဲ့ပေသတည်း။ [၁]

فَلَا ٱقْتَحَمَ ٱلْعَقَبَةَ ﴿١١﴾

**၁၁။** သို့ပါလျက် ထိုလူသားသည် တောင်ကြားလမ်းကို ဖြတ်ကူးခဲ့သည် မဟုတ်ပေ။

---

(၁) အလ္လာဟ်အရှင်မြတ်သည် မိမိ၏ကျေးဇူးတော်ဖြင့် ယင်းသည့် လူသားအား ရေတွက်၍ပင် မကုန်နိုင်သော၊ အသင်္ချေအသင်္ချာသော ကျေးဇူးတော်များကို ပြုထားတော်မူသည်။ အခြား ကျေးဇူးတော်များကိုထားဘိဦး။ ထိုလူသား အမြဲတစေအသုံးပြုသော မျက်စိနှစ်လုံး၊ လျှာတစ်ခု၊ နှုတ်ခမ်းနှစ်ခုကို ထိုလူသားအား အသူပေးထားသနည်း။ ပေးသူမှာ အခြားမဟုတ်၊ အလ္လာဟ်အရှင်မြတ်ပင်။

ထိုအရှင်မြတ်သည်ပင် ထိုလူသားအား ကြည့်ရှုရန်အလို့ငှာ မျက်စိနှစ်လုံးကို ပေးသနားတော်မူသည်။ ထိုအရှင်မြတ်သည်ပင် ထိုလူသားအား မိမိ၏ စိတ်အတွင်းရှိအရာများကို ဖွင့်ဟထုတ်ဖော် ပြောနိုင်ရန်အလို့ငှာ၊ စားသောက်နိုင်ရန်အလို့ငှာ လျှာတစ်ခုနှင့်နှုတ်ခမ်းနှစ်ခုကို ပေးသနားတော်မူသည်။

ထိုအရှင်မြတ်သည် ထိုလူသားအား အကောင်းနှင့်အဆိုးကို စဉ်းစားဆင်ခြင် ခွဲခြားမြင်နိုင်ရန်အလို့ငှာ (အကောင်းနှင့်အဆိုး) လမ်းနှစ်သွယ်ကိုလည်း ညွှန်ပြထားတော်မူသည်။ သို့ဖြစ်ရာ ထိုလူသားသည် ဤသည့်ကြီးမားလှသော ကျေးဇူးတော်များကို သိတတ်ရာ၏။ ကျေးဇူးတော်ရှင် အလ္လာဟ်အရှင်မြတ်သခင်အား ကိုးနွံရာ၏၊ နာခံရာ၏၊ ထိုအရှင်မြတ်၏ သာသနာတော်ကို လိုက်နာ ကျင့်သုံးရာ၏၊ ကျေးဇူးရှင်အား ကျေးမစွပ်ရာ။

**မှတ်ချက်။** အားလုံးသူတို့အား မျက်စိအလင်း ပေးတော်မူသောအရှင်သည် မိမိကိုယ်တော်တိုင် အသို့လျှင် မြင်တော်မမူဘဲ ရှိတော်မူနိုင်အံ့နည်း။ အားလုံးတို့အား မျက်စိအလင်း ပေးတော်မူသော အရှင်သည် အားလုံးတို့ထက် အတိုင်းအဆမရှိ ပိုမိုမြင်တော် မူမည်သာတည်း။

**မှတ်ချက်။** လူသားအား အကောင်း၊ အဆိုး လမ်းနှစ်သွယ် ညွှန်ပြတော်မူခြင်းမှာ အကျဉ်းသင်္ခေပအားဖြင့် အသိဉာဏ်နှင့် သဘာဝအရ ဖြစ်၏။ အကျယ်ဝိတ္ထာရအားဖြင့် တမန်တော်များ၏ ရှင်းလင်းပြသချက်အရ ဖြစ်၏။

အချို့က လမ်းနှစ်သွယ်ဟူသည် မိခင်၏(နို့အုံ) အသားမြတ်နှစ်ခုကို ရည်ညွှန်းသည်ဟု ယူဆကြသည်။ ဆိုလိုသည်ကား အလ္လာဟ်အရှင်မြတ်သည် အမိဝမ်းတွင်းမှ မွေးဖွားစ သားငယ်ကို နို့စို့ရန် ညွှန်ပြတော်မူသည်ဟူ၏။

وَمَآ أَدْرَىٰكَ مَا ٱلْعَقَبَةُ ﴿١٢﴾

၁၂။ စင်စစ် တောင်ကြားလမ်းသည် အဘယ်နည်း၊ အသင် သိပါသလော။

فَكُّ رَقَبَةٍ ﴿١٣﴾

၁၃။ ကျွန် တစ်ဦးတစ်ယောက်အား (ကျွန်ဘဝမှ) လွတ်မြောက်စေခြင်းပင်။

أَوْ إِطْعَٰمٌ فِى يَوْمٍ ذِى مَسْغَبَةٍ ﴿١٤﴾

၁၄။ သို့တည်းမဟုတ် ငတ်မွတ်သောနေ့တွင် ကျွေးမွေးခြင်းပင်။

يَتِيمًا ذَا مَقْرَبَةٍ ﴿١٥﴾

၁၅။ ဆွေမျိုးနီးစပ်ဖြစ်သော ဘမဲ့ကလေးသူငယ် တစ်ဦးတစ်ယောက်ကိုသော်လည်းကောင်း။

أَوْ مِسْكِينًا ذَا مَتْرَبَةٍ ﴿١٦﴾

၁၆။ မြေကြီးပေါ် လူးလိမ့်နေသော ဒုက္ခိတသူဆင်းရဲ တစ်ဦးတစ်ယောက်ကိုသော် လည်းကောင်း။ [၁]

ثُمَّ كَانَ مِنَ ٱلَّذِينَ ءَامَنُوا۟ وَتَوَاصَوْا۟ بِٱلصَّبْرِ وَتَوَاصَوْا۟ بِٱلْمَرْحَمَةِ ﴿١٧﴾

၁၇။ ထို့နောက် အကြင်သူတို့တွင် ပါဝင်ခြင်းပင်၊ ထိုသူတို့သည် "အီမာန်" သက်ဝင်ယုံကြည်ခဲ့ကြကုန်၏။ ၎င်းပြင် ထိုသူတို့သည် အချင်းချင်း တစ်ဦးကိုတစ်ဦး သည်းခံကြရန် လေးနက်စွာ ဆုံးမခဲ့ကြကုန်၏။ ထိုနည်းတူစွာ အချင်းချင်း တစ်ဦးကိုတစ်ဦး ကရုဏာတရားထားရှိကြရန်လည်း လေးနက်စွာ ဆုံးမခဲ့ကြကုန်၏။

---

(၁) အလ္လာဟ်အရှင်မြတ်သည် လူသားအား လိုလေသေးသည်မရှိ၊ အတိုင်းအဆမရှိ၊ ကျေးဇူးတော်များ ပြုထားတော်မူပါလျက်၊ တရားရရှိနိုင်ရန် အကြောင်းတရားများ အသင့်စီမံ ဖန်တီး ပေးထားတော်မူပါလျက်၊ လူသားသည် "အကဗဟ်" (ဝါ) သာသနာ၏လမ်းစဉ်ကို မလိုက်နာပေ။ ကောင်းမြတ်သော ကိုယ်ကျင့်တရားကို လက်ခံနာယူကျင့်မှုကာ အောင်မြင်မှု၏ အထွတ်အထိပ်သို့ မရောက်ရှိပေ။ ဤကား လူသား၏ ပေါ့လျော့မှု၊ မှားယွင်းမှုတည်း။

ဤအာယတ်တော်တွင် သာသနာ၏လမ်းစဉ်ကို "အကဗဟ်"ဟူ၍ သုံးနှုန်းထားတော်မူသည်။ သို့သုံးနှုန်းထားတော်မူခြင်းမှာ သာသနာ၏အဆုံးအမများကို လိုက်နာကျင့်သုံးရာတွင် စိတ်၏အလိုကို ဆန့်ကျင်ပြီးပြုလုပ်ရသည့်အတွက် ခဲယဉ်းခြင်းကြောင့် ဖြစ်ပေသည်။

"အကဗဟ်"ဟူသည်ကား အဘယ်နည်း၊ ဤသည့် အမေးပုစ္ဆာကို ကုရ်အာန်ကျမ်းမြတ်မှာပင် ရှင်းလင်းပြထားတော်မူသည်။ "အကဗဟ်"ဟူသည် ကျေးကျွန်များကို ကျေးကျွန်အဖြစ်မှ လွတ်မြောက်စေခြင်း၊ ➤➤

أُولَٰئِكَ أَصْحَابُ الْمَيْمَنَةِ ﴿١٨﴾

၁၈။ ထိုသူတို့ကား လက်ယာဘက်သားများပင် ဖြစ်ကြကုန်၏။

وَالَّذِينَ كَفَرُوا بِآيَاتِنَا هُمْ أَصْحَابُ الْمَشْأَمَةِ ﴿١٩﴾

၁၉။ သို့ရာတွင် အကြင်သူတို့သည် ငါအရှင်မြတ်၏အာယတ်တော်များကို သွေဖည်ငြင်းပယ်ခဲ့ကြကုန်၏။ ထိုသူတို့ကား လက်ဝဲဘက်သားများပင် ဖြစ်ကြကုန်၏။

عَلَيْهِمْ نَارٌ مُّؤْصَدَةٌ ﴿٢٠﴾

၂၀။ ၎င်းတို့အပေါ်၌ ပိတ်လှောင်ထားသော ဖုံးအုပ်ထားသော မီးသည် လွှမ်းခြုံလျက်ပင် ရှိချေအံ့သတည်း။ [၁]

---

➤➤ ကယ်တင်ခြင်း၊ ငတ်မွတ်ခေါင်းပါးသော အချိန်အခါတွင် ငတ်မွတ်နေသူများအား ကျွေးမွေးခြင်း၊ မိတဆိုး၊ ဖတဆိုး အထူးသဖြင့် သားချင်းတော်စပ်သော မိတဆိုး၊ ဖတဆိုးများကို ကျွေးမွေးပြုစုခြင်း၊ ဘူမိကမ္ပလာမြေကို အိပ်ရာ ပြုလုပ်နေရရှာသော၊ မြေပေါ်တွင် ကုန်းကောက်စရာမျှမရှိသော ဆင်းရဲသားကျောမွဲတို့အား ထောက်ပံ့သင်္ဂြိုဟ်ခြင်းများတည်း။

ကျေးကျွန်များအား ကျေးကျွန်အဖြစ်မှ လွတ်မြောက်စေခြင်းတွင် ကြွေးမြီတင်ရှိနေသူများ၏ ကြွေးမြီများကို စိုက်ထုတ်ပေးဆပ်ခြင်းသည်လည်း အကျုံးဝင်ပေသည်။

(၁) အထက်ဖော်ပြပါ "အကဗဟ်" သာသနာ့လမ်းစဉ်များကို အလ္လာဟ်အရှင်မြတ် နှစ်သက်လက်ခံတော်မူရန်အတွက် လူသားသည် အီမာန်ယုံကြည်ရမည်။ "အီမာန်"သည် အဓိကစည်းကမ်းချက်ပင် ဖြစ်သည်။ အီမာန်မရှိကပြုသမျှ အချည်းနှီးသာတည်း။

ထို့ပြင်တဝ လူသားသည် အမိန့်၊ ပညတ်အရပ်ရပ်ကို လိုက်နာကျင့်သုံးရာတွင် တွေ့ကြုံရသည့် ဆင်းရဲမှုအဝဝကိုလည်း သည်းခံရပေမည်။

ထို့ပြင်တဝ အလ္လာဟ်အရှင်မြတ် ဖန်ဆင်းတော်မူသော ကမ္ဘာသူ၊ ကမ္ဘာသား အဖန်ဆင်းခံအားလုံးတို့အား ထောက်ထားစာနာ၊ လေးစား သနားကြင်နာရမည်။ သို့အဖန်ဆင်းခံ အားလုံးတို့အား သနားကြင်နာပါက အလ္လာဟ်အရှင်မြတ်သည် သနားကြင်နာတော်မူပေမည်။

ထိုသို့သော လူသားတို့သည် လက်ယာဘက်သားများ (ဝါ) အကြောင်းလှသူများ၊ မင်္ဂလာရှိသူများတည်း။ ၎င်းတို့သည် စာရင်းအင်းများကို လက်ယာလက်တွင် ပေးအပ်ခြင်း ခံကြရပေမည်၊ ဂျန္နတ်တွင် ထာဝစဉ် စံစားကြရပေမည်။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များကို သွေဖည်ငြင်းဆန်မနာခံသော ကာဖိရ်များမှုကား လက်ဝဲဘက်သားများ (ဝါ) ၎င်းတို့သည် စာရင်းအင်းများကို လက်ဝဲဘက်လက်တွင် ပေးအပ်ခြင်းခံကြရပေမည်၊ ဂျဟန္နမ်ငရဲတွင် ထာဝစဉ်လားကြရပေမည်။

# သူရိယကဏ္ဍ



ဤကဏ္ဍသည် "အရှ်ရှမ်စ်" သူရိယကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၁၅) ပါး ပါရှိ၏။

بِسۡمِ ٱللَّهِ ٱلرَّحۡمَٰنِ ٱلرَّحِيمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

وَٱلشَّمۡسِ وَضُحَىٰهَا ١

၁။ (ငါ အရှင်မြတ်သည်) နေကိုလည်းကောင်း၊ ထိုနေ၏အလင်းရောင်၊ အလင်းရောင်တက်ချိန်ကို လည်းကောင်း၊ သက်သေထူတော်မူ၏။

وَٱلۡقَمَرِ إِذَا تَلَىٰهَا ٢

၂။ ထို့ပြင် (ငါအရှင်မြတ်သည်) လစန္ဒာကို သက်သေထူတော်မူ၏။ အကြင်အခါဝယ် ထိုလစန္ဒာ သည် ယင်းနေ၏နောက်မှလိုက်၏။

وَٱلنَّهَارِ إِذَا جَلَّىٰهَا ٣

၃။ ၎င်းပြင် (ငါအရှင်မြတ်သည်)နေ့ကို သက်သေ ထူတော်မူ၏။ အကြင်အခါဝယ် ထိုနေ့သည် ယင်းနေ ကို လင်းဝင်းစေ၏။

وَٱلَّيۡلِ إِذَا يَغۡشَىٰهَا ٤

၄။ ထို့ပြင် (ငါအရှင်မြတ်သည်) ညဥ့်ကို သက် သေထူတော်မူ၏။ အကြင်အခါဝယ် ထိုညဥ့်သည် ယင်းနေကို ဖုံးလွှမ်းလေ၏။ [1]

---

(၁) အလ္လာဟ်အရှင်မြတ်၏ "ဟိက်မတ်" ဉာဏ်တော်ကား ဆန်းကြယ်လှ၏။ အံ့မဆုံးတည်း။ ထိုအရှင်မြတ်သည် နေနှင့်လ၊ နေ့နှင့်ည၊ မိုးနှင့်မြေ စသည်တို့ကို ဆန့်ကျင်ဘက် ဖန်ဆင်း ထားတော်မူသည်။ ထို့အတူ လူသား၌လည်း အကောင်း,အဆိုး နှစ်ရပ်စလုံးကို ဖန်ဆင်းထားတော်မူသည်။ ထိုအကောင်းနှင့်အဆိုးကို ခွဲခြားဆင်ခြင် သိမြင်နိုင်ရန် အသိတရားလည်း ပေးထားတော်မူသည်။

ထိုသည့် အကောင်းနှင့်အဆိုး နှစ်ရပ်အနက် မိမိစေတနာအလျောက် ကြိုက်နှစ်သက်ရာကို ရွေးချယ်ကျင့်သုံးနိုင်ရန် စွမ်းရည်လည်း ပေးထားတော်မူသည်။ ယင်းသို့အားဖြင့် ထိုအရှင်မြတ်သည် အမျိုးမျိုး အစားစား အပြားပြားသော အကျင့်အမူများအပေါ်၌ အမျိုးမျိုးသော အကျိုးတရားများကိုလည်း သက်ရောက်စေတော် မူသည်။ ➤➤

وَالسَّمَآءِ وَمَا بَنٰهَا ۝٥

၅။ ထို့ပြင် (ငါအရှင်မြတ်သည်) မိုးကောင်းကင်ကိုလည်းကောင်း၊ ထိုမိုးကောင်းကင်ကို ပြုလုပ် ဖန်ဆင်းတော်မူသောအရှင်ကိုလည်းကောင်း၊ သက်သေထူတော်မူ၏။ [၁]

وَالْأَرْضِ وَمَا طَحٰهَا ۝٦

၆။ ထို့ပြင် (ငါအရှင်မြတ်သည်) ပထဝီမြေကိုလည်းကောင်း၊ ထိုပထဝီမြေကို ဖြန့်ခင်းတော်မူသောအရှင်ကိုလည်းကောင်း၊ သက်သေထူတော်မူ၏။

وَنَفْسٍ وَّمَا سَوّٰىهَا ۝٧

၇။ ထိုမှတပါး အသက်ဇီဝိန်ကိုလည်းကောင်း၊ ထိုအသက်ဇီဝိန်ကို စုံလင်အောင် ပြုလုပ်တော်မူသောအရှင်ကိုလည်းကောင်း၊ သက်သေထူတော်မူ၏။

فَأَلْهَمَهَا فُجُورَهَا وَتَقْوٰىهَا ۝٨

၈။ တဖန် ထိုအရှင်မြတ်သည် ထိုအသက်ဇီဝိန်တွင်းဝယ် ထိုအသက်ဇီဝိန်၏ ပြစ်မှုဒုစရိုက်(၏အသိ)ကိုလည်းကောင်း၊ ကောင်းမှုသုစရိုက်(၏ အသိ)ကိုလည်းကောင်း၊ ထည့်သွင်းပေးတော်မူခဲ့၏။ [၂]

---

➤➤ ဤစကြာဝဠာကြီးတွင် အကောင်းနှင့်အဆိုး ရှိနေခြင်းမှာ အလင်းနှင့်အမှောင် ရှိနေသကဲ့သို့ပင် လျော်ကန်သင့်မြတ်လှပေသည်။ (ဤကား အလုံးစုံကို အကြွင်းမဲ့ သိတော်မူသောအရှင်၏ 'ဟိက်မတ်' ရွှေဉာဏ်တော်၏ အံ့မဆုံးသော လက်ရာတော်တည်း)။

(၁) ဤကဏ္ဍ၏ အာယတ်တော် (၅-၇) တွင် ပါရှိသော "မာ" ဟူသော ပုဒ်သည် အချို့က "မန်" (အကြင်သူ)၏ အနက်၌ ဖြစ်သည်ဟုဆိုကြ၏။ အချို့ကမူ "မာမဆွဒရိယဟ်" ဖြစ်သည်ဟု ဆိုကြ၏။

ဆိုလိုသည်ကား အချို့က ဥပမာ (وَالسَّمَآءِ وَمَا بَنٰهَا) ကို "မိုးကောင်းနှင့် ထိုမိုးကောင်းကင်ကို တည်ဆောက်တော်မူသော အရှင်အား သက်သေထူတော်မူသည်" ဟူ၍လည်းကောင်း၊

အချို့က "မိုးကောင်းကင်နှင့် ထိုမိုးကောင်းကင်ကို တည်ဆောက်တော်မူခြင်းကို သက်သေထူတော်မူသည်" ဟူ၍လည်းကောင်း ဖွင့်ဆိုကြသည်။

(၂) "အိလ်ဟာမ်" ဟူသည် စိတ်နှလုံးအတွင်းသို့ ထည့်သွင်းပေးခြင်းကိုဆိုသည်။ ဤအာယတ်တော်တွင် လူသားအား အကောင်းနှင့်အဆိုးကို 'အိလ်ဟာမ်' ပြုတော်မူခြင်း ဟူသည် လူသားအား အကောင်းနှင့်အဆိုးကို အသိပေးခြင်း၊ အကောင်းနှင့်အဆိုးကို ရွေးချယ်ပြုစွမ်းနိုင်ရန် စွမ်းရည်ပေးခြင်းကို ဆိုလိုသည်။

ရှင်းလင်းပြီးအံ့-အလ္လာဟ်အရှင်မြတ်သည် ဦးစွာပထမလူသားအား ဖြူစင်သော အသိဉာဏ်၊ မှန်ကန်သောသဘာဝကိုချီးမြှင့်၍ အကောင်းနှင့်အဆိုးကို အကျဉ်းအားဖြင့် သိစေတော်မူသည်။ ထို့နောက် တမန်တော်များမှတဆင့် အကောင်းနှင့်အဆိုးကို အကျယ်တဝင့် အသေးစိတ် သိစေတော်မူသည်။ ➤➤

# အသေးအဖွဲ ကဏ္ဍ



ဤကဏ္ဍသည် "မာအူန်" အသေးအဖွဲ အကြောင်း ပါဝင်သောကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၇)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

اَرَءَيْتَ الَّذِىْ يُكَذِّبُ بِالدِّيْنِ ①

၁။ အသင်သည် အစားပေးခြင်း(၏နေ့)ကို မဟုတ်မမှန်ဟူ၍ ငြင်းပယ်သောသူအား မမြင်ခဲ့လေသလော။

فَذٰلِكَ الَّذِىْ يَدُعُّ الْيَتِيْمَ ②

၂။ ထိုသူပင် ဘမဲ့ကလေးသူငယ်အား တွန်းထုတ်သောသူဖြစ်၏။

---

➤➤ တတ်စွမ်းနိုင်သမျှ ကျေးဇူးတုံ့ပြန်ရာသည်။ ကျေးဇူးမကန်းရာ။

**"ကုရိုက်ရှ်"**

"ကုရိုက်ရှ်"သည် အာရေဗျပြည်ရှိမျိုးနွယ်များတွင် အမွန်ရည်ဆုံး အကျော်ကြားဆုံး မျိုးနွယ်တစ်ခု၏ အမည်ဖြစ်သည်။ ထိုမျိုးနွယ်၏မျိုးနွယ်စုတစ်ခုမှာ "ဗနီဟာရှင်မ်" ဟာရှင်မ်၏မျိုးနွယ်စုဖြစ်သည်။ တမန်တော်မြတ် မုဟမ္မဒ်(ဆွလ္လလ္လာဟု အလိုင်ဟိဝစလ္လမ်)သည် "ဗနီဟာရှင်မ်" မျိုးနွယ်စုမှပင် ဖြစ်တော်မူ၏။

တမန်တော်မြတ်၏ဘိုးဘေးများတွင် ဖိဟ်ရ်အိုဗ်နုမာလိက်လည်း တစ်ဦးပါဝင်၏။ ဖိဟ်ရ်၏ ဘွဲ့နာမည်မှာ "ကုရိုက်ရှ်" ဟူ၍ဖြစ်၏။ ဤမျိုးနွယ်သည် ထိုသည့်ဘွဲ့နာမည်ဖြင့်ပင် ကျော်ကြားလာခဲ့ပေသည်။ ကြည့်-အိဗ်နုဟိရှာမ်။

ကုရိုက်ရှ်မျိုးနွယ်သည် ကအ်ဗဟ်ကျောင်းတော်၏ ဂေါပကများလည်း ဖြစ်ခဲ့ကြသည်။ ကူးသန်းရောင်းဝယ်ရေးအတွက် အလွန်ဝေးလံသော တိုင်းပြည်များသို့ ခရီးထွက်လေ့ရှိခဲ့ကြပေသည်။ ရောင်းဝယ်ဖောက်ကားရာတွင်လည်း အလွန်ရိုးသား ဖြောင့်မြတ်တည်ကြည် သန့်ရှင်းပေပြစ်ခဲ့ကြပေသည်။ ထို့ပြင်တဝ ကုရိုက်ရှ် မျိုးနွယ်ဝင်များသည် မိမိတို့ခေတ်တွင် တိုင်းပြည်လူမျိုးနှင့် ယဉ်ကျေးမှုကို ထိန်းသိမ်းထားနိုင်ခဲ့ကြသော အကြီးအကဲများလည်း ဖြစ်ခဲ့ကြပေသည်။

وَلَا يَحُضُّ عَلَىٰ طَعَامِ الْمِسْكِينِ ﴿٣﴾

၃။ ၎င်းပြင် ထိုသူသည် သူဆင်းရဲတို့အား အစာ အစာကျွေးမွေးရန် တိုက်တွန်း နှိုးဆော်ခြင်းလည်း မပြုပေ။ [၁]

فَوَيْلٌ لِّلْمُصَلِّينَ ﴿٤﴾

၄။ သို့ဖြစ်ပေရာ (အကြင်သို့သော) ဆွလာတ် ဝတ်ပြုသူတို့၌ အကြီးအကျယ် ပျက်စီးခြင်းသည်ရှိ၏။

الَّذِينَ هُمْ عَن صَلَاتِهِمْ سَاهُونَ ﴿٥﴾

၅။ ထိုသို့သောသူတို့သည် မိမိတို့၏ ဆွလာတ် ဝတ်ပြုမှု(တာဝန်)ကိုပင် မေ့လျော့ထားကြကုန်၏။

الَّذِينَ هُمْ يُرَاءُونَ ﴿٦﴾

၆။ အကြင်(ဆွလာတ်ဝတ်ပြု)သူတို့သည် (မိမိ တို့၏ ဆွလာတ်ဝတ်ပြုမှုစသော ကောင်းမှုများကို) ပြစားကြကုန်၏။ [၂]

---

(၁) ဤအာယတ်တော်တွင်ပါရှိသော "ဒီန်" ဟူသောပုဒ်၏ အလိုသဘောမှာ အချို့၏ယူဆချက်အရ သာသနာပင် ဖြစ်၏။ ဆိုလိုသည်ကား အကြင်သူများသည် မှန်ကန်သော အစ္စလာမ်သာသနာကိုပင် မဟုတ်မမှန်ဟု ဆိုကြ၏။ ၎င်းတို့၌ ဘာသာ၊ သာသနာသည် အချည်းနှီး အလဟဿဖြစ်သော အရာသာဖြစ်၏။ ထိုသို့သော ဘာသာမဲ့များသည် တရားသဖြင့် အဆုံးအဖြတ် ပေးခြင်းခံကြရမည်မဟုတ်၊ အလ္လာဟ်အရှင်မြတ်ထံတော်မှ ကောင်းကျိုးဆိုးပြစ်များ ခံကြရမည်မဟုတ်ဟူ၍ ထင်မှတ်နေကြလေသလော။

"ဒီန်" ဟူသောပုဒ်သည် အစားပေးခြင်း၊ အနက်လည်း ပေးသည်။ ဤသည်ကိုထောက်၍ အချို့က ဤအာယတ်တော်တွင်ပါရှိသော "ဒီန်"ဟူသောပုဒ်ကို အစားပေးသည့်နေ့ဟူ၍ အနက်ဖွင့်ကြသည်။

ကြည့်-ထာနဝီ၊ မာဂျိဒီ။

မည်သို့ပင်ရှိစေ၊ ထိုသို့မှန်ကန်သော သာသနာကို မယုံကြည်သော၊ တစ်နည်း-အစားပေးမည့်နေ့ကို မယုံကြည်သော ဘာသာမဲ့တို့သည် လူအချင်းချင်း စောင့်သိရှိသေအပ်သော တာဝန်များကို မထောက်ထားကြပေ။ ခိုကိုးရာမဲ့ဖြစ်နေကြရရှာသော မိဘမဲ့ကလေးများကို စာနာထောက်ထား သနားကြင်နာကြရမည့်အစား ရိုင်းပြ ခက်ထန် မာကျောစွာ ဆက်ဆံကြပေသည်။ စားရမဲ့မဲ့ သောက်ရမဲ့မဲ့ ဖြစ်နေကြရှာသော ဆင်းရဲနွမ်းပါးသူများအား မိမိတို့ကိုယ်တိုင်က ကူညီထောက်ပံ့ရန်ဝေးစွ၊ သူတပါးတို့အားလည်း မတိုက်တွန်းကြပေ။ မိမိကိုယ်တိုင်လည်း သူတပါးအကျိုးကို မဆောင်ကြဉ်းကြပေ။ အခြားသူများကိုလည်း မတိုက်တွန်းကြပေ။

ခိုကိုးရာမဲ့ကလေးများအား သနားကြင်နာရမည့်အကြောင်းနှင့် ဆင်းရဲနွမ်းပါးသူများအား ကူညီ ထောက်ပံ့ရမည့်အကြောင်းသည် ဘာသာတိုင်းလိုလိုမှာပင် ပါရှိသည်။ ဤသည့်အချက်ကို ကမ္ဘာ့ ပညာရှင် အသီးသီးတို့ကလည်း ခြွင်းချက်မရှိ ထောက်ခံကြသည်။ သို့ဖြစ်ပါလျက် အကြင်သူတစ်ဦးသည် လူအချင်းချင်း ရှိအပ်သည့် အခြေခံ ကိုယ်ကျင့်တရား ဂုဏ်သိက္ခာနှင့်ပင် ကင်းမဲ့နေပါသော် ထိုသို့သောသူသည် လူမဟုတ်၊ တိရစ္ဆာန်ပင်ဖြစ်ပေမည်။ လူ့သိက္ခာနှင့် ကင်းကွာနေသောသူများသည် သာသနာကို အသို့လျှင် လေးစားအံ့နည်း။ အလ္လာဟ်အရှင်မြတ်အား အသို့လျှင် ယုံကြည်မြတ်နိုးကြကုန်အံ့။

وَيَمْنَعُونَ الْمَاعُونَ ﴿٧﴾

၇။ ထိုမှတပါး ၎င်းတို့သည် အသေးအဖွဲ့ အသုံးအဆောင် ပစ္စည်းများကိုပင် (သူတစ်ပါးတို့အား ငှားရမ်းခြင်း မပြုရန်) ပိတ်ပင် တားမြစ်ကြကုန်သတည်း။ [၁]

---

(၂) အချို့သူများသည် အမြင်အားဖြင့်ကား ဆွလာတ်ပြုကြ၏။သို့ရာတွင် ဆွလာတ်ဝတ်ပြုရာ၌ ငါတို့သည် မည်သည့်အရှင်မြတ်အား ရည်စူးကြသည်။ ဆွလာတ်၏ ရည်ရွယ်ချက်မှာ အဘယ်အရာဖြစ်သည်။ ဆွလာတ်သည် အဘယ်မျှအရေးကြီးသည်။ အဘယ်မျှ ရိုသေလေးစားစွာ ဆောက်တည်ရာသည်များကိုမူ မစဉ်းစားမဆင်ခြင်ကြပေ။ ၎င်းတို့သည် ဆွာလတ်ဝတ်ပြုမှုကို မလေးစားကြပေ။ တစ်ခါတစ်ရံ စိတ်လိုက ဆွလာတ်ဝတ်ပြုကြ၏။ တစ်ခါတစ်ရံ စိတ်မလိုက ဆွလာတ်ဝတ်မပြုဘဲနေကြ၏။ တစ်ခါတစ်ရံ လောကီရေး စကားများတွင် အချိန်ဖြုန်းတီးပြီး ဆွလာတ်အချိန်ကို ကျဉ်းမြောင်းစေကြ၏။

ထိုသို့သောသူများသည် အမြင်အားဖြင့် ဆွလာတ်ဝတ်ပြုကြသော်လည်း ၎င်းတို့၏ ဆွာလာတ်ဝတ်ပြုခြင်းမှာ ပြစားရန်အတွက် သာမန် ဝတ်ကျေဝတ်ကုန်သဘောမျိုးဖြင့် ထိုင်ထပြုခြင်းမျှသာ ဖြစ်၏။ ငါတို့သည် မည်သည့် အရှင်မြတ်၏ရှေ့တော်၌ ရပ်နေကြသည်ကိုပင် သတိမမူကြပေ။ အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့၏ ထိုင်ထ ဦးညွတ် ဦးချခြင်းကိုသာ ကြည့်တော်မူသည်။ ၎င်းတို့၏စိတ်နှလုံးများနှင့် ၎င်းတို့၏စေတနာများကို ကြည့်တော်မမူဟူ၍များ ထင်မှတ်နေကြလေသလော။ ဆွလာတ်ဝတ်ပြုရာ၌ ဤသို့ အပေါ့တဆလုပ်သူများ၊ ဝတ်ကျေဝတ်ကုန် ဆွလာတ်ဝတ်ပြုသူများ၊ စိတ်စေတနာမပါ၊ ပေါ့တန်စွာလူမြင်ရုံသာ ဆွလာတ်ဝတ်ပြုသူများ အားလုံးတို့သည် ဤအာယတ်တော်တွင် အကျုံးဝင်ကြပေသည်။ ထိုသို့သောသူများသည် ပျက်စီးကြရမည်သာတည်း။

(၁) ထိုသို့သောသူများသည် ဇကာတ်ပေးရန်နှင့် အခြားအလှူဒါနများ ပြုလုပ်ရန်ဝေးစွ၊ အိမ်နီးချင်းများ တစ်အိမ်နှင့်တစ်အိမ်၊ တစ်ဦးနှင့်တစ်ဦး ငှားရမ်းလေ့ရှိသော၊ ပေးလေ့ရှိသော သာမန်အသုံးအဆောင်များဖြစ်သည့် ရေပုံး၊ ကြိုး၊ အိုး၊ ခွက်၊ ပန်းကန်၊ ပုဆိန်၊ အပ်ချည်၊ ဆား၊ မီးခြစ်စသည့် အသေးအဖွဲ့များကိုပင် မပေးလိုကြပေ။ မငှားရမ်းလိုကြပေ။ သာမန် အသေးအဖွဲ့များတွင်ပင် ဤရွေ့ဤမျှ စေးနှဲနေကြလျှင်၊ တွန့်တိုနေကြလျှင်၊ ပြစားရန်အတွက် ဆွလာတ်ပြုခြင်းဖြင့် အသို့လျှင် အကျိုးရှိအံ့နည်း။

လူတစ်ယောက်သည် မိမိကိုယ်ကို "မုဆွလ္လိ" - "နမာဇီ" ဟု ဆို၏။ ခေါ်တွင်စေ၏။ သို့ရာတွင် အလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်၍ကား အနည်းငယ်စိုးစဉ်းမျှ စေတနာသဒ္ဓါတရားမရှိ။ ထိုအရှင်မြတ် ဖန်ဆင်းထားတော်မူသော လူသားတို့အား မစာနာ မထောက်ထား မလေးစားပေ။ သို့ဖြစ်ရာ ထိုသို့သောသူ၏ အစ္စလာမ်သည် အဘယ်မှာလျှင် အဓိပ္ပာယ်ရှိအံ့နည်း။ ထိုသို့သောသူ၏ ဆွလာတ်သည် အသို့လျှင် အကျိုးသက်ရောက်အံ့နည်း။ အချည်းနှီးသာဖြစ်ချိမ့်မည်။ ဤသို့သော ပြစားမှု၊ စိတ်စေတနာ မဖြူစင်မှု၊ လူစိတ်ကင်းမှု၊ ဆင်းရဲနွမ်းပါးသူတို့အား မစာနာမထောက်ထား၊ မလေးစားမှု စိတ်ဓာတ်ခဲယဉ်းမှု၊ ညံ့ဖျင်းမှု၊ စေးနှဲမှုများသည် အလ္လာဟ်အရှင်မြတ်၏ တရားတော်နှင့် ကိယာမတ်နေ့ကို မယုံကြည်သော ဓမ္မန္တရာယ်များ၏ အကျင့်အမူ သာဖြစ်ရာချေသည်။

# ကောင်းခြင်းအမြောက်အမြားကဏ္ဍ




ဤကဏ္ဍသည် "အလ်ကောင်ဆရ်" ကောင်းခြင်းအမြောက်အမြား ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၃)ပါး ပါရှိ၏။

بِسْمِ اللهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

إِنَّآ أَعْطَيْنٰكَ الْكَوْثَرَ ①

၁။ (အို-နဗီတမန်တော်) စေကန်စင်စစ် ငါအရှင်မြတ်သည် အသင့်အား များပြားလှစွာသော ကောင်းခြင်းများကို ချီးမြှင့်ပေးသနားတော်မူခဲ့၏။ [၁]

فَصَلِّ لِرَبِّكَ وَانْحَرْ ②

၂။ သို့ဖြစ်ပေရာ အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား ရည်သန်၍ ဆွလာတ် ဝတ်ပြုပါလေ။ ထိုမှတပါး အသင်သည် (ထိုအရှင်မြတ်အား ရည်သန်၍ သားကောင်ကို) ကုရ်ဗာနီပြုပါလေ။ [၂]

---

(၁) **"ကောင်ဆရ်"။**

"ကောင်ဆရ်" ဟူသောပုဒ်၏ အဘိဓာန်အနက်မှာ 'ကောင်းခြင်းအမြောက်အမြား' ဟူ၍ဖြစ်၏။ မုဖတ်စ်စိရ်များသည် ယင်းပုဒ်ကို-

(၁) ဂျန္နတ်ရှိ "ကောင်ဆရ်" ရေကန်တော်ဟူ၍လည်းကောင်း၊

(၂) ကုရ်အာန်ကျမ်းမြတ်ဟူ၍လည်းကောင်း

(၃) တမန်တော်ဖြစ်ခြင်းကျမ်းဂန်၊ မှန်ကန်သောအသိဉာဏ်ဟူ၍လည်းကောင်း၊

(၄) တပည့်နောက်လိုက် များပြားခြင်းဟူ၍ လည်းကောင်း၊

(၅) ကောင်းခြင်းအမြောက်အမြားဟူ၍လည်းကောင်း၊

(၆) တမန်တော်မြတ်အား အလ္လာဟ်အရှင်မြတ်က သတ္တဝါအားလုံးတို့ထက် ပိုမိုထူးကဲစွာ ချီးမြှင့်ထားတော်မူသည့် တမန်တော်အဖြစ်၊ ကျမ်းဂန်၊ မှန်ကန်သော အသိဉာဏ်၊ ပညာ (ရှုဖာအတ်) အသနားခံပေးခွင့်၊ 'ကောင်ဆရ်' ရေကန်တော်၊ (မကာမ်မတ်မူဒ်) ဂုဏ်ပြုရာဌာန၊ နောက်လိုက်တပည့် များပြားခြင်း၊ အစ္စလာမ် သာသနာနှင့် ထိုသည့်သာသနာကို အခြား သာသနာအားလုံးတို့ထက် ထင်ပေါ်ကျော်ကြားစေခြင်း၊ သိသာစေခြင်း၊ တမန်တော်မြတ်၏လက်ထက်တော်တွင်လည်းကောင်း၊ ➤➤

إِنَّ شَانِئَكَ هُوَ الْأَبْتَرُ ③

၃။ ဧကန်မလွဲ အသင်၏ရန်သူသည်သာလျှင် အညွန့်တုံးသူ ဖြစ်ချေသတည်း။ [၁]

---

➤➤ တမန်တော်မြတ်၏နောက် ကိယာမတ်တိုင် ရန်သူများအား အောင်နိုင်ခြင်းစသည့် ထူးကဲမြင့်မြတ်မြားမြောင်လှသော ဂုဏ်ကျေးဇူးတော်များဟူ၍လည်းကောင်း၊ အနက်အမျိုးမျိုး ဖွင့်ဆိုကြပေသည်။ ကြည့်-ခါဇင်န်။

## ⑵ ကုရ်ဗာနီ။

ကျေးဇူးတော်ကြီးမားထူးကဲ မြင့်မြတ်သည်နှင့်အမျှ ကျေးဇူးတုံ့ပြန်မှုသည်လည်း ကြီးမားရမည်သာဖြစ်သည်။ ထို့အတွက် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်သည် မိမိ၏ စိတ်ဖြင့်လည်းကောင်း၊ ကိုယ်ခန္ဓာဖြင့်လည်းကောင်း၊ ဥစ္စာပစ္စည်းဖြင့်လည်းကောင်း အလ္လာဟ်အရှင်မြတ်အား အမြဲတစေ ဝတ်ပြုလျက်ရှိနေရမည့်အကြောင်း မိန့်ကြားထားတော်မူခြင်း ဖြစ်သည်။

စိတ်နှင့်ဆိုင်သော်၊ ကိုယ်ခန္ဓာနှင့်ဆိုင်သော ဝတ်ပြုမှုများတွင် အကြီးဆုံး ဝတ်ပြုမှုမှာ "ဆွလာတ်" ပင်ဖြစ်သည်။ ဥစ္စာပစ္စည်းနှင့်ဆိုင်သော ဝတ်ပြုမှုများတွင် ကုရ်ဗာနီ ပြုလုပ်ခြင်းသည် အလွန် ထူးခြားသော ဝတ်ပြုမှုတစ်ရပ်ပင် ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် တမန်တော်အီဗ်ရာဟီမ်နှင့် သားတော် အစ္စမာအီလ်၏ အတ္ထုပ္ပတ္တိကို ကြည့်ရှုခြင်းအားဖြင့် ကုရ်ဗာနီ၏ မူလအစအခြေအမြစ်မှာ အသက်ဇီဝိန်ကို ကုရ်ဗာနီပြုခြင်းပင် ဖြစ်ခဲ့ပေသည်။ ထို့နောက်သော်မှ အချို့အကျိုးအကြောင်းများကိုထောက်ရှုကာ အသက်ကို ကုရ်ဗာနီပြုလုပ်ရမည့်အစား သားကောင်များကို ကုရ်ဗာနီပြုလုပ်ရန် သတ်မှတ်တော်မူလိုက်ခြင်း ဖြစ်ပေသည်။ ထို့အတွက်ကြောင့်ပင် ကုရ်အာန်ကျမ်းမြတ် (၆း၁၆၃-၁၆၄)တွင်လည်း ဆွလာတ်နှင့် ကုရ်ဗာနီကို ဒွန်တွဲ မိန့်ဆိုထားတော်မူသည်။

⑴ အချို့ကာဖိရ်များက တမန်တော်မြတ်နှင့်ပတ်သက်၍ "ဤပုဂ္ဂိုလ်၌ သားယောကျ်ား တစ်ဦးတစ်ယောက်မျှ မရှိ၊ ဤပုဂ္ဂိုလ်၏အမည်သည် ဤပုဂ္ဂိုလ် အသက်ထင်ရှား ရှိနေစဉ်၌သာ တည်ရှိနေပေမည်။ ဤပုဂ္ဂိုလ်သေဆုံးပြီးနောက် ၎င်း၏အမည်ကို မည်သူတစ်ဦးတစ်ယောက်မျှ ထုတ်ဖော်သုံးစွဲမည်မဟုတ်၊ ဤပုဂ္ဂိုလ်သေဆုံးသည်နှင့်အမျှ ၎င်း၏အမည်သည်လည်း တိမ်မြုပ် သွားပေမည်" ဟု မမှန်မကန် ပြောဆိုခဲ့ကြပေသည်။ အရဗ်စာပေ ဝေါဟာရတွင် ထိုသို့ ကျောထောက်နောက်ခံ အမွေဆက်ခံသူမရှိသော ပုဂ္ဂိုလ်မျိုးအား "အဗ်တရ်" ဟူ၍ ခေါ်ဝေါ် သုံးစွဲလေ့ ရှိကြသည်။

"အဗ်တရ်"၏ မူရင်းအနက်မှာ အမြီးပြတ်ဟူ၍ ဖြစ်သည်။ ဆိုလိုသည်ကား ဤပုဂ္ဂိုလ် အမြီးပြတ်သွားပြီ၊ အမွေဆက်ခံသူ မရှိပြီ၊ အဆက်ပြတ်ပြီ၊ အညွန့်တုံးပြီ၊ အစတုံးပြီဟူ၍ဖြစ်သည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်တွင် တုံ့ပြန်ချေပ ဖြေရှင်းထားတော်မူသည်မှာ တမန်တော်မြတ်သည် "အဗ်တရ်" အလျင်းမဟုတ်၊ အစတုံး၊ အညွန့်တုံးမဟုတ်၊ တမန်တော်မြတ် အားယင်းသို့ ပြောဆိုသူများသည်သာလျှင် အစတုံးသူများဖြစ်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် တမန်တော်မြတ်အား "ကောင်ဆရ်" ကို ချီးမြှင့်ထားတော် မူသည်။ ကောင်းခြင်းအမြောက်အမြားကို ပေးသနားထားတော်မူသည်။ သို့ဖြစ်ရာ တမန်တော်မြတ်၏ ကောင်းချီးသတင်းများသည် အမြဲထာဝစဉ် ပေါ်လွင်ထင်ရှား ကျော်ကြား၍နေမည်သာ ဖြစ်သည်။ တမန်တော်မြတ်အား "အဗ်တရ်"ဟူ၍ ဆိုခြင်းမှာ လွန်စွာမိုက်မဲခြင်းသာဖြစ်သည်။ အမှန်မှာ ထိုသို့သော တမန်တော်မြတ်အား ➤➤

---

➤➤ မလိုမုန်းတီး၍ မိမိနောက်တွင် မိမိနှင့်ပတ်သက်၍ တစ်စုံတစ်ရာ အကောင်းပြောဆိုမည့်သူ တစ်ဦးတစ်ယောက်မျှ မကျန်ရစ်ခဲ့သူ၊ မိမိနောက်တွင် သူငါအများ အမှတ်တရ ထုတ်ဖော်ပြောဆိုနိုင်ရန် ကောင်းမှုတစ်စုံတစ်ရာ မပြုခဲ့သူသာလျှင် "အဗ်တရ်" ဖြစ်ပေသည်။

တမန်တော်မြတ် ကွယ်လွန်သေဆုံးတော်မူခဲ့သည်မှာ ယခုဆိုသော် နှစ်ပေါင်း (၁၄၀၀) ကျော်လာခဲ့ပေပြီ။ ယင်းသို့ နှစ်ပရိစ္ဆေဒ ကြာညောင်းခဲ့ပြီဖြစ်သော်လည်း တမန်တော်မြတ်၏အမည်နာမသည် မတိမ်မြုပ်သည်သာမက တိုး၍တိုး၍သာ ကျော်ကြားထင်ရှားလျက် ရှိပေသည်။

တမန်တော်မြတ်၏ ဂုဏ်သတင်းမှာ တစ်နေ့ထက် တစ်နေ့ တိုးတက်ပျံ့နှံ့သင်းကြိုင်လျက်သာ ရှိပေသည်။ တမန်တော်မြတ်အား ယုံကြည်မြတ်နိုးသော နောက်လိုက် တပည့်သားတို့သည်လည်း ကမ္ဘာအရပ်ရပ်တွင် တစ်နေ့တစ်ခြား တိုးပွားများပြားလျက်သာ ရှိကြပေသည်။ တမန်တော်မြတ်၏ ဆွေတော်မျိုးတော်များမှာလည်း မြောက်မြားစွာသော နိုင်ငံများတွင် ရောက်ရှိပျံ့နှံ့လျက် ရှိကြပေသည်။

တမန်တော်မြတ် ယူဆောင်လာတော်မူခဲ့သော သာသနာတော်နှင့် တမန်တော်မြတ် စံပြအဖြစ်ကျင့်မူဆောက်တည်ထား တော်မူခဲ့သော လမ်းစဉ်များသည်လည်း ကမ္ဘာတစ်ဝန်း၌ နေရောင် လရောင်ပမာ ထွန်းတောက်လျက် ရှိပေသည်။ ထောင်ပေါင်းများစွာသော လူသားတို့သည်လည်း တမန်တော်မြတ်အား ချစ်ကြည် မြတ်နိုးလှသဖြင့် တမန်တော်မြတ်အား အခါခပ်သိမ်း အောက်မေ့တသ သတိရလျက်ရှိကြပေသည်။ မေတ္တာပို့သလျက် ရှိကြပေသည်။ တမန်တော်မြတ်၏ အံ့မဆုံးသည့် ကမ္ဘာ့အကျိုးပြုလုပ်ငန်းများကို တမန်တော်မြတ်အား ယုံကြည်သူများသာမက မယုံကြည်သူ များကပင်လျှင် ဝန်ခံထုတ်ဖော် ချီးမွမ်းလျက်ရှိကြပေသည်။

ထို့ပြင်တဝ နောင်တမလွန်ဘဝ၌ တမန်တော်မြတ်သည် "မကာမ်မဟ်မူဒ်" ကမ္ဘာ့ဂုဏ်ပြုရာဌာနတွင် ကမ္ဘာတစ်ဝန်း၏ ဂုဏ်ပြုခြင်းကိုလည်း ခံတော်မူရဦးမည်။ ဤသို့ ဤဘဝ၊ ထိုဘဝ နှစ်ဌာနလုံး၌ အမြဲထာဝစဉ် ကောင်းသတင်းကြိုင်လျက် ရှိတော်မူသော တမန်တော်မြတ်သည် အသို့လျှင် "အဗ်တရ်" (အညွန့်တုံး၊ အစတုံး) ဖြစ်တော်မူနိုင်အံ့နည်း။

ထိုသို့သော တမန်တော်မြတ်အား မပြောအပ်၊ မဆိုအပ် "အဗ်တရ်"ဟု မရိုမသေ မလေးမစား၊ မခန့်မညား ပြောဆိုခဲ့သူများမှာမူ ယနေ့ကမ္ဘာတွင် အညွန့်တုံး၊ အစတုံးဖြစ်ကာ အပျောက်ကြီး ပျောက်လျက်၊ အတိမ်ကောကြီး တိမ်ကောလျက်ရှိပေသည်။ ၎င်း၏အမည်ကို ကောင်းမြတ်သောစေတနာဖြင့် ထုတ်ဖော်ပြောဆိုမည့်သူ တစ်ဦးတစ်ယောက်မျှပင် မရှိချေပြီ။ ထို့အတူ နောက်နောင်တွင် တမန်တော်မြတ်အား ယင်းသို့ မရိုမသေ၊ မလေးမစား၊ မခန့်မညား ပြုလုပ်ပြောဆိုသူများသည်လည်း ထိုသူယုတ်ကဲ့သို့ပင် အညွန့်တုံး၊ အစတုံးဖြစ်ကြရမည်သာတည်း။

# မယုံကြည်သူများကဏ္ဍ



ဤကဏ္ဍသည် (အလ်ကာဖိရူန) မယုံကြည်သူများ ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၆)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ۝

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

قُلْ يٰۤاَيُّهَا الْكٰفِرُوْنَ ۝١

၁။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) ပြောကြားပါလေ၊ အို-"ကာဖိရ်" ငြင်းပယ်သူအပေါင်းတို့။

لَاۤ اَعْبُدُ مَا تَعْبُدُوْنَ ۝٢

၂။ ငါသည် အသင်တို့ ကိုးကွယ်လျက်ရှိကြသော ကိုးကွယ်ရာများကို ကိုးကွယ် ဆည်းကပ်သည် မဟုတ်ပေ။

وَلَاۤ اَنْتُمْ عٰبِدُوْنَ مَاۤ اَعْبُدُ ۝٣

၃။ ၎င်းပြင် အသင်တို့သည်လည်း ငါ ကိုးကွယ်လျက်ရှိသော ကိုးကွယ်ရာကို ကိုးကွယ်ဆည်းကပ်ကြသူများ မဟုတ်ပေ။ [၁]

---

① **တောင်ဟီဒ်နှင့် ရှိရ်က်၏ချစ်ကြည်မှု အလျင်းမဖြစ်နိုင်။**

ကုရိုက်ရှ်မျိုးနွယ်၏ အချို့အကြီးအကဲများက တမန်တော်မြတ်အား "အသင်သည် တစ်နှစ် ကျွန်ုပ်တို့၏ ကိုးကွယ်ရာများကို ဆည်းကပ်ကိုးကွယ်ပါလေ။ ဒုတိယနှစ်တွင် ကျွန်ုပ်တို့သည် အသင်၏ကိုးကွယ်ရာ အရှင်သခင်အား ဆည်းကပ်ကိုးကွယ်ကြပါမည်။ ဤသို့ဖြင့် အုပ်စုနှစ်ခုလုံးသည် အုပ်စုအသီးသီး၏ ဘာသာအယူဝါဒမှ နည်းများမဆို အကျိုးခံစားကြရမည်ဖြစ်သည်"ဟု ချစ်ကြည်ရေးစကား ပြောဆိုလာကြရာ၊ တမန်တော်မြတ်က "ဤသို့ အလျင်းမဖြစ်နိုင်၊ အကျွန်ုပ်သည် အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက်၍ အခြားတစ်စုံတစ်ရာကို တစက္ကန့်မျှပင်လျှင် ယှဉ်တွဲ မကိုးကွယ်နိုင်ပါ"ဟု ဖြေကြားတော်မူလိုက်လေသည်။

ထိုအခါ ကုရိုက်ရှ်မျိုးနွယ်၏ အကြီးအကဲများက "သို့ဖြစ်လျှင်၊ အသင်သည် ကျွန်ုပ်တို့၏ အချို့ ကိုးကွယ်ရာများကို လက်ခံပါလေ။ (ထိုကိုးကွယ်ရာများကို ကဲ့ရဲ့ပြစ်တင် ပြောဆိုခြင်း မပြုပါလေနှင့်)။ ကျွန်ုပ်တို့သည် အသင့်အား ထောက်ခံယုံကြည်ပါမည်။ အသင်၏ ကိုးကွယ်ရာ အရှင်သခင်ကိုလည်း ဆည်းကပ်ကိုးကွယ်ကြပါမည်"ဟု တဖန် ပြောဆိုကြပြန်လေသည်။ ထိုအခါ ဤကဏ္ဍကျရောက်လာခဲ့လေသည်၊ ➤➤

وَلَآ أَنَا۠ عَابِدٌ مَّا عَبَدتُّمْ ﴿٤﴾

၄။ ထို့ပြင် ငါသည် အသင်တို့ ကိုးကွယ်ကြကုန်သော ကိုးကွယ်ရာများကို ကိုးကွယ်ဆည်းကပ်မည့်သူ မဟုတ်ပေ။

وَلَآ أَنتُمْ عَٰبِدُونَ مَآ أَعْبُدُ ﴿٥﴾

၅။ ထိုနည်းတူစွာ အသင်တို့သည်လည်း ငါ ကိုးကွယ်သော ကိုးကွယ်ရာကို ကိုးကွယ်ဆည်းကပ်ကြမည့်သူများ မဟုတ်ပေ။

لَكُمْ دِينُكُمْ وَلِىَ دِينِ ﴿٦﴾

၆။ (စင်စစ်မှာကား) အသင်တို့အဖို့ အသင်တို့၏ အကျိုး၊ လမ်းစဉ်၊ သာသနာဖြစ်၍ ငါ၏အဖို့ ငါ၏ အကျိုး၊ လမ်းစဉ်၊ သာသနာပင်ဖြစ်ပေသည်။ [၁]

---

➤➤ တမန်တော်မြတ်သည်လည်း ကျောင်းတော်တွင်းသို့ သွားရောက်၍ အသင့်ရောက်ရှိနေသော ကုရိုက်ရှ်မျိုးနွယ် အကြီးအကဲတို့အား ဤကဏ္ဍကို ရွတ်ဖတ်ပြတော်မူလိုက်လေသည်။

ဤကဏ္ဍ၏ အချုပ်သဘောမှာ- တောင်ဟီဒ်နှင့်ရှိရ်က်သည် ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်သည်။ အဘယ်သောအခါ၌မျှ၊ မည်သည့်နည်းနှင့်မျှ ညှိနှိုင်းစေ့စပ်ချစ်ကြည်မှုပြုရန် အလျှင်းမဖြစ်နိုင်။ ဤကဏ္ဍတွင် ဤသည့်အကြောင်းကိုပင် အတိအလင်း ကြေညာထားတော်မူသည်။ တမန်တော်များ၏ အဓိကတာဝန်မှာ တောင်ဟီဒ်ကို ပေါ်လွင်ထင်ရှားစေရန်နှင့် ရှိရ်က်ကို အခြေအမြစ်မှ တော်လှန်ချေမှုန်းရန်ပင် ဖြစ်သည်။ သို့ဖြစ်ရာ တမန်တော်မြတ်သည် ကုရိုက်ရှ်မျိုးနွယ်အကြီးအကဲများ ပြောဆိုလာသော တောင်ဟီဒ်နှင့်ရှိရ်က်၏ ချစ်ကြည်ရေးစကားကို အသို့လျှင် လက်ခံတော်မူနိုင်အံ့နည်း။ အမှန်မှာ အလ္လာဟ်အရှင်မြတ်သာလျှင် ဆည်းကပ်ကိုးကွယ်ရာ အရှင်သခင် ဖြစ်တော်မူသည်။ ဤတွင် အကွဲအပြားမရှိ။ မုရှိရစ်က်များသည်ပင်လျှင် ဤသည့်အချက်ကို လက်ခံကြပေသည်။ ၎င်းတို့ကိုယ်တိုင်ကပင် "ရုပ်တုများကို ကျွန်ုပ်တို့ ဆည်းကပ်ကိုးကွယ်ခြင်း၏ အကြောင်းမှာ ယင်းရုပ်တုများသည် ကျွန်ုပ်တို့အား အလ္လာဟ်အရှင်မြတ်၏ထံတော်ပါးသို့ နီးကပ်ပေးစေရန်အတွက်သာလျှင်ဖြစ်သည်" ဟု ဖွင့်ဟပြောဆိုကြပေသည်။ ကြည့်-ကုရ်အာန် (၃၉း၃)။

ကွဲပြားမှုမှာ အလ္လာဟ်အရှင်မြတ်မှတပါး အခြားအရာများကို ဆည်းကပ်ကိုးကွယ်ခြင်း၌သာ ရှိပေသည်။ သို့ဖြစ်ပေရာ ကုရိုက်ရှ်မျိုးနွယ်၏ အကြီးအကဲများ တင်ပြသော ဘာသာအချင်းချင်း ညီညွတ်မှု၊ ချစ်ကြည်မှု၏ အချုပ်သဘောမှာ ကျွန်ုပ်တို့သည် မိမိတို့၏ကိုးကွယ်ရာများကို ယခင်အတိုင်း ဆက်လက်၍ အစဉ်တစိုက် ဆည်းကပ် ကိုးကွယ်လျက် ရှိကြမည်။ (ဝါ) အလ္လာဟ်အရှင်မြတ်ကိုလည်းကောင်း၊ ထိုအရှင်မြတ်မှတပါး အခြား ကိုးကွယ်ရာများကိုလည်းကောင်း၊ ဒွန်တွဲဆည်းကပ် ကိုးကွယ်လျက်ရှိကြမည်။ အသင် (တမန်တော်)သည် အလ္လာဟ်အရှင်မြတ် တပါးတည်းအား ဆည်းကပ်ကိုးကွယ်ခြင်းတည်းဟူသော တောင်ဟီဒ်တရားကို စွန့်ရမည်ဖြစ်သည်ဟူ၏။ ဤသည့်တောင်ဟီဒ်နှင့်ရှိရ်က်၏ ချစ်ကြည်ရေးစကားကို အလျှင်းလက်မခံကြောင်း ကြေညာရန်အတွက် ဤကဏ္ဍကျရောက်လာခဲ့ခြင်းဖြစ်သည်။

(၁) ဆိုလိုသည်ကား ကျွန်ုပ်သည် 'တောင်ဟီဒ်'ကို မစွန့်နိုင်။ အသင်တို့သည် 'ရှိရ်က်'ကို မစွန့်နိုင်။ ➤➤

# အကူအညီကဏ္ဍ




ဤကဏ္ဍသည် 'အနူတ်ဆွဲရ်' အကူအညီမည်၏။ မဒီနာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၃)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

إِذَا جَاءَ نَصْرُ اللّٰهِ وَالْفَتْحُ ①

၁။ (အို-နဗီတမန်တော်) အလ္လာဟ်အရှင်မြတ်၏ အကူအညီသည်လည်းကောင်း၊ အောင်နိုင်မှုသည်လည်းကောင်း၊ ရောက်ရှိခဲ့သောအခါ။

وَرَأَيْتَ النَّاسَ يَدْخُلُوْنَ فِيْ دِيْنِ اللّٰهِ أَفْوَاجًا ②

၂။ ၎င်းပြင် အသင်သည် လူတို့အား အလ္လာဟ်အရှင်မြတ်၏ "ဒီန်" သာသနာတော်၌ အသင်းလိုက်အဖွဲ့လိုက် ဝင်ရောက်လျက် ရှိကြသည်ကို တွေ့မြင်သောအခါ။ [၁]

فَسَبِّحْ بِحَمْدِ رَبِّكَ وَاسْتَغْفِرْهُ إِنَّهُ كَانَ تَوَّابًا ③

၃။ (ထိုအခါ) အသင်သည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ကို ချီးမွမ်းထောပနာပြုခြင်းအားဖြင့် (ထိုအရှင်မြတ်) စင်ကြယ်သန့်ရှင်းတော်မူကြောင်း မြွက်ဆိုပါလေ။ ထိုမှတပါး အသင်သည် ထိုအရှင်မြတ်အထံတော်၌ လွတ်ငြိမ်းချမ်းသာခွင့်ကို ပန်ကြားအသနားခံပါလေ။

---

(၁) ဤအာယတ်တော်တွင် အောင်နိုင်မှုသည် အာရေဗျပြည်နယ်၏ ဗဟိုချက်မမြို့တော်ဖြစ်သော မက္ကာမြို့တော်ကို တမန်တော်မြတ် ပြန်လည်အောင်နိုင်ခြင်းကို ဆိုလိုသည်။ များစွာသော အရပ်မျိုးနွယ်စုများသည် အစ္စလာမ်အတွင်း ဝင်ရောက်ရေးတွင် မက္ကာမြို့တော်လိုပင် စောင့်ကြည့်နေခဲ့ကြပေသည်။ မက္ကာမြို့တော်ကို ပြန်လည်မအောင်မြင်မီ အချိန်ပိုင်းတွင် အစ္စလာမ်အတွင်းသို့ အရပ်မျိုးနွယ်စုများမှ တစ်ဦးစီသာ ဝင်လေ့ရှိခဲ့ကြပေသည်။ မက္ကာမြို့တော်ကို ပြန်လည်အောင်နိုင်ပြီးသည့် နောက်ပိုင်းတွင်မူ အရပ်မျိုးနွယ်စုများသည် အုပ်စုလိုက် အုပ်စုလိုက် အစ္စလာမ်အတွင်းသို့ ဝင်လာခဲ့ကြပေသည်။ အာရေဗျကျွန်းစွယ်တစ်ခုလုံးသည် အစ္စလာမ်ကို သက်ဝင်ယုံကြည်လာခဲ့ပေသည်။ ဤသည် တမန်တော်မြတ် ပွင့်တော်မူခြင်း၏ ရည်ရွယ်ချက်ပြည့်စုံခြင်းပင်။

ကေန်မလွဲ ထို အရှင်မြတ်သည် ဝန်ချတောင်းပန်မှုကို အလွန်တရာ လက်ခံတော်မူသော အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။ [၁]

## မီးတောက်မီးလျှံကဏ္ဍ



ဤကဏ္ဍသည် "အလ္လဟဗ်" မီးတောက်မီးလျှံ ကဏ္ဍမည်၏။ မက္ကာမြို့တော်တွင် ကျရောက်၏။ ဤကဏ္ဍတွင် အာယတ်တော် (၅) ပါးရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာ ညှာတော်တော်မူသော
မဟာကရုဏာတော်ရှင်ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမ်တော်ဖြင့် အစပြုပါ၏။

تَبَّتْ يَدَآ اَبِيْ لَهَبٍ وَّتَبَّ ①

၁။ အဗူလဟဗ်၏ လက်နှစ်ဖက်သည် ကျိုးပဲ့ပျက်စီးစေသား။ ထို့ပြင် ၎င်းကိုယ်တိုင်လည်း ပျက်စီးစေသား။

---

(၁) တမန်တော်မြတ်သည် မက္ကာမြို့တော် ပြန်လည်အောင်နိုင်ချေပြီ။ အစ္စလာမ်သည် ပြည့်ဝစုံလင်ချေပြီ။ အာရေဗျကျွန်းဆွယ်ကြီး တစ်ခုလုံးသည်လည်း အစ္စလာမ်ကို သက်ဝင်ယုံကြည် လာချေပြီ။ တမန်တော်မြတ်ပွင့်တော်မူခြင်း၏ ရည်ရွယ်ချက်မှာလည်း ပြည့်ဝချေပြီ။ ယခုမှ နောင်တမလွန်ဘဝခရီး စတင်ရန်အချိန်နီးကပ်လာချေပြီ။ ထို့အတွက် အလ္လာဟ်အရှင်မြတ်က တမန်တော်မြတ်အား ဤပစ္စက္ခတွင် ဆောင်ရွက်ရန်ကိစ္စအဝဝ ပြီးဆုံးပြီ ဖြစ်ပါ၍ နောင်တမလွန်အရေးတွင် အထူးတလည် လုံးပန်းရန်၊ မိမိ၏အရှင်သခင်အား အထူးတလည် ဂုဏ်တော်မွမ်းရန် မိမိ၏ အရှင်သခင်အား အထူးတလည် ကျေးဇူးတုံ့ပြန်ရန် ထို့ပြင်တဝ ဤဘဝမှ ထိုဘဝသို့ ကူးပြောင်းရတော့မည် ဖြစ်သည့်အတွက် မိမိအဖို့လည်းကောင်း၊ မိမိ၏နောက်လိုက်တပည့်သားတို့အဖို့လည်းကောင်း၊ လွတ်ငြိမ်းခွင့်ပန်ကြားရန် မိန့်ကြားတော်မူခြင်း ဖြစ်စေသည်။

ဤကဏ္ဍကျရောက်လာသည့်အခါ တမန်တော်မြတ်နှင့်အတူ အချို့ဆွဟာဗဟ် သာဝကကြီးများသည် တမန်တော်မြတ် ကွယ်လွန်တော်မူရန် အချိန်နီးကပ်လာပြီ ဖြစ်ကြောင်းကို ရိပ်စားမိခဲ့ကြလေသည်။ ထိုအချိန်မှစ၍ တမန်တော်မြတ်အား ပြုံးရွှင်စွာ နေထိုင်တော်မူသည်ကို မတွေ့မြင်ရတော့ပေ။

တမန်တော်မြတ်သည် မက္ကာမြို့တော်ကို ဟိဂျရီသက္ကရာဇ် (၈)ခုနှစ်၊ ရမသွာန်လမြတ်တွင် ပြန်လည်အောင်နိုင်တော်မူခဲ့လေသည်။ ဤအကြောင်း ကုရ်အာန်ကျမ်းမြတ် ကဏ္ဍ(၄၀)တွင် အကျယ်တဝင့် ပါရှိခဲ့ချေပြီ။

مَآ اَغۡنٰى عَنۡهُ مَالُهٗ وَمَا كَسَبَ ؕ﴿۲﴾

၂။ ၎င်း၏ ပစ္စည်းဥစ္စာသည်လည်း ၎င်း၏အဖို့ အသုံးဝင်သည် မဟုတ်ပေ။ ထို့နည်းတူစွာ ၎င်းရှာဖွေ ဆည်းပူးခဲ့သော (အမြတ်အစွန်း၊ သားသမီး)သည် လည်း အသုံးဝင်ခဲ့သည် မဟုတ်ပေ။

سَيَصۡلٰى نَارًا ذَاتَ لَهَبٍ ۚ﴿۳﴾

၃။ မကြာမြင့်မီပင် ၎င်း ကိုယ်တိုင်လည်း ဟုန်းဟုန်း တောက်လောင်လျက်ရှိသော မီးထဲသို့ ဝင်ရောက်ရပေမည်။ [၁]

---

(၁) တမန်တော်မြတ်သည် အစ္စလာမ် ထွန်းကားခါစအချိန်တွင် ပထမသော် အစ္စလာမ်ကို လျှို့ဝှက်စွာ ဟောကြားတော်မူလေ့ရှိခဲ့သည်။ ထို့နောက်ပိုင်းတွင် ကုရ်အာန်ကျမ်းလာ အာယတ်တော်(၂၆း၂၁၄)ကျရောက်လာပြီး အတိအလင်း တရားဟောကြားရန် အမိန့်တော် ရောက်ရှိလာသည့်အခါ တမန်တော်မြတ်သည် ဆွဖာတောင်ထိပ်သို့ တက်၍ မိမိသားချင်းများအား စုရုံးကာ အစ္စလာမ်၏ တရားတော်ကို အတိအလင်း ဟောကြားတော်မူလေသည်။ ထိုအခါ အဗူလဟဗ်က တမန်တော်မြတ်အား "အသင် ပျက်စီးပါစေ၊ အသင်သည် ငါတို့အား ဤကိစ္စအတွက် စုရုံးစေ သလော"ဟု ကျိန်ဆဲပြောဆိုလေသည်။ ထိုအခါ ဤကဏ္ဍကျရောက်လာခဲ့ပေသည်။ ထာနဝီ။

"အဗူလဟဗ်" သည် အခြားမဟုတ်၊ တမန်တော်မြတ်၏ ဦးရီးအရင်းခေါက်ခေါက်တစ်ဦးဖြစ်သည်။ ၎င်း၏အမည်ရင်းမှာ အဗ်ဒုလ်အုဇ္ဇာအိဗ်နု အဗ်ဒုလ် မွတ္တလိဗ်ဟူ၍ဖြစ်သည်။

"အဗူလဟဗ်"၏ မူရင်းအဓိပ္ပာယ်မှာ "မီးတောက်မီးလျှံ၏အဘ" ဟူ၍ဖြစ်သည်။ ဤသည် ရဠီအမည် တစ်မျိုးပင်ဖြစ်သည်။ ယင်းသို့အမည်မှည့်ခေါ်ခြင်းမှာ အဗူလဟဗ်၏ မျက်နှာအရည်အသွေး နီခြင်းကြောင့် ဖြစ်သည်။ ထိုမှတပါး အဗူလဟဗ်သည် နောင်တချိန်တွင် နီရဲလျက်ရှိသော မီးတောက်မီးလျှံအတွင်းသို့ ရောက်ရှိရမည် ဖြစ်ခြင်းကြောင့်လည်း ဖြစ်ပေသည်။

အဗူလဟဗ်သည် တမန်တော်မြတ်၏ဦးရီး အရင်းခေါက်ခေါက် ဖြစ်သော်လည်း ကာဖ်ရ်သွေးဖည်မှု၊ ငြင်းဆန်မှု၊ စိတ်ဓာတ်မာကျောမှု၊ ခဲယဉ်းမှုများကြောင့် တမန်တော်မြတ်အား အကြီးအကျယ် ဆန့်ကျင်ခဲ့လေသည်။ အန္တရာယ်ပြုခဲ့လေသည်။ ဦးရီးသည် ရန်သူကြီးဖြစ်ခဲ့လေသည်။

အဗူလဟဗ်သည် တမန်တော်မြတ်အား အမျိုးမျိုး အန္တရာယ်ပြုခဲ့သည်။ တမန်တော်မြတ် တရားဟောကြားတော်မူသည့်အခါ အဗူလဟဗ်သည် ခဲများဖြင့်ပေါက်လေ့ရှိသည်။ တစ်ခါသော် တမန်တော်မြတ် သည် 'ဇုလ်မဂျာဇ်' ဈေးသို့သွား၍ တရားဟောကြားတော်မူ၏။ အဗူလဟဗ်သည် တမန်တော်မြတ်အား နောက်မှလိုက်၍ ခဲများဖြင့်ပေါက်လေရာ၊ တမန်တော်မြတ်၏ ခြေသလုံးနှင့် ခြေထောက်မှ သွေးများယိုစီးလာခဲ့ပေ သည်။ ယင်းသို့ခဲများဖြင့် ပေါက်သည်သာမက အဗူလဟဗ်က လူများအား "အသင်တို့သည် ဤသူ၏စကားကို နားမထောင်ကြနှင့်၊ ဤသူသည် လူလိမ်ဖြစ်သည်။ သာသနာမဲ့ဖြစ်သည်"ဟူ၍ပင် ဖြားယောင်းပြောဆိုခဲ့လေသည်။ တစ်ခါတစ်ရံ အဗူလဟဗ်က "မုဟမ္မဒ်သည် ငါတို့အား သေပြီးနောက် ဤသို့၊ ထိုသို့ ဖြစ်ကြရမည်၊ ခံစံကြရမည် စသည်ဖြင့် အမျိုးမျိုးပြောဆိုသည်။ သို့ရာတွင် သူပြောဆိုသောစကားများသည် ဖြစ်ပေါ်လာသည် မတွေ့ရှိရပေ"ဟု ပြောဆိုလေ့ရှိသည်။ သို့ပြောဆိုပြီးနောက် အဗူလဟဗ်သည် မိမိ၏လက်နှစ်ဖက်ကိုညွှန်ကာ➤➤

➤➤ "အို-လက်နှစ်ဖက်၊ အသင်တို့ ပျက်စီးပါစေ၊ အသင်တို့တွင် မုဟမ္မဒ်ပြောဆိုသော စကားများအနက် တစ်စုံတစ်ရာ မျှပင် မတွေ့မမြင်ရပါတကား"ဟု ပြက်ရယ် ပြောဆိုလေ့ရှိခဲ့ပေသည်။

အချုပ်အားဖြင့်ဆိုရသော် တမန်တော်မြတ်အပေါ်၌ အဗူလဟဗ်၏ရန်ပြုမှု၊ အန္တရာယ်ပြုမှုတို့သည် ကမ်းကုန်နေချေပြီ။ သို့အလွန်အကျွံ အန္တရာယ်ပြုသည့်အတွက် အဗူလဟဗ်အား အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ခံရမည့်အကြောင်း သတိပေးလျှင် အဗူလဟဗ်က"အကယ်၍အမှန်တကယ် ပြစ်ဒဏ်ခံရ မည့် အရေးရှိပါကလည်းကျွန်ုပ်ထံတွင်ဥစ္စာပစ္စည်းသားသမီး အမြောက်အမြားရှိသည်။ ဤသည်တို့ကို လျော်ကြေးအဖြစ် ပေးသွင်း၍ ကျွန်ုပ် ပြစ်ဒဏ်မှလွတ်မြောက်အောင် ကြိုးစားမည်" ဟု ပြောဆိုလေ့ရှိသည်။

အဗူလဟဗ်၏ဇနီးဖြစ်သူ အုမ္မုဂျမီလ်သည်လည်း တမန်တော်မြတ်အား အလွန်မုန်းတီးသည်။ ရန်ပြုသည်။ မိမိခင်ပွန်းအား မီးလောင်ရာ လေပင့်ဆိုသကဲ့သို့ တမန်တော်မြတ်ကို ပို၍ပို၍ အန္တရာယ်ပြုရန် မြောက်ဆွပေးလေ့ရှိသည်။

ဤကဏ္ဍတွင် ဇနီးမောင်နှံနှစ်ဦးတို့၏ နောက်ဆုံးအခြေအနေကိုဖော်ပြပြီး သတိပေးထားတော်မူသည်မှာ အမျိုးသားဖြစ်စေ၊ အမျိုးသမီးဖြစ်စေ၊ သားချင်းဖြစ်စေ၊ သူစိမ်းဖြစ်စေ၊ အကြီးဖြစ်စေ၊ အငယ်ဖြစ်စေ၊ အမှန်တရားကို ရန်ပြုပါက ဆန့်ကျင်ပါက နောက်ဆုံးတွင် အရှုံက်တကွဲအကျိုးနည်းဖြစ်ကာ၊ ပျက်စီးခြင်းကြီးမက ပျက်စီးသွားရမည်သာဖြစ်သည်။

ဥစ္စာပစ္စည်း သားသမီးများ သည် အနည်းငယ်စိုးစဉ်းမျှပင် အကျိုးပြုနိုင်ကြမည် မဟုတ်ပေ။ တမန်တော်မြတ်နှင့်ဆွေမျိုးတော်စပ်ခြင်းသည်လည်း တစ်စုံတစ်ရာ အကျိုးပြုနိုင်မည်မဟုတ်ပေ။

အဗူလဟဗ်သည် လက်မထောင်ခဲ့သည်။ မိမိ၏ဥစ္စာပစ္စည်းနှင့်သားသမီးများကိုအကြောင်းပြုကာ တမန်တော်မြတ်အား အမျိုးမျိုးရန်ပြုခဲ့သည်။ အဗူလဟဗ်သိထားအပ်သည်မှာ- အမှန်မှာ ယခု အဗူလဟဗ်၏ လက်နှစ်ဖက်စလုံး ကျိုးချေပြီ။ အမှန်တရားကို ဖြိုခွင်းရန် ၎င်း၏ကြိုးပမ်းမှု အားလုံးတို့သည်လည်း အချည်းအနှီး ဖြစ်ချေပြီ။ ၎င်း၏ခေါင်းဆောင်မှုသည်လည်း ပျက်စီးချေပြီ။ ၎င်းကိုယ်တိုင် ပျက်စီးခြင်းကြီးမက ပျက်စီးနေချေပြီ။ ဤကား သမိုင်းစဉ်တွင် အထင်အရှားပင်။

ဗဒ်ရ်ပြီးဆုံး၍ ခုနစ်ရက်ရှိသောအခါ အဗူလဟဗ်၌ အဆိပ်အတောက်ပါသော အဖုအကျိတ်တစ်ခု ထွက်ပေါ်လာခဲ့၏။ ရောဂါကူးစက်မည်ကို စိုးရိမ်သည့်အတွက် အိမ်သားများက အဗူလဟဗ်အား အိမ်တွင်း၌ မထားဘဲ၊ အိမ်ပြင် အခြားတစ်နေရာတွင် သွားရောက်ထားခဲ့ကြ၏။ အဗူလဟဗ်သည် ထိုနေရာမှာပင် သေဆုံးသွားခဲ့၏။ သုံးရက်တိုင်တိုင် အဗူလဟဗ်၏ အလောင်းသည် မြေမကျဘဲ ရှိနေ၏။ ၎င်း၏အလောင်းကို ကိုင်မည့်သူဟူ၍ တစ်ဦးတစ်ယောက်မျှ မရှိခဲ့ပေ။

နောက်ဆုံးတွင် အလွန်ပုပ်စော်နံလာသည့်အခါ အိမ်သူ၊ အိမ်သားများက နီဂရိုးလူမျိုး ကူလီများအားခေါ်၍ မြေမြှုပ်စေခဲ့ကြ၏။ အဆိုပါ ကူလီများသည်လည်း တွင်းတူးပြီး အဗူလဟဗ်၏အလောင်းကို တုတ်ဖြင့်မ၍ တွင်းထဲသို့ တွန်းချပြီးလျှင်အပေါ်မှ ခဲများဖြင့် ဖို့ထားလိုက်လေသည်။ တမန်တော်မြတ်အား ရန်ပြုခဲ့သော၊ ဂုဏ်မာနထောင်လွှားခဲ့သော အဗူလဟဗ်သည် ဤပစ္စက္ခ၌ ဤသို့အရှုံက်တကွဲ အကျိုးနည်း ဖြစ်သွားခဲ့ရလေသည်။ ဤကား ဤပစ္စက္ခတွင် ပျက်စီးခြင်းသာ။ နောင်ဘဝတွင် ခံစားရမည့် အပြစ်ဒဏ်ကား အတိုင်းမသိ ကြီးမားလှသည်။ မရှုမလှ ခံစားရဦးမည်သာတည်း။

وَّامۡرَاَتُهٗ ؕ حَمَّالَةَ الۡحَطَبِ ۚ﴿۴﴾

၄။ မီးဆိုက်ရန် ထင်းစည်းကို ထမ်းရွက်လျက် ရှိသော ၎င်း၏ဇနီးဖြစ်သူသည်လည်း (တစ်နည်း) ၎င်း၏ဇနီးဖြစ်သူသည်လည်း မီးဆိုက်ရန် ထင်းစည်းကို ထမ်းရွက်လျက် (တစ်နည်း) ဆူးခက်ကို ထမ်းရွက်လျက်ရှိသော ၎င်း၏ဇနီးဖြစ်သူသည်လည်း (တစ်နည်း) ၎င်း၏ဇနီးဖြစ်သူသည်လည်း ဆူးခက်ကို ထမ်းရွက်လျက် (တစ်နည်း) ၎င်း၏ကုန်းချောသူ ဇနီးသည်လည်း။ [၁]

فِیۡ جِیۡدِهَا حَبۡلٌ مِّنۡ مَّسَدٍ ۚ﴿۵﴾

၅။ ထိုဇနီးဖြစ်သူသည် လည်ကုပ်၌ စွန်ပလွံလျှော်ကို ကောင်းစွာကျစ်ထားသော ကြိုးတစ်ချောင်းလည်း ရှိချေအံ့သတည်း။ [၂]

---

(၁) အဗူလဟဗ်၏ဇနီး အုမ္မုဂျမီလ်သည် ဥစ္စာပစ္စည်း ချမ်းသာကြွယ်ဝသော်လည်း အလွန့်အလွန် တွန့်တိုစေးနဲလှသည့်အတွက် မိမိကိုယ်တိုင် တောတွင်းသွား၍ ထင်းခွေလေ့ရှိခဲ့သည်။ စိတ်နေသဘောထား အလွန့်အလွန် ယုတ်မာလှသည့်အတွက် တမန်တော်မြတ် သွားလာရာလမ်းတွင် ဆူးများကို ပစ်ထားလေ့ရှိခဲ့သည်။ အုမ္မုဂျမီလ်သည် ဤပစ္စက္ခတွင် တမန်တော်မြတ်အား ရန်ပြုရာ၌ မိမိ၏ခင်ပွန်းကို အထောက်အကူပြုသကဲ့သို့ နောင်တမလွန်ဘဝတွင်လည်း ငရဲ၌ မိမိ၏ ခင်ပွန်းနှင့်အတူတကွပင် ငရဲဒဏ်ခံစားရမည်ဖြစ်သည်။ ငရဲတွင် ငရဲသားများ စားသုံးရန် 'ဇက္ကူမ်' 'သွာရီအ်'စသည့် ဆူးပင်များရှိသည်။ အုမ္မုဂျမီလ်သည် ငရဲတွင်လည်း အဆိုပါဆူးပင်များကို သယ်ပိုး၍ မိမိခင်ပွန်း၏ ငရဲမီးကို ပိုမိုတောက်လောက်အောင် ပြုလုပ်နေရမည်သာဖြစ်သည်။ မည်သူမပြုမိမိမှုပင်၊ လုပ်ရဲလျှင် ခံရဲရမည်ပင်။

အချို့ပညာရှင်များက "ဟမ္မာလတလ်ဟတွာဗ်" ၏အနက်ကို ကုန်းချောသူဟူ၍လည်း ဖွင့်ဆိုကြသည်။ အရဗီစာပေတွင် ဤအနက်၌ အသုံးအနှုန်းလည်းရှိသည်။ ပါရှားစာပေတွင်လည်း ကုန်းချော သူကို "ဟိုင်ဇမ်ကရှ်"ဟူ၍ အသုံးအနှုန်းရှိသည်။ အုမ္မုဂျမီလ်သည် တမန်တော်မြတ်နှင့်ပတ်သက်၍ မဟုတ်မမှန်လုပ်ကြံ၍ ကုန်းချောလေ့ရှိခဲ့ပေသည်။ ကြည့်-အွတ်(ဆ်)မာနီ။ ထာနဝီ။

(၂) "ထိုမိန်းမ၏လည်ကုပ်၌ကောင်းစွာကျစ်ထားသောစွန်ပလွံလျှော်ကြိုးတစ်ချောင်းရှိသည်"ဟူသော အာယတ်တော်၌ လျှော်ကြိုးဟူသည် ငရဲတွင် ငရဲသားများအား ချည်နှောင်ရန်ဖြစ်သော ငရဲသံကြိုး ကွင်းများကို ဆိုလိုသည်။

အုမ္မုဂျမီလ်သည် ထင်းခွေလေ့ရှိခဲ့သည်။ ထင်းခွေရာ၌ ချည်နှောင်ရန်ကြိုးလိုသည်။ ထို့အတွက်ကြောင့် ယင်းသို့ နှိုင်းယှဉ်သုံးနှုန်းထားတော်မူခြင်း ဖြစ်တန်ရာသည်။

အချို့ကျမ်းချက်များတွင် လာရှိသည်မှာ အုမ္မုဂျမီလ်၏လည်ပင်းတွင် အလွန်အဖိုးတန်သော ဆွဲကြိုး တစ်ကုံးရှိခဲ့သည်။ အုမ္မုဂျမီလ်သည် လာတ်၊ အုဇ္ဇာတို့အား တိုင်တည်၍ ငါသည် ဤဆွဲကြိုးကြီးကို မုဟမ္မဒ်အား အန္တရာယ်ပြုရာတွင် သုံးမည်ဟု ပြောဆိုလေ့ရှိခဲ့သည်။ သို့ဖြစ်ရာ အဆိုပါ ဆွဲကြိုးသည် ငရဲတွင် ➤➤

# ဖြူစင်သောသဒ္ဒါတရားကဏ္ဍ




ဤကဏ္ဍသည် "အလ်အိခ်လာဆ်" ကဏ္ဍမည်၏။ မက္ကာမြို့တော်၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော် (၄)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော
မဟာကရုဏာတော်ရှင်ဖြစ်တော်မူသာ
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

قُلْ هُوَ اللّٰهُ اَحَدٌ ①

၁။ (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ ထိုအလ္လာဟ်အရှင်မြတ်သည် တစ်ဆူတည်းဖြစ်တော်မူ၏။ (တစ်နည်း) (အို-နဗီတမန်တော်) အသင်သည် ဤသို့ ပြောကြားပါလေ။ အလ္လာဟ်အရှင်မြတ်သည် တစ်ဆူတည်းဖြစ်တော်မူ၏။ [၁]

اَللّٰهُ الصَّمَدُ ②

၂။ အလ္လာဟ်အရှင်မြတ်သည် လိုလားတောင့်တခြင်း လုံးဝ ကင်းရှင်းတော်မူသောအရှင်၊ သူတပါးတို့၏ မှီခိုအားထားရာအရှင်၊ နိစ္စထာဝရအရှင် ဖြစ်တော်မူ၏။ [၂]

---

➤➤ ၎င်း၏လည်ပင်း၌ မီးကြိုးဖြစ်ကာ ရှိနေမည်သာတည်း။

အုမ္မုဂျမီလ် သေဆုံးပုံမှာလည်း အံ့ဩဖွယ်ရာပင်။ တစ်နေ့ အုမ္မုဂျမီလ်သည် မိမိ၏အလေ့အထအတိုင်း ထင်းများကိုရှာရာတွင် ထင်းများကို တုပ်နှောင်ထားသောကြိုးသည် ၎င်း၏လည်ပင်းတွင် စွပ်မိပြီး၊ လည်မျိုအစ်ကာ အသေဆိုးနှင့် သေဆုံးသွားခဲ့ရလေသည်။

(၁) တစ်ခါသော် မုရှ်ရစ်များက တမန်တော်မြတ်အား အသင်၏ကိုးကွယ်ရာအရှင်သခင်၏ ဂုဏ်ဝိသေသကားအသို့ပါနည်းဟု မေးမြန်းခဲ့ကြ၏။ ထိုအခါ ဤကဏ္ဍကျရောက်လာခဲ့၏။ ကြည့်-ထာနဝီ။ ဒုရ်ရိမန်ဆူရ်။

အလ္လာဟ်အရှင်မြတ်သည် တဆူတည်း၊ တစ်ပါးတည်းသာ ဖြစ်တော်မူ၏။ နှစ်ပါးမဟုတ်၊ သုံးပါးမဟုတ်၊ အပြားပြားမဟုတ်။ ထိုအရှင်မြတ်၌ ဂုဏ်ရည်တူဟူ၍ အလျင်းမရှိ။ တွဲဖက်ယှဉ်ဖက် ဟူ၍ အလျင်းမရှိ။ ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၁၇:၄၂ နှင့် ၂၁:၂၂)များကို ရှုပါကုန်။

(၂) "ဆွမဒ်"ဟူသောပုဒ်ကို မုဖတ်စ်စိရ်ပညာရှင်များသည် အရာခပ်သိမ်းကုန်တို့၏ မှီခိုအားထားရာအရှင်ဟူ၍လည်းကောင်း၊ ရှေ့ဆောင်ညွှန်ပြမှု ပြည့်ဝစုံလင်သောအရှင် ဟူ၍လည်းကောင်း၊ ထာဝရ တည်ရှိတော်မူသော အရှင်ဟူ၍လည်းကောင်း၊ မိဘသားသမီး သံယောဇဉ် လုံးဝ ကင်းစင်တော်မူသောအရှင် ဟူ၍➤➤

لَمْ يَلِدْ ۙ وَلَمْ يُوْلَدْ ۙ ③

၃။ ထိုအရှင်မြတ်သည် မည်သူတစ်ဦးတစ်ယောက်ကိုမျှ မွေးဖွားတော်မူခဲ့သည် မဟုတ်ပေ။ မည်သူတစ်ဦးတစ်ယောက်၏ မွေးဖွားခြင်းကိုလည်း ခံခဲ့ရတော်မူသည်မဟုတ်ပေ။ [၁]

وَلَمْ يَكُنْ لَّهٗ كُفُوًا اَحَدٌ ④

၄။ ထိုမှတပါး ထိုအရှင်မြတ်၌ ဂုဏ်ရည်တူသူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် မရှိပေ။ [၂]

---

➤➤ လည်းကောင်း၊ ပြည့်ဝ သိပ်သည်းတော်မူသောအရှင်၊ စားခြင်း၊ သောက်ခြင်းမှ ကင်းစင်တော်မူသောအရှင်၊ အပြစ် လုံးဝ ကင်းတော်မူသောအရှင် စသည်ဖြင့် အမျိုးမျိုးအနက်ဖွင့်ကြလေသည်။ ယင်းသည့်အဖွင့်များအားလုံးမှန်ကန်ကြောင်းနှင့် စပ်လျဉ်း၍ ပညာရှင်ကြီး တွဗရာနီက ထောက်ခံရေးသားထားပါသည်။

(၁) အလ္လာဟ်အရှင်မြတ်၌ မိဘမရှိ၊ သားသမီးမရှိ၊ မိဘသားသမီးသံယောဇဉ် အလျင်းမရှိ။

(၂) အလ္လာဟ်အရှင်မြတ်၌ ဂုဏ်ရည်တူဟူ၍ တစ်ဦးတစ်ယောက်မျှမရှိ။ ထိုအရှင်မြတ်၏ မည်သည့်ဂုဏ်အင်ဒြပ်တွင်မျှ၊ မည်သည့်အပြုအမူတွင်မျှ၊ မည်သို့မျှ၊ မည်ရွေ့မျှ ဂုဏ်ရည်တူ ဟူ၍ အလျင်းမရှိ။

**<u>မှတ်ချက်။</u>** အချုပ်အားဖြင့် "ရှိရ်က်" ယှဉ်တွဲကိုးကွယ်မှုသည်

(၁) မူလဇာတိတွင်သော်လည်းကောင်း။

(၂) ဂုဏ်အင်ဒြပ်တွင်သော်လည်းကောင်း။

(၃) မျိုးနွယ်တော်စပ်ခြင်းတွင်သော်လည်းကောင်း။

(၄) အလုပ်အကိုင် တွင်သော်လည်းကောင်း ဖြစ်နိုင်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် ဤသည့် "ရှိရ်က်" (၄)ရပ်လုံးနှင့် လုံးဝကင်းရှင်းတော်မူကြောင်း ဤကဏ္ဍလာ အာယတ်တော် (၄) ပါးတွင် တိတိတုပ်တုပ် တိတိကျကျ ဖွင့်ဟမိန့်ဆိုထားတော်မူသည်။

# အရုဏ်တက်ချိန်ကဏ္ဍ



ဤကဏ္ဍသည် "အလ်ဖလာက်" အရုဏ်တက်ချိန်ကဏ္ဍမည်၏။ မဒီနာမြို့၌ကျရောက်ခဲ့၏။ ဤကဏ္ဍတွင် အာယတ်တော် (၅)ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ

မပြတ်မစဲ သနားကြင်နာ ညှာတာတော်မူသော၊ မဟာကရုဏာတော်ရှင် ဖြစ်တော်မူသာ အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

قُلْ اَعُوْذُ بِرَبِّ الْفَلَقِ ①

၁။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) လျှောက်ထား ပန်ကြားပါလေ၊ ကျွန်တော်မျိုးသည် နံနက်မိုးသောက်ချိန်ကို ဖန်ဆင်းတော်မူသောအရှင်မြတ်အားဖြင့် အကာအကွယ်ယူပါ၏။ [၁]

مِنْ شَرِّ مَا خَلَقَ ②

၂။ ထိုအရှင်မြတ်သည် ဖန်ဆင်းတော်မူသော (ခပ်သိမ်းကုန်သော)အဖန်ဆင်းခံတို့၏ ဘေးအန္တရာယ်များမှလည်းကောင်း။

---

(၁) တစ်ခါသော် ရေဝတီဘာသာဝင်တစ်ဦးဖြစ်သူ လဗီဒ် အိဗ်နု အအ်ဆွာမ်နှင့် ၎င်း၏သမီးများက တမန်တော်မြတ်အား "စီဟ်ရ်" ဂါဒူ ပြုလုပ်ခဲ့ကြသည့်အတွက် တမန်တော်မြတ်သည် အနည်းငယ် ခံစားတော်မူခဲ့ရလေသည်။ ထို့အတွက် တမန်တော်မြတ်က အလ္လာဟ်အရှင်မြတ်ထံတော်၌ ဆုပန်ကြားရာ ဤကဏ္ဍနှစ်ခု၊ (အလ်ဖလာက်နှင့်အန္နာစ်) ကျရောက်လာခဲ့ပေသည်။

"အလ်ဖလာက်" ကဏ္ဍတွင် အာယတ်တော် (၅) ပါး၊ "အန္နာစ်" ကဏ္ဍတွင် အာယတ်တော် (၆) ပါး၊ ပေါင်း(၁၁)ပါး ပါရှိ၏။ လဗီဒ်ဂါဒူလုပ်ထားရာတွင်လည်း အထုံး (၁၁) ထုံး ပါရှိ၏။ ကောင်းကင်တမန် ဂျိဗ်ရီလ်သည် ဤကဏ္ဍနှစ်ခုလာ အာယတ်တော်များကို ရွတ်ဖတ်သရဇ္ဈာယ်သည့်အခါ အာယတ်တော်တစ်ပါး ရွတ်ဖတ်ပြီးတိုင်း ပြီးတိုင်း၊တစ်ထုံးတစ်ထုံးစီ ပြေ၍ပြေ၍ သွားခဲ့၏။ ဤသို့ဖြင့် တမန်တော်မြတ်သည် လုံးဝကျန်းမာချမ်းသာ၍ သွားတော်မူခဲ့လေ၏။

အချုပ်အားဖြင့် ဤကဏ္ဍနှစ်ခုတွင် လောကီရေးနှင့် လောကုတ္တရာရေးဆိုင်ရာ ဘေးဒုက္ခအန္တရာယ် အသွယ်သွယ်တို့မှ ကင်းဝေးရန်အတွက် အလ္လာဟ်အရှင်မြတ်ထံတော်၌သာ ခိုလှုံရမည့်အကြောင်းနှင့် အရေးကိစ္စအဝဝတွင် အလ္လာဟ်အရှင်မြတ်အပေါ်၌သာ ယုံပုံလွှဲအပ်ရမည့်အကြောင်း မိန့်ဆိုထားတော်မူသည်။

ထာနဝီ။

وَمِن شَرِّ غَاسِقٍ إِذَا وَقَبَ ﴿٣﴾

၃။ အမှောင်အတိ ဖြစ်လာသောအခါ (ဖြစ်တတ်သော) ယင်းအမှောင်၏ ဘေးအန္တရာယ်များမှလည်းကောင်း။ [၁]

وَمِن شَرِّ النَّفَّاثَاتِ فِي الْعُقَدِ ﴿٤﴾

၄။ အထုံးအဖွဲ့များ၌ (ဂါထာ မန္တရားရွတ်ဖတ်) မန်းမှုတ်သောမိန်းမတို့၏ ဘေးအန္တရာယ်များမှလည်းကောင်း။ [၂]

وَمِن شَرِّ حَاسِدٍ إِذَا حَسَدَ ﴿٥﴾

၅။ မနာလို ငြူစူသောသူသည် မနာလို ငြူစူသောအခါ (ဖြစ်တတ်သော) ဘေးအန္တရာယ်များမှလည်းကောင်း။ [၃]

---

(၁) လူသားတို့သည် ဘေးအန္တရာယ်အသွယ်သွယ်တို့မှ လွတ်ကင်းရန်အတွက် ကမ္ဘာအဝန်း၏ မှီခိုအားထားရာဖြစ်တော်မူသော၊ ညဉ့်၏အမှောင်ကိုခွင်း၍ နေ့၏အလင်းရောင်ကို ဆောင်တော်မူသော၊ ဒုက္ခကိုဖယ်ရှား၍ သုခကိုဆောင်တော်မူသော အလ္လာဟ်အရှင်မြတ်ထံတော်၌သာ ခိုလှုံရပေမည်။ အထူးသဖြင့် ညဉ့်၏အမှောင်တွင် ဖြစ်ပေါ်လေ့ရှိသော ဘေးအန္တရာယ်အပေါင်းမှ ကင်းလွတ်ရန် လည်း ထိုအရှင်မြတ်ထံ၌ပင် ခိုလှုံရပေမည်။ ဤအာယတ်တော်တွင် ညဉ့်၏အန္တရာယ်မှဟု မိန့်ဆိုထားတော်မူခြင်းမှာ ဘေးအန္တရာယ်များသည် များသောအားဖြင့် အလင်းနှင့်စာလျှင် အမှောင်၌ နေ့နှင့်စာလျှင် ညဉ့်၌ ပိုမိုဖြစ်ပေါ်လေ့ရှိခြင်းကြောင့်ပင် ဖြစ်ပေသည်။ ဥပမာ- ခိုးသား ဓားပြများ၊ သားရဲတိရစ္ဆာန်များ၊ အဆိပ်အတောက်ရှိသော ပိုးမွှားများ၊ ရောဂါပိုးများသည်လည်း ညဉ့်၌ပင် ထွက်လေ့ရှိကြပေသည်။

အမှောင်ဟူသောစကားတွင် အတွင်းအမှောင်၊ အပြင်အမှောင်၊ ဆင်းရဲခြင်း၏ အမှောင်၊ စိတ်ဒုက္ခဖြစ်ခြင်း၏အမှောင်၊ လမ်းမှားခြင်း၏အမှောင် အားလုံး အကျုံးဝင်ပေသည်။

(၂) အထုံးများတွင် မန်းမှုတ်သူများဟူသည် ဂျာဒူမန္တရားပြုလုပ်ရာ၌ အထုံးအဖွဲ့များတွင် မန်းမှုတ်သော အမျိုးသမီးများအုပ်စု၊ မှော်ဆရာ၊ စုန်းကဝေကို ဆိုလိုသည်။ ဂျာဒူမန္တရားသည် ရှိသည်။ ကုရ်အာန်ကျမ်းမြတ် (၂း၁၀၂) တွင်လည်း ပါရှိသည်။ တမန်တော်မြတ်၏ ဩဝါဒတော်များတွင်လည်း ပါရှိသည်။ အကျယ်ကို သိလိုပါက ခါဇင်ကျမ်း၊ အစောင်-၇၊ စာမျက်နှာ (၂၆၈-၂၆၉) တွင် ရှုပါကုန်။

(၃) လူ့လောကတွင်ဖြစ်ပေါ်လျက်ရှိသော နှောင့်ယှက်မှု၊ ဆန့်ကျင်မှု၊ ခိုက်ရန်ဖြစ်ပွားမှု၊ တိုက်ခိုက်မှု၊ သတ်ဖြတ်မှု၊ ဖျက်ဆီးမှုတို့ကို နောက်ကွယ်မှ စေ့ဆော်တိုက်တွန်းဖြစ်ပေါ်စေသော အကြောင်းများတွင် မလိုမုန်းတီးမှုသည်လည်း အကြောင်းကြီးတစ်ရပ်ပင်။ ဤကား အထင်အရှားပင်။ မလိုမုန်းတီးသူတစ်ဦးသည် ပထမသော် မိမိ၏ မလိုမုန်းတီးမှုကို ဖုံးဖိထား၏။ သို့ရာတွင် မုန်းတီးမှုသည် ဖုံးဖိ၍ရခဲ၏။ တချိန်သော် အန်ထွက်လာ၏။ ထိုအခါ မုန်းတီးသောသူသည် ကာယကံမြောက် အန္တရာယ်ပြုလာ၏။ ကျူးလွန်စော်ကား၏။ ထို့အတွက် ယင်းသည့်မလိုမုန်းတီးသော သူများ၏ အန္တရာယ်မှ လွတ်ကင်းရန်လည်း အလ္လာဟ်အရှင်မြတ်ထံတော်၌သာလျှင် ခိုလှုံရပေသည်။

## လူသားများကဏ္ဍ

سُورَةُ النَّاسِ

ဤကဏ္ဍသည် "အန္နာစ်" လူသားများ ကဏ္ဍမည်၏။ မဒီနာမြို့၌ ကျရောက်ခဲ့၏။
ဤကဏ္ဍတွင် အာယတ်တော်(၆) ပါး ပါရှိ၏။

بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ○

မပြတ်မစဲ သနားကြင်နာတော်မူသော
မဟာကရုဏာတော်ရှင် ဖြစ်တော်မူသော
အလ္လာဟ်အရှင်မြတ်၏နာမံတော်ဖြင့် အစပြုပါ၏။

قُلْ اَعُوْذُ بِرَبِّ النَّاسِ ①

၁။ (အို-နဗီတမန်တော်) အသင်သည် (ဤသို့) လျှောက်ထား ပန်ကြားပါလေ။ ကျွန်တော်မျိုးသည် အကာအကွယ်ယူပါ၏။ လူခပ်သိမ်းတို့ကို ဖန်ဆင်း မွေးမြူတော်မူသော အရှင်မြတ်အားဖြင့်။

مَلِكِ النَّاسِ ②

၂။ လူခပ်သိမ်းတို့၏ ဘုရင်မင်းမြတ်ဖြစ်တော်မူသော (အရှင်မြတ်အားဖြင့်)။

اِلٰهِ النَّاسِ ③

၃။ လူခပ်သိမ်းတို့၏ ဆည်းကပ်ကိုးကွယ်ရာ ဖြစ်တော်မူသော (အရှင်မြတ်အားဖြင့်)။

مِنْ شَرِّ الْوَسْوَاسِ ۙ الْخَنَّاسِ ④

၄။ မကောင်းသော အကြံအစည်များကို ထည့်သွင်းတတ်သော၊ နောက်ဆုတ်သော၊ (ရှိုင်တွာန် မိစ္ဆာကောင်)၏ဘေးအန္တရာယ်မှ။

الَّذِيْ يُوَسْوِسُ فِيْ صُدُوْرِ النَّاسِ ⑤

၅။ အကြင်(ရှိုင်တွာန်မိစ္ဆာကောင်သည်) လူတို့၏ စိတ်နှလုံးတွင်းသို့ မကောင်းသော အကြံအစည်ကို ထည့်သွင်းလေ့ရှိ၏။ [၁]

---

(၁) အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာအဝန်းကို စတင်ဖန်ဆင်းတော်မူသော၊ ပိုင်ဆိုင်စိုးမိုးတော်မူသော၊ ကမ္ဘာအဝန်း၏ ဆည်းကပ်ကိုးကွယ်ခြင်းကို ခံထိုက်တော်မူသော၊ တန်ခိုးတော်နှင့် အဆုံးအစမရှိသောအရှင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်၏ တန်ခိုးတော်များသည် ကမ္ဘာအဝန်း၌ ပျံ့နှံ့လျက်ရှိ၏။ အထူးသဖြင့် ထိုအရှင်မြတ်၏ တန်ခိုးတော်များသည် အခြားအဖန်ဆင်းခံများနှင့်စာလျှင် လူသား၌ အများဆုံး ထင်ရှား➤➤

مِنَ الْجِنَّةِ وَالنَّاسِ ⑥

၆။ (ထိုရှိုင်တွာန်မိစ္ဆာကောင်သည်) ဂျင်န်(န်) သတ္တဝါတို့အနက်မှဖြစ်စေ၊ လူတို့အနက်မှဖြစ်စေ၊ [၁]

---

➢➢ ပေါ်လွင်နေ၏။ ထို့အတွက်ကြောင့်ပင် အလ္လာဟ်အရှင်မြတ်သည် ဤကဏ္ဍတွင် မိမိကိုယ်ကို လူသားတို့၏ အရှင်သခင်၊ လူသားတို့၏ဘုရင်၊ လူသားတို့၏ကိုးကွယ်ရာအရှင်ဟူ၍ မိန့်ဆိုထားတော်မူခြင်းဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် လူသားတို့ကို စတင်ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ လူသားတို့အား ပိုင်ဆိုင်စိုးမိုး ကွပ်ကဲစီမံအုပ်ချုပ်တော်မူသောအရှင်၊ လူသားတို့ ဆည်းကပ်ကိုးကွယ်ရာ အရှင်သခင်ဖြစ်တော်မူပေရာ လူသားတို့သည် ထိုသို့သော အရှင်မြတ်ထံတော်၌သာ ဘေးအန္တရာယ်အပေါင်းမှ ကင်းလွတ်ရန်ခိုလှုံကြရာသည်။

လူ့လောကတွင် ဖြစ်ပေါ်လျက်ရှိသော ညစ်ကျုံမကောင်းမှု အစုစုတို့သည် မကောင်းသောအကြံအစည် ပေါ်ပေါက်မှု၊ ဇဝေဇဝါဖြစ်မှု၊ တွေဝေယိမ်းယိုင်မှုမှပင် စတင်ဖြစ်သွားသည်သာဖြစ်သည်။ မကောင်းသော အကြံအစည်သည် စိတ်နှလုံးတွင် သက်ရောက်ပြီး ထွက်သွားပါက လူသည် တစ်စုံတစ်ရာ ပြစ်မှားခြင်းမှ လွတ်ကင်းသွားသည်။ အကယ်၍ မကောင်းသော အကြံအစည်သည် အချိန်အတန် ကြာသည်အထိ စိတ်နှလုံးတွင် စွဲကပ်နေသော် လူသည် ပြစ်မှုတစ်စုံတစ်ရာကို နည်းများမဆို ကျူးလွန်မိမည်သာဖြစ်သည်။ ထို့အတွက် ဤကဏ္ဍတွင် မကောင်းသောအကြံအစည်၏ ဘေးအန္တရာယ်မှ လွတ်ကင်းနိုင်ရန် နည်းလမ်းကို သင်ကြားပြသ ထားတော်မူသည်။

ရှိုင်တွာန်သည် လူသားတို့၏ စိတ်နှလုံးများတွင် မကောင်းသော အကြံအစည်များ အတွေးအခေါ် များကို လျှို့ဝှက်စွာထည့်သွင်းပေးသည်။ လူသားတို့အား ဇဝေဇဝါဖြစ်စေသည်။ တွေဝေယိမ်းယိုင် စေသည်။ လူသားသည် အမှုမဲ့ အမှတ်မဲ့နေလျှင် မေ့လျော့နေလျှင် ရှိုင်တွာန်၏ခြယ်လှယ်မှုသည် ပို၍ပို၍ ကြီးထွားလာ၏။ လူသားအား မှောက်မှားစေ၏။ တဖန် လူသားသည် သတိရ၍ အလ္လာဟ်အရှင်မြတ်အား အောက်မေ့တသလိုက်လျှင် ရှိုင်တွာန်သည် နောက်ဆုတ်သွား၏။ ရှိုင်တွာန်၏ အန္တရာယ်ကား ကြီးမားလှ၏။ ထို့အတွက် ယင်းရှိုင်တွာန်၏ အန္တရာယ်မှ ကင်းလွတ်ရန် အလ္လာဟ်အရှင်မြတ်ထံတော်၌သာ ခိုလှုံရာသတည်း။

(၁) လူသားတို့၏ စိတ်နှလုံးများတွင် မကောင်းသောအကြံအစည်များကို ထည့်သွင်းပေးသော ရှိုင်တွာန်မှာ 'ဂျင်န်' သတ္တဝါများတွင်လည်းရှိသည်။ လူသားတို့တွင်လည်းရှိသည်။ ဂျင်န်ရှိုင်တွာန်ရှိသကဲ့သို့ လူရှိုင်တွာန်လည်း ရှိသည်။ ကြည့်-ကုရ်အာန် (၆:၁၁၃)။

သို့ဖြစ်ပေရာ လူသားတို့သည် ဂျင်န်ရှိုင်တွာန်၊ လူရှိုင်တွာန်တို့ ထည့်သွင်းပေးသော မကောင်းသော အကြံအစည် အတွေးအထင်များ၏ ဘေးအန္တရာယ်မှ လွတ်ကင်းနိုင်ကြရန်အတွက် အလ္လာဟ်အရှင်မြတ်ထံ တော်၌သာ ခိုလှုံကြရမည်သာတည်း။

ဤအကြောင်းနှင့်စပ်လျဉ်း၍ ကုရ်အာန် (၆:၁၁၃) ၏အဖွင့်တွင်လည်း အကျယ်ရေးသားခဲ့ပေပြီ။

# فِهرِس بأسماءِ السُّوَرِ

# မာတိကာ

# فِهْرِسُ بِأَسْمَاءِ السُّوَرِ

# မာတိကာ

# فِهرِسُ بأسماءِ السُّوَرِ
# မာတိကာ

# فِهْرِسْ بِأَسْمَاءِ السُّوَرِ
# မာတိကာ

# فهرس بأسماء السور
# မာတိကာ




(မူပိုင်)

**ဖဟ်ဒ်ဘုရင် ကုရ်အာန်ကျမ်းမြတ် ပုံနှိပ်တိုက်**

---

စာတိုက်သေတ္တာအမှတ် ၆၂၆၂ မဒီနဟ်မုနဝ်ဝရဟ်၊ စအူဒီအရေဗျနိုင်ငံ။

إنّ وزارة الشؤون الإسلامية والأوقاف والدعوة والإرشاد

في المملكة العربيّة السّعوديّة

المشرفة على مجمّع الملك فهد

لطباعة المصحف الشّريف في المدينة المنوّرة

إذ يسرُّها أن يُصدر المجمّعُ هذه الطّبعة من القرآن الكريم

وترجمة معانيه إلى اللغة البورميّة

تسأل الله أن ينفع بها النّاس

وأن يجزي

خادم الحرمين الشّريفين الملك فهد بن عبد العزيز آل سعود

أحسن الجزاء على جهوده العظيمة في نشر كتاب الله الكريم

والله وليّ التّوفيق

## ဒါဝါသ်နှင့် ဝကာဖ်ရေးရာ၊ အစ္စလာမ်မစ်ဝန်ကြီးဌါန

စအူဒ်မျိုးနွယ်ဖွား ဘုရင် ဖဟာဒ်ဗင်န် အဗ္ဗဒူလ်အဇီးဇ်၏ အမိန့်တော်ဖြင့် ဤ မြန်မာဘာသာပြန် ကျမ်းမြတ်ကုရ်အာန်ကို မဒီနာမြို့တော်တွင် ပုံနှိပ်ခဲ့ပါသည်။

ဤ ကျမ်းမြတ်ကုရ်အာန် မြန်မာဘာသာပြန်စာအုပ်ကို ပြည်ထောင်စု မြန်မာနိုင်ငံသူ နိုင်ငံသား မွတ်စ်လင်မ်များသည် လေ့လာဖတ်ရှုမှတ်သားနာယူ၊ ကျင့်ကြံအားထုတ်နိုင်မည်ဟု မျှော်လင့်ရပါသည်။

ⓒ **مجمع الملك فهد لطباعة المصحف الشريف ، ١٤١٩هـ**

***فهرسة مكتبة الملك فهد الوطنية أثناء النشر***

مجمع الملك فهد لطباعة المصحف الشريف

القرآن الكريم وترجمة معانيه إلى لغة البورما — المدينة المنورة

١٤٦٤ ص ،١٤×٢١سم

ردمك : x-٧٧-٧٧٠-٩٩٦٠( مجموعة)

٠-٩٩-٧٧٠-٩٩٦٠ (ج٢)

النص باللغة البورمية

١- القرآن — ترجمة — اللغة البورمية أ — العنوان

ديوي ٢٢١،٤٩٥٧ ١٩/٤١٠٧

**رقم الإيداع : ١٩/٤١٠٧**

**ردمك : x-٧٧-٧٧٠-٩٩٦٠ (مجموعة)**

**٠-٩٩-٧٧٠-٩٩٦٠ (ج٢)**

